သုတေသနစာကြည့်တိုက်
[illegible]နာဗေတာ်ထွန်းကားပြန့်ပွားရေးဦးစီးဌာန၊
[illegible]၊ ရန်ကုန်။

# မြန်မာ့စွယ်စုံကျမ်း

## အတွဲ – ၆





နေမိဇာတ်တော် ပုရပိုက်

၁၉၂၄၄

# မြန်မာ့စွယ်စုံကျမ်း

စာပေဗိမာန်

၏

## ရုပ်ပြဗဟုသုတဘဏ်



[illegible]

[illegible] ကြည်ဆိုက်

[illegible] ရန်ကုန်

**အတွဲ – ၆**

**နိ – ပစ်**

ရန်ကုန်မြို့

မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း

# ဤကျမ်းကိုမရှုစားမီ

**အောက်ပါလမ်းညွှန်ကိုလေ့လာထားပါက ဤစွယ်စုံကျမ်းစီစဉ်ပုံကို ကောင်းစွာသဘောပေါက်၍ ကိုးကားရာကျမ်းတဆူအဖြစ် လွယ်ကူစွာ အသုံးပြုတတ်ပေလိမ့်မည်။**

**အက္ခရာစဉ်ဇယား။** ။စွယ်စုံကျမ်းတွင်ပါဝင်သော အကြောင်းရပ်များကို လွယ်လင့်တကူ ရှာဖွေဖတ်ရှုနိုင်ရန် အက္ခရာစဉ်ဇယားကို အတွဲတိုင်း၌ဖော်ပြထားသည်။

**ဝေါဟာရနှင့်အမည်များ။** ။ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသောပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလို ပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသောအမည်များ မြောက်မြားစွာပါဝင်သည်။ ယင်းတို့ကို မူရင်းစကားနှင့်တကွ ဤကျမ်း၏နောက်ပိုင်းတွင် ကဏ္ဍသီးခြား၍ အက္ခရာစဉ်အတိုင်းဖော်ပြထားသည်။

**မြန်မာအမည်များ။** ။ရဟန်းရှင်လူဆိုင်ရာ အကြောင်းရပ်များကို ခေါင်းစဉ်းပေးရာ၌၊ အမည်ရှေ့ရှိ သျှင်၊ ဦး၊ ဒေါ်၊ ကို၊ မောင်၊ မ စသည်တို့နှင့်တကွ အခြားဂုဏ်ပုဒ်များကို အမည်ရင်းနောက်တွင်ထား၍၊ အမည်ရင်းကိုသာ အက္ခရာစဉ်အလိုက် စီစဉ်ဖော်ပြထားသည်။ ပုံစံအားဖြင့် သျှင်ကရဝိက၊ ခုံတော်မောင်ကျဘမ်း၊ ဦးချိန်၊ မြဝတီဝန်ကြီးဦးစတို့ကို ကရဝိက၊ သျှင်။ ကျဘမ်း၊ မောင်၊ ခုံတော်။ ချိန်၊ ဦး။ စ၊ ဦး၊ မြဝတီဝန်ကြီး ဟူ၍ အသီးအသီးဖော်ပြထားသည်။ ဤသို့ပြုလုပ်ခြင်းမှာ ပုဂ္ဂိုလ်ကို မလေးစား၍ မဟုတ်၊ စွယ်စုံကျမ်းများထုံးတမ်းစဉ်လာအရ အကြောင်းရပ်ရှာဖွေရ လွယ်ကူစေရန်သာဖြစ်ရာ၊ လူမျိုးခြားအမည်များကိုလည်း အလားတူပင်စီစဉ်ဖော်ပြထားသည်။

**ဖတ်ချင်ဖွယ်ရာအဖြာဖြာ။** ။တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ၊ သို့မဟုတ် ဝါသနာအလျောက် သမိုင်းဖြစ်စဉ်များ၊ တိုင်းနိုင်ငံများ၊ ပုဂ္ဂိုလ်ကျော်များ၊ စာပေဝတ္ထုများ၊ အနုပညာရပ်များ၊ သိပ္ပံပညာရပ်များ၊ လုပ်ငန်းကြီးများ၊ သစ်ပင်များ၊ တိရစ္ဆာန်များ၊ ကစားခုန်စားများအကြောင်းကို သိလိုသောအခါ အကူအညီရစေရန် ဖတ်ချင်ဖွယ်ရာအဖြာဖြာကို အတွဲတိုင်း၌ထည့်သွင်းထားသည်။

**ဗဟုသုတစစ်တမ်း။** ။စွယ်စုံကျမ်းအတွဲတိုင်းတွင် ဗဟုသုတစစ်တမ်းကိုထည့်သွင်းထားသည်မှာ၊ စာရှုသူသည် ဤစစ်တမ်းဖြင့် မိမိကိုယ်ကိုမိမိ ပြန်လည်မေးခွန်းထုတ်၍ မသိသေးသောအကြောင်းအရာကို သိလိုပါက၊ ညွှန်းထားသောနေရာတွင် ပြန်လည်ဖတ်ရှုလေ့လာနိုင်စေခြင်းငှာ ရည်ရွယ်သည်။ ထိုစစ်တမ်းတွင် အတွဲတွင်းပါ အကြောင်းရပ်အားလုံးငုံမိအောင် မေးခွန်းထုတ်ထားခြင်း မဟုတ်ချေ။ စိတ်ဝင်စားဖွယ်အချက်အလက်များ အတွက်သာလျှင် မေးခွန်းများကို ရွေးချယ်စီစဉ်ထားခြင်းဖြစ်သည်။

**အပြန်အလှန်အညွှန်း။** ။စွယ်စုံကျမ်းအကြောင်းရပ်တို့မှာ အက္ခရာအလိုက်စီစဉ်ထားသည့်အလျောက်၊ ဘာသာရပ်အလိုက် တစုတဝေးတည်းမရှိဘဲ နေရာအနှံ့အပြား ကွဲပြားလျက်ရှိကြသည်။ သို့ဖြစ်၍ အကြောင်းရပ်ချင်းဆက်စပ်နေသည့်အချက်အလက်တို့ကို အပြန်အလှန်ညွှန်းပြရသည်။ စာကိုယ်မဲ့အကြောင်းရပ်ခေါင်းစဉ်းမှ စာကိုယ်ရှိအကြောင်းရပ်ခေါင်းစဉ်းသို့ရင်း၊ အကြောင်းရပ်တခုနှင့်တခု ပညာသဘောအားဖြင့် ဆက်သွယ်နေသော်လည်း တသီးတခြားစီရှိသဖြင့် ပိုမိုပြည့်စုံစွာ လေ့လာစေလိုသောအခါတွင်ရင်း၊ (........................ — ရှု။) ဟုညွှန်းသည်။ ပညာသဘောအားဖြင့် ဆက်သွယ်ခြင်း မရှိစေကာမူ၊ တနည်းတလမ်းအားဖြင့် နီးစပ်သည့် အကြောင်းရပ်တခုကို စိတ်ဝင်စားဖွယ်ဖြစ်၍ လေ့လာစေလိုသောအခါတွင် (........................ — လည်းရှု။) ဟုညွှန်းသည်။

**ကြောင်းခြင်းရာအညွှန်းအတွဲ။** ။နောက်ဆုံးအတွဲသည် စာရှုသူအဖို့ အခါမရွေး ကိုးကားရန်လမ်းညွှန်ပင်ဖြစ်သည်။ ထိုအတွဲသည် အသီးသီးသောအတွဲများအတွက် အက္ခရာစဉ်အညွှန်းဖြစ်ရုံမျှမက၊ လုံးချင်းစွယ်စုံခေါ်လောက်ပေသည်။ ထိုအတွဲတွင် ကမ္ဘာ့သမိုင်းမှတ်တမ်းတင်သည်မှ မျက်မှောက်ခေတ်အထိ ပေါ်ပေါက်ဖြစ်ပျက်ခဲ့သော မှတ်သားဖွယ်ရာအကြောင်းအရာများကို နှစ်၊ လ၊ ရက် အပိုင်းအခြားနှင့်သိနိုင်စေရန် နှစ်လုံးပတ်လည်ဖော်ပြထားသော ကမ္ဘာ့ပြက္ခဒိန်ကိုရင်း၊ ပညာရပ်များကို စံနစ်တကျ တဆင့်ပြီးတဆင့် ပြည့်စုံစွာလိုက်စားနိုင်ရန် ပညာရပ်မာတိကာကိုရင်း၊ ထည့်သွင်းထားသည်။ ထိုနောက် အသီးသီးသောအတွဲများတွင်ပါဝင်သည့် အကြောင်းရပ်များကို လွယ်ကူစွာလှန်လှောရှာဖွေနိုင်ရန် ညွှန်ပြသော ကြောင်းခြင်းရာအညွှန်းကိုလည်း စီစဉ်ဖော်ပြထားသည်။ ထိုအညွှန်းတွင် စွယ်စုံကျမ်းပါအကြောင်းရပ်များကိုသာမက၊ စွယ်စုံကျမ်းစာကိုယ်တွင် မပါဝင်လင့်ကစား သိသင့်သိထိုက်သောအကြောင်းရပ်မြောက်မြားစွာကိုလည်း မှတ်သားဖွယ် အချက်အလက်များနှင့်တကွ ဖြည့်စွက်ဖော်ပြထားသည်။

# အက္ခရာစဉ်ဇယား

ဤကျမ်းပါအကြောင်းရပ်များကို အောက်ပါအက္ခရာစဉ်အတိုင်း စီစဉ်ထားသည်

| | |
|---|---|
| ၁။ အ | |
| ၂။ အာ | |
| ၃။ အား | |
| ၄။ အိ | |
| ၅။ အီ | |
| ၆။ အီး | |
| ၇။ အု | |
| ၈။ အူ | |
| ၉။ အူး | |
| ၁၀။ အေ့ | |
| ၁၁။ အေ | |
| ၁၂။ အေး | |
| ၁၃။ အဲ့<br>၁၄။ အယ်<br>၁၅။ အဲ | နောက်ပစ် နှင့် ယသတ် |
| ၁၆။ အော့ | |
| ၁၇။ အော် | |
| ၁၈။ အော | |
| ၁၉။ အို့ | |
| ၂၀။ အို | |
| ၂၁။ အိုး | |
| ၂၂။ အက်<br>၂၃။ အောက်<br>၂၄။ အိုက် | ကသတ် |
| ၂၅။ အင့်<br>၂၆။ အင်<br>၂၇။ အင်း | ငသတ် |
| ၂၈။ အောင့်<br>၂၉။ အောင်<br>၃၀။ အောင်း<br>၃၁။ အိုင့်<br>၃၂။ အိုင်<br>၃၃။ အိုင်း | ငသတ် |
| ၃၄။ အစ် | စသတ် |
| ၃၅။ အည့်<br>၃၆။ အည်<br>၃၇။ အည်း | ညကြီးသတ် |
| ၃၈။ အဉ့်<br>၃၉။ အဉ်<br>၄၀။ အဉ်း | ဉကလေးသတ် |
| ၄၁။ အတ်<br>၄၂။ အိတ်<br>၄၃။ အုတ် | တသတ် |
| ၄၄။ အန့်<br>၄၅။ အန်<br>၄၆။ အန်း<br>၄၇။ အိန့်<br>၄၈။ အိန်<br>၄၉။ အိန်း<br>၅၀။ အုန့်<br>၅၁။ အုန်<br>၅၂။ အုန်း | နသတ် |
| ၅၃။ အပ်<br>၅၄။ အိပ်<br>၅၅။ အုပ် | ပသတ် |
| ၅၆။ အမ့်<br>၅၇။ အမ်<br>၅၈။ အမ်း<br>၅၉။ အိမ့်<br>၆၀။ အိမ်<br>၆၁။ အိမ်း<br>၆၂။ အုမ့်<br>၆၃။ အုမ်<br>၆၄။ အုမ်း | သေးသေးတင် နှင့် မသတ် |
| ၆၅။ ျ | ယပင့် |
| ၆၆။ ြ | ရရစ် |
| ၆၇။ ွ | ဝဆွဲ |
| ၆၈။ ှ | ဟထိုး |
| ၆၉။ ျွ | ယပင့် ဝဆွဲ |
| ၇၀။ ြွ | ရရစ် ဝဆွဲ |
| ၇၁။ ျှ | ယပင့် ဟထိုး |
| ၇၂။ ြှ | ရရစ် ဟထိုး |
| ၇၃။ ွှ | ဝဆွဲ ဟထိုး |
| ၇၄။ ျွှ | ယပင့်ဝဆွဲဟထိုး |
| ၇၅။ ြွှ | ရရစ်ဝဆွဲဟထိုး |

# ဖတ်ချင်ဖွယ်ရာအဖြာဖြာ

တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ အောက်ပါ လိုရာအကြောင်းရပ်တို့မှ ဆူရာရွေးနုတ်၍ လေ့လာပါက စာရှုသူသည် အပျင်းလည်းပြေ ဗဟုသုတလည်းပွားပေလိမ့်မည်။ ထိုင်ရာမထဘဲ ကမ္ဘာ့မြို့ကြီး၊ နယ်ကြီး၊ နိုင်ငံကြီးများသို့ရောက်၍ ပုဂ္ဂိုလ်ကျော်များနှင့် ရင်းနှီးကာ ကမ္ဘာ့သမိုင်းကိုလည်း သုံးသပ်ခွင့် ရနိုင်မည့်ပြင် သိပ္ပံပညာ၏ အံ့ဖွယ်ရာအကြောင်းများကိုလည်း သိနားလည်လာပေလိမ့်မည်။ ထိုမျှမက အနုစာပေဂန္ထဝင်များ၏အရသာကိုပါ ထင်ရှားစွာခံစားရမည့်ပြင် အားလပ်ခိုက် အပျင်းပြေရန်နည်းများလည်း ရရှိပေအံ့။

### ထင်ပေါ်ကျော်ကြား ပုဂ္ဂိုလ်များ



### တိကျသိအပ် အရပ်ရပ်



### သုခုမဝင် ကြောင်းစုံလင်



### တမြေရပ်ခြား ဒေသများ



### သစ်ပင်ပန်းမာလ် တိရစ္ဆာန်



### သိပ္ပံအံ့ဖွယ် အသွယ်သွယ်



### လုပ်ငန်းဆောင်တာ အဖြာဖြာ



### အားလပ်ချိန်ဝယ် ပျော်ရှင်ဖွယ်



### လောကီထုပ္ပတ် လူတို့ဇာတ်



### ပြည်တော်သာရန် အခြေခံ

# ဗဟုသုတစစ်တမ်း

ဤကျမ်းတွင် များစွာသောပြဿနာတို့ကို ဖြေရှင်းထားပေသည်။ စာရှုသူသည် မိမိမည်မျှမှတ်မိ၍ အသိဉာဏ်အခြေ၊ ဗဟုသုတအခြေ မည်မျှကြွယ်ဝနေပြီကို မှတ်ကျောက်တင်ကြည့်ရန် အောက်ပါမေးခွန်းများဖြင့် စစ်တမ်းထုတ်သင့်ပေသည်။ အကယ်၍ အဖြေမပေးနိုင်ရှိအံ့၊ ညွှန်းထားရာစာမျက်နှာတွင် ပြန်လည်ဖတ်ရှုလေ့လာရန် တိုက်တွန်းရပေသည်။

# ကျေးဇူးပြုသူများ

မြန်မာ့စွယ်စုံကျမ်းတွင် စာမျက်နှာတိုင်း၌ ရုပ်ပုံဓာတ်ပုံစသည်ဖြင့် ဝေဆာစွာမွမ်းမံရန် ကြိုးပမ်းခဲ့ရာ၌ နိုင်ငံတွင်းနိုင်ငံပမှ အကူအညီများရခဲ့သည်။ နိုင်ငံပမှဆိုလျှင် လန်ဒန်မြို့ ပစ်ချာပို့လိုက်ဗရေရီနှင့် ပေါပေါ့ပါးမှုရင်း၊ နယူးယော့မြို့ အိဝင် ဂယ်လိုဝေမှုရင်း၊ ဓာတ်ပုံများ ဝယ်ယူပုံနှိပ်ခွင့်ရခဲ့သည်။ နိုင်ငံတွင်းမှ ကူညီသူ ရာပေါင်းများစွာရှိသည့်အနက် စွယ်စုံကျမ်းနှင့်ထိုက်တန်သည့် ရုပ်ပုံ၊ ဓာတ်ပုံ၊ မြေပုံ စသည်တို့ကို အောက်ပါဌာနကြီးများနှင့် ပညာရှင်များထံမှ ရရှိပါ၍ ကျေးဇူးအထူးတင်ပါကြောင်း။

| အမည် | နေရပ် | ဓာတ်ပုံပါစာမျက်နှာ |
|---|---|---|
| နိုင်ငံတော်ပြန်ကြားရေးဌာန | ရန်ကုန်မြို့ | ၁၅၂။ |
| ပြန်ကြားရေးဌာန၊လယ်ယာလုပ်ငန်းတိုးတက်ရေး၊ ကျေးလက်ကြီးပွားရေးကော်ပိုရေးရှင်း | ရန်ကုန်မြို့ | ၁၇၃။ |
| လူ့ဗရပြတိုက် | ပါရစ်မြို့ | နေမိဓာတ်တော်ရောင်စုံပုံ |
| အမေရိကန်ပြန်ကြားရေးဌာန | ရန်ကုန်မြို့ | ၈၆။ |
| နယူးပစ် | ရန်ကုန်မြို့ | ၁၂။ ၁၉၄။ ၃၇၆။ |
| ဦးစံသင် | မြောင်းမြမြို့ | ၁၈၅။ |
| ဦးတင်ဦး | ရန်ကုန်မြို့ | ၃၅၄။ |
| ဦးထွန်းကြိုင် | မြိတ်မြို့ | ၃၄၇။ |
| ဦးဗထွေး(သိပ္ပံဗထွေး) | လွယ်ကော်မြို့ | ၃၅၀။ ၃၅၁။ |
| ဦးမင်းနိုင် | ရန်ကုန်မြို့ | ၁၅၇။ ၁၅၈။ ၂၂၇။ ၂၆၂။ ၂၆၃။ ၂၇၈။ ရွှေပလောင်ရောင်စုံပုံ။ |
| ဦးလှ(လူထု) | မန္တလေးမြို့ | ၂၇၇။ ၂၈၅။ |
| ဦးသောဘိတ(ရွှေကိုင်းသား) | စစ်ကိုင်းမြို့ | ၁၆၃။ |
| ဦးသော်(ပန်းကန်) | ရန်ကုန်မြို့ | ၄၆၀။ |
| ခင်မောင်လေး | နွားထိုးကြီးမြို့ | ၁၆၈။ |
| ခင်လေးမောင် | ရန်ကုန်မြို့ | နှင်းဆီရောင်စုံပုံ။ ပုဂံမြို့ရောင်စုံပုံ။ ပဲခူးမြို့ ရောင်စုံပုံ။ ၂၀၁ မြန်မာ့စွယ်စုံကျမ်းအတွဲ (၅)မှ ရောင်စုံပုံများ။ |
| ဒု-ဗိုလ်မှူးကြီးတင့်ဆွေ | မိတ္ထီလာမြို့ | ၃၄၃။ ၄၆၂။ |
| ဒေါ်ဒဂုန်ခင်ခင်လေး | ရန်ကုန်မြို့ | ၃၆၅။ |
| ဒေါ်ခင်မြိုင်(ရန်ကုန်တက္ကသိုလ်) | ရန်ကုန်မြို့ | ၁၅၁။ |
| ဒေါ်တင်တင် | ရန်ကုန်မြို့ | ၄၄၇။ |
| ဒေါ်တင်အုံး | ရန်ကုန်မြို့ | ၄၅၂။ |
| ဒေါ်ဖွားသန့် | ရန်ကုန်မြို့ | ၁၇၈။ |
| ဒေါ်အမာ(လူထု) | မန္တလေးမြို့ | ၃၂၉။ |

# နဂဗာရီကျွန်းဟု အမည်တွင်သောကျွန်းစု

**မြန်မာတို့က နီကိုဗာကျွန်းကို နဂဗာရီကျွန်းဟုခေါ်သည်။ ထိုကျွန်းမှထွက်သော နဂဗာရီအုန်းသည် မြန်မာနိုင်ငံတွင် လွန်စွာကျော်ကြားသည်။ နီကိုဗာကျွန်းကို အဘယ်ကြောင့် နဂဗာရီကျွန်းဟု ခေါ်ပါသနည်း။ မြန်မာနိုင်ငံနှင့် မည်မျှကွာဝေးပါသနည်း။ ဤအချက်အလက်များကို စုံလင်စွာဖော်ပြထားသည်။**

**နီကိုဗာကျွန်းစု။** ။နီကိုဗာကျွန်းစုသည် အိန္ဒိယသမုဒ္ဒရာ၌ရှိသော မြန်မာလို ကပ္ပလီကျွန်းဟု ခေါ်သည့် အန္ဒမန်ကျွန်းစု၏ တောင်ဖက်၊ အန္ဒမန်ကျွန်းငယ်မှ ၇၅ မိုင် အကွာအဝေးတွင် တည်ရှိသည်။ ထိုကျွန်းစုကို ဗြိတိသျှတို့သည် ၁၈၆၉ ခုနှစ်တွင် သိမ်းပိုက် အုပ်ချုပ်သည်။ ကျွန်းစုတွင် ကျွန်းပေါင်း ၁၉ ကျွန်း ပါဝင်သည့် အနက်၊ ၇ ကျွန်းမှာ လူနေအိမ်ခြေ မရှိသော ကျွန်းများဖြစ်ကြသည်။ ကျွန်းစု၏ အကျယ်အဝန်းသည် စတုရန်း မိုင် ၆၃၅ မိုင်ဖြစ်၏။ ကျွန်းစုကို မြောက်ပိုင်း၊ အလယ်ပိုင်းနှင့် တောင်ပိုင်းဟု သတ်မှတ်ထားရာ၊ အစဉ်လိုက်အားဖြင့် မြောက်ပိုင်း၌ ကားနီကိုဗာကျွန်း၊ အလယ်ပိုင်း၌ ကမိုထရာကျွန်းနှင့် နန်ကောင်းရီကျွန်း၊ တောင်ပိုင်း၌ ဂရိတ်နီကိုဗာကျွန်း ဟူ၍ ရှိလေသည်။ ကမိုထရာကျွန်းနှင့် နန်ကောင်းရီကျွန်း အကြားဝယ် နန်ကောင်းရီ သင်္ဘောဆိပ်ကမ်း ရှိသည်။

၁၉၅၁ ခုနှစ် သန်ကောင်စာရင်း အရ လူဦးရေသည် ယောကျ်ား ၆၃၂၁၊ မိန်းမ ၅၆၈၈၊ ပေါင်း ၁၂၀၀၉ ယောက် ဖြစ်သည်။ တိုင်းရင်းသားတို့သည် မွန်ဂိုမျိုးနွယ် ဖြစ်၍ မွန်အာနမ် စကားကို ပြောဆိုကြသည်။ အဓိက ထွက်ကုန်မှာ အုန်းသီး ဖြစ်၏။ ကျွန်းသူ ကျွန်းသားတို့သည် အုန်းသီးကိုပင် အဓိက အစားအစာအဖြစ်ဖြင့် မှီဝဲ၍ အုန်းသီးနှင့် အုန်းသီးမှ ထုတ်သော ကုန်ပစ္စည်းတို့ကို တခြား နိုင်ငံသို့ တင်ပို့ရောင်းချကြသည်။ ထိုကျွန်းမှ ထွက်သော အုန်းကို မြန်မာတို့က နဂဗာရီအုန်းဟု ခေါ်သည်။ မြန်မာနိုင်ငံတွင် အလွန် ကျော်စောထင်ရှားသော အုန်းဖြစ်၏။

နီကိုဗာကျွန်းစုကို မူလက ၁၇၅၆ ခုနှစ်မှ စ၍ ဒိန်းမတ်နိုင်ငံက သိမ်းပိုက်ခဲ့သည်။ ၁၈၆၉ ခုနှစ်သို့ ရောက်သောအခါ ဒိန်းမတ် နိုင်ငံ၏ သဘောတူချက်ဖြင့် ဗြိတိသျှတို့က သိမ်းပိုက်သည်။ ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း ၁၉၄၂ ခုနှစ် ဇူလိုင်လတွင် ဂျပန်တို့က သိမ်းပိုက်သည်။ ၁၉၄၅ ခုနှစ် အောက်တိုဘာလတွင် မဟာမိတ်တို့က ပြန်လည် အရယူခဲ့သည်။ ယခုအခါ ထိုကျွန်းကို အိန္ဒိယသမတနိုင်ငံ အစိုးရက အုပ်ချုပ်သည်။ အုပ်ချုပ်ရေး သဘောအရမှာ၊ နီကိုဗာကျွန်းစုသည် အန္ဒမန်နှင့် နီကိုဗာကျွန်းစု ခရိုင်လက်အောက်ရှိ ခရိုင်ခွဲ တခု ဖြစ်သည်။ (ကပ္ပလီကျွန်း၊ အိန္ဒိယ သမတနိုင်ငံ — လည်းရှု။)

မြန်မာတို့က နီကိုဗာကျွန်းကိုပင် နဂဗာရီကျွန်းစု ခေါ်သည်။ ကင်းဝန်မင်းကြီးသည် ပြင်သစ်နိုင်ငံသို့ သံကြီးအဖြစ် သွားရောက်ခဲ့စဉ်က ရေးမှတ်ခဲ့သော ပြင်သစ်သွားနေ့စဉ်မှတ်စာတမ်းတွင် ဖော်ပြထားသည်မှာ—

"နဂဘာရီ အကြောင်းကို မေးမြန်းရာ၊ အန္တမန်ကျွန်း နိကိုပါကျွန်း မလာကကျွန်းမှ စ၍ ကျွန်းငယ် အများရှိသည့်အနက်၊ နဂဘာရီ (နဂဗာရီ)ဟူ၍ မရှိ။ နိကိုပါကျွန်းသာ ရှိသည်။ ၎င်းနိကိုပါကျွန်းမှာလည်း အုန်းအများ ရှိသည်။ နိကိုပါကျွန်းက အုန်းကိုပင် စကားရွှေသောကြောင့် နဂဘာရီ ခေါ်ဟန်ရှိသည်။" ဟူ၍ ဖြစ်လေသည်။ (ကင်းဝန်မင်းကြီး — ရှု။)

**နီဂရီတိုလူမျိုး။** ။ကမ္ဘာ့လူများကို အမျိုးအစားခွဲခြားရာ၌ အေ၊ စီ၊ ဟတ်ဒန်သည် သိုးမွေးကဲ့သို့သော ဆံပင်ရှိသည့် ယူလော့ထရိခိုင်အိုရီယင်တလီခေါ် ကမ္ဘာ့ အရှေ့ဖျားရှိ ဆံပင်လိပ်ကောက်သောလူမျိုးများကို ပဌမအဓိကအမျိုးအဖြစ် ခွဲခြားဖော်ပြထားသည်။ ဤအမျိုးတွင် နီဂရီတိုအစုနှင့် ပါပူယန်အစုတို့ ပါဝင်ကြသည်။ နီဂရီတိုတို့သည် အရပ်အမောင်း ပု၍ အသားအရောင်မဲသည်။

ယခုအခါ၌ နီဂရီတိုများကို တကျွန်းခေါ် အန္ဒမန်ကျွန်းစု၊ မလ္လာယုကျွန်းဆွယ် အလယ်ပိုင်း၊ ဖိလစ်ပိုင် ကျွန်းစု အပါအဝင် လူဇုန်ကျွန်းနှင့် အခြားကျွန်းများ၊ နယူးဂင်းနီကျွန်းအပါအဝင် နယ်သာလန်ပိုင်ဒေသများတွင်တွေ့ရသည်။ အန္ဒမန်ကျွန်းနေနီဂရီတိုတို့မှာ အန္ဒမန်ကျွန်းသား၊မလ္လာယုကျွန်းဆွယ်အလယ်ပိုင်းနေ နီဂရီတိုတို့မှာဆေမန်၊နယူးဂင်းနီကျွန်းတွင်တပိရို၊ ဖိလစ်ပိုင်ကျွန်းတွင် အအီတဟု အသီးအသီးတွင်ကြသည်။

နီဂရီတိုတို့ ပြောဆိုသော ဘာသာစကားမှာ ပင်လယ်ပိုင်းတွင် ပြောဆိုသော တောင်ပိုင်း အစုငယ် (ဆလုံ၊ မလေး ဘာသာစကားများ)၊ ကုန်းပိုင်းတွင် ပြောဆိုသော တောင်ပိုင်းအစုငယ် (မွန်ခမာ ဘာသာ စကားများ) နှင့် လုံးဝမတူချေ။ ယင်းတို့ပြောဆိုသော ဘာသာ စကားများသည် တစုသက်သက်ဖြစ်၏။သို့ရာတွင်အစုငင်အသီးအသီးတို့ပြောဆိုသော စကားများသည် တခုနှင့်တခု နီးစပ်နေသည်ဟု ဆိုကြရသည်။ သို့သော် ယင်းသို့ နီးစပ်ဆက်သွယ်မှု ရှိကြောင်းကို အသံထွက် ဥပဒေအရ ထိရောက်စွာ သက်သေထုတ်ပြရန်လိုပေသေးသည်။ ထိုဘာသာ စကားတို့၌ တခေတ်က ကျွန်း

ကျော်ကြားသော ဂေါ်ရခါးလူမျိုးများ နေထိုင်ရာ တိုင်းပြည်ဖြစ်သည်။ ဂေါ်ရခါး လူမျိုးများမှာ လူများစုဖြစ်၍ ဂူးရမ်း၊ မဂါး၊ မူးရမစ်၊ နီဝါး၊ လင်လူး၊ လက်ပချား စသည့် လူမျိုးစုများလည်း ရှိသေးသည်။ ဂေါ်ရခါးဆိုသောအမည်သည် ယင်းတို့မူလအစ နေထိုင်ခဲ့ရာ ဂိုရက်ပူမြို့ကို အစွဲပြု၍ ခေါ်ဝေါ်ခြင်း ဖြစ်၏။ ထိုပြင် လူများစုသည် ဗုဒ္ဓဝါဒီများ ဖြစ်ကြသည်။

နီပေါနိုင်ငံတွင် ယင်းသို့ လူမျိုးစုအသီးအသီးရှိကာ၊ နယ်ပယ် အကွဲကွဲအပြားပြားဖြစ်နေခဲ့ရာ၊ ၁၇၆၉ ခုနှစ်၌ ဂေါ်ရခါးတို့သည် နီပေါနိုင်ငံတွင် အာဏာရှိ လူများစု ဖြစ်လာသည်။ ၁၈၁၄ ခုနှစ်၌ ဂေါ်ရခါးတို့သည် ဗြိတိသျှတို့နှင့် စစ်ပွဲတပွဲကို တိုက်ခိုက်ခဲ့၍ ၁၈၅၄ ခုနှစ်၌ တိဗက်နိုင်ငံနှင့် ၂ နှစ်ကြာမျှ စစ်ပွဲဆင်နွှဲခဲ့ရလေသည်။ ထိုနောက်တွင် နီပေါနိုင်ငံသည် ဗြိတိသျှတို့နှင့် မဟာမိတ် အဖြစ် မြဲမြံစွာ ဆက်ဆံ ခဲ့လေသည်။ ဗြိတိသျှတို့၏ အုပ်ချုပ်ရေး စံနစ်လွှမ်းမိုး လာသောအခါ၊ နီပေါ နိုင်ငံ၏ အုပ်ချုပ်ရေး စံနစ်သည် သိသိသာသာ တိုးတက်ကောင်းမွန်လာခဲ့သည်။ နိုင်ငံအနှံ့ အပြား၌ တရားမ ရုံးများနှင့် ရာဇဝတ်ရုံးများကို တည်ထောင်ဖွင့်လှစ်ခဲ့သည်။ ၁၉၂၃ ခုနှစ်၌ ဗြိတိသျှတို့သည် နီပေါနိုင်ငံကို လုံးလွတ်လပ်သော နိုင်ငံတနိုင်ငံအဖြစ် အသိအမှတ် ပြုခဲ့လေသည်။

၁၈၆၇ ခုနှစ်၌ သူကောင်းမျိုးများက ဘုရင်အား အာဏာစွန့်လွှတ်စေ၍ 'ရာနာ'ဆွေမျိုးစုခေါင်းဆောင်ကြီးအား အုပ်ချုပ်ရေး အာဏာများကို ပေးအပ်ကာ၊ ဝန်ကြီးချုပ်အဖြစ် တင်မြှောက်ခဲ့ကြသည့် အချိန်မှစ၍၊ နီပေါ နိုင်ငံ၌ ဝန်ကြီးချုပ်ရာထူးသည် ရာနာ ဆွေမျိုးစုအတွက် ငိုက်ရာခံရာထူး ဖြစ်လာခဲ့သည်။ ထိုပြင် ဝန်ကြီးချုပ်သည် ဂေါ်ရခါးတပ်မတော်၏ သေနာပတိချုပ်လည်း ဖြစ်၏။ ဘုရင်တို့ကားနိုင်ငံ၏ အထွတ်အထိပ်ဖြစ်သည် ဟူသော အထိမ်း အမှတ်သဖွယ်မျှသာ ရှိလာသည်။ ယင်းသို့ ရာနာဆွေမျိုးစုသည် နီပေါနိုင်ငံတွင်အုပ်စီးကာ အုပ်ချုပ်လာခဲ့ရာ၊ ၁၉၅၀ ပြည့်နှစ်၌ စတင်ခဲ့သော တော်လှန်ရေးကြီးအပြီးတွင် ရာနာဆွေမျိုးစုသည် ဝန်ကြီးချုပ် ရာထူးကို စွန့်လွှတ် လိုက်ရလေသည်။ နီပေါဘုရင်သည်လည်း ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေအရ အုပ်ချုပ်ရသော ဘုရင်တပါး ဖြစ်လာလေသည်။

နီပေါနိုင်ငံ၏ ထွက်ကုန်များမှာ ကောက်သီး ကောက်နှံများ၊ ဂုံလျှော်၊ သစ်၊ ဆီစေ့၊ ထောပတ်၊ အာလူး၊ ဘယဆေးပင်များ၊ သားရေနှင့် ကျွဲနွားများဖြစ်၍၊ သွင်းကုန်များမှာ အထည်အလိပ်၊ စီးကရက်၊ ဆား၊ မာတ်ဆီ၊ ရေနံဆီ၊ သကြား၊ ဆေးဝါးများ၊ စက်ကရိယာများ၊ ဖိနပ်များ၊ စက္ကူ၊ ဗိလတ်မြေ၊ သံနှင့်သံမဏိ၊ လက်ဖက်ခြောက်တို့ ဖြစ်သည်။

၁၉၅၅ ခုနှစ်တွင် နီပေါနိုင်ငံ၌ အင်္ဂလိပ်စာသင်ကျောင်း ၁၀၂၈ ကျောင်း၊ သက္ကတစာသင်ကျောင်း ၂၄၃ ကျောင်း၊ အခြေခံ စာသင်ကျောင်း ၄၉ ကျောင်း၊ ဘွဲ့ရ ကောလိပ်ကျောင်း ၇ ကျောင်း၊ ဥပစာ ကောလိပ်ကျောင်း ၇ ကျောင်းနှင့် အခြားကျောင်း ၇ ကျောင်းရှိလေသည်။ နိုင်ငံတွင်းရှိလူဦးရေ၏ ၆ ရာခိုင်နှုန်းခန့်သာလျှင် စာရေးစာဖတ်တတ်လေသည်။



နီပေါနိုင်ငံ ဂေါ်ရခါး အမျိုးသမီးများ ဤသို့ ဝတ်စားဆင်ယင်ကြသည်။

**နီဗရက်စကပြည်နယ်။** ။နီဗရက်စက ပြည်နယ်သည် အမေရိကန်ပြည်ထောင်စု၏ အနောက်မြောက်ဖက်ပိုင်းတွင် တည်ရှိသည်။ နီဗရက်စကဟူသော အမည်သည် "ရေတိမ်မြစ်"ဟုအနက်ရသော အင်ဒီးယန်းစကား "နီဗရက်သက"မှ ဆင်းသက်လာသည်။ ထိုပြည်နယ်တွင်းရှိ ပလက်မြစ်ကို နီဗရက်သကဟူ၍ ခေါ်ဝေါ်ခဲ့ကြသည်။ ပြည်နယ်၏ စိုပြေသာယာမှု အတွက်နှင့် မြေဩဇာကို ထိန်းသိမ်းထားနိုင်ရန်အတွက် သစ်ပင်များကို ရှေးပဝေဏီ အခါကပင် စိုက်ပျိုးလာခဲ့ကြသဖြင့်၎င်း၊ အမေရိကန် ပြည်ထောင်စုနိုင်ငံတွင် "သစ်ပင်များနေ့" ကို ဤပြည်နယ်၌ ရှေးဦးစွာကျင်းပခဲ့သောကြောင့်၎င်း၊ နီဗရက်စက ပြည်နယ်ကို တခါတရံ "သစ်ပင် စိုက်ပျိုးသူတို့၏ ပြည်နယ်" ဟု လည်း ခေါ်ကြလေသည်။

ပြည်နယ် အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၇၇၂၃၇ မိုင်မျှ ဖြစ်၍၊ လူဦးရေမှာ ၁၉၅၅ ခုနှစ်တွင် ခန့်မှန်းခြေ ၁၃၈၁၀၀၀ ယောက် ဖြစ်သည်။ နီဗရက်စက ပြည်နယ်၏ အရှေ့ဖက်တွင်၊ မိဇူးရီပြည်နယ်နှင့် အိုင်အိုဝါးပြည်နယ်၊ အနောက်ဖက်တွင် ကော်လိုရားဒိုးပြည်နယ်နှင့် ဝိုင်အိုမင်းပြည်နယ်တို့ အသီးအသီး တည်ရှိ၏။ တောင်ဖက်တွင်ကား ကန်းဆပ်ပြည်နယ်တည်ရှိ၍၊မြောက်ဖက်တွင်မူ တောင် ဒကိုးတားပြည်နယ် တည်ရှိလေသည်။ လင်ကွန်းမြို့သည် နီဗရက်စက ပြည်နယ်၏ မြို့တော် ဖြစ်၍၊ လူဦးရေ ၉၈၈၈၄ ယောက် ရှိသည်။ ထိုမြို့၏ အဓိက လုပ်ငန်းမှာ ထောပတ်လုပ်ငန်း ဖြစ်၏။ အိုမဟော့မြို့မှာမူ ပြည်နယ်တွင် အကြီးဆုံးမြို့ဖြစ်သည်။ အမဲ သား ငါး လုပ်ငန်း၏ ဗဟိုဌာန ဖြစ်သည်။ လူဦးရေ ၂၅၁,၁၁၇ ရှိသည်။

နီဗရက်စက ပြည်နယ်သည် မိဇူးရီမြစ်၏ အနောက်ဖက်တွင် တည်ရှိ၍၊ ယင်း၏ မြစ်လက်တက်တခု ဖြစ်သော ပလက်မြစ်သည် ပြည်နယ်ကို အရှေ့မှအနောက်သို့ ဖြတ်သန်းလျက် စီးဆင်းသည်။ ယင်းပြည်နယ်တွင် မြက်ခင်းလွင်ပြင်နှင့် သဲမြေပြင်များရှိ၏။ ပြည်နယ်၏ အနောက်ပိုင်းရှိ ရော့ကီးတောင် တလျှောက်တွင်မူကား ကုန်းပြင်မြင့်များ ရှိသည်။ ရာသီဥတုမှာ နွေရာသီတွင် ပူလွန်း၍၊ ဆောင်းရာသီတွင် အေးလွန်းသည်။ သို့သော် ခြောက်သွေ့သော လေကြောင့် နီဗရက်စက ပြည်နယ်သည် ကျန်းမာရေးအတွက် အသင့်ဆုံး ပြည်နယ် ဖြစ်လေသည်။ နှစ်စဉ် ပျမ်းမျှမိုးရေချိန် ၂၆ လက်မ ရွာသွန်းသည်။

အထူးသဖြင့် ကြီးကျယ်လှသော ရေသွင်း စီမံကိန်းကြီးများကြောင့်၊ လယ်ယာစိုက်ပျိုးခြင်းသည် ပြည်နယ်၏ အဓိကလုပ်ငန်းကြီး ဖြစ်သည်။ ပြောင်းမှာ အဓိက ကောက်သီးကောက်နှံ ဖြစ်၍၊ ဂျုံ၊ မြင်းစားဂျုံ၊ အာလူးနှင့် ဟင်းသီးဟင်းရွက်များ အပြင်၊ သစ်သော့သီး၊ စပျစ်သီးစသည့် သစ်သီးများလည်း ထွက်၏။ နီဗရက်စကပြည်နယ်၏ အရှေ့ပိုင်းဒေသ၌ စိုက်ပျိုးရေး လုပ်ငန်းသည် ဖွံ့ဖြိုးသော်လည်း၊ အနောက်ပိုင်း ဒေသ၌မူ ရော့ကီးတောင်ခြေအထိ လွင်ပြင်ကြီးဖြစ်၍၊ နွား၊ သိုးနှင့် ဝက်များကို အကြီးအကျယ် မွေးမြူကြသည်။ အမဲသား လုပ်ငန်းနှင့် နို့ထွက်ပစ္စည်း လုပ်ငန်းများကိုလည်း လုပ်ကိုင်ကြသည်။ နီဗရက်စက ပြည်နယ်သည် စိုက်ပျိုးရေး ပြည်နယ်အဖြစ် များစွာ အရေးပါသည့် အလျောက် မှန်မှန်တိုးတက်လျက် ရှိသော စက်မှုလက်မှု လုပ်ငန်းတို့သည် မထင်ပေါ်ချေ။ ပြည်နယ်အတွင်းရှိစက်ရုံပေါင်း ၁၁၅၀ ကျော်မှ စားကုန် ပစ္စည်းများ၊ စက်ကရိယာများ၊ သံမဏိထည်များ၊ အိမ်ထောင် ပရိဘောဂများ၊ အထည်အလိပ်များနှင့် မြေထည်များ စသည်တို့ ထွက်လေသည်။ နီဗရက်စက ပြည်နယ်သည် ဓာတ်သတ္တုများ မကြွယ်ဝလှသော်လည်း၊ ၁၉၃၉ ခုနှစ်တွင် ရေနံကို စတင်တွေ့ရှိခဲ့သည်မှ စ၍၊ ရေနံနှင့် ဓာတ်ငွေ့ လုပ်ငန်းမှာ လျင်မြန်စွာ တိုးတက်လျက် ရှိလေသည်။ ထိုပြင် နီဗရက်စကပြည်နယ်တွင် ရှေးပဝေဏီ ကာလက ရှိခဲ့သည့် သစ်ပင်များနှင့်သတ္တဝါကြီးများ၏ ကျောက်ဖြစ် ရုပ်ကြွင်းများကို မြေအောက်မှ အများအပြားပင် တူးဖော် ရရှိသည့် အတွက်၊ သမိုင်းမပေါ်မီခေတ် အကြောင်းကို လေ့လာရေးနှင့် စပ်လျဉ်း၍၊ အထူး ထင်ရှားလာခဲ့လေသည်။ နီဗရက်စကပြည်နယ်တွင် ၇ နှစ်နှင့် ၁၆ နှစ်အကြား ကလေးသူငယ်တိုင်း စာသင်ကျောင်းများတွင် မသင် မနေရ တက်ရောက် သင်ကြားရ၏။ အထက်တန်းကျောင်းများ အထိ အခမဲ့ သင်ကြား နိုင်၏။ ပြည်နယ်အတွင်းရှိ ထင်ရှားသော တက္ကသိုလ်နှင့် ကောလိပ် ကျောင်းများမှာ နီဗရက်စက တက္ကသိုလ်၊ ကရေးတန်တက္ကသိုလ်၊ဟေးစတင်းကောလိပ်၊ နီဗရက်စက ဝက်စလီယန် တက္ကသိုလ်၊ မျူနီစီပယ် တက္ကသိုလ်နှင့် နီဗရက်စက နိုင်ငံတော် ဆရာ အတတ်သင် ကောလိပ်တို့ ဖြစ်လေသည်။

ယခု နီဗရက်စကပြည်နယ် တည်ရှိရာ နယ်ပယ် ဒေသသို့၊ ၁၅၄၁ ခုနှစ်တွင် စပိန်ဗိုလ်ချုပ် ဖရန်ဆစ္စကို ကိုရိုနာသိုနှင့် ယင်း၏ နောက်လိုက်နောက်ပါ စပိန်လူမျိုး စစ်သည်တော်တစုသည် မက္ကဆီကိုမှ ပဌမဦးဆုံး အကြိမ် ရောက်လာခဲ့၏။ ထိုနောက်တွင် စပိန်လူမျိုးများ မကြာခဏ ရောက်လာလေသည်။ ထိုပြင် ပြင်သစ်လူမျိုး သားကောင် ဖမ်းသမားများနှင့် သားမွေးကုန်သည်များလည်း နီဗရက်စက နယ်ပယ်ဒေသသို့ ရောက်ရှိ လာခဲ့ကြ၏။ ပြင်သစ်တို့သည် နီဗရက်စက နယ် အပါအဝင်ဒေသကို နှစ်ပေါင်းများစွာ ပိုင်ရာ ပိုင်ကြောင်း ပြောဆိုခဲ့ကြသော်လည်း၊ အမြဲတမ်း အခြေစိုက်နေထိုင်ခြင်းကား မပြုခဲ့ကြချေ။

ယင်းသို့ဖြင့် နီဗရက်စက နယ်သည် ပြင်သစ်တို့လက် အောက် ရောက်ချည်တခါ၊ စပိန်တို့လက်အောက်ရောက်ချည်

တလှည့် ဖြစ်ခဲ့ရပြီးနောက်၊ ၁၈၀၃ ခုနှစ်၌ လူဝီးဇီယန္နား နယ်ကြီးကို အမေရိကန်တို့က ပြင်သစ်တို့ထံမှ ဝယ်ယူလိုက်ရာတွင်၊ နီဗရက်စကနယ်သည် အမေရိကန် ပြည်ထောင်စု ပိုင်နယ်ဖြစ်လာလေသည်။ ၁၈၃၄ ခုနှစ်တွင် နီဗရက်စကကို အင်ဒီးယန်းများ၏ သီးသန့်နယ်တခု အဖြစ် ပိုင်းခြားသတ်မှတ်ပေး၍ လူဖြူများ ဝင်ရောက် နေထိုင်ခြင်းကို တားမြစ်ထားခဲ့သည်။

သို့သော် ကာလီဖိုးနီးယား ပြည်နယ်သို့ ရွှေအရှာသွားသူများသည် ယင်းနယ်ကို ဖြတ်သန်းသွားလာရင်းဝင်ရောက် အခြေစိုက် နေထိုင်ခဲ့ကြ၏။ ထိုနောက် ၁၈၅၄ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု ကွန်ဂရက်လွှတ်တော်မှ ကန်းဆပ် နီဗရက်စက အက်ဥပဒေတရပ် ထုတ်ပြန်ခဲ့၍၊ ထိုအက်ဥပဒေအရ နီဗရက်စကနယ်သည် လူဖြူများ ဝင်ရောက် အခြေစိုက် နေထိုင်နိုင်သော နယ်ပယ် ဖြစ်လာခဲ့လေသည်။ ထိုအခါမှ စ၍ နယ်ပယ်အတွင်း ကျေးကျွန်စံနစ်ကို လက်ခံလိုသူများ နှင့် လက်မခံလိုသူများ၏ နိုင်ငံရေးပဋိပက္ခမှု ဖြစ်ပွားပေါ်ပေါက်ခဲ့လေသည်။ ပြည်တွင်းစစ်ပွဲ ပြီးဆုံးသွားပြီးနောက်၊ ၂ နှစ်ခန့်အကြာ ၁၈၆၇ ခုနှစ်တွင်၊ နီဗရက်စကနယ်ပယ်သည် အမေရိကန် ပြည်ထောင်စု၏ ၃၇ ခုမြောက် ပြည်နယ် တနယ် ဖြစ်လာလေသည်။ ယခင်က အိုမဟာကို မြို့တော် အဖြစ် ထားရှိခဲ့ရာမှ လင်ကွန်းမြို့ကို မြို့တော်အဖြစ် ပြောင်းရွှေ့ သတ်မှတ်လိုက်သည်။ ထိုပြင် ပြည်နယ်ကို ဖြတ်လျက် ယူနီယန် ပစိဖိတ် မီးရထားလမ်းကြီး ဖောက်လုပ်လိုက်ပြီးသည့်နောက်တွင်ကား နီဗရက်စက ပြည်နယ်၏ လူဦးရေသည် လျင်မြန်စွာပင် တိုးတက်လာခဲ့၏။ ပဌမ ကမ္ဘာစစ်ကြီးအတွင်း၌ နီဗရက်စကပြည်နယ်သည် ပြည်ထောင်စုကြီးနှင့် မဟာမိတ်တို့အား လူအင်အားသာမကစားကုန်သောက်ကုန်ပစ္စည်းများကိုလည်း အမြောက်အမြား ကူညီ ဖြည့်တင်းပေးနိုင်ခဲ့သည်။ စစ်ပြီးခေတ် နောက်ပိုင်း၌ နီဗရက်စကပြည်နယ်သည် များစွာ ကြီးပွားတိုးတက်လာခဲ့လေသည်။ လင်ကွန်းမြို့တော်တွင် အမေရိကန် ဗိသုကာ ပညာရပ်၏ လက်ရာအမြောက်ဆုံးဖြစ်သော "စတိတ်ကက်ပီတော" အဆောက်အအုံကြီးကို ဒေါ်လာတကုဋေ အကုန်ခံလျက် ဆောက်လုပ်ခဲ့၏။ ယင်းသည် အမေရိကန်ပြည်ထောင်စုနိုင်ငံတွင် အထင်ရှားဆုံးသော အဆောက်အအုံကြီး ၁၀ ခုအနက် တခု အပါအဝင် ဖြစ်လေသည်။

ဒုတိယ ကမ္ဘာစစ်ကြီး အတွင်း၌ နီဗရက်စကပြည်နယ်တွင် စက်မှု လက်မှု လုပ်ငန်းများ အကြီးအကျယ် ထွန်းကားလာခဲ့၏။ အိုမဟာတွင် လေယာဉ်ပျံများ ထုတ်လုပ်သော စက်ရုံကြီး တခု တည်ဆောက်ခဲ့၍၊ အခြားမြို့ကြီးများတွင်လည်း စစ်သုံးပစ္စည်း စက်ရုံများ တည်ဆောက်ခဲ့လေသည်။ ၁၉၅၀ ပြည့်နှစ်လောက်မှ အစပြု၍ ရေလွှမ်းမိုးခြင်းမှ တားဆီးရေး စီမံကိန်းများကို အကောင်အထည်ဖော်ခဲ့ရာ၊ လယ်ယာ စိုက်ပျိုးရေး လုပ်ငန်းသည် ဆထက်ထမ်းပိုး တိုး၍ ထွန်းကား လာခဲ့လေသည်။ စက်မှု လက်မှု လုပ်ငန်းများလည်း ဆက်လက် တိုးတက်ထွန်းကားခဲ့၏။

**နီဗားဒပြည်နယ်။** ။နီဗားဒပြည်နယ်သည် အမေရိကန် ပြည်ထောင်စု၏ ဆဋ္ဌမ အကြီးဆုံး ပြည်နယ် ဖြစ်သည်။ အမေရိကန် ပြည်ထောင်စု၏ အနောက်ပိုင်း ပြည်နယ်စုတွင် ပါဝင်၍ "ဂရိတ်ဗေဆင်" ခေါ် ချိုင့်ဝှမ်းကြီး အတွင်း၌ တည်ရှိသည်။ နီဗားဒပြည်နယ်၏ မြောက်ဖက်တွင် ဩရီဂန်ပြည်နယ်နှင့် အိုက်ဒဟိုးပြည်နယ်တို့ တည်ရှိ၍၊ အရှေ့ဖက်တွင် ယူးတားပြည်နယ်နှင့် အယ်ရီဇိုးနားပြည်နယ်တို့ တည်ရှိပြီးလျှင်၊ အနောက်ဖက်နှင့် တောင်ဖက်တို့တွင် ကာလီဖိုးနီးယားပြည်နယ် တည်ရှိလေသည်။ ဆီယယ်ရာနီဗားဒတောင်တန်းသည် အနောက်ဖက် နယ်နိမိတ်သဖွယ် တည်ရှိနေရာ၊ အစဉ်သဖြင့် ဆီးနှင်းများ ဖုံးအုပ်နေသော ယင်း၏တောင်ထွတ်များကို အစွဲပြု၍ နီဗားဒဟု ခေါ်တွင် ခဲ့ခြင်း ဖြစ်လေသည်။ အကျယ်အဝန်းမှာ စတုရန်း မိုင်ပေါင်း ၁၁၀၅၄၀ မိုင် ဖြစ်၏။

နီဗားဒ ပြည်နယ်သည် ကျယ်ပြန့်သော်လည်း၊ လူဦးရေအားဖြင့် အနည်းဆုံး ပြည်နယ် ဖြစ်၏။ ၁၉၅၅ ခုနှစ်တွင် ခန့်မှန်းခြေ လူဦးရေမှာ ၂၂၅,၀၀၀ ယောက် ဖြစ်သည်။

ကားဆင်စီတီသည် နီဗားဒပြည်နယ်၏ မြို့တော် ဖြစ်၍၊ အမေရိကန်ပြည်ထောင်စု ပြည်နယ် မြို့တော်များတွင် လူဦးရေအနည်းဆုံး ဖြစ်သည်။

နီဗားဒပြည်နယ်သည် လွန်စွာ လှပသော သဘာဝရှုခင်းသာ များကြောင့် ကျော်ကြား၍ ခရီးသွားများဖြင့် စည်ကားလှ၏။ သို့ပြင် နေထားအားဖြင့် နီဗားဒပြည်နယ် တခုလုံးလိုလိုသည် ကျယ်ပြန့် ကြီးမားလှသော ကုန်းပြင်မြင့်ကြီးဖြစ်၍၊အနောက်ဖက်၌ ဆီယယ်ရာ နီဗားဒတောင်တန်းနှင့် အရှေ့ဖက်၌ မော်မန်၊ စနိတ် စသည့် တောင်တန်းများ အကြားတွင် ထူးခြားသည့်တောင်ကုန်းပြန့်အကြီးအငယ် အရွယ်အစားစားအမျိုးအပြားနှင့်တောင်တန်းငယ်များရှိ၏။ ယင်းသည့်တောင်တန်းများအကြားရှိ အချို့သော ချိုင့်ဝှမ်းများ၌ ရေအိုင်များ ဖြစ်ထွန်းနေလေသည်။ တောင်များမှ စီးဆင်းလာသော မြစ်ချောင်းများမှာလည်း များသောအားဖြင့် သမုဒ္ဒရာဖက်သို့ ထွက်ပေါက်မရှာဘဲ၊ ရေအိုင်ကြီးများအတွင်းသို့သာ စီးဆင်းရလေသည်။ နီဗားဒပြည်နယ်ရှိ မြစ်များအနက်၊ ထင်ရှားသည့် ကော်လိုရားဒိုးမြစ်သည် အရှေ့တောင်ဖက်တွင် ပြည်နယ်ကို နယ်နိမိတ်သတ်မှတ်လျက် ပင်လယ်ဖက်သို့ စီးဆင်းသွား၏။ ထိုမြစ်ပေါ်၌ အမေရိကန် ပြည်ထောင်စုတွင် အမြင့်ဆုံးဆည်ရိုးကြီး ဖြစ်သော ဟူးဗား



နီဗားဒ ပြည်နယ်၏ မြို့တော် ကားဆင်စိတီ မြို့ရှိ ကက်ပီတော အဆောက်အအုံ

သို့မဟုတ် ဗိုလဒါဆည်ရိုးကြီး တည်ရှိ၏။ ယင်းသည် မြေကေတသန်းကျော်ကို ရေသွင်းပေးသည့် အပြင်၊ လျှပ်စစ်ဓာတ်အားကိုလည်း ထုတ်လုပ်ပေးသည်။ ကာလီဖိုးနီးယားပြည်နယ်နှင့် နီဗားဒပြည်နယ်တို့၏ နယ်စပ်တွင် ရှိသော တားဟိုးအိုင်ကြီးသည် အမေရိကန် ပြည်ထောင်စုတွင် အလှပဆုံးရေအိုင် ဖြစ်လေသည်။

နီဗားဒ ပြည်နယ်၏ ရာသီဥတုသည် ခြောက်သွေ့၍ နှစ်စဉ် ပျမ်းမျှမိုးရေချိန် ၉ လက်မခန့်သာ မိုးရွာသွန်းသည်။

နီဗားဒ ပြည်နယ်ရှိ တောင်တန်းများမှ ရွှေ၊ ဘော်နှင့် ကြေးနီ စသည့် ဓာတ်သတ္တုများကို အမြောက် အမြားတူးဖော် ရရှိသည်။ ထိုကြောင့် နီဗားဒပြည်နယ်ကို "ဘော်နယ်" ဟူ၍လည်း အမည်ပေးကြသည်။ ၁၈၅၉ ခုနှစ်တွင် ကမ်းစတော့ သတ္တုကြောကို စတင် တွေ့ရှိခဲ့သည်မှ စ၍၊ နီဗားဒပြည်နယ်သည် အထူးကျော်ကြား ထင်ရှား လာခဲ့သည်။ ရွှေ၊ ဘော်နှင့် ကြေးနီအပြင်၊ မန်ဂနိ၊ ခဲ၊ သွပ်၊ ဂျစ်ပဆမ်၊ ပြဒါး၊ ခနောက်စိမ်း၊ ဗနေဒီယမ်၊ ယူရေးနီးယမ်း၊ ခဲတူ စသည်တို့လည်း ထွက်၏။

ပြည်နယ်၏ အဓိက လုပ်ငန်းများမှာ သတ္တုတူးဖော်ခြင်းနှင့် သတ္တုချတ်ခြင်း လုပ်ငန်းတို့ အပြင်၊ နွား၊ သိုး၊ မြင်းများမွေးမြူခြင်း လုပ်ငန်း၊ သစ်လုပ်ငန်းနှင့် လယ်ယာ စိုက်ပျိုးခြင်း လုပ်ငန်းများ ဖြစ်သည်။ ယင်းသည့် လုပ်ငန်းများမှ ထွက်ကုန်များမှာ နွား၊ သိုး၊ သိုးမွေး၊ နို့ထွက်ပစ္စည်း၊ ကြက်နှင့် ကြက်ဥများ၊ ပျားရည်၊ လူဆန်ပဲပင်၊ ဂျုံ၊ မြင်းစားဂျုံအာလူး၊ သစ်သီးနှင့် ဟင်းသီး ဟင်းရွက်တို့ဖြစ်လေသည်။

၁၉၃၁ ခုနှစ်မှ စ၍ ယင်းပြည်နယ်ရှိ ရီနိုမြို့တွင် လုပ်ငန်းသစ်တရပ် ပေါ်ပေါက်လာခဲ့သည်။ ထိုမြို့တွင် လင်ကွာ မယားကွာမှုများကို လွယ်ကူစွာ ဆုံးဖြတ်ပေးခြင်းကြောင့်၊ အရပ်ရပ်မှ အမှုသည်များဖြင့် စည်ကားလာသည်။ ထိုပြင် နီဗားဒပြည်နယ်သည် အမေရိကန်ပြည်ထောင်စုတွင်လောင်းကစားခြင်းကို အတိအလင်း ခွင့်ပြုထားသော ပြည်နယ်တခု ဖြစ်၍၊ အစိုးရသည် လောင်းကစားခွန်များကို ကောက်ယူလေ့ ရှိသည်။ လားဗေးဂတ်မြို့မှာ လောင်းကစားခြင်းကို ကြီးကျယ်စွာ ပြုလုပ်သဖြင့် ကျော်ကြား၏။

နီဗားဒပြည်နယ်သို့ မျက်နှာဖြူလူမျိုးများ ဝင်ရောက်လာကြသော အချိန်၌ ယင်းဒေသတွင် ပွက်ဗလိုအင်ဒီးယန်းများ နေထိုင် သွားခဲ့ကြသည့် လက္ခဏာများကို တွေ့ရှိ ရလေသည်။ ထိုမျက်နှာဖြူများသည် သားမွေးကောင်များကို လိုက်လံ ဖမ်းဆီးသည့် မုဆိုးများနှင့် သားမွေး ကုန်သည်များ ဖြစ်ကြ၏။ ထိုနောက်မှ နယ်သစ် ရှာဖွေနေကြသည့် ကက်ပတိန်ဂျေဖရီးမန့်နှင့်လမ်းပြစကောက်လုပ်သူ ကစ်ကားဆင်တို့ရောက်ရှိလာခဲ့ကြသည်။ ၁၈၄၃ ခုနှစ်မှ ၁၈၄၅ ခုနှစ်အထိ ဖရီးမန့်သည် ကစ်ကားဆင်၏ အကူအညီဖြင့်၊ ဂရိတ်ဗေဆင်နှင့် ဆီးယယ်ရာ နီဗားဒတို့ကို လှည့်လည် စူးစမ်း ရှာဖွေခဲ့လေသည်။ မူလက နီဗားဒနယ်ကို ယူးတားနယ်၏ အစိတ်အပိုင်း

အဖြစ် ယူဆခဲ့၏။ မက္ကဆီကိုစစ်ပွဲကြီး အပြီး ၁၈၄၈ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု နိုင်ငံသည် မက္ကဆီကို နိုင်ငံထံမှ နီဗားဒနှင့် ယူးတား နှစ်နယ်စလုံးကိုရရှိလိုက်လေသည်။

၁၈၄၉ ခုနှစ်၌ ကားဆင်မြစ်ဝှမ်းတွင် ယခုဂျီနိုးအာမြို့တည်ရှိသည့် နေရာ၌ မော်မန်ဂိုဏ်းဝင် ဗီတီးဆိုသူသည် ပဌမဆုံး ကုန်သွယ်ဌာနတခုကို တည်ထောင် ခဲ့၏။ ထိုနောက် နှစ်အနည်းငယ် အတွင်းတွင် မော်မန်တို့သည် နယ်သစ်စခန်း အတော်များများ တည်ထောင်ခဲ့လေသည်။ ယင်းသို့ နယ်သစ်များ စိုက်နေသည့် အချိန်ကာလ အစတွင် ယခု နီဗားဒဟု ခေါ် တွင်နေသော နယ်ပယ်ဒေသကို မော်မန်တို့က ကြိုးကိုင်ခဲ့၏။၁၈၅၀ပြည့်နှစ်တွင် ယူးတားနယ်ကို နယ်ပယ်အဖြစ် စီစဉ် သတ်မှတ် လိုက်သော အခါ နီဗားဒနယ် အားလုံးလိုလိုကို ယူးတားနယ်တွင် သွတ်သွင်း ခဲ့၏။ နီဗားဒနယ်အတွင်း နေထိုင်လျက်ရှိသော မော်မန် ဂိုဏ်းဝင် မဟုတ်သူများသည် ယူးတား ပြည်နယ် အစိုးရက ယင်းတို့ကို ကာကွယ်စောင့်ရှောက် မပေးဟု ဆို၍၊ ၁၈၅၃ ခုနှစ်မှအစပြု၍ ကာလီဖိုးနီးယားပြည်နယ်နှင့် ပူးပေါင်းပေးရန် တောင်းဆိုခဲ့သော်လည်း အချည်းနှီး ဖြစ်ခဲ့လေသည်။

၁၈၅၉ ခုနှစ်တွင် မူလက ရွှေများ တွေ့ရှိခဲ့ပြီး ဖြစ်သော ကမ်းစတော့ သတ္တုကြောတွင် ဘော်များ ထပ်မံ တွေ့ရှိခဲ့ပြန်၏။ ထိုအခါ သတ္တုတူးသမားများ အမြောက်အမြား ဝင်ရောက် လာကြသည်။ ၁၈၆၁ ခုနှစ်ရောက်လျှင် ထိုသို့လာရောက် နေထိုင်သူ လွန်စွာ များပြား လာရကား၊ နယ်ပယ်သစ် စီစဉ် သတ်မှတ် ပေးခဲ့ရလေသည်။ ထိုနယ်ပယ်သစ်ကို တဖြည်းဖြည်း ချဲ့လာခဲ့ရာ ၁၈၆၆ ခုနှစ်တွင် ယခု လက်ရှိပမာဏသို့ ရောက်ရှိခဲ့၏။ ၁၈၆၄ ခုနှစ်အောက်တိုဘာလ ၃၁ ရက်နေ့တွင် နီဗားဒပြည်နယ်သည် အမေရိကန် ပြည်ထောင်စု၏ ပြည်နယ်တခု အဖြစ် အသိအမှတ် ပြုခြင်း ခံရလေသည်။ ပြည်နယ် အဖြစ်သို့ ရောက်ရှိ ခဲ့ပြီးနောက်တွင် နီဗားဒ ပြည်နယ်၏သမိုင်းသည် အဓိကအားဖြင့်၊သတ္တုတွင်းများ တူးဖော်လုပ်ကိုင်ခြင်း၊ လယ်ယာများ ရေသွင်းလုပ်ကိုင်ခြင်းနှင့် စက်မှုလက်မှု လုပ်ငန်းများ ထွန်းကား တိုးတက်လာခြင်း စသည်တို့နှင့်သာ သက်ဆိုင် နေလေသည်။ အဖိုးတန်ဓာတ်သတ္တုများဖြင့် ကြွယ်ဝသော နီဗားဒပြည်နယ်သည် လျင်မြန်စွာပင် တိုးတက်ဖွံ့ဖြိုးလာလေသည်။ ပဌမနှင့် ဒုတိယ ကမ္ဘာ စစ်ကြီးများ အတွင်းက နီဗားဒပြည်နယ်မှ ထွက်သော ကြေးနီ၊ မက်ဂနီဆိုက်နှင့် မန်ဂနိတ်ကို အနုတ်အသိမ်း လွန်စွာ များပြားခဲ့သဖြင့်၊ လာဗေးဂတ်၊ ဗိုလဒါစီတီ စသည့်မြို့ကြီးများ လျင်မြန်စွာ တိုးတက်ကြီးပွားလာခဲ့လေသည်။ ယခင်က စိုက်ပျိုး မဖြစ်သော လယ်မြေများကို စိုက်ပျိုး လုပ်ကိုင်နိုင်အောင် ဆောင်ရွက်နေသည့် လုပ်ငန်းမှာလည်း၊ အကြီးအကျယ် အောင်မြင်လျက် ရှိလေသည်။ ၁၉၅၀ ပြည့်နှစ်လွန် နှစ်များအတွင်းက လားဗေးဂတ်မြို့၏ အနောက်မြောက်ဖက် မိုင် ၆၀ ခန့် အကွာရှိ အမေရိကန် အနုမြူစွမ်းအင် ကော်မစ်ရှင်က သတ်မှတ် ပေးထားခဲ့သော စမ်းသပ် စခန်းတွင် အနုမြူဗုံးများကို စမ်းသပ် ဖောက်ခွဲကြည့်ခဲ့ လေသည်။ ၁၉၅၄ ခုနှစ်တွင် ပြည်နယ်တွင်း၌ ရေနံတွင်းကို ပဌမဦးဆုံး စတင် တူးဖော်ခဲ့လေသည်။

**နီယွန်။** ။နီယွန်သည် ဒြပ်စင် ဓာတ်ငွေ့ ဖြစ်၏။ လေထဲ၌ နီယွန်အနည်းငယ်ရှိ၏။ လေအပုံ တသန်းတွင် နီယွန် တဆယ့်ရှစ်ပုံမျှသာ ပါရှိသည်။ နီယွန်ကို ၁၈၉၈ ခုနှစ်တွင် အင်္ဂလိပ်လူမျိုး ဓာတုဗေဒ ပညာရှင်ကြီး ဆာဝီလျံရမ့်ဆေးက၊ လေတွင် ပါရှိသည့် ဓာတ်ငွေ့များကို စုံစမ်း စစ်ဆေး နေစဉ်



နီယွန်မီးရောင်သည် ဈေး၍ အလင်းဖြာပုံ ညီညာသဖြင့် စက်ရုံများတွင် ဤသို့ အသုံးပြုလျက် ရှိကြပေပြီ။



နီယွန်ကို စတင်တွေ့ရှိခဲ့သူ ဆာ ဝီလျံ ရမ္မဆေး

တွေ့ရှိခဲ့သည်။ နီယွန်သည် အားဂွန်၊ ကရစ်ပတွန်၊ ဇီနွန်နှင့် ဟီလီယမ်တို့ကဲ့သို့ အစွမ်းမဲ့ ဓာတ်ငွေ့ အစုတွင် ပါဝင်သည်။

နီယွန်ကို ပြွန်ချောင်းတွင် ထည့်၍ လျှပ်စစ်ဖြင့် ထွန်းလင်းအောင် ပြုလုပ်ယူနိုင်သည်။ ယခုအခါ နီယွန်မီးကို လေဆိပ်များတွင် အချက်ပြမီး အဖြစ်ဖြင့်၎င်း၊ကုန်ရောင်းဝယ်ရာတွင် ကြော်ငြာ အဖြစ်ဖြင့်၎င်း အသုံးပြုကြသည်။ နီယွန်မီးချောင်းသည် အလွန် တောက်ပသောကြောင့် နေ့ည အသုံးပြုနိုင်သည်။ နီယွန်၏ သာမန်အရောင်မှာ ကြက်သွေးရောင်ဖြစ်၏။နီယွန်တွင် ပြဒါးအနည်းငယ် ရောထည့်ပေးလျှင်၊ အလွန်တောက်ပသော အပြာရောင် ဖြစ်လာသည်။ နီယွန်မီးချောင်း ဖန်သား၌ အရောင် အမျိုးမျိုး ထည့်သွင်းပေးသောအခါ၊ နီယွန်မီးရောင် အမျိုးမျိုးကို ရသည်။

နီယွန် မီးချောင်း ပြုလုပ်ယူရာတွင် ဖန်ပြွန် ထဲမှ လေကို ထုတ်ပြီးလျှင် နီယွန်ကို သွင်းပေးသည်။ ထိုနောက် ပြွန်ထဲသို့ လျှပ်စစ် လွှတ်ပေးသောအခါ၊ အလွန်တောက်၍ မီးလိုနီသော အလင်းရောင်ထွက်လာသည်။ နီယွန် မီးချောင်းတွင် သာမန် လျှပ်စစ်မီးလုံးမှာကဲ့သို့ မီးစာဟူ၍ မရှိချေ။ သို့သော် ပြွန်ထဲတွင် အီလက်ထရုတ်(ဓာတ်ခေါင်း) နှစ်ခု ပါရှိသည်။ ထိုအီလက်ထရုတ် နှစ်ခုကြားတွင် ဓာတ်ငွေ့သည် လင်း၍၊ မီးရောင်တန်းကြီး ဖြစ်ပေါ်သည်။

နီယွန်သည် အလွန် အဖိုးတန်၏။ နီယွန်အနည်းငယ်မှ အလင်းရောင် များစွာ ရရှိနိုင်သဖြင့် မီးချောင်းတွင် နီယွန် အနည်းငယ်သာ ထည့်ပေးရန် လိုသည်။ နီယွန်ကို လေထဲမှ ထုတ်ယူလိုသောအခါ လေကိုစင်တီဂရိတ် — ၂၀၀ အထိ အအေးခံပြီးနောက် အရည်လုပ်ယူရသည်။ နီယွန်၏ ဆူမှတ်မှာ စင်တီဂရိတ်—၂၄၆° ဖြစ်သောကြောင့် လေအရည်ဖြစ်သွားသော်လည်း နီယွန်သည် အရည် မဖြစ်ဘဲ၊ ဓာတ်ငွေ့ အဖြစ် ပင်ရှိသည်။ နီယွန်ကို တကွတ်ဝင် ဗူးပါးပါးတွင် ထည့်၍ ရောင်းချလေ့ ရှိသည်။ ဗူးတဗူးတွင် ပါရှိသော ဓာတ်ငွေ့သည် နီယွန် မီးချောင်းပေ ၂၀၀ မှ ၃၀၀ အထိ ပြုလုပ်ရန် လုံလောက်သည်။ (ဓာတ်မီး ထွန်းခြင်း — ရှု။)

လေဆိပ်တွင် နီယွန် မီးချောင်းများကို အချက်ပြ အဖြစ်ဖြင့် အသုံးပြုခြင်းမှာ နီယွန်မီးရောင်သည် နှင်းကို ဖောက်ထွင်းနိုင်သောကြောင့် ဖြစ်သည်။ အခြား မီးရောင်များကို မမြင်နိုင်သော အချိန်တွင် နီယွန်မီးရောင်ကို မိုင် ၂၀ အကွာအဝေးမှ မြင်နိုင်သည်။

**နီးဂရိုး။** ။ကပ္ပလီလူမျိုး — ရှု။

**နီးစမြို့။** ။နီးစမြို့သည် မြေထဲ ပင်လယ် ကမ်းခြေရှိ ပြင်သစ်နှင့်ဣတလီနယ်စပ်အနီးမှ ပြင်သစ်ပိုင်မြို့တမြို့ ဖြစ်သည်။ အလွန် လှပတင့်တယ်သော မြို့အဖြစ်ဖြင့် ကျော်စော၏။ ထိုမြို့ကို မြို့သစ်၊ မြို့ဟောင်းနှင့် ဆိပ်ကမ်းမြို့ဟူ၍ သုံးပိုင်း ခွဲခြားထားသည်။ ဘုရား ရှိခိုးကျောင်း၊ ပြတိုက်၊ မျှော်စင်နှင့် ပိဋကတ်တိုက်တခု ရှိ၏။ နိုင်ငံခြားသို့ သံလွင်ဆီများ တင်ပို့ ရောင်းချပြီးလျှင်၊ အမွှေးအကြိုင်လုပ်ငန်း၊ ဆပ်ပြာလုပ်ငန်း၊ သားရေနယ်လုပ်ငန်းနှင့် အိမ်ထောင်ပရိဘောဂ



ဥတုသာယာမှုနှင့် ဆောင်းရာသီစခန်းအဖြစ် ထင်ရှားသည့် နီးစမြို့

လုပ်ငန်းတို့ကို လုပ်ကိုင် ကြသည်။ ဥတုသပ္ပါယ မျှတသဖြင့် ဆောင်းအခါတွင် လူအများ သွားရောက်လည်ပတ်သော နေရာ ဖြစ်သည်။ လူဦးရေမှာ ၂၄၄ ၄၀၀ ကျော်ခန့် ရှိသည်။ ဤမြို့သည် မကြာခဏ လျှေင်လှုပ်တတ်သော မြို့ဖြစ်၏။ နီးစမြို့ဟု အမည်ပေးခဲ့သူများမှာ ဂရိလူမျိုးများ ဖြစ်သည်။ ဂရိတို့သည် လွန်ခဲ့သော နှစ်ပေါင်း ၂၀၀၀ ခန့် ကပင်လျှင် ဤမြို့ကို ရှေးဦးစွာ လာရောက် တည်ထောင် နေထိုင်ကြသည်။ဘီစီ၂ ရာစုနှစ်အတွင်းက၊ရောမတို့၏ လက်အောက်ခံ ဖြစ်ခဲ့ဘူး၏။ ဆာရဆင်ခေါ် အာရပ် လူမျိုးများ၊ တူရကီများတို့၏ လက်အောက်သို့လည်း ကျရောက်ခဲ့ဘူးရာ၊ များစွာ ဖိနှိပ်ချုပ်ချယ်ခြင်းကို ခံခဲ့ရဘူး၏။ ၁၈၆၀ ပြည့်နှစ်တွင် ဣတလီကို ကူညီရသည့်အတွက် ဤမြို့ကို ပြင်သစ်တို့က ရ လိုက်သည်။

**နီးဗလွန်း။** ။နီးဗလွန်း ဟူသည်မှာ ခရစ် ၁၂၀၀ ပြည့်နှစ် လောက်က ထွန်းကားသော ဂျာမန်အက်ပစ်ကဗျာ ဖြစ်သည်။ ထိုကဗျာသည် ပင်ရင်းဌာန ဖြစ်သော ဂျာမန် လူမျိုးတို့ ပေါက်ဖွားရာ ဒေသ၌သာ ကျော်ကြားသည် မဟုတ်၊ ကမ္ဘာတဝှန်းလုံး၌ ကျော်ကြားသည်။ ပုံစံအားဖြင့် မဟာဘာရတနှင့် ရာမာယနလင်္ကာတို့သည် အိန္ဒိယ၌သာ ကျော်ကြားသော ကဗျာလင်္ကာများ မဟုတ်၊ ကမ္ဘာတဝှန်းလုံး ကျော်ကြားသော ကဗျာလင်္ကာများ ဖြစ်သည့် နည်းတူ နီးဗလွန်းဟု ခေါ်သော ရှေးဂျာမန်လူမျိုး တမျိုး၏ ကဗျာများသည် တကမ္ဘာလုံးသို့ ပျံ့နှံ့ သွားသော ကဗျာများ ဖြစ်သည်။ မူလက ထိုကဗျာတို့သည် နီးဗလွန်းလူမျိုးတို့ သီဆိုကြသော တေးဂီတမျှသာ ဖြစ်သည်။ နှောင်းလူတို့က ထိုသီဆိုသော တေးဂီတတို့ကို စုပေါင်းကာ ကျမ်းတကျမ်း အဖြစ် ပြုစုထုတ်ဝေသည်မှ စ၍၊ နီးဗလွန်း အက်ပစ်ကဗျာများသည် တကမ္ဘာလုံးက နှစ်သက်သော ကဗျာများ ဖြစ်လာသည်။ထိုကဗျာတို့တွင် ရေးသားထားသောအကြောင်းတို့မှာ နီးဗလွန်း လူမျိုးတို့၏ ဘုရင်ဖြစ်သော ဆိဖရိ အကြောင်း ဖြစ်သည်။ (ဆိဖရိ — ရှု။)

**နီးရိုး ( ခရစ်၃၇–၆၈ )။** ။ဆိုးညစ် ကြမ်းကြုတ်သော အရာတွင် ရောမနိုင်ငံ သမိုင်း၌သာမက ကမ္ဘာ့သမိုင်း၌ပါ ပြိုင်ဖက်မရှိ နာမည်ကြီးသော ဘုရင်သည် နီးရိုးဘုရင် ဖြစ်သည်။သူတပါးအတိဒုက္ခကျရောက်မှုသာ မိမိ၌စိတ်ပျော်ရွှင်ဖွယ်ရာ ဖြစ်သည်ဟူသော သဘောမျိုးကြောင့် နီးရိုး ဘုရင်သည် ရောမမြို့ကြီး မီးဟုန်းဟုန်းတောက်လောင်စဉ်၊စောင်းတီးလျက် နေသည်ဟု အစွပ်စွဲ ခံရကာ၊ ထိုစွပ်စွဲစကားသည်လည်း သမိုင်းတလျှောက်၌ စကားပုံတခု အနေဖြင့် ဥဒါန်း တွင်ရစ်လေသည်။ နီးရိုးသည် အဟီနိုဗာဗပ်နှင့် အဂရစ်ပါတို့ နှစ်ဦးသင့်ရာမှ ဖွားမြင်သော သားဖြစ်၍၊ ငယ်နာမည်မှာ လူရှပ်ဒိုမစ်ရှပ်အဟီနိုဗာဗပ် ဖြစ်၏။ အဂရစ်ပါသည် ပဌမလင်ယောကျ်ား ကွယ်လွန်လေသော်၊ ကလောဒီးယပ် ဘုရင်မင်းမြတ်နှင့် သင့်မြတ်လေသည်။ အဂရစ်ပါသည် လောဘရမ္မက်အလွန်ကြီးသော မိန်းမဖြစ်သည့် အလျောက် သူ၏ သားဖြစ်သူ လူရှပ် အထွတ်အထိပ်သို့ရောက်ရန် အမြဲကြံစည်လေ့ရှိသည်။ ဦးစွာ၌ ကလောဒီးယပ် ကေရာဇ်ဘုရင်သည် မိဖုရား၌ ပါသော သားလူရှပ်ကို ထီးမွေ နန်းမွေခံအဖြစ်ဖြင့် မွေးစား၍ နီးရိုးဟူသော အမည်ကို ပေးလေသည်။ ထိုအတွက်ကြောင့် ကလောဒီးယပ် ကွယ်လွန်သော အခါ၊ ကလောဒီးယပ်၏ သားရင်း ဖြစ်သော ဗြိတန်နီကပ်သည် ထီးမွေ နန်းမွေကို မဆက်ခံရဘဲ နီးရိုးသာလျှင် ထီးနန်း ဆက်ခံသည်။ ထီးနန်းဆက်ခံစက နီးရိုးသည် သူ၏ ငယ်ဆရာ ဖြစ်သူ ဆီနီကာ၏ အဆုံးအမ၌ တည်သဖြင့် တိုင်းသူ ပြည်သားတို့သည် သူ၏ မူလပဋိသန္ဓေစိတ်ကို ကောင်းစွာမသိကြချေ။ သို့သော် နောင်အခါ၌ နီးရိုး၏ ယုတ်မာညစ်ဆိုးမှုတို့သည် တစတစ ပေါ်လာလေသည်။ ဦးစွာ၌ နီးရိုးသည် သူနှင့် ထီးမွေ နန်းမွေလုဖက်ဖြစ်သူ ဗြိတန်နီကပ်ကို အဆိပ်ကျွေး၍ သုတ်သင် လေသည်။ ထိုနောက် မင်းအဖြစ်ရရန် ကြံဆောင် ပေးခဲ့သော သူ၏ မိခင် အဂရစ်ပါကို ကွပ်မျက်လေသည်။ ထိုနောက် သူ၏ မိဖုရားဖြစ်သော အောက်တေးဗီးယားကို သတ်၍၊ ပေါ့ပီးယာဆဗိုင်နာကို မိဖုရားအရာ တင်မြှောက်လေသည်။ ထိုနောက် ဆဗိုင်နာကို သတ်၍ တတိယ မိဖုရား တင်မြှောက်ရန် ကြံစည်ရာ၊ ကာယကံရှင်က သူ၏ အလိုကို မလိုက်သဖြင့် ထိုအလို မလိုက်သူ မိန်းမကို ကွပ်မျက် ပြန်သည်။ ထိုနောက် လင်ရှိမယား တဦးကို မိဖုရား တင်မြှောက်ရန် အလို့ငှါ သူ၏လင်ကို သတ်လေသည်။ ဤကဲ့သို့ စာရိတ္တပျက်ပြား ဆိုးသွမ်းလာသည်ကို သူ၏ ငယ်ဆရာ ဆီနီကာက ရိပ်မိလေသော် နီးရိုးသည် ထိုငယ်ဆရာကိုပင် ဖျောက်ဖျက်လိုက်ပြန်၏။ သူ၏ အပြစ်တို့ကို ဖုံးဖိရန်အလို့ငှါ ခဏခဏ လူသတ်ဖန်များလတ်သော် နီးရိုးဘုရင်သည် သူ၏ ပတ်ဝန်းကျင်၌ မြင်မြင်သမျှသော သူတို့ကို စိတ်မချမယုံကြည်ရှိလာလေသည်။ ထိုကြောင့် စိတ်မထင်တိုင်း သေဒဏ် ပေးလေ့ရှိသဖြင့် အပြစ်မဲ့သော တိုင်းသူ ပြည်သားများစွာတို့ ပျက်စီးရလေသည်။

ခရစ် ၆၁ ခုနှစ်တွင် ဗိုအဲဒီဆီးယာ ဘုရင်မသည် ဗြိတိန်ပြည်မှနေ၍ ရောမပြည်ကို ပုန်ကန် ခြားနားသည်။ ၆၄ ခုနှစ်တွင် ရောမမြို့တွင် မီး အကြီးအကျယ် လောင်လေသည်။ ထိုမီးသည် ရက်ပေါင်း များစွာ ဆက်လက် လောင်ကျွမ်းသဖြင့် မြို့၏ ၃ ပုံ ၂ ပုံ ခန့်သည် ပြာကျခဲ့သည်။ သို့ရာတွင် နီးရိုး ဘုရင်သည် တိုင်းသူ ပြည်သားတို့၏ ဒုက္ခကို လျစ်လျူရှုခဲ့သဖြင့် လူအများက နီးရိုးသည် ရောမမြို့ကြီး မီးလောင်



ရောမမြို့ကြီး မီးလောင်ပြီးနောက် နီးရိုးဘုရင် လှည့်လည်ကြည့်ရှုစဉ်

နေစဉ်၊ သူ၏စောင်းကို တီးကာ ဖြေဖျော်နေသည်ဟု စွပ်စွဲကြသည်။ ထိုအဖြစ်ကို ရည်၍ ရောမမြို့ကြီး မီးလောင်စဉ် တရောထိုးသည်ဟူသော စကားပုံသည် တွင်လေသည်။ စင်စစ် တိုင်းသူပြည်သားတို့က နီးရိုးကိုယ်တိုင် မြို့ကိုမီးရှို့ရန် အမိန့်ပေးသည်ဟု စွပ်စွဲသည်။ သို့သော် အထက်ဖော်ပြရာပါ စွပ်စွဲချက်တို့မှန်ကန်ကြောင်း သမိုင်း အထောက်အထားသာဓကများ မရှိသဖြင့် ယင်းစကားတို့ကို သမိုင်းဆရာတို့က ဒဏ္ဍာရီ ပုံပြင်ပမာတမျှ သဘောထားကြသည်။ နီးရိုးကား ရောမမြို့ကို မီးရှို့သူတို့မှာ ခရစ်ယန်များသာ ဖြစ်သည်ဟု စွပ်စွဲပြီးလျှင် ခရစ်ယန်တို့ကို နှိပ်ကွပ်လေသည်။ ခရစ် ၆၈ ခုနှစ်တွင် စပိန်ပြည်တွင် ချထားသော နီးရိုး၏ စစ်တပ်သည် ပုန်ကန်ထကြွလေသည်။ ထိုပုန်ကန်မှုသည် စပိန်ပြည်မှ ရောမနေပြည်တော်သို့ ကူးစက် လာလေရာ၊ နီးရိုးဘုရင်လည်း ရောမမြို့ကို စွန့်လွှတ်၍ ထွက်ပြေးလေသည်။ နီးရိုးကို ပုန်ကန်သူ တပ်သားတို့က လိုက်လံဖမ်းဆီးရာ မိအံ့ဆဲဆဲတွင် နီးရိုးဘုရင်လည်း မိမိကိုယ်ကို မိမိ အဆုံးစီရင်လေသည်။ ရောမ မြို့သူမြို့သားတို့သည် နီးရိုးဘုရင်၏ ပြုမူချက်တို့ကို များစွာ မနှစ်မြို့သဖြင့်၊ ထိုဘုရင်၏ အမည်ကို သမိုင်း မှတ်တမ်းတို့မှ ပယ်ဖျက်၍၊ ထိုဘုရင်နှင့် စပ်လျဉ်းသော ရုပ်တုများနှင့် ထိုဘုရင် ဆောက်လုပ်ခဲ့သော နန်းတော်အဆောက်အအုံများကို ဖျက်ဆီးပစ်ကြသည်။

**နု၊ဦး၊သဘင်ဝန်** (ခရစ် ၁၇၇၄ ခန့် – ၁၈၅၃)။ ။မြန်မာနိုင်ငံစာရေးဆရာအသင်းကြီး၏ နာယကလူကြီးဖြစ်သော စာရေးဆရာကြီး ဦးနုကို မည်သည့် မြို့ရွာ၌ မွေးဖွားသည်ဟု အတိအကျ မသိရသော်လည်း ငယ်စဉ်ကစ၍ ညောင်တုန်းမြို့၌ နေထိုင်ခဲ့ကြောင်းကိုကား သိရသည်။ ဦးနု၏ မိဘများသည် ညောင်တုန်းမြို့ ဈေးအတွင်း၌ ကုန်သေးဆိုင် ပိုင်ရှင်များ ဖြစ်သည်။ သို့ရာတွင် တဦးတည်းသောသား ဦးနုအား မိဘတို့က အလွန် အလို လိုက်သဖြင့် မိဘတို့၏ အရောင်းအဝယ် ကိစ္စတွင် စိတ်ဝင်စားစွာ လုပ်ကိုင်ခြင်း မရှိခဲ့ချေ။

ညောင်တုန်း မြို့သည် ထက်အောက် ကုန်များ ဖလှယ်ရောင်းချရာ သဘောဆိပ်မြို့ကြီး ဖြစ်သဖြင့် လူပေါင်းစုံ ဝင်ထွက်သွားလာလျက် ရှိရာ အထူးသဖြင့် ဇာတ်သဘင် ပညာသည် အပေါင်းတို့ ဆုံတွေ့ရာ မြို့ဖြစ်သည်။ အရောင်းအဝယ် လုပ်ငန်းတွင် ဝါသနာမပါသော ဦးနုသည် ဇာတ်သဘင်ပညာသည်များနှင့် အကျွမ်းဝင်ကာ သဘင်ပညာကိုလေ့လာယင်းနှင့် အချိန် ကုန်ခဲ့သည်။ ငယ်စဉ်ကပင် မြေဝိုင်း မင်းသမီး မင်းသားကြီးများနှင့် ခင်မင် ခဲ့သည်။ နာမည်ကျော် ဇာတ်မင်းသားကြီးများ ဖြစ်သော ဦးဘိုးစိန်၊ ဦးစိန်ကတုံး၊ ယောကျ်ား မင်းသမီးကြီး အောင်ဗလတို့နှင့်လည်း အလွန်ရင်းနှီးသည်။ ဦးစိန်ကတုံး၏ ဇာတ်အဖွဲ့တွင် ဇာတ် စာရေးဆရာအဖြစ် နှစ်ပေါင်း အတော်ကြာ လုပ်ကိုင်ခဲ့ဘူးသည်။

မိဘများ ကွယ်လွန်သော အခါ မိဖ လက်ငုတ် လက်ရင်းဖြစ်သော ကုန်သေးဆိုင်အလုပ်ကိုဆက် လက်လုပ်ကိုင်သည်။ သို့ရာတွင် အရောင်းအဝယ်၌ စိတ် မဝင်စား ကျွမ်းလည်း မကျွမ်းကျင်သဖြင့် တဖြည်းဖြည်းလုံးပါးပါးကာ ဆိုင်ဖြုတ်



သဘင်ဝန် ဦးနု

လိုက်ရသည်။ ရွှေ ငွေရတနာဆိုင် ဖွင့်၍လည်း ရောင်းချဘူးသည်။

ဦးနုသည် ဗဟုသုတ အလွန် ကြွယ်သူဖြစ်သဖြင့် စကားဆန်းများကိုရင်း၊ အတွေ့အကြုံထူးများကိုရင်း ပြောပြလေ့ရှိသည်။ ပါဠိဘာသာကို မကျွမ်းကျင်သော်လည်း မြန်မာစာပေ၌ နှံ့ ပယ်သည်။ ကဗျာဂီတများကို ရေးသားလေ့ရှိသည်။ အထူးသဖြင့် သဘင်နှင့် စပ်လျဉ်းသော ဆောင်းပါး ဇာတ်လမ်းနှင့် ပေါရာဏကျမ်းများကို ရေးသားခဲ့သည်။ ဒုတိယကမ္ဘာစစ် မတိုင်မီ ခေတ်က သူရိယ မဂ္ဂဇင်းတွင် သဘင်ဝန်ဟူသော ကလောင် အမည်ဖြင့် ရှေးမြန်မာသဘင်များ အကြောင်း၊ ရုပ်သေးပွဲများ အကြောင်းကို ရေးသားခဲ့၏။ အခြား မဂ္ဂဇင်း စာစောင် များ၌လည်း သဘင်ဝန်ဟူသော ကလောင်အမည်ဖြင့် ဇာတ်သဘင်များအကြောင်း ရေးသားရာ အထူးပင် နာမည် ကျော်လာသည်။ ထိုအချိန်မှ စ၍ ဦးနုအား သဘင်ဝန်ဟု ဝိသေသထား၍ ခေါ်ကြသည်။

သဘင်ဝန်ဦးနုသည် အရပ်မနိမ့်မမြင့် မပိန်လွန်းမဝလွန်း ဖြစ်သည်။ ဝတ်ဆင်ပုံ ရှေးဆန်သည်။ ပင်နီနှင့် ယောပုဆိုးကို ဝတ်ဆင်လေ့ ရှိသည်။ ရိုးရိုး နေ၍ စိတ်ဖြောင့်သည်။ အလွန်လည်း စိတ်မြန်သည်။ ရှင်းရှင်းနှင့် ဘွင်းဘွင်း ထုတ်ပြောတတ်သည်။ သူ့စိတ်နှင့် တွေ့သူ ခပ်ရှားရှား ဖြစ်သည်။ စိတ်နှင့် မတွေ့တိုင်းလည်း အားနာသည် ဟူ၍ မရှိဘဲ ဖြောင့် ပြောတတ်သည်။ ဆရာကြီးသည် လှေ့ခွက်ချည့်ဆန်မည်၊ အလံမလှဲသူ ဖြစ်သည်။ ယင်းသို့ စာပေစိတ် စာပေမာန် ရှိသော ဆရာကြီးအား စာပေမြတ်နိုးသူများက လေးစား ကြည်ညိုကြသည်။ ပူဇော် ကျေးဇူးကြသည်။ သည်းခံကြသည်။ ဆရာကြီး၏ စာပေတို့သည် ဗဟုသုတ ကြွယ်သည်။ အရေးအသားသည် ဖျတ်လတ် ညက်ညောသည်။ ရှင်းလင်းသည်။ တိကျသည်။

ဦးနုတွင် အိမ်ထောင် ငါးဆက် ရှိခဲ့ဘူးသည်ဟု ဆိုသည်။ သို့ရာတင် ဦးနု၏ စိတ်မြန်မှုကြောင့် မည်သည့် ဇနီးနှင့်မျှ အိမ်ထောင်သက် ရှည်ရှည် မပေါင်းခဲ့ရဘူးချေ။ သားထောက် မြေးခံဟူ၍ မရှိ၊ ပစ္စည်း မရှိသည့်ဘဝသို့ ရောက်ခဲ့ရသည်။သို့ရာတွင် ဦးနု၏ စာပေဂုဏ်ကြောင့် စာရေးဆရာ၊ ပန်းချီဆရာတို့သည် ဦးနု၏ မိခိုရာဖြစ်ခဲ့ရသည်။ကွယ်လွန်သူ ကာတွန်းဝိဇ္ဇာကြီးဦးဘဂျမ်းကား ဦးနု၏အကြီးဆုံးအားကိုးရာဖြစ်သည်။ ဦးနုမကျန်းမာ၍ ဆေးရုံ တက်ရသည့်အခါ မြန်မာနိုင်ငံ စာရေးဆရာအသင်းက ဆေးဘိုးဝါးခ အကုန်အကျခံခဲ့သည်။သေသည်အထိ ဇွဲနှင့်မာနကိုမလျှော့ခဲ့သော ဦးနုသည် ၁၉၅၃ ခုနှစ် မတ်လ ၆ ရက်နေ့တွင် နှင်းဆီကုန်းလူအိုရုံ၌ ကွယ်လွန်သွားလေသည်။

# မြန်မာ့လွတ်လပ်ရေး စာချုပ်

မြန်မာနိုင်ငံ လွတ်လပ်ရေးသမိုင်းတွင် နု–အက်တလီစာချုပ်သည် အထူးအရေးပါသော စာချုပ်ဖြစ်သည်။ ထိုစာချုပ်တွင် ဗြိတိသျှအစိုးရက မြန်မာနိုင်ငံကို အချုပ်အချာ အာဏာပိုင် လွတ်လပ်သောနိုင်ငံအဖြစ် အာဏာလွှဲပြောင်းပေးရာ၌ ပေါ်ပေါက်လာမည့် ပြောင်းလဲမှုကိစ္စများအတွက် လိုအပ်သောအစီအစဉ်များကို ပြဋ္ဌာန်းထားသည်။ ထိုကြောင့် ထိုစာချုပ်သည် ၁၉၄၇ ခုနှစ် အင်္ဂလိပ် မြန်မာ စာချုပ်ဟူ၍ရင်း၊ မြန်မာ့လွတ်လပ်ရေး စာချုပ်ဟူ၍ရင်း ခေါ်တွင်လေသည်။

**နု–အက်တလီစာချုပ်။** ။နု–အက်တလီစာချုပ်သည် မြန်မာနိုင်ငံ လွတ်လပ်ရေးအတွက် ဗြိတိသျှ အစိုးရက မြန်မာနိုင်ငံ ယာယီ အစိုးရအား အာဏာလွှဲပြောင်း ပေးအပ်သော စာချုပ်ဖြစ်သည်။ ထိုစာချုပ်ကို ၁၉၄၇ ခုနှစ် အောက်တိုဘာလ ၁၇ ရက်နေ့တွင် အင်္ဂလန်ပြည် လန်ဒန်မြို့တော်၌ ဗြိတိသျှအစိုးရ ကိုယ်စား နန်းရင်းဝန် ကလီမင့်ရစ်

ချတ်အက်တလီနှင့် မြန်မာနိုင်ငံ ယာယီအစိုးရကိုယ်စား ဝန်ကြီးချုပ် သခင်နု (ယခု ဦးနု) တို့ နှစ်ဦးသဘောတူ ချုပ်ဆို၍ လက်မှတ် ရေးထိုးကြသည်။ ထိုစာချုပ်သည် ၁၉၄၇ ခုနှစ် အင်္ဂလိပ် မြန်မာ စာချုပ် ဟူ၍လည်း တွင်သည်။ မြန်မာ့လွတ်လပ်ရေး စာချုပ်ဟူ၍လည်း တွင်သည်။

၁၉၄၆ ခုနှစ် ဒီဇင်ဘာလ ၂၀ ရက် နေ့တွင် ဗြိတိသျှအောက်လွှတ်တော်၌ ဗြိတိသျှနန်းရင်းဝန် ကလီမင့်ရစ်ချတ်အက်တလီသည်မြန်မာပြည်အားအာဏာလွှဲပြောင်းပေးအပ်ရေးကို ဆွေးနွေးရန်၊ မြန်မာ နိုင်ငံမှ ကိုယ်စားလှယ် အဖွဲ့ တဖွဲ့ကို ဖိတ်ခေါ် ခဲ့လေသည်။ ထိုဖိတ်ခေါ် ချက်အရ ဘုရင်ခံ၏ အလုပ်အမှုဆောင် ကောင်စီအဖွဲ့ ဒုတိယဥက္ကဋ္ဌနှင့် ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့ လွတ်လပ်ရေး အဖွဲ့ဥက္ကဋ္ဌဖြစ်သော ဗိုလ်ချုပ်အောင်ဆန်းသည် မြန်မာနိုင်ငံကိုယ်စားလှယ်တော်အဖွဲ့ ခေါင်းဆောင်အဖြစ်ဖြင့်၊ လန်ဒန်မြို့တော်သို့ သွားရောက်၍၊ ဗြိတိသျှ အစိုးရနှင့်ဆွေးနွေးခဲ့လေသည်။ ထိုဆွေးနွေးပွဲများ အပြီးတွင် ၁၉၄၇ ခုနှစ် ဇန်နဝါရီလ ၂၇ နေ့၌၊ ဗြိတိန်နိုင်ငံဘုရင်မင်းမြတ်အစိုးရနှင့် မြန်မာနိုင်ငံ ဘုရင်ခံ၏ အမှုဆောင် ကောင်စီမှ ကိုယ်စားလှယ်တော်တို့ ဆွေးနွေးတိုင်ပင်ရာမှ ရောက်ရှိခဲ့သော အဆုံးသတ်ချက်များ ပါဝင်သည့် အောင်ဆန်း–အက်တလီ စာချုပ်ကို ဒေါင်းနင်းလမ်း အမှတ် ၁၀ တွင် ဗိုလ်ချုပ် အောင်ဆန်းနှင့် နန်းရင်းဝန် အက်တလီတို့သည် လက်မှတ် ရေးထိုးခဲ့ကြလေသည်။ (အောင်ဆန်း–အက်တလီ စာချုပ် — ရှု။ ) ထိုစာချုပ်အရ မြန်မာနိုင်ငံ၏ လွတ်လပ်ရေးသည် ထိုစာချုပ် ချုပ်ဆိုပြီးနောက် တနှစ်အတွင်း အကောင်အထည် ပေါ် လာရမည် ဖြစ်သောကြောင့်၊ လွတ်လပ်သော ပြည်ထောင်စု မြန်မာနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို ၁၉၄၇ ခုနှစ် စက်တင်ဘာလ ၄ ရက်နေ့တွင် တိုင်းပြုပြည်ပြု လွှတ်တော်သည် အတည်ပြု ပြဋ္ဌာန်းခဲ့လေသည်။ (တိုင်းပြုပြည်ပြုလွှတ်တော် — ရှု။) ထို အချိန်တွင် အောင်ဆန်း-အက်တလီ စာချုပ်အရ မြန်မာနိုင်ငံအား အာဏာလွှဲပြောင်း ပေးအပ်ရန် ကိစ္စကို ဆောင်ရွက်ရန် ရှိသောကြောင့် တိုင်းပြုပြည်ပြု လွှတ်တော်သည် မြန်မာနိုင်ငံ ယာယီအစိုးရ ဝန်ကြီးချုပ် သခင်နုအား ဗြိတိသျှနိုင်ငံက အာဏာလွှဲပြောင်းပေးရာမှ ဖြစ်ပေါ် လာအပ်သော နိုင်ငံတော် စာချုပ်များနှင့် စပ်လျဉ်း၍ အရေး အခွင့် အာဏာပိုင် အဖြစ်ဖြင့် ခန့်အပ်လေသည်။ ထိုသို့ ခန့်အပ်ခြင်း ခံရ၍ ဝန်ကြီးချုပ်သခင်နုသည် ၁၉၄၇ ခုနှစ် အောက်တိုဘာလအတွင်း လန်ဒန်မြို့သို့ သွားရောက်ပြီးလျှင် အထက် အဆိုပါ နု-အက်တလီစာချုပ်ကို မြန်မာနိုင်ငံ ယာယီအစိုးရ ကိုယ်စား ဗြိတိန် နိုင်ငံနှင့် ချုပ်ဆို လက်မှတ်ရေးထိုးခဲ့လေသည်။ ထိုသို့ လက်မှတ်ရေးထိုးပြီးသည့် နောက်တနေ့တွင် ဝန်ကြီးချုပ် သခင်နုသည် လန်ဒန်မြို့ ဘီဘီစီ အသံလွှင့်ရုံမှနေ၍ ထိုစာချုပ်နှင့် စပ်လျဉ်း၍ အောက်ပါ မိန့်ခွန်းကို မြွက်ကြားလေသည်။

"မြန်မာ့ လွတ်လပ်ရေးကို ဖြစ်မြောက်စေသော အင်္ဂလိပ် မြန်မာ စာချုပ်သည် မြန်မာ့ ရာဇဝင်တွင်သာမက ကမ္ဘာ့ရာဇဝင်တွင်ပါ အခန်းသစ်တရပ် ဖွင့်လိုက်ခြင်း ဖြစ်သည်။ အကြောင်းကို ဆိုသော် ယနေ့အင်ပိုင်ယာ အင်အားစု တခုသည် မိမိအလိုအလျောက် ခင်မင်ရင်းနှီးလျက်၊ စိတ်စေတနာကောင်းကို ထားရှိကာ၊ လက်အောက်ခံ နိုင်ငံ တနိုင်ငံကို စိုးမိုး ချယ်လှယ်ခြင်းမှ လွှတ်လိုက်သည့်ပြင် အင်ပိုင်ယာပြင်ပ၌ အချုပ်အချာအာဏာပိုင် လုံးဝလွတ်လပ်သော နိုင်ငံ တခု အနေသို့ ပြန်လည် ထားရှိလိုက်ခြင်းကြောင့်ပင် ဖြစ်ကြောင်း။"

ထို နု–အက်တလီ စာချုပ်အရ၊ ပြည်ထောင်စု မြန်မာနိုင်ငံသည် ၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက် တနင်္ဂနွေနေ့နံနက် ၄ နာရီမိနစ် ၂၀ အချိန်တွင် လွတ်လပ်ရေးကို ကျေညာခဲ့လေသည်။ စာချုပ်၏ မူရင်းမှာ ဤသို့ ဖြစ်သည်။

## မြန်မာ အင်္ဂလိပ် စာချုပ်

ဗြိတိသျှ နိုင်ငံ (ဂရိတ်ဗြိတိန်နှင့် အိုင်ယာလန် မြောက်ပိုင်းတို့၏ ယူနိုက်တက်ကင်းဒမ်း) အစိုးရနှင့် မြန်မာ နိုင်ငံ ယာယီ အစိုးရတို့သည်–

မြန်မာ နိုင်ငံအား လွတ်လပ်သောနိုင်ငံ ဖြစ်စေရမည်ဟု ပြဋ္ဌာန်းလိုက်သော ဥပဒေတရပ်ကို ဆောလျင်စွာ အတည်ပြုရေးအတွက် ပါလီမန်ကို ပန်ကြားရန် ဗြိတိသျှနိုင်ငံ အစိုးရ၏ ရည်ရွယ်ရင်းဖြစ်သည်ဟူသော အချက်ကို စဉ်းစားကြ၍၊ လုံးဝလွတ်မြောက်ရေး၊ အတန်းအစားညီမျှမှု၊ လွတ်လပ်ရေးတို့ ရှိရမည်ဟူသော အချက်တို့ကို အခြေပြုကာ၊ အချုပ်အချာ အာဏာပိုင် လွတ်လပ်သော နိုင်ငံများ၏ အစိုးရများအဖြစ်ဖြင့် အနာဂတ် ဆက်ဆံရေးတို့ကို ပိုင်းခြား သတ်မှတ်ရန်ငှင်း၊ ဗြိတိသျှနှင့် မြန်မာ နှစ်တိုင်း နှစ်နိုင်ငံတို့၏ ချစ်ခင်ရင်းနှီးမှုနှင့် သိနားလည်မှုတို့ကို ခိုင်ခံ့ တည်မြဲစေ၍ ထိုအမှုတို့ကို အဓွန့်ရှည်စွာ ဆက်လက် တည်မြဲစေရန်ငှင်း အလိုရှိကြသည် ဖြစ်သဖြင့်၊

ထို့ပြင်–

နှစ်တိုင်း နှစ်နိုင်ငံတို့၏ ဆက်ဆံရေးတွင် ပေါ် ထွက်လာမည်ဖြစ်သော ပြောင်းလဲမှုမှ ပေါ် ပေါက်အပ်သည့် ကိစ္စများအတွက် ပြဋ္ဌာန်းချက်များ ပြုရန်လည်း အလိုရှိကြသည် ဖြစ်ရာ၊

ဤရည်ရွယ်ချက်ဖြင့် စာချုပ် တခုကို ချုပ်ဆိုရန် ဆုံးဖြတ်ကြ၍ အခွင့်အရေး အာဏာပိုင်များ အဖြစ်ဖြင့် ခန့်အပ်ခြင်းကို ခံရသော ဗြိတိသျှ အစိုးရအတွက် နန်းရင်းဝန်နှင့် ပဌမ ဂျေတိုက်စိုးဖြစ်သည့် "ကလီမင့်ရစ်ချတ်အက်တလီ" စီ၊ အိုင်

(ချ)၊အမ်၊ ပီ နှင့် မြန်မာနိုင်ငံ ယာယီ အစိုးရအတွက် နန်းရင်းဝန် သခင်နုတို့က အောက်ပါအတိုင်း သဘောတူညီကြလေသည်။

အချက် ၁

ဗြိတိသျှ နိုင်ငံအစိုးရသည် ပြည်ထောင်စု သမတ မြန်မာနိုင်ငံအား လုံးဝလွတ်လပ်သော အချုပ်အချာ အာဏာပိုင်နိုင်ငံဟူ၍ အသိအမှတ် ပြုသည်။

ဤစာချုပ်ကို ချုပ်ဆိုကြသော အစိုးရတို့သည် နည်းလမ်းကျနစွာ ယုံမှတ် ခန့်အပ်သော သံတမန် ဆိုင်ရာ ကိုယ်စားလှယ်များကို လဲလှယ်ထားရှိရန် သဘောတူကြသည်။

အချက် ၂

ပြည်ထောင်အချင်းချင်း ချုပ်ဆိုကြသည့် တည်မြဲလျက်ရှိသော စာချုပ် တစုံတခုမှ ဗြိတိသျှ နိုင်ငံသို့ ကျရောက်သည့် တာဝန်ဝတ်ဘာရားအားလုံးသည် မြန်မာနိုင်ငံနှင့် သက်ဆိုင်သည်ဟု ယူဆလေသမျှ၊ မြန်မာနိုင်ငံ ယာယီ အစိုးရသို့ ယခုမှ စ၍ သက်ဆင်း ကျရောက်ရမည်။ ယခင်က ဗြိတိသျှအစိုးရ ခံစားအပ်သော အခွင့်အရေးနှင့် အကျိုးကျေးဇူး တို့ကိုလည်း ပြည်ထောင်အချင်းချင်း ချုပ်ဆိုကြသော စာချုပ် တစုံတခုအရ မြန်မာပြည်နှင့် သက်ဆိုင်သမျှ မြန်မာ နိုင်ငံ ယာယီ အစိုးရက ယခုမှ စ၍ ခံစားနိုင်ရမည်။

အချက် ၃

ဤစာချုပ် အတည်ဖြစ်လာသော နေ့ရက်တွင် ပြည်ထောင်စု မြန်မာနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို အကြောင်းပြု၍ ပြည်ထောင်စု မြန်မာ နိုင်ငံ၏ နိုင်ငံသားလည်း ဖြစ်၍၊ ဗြိတိသျှအစိုးရ လက်အောက်ခံလည်း ဖြစ်သော၊ သို့တည်းမဟုတ် နောက်နောင်မှ မိမိကိုယ်ကို မိမိရွေးချယ်ခြင်းဖြင့် ဗြိတိသျှအစိုးရ လက်အောက်ခံ ဖြစ်သည်ဟုလည်း မှတ်ယူခြင်း ခံရသော သူသည် ပြည်ထောင်စု မြန်မာနိုင်ငံ၏ တရားဥပဒေ အရ သတ်မှတ်ထားသော နည်းလမ်း



မြန်မာ့ လွတ်လပ်ရေးအတွက် အာဏာလွှဲပြောင်းပေးအပ်သော နု–အက်တလီ စာချုပ်ကို မြန်မာနိုင်ငံ ယာယီအစိုးရ ဝန်ကြီးချုပ် သခင်နုနှင့် ဗြိတိသျှဝန်ကြီးချုပ် အက်တလီတို့ ၁၉၄၇ ခုနှစ် အောက်တိုဘာလ ၁၇ ရက်နေ့တွင် လန်ဒန်မြို့၌ နှစ်ဦးသဘောတူ လက်မှတ်ရေးထိုးကြစဉ်၊

နှင့် လျော်ညီစွာ နိုင်ငံခြားသား အဖြစ်ကို ခံယူကြောင်း ထုတ်ဖော် ကျေညာနိုင်သည်။ ထိုပြင် ထိုသူသည် ထိုသို့ ကျေညာသည်မှစ၍ ပြည်ထောင်စု မြန်မာနိုင်ငံ၏ နိုင်ငံသား အဖြစ်မှ ရပ်စဲရမည်။

မြန်မာ နိုင်ငံ ယာယီ အစိုးရသည်၊ ဤအချက်ရှိ ပြဋ္ဌာန်းချက်များ အထမြောက်ရေးအတွက် ပြည်ထောင်စု မြန်မာနိုင်ငံ၏ ပါလီမန်တွင် စောနိုင်သမျှ စောစွာရင်း၊ မည်သည့် နည်းနှင့်မဆို ဤစာချုပ် အတည်ဖြစ်လာသည်မှစ၍ တနှစ်အတွင်း၌ရင်း ဥပဒေပြုရန် စီမံ ဆောင်ရွက်ရမည်။

## အချက် ၄

ကာကွယ်ရေး ဆိုင်ရာ ကိစ္စများတွင် ဤစာချုပ်ကို ချုပ်ဆိုကြသော အစိုးရများ၏ ဆက်ဆံရေးကို ၁၉၄၇ ခုနှစ် ဩဂုတ်လ ၂၉ ရက်နေ့က အစိုးရနှစ်ဦးနှစ်ဖက်တို့ လက်မှတ်ရေးထိုးကြသောသဘောတူညီချက်ဖြင့်စည်းမျဉ်းသတ်မှတ်ရမည်။ အဆိုပါ သဘောတူညီချက်ရှိ ပြဋ္ဌာန်းချက်များကို ဤစာချုပ်၏ နောက်ဆက်တွဲတွင် ဖော်ပြထားသည်။ ထိုပြဋ္ဌာန်းချက်များသည် ဤစာချုပ်၏ အစိတ်အပိုင်းများ အဖြစ်ဖြင့် အကျိုးသက်ရောက်ရမည်။

## အချက် ၅

ဤစာချုပ် အတည်ဖြစ်လာသော နေ့ရက်တွင် အိန္ဒိယနှင့် ပါကစ္စတန်မှ တပါး၊ အခြား နိုင်ငံများတွင် အိုးအိမ် အခြေအမြစ်တည်ရှိသော ဗြိတိသျှလက်အောက်ခံဖြစ်သူများအား ပင်ရှင်များ၊ အချီးကျပင်ရှင်များ၊ဆုငွေများ၊ မိသားစု ဆိုင်ရာ ပင်ရှင် ရံပုံငွေများမှရင်း၊ အိမ်ငှားစာ ရံပုံငွေများမှရင်း၊ ပေးစရာ ရှိသည်များနှင့် ထောက်ပံ့ ငွေများ၊ ခွင့်လစာများနှင့် မြန်မာနိုင်ငံအစိုးရ ဘဏ္ဍာတော်မှ ဖြစ်စေ၊ မြန်မာ နိုင်ငံ အုပ်ချုပ်မှု အခွင့်အာဏာအောက်တွင် ထားရှိသော အခြား ရံပုံငွေများမှ ဖြစ်စေ၊ ပေးသင့် ပေးထိုက်သော ငွေများတို့ကို ဤစာချုပ် အာဏာမတည်မီက ထမ်းရွက်ခဲ့သော အလုပ်သက်အားလုံး အတွက် ဤစာချုပ် အာဏာတည်အံ့ဆဲဆဲ ကာလက အသုံးပြုခဲ့သော နည်းဥပဒေများအရ ပေးရန် မြန်မာနိုင်ငံ ယာယီအစိုးရသည် မိမိ၌ တာဝန်ရှိသည်ဟု ထပ်မံ၍ ခံဝန်ပြုသည်။

## အချက် ၆

အောက်ပါ ပြဋ္ဌာန်းချက်များသည် ဤအချက်တွင် ပါဝင်သော ငွေရေးကြေးရေး ပြဿနာများ အတွက် အပြီးသတ် ဖြေရှင်းမှု ဖြစ်ကြောင်းကို စာချုပ် ချုပ်ဆိုကြသော အစိုးရတို့က သဘောတူကြသည်။

၁။ မြန်မာ နိုင်ငံ ယာယီအစိုးရသည် သိုလှောင်ထားသော စစ်တပ်များ ဆိုင်ရာ ပစ္စည်းရောင်းရငွေများကို အပြည့်ပေးရန် သဘောတူကြောင်း ထပ်မံ၍ ခံဝန် ပြုသည်။ ထိုပစ္စည်းများတွင် စစ်ဘက် လက်အောက်ခံ မြန်မာ နိုင်ငံ မြို့ပြ အုပ်ချုပ်ရေးဆိုင်ရာ ပစ္စည်းများ ပါဝင်သည်။ မြို့ပြဆိုင်ရာ မူလအစိုးရကို မထူထောင်ခင်က တည်ရှိခဲ့သော စစ်ဘက် လက်အောက်ခံ မြို့ပြ အုပ်ချုပ်ရေးအတွက် ကုန်ကျသော စရိတ်များကို ဗြိတိသျှ နိုင်ငံအစိုးရသည် မြန်မာ နိုင်ငံ ယာယီအစိုးရထံမှ မတောင်းဆိုတော့ပါဟု သဘောတူသည်။

၂။ ဗြိတိသျှ နိုင်ငံ အစိုးရသည် သာမန် ဘတ်ဂျက်နှင့် နယ်စပ်ဒေသ ဘတ်ဂျက်များ၌ ငွေလိုနေသည်ကို ဖြည့်ပေးရန် ထုတ်ချေးခဲ့သော ငွေများအနက် ပေါင်ပေါင်း ၁၅ သန်းကိုလျော်ပစ်ရန် သဘောတူသည်။ကျန်ငွေများကို ၁၉၅၂ ခုနှစ် ဧပြီလ ၁ ရက်နေ့ထက် နောက်မကျသော နေ့ရက်မှအစပြု၍ အနှစ်နှစ်ဆယ်မျှ နှစ်စဉ်နှစ်တိုင်း အချီးတူ အရစ်ကျ မြန်မာနိုင်ငံက ပေးဆပ်ရမည်။အတိုးကား ပေးရန်မလိုချေ။ မြန်မာ နိုင်ငံက ပေးရန်ရှိသော အထက်ပါ ကြွေးမြီလျော်ပစ်ခြင်းကို မြန်မာ နိုင်ငံ၏ ငွေရေးကြေးရေး အခြေအနေ ပြန်လည်ထူထောင်လာမှုအတွက် ဗြိတိသျှနိုင်ငံ အစိုးရက အထောက်အပံ့ ပြုသည် ဟူသော သဘောအဖြစ်ဖြင့်ရင်း၊ မြန်မာ နိုင်ငံတွင် ဗြိတိသျှ စစ်ဘက် အုပ်ချုပ်ရေး အတွက် ကုန်ကျခဲ့သော ပစ္စည်း အထောက်အပံ့နှင့် ရာထမ်း မှုထမ်းများ၏ စရိတ်များနှင့် စပ်လျဉ်း၍၊ ဗြိတိသျှနိုင်ငံ အစိုးရက တောင်းဆိုရန် ရှိသည်တို့ကို အပြီးသတ် ရှင်းလင်းလျော်ပစ်လိုက်သည်ဟူသော သဘောအဖြစ်ဖြင့်ရင်း မြန်မာနိုင်ငံ ယာယီအစိုးရက လက်ခံသည်။

၃။ မြန်မာ နိုင်ငံ ယာယီ အစိုးရသည် ပရိုဂျက် စီမံကိန်းများ၏ စရိတ်အတွက် ဗြိတိသျှ နိုင်ငံအစိုးရက ထုတ်ချေးခဲ့သော ငွေများကို အကုန်အစင် ပြန်လည်ပေးဆပ်ရန် သဘောတူသည်။ (ပရိုဂျက် စီမံကိန်းများတွင် ပြည်သူသုံး ပစ္စည်းများ ဆိုင်ရာ စီမံကိန်း အစရှိသည်တို့ ပါဝင်သည်။) လိုအပ်သော အသုံးစရိတ် ငွေများနှင့် ရင်းနှီး လုပ်ကိုင်သော အရင်းငွေများမှ ပိုလျှံသော လက်ရှိ ရငွေများမှရင်း၊ ပရိုဂျက်များကို ဖျက်သိမ်းရှင်းလင်းသဖြင့် မသုံးဖြစ်သော ငွေများမှရင်း လက်ရှိသဘောတူညီချက်များနှင့် လျော်ညီစွာ ဆက်လက်၍ ပြန်လည် ပေးဆပ်ရမည်။ ထိုနောက် ပေးဆပ်ရန်ကျန်ရှိသေးသော ကြွေးမြီများကို ၁၉၅၂ ခုနှစ် ဧပြီလ ၁ ရက်နေ့ထက် နောက်မကျသော နေ့မှ အစပြု၍ အနှစ်နှစ်ဆယ်မျှ နှစ်စဉ် နှစ်တိုင်း အချီးတူ အရစ်ကျ မြန်မာနိုင်ငံ ယာယီ အစိုးရက ပေးဆပ်ရမည်။ အတိုးကား ပေးရန်မလို။

၄။ (က) ၁၉၄၂ ခုနှစ် ပဌမ မြန်မာ နိုင်ငံ စစ်ပွဲတွင် မြန်မာနိုင်ငံ စစ်တပ်များအား ပေးရသော အထောက်အပံ့နှင့် ထိုစစ်တပ်များတွင် ထမ်းရွက်ကြသော ရာထမ်း မှုထမ်း

များအတွက် တောင်းဆိုရန်ရှိသော စရိတ်များနှင့် (ခ) စစ်တပ် အစည်းအရုံးများကို ဖျက်သိမ်းသဖြင့် မြန်မာ နိုင်ငံ စစ်တပ်များရှိ ရာထမ်း မှုထမ်းများအား အမှုထမ်းခဲ့သည့် အတွက် ပေးရန်ရှိသော ငွေများနှင့် စပ်လျဉ်း၍ ကုန်ကျသည့် စရိတ်ကို ဗြိတိသျှ နိုင်ငံ အစိုးရက မြန်မာနိုင်ငံ ယာယီ အစိုးရအား ဆက်လက် ထုတ်ပေးရန် သဘောတူသည်။

၅။ ဤသဘောတူညီချက်နှင့်တကွ ၁၉၄၇ ခုနှစ်၊ ဩဂုတ်လ ၂၈ ရက်နေ့စွဲပါ ကာကွယ်ရေး သဘောတူညီချက်များက သီးခြား၍ ပြောင်းလဲ သို့မဟုတ် လွှမ်းမိုးလိုက်သည်မှ တပါး ဗြိတိသျှ နိုင်ငံ အစိုးရနှင့် မြန်မာနိုင်ငံ အစိုးရတို့ ချုပ်ဆိုခဲ့ကြသော ၁၉၄၇ ခုနှစ် ဧပြီလ ၃၀ ရက်နေ့စွဲပါ ငွေရေးကြေးရေး သဘောတူညီချက်တွင် ပါဝင်သော ပြဋ္ဌာန်းချက်များသည် အတည် ဖြစ်မြဲ ဖြစ်သည်။

## အချက် ၇

(က) ပြည်ထောင်စု မြန်မာ နိုင်ငံ၏ ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေ အာဏာမတည်မီက နိုင်ငံ၏ အုပ်ချုပ်မှု အခွင့်အာဏာကို သုံးစွဲရာတွင် ပြုခဲ့သော ပဋိညာဉ်များ အနက် အစိုးရ အမှုထမ်းဆိုင်ရာ ပဋိညာဉ်များမှ တပါး ဗြိတိသျှ နိုင်ငံတွင် အိုးအိမ်အခြေအမြစ်ရှိသောဗြိတိသျှလက်အောက်ခံဖြစ်သူသော်၎င်း၊မည်သည့်အရပ်ဒေသတွင် မှတ်ပုံတင်ထားသည်ဖြစ်စေ ဗြိတိသျှ နိုင်ငံတွင် အိုးအိမ် အခြေအမြစ် ရှိသည့် ဗြိတိသျှ လက်အောက်ခံ ဖြစ်သူ အဓိကအားဖြင့် ပိုင်ဆိုင်သော သို့တည်းမဟုတ် စီမံခန့်ခွဲ ကြီးကြပ်အုပ်ချုပ်သော ကုမ္ပဏီသော်၎င်း၊ ပဋိညာဉ်ပြုသူ အဖြစ်ဖြင့် ပါဝင်ခဲ့သော ပဋိညာဉ်များသည်၊ သို့တည်းမဟုတ် ပဋိညာဉ်အရ ပုဂ္ဂိုလ်တဦးဦးဖြစ်စေ၊ ကုမ္ပဏီ တခုခု ဖြစ်စေ၊ အခွင့်အရေးကိုသော်၎င်း၊ အကျိုးကျေးဇူးကိုသော်၎င်း ခံစား နိုင်ခွင့် ရခဲ့သော ပဋိညာဉ်များသည် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ အာဏာတည်သော နေ့မှစ၍ ထိုနေ့တွင် ဖွဲ့စည်းသော မြန်မာနိုင်ငံ ယာယီအစိုးရက ပြုဘိသကဲ့သို့ အကျိုးသက်ရောက်ရမည်။ ထို့ပြင် ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေအာဏာတည်အံ့ဆဲဆဲတွင် မြန်မာနိုင်ငံ ယာယီအစိုးရက လိုက်နာဆောင်ရွက်ရန် ရှိသော ဝတ်တရား အားလုံးနှင့်တကွ ပဋိညာဉ်သဘောအရ ဖြစ်စေ၊ အခြားနည်းအရဖြစ်စေ ထိုအစိုးရက ခံယူရသော တာဝန်အားလုံးတို့သည် အထက်အဆိုပါ ပုဂ္ဂိုလ်တဦးဦးနှင့် သော်၎င်း၊ ကုမ္ပဏီတခုခုနှင့် သော်၎င်း၊ အကျိုးသက်ဆိုင်သည်အထိ မြန်မာ နိုင်ငံ ယာယီ အစိုးရ အပေါ် သို့ သက်ဆင်း ကျရောက်ရမည်။

(ခ) ပြည်ထောင်စု မြန်မာ နိုင်ငံ၏ ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေ အာဏာမတည်မီက မြန်မာနိုင်ငံရှိ ပုဂ္ဂိုလ်တဦးဦး၌ သော်၎င်း၊ အာဏာပိုင် တဦးဦး၌ သော်၎င်း အပ်နှင်း ထားခြင်း ခံရသော ပစ္စည်းကို ဖြစ်စေ၊ ထိုပစ္စည်းဆိုင်ရာ အကျိုး သက်ဆိုင်ခွင့်ကို ဖြစ်စေ၊ ထိုရက် မတိုင်မီက ပုဂ္ဂိုလ် တဦးဦးသော်၎င်း၊ အာဏာပိုင် တဦးဦးသော်၎င်း ပါဝင် ချုပ်ဆိုသော ပဋိညာဉ် တခုခုရှိ အကျိုးခံစားခွင့်ကို ဖြစ်စေ၊ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေသစ် အာဏာတည်ပြီးသည့်နောက် မြန်မာ နိုင်ငံ ယာယီအစိုးရသို့သော်၎င်း၊ နောက်ဆက်ခံသော မြန်မာနိုင်ငံအစိုးရသို့သော်၎င်း၊ လွှဲပြောင်းသောအခါ၊ သို့မဟုတ် အပ်နှင်းသောအခါတွင် ဖော်ပြထားသော ဂုဏ်အခြင်းအရာ အဆင့် အတန်းရှိသည့် ပုဂ္ဂိုလ် တဦးဦး၊ သို့မဟုတ် ကုမ္ပဏီ တခုခုအတွက် ယခင်က ပေါ်ပေါက်ခဲ့၍ တည်ဆဲလည်း ဖြစ်သော အခွင့်အရေးများကို ထောက်ထားငဲ့ညှာလျက်သာ ထိုသို့ လွှဲပြောင်းခြင်း၊ သို့မဟုတ် အပ်နှင်းခြင်းကို ပြုရမည်။

## အချက် ၈

အစိုးရ နှစ်ဦးနှစ်ဘက် ကြေနပ်နှစ်သက်လောက်သော ကူးသန်း ရောင်းဝယ်ရေးနှင့် ရေကြောင်းခရီး သွားလာရေးစာချုပ်ကို စောနိုင်သမျှစောစွာ ချုပ်ဆိုရန် ဆုံးဖြတ်ပြီး ဖြစ်သဖြင့်၊ ဤစာချုပ်ကို ချုပ်ဆိုကြသော အစိုးရတို့သည် ဤစာချုပ် အတည်ဖြစ်သော နေ့ရက်မှ စ၍၊ ၂ နှစ်မျှသော ကာလအပိုင်းအခြား အတွက်ဖြစ်စေ၊ အထက်ပါ ကူးသန်း ရောင်းဝယ်ရေးနှင့် ရေကြောင်းခရီး သွားလာရေး စာချုပ်ကို ချုပ်ဆို လက်မှတ်ရေးထိုးပြီးသည့် တိုင်အောင် ဖြစ်စေ၊ ဤစာချုပ်၌ ပူးတွဲပါရှိသော အလဲအလှယ် မှတ်ချက်များရှိ အမှတ် ၁၊ ၂၊ ၃ တို့တွင် သဘောစေတနာထားရှိသည့် အတိုင်း ကူးသန်းရောင်းဝယ်မှုနှင့် ပတ်သက်သည့် ဆက်ဆံမှုတို့ကို ဆောင်ရွက်ရန် သဘော တူညီကြပြီး ဖြစ်သည်။ သို့ရာတွင် စာချုပ် ချုပ်ဆိုသူ တဦးဦးက ဤစာချုပ် အတည်ဖြစ်သော နေ့မှ စ၍ ၆ လ ကုန်ဆုံးပြီးနောက် တနေ့နေ့တွင် အဆိုပါ မှတ်ချက်များ၌ ဖော်ပြထားသော ဆောင်ရွက်အပ်သည့် အမှုကိစ္စများကို ပြီးဆုံး ရပ်စဲစေရန် ၃ လ ကြိုတင် အကြောင်း ကြားနိုင်သည်။

## အချက် ၉

ဤစာချုပ်ကို ချုပ်ဆိုကြသော အစိုးရတို့သည် လက်ရှိနည်းစနစ်အတိုင်း လေကြောင်းစာ ပို့ဆောင်ရေးနှင့် ငွေလွှဲဆိုင်ရာကိစ္စများ ပါဝင်သည့် စာပို့ဆောင်ရေး လုပ်ငန်းကို ဆက်လက် ဆောင်ရွက်ထားရှိစေရန် သဘောတူကြသည်။ သို့ရာတွင် အသေးစိတ် ဆောင်ရွက်အပ်သော အချက် အလက်များတွင် အပြောင်းအလဲ ပြုရန် လိုအပ်ပါက၊ စာပို့ဆိုင်ရာ အုပ်ချုပ်ရေး အရာရှိအချင်းချင်းတို့က စီမံ ဆောင်ရွက်နိုင်သည်။

### အချက် ၁၀

မြန်မာနိုင်ငံတွင် ဗြိတိသျှအကျိုးတူနိုင်ငံစုနှင့်အင်ပါယာတို့၏ စစ်သင်းချိုင်း မြေများနှင့် (သို့မဟုတ်) စစ်သင်းချိုင်းများကို ထိန်းသိမ်း စောင့်ရှောက်ရန် အရေးနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ ယာယီအစိုးရသည် အင်ပါယာ စစ်သင်းချိုင်းကော်မီရှင်အဖွဲ့၌ ပါဝင်သော အစိုးရများနှင့် စာချုပ် ချုပ်ဆိုစေ့စပ်ရန် သဘောတူသည်။ ထိုသို့ မစေ့စပ်မီ ကာလတွင် ထိုစစ်သင်းချိုင်းမြေများနှင့် (သို့မဟုတ်) စစ်သင်းချိုင်းများနှင့် စပ်လျဉ်း၍ အင်ပါယာ စစ်သင်းချိုင်းကော်မီရှင်အဖွဲ့ကိုသာလျှင် အာဏာပိုင်ဟု အသိအမှတ်ပြုရန် သဘောတူသည်။ ထိုပြင် ကော်မီရှင်အား ဤစာချုပ်၌ ပူးတွဲပါရှိသော အလဲအလှယ် မှတ်ချက်များရှိ အမှတ် ၄ နှင့် ၅ ၌ ဖော်ပြထားသည့် အခွင့်အရေးများကို ပေးအပ်ရန်လည်း သဘောတူသည်။

### အချက် ၁၁

လေကြောင်း သယ်ယူသွားလာရေးနှင့် စပ်လျဉ်း၍ သဘောတူညီချက်ကို ချုပ်ဆို၍ မပြီးသေးမီ ကာလတွင် ဤစာချုပ်ကို ချုပ်ဆိုကြသော အစိုးရတို့သည် လေကြောင်း သယ်ယူသွားလာရေးကိစ္စများ၌ ယခင်ကကဲ့သို့ပင် အချင်းချင်း ပြုမူ ကျင့်ဆောင်မည်ဟု သဘောတူကြသည်။ သို့ရာတွင် ဤစီမံချက်ကို တဦးဦးက ၆ လကြိုတင် အကြောင်းကြားခြင်းဖြင့် ပြီးဆုံးစေနိုင်သည်။

### အချက် ၁၂

ဤစာချုပ်ကို ချုပ်ဆိုကြသော အစိုးရတို့သည် အခွန်နှစ်ထပ်နှစ်လီ ထမ်းဆောင်ရခြင်းကို ရှောင်ရှားနိုင်စေရန် သဘောတူညီချက် တခုကို စောနိုင်သမျှ စောစွာ ချုပ်ဆိုရန် သဘောတူကြသည်။

### အချက် ၁၃

ကမ္ဘာ့ကုလသမဂ္ဂ၏ ချာတာစာချုပ်အရသော်၎င်း၊ ထိုချာတာ စာချုပ်ရှိအချက် ၄၃ ချက်အရချုပ်ဆိုသော အထူးသဘောတူညီချက်များအရသော်၎င်း၊ စာချုပ် ချုပ်ဆိုကြသူများအနက် တဦးဦးသို့ သက်ဆင်း ကျရောက်သော သို့တည်းမဟုတ် သက်ဆင်းကျရောက်နိုင်သော အခွင့်အရေးများနှင့်ဝတ်တရားများကို ဤစာချုပ်သည်အကျိုးယုတ်စေရန်မရည်ရွယ်၊ အကျိုးယုတ်စေမည်လည်း မဟုတ်။

### အချက် ၁၄

ဤစာချုပ် အရ ဆောင်ရွက်ခြင်းနှင့် သော်၎င်း၊ ဤစာချုပ်ကို အဓိပ္ပါယ် ကောက်ယူခြင်းနှင့် သော်၎င်း စပ်လျဉ်း၍ သဘောကွဲလွဲချက် ပေါ်ပေါက် လာခဲ့သော်၊ ထိုပြင် သဘောကွဲလွဲချက်ကို စာချုပ် ချုပ်ဆိုသူများသည် တိုက်ရိုက်စေ့စပ်မှုဖြင့် ဖြေရှင်းရန် ပျက်ကွက်ခဲ့သော် ထိုသဘောကွဲလွဲချက်များကို စာချုပ်ချုပ်ဆိုသူများက အခြားနည်းဖြင့် ဖြေရှင်းရန် သဘောမတူလျှင် ပြည်ထောင်ချင်းချင်း တရားခုံတော်သို့ ထောက်လှမ်း မေးမြန်းရမည်။

### အချက် ၁၅

လက်ခံအတည်ပြုရေး စာချွန်တော်များကို လဲလှယ်ပြီးသည်နှင့်တပြိုင်နက် ဤစာချုပ်ကို လက်ခံ အတည်ပြုရမည်။ ထိုပြင် ဤစာချုပ်လည်း အတည်ဖြစ်လာရမည်။ အဆိုပါ လက်ခံအတည်ပြုရေး စာချွန်တော်များ လဲလှယ်ခြင်းကို ဗြိတိသျှနိုင်ငံတွင် မြန်မာနိုင်ငံ လွတ်လပ်ရေးအတွက် တင်သွင်းရန်ရှိသည့် သင့်လျော်သော ဥပဒေနှင့် လျော်ညီစွာ မြန်မာနိုင်ငံ လွတ်လပ်လာသောနေ့တွင်ပြုရမည်။

သက်သေအဖြစ်ဖြင့် အထက်အမည်ဖော်ပြပါ အခွင့်အရေး အာဏာပိုင်ပုဂ္ဂိုလ်တို့သည် ဤစာချုပ်တွင် လက်မှတ်ရေးထိုး၍ မိမိတို့၏ တံဆိပ်များကို ခပ်နှိပ်ကြပြီးဖြစ်သည်။

၁၉၄၇ ခုနှစ် အောက်တိုဘာလ ၁၇ ရက်နေ့တွင် ဤစာချုပ်မူ နှစ်စောင်ကို လန်ဒန်မြို့တော်၌ ပြုလုပ် ပြီးစီးသည်။

(ပုံ) ကလီမင့်ရစ်ချတ် အက်တလီ
(ပုံ) သခင်နု

**နူးရန်ဗာ့ဂ်မြို့။** ။နူးရန်ဗာ့ဂ်မြို့သည် ဂျာမနီတောင်ပိုင်း ဗာဗေးရီးယားပြည်နယ်အတွင်းရှိ ဒုတိယအကြီးဆုံး မြို့တမြို့ဖြစ်သည်။ အင်္ဂလိပ်တို့က ထိုမြို့ကို နျူးရမ်းဗပ်မြို့ဟုလည်း ခေါ်သည်။ မျူးနစ်မြို့၏ မြောက်ဖက် ၉၂ မိုင်ခန့် အကွာတွင် ပေ့ဂနစ် မြစ်ကမ်းပေါ်၌ တည်ရှိ၏။ ဒုတိယ ကမ္ဘာစစ်ကြီးပြီးသည့်အချိန်အထိ နူးရန်ဗာ့ဂ်မြို့သည် စက်မှုလုပ်ငန်းဆိုင်ရာ အချက်အခြာမြို့ကြီးဖြစ်ခဲ့သည်။ သံထည်အမျိုးမျိုး၊စက်ကရိယာအမျိုးမျိုးနှင့် လျှပ်စစ်ပစ္စည်းဆိုင်ရာ လုပ်ငန်းကြီးများရှိသည်။ ကလေးကစားစရာများ၊ ခဲတံ၊ တူရိယာပစ္စည်းအမျိုးမျိုး၊ ဖိနပ်၊ သားရေနယ် ပစ္စည်းများနှင့် အထည်အလိပ်တို့ကို ကြီးကျယ်စွာ လုပ်ကိုင် ရောင်းချ၏။ ဗီယာချက် စက်ရုံကြီးများလည်းရှိ၏။ အလယ်ခေတ် ရဲတိုက်ကြီးများ၊ မြို့ရိုး၊ မျှော်စင်၊ ဘုရားရှိခိုးကျောင်းကြီးများနှင့် ထင်ရှားသည့် အဆောက်အအုံများရှိသောကြောင့် နိုင်ငံသမိုင်းနှင့် ဆက်စပ်၍ ထင်ရှားကျော်စေသော မြို့တမြို့ဖြစ်၏။ စင်စစ်ထိုမြို့သည် ဂျာမန်လူမျိုးတို့၏ ယဉ်ကျေးမှုကို ပြဆိုရာဖြစ်သော ဗဟိုဌာနတခုဖြစ်သည်။ သို့သော် ဒုတိယကမ္ဘာစစ်အတွင်းတွင် ယဉ်ကျေးမှုဆိုင်ရာ အဆောက်အအုံတို့သည်



နူးရန်ဗာ့မြို့၏ သာယာသည့် ရှုခင်းတရပ်



နူးရန်ဗာ့မြို့သည် ဂျာမန်စစ်တရားခံများ ရုံးတင်စစ်ဆေးရာမြို့ဖြစ်ခဲ့၍ ကမ္ဘာ့စစ်သမိုင်းတွင် ထင်ရှားသည်။

ပျက်စီးခဲ့ရ၏။ ထိုမြို့သည် ရှေးဟောင်း မြို့တမြို့ဖြစ်သော်လည်း၊ ၁၀ ရာစုနှစ်၊ ၁၁ ရာစုနှစ်များတွင်မှ ထင်ရှားလာသော မြို့ဖြစ်သည်။ ထိုခေတ်ကစ၍ ကူးသန်းရောင်းဝယ်ရေးနှင့်ယဉ်ကျေးမှုဆိုင်ရာ အချက်အခြာ မြို့ကြီးဖြစ်လာသည်။ နှစ်သုံးဆယ် စစ်ပွဲကြီး ပြီးသည့်နောက်တွင် အခြေအနေပြောင်းလဲ ပျက်စီးခဲ့ရာမှ ၁၈၀၆ ခုနှစ်တွင် ဗာဗေးရီးယားလက်အောက်ခံမြို့ဖြစ်လာ၏။ ၁၉၃၃ ခုနှစ်မှစ၍နာဇီပါတီ၏ကြီးစိုးလွှမ်းမိုးရာဌာနဖြစ်ခဲ့သည်။ ၁၉၄၅ ခုနှစ်တွင် မဟာမိတ်တပ်များ ဝင်ရောက်၍ သိမ်းပိုက်ခဲ့၏။ ထိုမြို့၏လူဦးရေသည် ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၃၉၇,၀၀၀ ယောက်ဖြစ်သည်။ ဒုတိယကမ္ဘာစစ်တွင် ရက်စက်ကြမ်းကြုတ်စွာ ပြုမူခဲ့သော ဂျာမန် စစ်တရားခံများကို ထိုမြို့၌ ၁၉၄၅-၄၆ ခုနှစ်တွင် ရုံးတင် စစ်ဆေးခဲ့သဖြင့် ကမ္ဘာ့ စစ်သမိုင်းတွင် ထင်ရှားသော မြို့တမြို့ဖြစ်လာလေသည်။

နေ့။ ။နေ့ဟူသော အချိန်တာတွင် ဆိုလာနေ့နှင့် ဆိုက်ဒီးရီးယဲနေ့ဟူ၍ ၂ မျိုးရှိသည်။ ဆိုလာနေ့ဟူသည်မှာ နေကို အကြောင်းပြုထားသော နေ့ဟူ၍၎င်း၊ဆိုက်ဒီးရီးယဲနေ့သည် ကြယ်ကို အကြောင်းပြုထားသောနေ့ဟူ၍၎င်း အဓိပ္ပါယ်ပေါက်သည်။

ဆိုလာနေ့မှာ ပထမနေမွန်းတည့်ချိန်မှ နောက်တကြိမ်နေမွန်းတည့်ချိန်အထိ ကြာသောအချိန်ဖြစ်သည်။ သို့ရာတွင် ဆိုလာနေ့ တနေ့နှင့်တနေ့သည်မတူချေ။ တနှစ်အတွင်းပြောင်းလျက် ရှိသောကြောင့်၊ တနှစ်လုံးတွင် ဖြစ်သော ဆိုလာနေ့တို့၏ ပျမ်းမျှခြင်းကိုယူ၍ ဆိုလာနေ့၏ အချိန်တာကိုသတ်မှတ်ရသည်။ ပျမ်းမျှ ဆိုလာနေ့ တနေ့၏ အချိန်တာသည် ဆိုက်ဒီးရီးယဲ အချိန်၏ ၂၄ နာရီ ၃ မိနစ် ၅၆.၅၅ စက္ကန့်နှင့် တူညီလေသည်။ တနေ့လျှင် ၂၄ နာရီ တိတိကျကျရှိသော ဆိုလာနေ့ပေါင်း တနှစ်လျှင် လေးနေ့သာရှိသည်။

ဆိုက်ဒီးရီးယဲနေ့မှာ သတ်မှတ် ထားသော ကြယ်တလုံးသည် ကြည့်ရှုသူ၏ မစ်ရစ်ဒီယန်းမျဉ်းခေါ် မွန်းတည့်မျဉ်းကို ပဌမအကြိမ်ဖြတ်သည်မှစ၍ နောက်တကြိမ်ဖြတ်သည်အထိ ကြာသော အချိန်တာ ဖြစ်သည်။ ဆိုက်ဒီးရီးယဲနေ့တနေ့၏ အချိန်ကာလသည် ပျမ်းမျှဆိုလာနေ့အချိန်၏ ၂၃ နာရီ ၅၆ မိနစ် ၄.၀၉ စက္ကန့်ဖြစ်သည်။ ၂၄ နာရီရှိသော ပျမ်းမျှ ဆိုလာ နေ့ တနေ့နှင့် စာသော်၊ ဆိုက်ဒီးရီးယဲနေ့တနေ့သည် ဆိုလာနေ့ တနေ့ထက် ၄ မိနစ်ခန့် နည်းသည်။ ထို့ကြောင့် တနှစ်တွင် ဆိုလာနေ့ပေါင်း ၃၆၅ နေ့ရှိ၍ ဆိုက်ဒီးရီးယဲ နေ့ပေါင်း ၃၆၆ နေ့ ရှိလေသည်။

အီကွေတာမျဉ်းတလျှောက်၌ နေ့တာနှင့်ညတာတို့သည် အစဉ်သဖြင့် တူညီ၍ ၁၂ နာရီစီကြာသည်။ အီကွေတာ၏ မြောက်ဖက်နှင့်တောင်ဖက်ကျသော နေရာများတွင်မူ နေ့တာနှင့် ညတာတို့သည် မတူညီကြချေ။ မြောက်ဝင်ရိုးစွန်း၌ မတ်လ ၂၁ ရက်မှ စက်တင်ဘာလ ၂၃ ရက်အထိ ၆ လ လုံးလုံး ကြာသောအချိန်သည် နေကို ရက်ဆက်မြင်ရသော တနေ့တာအချိန်ဖြစ်၍၊ တောင်ဝင်ရိုးစွန်း၌ နေကွယ်လျက်ရှိသော တညတာ အချိန်ဖြစ်သည်။ တဖန်စက်တင်ဘာလ ၂၃ ရက်မှ မတ်လ ၂၁ ရက်အထိ မြောက်ဝင်ရိုးစွန်း၌ ညဥ့်ဖက်ဖြစ်၍၊ တောင်ဝင်ရိုးစွန်း၌ နေ့ဖက်ဖြစ်လေသည်။

ရှေးခေတ်လူများသည် တနေ့တာကို နေထွက်ချိန်မှ နေဝင်ချိန်အထိဟု မှတ်ယူခဲ့ကြသည်။ ယခုအခါ၌မူ တကမ္ဘာလုံးမှာပင် အများသတ်မှတ် သုံးစွဲလျက်ရှိသော တနေ့တာကား ညဥ့်သန်ကောင်အချိန်မှ နောက်တနေ့ ညဥ့် သန်ကောင်အချိန်အထိ ၂၄ နာရီအချိန်ကာလ ဖြစ်လေသည်။

ရက်သတ္တတပတ်လျှင် ခုနစ်နေ့ထား၍၊ ရှေးရောမတို့ လက်ထက်မှ ယခုတိုင် သုံးစွဲလာခဲ့သော နေ့အမည်များမှာ နေကို အစွဲပြု၍ ဆန်းဒေး၊ လကိုအစွဲပြု၍ မန်းဒေး၊ တျူးခေါ် တျူတန်တို့၏ စစ်နတ်ကိုအစွဲပြု၍ တျူစဒေး၊ ဝုဒင်းခေါ် တျူတန်တို့၏ နတ်မှူးကြီးကို အစွဲပြု၍ ဝက်နက်စဒေး၊ သောခေါ် တျူတန်တို့၏မိုးကြိုးနတ်ကိုအစွဲပြု၍ သတ်စဒေး၊ ဝုဒင်း၏မိဖုရား ထိမ်းမြားခြင်းဆိုင်ရာ နတ်သမီးဖြစ်သော ဖရစ်ကို အစွဲပြု၍ ဖရိုက်ဒေး၊ ရောမတို့၏ လယ်ယာ စိုက်ပျိုးရေးဆိုင်ရာနတ် ဆက်တန်ကို အစွဲပြု၍ ဆက်တာဒေးတို့ဖြစ်သည်။

မြန်မာတို့တွင်လည်း တနင်္ဂနွေ၊ တနင်္လာ၊ အင်္ဂါ၊ ဗုဒ္ဓဟူး၊ ကြာသပတေး၊ သောကြာ၊ စနေဟူ၍ ရက်သတ္တတပတ်လျှင် ခုနစ်နေ့ရှိသည်။ ယင်းနေ့များသည် တနင်္ဂနွေ၊ တနင်္လာ၊ အင်္ဂါစသောဂြိုဟ်ခုနစ်လုံးကို အစွဲပြု၍သတ်မှတ်ထားသော နေ့များဖြစ်ပေသည်။

တနင်္ဂနွေဟူသော အမည်မှာ ဒိနကရပါဠိပျက် ဖြစ်သည်။ ကမ္ဘာဦး မူလဘာသာအတိုင်း ဒိနက်ရေ ဆိုသည်ကို 'ဒ' အထက်ရိရှ်ထုံးရကျေ၍၊ ကာလရှည်လျားသော် တနင်္ဂနွေဟူခေါ်ဝေါ် ရေးသားကြသည်။ ကမ္ဘာ့တန်ဆာရာဇမတ္တဏ်နှင့် ယောဂယာတြာနှစ်ကျမ်းတွင် တနင်္ဂနွေဂြိုဟ်မှာ အင်္ဂတိုင်းသား ကဿပအမျိုး၊ ကဿပရသေ့၏ဇနီး အဒိတိတွင် မြင်သောသား တနင်္ဂနွေဖြစ်ကြောင်း ဆိုသည်။

တနင်္လာဟူသော အမည်မှာ ကမ္ဘာ့တန်ဆာ ရာဇမတ္တဏ်ကျမ်းအရ သသလဉ္ဆနော ဟူသော ပါဠိမှ ဆင်းသက်သည်။ ထိုသသလဉ္ဆနောဟူသောပါဠိတွင်အရင်း၌ တည်သော'သ' အက္ခရာ တလုံးကျေနှင့် သလဉ္ဆနာဆိုလိုသည်ကို ကာလရှည်လျားသော်တနင်းနာဟူ၍၎င်း၊တလင်းလာဟူ၍၎င်း၊တနင်းလာဟူ၍၎င်းခေါ်ဝေါ်ရေးသားကြသည်။ ရာဇမတ္တဏ်ကျမ်းနှင့် ယောဂယာတြာနှစ်ကျမ်းတွင် တနင်္လာသည်ယဝနတိုင်း

ခိရောဒမိ နို့ ရည်သမုဒ္ဒရာမှ တနင်္လာဂြိုဟ် ဖြစ်ကြောင်းဆိုသည်။

အင်္ဂါဟူသောအမည်မှာ အင်္ဂါရက ဟူသော ပုဒ်၌ 'ရ' သဒ္ဒါ'က' သဒ္ဒါကျေ၍အင်္ဂါဟူ၍ ဖြစ်လာသည်။ အင်္ဂါဂြိုဟ်သည်မီးကျီးမီးခဲနှင့်အတူနီသောအဆင်းအရောင်ရှိ၍မီးကျီးခဲဟု အနက်ဟောသောအင်္ဂါရကဟူ၍ ခေါ်ဝေါ်ခြင်းဖြစ်သည်။ရာဇမတ္တဏ်ကျမ်းနှင့်ယောဂယာတြာကျမ်းနှစ်ကျမ်းတွင် အင်္ဂါဂြိုဟ်သည် အဝန္တိတိုင်းသား ဘာရဒွါဇအမျိုး၊ ပရမီသွာနတ်မင်း၏ မယား ဓရဏီ မြေစောင့် နတ်သမီးတွင် မြင်သောသား အင်္ဂါဖြစ်ကြောင်းဆိုသည်။

ဗုဒ္ဓဟူးကို မြန်မာဘာသာတွင် ဗုဓ ဟူသော မူလဘာသာကို အစွဲပြု၍ ယခုကာလ ဗုဒ္ဓဟူး ရေးမှတ်ကြသည်ဟု ယူရန်ရှိသည်။ ထို ဗုဓ သဒ္ဒါကား သိခြင်းအနက်ကိုဟောသည်။ အင်းဝမြို့ ညောင်ရမ်းမင်းတရားကြီး၏ ကောင်းမှုဖြစ်သော မဟာမြတ်မုနိ ကျောက်စာတွင် ပိတဟူးနေ့ဟူ၍ ပအက္ခရာဘွင် လုံးကြီးတင်လျက် တဝမ်းပူနှင့်ရေးမှတ်တော်မူသည်။ ကျောက်ဆည်မြို့ ရွှေသာလျောင်း ကျောက်စာမှာလည်း ပိတဟူးနေ့ဟူ၍ရှင်း၊ ရွှေနန်းကျော့ရှင် နန်းတည်ကျောက်စာတွင်လည်း အလားတူ ပိတဟူးနေ့ဟူ၍ရှင်း၊ ပိတ ဟရိသဒ္ဒါတို့ကို အစွဲပြု၍ ရေးသားကြသည်။ ရာဇမတ္တဏ်နှင့် ယောဂယာတြာနှစ်ကျမ်းတွင် ဗုဒ္ဓဟူးဂြိုဟ်သည် ရထြေသ အနွယ် တနင်္လာဂြိုဟ်မင်း၏ မိဖုရား တာရာဒေဝီတွင် ဖွားမြင်သောသား ဖြစ်ကြောင်း ဆိုသည်။

ကြာသပတေး ဟူသောအမည်နှင့် စပ်လျဉ်း၍ကား ရာဇမတ္တဏ်ကျမ်းတွင် ဗြဟပ္ပတိ၊ ဝါစသပတိ စသည်ဖြင့် ပရိယာယ်ဇုပါးပြသည်။ယောဂယာတြာကျမ်းတွင်မူဝါကျပတိကျာသပတေးသည်ဟူ၍ရေးသည်။ ဝါစသဒ္ဒါနှင့် ဝါကျသဒ္ဒါကားစကားကိုဟောသည်။ဝါကျသပတိ၏အနက်မှာစကားကိုအစိုးရသည်ဟူ၏။ မြန်မာဘာသာတွင် ဝါကျသပတိပုဒ်၌ ဝါကျေ၍တိသဒ္ဒါကိုတေးပြုပြီး ကျာသပတေးဟူ၍ခေါ်ဝေါ်ရေးသားကြသည်။ ယခုအခါ ကြာသပတေးဟူ၍ ရရစ်နှင့်ရေးသောကြောင့် ရေးထုံး တွင်လေသည်။ ရာဇမတ္တဏ်၊ ယောဂယာတြာကျမ်းနှစ်ကျမ်းတွင် ကြာသပတေးသည်သိန္ဓုဝတိုင်း အင်္ဂီရသအနွယ် ကျာသပတေးဖြစ်ကြောင်း အဆိုရှိသည်။

သောကြာဟူသော အမည်မှာ သုက္ကဟူသောပုဒ်မှ လာသည်။ သုက္ကသည် ဖြူသော အရောင်အဆင်းကို ဟောသည်။ သောကြာဂြိုဟ်မှာ ဖြူသောအရောင်အဆင်းရှိသောကြောင့် သုက္ကဟူ၍ အမည်သမုတ် ခေါ်ဝေါ်၏။ ပုဂံ၊ အင်းဝ မင်းတို့လက်ထက်တွင် သုက္ကဟူသော ပုဒ်နှင့်အညီ ဉသရနှင့်သုကြာနေ့ဟုရေးမှတ်ကြကုန်သည်။ယခုအခါသဘွင်ရှိသော 'ဉ' သရကို သြပြု၍ ကအက္ခရာတွင် သသံကရိုင်ငအလိုအရ ရရစ်ကာ သောကြာဟု ရေးကြသည်။ သောကြာသည် ရာဇမတ္တဏ်၊ ယောဂယာတြာနှစ်ကျမ်းတွင် ဘောဇကဋတိုင်းသား၊ သေတဗျအမျိုး ဘဂုရသေ့၏မယားသုဇီတာတွင် မြင်သောသား သောကြာဖြစ်ကြောင်းဆိုသည်။

စနေဟူသော အမည်မှာ သနေစရေဟူသော မာဂဓဘာသာပုဒ်မှ ဆင်းသက်သည်။ ယင်းပုဒ်တွင် 'စရ' သဒ္ဒါကျေ၍ သနေဖြစ်သည်။'သနေ' တွင် သကို 'ဆ' ပြု၍ ဆနေဖြစ်သည်။ ထို 'ဆနေ' ပင် ကာလ ရှည်လျားသောအခါ၊ ပထမက္ခရာ စလုံးသို့ ရောက်၍ စနေဟု ရေးသားကြသည်။ ရာဇမတ္တဏ်ကျမ်း ဝတ္တုပရိဓာနအပိုင်းတွင်လည်း၊ သနေ- စနေနေ့၌၊အဘိနဝံ- အသစ်သော၊ ဝတ္ထံ-ပုဆိုးကို၊ဝိဘုတ္တော- ဝတ်သောယောကျ်ားသည်၊ ရောဂါရာတိ ဘယံ- ရောဂါဘေး ရန်သူဘေးသည်၊ ဘဝေ-ဖြစ်ရာ၏ ဟု ဆိုသည်။ သနေစရဟူသောမူလပုဒ်၏ အနက်မှာ ဖြည်းညှင်းစွာ သွားတတ်သည့်အနက် ဖြစ်သည်။ရာဇမတ္တဏ်ကျမ်း၊ ယောဂယာတြာကျမ်းနှစ်ကျမ်းတွင် စနေဂြိုဟ်သည် သောရဋ္ဌတိုင်း ကာရအနွယ်ဖြစ်သော တနင်္ဂနွေနေမင်း၏မယား ယသိဆာယာတွင် မြင်သည့်သား ဇမ္မ အမည်ရှိသော စနေဂြိုဟ် ဖြစ်ကြောင်းဆိုသည်။

**နေ့စဉ်မှတ်တမ်း။** ။နေ့စဉ်မှတ်တမ်းဆိုသည်မှာ လူတဦးတယောက် မိမိကြုံတွေ့ရသော အဖြစ်အပျက်များကို နေ့စဉ်ရေးသားထားသော မှတ်တမ်းပင် ဖြစ်သည်။ တနေ့တာအတွင်း မိမိပြုလုပ်ပြောဆိုခဲ့သည့် အမှုကိစ္စများ၊ ကြုံတွေ့ခဲ့ရသည့်အဖြစ်အပျက်များ၊ ကြားသိခဲ့သည့် အကြောင်းချင်းတများကို တနေ့တာ ကုန်ဆုံးသွားသည့်အခါတွင် မှတ်တမ်း၌ ရေးချမှတ်သားထားပါက နောင်အခါတွင် အလွန်အသုံးဝင်လာသည်ကို တွေ့ရမည်ဖြစ်၏။ ထို့ကြောင့် နေ့စဉ် မှတ်တမ်းကို လူတိုင်းပင် ထားသင့်ကြသည်။ အထူးသဖြင့် လူငယ်များအတွက် နေ့စဉ် မှတ်တမ်းသည် အလွန် အရေးပါအရာရောက်နိုင်သည်။ နှစ်ပေါင်းများစွာ ကုန်လွန်ခဲ့သောအခါ ငယ်စဉ်က ရေးသားခဲ့သော မှတ်တမ်းကို ပြန်လည်ဖတ်ရှုပါက မှတ်တမ်းရှင်သည် မိမိငယ်စဉ်က အဖြစ်အပျက်နှင့် ယခုကြီးမှကြုံတွေ့ရသည့်အဖြစ်အပျက်များကို နှိုင်းရှည့်၍ အသိတရား ဖြစ်ထွန်းနိုင်သည်။ မိမိ၏ စိတ်ဓာတ်အကျင့် စာရိတ္တ စသည့် ကိုယ်ရေးကိုယ်တာ ကိစ္စများသည်ထိုနှစ်များ အတောအတွင်း မည်သို့မည်ပုံ ပြောင်းလဲလာသည်ကိုလည်း ချင့်ချိန် သုံးသပ်နိုင်သည်။

နေ့စဉ်မှတ်တမ်းသည် ပုဂ္ဂိုလ်တဦးနှင့် သက်ဆိုင်သည့်ကိစ္စများကို မှတ်သားထားခြင်းဖြစ်သော်လည်း အခြားသူများအတွက်လည်း ဗဟုသုတဖြစ်စေနိုင်သည်။ ဆယ်မျူယယ်ပီးပစဆိုသူအင်္ဂလိပ်လူမျိုးတဦးသည် ခရစ် ၁၆၆၀ ပြည့်

နှစ်မှ ၁၆၆၉ ခုနှစ်အထိ ကိုးနှစ်တိုင်တိုင် နေ့စဉ် မှတ်တမ်းများကိုရေးသားခဲ့ရာ ယခုအခါ ထိုနေ့စဉ်မှတ်တမ်းကို သမိုင်းဝင် မှတ်တမ်း ကျမ်းတစောင်သဖွယ် ကိုးကား သုံးစွဲနေရပေသည်။ ထိုမှတ်တမ်းများသည် ပီးပစ၏ ကိုယ်ရေးကိုယ်တာ အကြောင်း ထုပ္ပတ်ကို ထင်ရှားစွာ ဖော်ပြထားရုံမျှမက သူ့ခေတ်အခါက လူတို့၏အခြေအနေ ပေါင်းသင်းဆက်ဆံရေး စသည်တို့ကိုပါ ခေတ်ပြကြေးမုံသဖွယ် ထင်လင်းစွာ ဖော်ပြထားသည်ကိုဖတ်ရှုတွေ့မြင်ရပေသည်။ထိုနောက်တွင် နာမည်ကျော် အင်္ဂလိပ် စာရေးဆရာကြီး ဂျွန်နသန်ဆွစ်နှင့် မက်သဒစ်ဂိုဏ်းခွဲကို စတင်တည်ထောင်ခဲ့သူ ဂျွန်ဝက်စလီတို့သည်လည်း နေ့စဉ် မှတ်တမ်းများကို ရေးရာတွင် အလွန်ထင်ရှားခဲ့သည်။ (ပီးပစ,ဆယ်မျူယယ်။ ဆွစ်,ဂျွန်နသန်။ဝက်စလီ,ဂျွန်—ရှု။)၁၉ ရာစုနှစ်အတွင်း၌ခေတ်စားခဲ့သော နေ့စဉ်မှတ်တမ်းများအနက်ဆာဝေါ် လတာစကော့၊ ဟင်နရီကရက် ရော်ဗင်ဆန်နှင့် အမျိုးသမီး စာရေးဆရာ ဖန်နီဗားနေးတို့၏ မှတ်တမ်းများသည် ထင်ရှားသည်။ ပြင်သစ်နိုင်ငံ၌လည်းမာကီးဒါဒန်းဇိုး(ခရစ် ၁၆၃၈—၁၇၂၀) ရေးသားခဲ့သော နေ့စဉ် မှတ်တမ်းသည် ၁၄ ဆက်မြောက် လူဝီဘုရင်၏ လက်ထက်တွင် ဖြစ်ပျက်ပုံအလုံးစုံကို ဖော်ပြထားခြင်းကြောင့် ခိုင်လုံသော ကျမ်းကိုးအဖြစ် အသုံးပြုကြရလေသည်။ ပက်တီးဒါဗက်ကိုခွန်၏ နေ့စဉ်မှတ်တမ်းသည်လည်း သမိုင်းဆိုင်ရာ အချက်အလက်များကို ရရှိနိုင်သဖြင့် အလွန် တန်ဖိုးရှိလှသော မှတ်တမ်းပင်ဖြစ်သည်။ အခြားနာမည်ကျော် ပြင်သစ်နေ့စဉ် မှတ်တမ်းများမှာ ဇူးလနှင့် အက်ဒမွန်ဒါဂွန်ကူးတို့ ရေးသားခဲ့သည့် မှတ်တမ်းများပင် ဖြစ်သည်။ ထိုမှတ်တမ်းများတွင် ၁၉ ရာစုနှစ်များ အတွင်း ပါရစ်မြို့ရှိ အနုပညာရှင်တို့၏ ကြိုးပမ်းချက်များ အကြောင်း ပါရှိလေသည်။

မြန်မာနိုင်ငံ၌ အထင်ရှားဆုံး နေ့စဉ် မှတ်တမ်းကား ကင်းဝန်မင်းကြီး ရေး မှတ်တမ်းများပင် ဖြစ်သည်။ ကုန်းဘောင်မင်းဆက် မင်းတုန်းမင်းတရားကြီးသည် အင်္ဂလန်ပြည်နှင့် ရာဇမဟာမိတ်အဖြစ် တပြည်နှင့်တပြည် ချစ်ကြည်ရင်းနှီးစွာ ဆက်ဆံနိုင်စေခြင်း အလို့ငှါ ၁၂၃၃ ခုနှစ်တွင် ကင်းဝန်မင်းကြီး ဦးဆောင်သော သံအဖွဲ့ကို အင်္ဂလန်ပြည်သို့ စေလွှတ်ခဲ့၏။ ၁၂၃၅ ခုနှစ်တွင်လည်း ပြင်သစ်နှင့် မဟာမိတ်စာချုပ်ချုပ်ဆိုရန် ကင်းဝန်မင်းကြီးကိုပင် သံကြီးအဖြစ် ခေါင်းဆောင်စေ၍ စေလွှတ်တော်မူခဲ့သည်။ ကင်းဝန်မင်းကြီးသည် ထိုချစ်ကြည်ရေးခရီးစဉ် နှစ်ရပ်လုံး၌ နေ့စဉ်မှတ်တမ်းများကို ရေးသားထားခဲ့လေရာ လန်ဒန်မြို့သွား နေ့စဉ်မှတ် စာတမ်းနှင့် ပြင်သစ်နိုင်ငံသွား နေ့စဉ်မှတ် စာတမ်းဟူ၍ မြန်မာစာပေလောကတွင် အထင်အရှားကျန်ရစ်ခဲ့သည်။ လန်ဒန်မြို့ သွား နေ့စဉ်မတ်စာတမ်းကို ခရစ် ၁၉၀၈ ခုနှစ်တွင် မြန်မာအဆွေ သတင်းစာဆရာ ဦးဘဂွမ်းသည် ပဌမအကြိမ် နှစ်တွဲခွဲ၍ ပုံနှိပ်ခဲ့ဘူးသည်။ ထိုနောက်တဖန် နိုင်ငံတော်အစိုးရ စာပုံနှိပ်စက်မှ ၁၉၅၃ ခုနှစ်တွင် ပဌမတွဲကို ပုံနှိပ်၍ ၁၉၅၄ ခုနှစ်တွင် ဒုတိယတွဲနှင့် လန်ဒန်မြို့သွား မေတ္တာစာ ဆောင်းပါးများကို ပူးတွဲ၍ ပုံနှိပ်ခဲ့သည်။

ကင်းဝန်မင်းကြီးသည် လန်ဒန်မြို့သွား နေ့စဉ်မှတ်တမ်းများကို နေပြည်တော်မှ စတင်ထွက်ခွါသည့်နေ့ ၁၂၃၃ ခုနှစ် တပေါင်းလပြည့်ကျော် ၉ ရက် စနေနေ့မှ အစပြု၍ ရေးမှတ်ခဲ့ရာ ၁၂၃၅ ခုနှစ် ကဆုန်လဆန်း ၆ ရက် သောကြာနေ့တွင် ရတနာပုံ နေပြည်တော်သို့ ပြန်လည် ဆိုက်ရောက်သည်အထိ မှတ်တမ်း တင်ထား၏။ ခရီးစဉ် တလျှောက်တွင် တွေ့မြင်ကြားသိ ဖြစ်ပျက်ပုံအလုံးစုံကို အတိုရုံး၍ စုံလင်စွာ ဖော်ပြထားသည်။အင်္ဂလန်ပြည်သာမကခရီးအကြားတွင်ဝင်ရောက်လှည့်လည်ခဲ့သော အီဂျစ်နိုင်ငံ၊ ဣတလီနိုင်ငံ၊ ပြင်သစ်နိုင်ငံတို့ရှိ မြို့ကြီးများနှင့် ထူးဆန်းစွာ သိမြင်ခဲ့သမျှကို ဒေသန္တရဇဟုသုတဖြစ်ဖွယ်ရာဖော်ပြထားသဖြင့်နိုင်ငံခြားသို့အရောက်အပေါက်နည်းလှသော ထိုခေတ်အတွက် အဖိုးတန် ကျမ်းတစောင်ကဲ့သို့ တန်ဖိုးရှိလှသည်။ ထိုခေတ်အခါက အနောက်နိုင်ငံသားတို့၏ ယဉ်ကျေးမှုနှင့် ပေါင်းသင်းဆက်ဆံရေး အခြေအနေ၊အနောက်နိုင်ငံများ၏ နိုင်ငံရေး အခြေအနေ စသည်တို့ကိုပါ ထိုမှတ်တမ်းများတွင် ကောက်နုတ် လေ့လာနိုင်သည်။ မင်းတုန်းမင်းတရားကြီးသည် အနောက်တိုင်းစံနစ်ကိုယူ၍ သံတမန်စေလွှတ်တော်မူခြင်းနှင့် မြန်မာနိုင်ငံသည် နိုင်ငံခြားနှင့် မည်သို့မည်ပုံ ဆက်ဆံကူးလူးခဲ့သည်တို့ကို ထိုနေ့စဉ်မှတ်တမ်းများက အထောက်အထား ပြလျက်ရှိ၏။ ထိုခေတ်ကမြန်မာနိုင်ငံ၌ မရှိသေးသော နိုင်ငံခြားဖြစ် စက်ကရိယာ၊သိပ္ပံပညာရပ်ဆိုင်ရာ အချက်အလက်တန်ဆာပလာ စသည်များကို မြန်မာဘာသာပြန်ဆို၍ရင်း၊ မြန်မာအသံလှယ်ယူ၍ရင်း ဖော်ပြထားသည်မှာ အလွန်အဖိုးထိုက်တန်လှပေသည်။ မြန်မာနိုင်ငံမှ ပေးပို့လိုက်သော စာပါ အကြောင်းရပ်များကိုလည်း နေ့စဉ် မှတ်တမ်း၌ ဖော်ပြထားသဖြင့် ထိုအချိန်က မြန်မာနိုင်ငံတွင် ဖြစ်ပျက်နေပုံ အကြောင်းချင်းတကိုလည်း သိရ၏။ ထိုမှတ်တမ်းများကို ဖတ်ရှု၍ ထိုခေတ်က မြန်မာစာပေ အသုံးအနှုန်းနှင့် အယူအဆများကိုလည်း လေ့လာစေနိုင်သေးသည်။

ကင်းဝန်မင်းကြီး၏ မှတ်တမ်း ရေးပုံ ရေးနည်းမှာလည်း စေ့စပ်သေချာလှသည်။ ပမာဆောင်ရလျှင် လန်ဒန်မြို့သွား နေ့စဉ်မှတ်စာတမ်းပဌမတွဲစာမျက်နှာ ၁၃၀ တွင် "သက္ကရာဇ် ၁၂၃၄ ခုနှစ် ပဌမဝါဆိုလဆန်း ၁ ရက်နေ့၊ အင်္ဂလန်နိုင်ငံ လန်ဒန်မြို့နယ် ဒိုပါးမြို့သို့ ဆိုက်လျှင်ဆိုက်ခြင်း အရေးပိုင်အရာနှင့် နိုင်ငံတော်တွင်နေထိုင်ဘူးသူ မေဇာမက္ကမေဟန် အကြီးပြုလုပ် အင်္ဂလိပ် အရာရှိတို့ လာရောက် နိုင်ငံခြား

သံကြီးတမန်ကြီးတို့ကို ကြိုယူသည်နည်း အမြောက် ၁၉ ချက်ပစ်ဖောက် နှုတ်ဆက်ပြီးလျှင် တန်းလမ်းတိုက်အိမ်များမှာ အမျိုးဘာသာ အလံမျိုးစုံတင်ပြစိုက်ထူ၍ ဒိုပါးမြို့က လန်ဒန်မြို့ရောက် မီးရထားနှင့် ကြိုယူ'' ဟူ၍ ရေးသားထားသည်ကို ထောက်ရှုသိသာနိုင်သည်။

ပြင်သစ် နိုင်ငံသွား နေ့စဉ်မှတ် စာတမ်းကိုမူ မြန်မာ အဆွေ့ သတင်းစာဆရာ ဦးဘဂွမ်းသည် လန်ဒန်မြို့သွား နေ့စဉ်မှတ်စာတမ်း ဒုတိယတွဲ၌ စာ ၁၇ မျက်နှာခန့်မျှသာ ထည့်သွင်းပုံနှိပ်ခဲ့ဘူးသည်။ မြန်မာနိုင်ငံတော်အစိုးရ စာပုံနှိပ်စက်မှ ယင်းမှတ်တမ်း တစောင်လုံးနှင့်တကွ မေတ္တာစာဆောင်းပါးတို့ကို ပူးတွဲ၍ ခရစ် ၁၉၂၆ ခုနှစ်တွင် တကြိမ်၊ ၁၉၃၉ ခုနှစ်တွင်တကြိမ် ပုံနှိပ် ထုတ်ဝေခဲ့သည်။ ကင်းဝန်မင်းကြီးသည်ထိုနေ့စဉ်မှတ်စာတမ်းကို ၁၂၃၅ ခုနှစ်တပေါင်းလပြည့်ကျော် ၅ ရက်နေ့ နေပြည်တော်မှ ထွက်ခွါသည်က အစပြု၍ ရေးမှတ်ထားရာ ၁၂၃၆ ခုနှစ် သီတင်းကျွတ်လဆန်း ၁ ရက်နေ့တွင် အပြီးသတ်ထားလေသည်။ လန်ဒန်သွားနေ့စဉ်မှတ် စာတမ်းမှာကဲ့သို့ပင် နေပြည်တော်မှ မထွက်ခွါမီဆောင်ရွက်ခဲ့သည့် အကြောင်းအရာ၊ လမ်းခရီးတလျှောက် တွေ့ကြုံဆောင်ရွက်ရသည့် အမှုကိစ္စများနှင့် ပြင်သစ်နိုင်ငံတွင် ပြုလုပ်ခဲ့ပုံ အလုံးစုံအပြင် ဒေသန္တရ ဗဟုသုတ အစုံကို ထိုနေ့စဉ်မှတ်တမ်းများ၌ ဖော်ပြထား၏။ မိမိတွေ့မြင်သမျှကိုလည်း စေ့စပ်စုံလင်စွာ မေးမြန်း၍ မှတ်တမ်းတင်ထားခဲ့သည်။ပုံပမာ-၁၂၃၆ ခုနှစ်ဒုတိယဝါဆိုလဆန်း ၁ ရက် အင်္ဂါနေ့တွင် မာဆေးမြို့သို့ သွားရောက်၍ အာရမန် ဆီကြိတ်စက်ရုံ၊ဆိတ်ရေလုပ်ဆောင်သည့် စက်ရုံ၊ ဖယောင်းတိုင်ထုတ်လုပ်သောစက်ရုံ စသည်တို့ကို ကြည့်ရှုခဲ့ရာတွင် စက်ရုံမှ လုပ်ငန်းအဆင့်ဆင့်လုပ်ဆောင်ပုံများကို အသေးစိတ်ဖော်ပြထားသဖြင့် ထိုမှတ်တမ်းများကို ဖတ်ရှုရခြင်းကြောင့် ဗဟုသုတရနိုင်မည်မှာ မလွဲချေ။ (ကင်းဝန်မင်းကြီး — ရှု။)

နေ့ည ညီချိန်နှင့် ယဉ်စွန်းချိန်။ ။တနှစ်လျှင် နေ့တာနှင့်ညတာ ညီမျှသောအချိန် နှစ်ကြိမ်ရှိသည်။ ထိုအချိန်သည် မတ်လ ၂၁ ရက်နေ့လောက်တွင်တကြိမ်၊စက်တင်ဘာလ ၂၂ ရက်နေ့လောက်တွင် တကြိမ် ကျရောက်သည်။ ပဌမအကြိမ်ကို နွေကူး နေ့ည ညီချိန်ဟူ၍ရင်း၊ ဒုတိယအကြိမ်ကို ဆောင်းကူး နေ့ည ညီချိန်ဟူ၍ရင်း ခေါ်ကြသည်။ နေ့နှင့်ည ညီသောအချိန်များတွင်၊ နေသည် အီကွေတာပေါ်တွင် တည်ရှိသည်။ တနည်းအားဖြင့် ဆိုသော်၊ နေမှလာသော အလင်းတန်းတို့သည် ထိုအချိန်များ၌ ကမ္ဘာဝင်ရိုးနှင့် ထောင့်မတ်ပြုလျက် ကမ္ဘာမြေ မျက်နှာပြင်ပေါ်သို့ ကျရောက်ကြလေသည်။

နေသည် ကမ္ဘာ၏အီကွေတာမျဉ်းကြောင်းပေါ်၌ တည့်တည့်မတ်မတ် ရောက်ရှိ နေရာမှ မြောက်သို့ရင်း၊ တောင်သို့ရင်း လမ်းကြောင်းပြောင်းသည်တွင်၊ ထိုလမ်းကြောင်းတို့၏ အစွန်ဆုံးသို့ ရောက်သောအခါ၊ ရှေ့သို့ ဆက်လက်ပြောင်းရွှေ့ခြင်း မပြုဘဲ ရပ်တန့် သွားသည်ဟု ထင်မြင်ရသည်။ ဤသို့ အီကွေတာမှ ယွန်းရာလမ်းကြောင်း အစွန်းသို့ ရောက်ရှိချိန်ကို ယဉ်စွန်းချိန်ဟု ခေါ်သည်။ ယဉ်စွန်းချိန်သည်လည်း တနှစ်လျှင် နှစ်ကြိမ်ရှိသည်။ နွေယဉ်စွန်းချိန်သည် ဇွန်လ ၂၁ ရက်နေ့လောက်တွင် ဖြစ်၍၊ ထိုအချိန်တွင် ကမ္ဘာ၏ အီကွေတာသည် နေကိုလှည့်ပတ်သွားရာ စက်ဝိုင်းရှည်ပုံလမ်းကြောင်းပေါ်၌ နေနှင့် အဝေးဆုံးနေရာသို့ရောက်ရှိနေသည်။ ဆောင်းယဉ်စွန်းချိန်မှာ ဒီဇင်ဘာလ ၂၂ ရက်နေ့လောက်တွင် ဖြစ်၍၊ ထိုအချိန်တွင် ကမ္ဘာ၏ အီကွေတာသည် နေနှင့် အနီးဆုံး နေရာသို့ ရောက်ရှိ နေလေသည်။ ကမ္ဘာလုံး မြောက်ဖက်ခြမ်း၌ နွေယဉ်စွန်းချိန်တွင် နေ့တာအရှည်ဆုံးဖြစ်၍၊ဆောင်းယဉ်စွန်းချိန်တွင် ညတာအရှည်ဆုံးဖြစ်၏။ကမ္ဘာလုံး တောင်ဖက်ခြမ်း၌မူ အထက်ပါသဘာဝကို ပြောင်းပြန် မှတ်ယူရသည်။

# နေ

**စွမ်းအင် ဖြည့်တင်း သူရိန်မင်း**

နေစကြဝဠာ၏ ဗဟိုအချက်အခြာ။ နေ၏ကြီးမားသော စွမ်းအင်များ။ အလင်းရောင်နှင့် အပူဓာတ်ကို ပေးသည် သာမက ဥတုရာသီနှင့် ဂြိုဟ်အသွားအလာများကိုပင် ထိန်းသိမ်းနိုင်ခြင်း စသည်တို့ပါဝင်သည်။

နေ။ ။အနောက်နိုင်ငံရှိ နက္ခတ်ပညာရှင်များ၏ အလိုအရ၊ နေသည် ကြယ်တခုပင် ဖြစ်သည်။ (ကြယ် — ရှု။) ကောင်းကင် ဗိမာန်များတွင် နေသည် အတောက်ပဆုံးဖြစ်၍၊ နေစကြဝဠာ၏ အလယ်ဗဟို၌ရှိသည်။ ကမ္ဘာမြေကြီးနှင့် အခြားဂြိုဟ်များသည် နေကို လှည့်ပတ်၍ နေကြသည်။ အကယ်၍ နေသည် ခုနစ်စဉ်ကြယ်စုထဲတွင် ပါရှိသော ကြယ်များလောက် ကမ္ဘာမြေမှ ကွာဝေးလျှင် အဝေးကြည့်မှန်ပြောင်းကို အသုံးမပြုဘဲ နေကိုမြင်ရမည် မဟုတ်ပေ။ ယခုအတိုင်း တည်ရှိနေသော နေ၏ အကွာအဝေး၌ ခုနစ်စဉ်ကြယ်တွင် အပါအဝင်ဖြစ်သည့် ကြယ်များ တည်ရှိကြလျှင်၊ ထိုကြယ်တို့သည် နေထက်အဆပေါင်း ၁,၄၀၀ ခန့်ပို၍လင်းကြပေမည်။ ကမ္ဘာမြေပေါ်ရှိ သက်ရှိ ဟူသရွေ့သည် နေ၏

အပူနှင့် အလင်းကို မှီခိုနေကြရသဖြင့် ကောင်းကင် ဗိမာန်တို့တွင် နေသည် အရေးအကြီးဆုံး ဖြစ်ပေသည်။

နေ၏အချင်းသည် မိုင်ပေါင်း ၈၆၅,၀၀၀ ရှိ၍၊ ကမ္ဘာမြေ၏အချင်းထက် ၁၀၉ ဆ၊ လ၏ အချင်းထက် အဆပေါင်း ၄၀၀ ရှိသည်။ သို့ဖြစ်ပါလျက်နှင့် ကောင်းကင်တွင် နေနှင့်လသည် အရွယ်ချင်းတူသည်ဟု ထင်မှတ်ကြရခြင်းမှာ လသည် နေထက် ကမ္ဘာနှင့် ပို၍နီးသောကြောင့်ပင် ဖြစ်သည်။ နေသည် ကမ္ဘာထက် အဆ သန်းပေါင်းများစွာ ပို၍ ကြီးမားသည်။ သို့သော် နေထက်ပင် အဆ သန်းပေါင်းများစွာ ပို၍ကြီးမားသော ကြယ်များလည်း ရှိသေးသည်။

ကျွန်ုပ်တို့ကမ္ဘာ၌ တွေ့ရသော ဒြပ်စင်မျိုးတို့ကို နေ၌လည်း တွေ့ကြရသည်။ နေ၌ အချို့ဒြပ်စင်များကို ကျွန်ုပ်တို့ကမ္ဘာမှာထက်ပင် ပို၍ များပြားစွာ တွေ့ကြရ၏။ နေထဲရှိ အထင်ရှားဆုံးသော ဒြပ်စင်များမှာ ဟိုက်ဒရိုဂျင်၊ဆိုဒီယမ်၊ မက်ဂနီဇီယမ်နှင့် သံဖြစ်ကြသည်။ ကမ္ဘာမြေ၌ စပက်ထရိုစကုပ်ဖြင့် ကြည့်၍ မတွေ့ရသေးသော ဒြပ်စင် အမြောက်အမြားရှိသေးသည်။ စပက်ထရိုစကုပ်သည် ရောင်ခြည်ကို ခွဲစိတ်နိုင်သော ရောင်စဉ်ကြည့် ကရိယာဖြစ်သည်။ (စပက်ထရမ်နှင့် စပက်ထရိုစကုပ် — ရှု။) ကမ္ဘာမြေပေါ်ရှိ ဒြပ်စင်ဟူသမျှသည် နေထဲ၌ အနည်းနှင့် အများ ရှိမည်ဟု ယူဆရလေသည်။

နေသည် ဓာတ်ငွေ့များဖြင့် ပြီးသည်။ ဓာတ်ငွေ့တို့သည် အလယ်ဗဟို၌ အလွန်တရာ သိပ်သည်း၍ အပေါ်ယံမျက်နှာပြင်၌ အတန်လျော့၍ သိပ်သည်းသည်။ နေ၏ ပျမ်းမျှသိပ်သည်းခြင်းသည် ရေ၏ သိပ်သည်းခြင်းထက် ၁.၄၁ ဆရှိသည်။ ကမ္ဘာမြေကြီး၏ ပျမ်းမျှ သိပ်သည်းခြင်းမှာ ရေ၏ သိပ်သည်းခြင်းထက် ၅.၅ ဆ ရှိသည်။ နေ၏ ထုထယ်နှင့် ကမ္ဘာ၏ ထုထယ်တို့ကို အညီအမျှထား၍ ချိန်ကြည့်လျှင် နေသည် ကမ္ဘာထက် ပေါ့ပါးသည်ဟုဆိုရချိမ့်မည်။ သို့သော် စင်စစ် နေ၏ ထုထယ်မှာ ကြီးမားလွန်းလှရကား၊ ယင်း၏ ဒြပ်ထုသည် ကမ္ဘာ၏ ဒြပ်ထုထက် အဆပေါင်း ၃၃၃,၈၅၀ ပို၍ များသည်။ နေ၏ မျက်နှာပြင်ရှိ ဆွဲအားသည် ကမ္ဘာမြေပြင်ရှိ ဆွဲအားထက် ၂၈ ဆပိုသည်။ အကယ်၍ ကမ္ဘာပေါ်၌ အလေးချိန်ပေါင် ၁၅၀ ရှိသော လူတယောက်ကို နေပေါ်သို့ ယူဆောင်သွားနိုင်လျှင် ထိုသူ၏အလေးချိန်သည် ၂ တန်နီးပါးမျှ လေးလာပေလိမ့်မည်။ နေပေါ်သို့ ရောက်ရှိလာသောထိုသူသည် လေးအားကြီးသဖြင့် မိမိ၏ ခြေလက်များကိုပင် ပင့်မရနိုင်အောင် ရှိလိမ့်မည်။ (အာကာစုနသတ္တိ — လည်းရှု။)

ယေဘုယျအားဖြင့် ဆိုလျှင် နေကို သာမန် မျက်စိဖြင့် ကြည့်၍ မရနိုင်ချေ။ သို့သော် နံနက် နေထွက်ချိန်နှင့် ညနေ နေဝင်ချိန်တို့၌မူ အနီရောင်ထု လုံးကြီးနှင့် တူသော နေကို သာမန်မျက်စိဖြင့် ကောင်းစွာ ကြည့်နိုင်သည်။ အဘယ်ကြောင့်ဆိုသော် ထိုအချိန်၌ နေ၏ တောက်ပသော အလင်းရောင်ကို မြေပေါ်ရှိလေထုကစုတ်ယူထားသောကြောင့် ဖြစ်သည်။ မြင်ရသော ထိုရောင်နီမှာ အပူနှင့် အလင်းကို ပေးသော နေ၏ မျက်နှာပြင်ပင်ဖြစ်သည်။ ထိုမျက်နှာပြင်ကို 'ဖိုတိုစဖီးယား'ဟု ခေါ်သည်။ အဓိပ္ပါယ်မှာ အလင်းရောင်ထုဟူ၏။ ထိုအလင်းရောင်ထု ပေါ်၌ ဓာတ်ငွေ့များ ဖုံးလွှမ်းလျက်ရှိသည်။ ထိုဓာတ်ငွေ့များတွင် အဓိကအားဖြင့် ဟိုက်ဒရိုဂျင်နှင့် ကယ်လဆီယမ်ဓာတ်ငွေ့များ ပါရှိသည်။ ထိုဓာတ်ငွေ့များ၌ တောက်ပသော အနီရောင်ရှိ၍၊ထိုအရောင်ကို နေလုံးဝကြတ်သောအချိန်၌ တွေ့မြင်နိုင်သည်။ နေ လုံးဝကြတ်သည်ကိုသဗ္ဗကြတ်ဟုခေါ်သည်။ (နေလကြတ်ခြင်း — ရှု။) ဤအနီရောင် အလွှာကို 'ခရိုမိုစဖီးယား' ဟုခေါ်သည်။ အဓိပ္ပါယ်မှာ နီရောင်ထုဟူ၏။ ခရိုမိုစဖီးယားထဲ၌ အလွန်တရာကြီးမားသော ဟိုက်ဒရိုဂျင်ဓာတ်ငွေ့ မီးတောက်မီးလျှံများ ပေါက်ကွဲလျက် ရှိကြသည်။ ဤမီးလျှံများသည် ရုတ်ခြည်း မိုင်ပေါင်း ရာပေါင်းများစွာ ကျယ်ပြန့် သွားတတ်ကြသည်။ ခရိုမိုစဖီးယား အပြင်ဖက်၌ အခြား ဓာတ်ငွေ့ထုလွှာ တခု ရှိသေးသည်။ ထိုဓာတ်ငွေ့ထုလွှာကို 'ကိုရိုးနား' ဟုခေါ်သည်။ သာမန်အားဖြင့် ထိုအပိုင်းကို မမြင်ရသော်လည်း၊နေသဗ္ဗကြတ်ချိန်၌ မြင်ရသည်။ ထိုအချိန်၌ ကိုရိုးနားသည် စိမ်းဖန့်ဖန့်အရောင်ရှိ၍၊ နေမှ မိုင် သန်းပေါင်းများစွာ ဝေးကွာသောနေရာ၌ "အလင်းစက်ဝန်းကြီး" သဏ္ဍာန် ဖြစ်နေသည်။

အဝေးကြည့် မှန်ပြောင်း ကောင်းကောင်းဖြင့် နေကို ကြည့်လျှင် ဖိုတိုစဖီးယားထဲ၌ အမည်းရောင် အစက်ပြောက်များကို တွေ့ရသည်။ ယင်းတို့ကို "နေကွက်" ဟုခေါ်သည်။ တခါတရံ မှိုင်းခံထားသော မှန်ချပ်ကာ၍ နေကို ကြည့်လျှင် နေကွက်များကို မြင်နိုင်သည်။ တခါတရံ နေကွက်များကို ဝင်အံ့ဆဲဆဲ အနီရောင်နေလုံးပေါ်တွင် သာမန် မျက်စိဖြင့် တွေ့မြင်နိုင်သည်။ သိပ္ပံကဝိကြီး ဂယ်လီလေအိုသည် ၁၆၁၀ ခုနှစ်တွင် မိမိကိုယ်တိုင် တီထွင်သော အဝေးကြည့် မှန်ပြောင်းဖြင့် နေကွက်များကို တွေ့မြင်ခဲ့လေသည်။ ထိုနေကွက်များသည် နေ၏ မျက်နှာပြင်ကို ကန့်လန့်ဖြတ်၍ ရွေ့ရှားနေပုံကို တွေ့ရသဖြင့် နေသည် ကျွန်ုပ်တို့ ကမ္ဘာကဲ့သို့ ဝင်ရိုးပေါ်၌ လည်ပတ်နေရမည်ဟု ဂယ်လီလေအို ယူဆခဲ့သည်။ အမှန်စင်စစ် နေကွက်များသည် နေ၏ လေထုထဲရှိ အလွန်တရာ ပြင်းထန်သောမုန်တိုင်းများ၏ ဗဟိုချက်များ ဖြစ်ကြသည်။ သေချာစွာ လေ့လာ ကြည့်သောအခါ၊ ယင်းတို့သည် လျှပ်စစ်မှုန်များဖြင့် ပြီး၍ ပတ်ချာလည်လျက် ရှိသော ဓာတ်ငွေ့များ ဖြစ်ကြောင်း သိရသည်။ နေကွက်တိုင်း၌ သံလိုက်စက်ကွင်းများ ပါရှိသည်။ အများအားဖြင့် နေကွက်များ

သည် စုံတွဲလျက် ဖြစ်ကြသည်။ အကယ်၍ နေကွက်တခု၌ သံလိုက်ဓာတ် အဖိုဝင်နေလျှင် အခြားနေကွက်၌ သံလိုက်ဓာတ်အမ ဝင်နေသည်။ ဤသဘောမှာ သံလိုက်၌ အဖိုတိုင် အမတိုင် ရှိသော သဘောပင် ဖြစ်သည်။

နေကွက်များ ဖြစ်ပေါ်ပုံကို နက္ခတ်ပညာ ရှင်တို့သည် နှစ်ပေါင်း များစွာ လေ့လာ ခဲ့ပြီးနောက်၊ အောက်ပါအတိုင်း သိရှိကြ၏။ တနှစ်တွင် ခတ္တရသော နေကွက် အရေအတွက်ကို နောက် ၁၁ နှစ်ခန့် ကြာပြီးသောအခါမှ တဖန် ထိုအရေအတွက်အတိုင်း ပြန်လည်တွေ့ရသည်။ နေကွက် အများဆုံး ရှိသော နှစ်ကို မှတ်သားပြီးနောက် နှစ်ကို ရေတွက်သော်၊ နေကွက်တို့သည် တဖြည်းဖြည်း နည်းသွား၍ ၆ နှစ်၊ ၇ နှစ်ခန့် အကြာတွင် နေကွက် အနည်းဆုံးကို တွေ့ရသည်။ ထိုမှ တဖန် နေကွက်တို့၏ အရေအတွက်သည် တဖြည်းဖြည်း တိုးလာပြန်၍၊ ၄ နှစ်၊ ၅ နှစ်ခန့်အကြာတွင် နေကွက်အများဆုံးကို တွေ့ရသည်။ ထိုနည်းအတိုင်း နေကွက်တို့သည် ၁၁ နှစ်ခန့် တပတ်လည်တိုင်း တကြိမ်စီ နည်းလိုက် များလိုက် ဖြစ်သျှက်ရှိကြ၏။

သိပ္ပံ ပညာရှင်ကြီး အေ၊ အီ၊ ဒေါက်ဂလပ်ဆိုသူသည် နေပေါ်၌ နေကွက် အများဆုံးရှိချိန်နှင့် သစ်ပင်၌ အသက်ရစ်အကျယ်ဆုံးရှိချိန်တို့ တိုက်ဆိုက်ပုံကို သစ်ပင်ကြီး များစွာ၏ အသက်ရစ်တို့ကို လေ့လာပြီးနောက် သိရှိ၏။ ထိုသိမှုကြောင့် သိပ္ပံပညာရှင်တို့သည် နှစ်ပေါင်း တထောင်ကျော် အသက်ရှင်လျက် ရှိသော သစ်ပင်ကြီးတို့၏ အသက်ရစ်များကို ကြည့်ရှု၍၊ နေကွက်အနည်းနှင့်အများပေါ်သောနှစ်ကာလတို့ကိုသိရှိကြသည်။ ထိုအခြင်းအရာမှ ကမ္ဘာ၏ ရာသီဥတုသမိုင်းကို နောက်ကြောင်း ပြန်၍ လေ့လာ နိုင်ကြသည်။

နေထဲ၌ နေကွက်များ ပေါ်လာချိန်တွင် ကမ္ဘာပေါ်၌သံလိုက်ဓာတ်ဆိုင်ရာ ပြောင်းလဲမှုများ ဖြစ်ပေါ်လာသည်။ ထိုအချိန်တွင် ကွန်ပါ၏ အိမ်မြှောင်များသည် သာမန် အနေအထားမှ တစ် ဒီဂရီ သို့မဟုတ် တစ်ဒီဂရီထက် ပို၍စောင်းသွားတတ်ကြသည်။ နေကွက်များသည် ကမ္ဘာဆီသို့ လျှပ်စစ်မှုန်များကို အမြဲ ထုတ်လွှတ်လျက်ရှိသည်။ လျှပ်စစ်မှုန်တို့သည် အထက်လေထုလွှာကို လျှပ်စစ်ဓာတ် ဝင်စေပြီးလျှင်၊ ကမ္ဘာ့ မြောက်ပိုင်း အလင်းရောင်ခြည်များကို ဖြစ်ပေါ်စေ၍၊ ရေဒီယို ဆက်သွယ်ရေးများကိုလည်း ကမောက်ကမဖြစ်စေသည်။ ဤသို့ ဖြစ်ခြင်းမှာ နေထဲရှိ ဟိုက်ဒရိုဂျင်မီးလျှံများမှ ထွက်လာသော အာထရာဗိုင်အိုလက်ရောင်ခြည် (ခရမ်းဘေးရောင်ခြည်) များသည် အထက် လေထုလွှာကို ရုတ်ခြည်း လျှပ်စစ်ဓာတ် ဝင်စေသောကြောင့် ဖြစ်သည်ဟု ယူဆကြသည်။ ရေဒီယို အင်ဂျင်နီယာများသည် နေကွက်များနှင့် စပ်လျဉ်း၍၊ နေထဲ၌ ဖြစ်ပေါ် နေပုံများကို အထူး စိတ်ဝင်စားလျက် ရှိကြသည်။

နေ၏ မျက်နှာပြင်၌ အပူချိန် ဖာရင်ဟိုက် ဒီဂရီ ၁၂,၀၀၀ မျှ ရှိသည်ဟု ခန့်မှန်းခဲ့ကြသည်။ နေကွက်၏ အလယ်ဗဟိုတွင် ထိုအပူချိန်အောက် ဒီဂရီထောင်ပေါင်း အတော်အတန်နည်းသော အပူချိန်ရှိလိမ့်မည်ဟု ယူဆရသည်။ နေ၏ အတွင်းပိုင်းသို့ ကျရောက် လေလေ အပူချိန်မှာ လျင်မြန်စွာ တိုးတက်လာလေလေ ဖြစ်သည်။ နေ၏ အလယ် ဗဟိုတွင် အပူချိန်မှာ ဖာရင်ဟိုက် ဒီဂရီ ၄၀,၀၀၀,၀၀၀ မျှရှိမည်ဟု နက္ခတ်ပညာရှင်များ ခန့်မှန်း ထားကြသည်။

နေစကြဝဠာတွင် မာကျူရီ (ဗုဒ္ဓဟူးဂြိုဟ်)၊ ဗီးနပ် (သောကြာဂြိုဟ်)၊ ကမ္ဘာဂြိုဟ်၊ မား (အင်္ဂါဂြိုဟ်)၊ ဂျူပီတာ (ကြာသပတေးဂြိုဟ်)၊ ဆက်တန် (စနေဂြိုဟ်)၊ ယူရေးနပ်၊ နက်ပကျွန်းဂြိုဟ်တို့သည် မိမိတို့၏အရံဂြိုဟ်များနှင့် တကွ နေကိုဗဟိုထားကာ လှည့်ပတ်၍နေကြသည်။ ဥက္ကာပျံနှင့် ကြယ်ပျံတို့သည်လည်း နေကို လှည့်ပတ်၍ နေကြသည်။ နေသည် ကမ္ဘာမှ မိုင်ပေါင်း ၉၂,၉၀၀,၀၀၀ မျှကွာဝေးသည်။ တနာရီလျှင် မိုင် ၁၀၀၀ နှုန်းဖြင့် သွားသော ဒုန်းပျံသည် နေဆီသို့ ၁၀ နှစ်ကြာမျှ သွားရပေမည်။ သို့သော် နေ၏အပူရှိန်မှာ အလွန်တရာ ပြင်းသောကြောင့် နေဆီသို့ သွားရောက်ရန်မှာ မဖြစ်နိုင်ချေ။

ကမ္ဘာနှင့် အနီးဆုံးသော ကြယ်သည် ကမ္ဘာမှ နေသို့ အကွာ အဝေးထက် အဆပေါင်း ၂၆၅,၀၀၀ ပို၍ ကွာဝေးသည်။ ကြယ်အလုံး ကုဋေပေါင်း သိန်း ၃၀ ရှိသော နဂါးငွေ့ထဲတွင် နေသည် ကြယ်တလုံး အဖြစ် ပါဝင်သည်။ အလင်းရောင်ခြည်ကို နဂါးငွေ့၏ တဖက်စွန်းမှ လွှတ်လျှင် နှစ် ရာပေါင်းများစွာကြာမှ အခြားတဖက်စွန်းသို့ ရောက်ရှိ နိုင်သည်။ နေသည် နဂါးငွေ့၏ ဗဟိုနှင့် တဖက်စွန်း အကြား အလယ်နီးပါးလောက်တွင် တည်ရှိသည်။

ကမ္ဘာလည်နေခြင်းကြောင့် ဖြစ်ပေါ် လာရသော နေ၏ နေ့စဉ် ရွေ့ရှားမှုနှင့် နှစ်စဉ်ရွေ့ရှားမှုတို့ အပြင်၊ နေ၌ မိမိဖာသာ ပြုလုပ်သော ရွေ့ရှားမှု ၂ မျိုးရှိသည်။ ကမ္ဘာသည် ဝင်ရိုးပေါ်၌ လည်သကဲ့သို့ပင် နေသည်လည်း ဝင်ရိုးပေါ်၌ လည်သည်။ ဝင်ရိုးပေါ်၌ လည်ရန် ကမ္ဘာသည် ၂၄ နာရီ ကြာသည်။ သို့သော် နေသည် ဝင်ရိုးပေါ်၌ လည်ရန် ရက်ပေါင်း ၂၅ ရက်မျှ ကြာသည်။ ဤသို့ လည်ပတ်ရာ၌ပင် တသမတ်တည်း မလည်ပတ်ချေ။ နေသည် အလယ်ပိုင်းမှာ ထက် အထက်နှင့် အောက်ပိုင်းတို့တွင် ပို၍ လျင်မြန်စွာ လည်ပတ်သည်။ ဤသို့ လည်ပတ် နိုင်ခြင်းမှာ နေသည် ကမ္ဘာကဲ့သို့ အစိုင်အခဲ မဟုတ်ဘဲ တောက်လောင် နေသော ဓာတ်ငွေ့လုံးကြီး ဖြစ်သောကြောင့်ပေတည်း။ နေ၏ လည်ပတ်သော နှုန်းကို တိုင်းရာ၌ နေ၏မျက်နှာပြင်ကို ဖြတ်၍ ရွေ့ရှားနေသော နေကွက်များ၏ နှုန်းကို ကြည့်၍ တိုင်းရသည်။ နေသည်ဝင်ရိုးပေါ်၌လည်ပတ်သည့်အပြင်၊ အာကာ

သထဲတွင် ကြယ်များအကြား၌ တစက္ကန့်လျှင် ၁၂ မိုင် သို့မဟုတ် တနာရီလျှင် မိုင် ၄၃,၂၀၀ နှုန်းဖြင့် ရွေ့ရှားလျက်နေသည်။

ဘူမိဗေဒ ပညာရှင်များ၏ ယူဆချက် အရ ကမ္ဘာ၏ သက်တမ်းသည် အနည်းဆုံး နှစ်ပေါင်း ကုဋေ ၂ သိန်းခန့် ရှိမည်ဟု ဆိုသည်။ ထိုအချိန် အတွင်း ကမ္ဘာသည် နေမှ အလင်းရောင်နှင့် အပူကို ကျွန်ုပ်တို့ ယခု ရရှိမြဲ ဖြစ်သော ပမာဏအတိုင်း တော်တော်ကြာကြာပင် ရရှိခဲ့ပြီးဖြစ်သည်။ အလွန်တရာ အားကောင်းသော အလင်းနှင့် အပူကို နေက မည်သည့်နည်းဖြင့် ကာလရှည်ကြာစွာသိမ်းထားနိုင်သနည်း ဟူသည်မှာ နက္ခတ်ပညာရှင်များအဖို့ ပြဿနာတရပ်ဖြစ်ပေသည်။ အကယ်၍ နေသည် ကျောက်မီးသွေးကဲ့သို့ အစိုင်အခဲဖြစ်လျှင်၊ကြာရှည် မခံဘဲ နှစ်ပေါင်း ၁,၅၀၀ မျှလောက် အတွင်း ကုန်ခန်းသွားပေမည်။ ယခုမှာမူ ယင်းသို့ ကုန်ခန်းသွားခြင်း မရှိဘဲ၊ ကမ္ဘာသည် နေ၏ ထံမှ စွမ်းအင်ကို ရမြဲရနေပေသည်။ ဤသို့ ဖြစ်ရခြင်းမှာ နေထံမှ အလင်းနှင့်အပူသည် အက်တမ်များမှ ထုတ်လွှတ်သော စွမ်းအင်မှ ဖြစ်ပေါ်လာသောကြောင့်တည်း ဟူ၍ ကျွန်ုပ်တို့ ယခု အခါ သိရှိရပေပြီ။

အက်တမ်တို့တွင် ဟိုက်ဒရိုဂျင် အက်တမ်မှာ အရှင်းဆုံး ဖြစ်သည်။ ရူပဗေဒ အလိုအရ ဟိုက်ဒရိုဂျင် အက်တမ်ထဲ၌ ပရိုတွန်းခေါ် လျှပ်စစ်ဓာတ်ဖိုဝင် နျူးကလီးယပ်တခုနှင့်လျှပ်စစ်ဓာတ်မ ဝင် အီလက်ထရွန်ခေါ် မှုန်မှုန်တခု ပါရှိသည်။ အခြား ဒြပ်စင်များသည် ဟိုက်ဒရိုဂျင် အက်တမ်ကို အခြေခံ၍ ဖြစ်လာကြရသည်။ ဟိုက်ဒရိုဂျင်နောက် အရိုးဆုံးသော အက်တမ်မှာ ဟီလီယမ် ဖြစ်သည်။ ဟီလီယမ်၏ အက်တမ်သည် ဟိုက်ဒရိုဂျင် အက်တမ် ၄ ခုထက် ၃ ရာခိုင်နှုန်းခန့် ပို၍ ပေါ့သည်။ နေ၏ အတွင်းပိုင်း၌ ဟိုက်ဒရိုဂျင် အက်တမ်များသည် ဟီလီယမ်အက်တမ်များအဖြစ်သို့ အစဉ်မပြတ်ပြောင်းလဲလျက်ရှိသည်ဟု သိပ္ပံပညာရှင်များက ယုံကြည်ကြသည်။ ဤသို့ ပြောင်းလဲရာ၌ ဆုံးရှုံးသွားသော အလေးချိန် ၃ ရာခိုင်နှုန်းသည် အာကာသထဲသို့ အလင်းနှင့် အပူ အဖြစ် ဖြာထွက်ကုန်သည်။ ဟိုက်ဒရိုဂျင်မှ ဟီလီယမ်သို့ ပြောင်းလဲရာ၌ ကာဗွန်၏ အကူအညီကို လို၏။ နေထဲ၌ ဟိုက်ဒရိုဂျင်နည်းတူ ကာဗွန်လည်း အမြောက်အမြား ပါရှိသည်။ ကာဗွန် အက်တမ် တခု၏ နျူးကလီးယပ်နှင့် ဟိုက်ဒရိုဂျင် အက်တမ်၏ နျူးကလီးယပ်တို့ တွေ့ကြသောအခါ ဟိုက်ဒရိုဂျင် နျူးကလီးယပ်သည် ပျောက်ကွယ် သွားပြီးလျှင် ကာဗွန် အက်တမ် အစား အလေးချိန် ပေါ့သော နိုက်ထရိုဂျင် ဖြစ်လာသည်။

ထိုနိုက်ထရိုဂျင်မျိုး၌ ရေဒီယမ်သတ္တိရှိသည်။ ထိုနိုက်ထရိုဂျင်သည် ပဌမကာဗွန်ထက် အနည်းငယ်ပို၍ လေးသော ကာဗွန်အဖြစ်သို့ အလွယ်တကူ ပြောင်းသွားသည်။ အလွန်တရာ ပူပြင်း၍ အက်တမ်တို့ ဗလောင်းဆန်နေသော နေထဲ၌ ထိုကာဗွန် အက်တမ်သည် အခြား ပရိုတွန်း တခုနှင့် တိုက်ခိုက်မိသော အခါ သာမန် နိုက်ထရိုဂျင် ဖြစ်သွားသည်။ တဖန် ထိုနိုက်ထရိုဂျင်သည် အခြား ဟိုက်ဒရိုဂျင် နျူးကလီးယပ်နှင့် တိုက်ခိုက်မိသော အခါ ရေဒီယမ် သတ္တိရှိသော အောက်ဆီဂျင် ဖြစ်သွားသည်။ တဖန် ထိုမတည်မြဲသော အောက်ဆီဂျင်သည် ယင်းထက်ပို၍ တည်မြဲသော နိုက်ထရိုဂျင် အဖြစ်သို့ ပြောင်းလဲ သွားသည်။ တဖန် ထိုတည်မြဲသော နိုက်ထရိုဂျင်သည် ပရိုတွန်းတခုနှင့် ထိခိုက်မိသောအခါ လုံးဝမျိုးမတူသော အက်တမ် ၂ ခု အဖြစ် ကွဲထွက်သွားသည်။ ဤကဲ့သို့ အက်တမ် ၂ မျိုးကွဲထွက်ရာ၌ တမျိုးမှာ ပြောင်းလဲမှု အမျိုးမျိုးကို မူလက စတင် ဖြစ်ပေါ်စေခဲ့သော ကာဗွန်ဖြစ်၍၊ အခြားတမျိုးမှာ ဟီလီယမ် ဖြစ်သည်။ ဤဖြစ်စဉ်တွင် ဟိုက်ဒရိုဂျင် ကုန်ဆုံးသွား၍၊ ထိုအစား ဟီလီယမ်ဖြစ်ပေါ်လာသည်။ အောက်ဆီဂျင်နှင့် နိုက်ထရိုဂျင်တို့မှာ ကြားကာလ၌ ဖြစ်ပေါ်သော အက်တမ်တို့သာလျှင် ဖြစ်ကြသည်။ အလေးချိန်အားဖြင့် ဟိုက်ဒရိုဂျင် ဂရမ် ၄၀၀ သည် ဟီလီယမ် ဖြစ်သွားသည့် အခါတိုင်း ဓာတ်ငွေ့ထု ၃ ဂရမ်လောက်မှာ အပူနှင့် စွမ်းအင်ဖြစ်သွားကြလေသည်။

ကမ္ဘာမြေသည် နေမှ အလွန်တရာ ဝေးကွာ၍ အရွယ်အားဖြင့်လည်း သေးငယ်သောကြောင့်၊ နေမှ ထုတ်လွှတ်သော အပူအပုံ ကုဋေ ၂ သိန်းတွင် တပုံမျှလောက်ကိုသာ ရရှိသည်။ သို့သော် နေမှ ဤမျှလောက် ရသော စွမ်းအင်နှင့်ပင်လျှင်၊ ကမ္ဘာပေါ်ရှိ လှုပ်ရှားမှု ဟူသရွေ့ကို ဖြစ်မြောက်စေနိုင်သည်။ နှစ်စဉ်နေသည် ပင်လယ်သမုဒ္ဒရာ၊ မြစ်ချောင်းများမှ တန်ချိန် ၄၇၀,၀၀၀,၀၀၀ ရှိသော ရေထုကို အငွေ့ပျံစေသည်။ ထိုရေငွေ့သည် အထက် ၁ မိုင် အမြင့်သို့ ရောက်ရှိသွားလျှင် ငွေ့ရည်ဖွဲ့၍ မိုးအဖြစ် ရွာချသည်။ မိုးသည် ကမ္ဘာပေါ်ရှိ သစ်ပင်များကို စိမ်းလန်း စိုပြေစေသည့် အပြင်၊ ရေစီးသော မြစ်ချောင်းများ၌ရင်း၊ ရေတံခွန်များ၌ရင်း မြင်းကောင်ရေ သန်းပေါင်းများစွာရှိသော အားကို ဖြစ်စေသည်။အကယ်၍ ကမ္ဘာမြေမျက်နှာပြင်သို့ ကျရောက်သော နေ၏ စွမ်းအင်ကိုသာ အသုံး ချတတ်လျှင် မြေစတုရန်းတကိုက်ပေါ် ၌ ကျရောက်သော စွမ်းအင်မှ မြင်းကောင်ဝက် အားကို ဖြစ်စေနိုင်သည်ဟု ဆိုသည်။ ယခုအခါ နေ၏ စွမ်းအင်ကို ထိရောက်စွာ အသုံးပြုနိုင်မည့် ကရိယာမျိုးကို ကြံဆလျက် ရှိကြသည်။ ဥဒါဟရုဏ်အားဖြင့် နေမှ ရသော အပူဖြင့် ထမင်းဟင်း ချက်ပြုတ်သော မီးဖိုကို ယခုအခါ ကြံဆတည်ဆောက်လျက် ရှိကြသည်။

ကမ္ဘာမြေ အထက် အမြင့် ၂၅ မိုင်ခန့်ရှိ လေထုထဲတွင်

အိုဇုန်းဓာတ်ငွေ့များ ရှိသည်။ ထိုဓာတ်ငွေ့တို့သည် နေမှလာသော ခရမ်းဘေးရောင်ခြည်များစွာကို စုတ်ယူ ထားလိုက်သည်။ ဤသို့ စုတ်ယူမထားလျှင်၊ ကျွန်ုပ်တို့အားလုံးပင် နေလောင်၍ အန္တရာယ် ဖြစ်ကုန်ကြပေမည်။ အိုဇုန်း ရှိသော အထပ်လွှာသည် ကျွန်ုပ်တို့ထံ ခရမ်းဘေးရောင်ခြည် အနည်းငယ် ရောက်ရှိမှသာလျှင် အထူးရှိသည်။ ခရမ်းဘေးရောင်ခြည်သည် ကျွန်ုပ်တို့၏ ကျန်းမာမှုအတွက် ကိုယ်ခန္ဓာထဲ၌ လိုအပ်သော ဗီတာမင် ဒီများကို ဖြစ်စေသည်။ အကယ်၍ အိုဇုန်းသည် ယခုရှိသည့် အထူထက် အနည်းငယ်ပို၍ ထူလျှင်၊ ကျွန်ုပ်တို့၏ ကျန်းမာမှု အတွက် လိုအပ်သလောက် ခရမ်းဘေးရောင်ခြည်များကို ရရှိမည်မဟုတ်ပေ။ ဤသို့ ဖြစ်လျှင် ဗီတာမင် ဒီကို တနည်းနည်းဖြင့် ဖန်တီး၍ မပြုလုပ်နိုင်ပါက ကျွန်ုပ်တို့အားလုံးပင် ရစ်ကက်ရောဂါ စွဲကပ် ကုန်ကြပေမည်။ သို့သော် အိုဇုန်းဓာတ်ငွေ့များသည် ထုထယ်အားဖြင့်၎င်း၊ သိပ်သည်းခြင်းအားဖြင့်၎င်း ပြောင်းလဲလျက် ရှိကြသည်။ ထို့ကြောင့် အချို့ ရာသီတွင် လူတို့သည် အခြားရာသီများမှာထက် နေလောင်ခြင်းကို ပို၍ ခံရတတ်သည်။

ရှေးအခါက နေကို ဘုရားတဆူကဲ့သို့ ကိုးကွယ်သော လူများ ရှိခဲ့ကြသည်။ ဂရိတို့၏ အယူအဆအရ နေမှာ မီးတောက်မီးလျှံများ ထွက်နေသော ပြိုင်ရထား ဖြစ်၍၊ ယင်းကို အပေါ်လိုခေါ် နတ်က နေ့စဉ် ကောင်းကင်ကို ဖြတ်၍ စီးနင်းသည်ဟု ဆိုသည်။ နေကိုးကွယ်သူတို့ ဆောက်လုပ်ခဲ့သော ကျောင်းဆောင်များ၏ အကြွင်းအကျန်တို့ကို ဥရောပတိုက်၊ တောင်အမေရိကတိုက်၊ အိန္ဒိယ နိုင်ငံ၊ တရုပ်နိုင်ငံနှင့် အခြား နေရာ ဒေသများတွင် တွေ့ကြရသေးသည်။

နက္ခတ္တဗေဒသည် ရှေးအကျဆုံးသော သိပ္ပံ ပညာရပ်ဖြစ်သည်။ ရှေး နက္ခတ် ပညာရှင်တို့သည် ကျောက်တိုင်များ စိုက်ထူ၍၊ ယင်းတို့မှ ကျရောက်သော အရိပ်များ၏ အတိုအရှည်နှင့် အနေအထားကို မှတ်သားကြသည်။ ထိုအမှတ် အသားတို့မှ ကမ္ဘာ၌ မြောက်ဖက် အစွန်ဆုံး၊ တောင်ဖက်အစွန်ဆုံးသို့ နေရောက်ချိန်တို့ကို သိရှိကြပြီးလျှင် ပြက္ခဒိန်များကိုပင် ပြုလုပ် နိုင်ခဲ့ကြသည်။

မြန်မာ့ ဗေဒင် အလိုအရ ကမ္ဘာမြေကြီးကို နေမင်းနှင့် တကွ ဂြိုဟ်နက္ခတ် အပေါင်းတို့သည် လှည့်ပတ်လျက် ရှိကြသည်။ အာကာသတွင်နေလှည့်သွားရောက်ရာလမ်းကြောင်းကို ကြန္တီဟု ခေါ်သည်။ မြန်မာ့ ဗေဒင်၌ တွက်ကိန်းမှန်သမျှသည် နေမင်း၏ ရွေ့ရှားပုံကို မူတည်၍ တွက်ရသည်ချည်း ဖြစ်သည်။ နေမင်း၏ သွားလာ ရွေ့ရှားမှုကို တွက်ချက်၍ ကြည့်ရန် "သူရိယသိဒ္ဓန္တ" ခေါ် ရှေးဗေဒင်ကျမ်းကြီး တခု ရှိခဲ့သည်။ ထိုကျမ်းအရ နေမင်း၏ အနေအထားကို မူတည်ပြီးမှ အခြား ဂြိုဟ်အားလုံးကို တွက်ယူ ရသည်ဟု ဆိုသည်။ ဗေဒင်ကျမ်း၌ နေမင်းမှာ တနင်္ဂနွေဂြိုဟ်ဟု ခေါ်၍၊ ဂဏန်းအားဖြင့် ၁၊ အရပ်အားဖြင့်အရှေ့မြောက်အရပ်ကို စိုးသည်။ ပရိယာယ်အားဖြင့် အဖ၊ အိုးအိမ်ကို ပြသည်။ ဓာတ်သတ္တုအားဖြင့် ရွှေဖြစ်သည်။

**နေကြာပန်း။** ။နေကြာပန်း၏ရုက္ခဗေဒအမည်မှာ 'ဟီလီယင်းသပ် အင်နျူးအပ်' ဖြစ်သည်။ မျိုးရင်းမှာ 'ကွန်ပေါ်ဇီတီး' ဖြစ်၏။ နေကြာပန်း အရွက်သည် ကြမ်း၏။ အနားခွဲ၌ ခွေးသွားစိတ်များ ရှိသည်။ အရွက် ပုံသဏ္ဌာန်မှာ လှအသည်း ပုံသဏ္ဌာန်နှင့် တူသည်။ နေကြာပန်း၏ ဗဟိုပွင့်စု၌ အညိုရောင်ရှိသည်။ တခါတရံ ပန်းရောင် ရှိသည်။ ဗဟိုပွင့်စုမှ ဖြာလျက်ရှိသော ပွင့်လက်များမှာ ဝါသည်။ ပန်းပွင့်ကြီးများ ပွင့်တတ်၏။ အချင်းတပေခန့် ရှိသော အပွင့်များပင် ရှိသည်။ နေကြာပန်းပင်သည် ၁၀ ပေခန့် အထိ မြင့်နိုင်သည်။

ဒုတိယ ကျော်အောင်စံထား ဆရာတော် ရေးသားသော ဝေါဟာရတ္ထပကာသနီကျမ်း၌ 'နေရှိရာသို့ လည်သောပန်း' ကို နေကြာပန်းဟု ခေါ်ကြောင်း ပြဆိုသည်။ ယင်းကျမ်း၌ နေချာပန်းဟု တနည်း ရေးသားကြောင်းကိုလည်း ဖော်ပြထားသည်။ နေရှိရာဖက်သို့ ချာချာလှည့်၍ လိုက်သောကြောင့် နေချာပန်းဟု ခေါ်ကြောင်း ဝါဒကွဲ ရှိ၏။ တဖန် ချာမှာ ကျွာစေသည်ဟု အဓိပ္ပါယ်ထွက်သောကြောင့် နေကျွာဟုလည်း ရေးကြသည်။ ဒုတိယ မောင်းထောင်ဆရာတော် ပြုစုသော အဘိဓာန်ဋီကာ နိဿယအလို၌ကား ဒဏ္ဍောပ္ပလကို ဒဏ္ဍနှင့် ဥပ္ပလဟု ပုဒ်ခွဲ၍၊ ဒဏ္ဍဟူသည်ကား အရိုးတံ၊ ဥပ္ပလဟူသည်ကား ကြာဟု ပြဆိုပြီးလျှင် နေကြာဟုရေးသည်။



လူတို့အတွက် တပင်လုံး အသုံးဝင်သည့် နေကြာပင်

ပြင်သစ် လူမျိုး ရှမ်ပလိန်ဆိုသူသည် မြောက်အမေရိက တိုက်၊ အိုင်ကြီးများရှိရာသို့ ရောက်ရှိစဉ် အခါက၊ ဟျူရွန် အိုင်ကြီး၏ အရှေ့ဖက်ကမ်းတွင် အင်ဒီးယန်း လူမျိုးများ နေကြာပန်း စိုက်နေသည်ကို စတင် တွေ့ရှိခဲ့သည်။ ထိုအချိန် အခါမှာ လွန်ခဲ့သော နှစ်ပေါင်း ၃၀၀ ခန့်လောက်က ဖြစ် သည်။ ထိုစဉ်က အင်ဒီးယန်းများ စိုက်သော နေကြာပန်း မှာ မျိုးအကောင်းဆုံး ဖြစ်သည်ဟု ဆိုသည်။ အင်ဒီးယန်း တို့သည် နေကြာပင်၏ ရိုးတံများမှ လျှော်ကို ခွါ၍၊ အဝတ် အထည် ရက်လုပ်ကြသည်။ နေကြာရွက်ကို ကျွဲ နွားများ ကို ကျွေးကြသည်။ နေကြာပွင့်မှ ရသော အဝါရောင် ဆေး ကို ဆိုးဆေးအဖြစ် သုံးကြသည်။ နေကြာစေ့ကို စား၍ ဆီ လည်းကြိတ်ယူကြသည်။နေကြာပင်တပင်လုံးသည် ယင်းတို့ အတွက်အသုံးဝင်၏။ ထိုအင်ဒီးယန်းလူမျိုးများထံမှတဆင့် နေကြာပင်မျိုးသည် ဥရောပတိုက်သို့ ရောက်လာသည်ဟု ဆိုသည်။

ယခုအခါ နေကြာပင်ကို ဥရောပတိုက်တောင်ပိုင်း၊ အိန္ဒိယ နိုင်ငံ၊ အီဂျစ်နိုင်ငံ၊ မြန်မာနိုင်ငံနှင့် အခြား အရပ်ဒေသများ တွင် စိုက်ပျိုးလျက် ရှိကြသည်။ ဩစတြေးလီးယား တိုက် တွင် ဘဲ ကြက်များ အစာကျွေးရန်အတွက် နေကြာပန်းပင် များကို အကြီးအကျယ် စိုက်ပျိုးကြသည်။

**နေပယ်မြို့။** ။ဣတလီနိုင်ငံ၏ တတိယ အကြီးဆုံးမြို့ဖြစ် သည့် နေပယ်မြို့သည် အထူး စည်ကားလှသော သင်္ဘော ဆိပ် တခု ဖြစ်သည့်အပြင်၊ ကုန်ပစ္စည်းများ ထုတ်လုပ်ရာ အချက်အခြာ ဌာနတခုလည်း ဖြစ်သည်။ ထိုမြို့သည် နေပယ် ပင်လယ်အော်၏ မြောက်ဖက်ကမ်းခြေရှိ တောင်ကုန်း ဆင် ခြေလျှောတွင် တည်ရှိနေသည်မှာ အလွန်လှပတင့်တယ်ပေ သည်။ ဣတလီနိုင်ငံတွင် ထင်ပေါ် ကျော်စောလှသော ဗီဆူးဗီးယပ် မီးတောင်ကြီးသည် နေပယ်မြို့၏ အရှေ့တောင် ဖက်တွင် ရှိသည်။ (ဗီဆူး ဗီးယပ်မီးတောင် — ရှု။)

နေပယ်မြို့သည် ဥရောပ တိုက်တွင် လူဦးရေ အများဆုံး နေထိုင်သော မြို့တမြို့ ဖြစ်၏။ ၁၉၅၁ ခုနှစ် သန်ကောင် စာ ရင်းအရ လူဦးရေ ၁,၀၂၄,၅၄၃ ယောက်ခန့် နေထိုင်သည်။ နေပယ်မြို့တွင် ကြည့်ရှုဖွယ်ကောင်းသော အဆောက် အအုံ များစွာ ရှိ၏။ ယင်းတို့ အနက် ကမ္ဘာပေါ်တွင် အရေး အပါဆုံးသော ပြတိုက်ကြီးတခုဖြစ်သည့် အမျိုးသားပြတိုက် ကြီးတွင် ရှေးဟောင်း အနုပညာ လက်ရာ ပစ္စည်းများနှင့် ပွန်ပီ မြို့ပျက်ကြီးမှ တူးဖော် ရရှိသော အရာဝတ္ထုများကို ပြသထားသည်။ ဆန်ကာလို အော်ပရာ ဇာတ်ရုံကြီးသည် ဥရောပတိုက်ရှိ အကြီးဆုံးသော ဇာတ်ရုံများတွင် အပါအဝင် ဖြစ်လေသည်။ မြို့တွင်း၌ ဘုရားရှိခိုးကျောင်းပေါင်း ၃၀၀ ခန့် ရှိသည့် အပြင်၊ ရှေးခေတ် - ရဲတိုက်ကြီးများလည်း အများ အပြား ရှိလေသည်။

နေပယ်မြို့တွင် ထင်ရှားသော ကျောင်းများနှင့် တက္က သိုလ်များလည်း အတော်အသင့် ရှိ၏။ အထင်ရှားဆုံးသော တက္ကသိုလ်မှာ ၁၂၂၄ ခုနှစ်တွင် ဒုတိယ ဖရက်ဒရစ်ဘုရင် တည်ထောင်ခဲ့သည့် နေပယ် တက္ကသိုလ် ဖြစ်သည်။ နေပယ် မြို့တွင် အခြား စိတ်ဝင်စားဖွယ်ကောင်းသော နေရာများမှာ အမျိုးသား စာကြည့်တိုက်၊ တော်ဝင်ဂီတကျောင်းနှင့် သစ် ပင်မျိုးစုံသည့် ပန်းဥယျာဉ်ကြီးတို့ ဖြစ်သည်။ အမျိုးသား



နာမည်ကျော် ဗီဆူးဗီးယပ် မီးတောင်ကြီးအနီး လှပတင့်တယ်စွာတည်ရှိသည့် နေပယ်မြို့၏ ဆိပ်ကမ်းသာ ရှုခင်း

ပန်းခြံအတွင်းရှိ ရေသတ္တဝါများ ထားရာ ရေကန်ကြီးတွင် မြေထဲပင်လယ်အတွင်း၌ ရှိသော အပင်နှင့် ရေသတ္တဝါအမျိုးမျိုးအစားစားတို့ကို စုံလင်စွာ တွေ့ရှိနိုင်သည်။

နေပယ်မြို့၏ ထွက်ကုန်များမှာ သဘော်များ၊ မော်တော်ကားများ၊မီးရထားခေါင်းတွဲများ၊သိုးမွေး၊ ဝါဂွမ်း၊ရေမွှေး၊ အထည်အလိပ်၊ စက္ကူကရိယာ စသည်တို့ဖြစ်၏။

နေပယ်မြို့ ကို ဘီစီ ၄၅၀ ခန့်ကပင် ဂရိ နယ်သစ်စိုက်သမားတဦးက စတင် တည်ထောင်ခဲ့၏။ ၁၁၃၀ ပြည့်နှစ်ခန့်တွင် ရောမ လူမျိုးများက ထိုမြို့ကို သိမ်းပိုက်ခဲ့သည်။ သို့သော် အလယ်ခေတ်သို့ ရောက်သော အခါ၊ နေပယ်မြို့သည် စစ္စလီ နှစ်ပြည်ထောင်နိုင်ငံ၏ မင်းနေပြည်တော် ဖြစ်ခဲ့၏။ ၁၈၆၀ ပြည့်နှစ်မှ စ၍ ဣတလီ နိုင်ငံတော်၏ တစိတ် တဒေသ ဖြစ်လာခဲ့လေသည်။ နေပယ်မြို့သည် ဣတလီနိုင်ငံ၏ စက်မှုလက်မှု ဗဟိုဌာနတခု ဖြစ်သောကြောင့် ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း၌ မဟာမိတ် တပ်များ၏ တိုက်ခိုက်ဖျက်ဆီးခြင်း ဒဏ်ကို အပြင်းအထန် ခံခဲ့ရလေသည်။

**နေမိဇာတ်တော်ကြီး။** ။နေမိ ဇာတ်တော်ကြီးကား ဇာတ်ကြီးဆယ်ဖွဲ့တွင် လေးခုမြောက်ဇာတ်တော်ဖြစ်သည်။ မြတ်စွာဘုရားသည် ကောသလတိုင်း၊ သာဝတ္ထိပြည်တွင် သီတင်းသုံးနေတော်မူသောအခါ၊ဝိဒေဟရာဇ်တိုင်း၊မိဓိလာပြည်သို့ ဒေသစာရီ ကြွချီတော်မူခိုက် ဂါထာ ၁၂၀ ဖြင့် တန်ဆာဆင်အပ်သော ဤနေမိဇာတ်တော်ကို ဟောကြားတော်မူသည်။ ထိုဇာတ်တော်၌ မြတ်စွာဘုရားသည် နိက္ခမပါရမီကို အထူးပြု၍ ဟောတော်မူသည်။

နေမိဇာတ်တော် အကြောင်း အရာကား အောက်ပါအတိုင်း ဖြစ်သည်။

ရှေးလွန်လေပြီးသော အခါ၊ ဝိဒေဟရာဇ်တိုင်း၊ မိဓိလာပြည်၌ မဃဒေဝ အမည်ရှိသောမင်း စိုးစံသည်။ မင်းကြီးသည် တရားဘော်၌ မွေ့လျော်သောကြောင့်၊ တခါသော် ဆံပင်မုတ်ဆိတ် ပြင်ဆင်ပေးသော ဆတ္တာသည်အား၊ မိမိဦးခေါင်း၌ ဆံပင်ဖြူကို မြင်လျှင်၊ မိမိအား လျှောက်ကြားရန် မှာထား၏။ တနေ့သော် ဆတ္တာသည်သည် မင်းကြီးဦးခေါင်း၌ ဆံပင်ဖြူတပင်တွေ့၍ လျှောက်ကြားလေရာ၊မင်းကြီးသည် သားကြီး အိမ်ရှေ့မင်းကို ထီးနန်းအပ်ပြီးနောက် မိမိကဲ့သို့ ဆံပင်ဖြူကို မြင်တွေ့ရသော အရွယ်တွင် တောထွက်ရန် မှာကြား၍၊ တောထွက်သွားသည်။ ထိုသို့အားဖြင့် သား မြေး မြစ် အဆက်ဆက်တို့ ထီးနန်းစိုးစံ၍၊ ဆံပင်ဖြူသော အခါ်နတွင် တောထွက်ကြကုန်သည်။

ထိုမဃဒေဝမင်းမှ ၈၃၁,၉၉၉ ယောက်မြောက်သော မင်းသည် မိဓိလာပြည်ကြီး၌ စိုးစံသည်။ ထိုမင်း၌ နေမိကုမာရ အမည်ရှိသော သားတော်ဘွားမြင်သည်။နေမိမင်းသားသည် ဒါန သီလ၌ အကျင့်ထုံသည်။ ခမည်းတော် တောထွက်တော်မူသောအခါ၊ ထီးနန်းဆက်ခံလေသည်။

တခါသော် နေမိမင်းကြီးသည် ဒါနက မြတ်သလော၊ သီလက မြတ်သလောဟု တွေးတောမရ ဖြစ်၍နေရာ၊ သိကြားမင်းသိရှိသဖြင့် ကိုယ်ထင်ပြလာ၍၊ သီလက ဒါနထက် မြတ်ကြောင်းကို ဟောပြောပြီးနောက်၊ သိကြားမင်း နတ်ပြည်သို့ ပြန်သည်။ သိကြားမင်းသည် နတ်ပြည်၌ နတ်သဘင် အစည်းအဝေးသို့ တက်ရောက်သောအခါ၊ အခြားနတ်များက သိကြားမင်း အဘယ် အရပ်သို့ ကြွနေကြောင်းကို မေးကြသဖြင့်၊ နေမိမင်းကြီး၏ ယုံမှားပြဿနာကို ဖြေခဲ့ပုံနှင့် နေမိမင်းကြီး၏ အကျင့်သီလကို ချီးကျူးပြောပြသည်။

ထိုအခါ နတ်များက ထိုသို့ အကျင့်သီလ ပြည့်စုံသောနေမိမင်းကြီးကို ဖူးမြင်လိုကြသဖြင့်၊ နတ်ပြည်သို့ ပင့်ဆောင်ပြသရန် သိကြားမင်းအား တောင်းပန်ကြသည်။

သိကြားမင်းသည် မာတလိနတ်သားအား သိန္ဓောမြင်း တထောင်ကသော ဝေဇယန္တာရထားကို ပြင်ဆင်စေ၍၊ လူ့ပြည်သို့ စေလွှတ်ကာ နေမိမင်းကြီးကို ဆောင်ယူစေသည်။ ထိုအချိန်တွင် မိဓိလာပြည်သူပြည်သားများသည် လပြည့်နေ့ဖြစ်သည်နှင့် လဝန်းကို မျှော်ကြည့်ခိုက်၊ နတ်ရထားကို မြင်ကြရသည်။ မာတလိလည်း နေမိမင်းကြီးကို လျှောက်ကြားခေါ်ယူရာ၊ မင်းကြီးသည် ပြည်သူ့မှူးမတ်အများကို ခေါ်ယူ၍၊ မိမိနတ်ပြည်သို့ ခေတ္တသွားခိုက် အလှူပေးခြင်း၊ သီလဆောက်တည်ခြင်းစသော ကုသိုလ်ကောင်းမှု ပြုမြဲဝတ်ကို မချွတ်မယွင်း မကင်းမပေ၊ မလျော့မမေ့ရစ်ကြနှင့်ဟူ၍ မှာထားပြီးလျှင် လိုက်ပါသွားလေ၏။

လမ်းခရီးတွင် နတ်သားကမင်းကြီးအား ငရဲပြည်သို့ သွားရာလမ်း၊ နတ်ပြည်သို့ သွားရာလမ်းဟူ၍၊ လမ်းကြောင်း ၂ ခုရှိရာ၊ ရှေးဦးစွာ မည်သည့်လမ်းဖြင့် သွားလိုကြောင်းကိုမေးသည်။ နေမိမင်းကြီးက ၂ လမ်းလုံးကို ရောက်လိုမြင်လိုကြောင်း ပြောပြသဖြင့်၊ ငရဲပြည်ဖက်သို့ ရထားကို ဦးစွာနှင်သည်။

ထိုသို့အားဖြင့် နေမိမင်းကြီးသည် လမ်းခရီးတွင်၊ ဝေတရဏီ ငရဲ၊ သုနခ ငရဲ အစရှိသော ငရဲဘုံတို့ကို တွေ့၏။

တဖန် နတ်ပြည်လမ်းဖြင့် ခရီးနှင်ပြန်သော်၊ ဗီရဏီနတ်ဘုံ၊ သောနဒိန်နတ်ဘုံ အစရှိသော နတ်ဘုံတို့ကို တွေ့မြင်ရပြီးနောက် တာဝတိံသာ နတ်ပြည် စိတ္တကူဋ် တံခါးမုခ်သို့ ရောက်သည်။ နတ်အများလည်း သောင်းသောင်းဖြဖြ ကြိုဆိုကြသည်။ ထိုနောက် နတ်ဘုံဗိမာန်များကို ပြသ၍၊ နတ်ပြည်၌ပင် စံနေရန် သိကြားမင်းက ဖိတ်ကြားသည်။

နေမိမင်းကြီးကမူ သူတပါး၏ ဘုန်းကံဖြင့် ရအပ်သော နေရာ၌ မစံလိုသေးဘဲ၊ လူ့ပြည်၌ပင် လူအများအား တရားရှေ့ဆောင် ညွှန်ပြလိုသေးကြောင်းဖြင့် ငြင်းပယ်သည်။

နေမိမင်းကြီးသည် နတ်ပြည်၌ လူတို့အရေးအတွက်အားဖြင့် ခုနစ်ရက်စံပယ်၍၊ နတ် ပရိသတ်အပေါင်းတို့အားလည်း ဒါန သီလအကျိုးများကို ဟောပြောသည်။ ထိုနောက် လူ့ပြည်သို့ ပြန်လိုကြောင်းကို ခွင့်တောင်းသဖြင့်၊ မာတလိနတ်သားပင်နှင်သော ဝေဇယန္တာရထားဖြင့် မိဓိလာပြည်သို့ ပြန်လည် ကြွချီခဲ့သည်။ မိဓိလာပြည်မှ တိုင်းသူ ပြည်သားတို့ကလည်း ဝမ်းမြောက်စွာ ကြိုဆိုကြသည်။

ထိုနောက် မင်းကြီးသည် မိဖုရား သားတော် သမီးတော်တို့မှစ၍ ပြည်သူများအား မိမိမြင်ခဲ့ရသော ငရဲဘုံ၊ နတ်ဘုံများအကြောင်းကို ပြန်လှန်ပြောပြသည်။ ပြည်သူအများလည်း တရား စောင့်သုံးကြသည်။

ဤသို့အားဖြင့် နေမိမင်းကြီးသည် ထီးနန်းစိုးစံရာ၊ တနေ့သောအခါ၊ ဘေးလောင်းတော်တို့ကဲ့သို့ ဆံပင်ဖြူပြိုကို သိရှိတော်မူသောအချိန်၌၊ ထီးနန်းကို ကာလရင့်မည်သော သားတော်အား လွှဲအပ်ပြီးလျှင်၊ တောထွက်ကာ ရဟန်းပြု၍၊ အသက်ထက်ဆုံး နေသည်။

ဇာတ်ပေါင်းသော် သိကြားမင်းသည် အနုရုဒ္ဓါထေရ်၊ မာတလိနတ်သားသည် အာနန္ဒာထေရ်၊ နေမိမင်း၏မယ်တော်သည် သီရိမဟာ မာယာဒေဝီ၊ နေမိမင်းကြီးကား မြတ်စွာဘုရား အသီးအသီးဖြစ်လာကြသည်။

နေမိဇာတ်တော်ကြီးကို မင်းဘူး လေသာကျောင်းတိုက် အရှင် ဦးသြဘာသသည် မူလပါဠိတော်မှ မြန်မာဘာသာသို့ပြန်ဆိုရာ၊ ၁၁၄၇ ခု ဝါဆိုလဆန်း ၅ ရက်နေ့တွင် ပြီးမြောက်လေသည်။ အရှင်ဦးသြဘာသသည် ပါဠိတော်မှ မြန်မာဘာသာသို့ ပြန်ဆိုသော မြန်မာစကားပြေအရေးအသားသည် ဘာသာပြန်ပင် ဖြစ်စေကာမူ၊ မြန်မာဆန်ဆန် စကားပြေပြစ်ချောမောခြင်းကြောင့်၊ မြန်မာ့စာပေတွင် ဥဒါန်းတွင်လေသည်။

**နေရီရိဝတ္ထု**။ ။"နေရီရီ" သည် ပီမိုးနင်း၏ လူကြိုက်အများဆုံး ကာလပေါ် ဝတ္ထုတပုဒ်ဖြစ်သည်။ ယင်းဝတ္ထုကို လွန်ခဲ့သောအနှစ် ၃၀ ကျော်ခန့်က ပိုက်ဆံကြီးအမည်ဖြင့် ရေးသားခဲ့သည်။ ပဌမအကြိမ် ရိုက်နှိပ်ထုတ်ဝေပြီးနောက်၊ ၁၈ နှစ်ကြာမှ တဖန်ပရိသတ်၏တောင်းဆိုချက်အရ၊မြန်မာ သက္ကရာဇ် ၁၂၉၃ ခုနှစ်တွင် ဆရာကြီးပီမိုးနင်း၏ နာမည်ကို ဖော်ထုတ်၍၊ ဒုတိယအကြိမ် ပုံနှိပ်ထုတ်ဝေရသည်။ ဆရာကြီး ပီမိုးနင်း၏ အရေးအသားအသုံးအနှုန်းတို့သည် ယခုထက်တိုင် ရိုးသည် မရှိသောကြောင့်၊ ဒုတိယ ကမ္ဘာစစ်ပြီးခေတ်၊ ခရစ်နှစ် ၁၉၅၁ ခုနှစ်တွင် တတိယအကြိမ် ပြန်လည်ပုံနှိပ်ထုတ်ဝေရပြန်လေသည်။ (ပီမိုးနင်း — ရှု။)

ပီမိုးနင်းသည် ခေတ်ဟောင်းစာရေးနည်းမှ ခေတ်သစ်စာရေးနည်းသို့ ပဌမဦးစွာ ထိထိရောက်ရောက် တီထွင်ပြောင်းလဲ ရေးသားခဲ့သူဖြစ်သည်။ အနောက်တိုင်းအယူအဆကို အရှေ့တိုင်းအယူအဆသို့ အများဆုံး သယ်ယူ ပုံသွင်းပေးခဲ့သူလည်း ဖြစ်သည်။ခေတ်ဟောင်းဝတ္ထုအရေးအသားမျိုးဖြစ်သော "ရောင်ခြည်တထောင် အလင်းဆောင်သည့် ဘာဏုရာဇာ နေမင်းသည် အနောက်ဂေါယာကျွန်းသို့ ယွန်းလုဆဲဆဲ အချိန်အခါ" စသည့် အရေးအသားမျိုးမှ "လသည် ရေးရေးကလေးမျှ အနောက်ဖက်စောင်း၌ ပေါ်နေ၏။" ဟူသော အရေးအသားမျိုးသို့ ပြောင်းလိုက်သည်။ ပီမိုးနင်းသည် ဝတ္ထု၌ အရေးမပါသော အချီးအဖွဲ့များကို စေ့စပ်သေချာစွာမဖော်ပြပေ။ ဖတ်သူများ မိမိတို့ဖာသာ သိနိုင်သော အကြောင်းအရာများကို တခမ်းတနား ခြီးကျူးဖွဲ့နွဲ့ရေးသားခြင်းဖြင့်၊ စာဖတ်သူတို့ ငြီးငွေ့သွားမည်စိုးသောကြောင့် ဖြစ်ဟန်တူသည်။ ထို့ကြောင့် ဝတ္ထုဇာတ်လမ်းအတွက် အရေးပါသော အချက် အလက်များကိုသာ ထိရောက်ပေါ်လွင်အောင် အဖွဲ့အနွဲ့မများဘဲနှင့် အများနားလည်နိုင်သောအရေးအသားတို့ဖြင့် နေရီရိဝတ္ထုကို ပြုစုရေးသားခဲ့လေသည်။

နေရီရိဝတ္ထုသည် မေတ္တာစစ် မေတ္တာမှန်ကို သရုပ်ဖော်ဖွဲ့နွဲ့ထားသည်။ ဝတ္ထုထဲမှ ဇာတ်လိုက် မောင်နေဝင်းနှင့် ရီရီတို့၏ အမည်ကို တွဲဖက်၍ ဝတ္ထုအမည်ကို မှည့်ခေါ် ထားခြင်းဖြစ်သည်။ နေဝင်းနှင့် ရီရီတို့သည် ငယ်စဉ်ကျောင်းသားဘဝ၌ ခင်မင်ရင်းနှီးစွာ ဆက်ဆံခဲ့ကြဘူးသည်။ နေဝင်းသည် မိဘမဲ့ဖြစ်၍ ဦးလေးအိမ်တွင် ခိုကပ်နေရ၏။ မရီရီကား အထက်တန်း အစိုးရအရာရှိကြီး တဦး၏ တဦးတည်းသော ရှုမငြီးသည့် သမီးချောဖြစ်သည်။ နေဝင်း၏ ဘဝသည် စေတနာမေတ္တာတို့ဖြင့် ကင်းဝေးခဲ့၍၊ ငြိုငြင်ဆင်းရဲမှုကိုသာ အရွယ်နှင့်မလိုက်အောင် နေဝင်းခမျာ ခံစားခဲ့ရသည်။ယင်းသို့သော ဘဝအခြေအနေကို စိုပြေသာယာအောင်ဖန်တီးပေးသူမှာ ရီရီဖြစ်သည်။ ရီရီနှင့်ကျောင်းတွင် အတူနေအတူစားရသည့် အချိန်သည် နေဝင်းအဖို့ နတ်ပြည် ရောက်နေရသော အချိန်များတည်း။ သို့သော် နေဝင်းသည် ခြောက်လခန့်မျှသာ စိတ်ချမ်းသာ ပျော်ရွှင်မှုကို ခံစားရရှာသည်။ ရီရီသည် အရပ်တပါးသို့ ပြောင်းရွှေ့သွားသဖြင့် ၊ နေဝင်း၏ဘဝမှ ပျောက်ကွယ်သွားလေသည်။ သို့သော် မိမိ၏ ဆိတ်သုဉ်း ခြောက်သွေ့နေသောဘဝကို စိုပြေသာယာအောင် အခိုက်အတန့်မျှ ဖန်ဆင်းပေးသူ နတ်မိမယ်ကလေး ရီရီအား နေဝင်းသည် အသဲစွဲနေလေတော့သည်။

နေဝင်းသည် ခိုကိုးရာမဲ့ ဘဝ၏ ဒုက္ခမျိုးစုံကို တွေ့ကြုံခံစားရသဖြင့်၊ လူဆိုးသူခိုးတို့၏ လောကတွင်းသို့ပင် ရောက်သွားသည်။ သို့သော် ရီရီကို အမြဲတသ စွဲလမ်းနေခဲ့သဖြင့်၊ မိမိကိုယ်ကို မိမိပြန်၍ အဖတ်ဆယ်နိုင်ရန် ကြိုးစားသည်။ အပေါင်းအသင်းနှစ်ဦးကို တရားချကာ ဆိုးခိုးနေရသော



အာရှတိုက် နိုင်ငံပြု သုခမိန် အိန္ဒိယနိုင်ငံဝန်ကြီးချုပ် ရှရီနေရူး

ဘဝမှ အလွတ်ရုန်းထွက်ခဲ့သည်။ ပန်းထိမ်ဆရာကြီးတဦးထံ တပည့်ခံ၍၊ ကောင်းမွန်စွာနေထိုင်ခဲ့ပါသော်လည်း၊ လောကမ်ံ ညှဉ်းချက်မကုန်သေးသဖြင့်၊ ပေါင်းဟောင်းသင်းဟောင်း မိတ်ဆွေလူဆိုး နှစ်ဦးက လုယက်၍ ယူကြသောကြောင့်၊ ပန်းထိမ်ဆရာကြီး၏ စိန်ထည်များ ဆုံးရှုံးလက်လွှတ်ရသည်။ ထိုကြောင့် မိမိကို စိတ်ချယုံကြည်အားထားခဲ့သူ ကျေးဇူးရှင်များကို မျက်နှာ မပြဝံ့သဖြင့်၊ ရန်ကုန်မှ နေ၍ ထန်းတပင်မြို့ကလေးအနီးရှိ တံငါရွာစုသို့ နေဝင်းခမျာ လွင့်ရပြန်ရှာလေသည်။

ထန်းတပင်သို့ ရောက်ခဲ့၍လည်း ရီရီနှင့် ပြန်လည် ဆုံတွေ့ရသည်။ ရီရီတို့စီးလာသောသင်္ဘော မှောက်သဖြင့် နေဝင်းသည် ရီရီ၏ ကယ်တင်ရှင် ဖြစ်လာသည်။ ပြန်၍ တွေ့ဆုံကြသည့်တိုင်အောင် နေဝင်းနှင့် ရီရီတို့၏ ချစ်မေတ္တာ ခရီးလမ်းသည် မဖြောင့်ဖြူးသေးပေ။ ရီရီသည် နေဝင်းအား ငယ်ချစ် နေဝင်းဖြစ်ကြောင်း သိလာသည်။ မိမိဘဝ၌ တွေ့ကြုံခဲ့ရသမျှကို မဖျောက်မကွယ်ဘဲ နေဝင်းကပြောပြ၍၊ ရီရီကလည်း ခွင့်လွှတ်သည်။ အခြေအနေ အဆင့်အတန်းချင်း ကွာခြားသော်လည်း၊ နေဝင်း၏ ယောကျ်ားပီသသော စိတ်ထားတို့ကြောင့်၊ ရီရီက နေဝင်းကို လက်ခံသည်။ သို့သော် ရီရီအား တဖက်သတ် အရူးအမူးချစ်ကြိုက်နေသူ မြို့အုပ်ဖုန်းကျော်၏ နှောင့်ရှက်မှုကြောင့်၊ နေဝင်းနှင့် ရီရီတို့၏ ဘဝလမ်းခရီးမှာ အထစ်ထစ်အငေါ့ငေါ့ ဖြစ်ရပြီးလျှင် သေကံမရောက် သက်မပျောက် ဖြစ်ကြရသေးသည်။ သို့သော် နောက်ဆုံးတွင် ချစ်သူနှစ်ဦး ပေါင်းဖက်လျက်၊ ချမ်းမြေ့ပျော်ရွှင်စွာ နေထိုင်ရလေသည်။

နေရူး၊ ရှရီဂျဝါဟလာ (ခရစ် ၁၈၈၉ ဖွား)။ ။ ဝါဒအမှောင်ဖုံးလွှမ်းနေသည့် ဤခေတ်တွင်၊ ငြိမ်းချမ်းသော ကမ္ဘာနှင့်လွတ်လပ်သော အာရှတိုက်အတွက် မဆုတ်မနစ် ကြိုးပမ်းနေသူမှာ အိန္ဒိယ ခေါင်းဆောင်ကြီး ရှရီ ဂျဝါဟလာ နေရူးဖြစ်သည်။

နေရူးကို ခရစ် ၁၈၈၉ ခုနှစ် နိုဝင်ဘာလ ၁၄ ရက်နေ့တွင် ယူနိုက်တက် ပရောဗင့်ပြည်နယ် အယ်လာဟာဗက်မြို့၌ ကုံလုံကြွယ်ဝသော မိဖများမှ ဖွားမြင်သည်။ ဖခင်ဖြစ်သူမှာ မျိုးချစ်စိတ် ထက်သန်လှသော ရှေ့နေကြီး မိုတီလာနေရူး ဖြစ်သည်။

ငယ်ရွယ်စဉ် အခါက နေရူးသည် နည်းပြဆရာများနှင့် အိမ်မှာပင် ပညာသင်ကြားခဲ့သည်။ သူ၏ အသက် ၁၅ နှစ်အရွယ် ၁၉၀၅ ခုနှစ် မေလသို့ ရောက်သောအခါ၊ အင်္ဂလန်ပြည် ဟဲရိုး ကျောင်းကြီးသို့ ပညာများ သွားရောက် သင်ကြားသည်။ ထိုမှတဆင့် ကိမ်းဗရစ်တက္ကသိုလ် ထရင်နီတီ ကောလိပ်တွင် ပညာဆက်လက် ဆည်းပူးသည်။ ၁၉၁၂ ခုနှစ်၌ ဝတ်လုံတော်ရဘွဲ့ကို ရရှိပြီးနောက်၊ အမိ အိန္ဒိယနိုင်ငံသို့ ပြန်လာ၍ ဇာတိဖြစ်သော အယ်လာဟာဗက်မြို့ တရားလွှတ်တော်တွင် အမှုလိုက်လေသည်။

ထိုအခါက အိန္ဒိယ နိုင်ငံတွင် အင်္ဂလိပ်များသည် အကြီးအကျယ် အာဏာပြ စိုးမိုးချယ်လှယ်လျက် ရှိကြ၏။ အင်္ဂလိပ်ကုမ္ပဏီကြီးများသည် အိန္ဒိယ အလုပ်သမားများနှင့် တိုင်းသူပြည်သားများ အပေါ်တွင် စီးပွားရေးအားဖြင့် ချယ်လှယ်အမြတ်ထုတ်လျက်၊ အိန္ဒိယ နိုင်ငံရေးနှင့် နိုင်ငံခြား ဆက်သွယ်ရေးများကိုလည်း ချုပ်ချယ်ထားကြရာ၊ ယင်းအဖြစ်ကို

ဥပဒေကျောင်းပြီး လျစ်လျူရှု၍ မနေနိုင်သော နေရူးသည် အိန္ဒိယနိုင်ငံ၏ လွတ်လပ်ရေးတိုက်ပွဲ အတွင်းသို့ ခြေစုံပစ်ဝင်လိုက်တော့လေသည်။ ထိုစဉ် အခါက အိန္ဒိယ နိုင်ငံ၏ နိုင်ငံရေးလောကတွင် အိန္ဒိယနိုင်ငံလုံးဆိုင်ရာ ကွန်ဂရက် ပါတီသည် ဟိန္ဒူတို့၏ အင်အားကြီးမားသော အဖွဲ့အစည်းဖြစ်ပြီးလျှင် ကိုယ်ပိုင် အုပ်ချုပ်ရေး ရရှိရန် အပြင်းအထန် ကြိုးပမ်းတောင်းဆိုလျက် ရှိနေလေသည်။ နိုင်ငံရေး လောကထဲသို့ ဝင်ရောက်လာသော နေရူးသည် ၁၉၁၈ ခုနှစ်၌ အိန္ဒိယ နိုင်ငံလုံးဆိုင်ရာ ကွန်ဂရက် ပါတီ၏ ကော်မတီဝင်တဦးဖြစ်လာ၏။ အိန္ဒိယနိုင်ငံ၏ခေါင်းဆောင်ကြီး မဟတ္တမဂန္ဒီ၏ လက်ရုံးတဆူလည်းဖြစ်လာ၏။ (ဂန္ဒီ၊ မဟတ္တမ — ရှု။) မဟတ္တမဂန္ဒီသည် အနုနည်း သက်သက်ဖြင့် အာဏာဖီဆန်ရေး၊ မပူးပေါင်းရေးတို့ကို လှုံ့ဆော်ကာ၊ လွတ်လပ်ရေးတိုက်ပွဲ ဆင်နွှဲလျက်ရှိရာ၊ နေရူးလည်း ခေါင်းဆောင်ကြီး မဟတ္တမဂန္ဒီ၏ လမ်းစဉ်ကို လိုက်၍၊ တဖက်သတ် ဖိနှိပ် ချုပ်ချယ်ခဲ့သော ဗြိတိသျှ အစိုးရ အာဏာပိုင်တို့နှင့် ပူးပေါင်းဆောင်ရွက်ခြင်း၊ အလုပ်လုပ်ကိုင်ခြင်းများ မပြုကြရန်၊ နိုင်ငံတဝှန်းလုံးသို့ လှည့်လည်ကာ၊ နိုင်ငံရေး တရားများ ဟောလေသည်။ ၁၉၂၉ ခုနှစ်၌ နေရူးသည် အိန္ဒိယနိုင်ငံလုံးဆိုင်ရာ ကွန်ဂရက် ပါတီ၏ ဥက္ကဋ္ဌအဖြစ် ရွေးကောက် တင်မြှောက်ခြင်း ခံရလေသည်။

နေရူးသည် မိဘတို့ ပေးထိမ်းမြားသော ကမလာဆိုသူ အမျိုးသမီးတဦးနှင့် ၁၉၁၆ ခုနှစ်တွင် လက်ဆက်ခဲ့သည်။ သို့သော် သူတို့နှစ်ဦး၏ ချစ်ခြင်းသည် အနှစ် ၂၀ ကြာပြီးသည့်နောက်၊ ကြည်ကွဲဖွယ်ရာ အဆုံးသတ်ခဲ့ရ ပေသည်။ နေရူး၏ ဇနီးသည် ကမလာသည် ၁၉၃၆ ခုနှစ် ဖေဖွာရီလ ၂၀ ရက်နေ့တွင် ကွယ်လွန်ခဲ့လေသည်။

နိုင်ငံရေး လောကထဲသို့ ဝင်ရောက်ခဲ့သော နေရူးသည် မဟတ္တမဂန္ဒီနှင့်အတူ လွတ်လပ်ရေးတိုက်ပွဲ ဆင်နွှဲယင်း၊ ၁၉၂၁ ခုနှစ်နောက်ပိုင်း၌ ဗြိတိသျှ အာဏာပိုင် အစိုးရတို့၏ ထောင်သွင်း အကျဉ်းချထားခြင်းများကို အကြိမ်ကြိမ်ခံခဲ့ရ၏။ နေရူး ထောင်ကျခံခဲ့ရသည့်နှစ်များကို စုပေါင်းလိုက်သော်၊ ၁၄ နှစ်ခန့်ရှိပေသည်။ သူ၏ဖခင် မိုတီလာနေရူးနှင့် သူ၏ ဇနီးသည် ကမလာတို့လည်း နေရူးနှင့်အတူ လွတ်လပ်ရေးတိုက်ပွဲ ဆင်နွှဲခဲ့ကြခြင်းကြောင့်၊ ဗြိတိသျှ အစိုးရတို့၏ ထောင်သွင်း အကျဉ်းချထားခြင်းများကို အကြိမ်ကြိမ် ခံခဲ့ကြရပေသည်။ နေရူးသည် ထောင်ကျနေခဲ့သည့် နှစ်များအတွင်း ထောင်ထဲ၌ သူ၏ ကမ္ဘာကျော် စာအုပ်များဖြစ်သော "ကိုယ်တိုင်ရေးအတ္ထုပ္ပတ္တိ"၊ "လွတ်လပ်ရေးသို့" နှင့် "ကမ္ဘာ့သမိုင်းကြေးမုံ" တို့ကို ပြုစုရေးသားခဲ့လေသည်။

နိုင်ငံရေးကို ဆောင်ရွက်ရာ၌ နောက်ပိုင်းတွင် နေရူးသည် မတ်ဝါဒကို သက်ဝင်ယုံကြည်သော ဆိုရှယ်လစ်တဦးဖြစ်လာသည်။ သို့သော် နေရူးသည် ကွန်မြူနစ်ဝါဒကိုဆန့်ကျင်လေသည်။ ၁၉၄၆ ခုနှစ်၌ ဗြိတိသျှ အစိုးရသည် အိန္ဒိယ နိုင်ငံအား လွတ်လပ်ရေးပေးရန် စီစဉ် ပြုလုပ်ကြသောအခါ၊ နေရူးသည် ထိုနှစ် စက်တင်ဘာလတွင် အိန္ဒိယ ကြားဖြတ် အစိုးရ၏ ဘုရင်ခံချုပ် အလုပ်အမှုဆောင်ကောင်စီအဖွဲ့တွင် ဒုတိယ ဥက္ကဋ္ဌ ဖြစ်လာလေသည်။

၁၉၄၇ ခုနှစ် ဩဂုတ်လ ၁၅ ရက်နေ့၌ အိန္ဒိယနိုင်ငံသည် ဒိုမီနီယန် အဆင့်အတန်းရ၏။ ထိုအခါ နေရူးသည် အိန္ဒိယ အစိုးရအဖွဲ့၏ ဝန်ကြီးချုပ်ဖြစ်လာသည်။ ထိုနောက် ၁၉၅၀ ပြည့်နှစ် ဇန္နဝါရီလ ၂၆ ရက်နေ့၌ အိန္ဒိယနိုင်ငံသည် လွတ်လပ်ရေးကို ရရှိခဲ့သောအခါ၊ နေရူးပင်လျှင် ဝန်ကြီးချုပ်အဖြစ်ဖြင့် လွတ်လပ်သောအိန္ဒိယနိုင်ငံ၏ ပဌမဦးဆုံး အစိုးရအဖွဲ့ကို ခေါင်းဆောင် ဖွဲ့စည်းခဲ့ပေသည်။

နေရူးသည် သူ၏ ရည်မှန်းချက်ဖြစ်သော အိန္ဒိယနိုင်ငံ၏ လွတ်လပ်ရေးကို ရရှိပြီးသည့်နောက်၊ အာရှတိုက်၏ လွတ်လပ်ရေးကို ပေါ်ပေါက်အောင် ကြိုးပမ်းခဲ့ပြန်သည်။ "အာရှတိုက်သည် အာရှတိုက်သားများအဖို့" ဟူသော သူ၏ကြွေးကြော်သံသည် အာရှနိုးကြားထကြွမှုတွင် အဓိက ဆောင်ပုဒ်ဖြစ်လေသည်။ နယ်ချဲ့လက်အောက်တွင် ကြာရှည်လေးမြင့်စွာ ဖိနှိပ်ချုပ်ချယ်ခြင်းခံနေခဲ့ရသော အာရှတိုက် တတိုက်လုံးသို့ အမျိုးသားစိတ်ဓာတ် အဟုန်ကို ဖြန့်လွှတ်သူမှာ နေရူးပင် ဖြစ်သည်ဟု ဆိုသင့်ပေသည်။

ယခုအခါ နေရူးသည် ကမ္ဘာ့ငြိမ်းချမ်းရေးကို အပြင်းအထန် ကြိုးပမ်းဆောင်ရွက်လျက်ရှိ၏။ နေရူးသည် တရုပ်ပြည်သူ့သမတ နိုင်ငံကို ကမ္ဘာ့ကုလသမဂ္ဂသို့ ဝင်ခွင့် ပြုရန် အတွက်လည်း အပြင်းအထန် ထောက်ခံတောင်းဆိုခဲ့သည်။ ကမ္ဘာ့ဖျက်လက်နက်ဆန်းများဖြစ်သော အနုမြူဗုံး၊ ဟိုက်ဒရိုဂျင်ဗုံး အစရှိသော လက်နက်များကို ပိတ်ပင်တားမြစ်ရန်လည်း၊ နေရူးသည် လေးနက်စွာ တောင်းဆိုခဲ့သည်။ နေရူးသည် ဝါဒကို ဂရုမပြု။ သူ၏ ရည်မှန်း ကြိုးပမ်းချက်မှာ တကမ္ဘာလုံး၏ ငြိမ်းချမ်းရေး ဖြစ်လေသည်။

သန်းပေါင်း ၃၅၀ ကျော်မျှရှိသော အိန္ဒိယ အမျိုးသားတို့ ကြည်ညို အားထားခြင်း၊ ကမ္ဘာ့နိုင်ငံတကာရှိ လူထုအသီးအသီးတို့၏ ချစ်ခင် လေးစားခြင်းတို့ကို ခံယူရရှိနေသော နေရူးကို လူတယောက်အနေဖြင့် လေ့လာသော်၊ စိတ်ကူးယဉ်သမားနှင့် လက်တွေ့သမားတို့ ပေါင်းစပ်ထားသော သဘောသဏ္ဌာန်ကို တွေ့မြင်ရပေလိမ့်မည်။ နေရူးသည် နိုင်ငံရေးရာများကြောင့်၊ လူပန်းစိတ်ပန်း ဖြစ်နေစဉ် အခါမှာပင် စာပေရေးရာကို မမေ့မလျော့ခဲ့ချေ။ စာအုပ်စာတမ်းပေါင်းများစွာကို ပြုစုရေးသားခဲ့လေသည်။ ထိုကြောင့်လည်း အိန္ဒိယနိုင်ငံသူ နိုင်ငံသားအပေါင်းက သူ့အား နာမည်ရှေ့တွင် ပဏ္ဍိတ် (ဝါ) ပညာရှင်ဟူသော ဝိသေသထူးတလုံးကို ထည့်၍ ခေါ် ဝေါ် ခဲ့ကြ၏။ သို့ရာတွင် မြင့်မြတ်မှုသဘောကို လိုလား



အင်္ဂလန်ပြည် လန်ဒန်မြို့ စိန့်မာတင်ရပ်ရှိ နေရှင်နယ် ပန်းချီပြတိုက်

ခံမင်ခြင်း၊ စုံမက်နှစ်သက်ခြင်းမရှိသော နေရှူးသည် လူသာမန် ပုဂ္ဂိုလ်တို့ကဲ့သို့ ရှုရှိဟူသော ဝိသေသကိုသာ သူ၏နာမည်ရှေ့၌ ထည့်သွင်းခေါ်ဝေါ်စေလေသည်။

နေရှူးသည် မြန်မာနိုင်ငံသို့ ၁၉၃၇ ခုနှစ်ကတကြိမ်၊ ၁၉၄၉ ခုနှစ်က တကြိမ်၊ ၁၉၅၅ ခုနှစ်ကတကြိမ် ပေါင်း ၃ ကြိမ်မျှ ချစ်ကြည်ရေး အလည်အပတ် ရောက်ရှိခဲ့ဘူးလေသည်။

**နေရှင်နယ်ထရတ်အဖွဲ့။** ။ဂရိတ်ဗြိတိန် နိုင်ငံတွင် ထူးကဲလှပသော သဘာဝရှုမျှော်ခင်းများ တည်ရာဌာနတို့ကိုရင်း၊ နိုင်ငံသမိုင်း၌ အဓိကရဖြစ်သောရှေးဟောင်းအဆောက်အအုံ တည်ရာဌာနတို့ကိုရင်း မပျောက်မပျက်စေရန် စောင့်ရှောက်သော နေရှင်နယ်ထရတ်ခေါ် တမျိုးသားလုံးနှင့် ဆိုင်သည့် အဖွဲ့တဖွဲ့ရှိလေသည်။ ထိုအဖွဲ့ကို ခရစ် ၁၈၉၅ ခုနှစ်တွင် တည်ထောင်သည်။ ထိုအဖွဲ့၏ လုပ်ငန်းမှာ ဂရိတ်ဗြိတိန် နိုင်ငံတွင်းရှိ သမိုင်းအရ ထင်ရှားသော အဆောက် အအုံနှင့် မြေရာဘိုကိုရင်း၊ နိုင်ငံ၏ ကျက်သရေကို ဆောင်သော သဘာဝ ရှုမျှော်ခင်းတည်ရာ ပန်းမာလ်ဥယျာဉ်တို့ကိုရင်း ထာဝစဉ် ထိန်းသိမ်း စောင့်ရှောက်ထားရှိရေးအတွက် အများပြည်သူတို့ လှူဒါန်းသော အလှူငွေနှင့် အစိုးရ၏ အကူအညီတို့ကို ခံယူကာ၊ စီမံအုပ်ချုပ် လုပ်ဆောင်ရသော အဖွဲ့ဖြစ်သည်။ ထိုအဖွဲ့သည် အိုင်ယာလန်မြောက်ပိုင်း၊ ဝေလနယ်နှင့် အင်္ဂလန်ပြည်တို့အတွင်း၌ ဧကပေါင်းနှစ်သိန်းကျော်မျှကျယ်ဝန်းသော မြေတို့ကို စီမံအုပ်ချုပ်လျက် ရှိသည်။ ထိုမြေပေါ်တွင် ရှေးဟောင်း အဆောက်အအုံပေါင်း တထောင်ကျော်မျှရှိသည်။ ထိုမျှကျယ်ဝန်းသော မြေနေရာနှင့် များပြားလှသော ရှေးဟောင်း အဆောက်အအုံတို့ကို အဖွဲ့က ဝယ်ယူ၍ရင်း၊ သူတပါးကလှူဒါန်း၍ရင်း၊ သေတမ်းစာဖြင့်လွှဲပြောင်းပေးအပ်ကြ၍ရင်း အဖွဲ့လက်ဝယ်ရရှိထားသည်။ ထိုအဖွဲ့မျိုးနှင့် အလားတူ အဖွဲ့တဖွဲ့ကို စကော့တလန်ပြည်တွင် ၁၉၃၁ ခုနှစ်ကစ၍ တည်ထောင်ထားသည်။

**နေရှင်နယ်ပန်းချီပြတိုက်။** ။နေရှင်နယ် ပန်းချီပြတိုက်ဟူသည်မှာ နိုင်ငံပိုင်ပန်းချီကား၊ ရုပ်လုံး၊ ရုပ်တုများကိုထိန်းသိမ်း ပြသထားသော ပြတိုက်မျိုး ဖြစ်သည်။ ထိုသို့သော ပြတိုက်မျိုးအတွက် စေတနာရှင်များက လှူဒါန်းသော အနုပညာပစ္စည်းများအပြင်၊ ပြည်သူ့ရံပုံငွေများဖြင့် အနုပညာပစ္စည်းများ ဝယ်ယူ စုဆောင်းဖြည့်တင်းခြင်းကိုလည်း ပြုသည်။ ယင်းသို့သော ပန်းချီပြတိုက်မျိုးကို ပဌမဆုံးစတင်တည်ထောင်ခဲ့သည့် ပုဂ္ဂိုလ်များတွင် ပဌမနပိုလီယန်ဘုရင်သည်လည်း တဦးအပါအဝင် ဖြစ်သည်။ နပိုလီယန်သည် ပြင်

သစ်မင်းအဆက်ဆက်တို့ စံမြန်းခဲ့သော လူးဗရနန်းတော်ကို ပန်းချီပြတိုက်အဖြစ်ပြောင်းလဲလိုက်ပြီးသော်၊ ဥရောပတိုက် အရပ်ရပ်မှ အနုပညာပစ္စည်းများကို စုဆောင်းထိန်းသိမ်းထားစေခဲ့သည်။ ယခုတိုင် ကမ္ဘာပေါ်၌ပန်းချီပန်းပုစသော အနုပညာဆိုင်ရာ အကောင်းဆုံးလက်ရာများကို ထိန်းသိမ်းပြသ ထားနိုင်သည့် ပြတိုက်ကြီးဖြစ်နေသည်။ ယင်းပြတိုက်ရှိ ကမ္ဘာကျော်အနုပညာလက်ရာနှစ်ခုမှာ ဗီနပ်ဒါမီလို ရုပ်တုနှင့် လီယိုနာဒိုဒါဗင်းချီ၏ မိုနာလီဇာ ပန်းချီကား ဖြစ်လေသည်။

လန်ဒန်မြို့ရှိ နေရှင်နယ် ပန်းချီပြတိုက်သည်လည်း ကမ္ဘာကျော်ဖြစ်သည်။ ထိုပန်းချီပြတိုက်ကို ၁၈၂၄ ခုနှစ်တွင် စတုတ္ထဂျော့ဘုရင်၏ ညွှန်ကြားချက် အရ၊ နိုင်ငံတော် အစိုးရကဝယ်ယူခဲ့သော အန်ဂါစတိုင်း စုဆောင်းထားခဲ့သည့် ပန်းချီကား ၃၈ ချပ်ဖြင့် အစပျိုးကာ တည်ထောင်ခဲ့သည်။ ပဌမတွင် ပေါမောရပ်ကွက်၊ တိုက်အမှတ် ၁၀၀ ၌ ငှင်း၊ ထိုနောက်တွင် ယင်းရပ်ကွက် တိုက်အမှတ် ၁၀၅ ၌ငှင်း ပြတိုက်ကို ဖွင့်လှစ်ထားခဲ့သည်။ နောင်အခါ ထရာဖဲလဂါ စကွဲယားနှင့် မျက်နှာချင်းဆိုင်တွင်၊ ယခုလက်ရှိအဆောက်အအုံကို ၁၈၃၈ ခုနှစ်တွင် ဆောက်လုပ် ပြီးစီးသွားသောအခါ၊ ထိုအဆောက်အအုံသို့ ရွှေ့ပြောင်းခဲ့လေသည်။

အင်္ဂလိပ် နေရှင်နယ် ပန်းချီပြတိုက်သည် နောင်ထပ်မံ၍ ဝယ်ယူစုဆောင်းခြင်း၊ သေတမ်းစာများဖြင့် လွှဲအပ်ပေး၍ လက်ခံရရှိခြင်း၊မေတ္တာလက်ဆောင် ရရှိခြင်းတို့ကြောင့် ယခုအခါ ဥရောပတိုက်တွင် ပန်းချီဆိုင်ရာ လက်ရာ အစုံလင်ဆုံးသော ပြတိုက်ကြီး ဖြစ်နေလေပြီ။ ရရှိထားသည့် ပန်းချီကားများကို ရေးဆွဲပုံ စံနစ်အလိုက်၊ ဂိုဏ်းအလိုက် ခွဲခြားပြသထားသည်။ ဖလန်းဒါးပန်းချီလက်ရာများနှင့်၊ ဒပ်ချပန်းချီလက်ရာများ အမြောက်အမြား ရရှိထားလေသည်။ ဖလော်ရင့်၊ ဗင်းနစ်နှင့် အမ်ဗရီးယား ပန်းချီကျော်များ၏ လက်ရာများကလည်း မနည်းလှပေ။ လက်ရာမွန် ပန်းချီကားများ အနက် ဖိလစ်ပိုလစ်ပီ၊ မိုက်ကယ်အန်ဂျလို၊ တစ်ရှန်၊ ရက်ဖီအယ်စသော ကမ္ဘာကျော် ပန်းချီ ဆရာကြီးများ၏ လက်ရာများလည်းပါဝင်သည်။ စပိန်နိုင်ငံမှမျူရီလို၊ ဗေလက်ကတ်နှင့် ဂိုးယာ၊ ပြင်သစ်မှ ကလော့နှင့် ပူးဆန်တို့၏ လက်ရာများကိုလည်း တခမ်းတနား တွေ့ရသည်။ ဗြိတိသျှပန်းချီကို ပန်းချီခေတ်ဦးမှ မျက်မှောက်ပန်းချီအထိသမိုင်းနှင့်ချီပြီး ပြသထားရာ၊ အထူးသဖြင့် ဗြိတိသျှ ပန်းချီကျော် တာနာ၏ လက်ရာကောင်းများစွာကို တွေ့ရလေသည်။ ဒုတိယကမ္ဘာစစ်ကြီးအတွင်းက ယင်းသည့် ပြတိုက်ကြီးမှ ရှားပါး အဖိုးတန်လှသောပန်းချီကားများကို ဝေလနယ်စသော ဘေးကင်းလုံခြုံရာဒေသများသို့ ပြောင်းရွှေ့ ထားခဲ့ရလေသည်။

အက်ဒင်ဗာရာမြို့၌လည်း စကော့တလန် နေရှင်နယ်ပန်းချီပြတိုက်တခုရှိသည်။ ယင်းသည့် ပြတိုက်တွင်လည်း ဣတလီ၊ ဒပ်ချနှင့် ပြင်သစ် ပန်းချီကားများရှိသည်။ စကော့ပန်းချီကျော် ဆာဟင်နရီရေးဗန်း၏ လက်ရာများကို အများဆုံးတွေ့ရလေသည်။

၁၉၃၇ ခုနှစ်တွင် ကွန်ဂရက် လွှတ်တော်မှ ဥပဒေဖြင့်ပြဋ္ဌာန်းချက် အရ၊ အမေရိကန် ပြည်ထောင်စု၏ နေရှင်နယ် ပန်းချီပြတိုက်ကို ဝါရှင်တန်မြို့၌ ၁၉၄၁ ခုနှစ်တွင် ဖွင့်လှစ်ခဲ့သည်။ ယင်းမှာ အင်ဒရူးမဲလန် အမည်ရှိ ဘဏ်သူဌေးကြီးသည် မိမိ အနှစ်နှစ်အလလ ရှာဖွေစုဆောင်းထားခဲ့သော ၁၃ ရာစုနှစ်မှ ၁၈ ရာစုနှစ်အထိ၊ ကမ္ဘာကျော် ပန်းချီလက်ရာမွန်များကိုသာမက၊ ယင်းတို့ကို ထိန်းသိမ်းပြသထားရန် အတွက် အဆောက်အအုံတခု ဆောက်ရန် ရံပုံငွေပါ လှူဒါန်းခဲ့သည်ကို အကောင်အထည် ဖော်လိုက်ခြင်း ဖြစ်လေသည်။ ပြတိုက်ကြီးကို ဆောက်လုပ်ရာတွင် ဒေါ်လာ ၁၅ သန်းကုန်ကျသည်။ ကမ္ဘာပေါ်တွင် အကြီးဆုံးသော ကျောက်ဖြူ အဆောက်အအုံကြီးတခု ဖြစ်လေသည်။

ယင်းပြတိုက်ကြီးတွင် မဲလန်စုဆောင်းထားခဲ့သော ရက်ဖီအယ်၊ ဗန်အိုက်၊ ရမ်းဗရန့်၊ ဗားမေး စသော ကမ္ဘာကျော်ဥရောပပန်းချီကျော်ကြီးတို့၏ လက်ရာ ပန်းချီကား ၁၂၇ ကားနှင့်ရုပ်တု ၂၆ ခုရှိသည်။နယူးယော့မြို့မှ ဆယ်မျူယယ်ကရက်စ က ပန်းချီကား ၃၇၅ ချပ်နှင့် ရုပ်တု ၁၈ ခုကိုလှူဒါန်းခဲ့သည့် အနက်၊ ဥရောပ ပန်းချီကျော်ကြီးများ၏ လက်ရာ အမြောက်အမြားပါသည်။ ဖီလဒဲလဖီးယားမြို့မှ ဂျိုးဇက်ဝိဒီးနားဆိုသူကလည်း မိမိနှင့် မိမိ၏ ဖခင်ကြီးတို့ စုဆောင်းလာခဲ့သော ပန်းချီကားများကို လှူဒါန်းခဲ့ရာ၌ ရက်ဖီအယ်၊ ဗဲလီနီ၊ ရမ်းဗရန့်၊ ဗားမေးနှင့် ဗန်အိုက်တို့၏ လက်ရာများလည်းပါဝင်လေသည်။ ထို့ပြင် လက်ဆင်းဂျေရိုဆန်ဝါးဆိုသူ လှူဒါန်းခဲ့သော ပုံနှိပ်ပန်းချီကားချပ်နှင့် ပုံဆွဲကားချပ်ပေါင်း ၁,၀၀၀ ကျော်တို့ကိုငှင်း၊ အမေရိကန်ဒီဇိုင်းအမျိုးမျိုးကိုငှင်း၊ အမေရိကန် ပန်းချီကျော် ချက်စတာအေ ဒေးနှင့် ဒန်ကင်ဖိလစ်စသည်တို့၏ လက်ရာမွန်၊ လက်ရာညွန့်တို့ကိုငှင်း ယင်း ပြတိုက်ကြီးအတွင်း၌ ခင်းကျင်းပြသထားလေသည်။

**နေရှင်နယ်ပုံတူ ပန်းချီပြတိုက်။** ။အင်္ဂလန်ပြည် လန်ဒန်မြို့ စိန်မာတင် အရပ်တွင် နေရှင်နယ်ပုံတူ ပန်းချီပြတိုက်ဟူ၍ အမည်ရှိသော ပြတိုက်တခုရှိသည်။ ထိုပြတိုက်တွင် ဗြိတိန်နိုင်ငံ သမိုင်း၌ ထင်ရှားခဲ့သော ပုဂ္ဂိုလ်ကြီးများ၏ ပုံတူပန်းချီကားများကို ချိတ်ဆွဲပြသထားသည်။ ဘုရင်မင်းမြတ်နှင့် မိဖုရားကြီးတို့၏ ရုပ်ပုံမှ တပါး၊ အခြားမည်သည့် အသက်ထင်ရှားရှိသော ပုဂ္ဂိုလ်၏ ပုံတူပန်းချီကားကိုမျှ ထို ပြတိုက်တွင် ချိတ်ဆွဲပြသနိုင်ခွင့် မရှိပေ။ ကွယ်လွန်ပြီး ပုဂ္ဂိုလ်တို့၏ ပုံတူကိုသာ ချိတ်ဆွဲရစမြဲ ဖြစ်၏။ ထိုပြင်လည်း ပုံ

ဟောင်းမှ တဆင့် ကူးဆွဲထားသော ပုံသစ်များကိုလည်း မပြသနိုင်ချေ။

၁၈ ရာစုနှစ်မတိုင်မီက အင်္ဂလိပ် လူမျိုးထဲမှ ပုံတူ ရေးဆွဲတတ်သောပန်းချီဆရာများ နည်းပါးလှသဖြင့်၊ အင်္ဂလန်ပြည်တွင် လာရောက်နေထိုင်ကြသော နိုင်ငံခြား ပန်းချီဆရာကြီးများ၏ ပန်းချီကားများကိုသာ ထိုပန်းချီပြတိုက်တွင် အများဆုံး တွေ့ရလေသည်။ ယင်းတွင် ပုံတူပန်းချီကားပေါင်း ၃,၁၀၀ ကျော်ခန့်ရှိရာ၊ ဟောလဗိုင်း၊ ဗန်ဒိုက်၊ ဂိန်းစဗရား၊ ရွှမ်မနီ၊ ရေးဗန်း၊ ဆားဂျင့်စသော ပန်းချီကျော်ဆရာကြီးများ၏ လက်ရာများကို တွေ့ရပေသည်။

နေရှင်နယ် ပုံတူပန်းချီပြတိုက်ကို ၁၈၅၆ ခုနှစ်တွင် စတင်တည်ထောင်၍၊ ၁၈၅၉ ခုနှစ်တွင် လန်ဒန်မြို့ ဂရိတ်ဂျော့လမ်းအမှတ် ၂၉ ၌ စတင်တည်ထောင်ဖွင့်လှစ်သည်။ ၁၈၆၉ ခုနှစ်မှ ၁၈၈၅ ခုနှစ်အတွင်း၌ တောင်ကင်းဆင်းတန်း အရပ်၌ ဖွင့်လှစ်၍၊ ၁၈၈၅ ခုနှစ်မှ ၁၈၉၅ ခုနှစ်အထိ ဗီသနယ်ဂရင်းပြတိုက်တွင် ဖွင့်လှစ်ထားရှိခဲ့သည်။ ယခုလက်ရှိ ပြတိုက်ကို ၁၈၉၅ ခုနှစ်တွင် အပြီးသတ် ဆောက်လုပ်ခဲ့၍၊ ၁၈၉၆ ခုနှစ်တွင် ဖွင့်လှစ်ခဲ့သည်။ ၁၉၃၃ ခုနှစ်တွင် တဖန် အနောက်ဖက်အဆောင်ကို တိုးချဲ့ဆောက်လုပ်ခဲ့သည်။

**နေလကြတ်ခြင်း။** ။လ သည် နေ နှင့် ကမ္ဘာအကြားသို့ ရောက်ရှိစဉ်၊ နေကို လက ကွယ်ထားလျှင် နေကြတ်သည်ဟု ခေါ်သည်။ နေနှင့်လတို့ အကြားသို့ ကမ္ဘာရောက်ရှိစဉ်၊ လပေါ်၌ ကမ္ဘာ၏အရိပ်ကျအောင် ကမ္ဘာကကွယ်ထားလျှင် လကြတ်သည်ဟု ခေါ်သည်။

နေနှင့် ကမ္ဘာကို ဖြတ်၍ မျဉ်းတကြောင်းကို စိတ်ကူးဖြင့်ဆွဲကြည့်ပါ။ လသည် ကမ္ဘာကို တလလျှင် တကြိမ်လှည့်ပတ်သဖြင့်၊ တလလျှင် နှစ်ကြိမ်ကျ ထိုမျဉ်းကို ဖြတ်သွားစရာအကြောင်းရှိသည်။ ထိုသို့ဖြတ်သွားလျှင် လတိုင်းလတိုင်းနေတကြိမ်နှင့် လတကြိမ် ကြတ်ဖို့ရှိပေသည်။ သို့ရာတွင် ကမ္ဘာကို လှည့်ပတ်နေသော လ၏ လမ်းကြောင်းသည် နေကို လှည့်ပတ်နေသော ကမ္ဘာ၏ လမ်းကြောင်းနှင့် စောင်းနေသည့် အတွက်၊ နေနှင့်လတို့သည် ရံဖန်ရံခါမှသာ ကြတ်တတ်လေသည်။ (နေ၊ လ — လည်းရှု။)

တနှစ်လျှင် နေငါးကြိမ်အထိ ကြတ်နိုင်၍၊လနှစ်ကြိမ်အထိ ကြတ်နိုင်သည်။ နေနှစ်ကြိမ်သာကြတ်၍၊ လ တကြိမ်မျှ မကြတ်သော နှစ်လည်း ရှိနိုင်သည်။ ကမ္ဘာမြေမှ မကြာခဏမြင်ရသော နေကြတ်ခြင်းမျိုးသည် နေဝန်းပြည့်ကြတ်ခြင်းမျိုးမဟုတ်၊နေအပိုင်းကြတ်ခြင်းမျိုးသာများပေသည်။



ဗြိတိန်နိုင်ငံသမိုင်းဝင် ကွယ်လွန်သူ ပုဂ္ဂိုလ်ကြီးများ၏ ပုံတူပန်းချီကားများထားရှိရာ နေရှင်နယ် ပုံတူ ပန်းချီပြတိုက်

နေဝန်းပြည့်ကြတ်ခြင်းမျိုးကို သဗ္ဗကြတ်ဟုခေါ် သည်။ သဗ္ဗကြတ်ခြင်းကို ကမ္ဘာမြေတနေရာမှ နှစ်ပေါင်း ၃၀၀ အတွင်း တကြိမ်သာလျှင် မြင်နိုင်သည်ဟု နက္ခတ်ပညာရှင်များက တွက်ချက် ခန့်မှန်းကြသည်။ သဗ္ဗကြတ်ခြင်းကို မြင်နိုင်သော ကမ္ဘာ့ ဒေသများမှာ များသောအားဖြင့် ပစိဖိတ် သမုဒ္ဒရာ သို့မဟုတ် အတ္တလန္တိတ် သမုဒ္ဒရာများအတွင်း၌ ကျရောက်တတ်သည်။ တခါတရံတွင်လည်း လူသူမရောက်ပေါက်နိုင်သော ဒေသများဖြစ်၍ နေတတ်ပေသည်။ နေကို တလုံးလုံး မဟုတ်ဘဲ၊ အလယ်ပိုင်းကိုသာ လက ကွယ်ထားသဖြင့်၊ ဝသဏ္ဍာန် အကွင်းလိုက် ကျန်နေသော နေကြတ်ခြင်းမျိုးလည်း ရှိ၍၊ ထိုသို့ နေကြတ်ပုံမျိုးကို နေအကွင်းကြတ်ခြင်းဟု ခေါ် သည်။

နေကြတ်စဉ် နေ၏ မျက်နှာဝန်းကို လလုံးက တဖြည်းဖြည်း ဖုံးကွယ်သွားသည်။ နေဝန်းကို လလုံးက လုံးလုံး ကွယ်ထားသော အခါ၊ တမိုးလုံးမှောင်သွားတော့၏။ ထိုအခါမျိုးတွင် မိုးပေါ်မှ ကြယ်အချို့ကို မြင်ရတတ်သည်။ နေကို ကွယ်ထားသော လလုံး၏ ပတ်လည်တွင်လည်း နေ၏ နီရောင်ထုမှ ထိုးထွက်လာသော အနီရောင် မီးတောက် မီးလျှံကြီးများကိုရင်း၊ နီရောင်ထု ပတ်လည်တွင် ငွေရောင်အဆင်းနှင့် လင်းနေသော 'ကိုရိုးနား'ခေါ် နေအိမ်ဖွဲ့သည့် အလင်းကွင်းကိုရင်း တွေ့မြင်နိုင်သည်။

နက္ခတ်ပညာရှင်တို့သည် နေကြတ်ခြင်းတွင် အလွန် စိတ်ဝင်စားကြသည်။ နေကြတ်ခြင်းကို ကောင်းမွန်စွာ ကြည့်ရှုမှတ်သားနိုင်ရန်အတွက် သူတို့သည် ကရိယာတန်ဆာပလာများကို ယူဆောင်လျက် နေကြတ်သည်ကို ကောင်းစွာ မြင်ရမည့် နေရာများသို့ တပင်တပန်း သွားကြသည်။ နေကြတ်သည့် အချိန်တွင် ကမ္ဘာမြေပေါ် ၌ လ၏ အရိပ်ထိုးရာ အရပ်ဒေသတို့ကို စစ်ဆေး၍၊ လ၏ ရွေ့သွားပုံ အယူအဆများကို မှန်မမှန် ချိန်ဆ ကြည့်ကြသည်။ နေဝန်းပြည့်ကြတ်သည့် အခါမျိုး၌ နေအိမ်ဖွဲ့သည့် အလင်းကွင်းနှင့် နေမှ ထိုးထွက်နေသော အလျှံတို့ကို ဓာတ်ပုံရိုက်ယူကြသည်။ ရောင်စဉ်ကြည့် ကရိယာဖြင့် ကြည့်ရှု စစ်ဆေးကြသည်။

နေကြတ်သည်ကို ကြည့်ရှုခြင်းဖြင့် အဖိုးတန်သည့် ဗဟုသုတများကို သိရှိနိုင်သည်။ ၁၈၆၈ ခုနှစ်တွင် နေကြတ်သည်ကို ကြည့်ရှု စစ်ဆေးရာမှ နေထဲ၌ ဟီလီယမ် ဓာတ်ငွေ့ရှိကြောင်းကို သိရှိခဲ့ရသည်။ ၁၉၁၉ ခုနှစ် မေလတွင်လည်း နေကြတ်သည်ကို ကြည့်ရှုစစ်ဆေးခြင်းဖြင့်၊ နေက ဆွဲသောကြောင့် အလင်း၏ လမ်းကြောင်း ယိုင်သွားပုံကို ပြသော ကမ္ဘာကျော် သင်္ချာဆရာကြီး အိုင်းစတိုင်း၏ ရယ်လတစ်ဗတီ သီအိုရီ မှန်မမှန်ကို စမ်းသပ်နိုင်ခဲ့လေသည်။

သိပ္ပံပညာ မထွန်းကားမီ အခါက နေလကြတ်သည်ကို နတ်ဘီလူး စသည်တို့ နေနှင့်လကို ဖမ်းစားသည်ဟု ကမ္ဘာ



နေကြတ်စဉ်ဤသို့မြင်ရသည်။

အရပ်ရပ်တွင် အမျိုးမျိုးအဖုံဖုံ ယူဆခဲ့ကြသည်။ မြန်မာတို့သည်လည်း ငပုပ်အမည်ရှိသော ခွေးနက်ကြီးက မိမိသခင်ဆေးဆရာကြီး၏ ဆေးလုံးကို ခိုးယူရန်လာသော လနတ်သားကို ခုန်၍ ဖမ်းသည်ဟု ရှေးစကား အဖြစ် ပြောဆိုကြသည်။ ထိုကို စွဲ၍ လကြတ်သည်ကို လငပုပ်ဖမ်းသည်ဟု စကားစဉ် ကျန်ခဲ့လေသည်။

စာပေကျမ်းဂန်များ၌လည်း နေလကြတ်ခြင်းကို တနည်းတဖုံဖော်ပြထားသည်။ စွယ်စုံကျော်ထင်ကျမ်းတွင် နေလကြတ်ခြင်းကို အောက်ပါအတိုင်း ဖော်ပြထား၏။

ဘုရားသခင်သည် သာဝတ္ထိပြည်ဝယ် စံပယ်တော်မူသော အခါ၊ အသုရိန်သည် မြေမှ တက်၍ နေလကို ဖမ်းသည်တွင် နေနတ်သား လနတ်သားတို့က ငါတို့အား ဘုရားသခင်သာ ကိုးကွယ်ရာ ဖြစ်တော့သည်ဟု ဂါထာရွတ်၏။ ထိုအကြောင်းကို ဘုရားသခင်သည် ဂန္ဓကုဋိတိုက်တော်ကပင် ဒိဗ္ဗသောတဖြင့် ကြားတော်မူ၍၊ အချင်းရာဟု လွှတ်လော့ လွှတ်လော့ဟု မိန့်တော်မူလျှင် အသုရိန်လည်း ဖမ်းရာမှ လွှတ်၍ ပြေးလေ၏။ အသုရိန်ဟူသည်မှာ ရာဟုဂြိုဟ်ပင် ဖြစ်၏။ ရာဟုဂြိုဟ်သည် ရာသီစက်၌ လှည့်လည်သွားလာသည်ပင် ဖြစ်ငြားသော်လည်း၊ အခြားသော ဂြိုဟ်များကဲ့သို့ ကောင်းကင်၌ တည်သည်မဟုတ်၊ မြင့်မိုရ်တောင်ခြေရင်း အသုရာပြည်၌ တည်၍၊ မြေ၌ ကျက်စားသည်။ ဤသို့ သံယုတ္တနိကာယ် ဒေဝတာသံယုတ် ပါဠိတော်၌ ဟောတော်မူသော အတ္ထုပ္ပတ္တိကို ထောက်၍ သိအပ်၏။

ထိုနေလတို့ကို ဖမ်း ကစားတတ်သော ရာဟုအသုရိန်၏ အဆင်းလက္ခဏာ အသွင်အပြင်ကား မည်းနက်သော အဆင်း ရှိ၍၊ ယမမင်းကဲ့သို့ မထင်ရှားဘဲ မြေပြင်၌ လည်တတ်

၏။ ဇရဇိန်နှင့် တူသော အစွယ်သုံးချောင်းရှိလျက် ကြောက်မက်ဖွယ် ကြမ်းကြုတ်၏ဟု ကျမ်းဂန်များတွင် ဆိုလေသည်။

နေလကြတ်ခြင်းကို မြန်မာတို့၏ တွက်ချက်နည်းဖြစ်သော သရအတွက် ပြက္ခဒိန် အလိုအားဖြင့် ဟောပြောနိုင်၏။ ရာဟုအသုရိန်ဂြိုဟ် ကောင်းကင်၌ လှည့်ရာ၊ နေလတို့နှင့် ခရီးကြုံကြိုက်သဖြင့် ဖမ်းခြင်းကိုပင် သဗ္ဗကြတ်၊ ထက်ဝက်ကြတ်၊ သုံးစိတ်ကြတ် ဖမ်းသည်ဟုငှင်း၊ သမသတ်ဖမ်းသည်ဟုငှင်း ဟောပြောလေ့ ရှိကြသည်။

ထိုနောက် ရာဟု အသုရိန်က နေလတို့ကို ငပုပ်ဖမ်းဟန်ကို ပြဆိုရာတွင်လည်း၊ ရာဟုအသုရိန်၏ ကိုယ်ကား အရပ်အားဖြင့် ယူဇနာ လေးထောင့်ရှစ်ရာ၊ လက်ကတီးကြားကား ယူဇနာ တရာ့နှစ်ဆယ်၊ မောင်းလက်ရိုး အလုံးကား ယူဇနာခြောက်ရာ၊ ဦးခေါင်းကား ယူဇနာကိုးရာ၊ နဖူးပြင် ယူဇနာသုံးရာ၊ မျက်မှောင်အကြား ယူဇနာငါးဆယ်၊ ခံတွင်း အကျယ် ယူဇနာနှစ်ရာ၊ အစောက် ယူဇနာ သုံးရာ၊ နှာခေါင်း ယူဇနာသုံးရာ၊ လက်ဖဝါး ခြေဖဝါး အကျယ် ယူဇနာ ခုနစ်ရာ ရှိ၏။ ထိုရာဟု အသုရိန်သည် နေလသွားသော လမ်းဖြင့် သွား၍ နေလရထားကို မြင်လျှင် လက်ခြေကားလျက် ခံတွင်းကို ဟင်းလင်းဖွင့်လိုက်၏။ ထိုအခါ နေဗိမာန် လဗိမာန်၌ စောင့်သော နတ်တို့သည် ယူဇနာ သုံးရာနက်သော နရက်ချောက်ကြီးသို့ ကျအံ့သကဲ့သို့ ဖြစ်လျက် အလွန်ကြောက်ကုန်ရကား အခြံအရံနှင့် တကွ တပြိုင်နက် ငိုကြွေးလျက် ထွက်ပြေးကြကုန်၏။ ထိုအခါ ရာဟုသည် နေလဗိမာန်ကို ရံခါလည်း လက်ဝါးဖြင့် ဖုံး၏။ ရံခါလည်း မေးအောက်၌ ထား၏။ ရံခါလည်း လျှာဖြင့် လျက်၏။ ရံခါလည်း ပါးစောင်၌ ထား၏။ ယင်းသို့ ငုံနိုင် လွှမ်းနိုင်သော်လည်း၊ နေလတို့၏ သွားသော အဟုန်ကို မတန့်စေနိုင်။ လိုက်၍သာ ကစားရာ၏။ အကယ်၍ တန့်စေငြားအံ့၊ ပါးစပ်ဖြင့် ငုံသော် ဦးခေါင်းပြတ်ဘိရာ၏။ လက်ဖြင့် တားသော်၊ လက်ဝါးပြတ်ဘိရာ၏။ ဖမ်းလိုရင်းမှာ ဗိမာန်ကိုသာ အရောင်အဝါ လုပသောကြောင့် ကစားခြင်းငှါ ဖမ်းလိုသည်။ ဗိမာန်ကို ဖမ်းလျှင် နတ်သားကိုလည်း ဖမ်းရာကျသည်ဟု သံယုတ်ဋီကာ ပြဆိုခဲ့လေသည်။

ထိုနောက် ဇောတိသတ္တကျမ်းအလိုအားဖြင့် နေလကြတ်သောအခါတွင် အရာခပ်သိမ်း အမှုခပ်သိမ်းတို့ကို ခုနစ်ရက်အတွင်း မလုပ်မဆောင်သင့်၊ ရှောင်ကြဉ်ရမည်၊ မရှောင်ကြဉ်ဘဲ ပြုလုပ်ဆောင်မိသော် ဘေးဥပဒ်တခုခု ဖြစ်မည်ဟု ပြဆိုထားလေသည်။

**နေလုံငါး။** ။နေလုံငါးသည် စင်ထရာကီဒီး မျိုးရင်းတွင်ပါသော ရေချိုငါးမျိုးဖြစ်သည်။ ဝက်ငါးမျိုးနှင့်နီးစပ်၏။ အမေရိကန် ပြည်ထောင်စုရှိ ရေချိုရပ်များတွင် အတွေ့ရများသော ငါးမျိုး ဖြစ်၏။ ပင်လယ် မျက်နှာပြင်သို့ တက်၍ နေပူဆာလှုံတတ်သောကြောင့်၊ ထိုငါးကို နေလှုံငါးဟု ခေါ်တွင်သည်။

နေလှုံငါး၏ ကိုယ်ခန္ဓာမှာ လုံး၍ အမြီးဝိုင်း၏။ ရုတ်တ



ညဥ့်အခါ၌ ကျောက်စုန်းကဲ့သို့ အရောင်တောက်သည့် နေလှုံငါး

ရက် ကြည့်သော် ဦးခေါင်းသာ ပါသော ငါးကြီးဟု ထင်မှတ်မှားစရာ ဖြစ်၏။ အရောင်မှာ ကိုယ်အပေါ်ပိုင်း၌ မဲ့ခြောက်၍၊ အောက်ပိုင်း ဖြူ၏။ ဦးခေါင်း နောက်နားတွင် သုံးထောင့် ပုံသဏ္ဌာန် ဆူးတောင်ကြီး နှစ်ခု ရှိသည်။

နေလှုံငါးသည် အရွယ်အစား အမျိုးမျိုးရှိ၏။ အကောင်ကြီးလျှင် အလျား ၈ ပေခန့် ရှိ၍၊ တတန်ခန့် အချိန်စီး၏။ အသွားအလာ နှေးကွေး၏။ လှည့်လိုသောအခါ ဘီးလှည့်သလို လှည့်ရ၏။ ခေါင်းနှင့် မျက်စိကို ရေပေါ် ဖော်၍ ကူးနေနိုင်သည်။ ညအခါ၌ ကျောက်စုန်း တောက်သကဲ့သို့ အရောင် တောက်၏။

နေလှုံငါး၏ အသားမှာ မာ၍ အရသာမရှိ။ အနံ့ဆိုး၏။ ငါးဆီကို ချောဆီအဖြစ် သင်္ဘောစက်များ၌ အသုံးပြုလေ့ရှိကြသည်။

**နေး ,မီရှယ်** (ခရစ် ၁၇၆၉—၁၈၁၅)။ ။ခရစ် ၁၈၁၂ ခုနှစ်တွင် ပြင်သစ်ဘုရင်နပိုလီယန်သည် ရုရှနိုင်ငံမော်စကိုမြို့သို့ ဗိုလ်ပါအလုံးအရင်း ပါဝင်သော တပ်မကြီးဖြင့် ချီတက်ခဲ့ရာ၊ ဆောင်းဥတုအတွင်း ကြီးကျယ်သော ငတ်မွတ်ခေါင်းပါးခြင်းဘေးနှင့် ရင်ဆိုင် တွေ့ရပြီးနောက်၊ ပြင်သစ် နိုင်ငံသို့ ဆုတ်ခွါခဲ့ရလေသည်။ ထိုသို့ ဆုတ်ခွါရသည့် အချိန်၌ နပိုလီယန်ဘုရင်သည် သူ၏ ညာလက်ရုံးတဆူ ဖြစ်သော စစ်သူကြီး မီရှယ်နေးကို တပ်မကြီးနောက်ဆွယ်မှ နေ၍၊ ရုရှတပ်တို့ကို ခုခံရန် ထားပစ်ခဲ့သည်။ ထိုအခါ မီရှယ်နေးသည် သူ၏ အပေါ်၌ ကျရောက်သော တာဝန်ကို ရွတ်ရွတ် ချွံချွံ ထမ်းရွက်က၊ နောက်မှ လိုက်လာသော ရုရှတို့တပ်ကို ဖရီတလန်တိုက်ပွဲတွင် အပြီးသတ်ခုခံတိုက်ခိုက်၍၊ ပြင်သစ် နိုင်ငံသို့ တပ်မကြီး၏ အကြွင်းအကျန်တပ်သားတို့နှင့် အတူ ပြန်လည်ဆိုက်ရောက်လာသည်။ ဤသည်ကို အကြောင်းပြု၍၊ နပိုလီယန် ဘုရင်သည် မီရှယ်နေးကို သူရသတ္တိနှင့် အပြည့်စုံဆုံးဖြစ်သော စစ်သူကြီးဟု ခြီးကျူးခဲ့လေသည်။ ထိုအတွက်ကြောင့် ပြင်သစ်နိုင်ငံသမိုင်းတွင် မီရှယ်နေး၏အမည်သည် ဥဒါန်း တွင်ရစ်လေသည်။

နေးသည် မထင်ရှားသော သေနတ်ပြောင်းလုပ်သမားတဦးမှ မွေးဖွားသည်။ သူ၏ ဇာတိမှာ ဆားမြစ်ဝှမ်းနယ်ဖြစ်သည်။ အသက် ၁၉ နှစ်အရွယ်တွင် စစ်မှုထမ်းခဲ့ရာ၊ ၁၇၉၂ ခုနှစ်တွင်ပြင်သစ်ကတဖက်၊ ပရပ်ရှင်းနှင့်သြစတြီးယန်းတို့က တဖက် တိုက်ခိုက်ကြသော စစ်ပွဲတွင် ထူးချွန်စွာ အမှုထမ်းခဲ့၍ ထင်ရှားကျော်ကြား လာလေသည်။ ၁၈၀၄ ခုနှစ်တွင် နပိုလီယန် ဘုရင်သည် နေးအား စစ်သူကြီးခန့်အပ်သည်။ ထိုနောက် သြစတြီးယန်းတို့ကို ထပ်မံ တိုက်ခိုက်အောင်နိုင်ပြန်သဖြင့် မြို့စားကြီး ရာထူးကို ရရှိခဲ့၍၊ ၁၈၁၂ ခုနှစ်တွင် နပိုလီယန်၏ တပ်မကြီးဖြင့် ရုရှနိုင်ငံသို့ ချီတက်ခဲ့သည်။



ပြင်သစ် နိုင်ငံသ မိုင်းဝင် စစ်သူကြီးမီရှယ်နေး

ထိုနောက် နပိုလီယန်သည် ရုရှ နိုင်ငံမှ ဆုတ်ခွါလာခဲ့ ရလေရာ၊ ၁၈၁၄ ခုနှစ် နပိုလီယန် တန်ခိုးမှေးမှိန်ခိုက်တွင် နေးသည် နပိုလီယန်နှင့် အတိုက်အခံ ဖြစ်သော ဗူးဗွန်ဂိုဏ်းသားတို့ဖက်သို့ ပါသွားလေသည်။ ၁၈၁၅ ခုနှစ်တွင် နပိုလီယန်သည် အယ်လဗာကျွန်း၌ အကျဉ်းချထားရာမှ ထွက်ပြေးလေသော် နေးသည်နပိုလီယန်ကိုလိုက်လံဖမ်းဆီးလေသည်။ သို့သော် နေးသည် နပိုလီယန်နှင့် တွေ့ဆုံမိပြန်သောအခါ၊ ရှေးက အတူတကွ ဒုက္ခခံစားခဲ့ကြသည်တို့ကို ပြန်လည်သတိရ၍၊ နပိုလီယန်ဖက်သို့ ပါသွားပြန်လေသည်။ ထိုကြောင့် နပိုလီယန်နှင့် နေးတို့သည် လူစု၍ ပါရစ်မြို့ကို သိမ်းယူရန် ချီတက်လာကြရာ၊ များစွာ အကြံအောင်သဖြင့် ပါရစ်မြို့ရှိ ဗူးဗွန်ဂိုဏ်းသား လူဝီဘုရင်သည် ထွက်ပြေး ရပြန်လေသည်။ သို့သော် ၁၈၁၅ ခုနှစ် ဇွန်လ ၁၈ ရက်နေ့တွင် ဖြစ်ပွားသော ဝါတာလူးတိုက်ပွဲတွင် နပိုလီယန်တို့၏ တပ်သားများသည် အရေးနိမ့်သဖြင့် ဖရိုဖရဲ ဖြစ်ကြလေရာ၊ စစ်သူကြီး မီရှယ်နေးကို လူဝီဘုရင်၏တပ်သားတို့ကဖမ်းဆီး၍၊ သစ္စာဖောက်မှုနှင့် အဆုံးစီရင်လေသည်။ စစ်သူကြီး မီရှယ်နေးသည် ၁၈၁၅ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့၌ ပါရစ်မြို့တွင်သေနတ်ဖြင့် အဆုံးစီရင်ခြင်းကို ရဲဝံ့စွာ ခံယူ၍ ကွယ်လွန်လေသည်။ (နပိုလီယန် ဘုရင်များ — လည်းရှု။)



ဗြိတိသျှ ရေကြောင်း စစ်ပွဲသမိုင်း၌ အထင်ရှားဆုံး သူရဲကောင်း ရေကြောင်း ဗိုလ်ချုပ်မှူး ဟိုရေးရှိုး နယ်လဆင်

**နယ်လဆင်, ဟိုရေးရှိုး** (ခရစ် ၁၇၅၈–၁၈၀၅)။ ။ ဟိုရေးရှိုး နယ်လဆင်သည် အင်္ဂလိပ်လူမျိုး ရေကြောင်း ဗိုလ်ချုပ်မှူးဖြစ်၍၊ ဗြိတိသျှ ရေကြောင်းတိုက်ပွဲသမိုင်း၌ အထင်ရှားဆုံးသော ပုဂ္ဂိုလ်တဦးဖြစ်၏။ ယင်းသည် ထရာဖဲလဂါတွင်ပြင်သစ်နှင့် စပိန်ရေတပ်တို့ကို တိုက်ခိုက်အောင်မြင်၍ နပိုလီယန်ကိုအနိုင်ယူလိုက်ရာ၊ ဤအောင်မြင်မှုသည်အင်္ဂလန်ပြည်၏ သမိုင်းတွင် အကြီးဆုံးသော အောင်မြင်မှု ဖြစ်၏။ (နပိုလီယန်ဘုရင်များ။ထရာဖဲလဂါတိုက်ပွဲ — ရှု။)နယ်လဆင်သည် ၁၇၅၈ ခုနှစ်စက်တင်ဘာလ ၂၉ ရက်နေ့တွင် နောဖို့ခရိုင် ဗာနမ်သော့ရွာတွင်ဖွားမြင်၍ သင်းအုပ်ဆရာတဦး၏ သားဖြစ်သည်။ ငယ်စဉ်က အလွန်ချူချာသူ တယောက်ဖြစ်သော်လည်း ပင်လယ်ခရီး ထွက်ရန် အလွန်ဝါသနာ ပါသည်။ ထို့ကြောင့် ၁၂ နှစ်သား အရွယ်တွင် အကြောင်းမသင့်သဖြင့် ကျောင်းမှ ထွက်ခဲ့ရသော အခါ၊ ဘုရင့်ရေတပ်မတော်တွင် ရေတပ်ဗိုလ်ကလေး အဖြစ်ဖြင့် အမှုထမ်းပြီးနောက်၊ ဖော့ကလန်ကျွန်းသို့သွားသော သင်္ဘောတွင် ပဌမဦးစွာလိုက်ပါသွားခဲ့လေသည်။ထိုသင်္ဘောကို သူ၏ ဦးလေးဖြစ်သူ ဗိုလ်မှူးကြီး ဆပ်ကလင်းက ကြီးမှူးရာ၊ ဦးလေး၏ သွန်သင်မှုကြောင့် တကြောင်း၊ နဂိုကပင် ရေကြောင်းဖက်တွင် ဝါသနာဆိုလှသဖြင့် တကြောင်း၊ ရဲရင့်၍ စွမ်းရည်သတ္တိနှင့်ပြည့်စုံသောကြောင့်တကြောင်း နယ်လဆင်သည် ၂၁ နှစ်အရွယ်တွင် အလတ်စားတိုက်သင်္ဘောတစင်း၌ ဗိုလ်မှူးကြီးဖြစ်လာခဲ့၏။ ထိုအခါမှ စ၍ နယ်လဆင်သည် ရက်စက်စွာ အပြစ်ဒဏ်ပေးမှုများကို ပယ်ဖျက်ကာ၊ ဥပဒေများကို ပြုပြင်ပြောင်းလဲခဲ့၏။ သင်္ဘောသားများကို အထူးဂရုစိုက်တတ်သည့်ပြင်၊ ရဲရင့် စွန့်စားသူများကိုလည်း ရာထူးတိုးမြှင့်ပေးလေ့ ရှိ၏။ အသက်ပင် ငယ်သော်လည်း တကယ်ပင် စွမ်းဆောင်နိုင်သော ဗိုလ်မှူးကြီး ဖြစ်လေသည်။ နယ်လဆင်ကား သူရ သတ္တိရှိ၏။ တည်ကြည်၏။ မှုခင်းတို့ကို ဆုံးဖြတ်နိုင်၏။

၁၇၉၃ ခုနှစ်၌ အက်ဂါမံနွန်ခေါ် စစ်သင်္ဘောကို အုပ်ချုပ်ရပြီးလျှင် မြေထဲပင်လယ် ရေတပ်၌ ပါဝင်ရလေသည်။ ထိုအခါမှ စ၍ ပင်လယ်မှ ပြန်ရသည်ဟူ၍ မရှိဘဲ၊ (၁၇၉၃ ခုနှစ်မှ ၁၈၀၀ ပြည့်နှစ်အထိ) ၇ နှစ်တိုင်တိုင် ပင်လယ်၌ အမှုထမ်းရသည်။ သို့ဖြင့် ၁၇၉၄ ခုနှစ်တွင် ကောစီကား ပင်လယ်ကမ်းရိုးတန်းရှိ၊ ကာလဗီမြို့ကို သိမ်းယူသည့် တိုက်ပွဲ၌၊ လက်ျာဖက်မျက်လုံးတွင် ဒဏ်ရာရရှိရာမှ မျက်လုံး ကွယ်သွားလေသည်။

ထိုနောက် ၁၇၉၇ ခုနှစ်တွင် စိန်ဗင်းဆင့် တိုက်ပွဲ၌ သူ၏ရဲစွမ်းသတ္တိသည် ခြီးကျူးလောက်အောင်ပင် ဖြစ်၏။ ထိုတိုက်ပွဲတွင် စစ်ဗိုလ်ချုပ်ကြီး ဆာဂျွန် ဂျားဗစ်နှင့်အတူ စပိန်နှင့် ပြင်သစ်တို့ ပူးပေါင်းဖွဲ့စည်းထားသော ရေတပ်ကို နှိမ်နင်းအောင်မြင်သော အခါ၊ သူကောင်း ပြုခြင်းခံရလေသည်။ များမကြာမီ ကနေရီကျွန်းစုရှိ ဆန်တာကရု ခံတပ်ကို တိုက်ခိုက်ရာ၌ အနာတရ ဒဏ်ရာရရှိပြီးလျှင်၊ လက်ျာဖက်လက်ကို တတောင်ဆစ်မှ ဖြတ်ပစ်ရပြန်လေသည်။ နယ်လဆင်သည် အင်္ဂလန်သို့ ပြန်သွားပြီးလျှင်၊ အချိန် အတန်ကြာ ဝေဒနာကို ကုသပြီးနောက်၊ စစ်မြေပြင်သို့ပင် ပြန်လည်ရောက်ရှိလာပြန်သည်။

ထိုအချိန်၌ နပိုလီယန်သည် ကုန်းဖက် စစ်ပွဲတို့၌ အောင်မြင်ပြီး၍၊ အင်္ဂလန်ကို ရေတပ်ဖြင့် တိုက်ခိုက်လို၏။ ထိုအတွင်း နယ်လဆင်သည် တူလွန်မြို့ရှိ ပြင်သစ်ရေတပ်ကို စောင့်၍ ကြည့်ဆဲ၊ ပြင်သစ် ရေတပ်သည် လေမုန်တိုင်းထနေစဉ် လွတ်မြောက်သွားသဖြင့်၊ နယ်လဆင်သည် ထိုရေတပ်နောက်သို့ ထက်ကြပ်လိုက်သွားကာ တိုက်ခိုက်လေ၏။ နယ်လဆင်သည် ရေတပ်ကိုနှစ်စုခွဲ၍တိုက်ခိုက်ရာ ၁၇၉၈ ခုနှစ် ဩဂုတ်လ ၁ ရက်နေ့တွင် အပြီးတိုင်အောင်မြင်လေ၏။ဤတိုက်ပွဲကြီးကို နိုင်းမြစ်တိုက်ပွဲကြီးဟူ၍ ဗြိတိသျှ သမိုင်းတွင် မှတ်တမ်းတင်ကြသည်။ ထိုတိုက်ပွဲတွင် အရေးမလှသည်နှင့် နပိုလီယန်သည် အီဂျစ်ကို တိုက်ခိုက်ရန် အကြံကို လက်လျှော့လျက် သင်္ဘောငယ်တစင်းဖြင့် မြေထဲ ပင်လယ်ကိုဖြတ်၍ ပြန်ခဲ့ရလေသည်။ နယ်လဆင်၏အောင်မြင်မှုသည် ကမ္ဘာတဝှန်း

လုံးသို့ ပျံ့နှံ့ သွား၏။ နယ်လဆင်သည် ဗဲရှန်ခေါ် သူကောင်းဘွဲ့ဖြင့် မှူးမတ်ငယ်အဆင့်အတန်းသို့ ခန့်အပ်ချီးမြှင့်ခြင်းခံရသည်သာမက ဆုငွေလည်း မြောက်မြားစွာ ရရှိလေသည်။

၁၇၀၁ ခုနှစ်တွင် နယ်လဆင်သည် ရေကြောင်း ဗိုလ်ချုပ်ကြီးရာထူးကို ရရှိခဲ့ပြီးနောက်၊ အင်္ဂလန်သည် ဗောလတစ်ကမ်းခြေနိုင်ငံများနှင့် စစ်ဖြစ်ပြန်ရာ၊ ရေတပ်ဗိုလ်ချုပ်မှူးပါကာ၏ ရေတပ်ကြီးတွင် ပါဝင် လိုက်ပါပြီးလျှင် ဒိန်းမတ်နိုင်ငံသို့ ချီတက် သွားပြန်၏။

ပြင်သစ် ဘုရင် နပိုလီယန်သည် နောက်တကြိမ် အင်္ဂလန်ပြည်ကို စီးနင်းရန် ကြံစည်ပြန်ရာ၊ ၁၇၀၃ ခုနှစ်၌ နယ်လဆင်သည် အနားယူနေရာမှ ရေကြောင်း ဗိုလ်ချုပ်ကြီးအဖြစ်ဖြင့် မြေထဲပင်လယ် သင်္ဘောတပ်ကို ဦးစီး၍ တိုက်ပွဲ ဝင်ခဲ့ ပြန်သည်။ ဦးစွာ၌ ကိုပင်ဟားဂင်းမြို့အနီးတွင် ဒိန်းလူမျိုးတို့၏ ရေတပ်ကို အောင်မြင်သည်။ ဤတိုက်ပွဲ ဖြစ်နေစဉ် ရေကြောင်း ဗိုလ်ချုပ်မှူး၏ သင်္ဘောမှ ပြန်၍ ဆုတ်ရန် အချက်ပြသော အလံလွှင့်တင်သည်ကိုပင် နယ်လဆင်သည် မမြင်သော မျက်စိဖြင့် မှန်ပြောင်းနှင့် ကြည့်၍ အချက်ပေးခေါ်သည်ကို မမြင်လေဟန်ဆောင်လျက် ဆက်လက် တိုက်ရာ ရှုံးတော့မည့် အခြေမှ တခါတည်း အနိုင် ရခဲ့လေသည်။ ဤအောင်မြင်မှုကြောင့်လည်း ဗိုင်းကောင့်ခေါ် သူကောင်းဘွဲ့ထူးဖြင့် မှူးမတ်လတ်အဖြစ် တိုးမြှင့်ချီးကျူးခြင်း ခံရပြန်လေသည်။

တခါက နယ်လဆင်သည် သူ၏ အလံတင် သင်္ဘော 'ဗစ်ထရီ' ကို စီးနင်း၍ တူလွန်မြို့နှင့် ခပ်လှမ်းလှမ်းတွင် စောင့်ဆိုင်းနေရာ ပြင်သစ် သင်္ဘောတပ် ရုတ်တရက် ထွက်ပေါ် လာသည်ကို မြင်ရသော အခါ၊ မိမိ၏ ရေတပ်ဖြင့် ထက်ကြပ်မကွာ အနောက် အိန္ဒိယကျွန်းစုသို့ ရောက်အောင် လိုက်ပြီးမှ ပြန်၍လှည့်လာခဲ့၏။ ထိုနောက် ရန်သူတပ်ကို ဆုံမိအောင် ၂ နှစ်ကျော်မျှ စောင့်ဆိုင်း ခဲ့ရပြီးနောက်၊ ၁၇၀၅ ခုနှစ် အောက်တိုဘာလ ၂၁ ရက်နေ့တွင် စပိန်နိုင်ငံကမ်းခြေ ထရာဖဲလဂါအငူတွင် ရေကြောင်း တိုက်ပွဲကို စတင်တိုက်ခိုက်ရလေသည်။ ထိုတိုက်ပွဲတွင်နယ်လဆင်သည် 'အင်္ဂလန်ပြည်သည် လူတိုင်းအား မိမိတာဝန်ဝတ်တရားကို ဆောင်ရွက်လိမ့်မည်ဟု မြှော်လင့်သည်' ဟူသော အဓိက ဆောင်ပုဒ်ကို ဖော်ပြသည့် အလံကို မိမိ၏ အလံတင်သင်္ဘောတွင် လွှင့်ထူကာ ၂၇ စင်းမျှသာ ရှိသော အင်္ဂလိပ် သင်္ဘောများဖြင့် စပိန်နှင့် ပြင်သစ်တို့ ပူးပေါင်းထားသည့် ရေတပ်ကြီးကို မဆုတ် မနစ် တိုက်ခိုက်လေသည်။ ဤတိုက်ပွဲတွင် နယ်လဆင်သည် မိမိကိုယ်တိုင် စီးနင်းသည့် 'ဗစ်ထရီ' ခေါ် အလံတင်သင်္ဘောကို ဘေးဥပဒ်အများဆုံး နေရာတွင် ချထား၍ တိုက်ခိုက်လေရာ၊ တိုက်



ပြင်သစ်နှင့်စပိန်ရေတပ်တို့ကို တိုက်ခိုက်အောင်မြင် လိုက်သည့် ထရာဖဲလဂါ ရေကြောင်းတိုက်ပွဲကြီးတွင် နယ်လဆင်သည် အလံတင်သင်္ဘော ဗစ်ထရီကုန်းပတ်ပေါ်မှ အမိန့်ပေးနေစဉ် ရန်သူ့ကျည်သင့်၍ ကျဆုံးခဲ့ရှာလေသည်။

ပွဲ ပြင်းထန်လာချိန်တွင် နယ်လဆင်သည် ကုန်းပတ်အမြင့်ပေါ်၌ လျှောက်ယင်း အမိန့်ပေးနေစဉ်၊ ရန်သူဖက်မှ ကျည်ဆန်သင့်၍ ကျလေ၏။ ကျည်ဆန်သည် နယ်လဆင်၏ကျောရိုးတွင် မြုပ်ဝင်လျက် ရှိသဖြင့် နယ်လဆင်အား ဘေးကင်းရာ သင်္ဘောဝမ်းသို့ ယူသွားရလေ၏။ နောက်ဆုံးတွင် အင်္ဂလိပ်တပ်က နိုင်ကြောင်းကို သိရပြီးမှ ရရှိသော ဒဏ်ရာဖြင့် ကွယ်လွန် လေသည်။ "ဘုရားသခင်၏ ဂုဏ်ကျေးဇူးတော်ကြောင့် ကျွန်ုပ်၏ တာဝန် ဝတ်တရားများကို ကျေပြွန်စွာ ဆောင်ရွက်ပြီးပါပြီ" ဟူသော နယ်လဆင်သေအံ့ဆဲဆဲတွင် ပြောခဲ့သောစကားသည် သမိုင်း၌ဥဒါန်းတွင်ရစ်၏။

အောက်တိုဘာလ ၂၁ ရက်နေ့ညနေ ၄ နာရီခွဲခန့် အချိန်တွင် နယ်လဆင်သည် ရန်သူရေတပ်ကို အပြီးသတ် အောင်မြင်၍ အင်္ဂလန် နိုင်ငံသူ နိုင်ငံသားများသည်လည်း ထိုစစ်ပွဲနိုင်သည့် သတင်းကောင်းနှင့်တကွ ရေကြောင်းဗိုလ်ချုပ်မှူး နယ်လဆင် တိုက်ပွဲတွင် ကျဆုံးရရှာပြီ ဟူသော ဝမ်းနည်းဖွယ်သတင်းကိုပါ တပါတည်း ကြားကြရလေသည်။ သူ၏ရုပ်အလောင်းကို ၁၈၀၆ ခုနှစ် ဇန္နဝါရီလ ၉ ရက်နေ့တွင် လန်ဒန်မြို့ စိန်ပေါဘုရားရှိခိုးကျောင်းကြီးအတွင်း၌ မြှုပ်နှံထား၏။ ထိုပြင် အထိမ်းအမှတ်အဖြစ် ပေ ၁၇၀ ကျော်မြင့်သော နယ်လဆင်ကျောက်တိုင်ကြီးကို တည်ဆောက်ထားခြင်းဖြင့် အာဇာနည် ရေကြောင်း ဗိုလ်ချုပ်မှူး၏ ကျေးဇူးကို ဂုဏ်ပြု ခြီးကျူးထားလေသည်။

# ပင်လယ်ပြင်အောက် ပေနှစ်ဆယ်နိမ့်သော နိုင်ငံငယ်ကလေး

**နယ်သာလန်ခေါ် ဟော်လန် နိုင်ငံသည် ပင်လယ်ပြင်အောက် ပေ ၂၀ ခန့် နိမ့်စွာ တည်ရှိသဖြင့်၊ ထိုနိုင်ငံသားများ ဖြစ်ကြသော ဒပ်ချလူမျိုးတို့သည် အမြဲတစေ ပင်လယ်ပြင်နှင့် စစ်ပွဲ ဆင်နွှဲနေကြရသည်။ သို့ဖြစ်သည့် အလျောက်လည်း ဒပ်ချတို့သည် နိုင်ငံပင်သေးငယ်စေကာမူ၊ ကမ္ဘာတွင် ထကြွလုံ့လဥဿဟနှင့် ပြည့်စုံကုံလုံသော လူမျိုးအဖြစ် ကျော်စောထင်ရှားသည်။ ရေလွှမ်းမည့် ဘေးမှ မည်သို့ ကာကွယ်ကြပုံ အကြောင်းကို စိတ်ဝင်စားဖွယ်ရာ ဖတ်ရှုရပေမည်။**

**နယ်သာလန်နိုင်ငံ။** ။နယ်သာလန် နိုင်ငံသည် ဥရောပတိုက်ရှိ၊ စည်းမျဉ်းခံ ဘုရင်စနစ်ဖြင့် အုပ်ချုပ်သော နိုင်ငံငယ်ကလေးတခုဖြစ်၏။ ယင်းနယ်သာလန် နိုင်ငံကို ဟော်လန်နိုင်ငံ၊ နိုင်ငံသားတို့ကို ဒပ်ချလူမျိုးဟု ခေါ်သည်။

နယ်သာလန် နိုင်ငံသည် ဂျာမနီနိုင်ငံ အနောက်မြောက်ပိုင်းနှင့် ဗဲလဂျီယမ်နိုင်ငံ မြောက်ပိုင်းတို့ အကြား၊ မြောက်ပင်လယ်ကမ်းခြေပေါ်တွင် တည်ရှိ၍၊ နိုင်ငံ၏ အကျယ် အဝန်းမှာ စတုရန်းမိုင် ၁၅,၇၆၅ ရှိလေသည်။

ထူးဆန်း အံ့ဩဖွယ် ကောင်းလောက်အောင်ပင်၊ နယ်သာလန် နိုင်ငံ၏ များစွာသော မြေမျက်နှာပြင် အစိတ် အပိုင်းတို့သည် ဆက်စပ်လျက် ရှိသော မြောက်ပင်လယ်ပြင်အောက် ပေ ၂၀ ခန့် နိမ့်ကျလျက် ရှိသည်။ ယင်းသို့ ပင်လယ်ရေမျက်နှာပြင်အောက် နိမ့်ကျနေသောကြောင့်၊ နယ်သာလန် နိုင်ငံသားတို့သည် အမြဲတစေ ပင်လယ်ပြင်နှင့် ခုခံစစ်ပွဲ ဆင်နွှဲနေရသောတပ်သားများ ဖြစ်လာရလေသည်။ ထာဝစဉ် တိုက်ပွဲ ဝင်နေရသော တပ်သားများ ဖြစ်သည့် အလျောက် နယ်သာလန် နိုင်ငံသားတို့သည် ထကြွလုံ့လ၊ ဥဿဟနှင့် ပြည့်စုံကုံလုံသော အမျိုးသားများ ဖြစ်လေသည်။ နိုင်ငံသားတို့၏ လုံ့လစွမ်းပကားကြောင့် နယ်သာလန် နိုင်ငံသည် သေးငယ်သော နိုင်ငံဖြစ်လင့်ကစား ကမ္ဘာ့အလယ်တွင် ထယ်ဝါစွာ ရပ်တည် နိုင်ခဲ့ပေသည်။

နယ်သာလန် နိုင်ငံသူ နိုင်ငံသားတို့သည် မိမိတို့ မှီတင်းနေထိုင်ရာမြေနိမ့်ပိုင်းသို့ ပင်လယ်မှ ရေများ စီးဝင် မလာစေရန်၊ နည်းအသွယ်သွယ်ဖြင့် ကြိုးပမ်း တကုတ် အားထုတ်ကြရသည်။ ဒိုက်ခေါ် ပေ ၂၀၀၊ ၃၀၀ မျှ ထုထယ်ရှိ၍ မြင့်မားလှသော ပင်လယ် ရေကာတာကြီးများကို ခိုင်မာစွာ ဆောက်လုပ်ရ၏။ မြေနိမ့်မှ ရေများကို လေရဟတ်များဖြင့် အဆင့်ဆင့် သယ်ဆောင်ကာ၊ ပင်လယ်တွင်းသို့ ထုတ်ယူသွင်းပစ်ရ၏။ သို့ဖြစ်ရကား၊ နယ်သာလန်နိုင်ငံ ကမ်းခြေ တလျှောက်ရှိ မြို့ရွာများတွင် လေရဟတ် ကြီးငယ်များဖြင့် ပြည့်နှက်လျက် ရှိပေသည်။ ထိုလေရဟတ်များသည်ပင် နောက်ဆုံး၌ နယ်သာလန် နိုင်ငံ၏ ကိုယ်ပိုင် အမှတ်အသား တခုကဲ့သို့ ဖြစ်လာ ပေတော့သည်။ လေရဟတ်ငယ် ကလေးများသည် နေ့ရော ညဉ့်ပါ လည်ပတ်၍ မြေနိမ့်ပိုင်းမှ ရေကို တူးမြောင်းငယ်များသို့ ပို့ဆောင် ပေး၏။ တူးမြောင်း ငယ်များမှရေကို တူးမြောင်းကျယ်ကြီးများသို့ လေရဟတ်ကြီးများ၊ လျှပ်စစ်မိုတာများ၊ ဒီဇယ် အင်ဂျင်စက်များဖြင့် ပို့ဆောင်ကာ၊ ပင်လယ်ထဲသို့ ရေကို ထုတ်ပစ်ရလေသည်။ တခါတရံ မုန်တိုင်း ထန်သော အခါ လှိုင်းလုံးကြီးများသည် ကြီးမားသော အရှိန်ဖြင့် တူးမြောင်းကြီးများမှ ရေကို လာလမ်းသို့ တွန်းပစ်တတ်၏။ ယင်းသို့သော ဝီရိယလုံ့လဖြင့်၊ ပင်လယ်ရေနှင့် အစဉ် စစ်ခင်းနေသည့် အခိုက်မှာပင် ပင်လယ် ရေလွှမ်းမိုးသော အဖြစ်မျိုးကိုလည်း ကြုံတွေ့ရသေး၏။ ၁၉၅၃ ခုနှစ်တွင် ရေလွှမ်းမိုး၍ အကြီးအကျယ် ပျက်စီးခဲ့ရသည်။




**နယ်သာလန်နိုင်ငံ တည်နေရာပြ မြေပုံ**

နယ်သာလန် နိုင်ငံတွင် မြစ်များတလျှောက်၌ ရွှံ့နုံဖြင့် ဖို့စည်းထားသော တာရိုးများ ဆောက်လုပ်ထားကြ၏။ ရွှံ့နုံများ အမြဲတစေ ပေါင်းစည်း မာကျစ်နေစေရန်၊ သစ်ပင်များကိုလည်း တာရိုးပေါ်တွင် စိုက်ပျိုးထားကြ၏။ အဘယ်ကြောင့် ဆိုသော်၊ သစ်မြစ်များသည် မြေကို စုစည်းထားသကဲ့သို့ ခိုင်မြဲစေသောကြောင့်ပင်တည်း။ တာရိုးပေါ်တွင် လမ်းမကြီးများ ဖောက်လုပ်ထားပြီးလျှင် အိမ်များလည်း ဆောက်လုပ်ထား၏။

နယ်သာလန် နိုင်ငံ၏ ရာသီဥတုမှာ စိုထိုင်း၍ ရံဖန် ရံခါ အေးစိမ့်စိမ့် ရှိသည်။ မြောက်ပင်လယ်မှ လေပြင်းများ မှန်မှန် တိုက်ခတ်၏။ သို့သော် အပူချိန်သည် အရည်ခဲမှတ်အောက် ကျခဲသည်။ တနှစ်ပတ်လုံးလိုလို မိုးရွာသွန်း၏။ စိုစွတ်သော မြေနိမ့်ပိုင်းတွင် မြက်ခင်းများ ရှိရကား ထိုအရပ်၌ နွားမွေးမြူခြင်း လုပ်ငန်းမှာ များစွာ ကြီးကျယ် လေသည်။ ထို့ကြောင့်ပင်လျှင် နယ်သာလန် နိုင်ငံ၏ ထင်ရှားသော သက်မွေးဝမ်းကျောင်း လုပ်ငန်းမှာ နွားမွေးမြူခြင်းနှင့် ထောပတ်၊ ဒိန်ခဲ၊ နို့ဆီ အမြောက်အမြား လုပ်ကိုင်ရောင်းချခြင်းဖြစ်၏။ စစ်မဖြစ်မီက နယ်သာလန်နိုင်ငံမှ တင်ပို့ရောင်းချသော နို့ဆီများကို မြန်မာ နိုင်ငံ၌ အတော်ပင် အသုံးများခဲ့လေသည်။ ထောပတ်ကို နှစ်စဉ် ပေါင်ချိန် ၂၀၀,၀၀၀,၀၀၀ မျှ ထုတ်လုပ် ရောင်းချ ပေသည်။ နယ်သာလန်နိုင်ငံ၏ မြေနိမ့်ပိုင်းတွင် နွားမွေးမြူခြင်း လုပ်ငန်း ထွန်းကားသကဲ့သို့ မြေမြင့်ပိုင်းဖြစ်သော အရှေ့ဖက်ပိုင်း၌ စိုက်ပျိုးရေးလုပ်ငန်းထွန်းကား၏။ မုယောစပါး၊ ဂျုံ၊ မြင်းစားဂျုံ၊ သကြား မုန်လာနှင့်အာလူးတို့ကိုစိုက်ပျိုးလုပ်ကိုင်ကြသည်။ ဗဟ်တက်များ အထူးသဖြင့် တျူးလစ်ဗင်တက်များကိုလည်း စိုက်ပျိုး၍ နိုင်ငံခြားများသို့ တင်ပို့ ရောင်းချ၏။

နယ်သာလန် နိုင်ငံ၏ သဘာဝ ထွက်ကုန်များမှာ ဆား၊ မြေစေး၊ ကျောက်မီးသွေးနှင့် ရေနံတို့ဖြစ်၏။

နယ်သာလန် နိုင်ငံ၏ လူဦးရေမှာ (၁၉၅၅ ခုနှစ်ခန့်မှန်းချက်အရ) ၁,၀၇၂,၁၆၆၁ ယောက်ခန့် ဖြစ်သည်။ မြို့များတွင် လူနေများ၏။ ကုန်စည် ထုတ်လုပ်ခြင်းမှာနယ်သာလန်နိုင်ငံသူ နိုင်ငံသားများ၏ အဓိက လုပ်ငန်း ဖြစ်သည်။ အဆောက်အအုံ ပစ္စည်း ထုတ်လုပ်သည့် လုပ်ငန်းနှင့် စားကုန်

ထုတ်လုပ်သည့် လုပ်ငန်းများတွင် လူအများဆုံး ဝင်ရောက် လုပ်ကိုင်လျက် ရှိ၏။ ထင်ရှားသော စားကုန် ထုတ်လုပ်သည့် လုပ်ငန်းများတွင် နို့ဆီချက်လုပ်ငန်း၊ သကြားချက်လုပ်ငန်း နှင့် ချော့ကလက်လုပ်ငန်း စသည်တို့ ပါဝင်သည်။

နယ်သာလန် နိုင်ငံတွင်းရှိ စက်ရုံအများအပြားမှ ခြည်ထည်၊ ဘိသ္စာလျှော်ဖျင်နှင့် သိုးမွေးထည်များ ထွက်၏။ ထို့ပြင် နယ်သာလန် နိုင်ငံတွင် ခေတ်မှီ သံနှင့် သံမဏိ စက်ရုံကြီးများ၊ ဓာတ်ဆီချက် စက်ရုံကြီးများ၊ ဓာတုဗေဒ ပစ္စည်းထုတ် စက်ရုံကြီးများ၊ သင်္ဘောကျင်းကြီးများနှင့် စက်ကရိယာထုတ်လုပ်သော စက်ရုံကြီးများ ရှိသည်။ ဗိလတ်မြေ၊ စက္ကူ၊ ကြွက်ပေါင်စေးထွက်ပစ္စည်းများ၊ ရေဒီယိုနှင့် လျှပ်စစ်ကရိယာများ စသည်တို့ကိုလည်း ထုတ်လုပ်သည်။

စိုက်ပျိုးကုန်၊ သဘာဝ ထွက်ကုန်နှင့် စက်မှု လုပ်ငန်းထွက်ကုန်များကို သယ်ယူ ပို့ဆောင် ရာတွင် နယ်သာလန် နိုင်ငံ၌ တူးမြောင်းကျယ်ကြီးများ၊ မြစ်လမ်းခရီးများကို အဓိကထား၍ အသုံး ပြုသည်။ နယ်သာလန် နိုင်ငံ၏ သယ်ယူ ပို့ဆောင်ရေးတွင် ရေကြောင်း သယ်ယူပို့ဆောင်ရေးမှာ ပိုမို အရေးပါလေသည်။မီးရထားလမ်းမိုင်ပေါင်း ၂,၀၀၀ ခန့် ရှိသော်လည်း ကူးသန်းရောင်းဝယ်ရေးထက် ခရီးသွားလာရေး အတွက်သာ အဓိက အသုံးပြု၏။

ကူးသန်း ရောင်းဝယ်ရေး ရှုထောင့်မှ ကြည့်ပြန်လျှင် နယ်သာလန် နိုင်ငံသည် နိုင်ငံအတွင်း ဖြာထွက် စီးဆင်းလျက်ရှိသော ရိုင်းမြစ်ကို အကြောင်းပြု၍၊ ဥရောပ တိုက် အလယ်ပိုင်း၏ တံခါးပေါက် ဖြစ်နေပေ၏။ ထို့ကြောင့် နယ်သာလန် နိုင်ငံ၏ ဆိပ်ကမ်းမြို့ တမြို့ ဖြစ်သော ရော့တဒမ်းမြို့သည် နယ်သာလန် နိုင်ငံ၏ ဆိပ်ကမ်းမြို့ ဖြစ်ရုံသာ မက၊ ဥရောပ အလယ်ပိုင်း၏ ဆိပ်ကမ်းမြို့လည်းဖြစ်ကာ၊ များစွာ စည်ပင်လေသည်။ နယ်သာလန် နိုင်ငံတွင် အစိုးရ၏ ရုံးစိုက်ရာ၊ ကမ္ဘာ့ခုံရုံး တည်ရာနှင့် ဘုရင်မ နန်းစိုက်ရာ မြို့သည် ဟိတ်မြို့ ဖြစ်၏။ သို့ရာတွင် စီးပွားရေးရာ အရ ပိုမိုစည်ကားလျက် အချက်အခြာ ကျ၍၊ မြို့တော် ဖြစ်သော မြို့ကား အမ္မစတာဒမ် မြို့ဖြစ်၏။ အမ္မစတာဒမ်မြို့သည် နယ်သာလန် နိုင်ငံ၏ အကြီးဆုံးမြို့လည်း ဖြစ်ပေသည်။

နယ်သာလန် နိုင်ငံတွင် အသက် ၇ နှစ် အရွယ်မှ ၁၃ နှစ် အရွယ်အတွင်းရှိ ကလေးသူငယ်များသည် မူလတန်း ပညာကို မသင်မနေရ ဟု ဥပဒေပညတ်ချက် ရှိ၏။ ထိုဥပဒေသည် များစွာ ထိရောက်ခဲ့သဖြင့်၊ နယ်သာလန် နိုင်ငံသူ နိုင်ငံသားအားလုံးလိုလို စာရေး စာဖတ် တတ်ကြလေသည်။ ကိုယ်ပိုင်ကျောင်းများ ဖြစ်စေ၊ မြို့ ရွာ ကျောင်းများဖြစ်စေ နိုင်ငံတော် အစိုးရက ကြီးကြပ်၍၊ယင်းသည့် ကျောင်းများသည် အစိုးရထံမှ ရန်ပုံငွေများ ရရှိသည်။ နယ်သာလန် နိုင်ငံတွင် တက္ကသိုလ် ကျောင်းပေါင်း ၁၀ ခု ရှိ၏။



မြေနိမ့်မှရေများကို လေရဟတ်များဖြင့် အဆင့်ဆင့် သယ်ဆောင်ကာ ပင်လယ်တွင်းသို့ ထုတ်ယူ သွန်ပစ်ရ၏။



ဒပ်ချအမျိုးသမီးကလေးများ

ဒပ်ချ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေအရ၊ ဘုရင် သို့မဟုတ် ဘုရင်မတွင် အုပ်ချုပ်မှုအာဏာများ ရှိသည့်အပြင်၊ ဥပဒေပြု အာဏာလည်း အတန်ငယ် ရှိသည်။ ဒပ်ချပါလီမန်သည် ဥပဒေများကို အတည် မပြုမီသော်ငြား၊ အတည်ပြုပြီးသော အခါတွင် သော်ငြား ဘုရင် သို့မဟုတ် ဘုရင်မ ထံသို့ တင်ပြရ၏။ ဘုရင် သို့မဟုတ် ဘုရင်မသည် အထက် လွှတ်တော်နှင့် အောက်လွှတ်တော် ဟူ၍ ပါဝင်သော ပါလီမန် လွှတ်တော် နှစ်ရပ်စလုံးကိုသော်ငြား၊ တရပ်ရပ်ကိုသော်ငြား အချိန်မရွေး ဖျက်သိမ်းနိုင်သည်။

နယ်သာလန် နိုင်ငံကို ပြည်နယ်ပေါင်း ၁၁ နယ်ခွဲ၍ အုပ်ချုပ်၏။ ပြည်နယ်များတွင် မျူနီစီပယ်အဖွဲ့များရှိကြသည်။ နယ်သာလန် နိုင်ငံ၌ မျူနီစီပယ်ပေါင်း ၁,၀၁၀ ရှိ၏။ ပြည်နယ်တိုင်းတွင် လွှတ်တော်တရပ်သာလျှင် ပါဝင်သည့်ဥပဒေပြုလွှတ်တော်တခုစီရှိသည်။ ယင်းတို့သည် ပြည်နယ်ကောင်းစားရေး အတွက် ဥပဒေများ ပြုနိုင်သည်။ သို့သော် ဘုရင် သို့မဟုတ် ဘုရင်မ၏ သဘောတူညီချက် ရရှိရမည် ဖြစ်ပြီးလျှင်၊ ထိုဥပဒေများကို ဘုရင် သို့မဟုတ် ဘုရင်မက ပယ်ဖျက်နိုင်၏။ ဒပ်ချ ပါလီမန် ပဌမလွှတ်တော်ခေါ် အထက် လွှတ်တော်တွင် အဖွဲ့ဝင် ၅၀ ပါဝင်၍၊ ယင်းတို့ကို ပြည်နယ် ဥပဒေပြု လွှတ်တော်များက ရွေးချယ် တင်မြှောက်သည်။ သက်တမ်းမှာ ၆ နှစ်ဖြစ်ပြီးလျှင်၊ ယင်းတို့အနက် ထက်ဝက်သည် ၃ နှစ်တကြိမ် နုတ်ထွက်ပေးရသည်။ ဒုတိယ လွှတ်တော်ခေါ် အောက်လွှတ်တော်တွင် ပါဝင်သည့် အမတ်ဦးရေ ၁၀၀ ကို ပြည်သူ လူထုက ရွေးကောက်တင်မြှောက်သည်။ သက်တမ်းမှာ ၄ နှစ်ဖြစ်၏။

တနိုင်ငံလုံးနှင့် သက်ဆိုင်သည့် ဥပဒေ ဟူသမျှသည် အောက်လွှတ်တော်တွင် စတင် တင်သွင်းရသည်။ အထက်လွှတ်တော်တွင် ယင်းထံသို့ သဘောတူညီချက်ပေးရန်၊ သို့မဟုတ် ပယ်ဖျက်ရန် တင်ပို့သောဥပဒေကြမ်းများကို ပြင်ဆင်ရန် အာဏာမျှပင် မရှိချေ။

ဘုရင် သို့မဟုတ် ဘုရင်မ၏ အုပ်ချုပ်မှုအာဏာကို ပါလီမန်သို့ တာဝန် ယူထားရသော ကက်ဗိနက် အစိုးရအဖွဲ့က ခံယူကာ နိုင်ငံကို အုပ်ချုပ်သွားသည်။ ကက်ဗိနက် အဖွဲ့ဝင် အရေ အတွက်သည် အခါအားလျော်စွာ အပြောင်း အလဲ ရှိတတ်သည်။ ကက်ဗိနက် အဖွဲ့အပြင် နိုင်ငံတော်ကောင်စီ အဖွဲ့ဟူ၍ ရှိသေးသည်။ ထိုအဖွဲ့တွင် အဖွဲ့ဝင် ၁၄ ဦးထက် မနည်းပါဝင်၍၊ ဘုရင် သို့မဟုတ် ဘုရင်မက သဘာပတိအဖြစ် ဆောင်ရွက်၏။




နယ်သာလန်၏ဆိပ်ကမ်းမြို့ ဖြစ်ရုံသာမက၊ ဥရောပအလယ်ပိုင်း၏ ဆိပ်ကမ်းမြို့လည်း ဖြစ်သော—ရော့တဒမ်းမြို့

နယ်သာလန် နိုင်ငံ၏ ရှေးဦးသမိုင်းသည် မငြိမ်မသက် ဆူပူ လှုပ်ရှားမှုများနှင့် ပြည့်နှက် နေခဲ့၏။ အလယ်ခေတ်တွင် ယခု လက်ရှိ ဗဲလဂျီယမ်နှင့် နယ်သာလန် နိုင်ငံတို့သည် တခုနှင့် တခု အဆက်အသွယ် မရှိသော ပြည်နယ်များနှင့် မြို့စားနယ်ပယ်များသာ ဖြစ်နေခဲ့၍၊ အချို့သည် ပြင်သစ်နိုင်ငံအတွင်း ပါဝင်နေလျက်၊ အချို့သည် ရောမ သာသနာစောင့် နိုင်ငံတော်အတွင်း ပါဝင် နေခဲ့သည်။ နောင်အခါ ထိုနယ်ပယ်များသည် တဖြည်းဖြည်း ဗာဂန်ဒီနယ်စားများ လက်တွင်းသို့ ကျရောက်ခဲ့၏။ ချား-သ-ဗိုးသည် ထိုနယ်ပယ်များကို စုစည်းကာ ပြင်သစ်နှင့် ဂျာမနီ နိုင်ငံတို့အကြားတွင် ကြားနိုင်ငံ တခု တည်ထောင်ရန် ကြိုးပမ်း ခဲ့သော်လည်း မအောင် မြင်ခဲ့ပေ။ ယင်း၏ သမီးတော် မေရီနှင့် ဩစတြီးယန်း ဧကရာဇ်ဘုရင် မက္ကဆီမီလျံတို့ လက်ဆက်ခဲ့သည်တွင် ထိုစဥ်က အနိမ့်ပိုင်း တိုင်းပြည်များဟု ခေါ်တွင်ခဲ့သည့် နယ်သာလန် နယ်ပယ်များသည် ဩစတြီးယား၏ လက်အောက်သို့ ကျရောက်ခဲ့လေသည်။ ၁၅၅၆ ခုနှစ်တွင် စပိန် ဘုရင်လည်းဖြစ်၍ ရောမ သာသနာစောင့် နိုင်ငံတော် ဧကရာဇ်လည်းဖြစ်သော ပဋ္ဌမချား နန်းစွန့်လိုက်သည့်အခါ၊ ထိုနယ်ပယ်များသည် စပိန်ဘုရင် ဒုတိယဖိလစ် လက်တွင်းသို့ သက်ဆင်းခဲ့သည်။

၁၅၆၈ ခုနှစ်တွင် ဒပ်ချ အမျိုးသားတို့သည် စပိန်တို့၏ စိုးမိုးမှုကို တွန်းလှန် ပစ်ခဲ့၏။ သို့ရာတွင် တောင်ပိုင်း ပြည်နယ်များနှင့် မြောက်ပိုင်း ပြည်နယ်များသည် အယူအဆဝါဒချင်း မတူ၍၊ စည်းလုံးမှု မရှိခဲ့ချေ။ ၁၅၇၉ ခုနှစ် တွင် ပရိုတက်စတန့် ဂိုဏ်းဝင် မြောက်ပိုင်းပြည်နယ်များသည် ယူးထရက်ပြည်ထောင်စု ဖွဲ့စည်းပြီးလျှင် ၁၅၈၁ ခုနှစ်တွင် လွတ်လပ်သော နိုင်ငံအဖြစ် ကျေညာ၏။ ယူးထရက်ပြည်ထောင်စုကို ပူးပေါင်း ပြည်နယ်များဟူ၍ရင်း၊ ဒပ်ချနယ်သာလန်ဟူ၍ရင်း ခေါ်ဝေါ်ခဲ့၏။ စပိန်တို့သည် ၁၆၀၉ ခုနှစ်တွင် ယာယီ စစ်ပြေငြိမ်းစာချုပ် တရပ်ကို လက်မှတ်ရေးထိုးခဲ့ရာ ဒပ်ချ နယ်သာလန်၏ လွတ်လပ်ရေးကို အသိအမှတ် ပြုရာ ရောက်ခဲ့၏။ ဒပ်ချတို့သည် ဗြိတိသျှတို့နှင့် ၁၆၅၂ ခုနှစ်တွင် တကြိမ်၊ ၁၆၆၅ ခု နှစ်တွင် တကြိမ် ရေကြောင်း စစ်ပွဲကြီးများ ဆင်နွှဲခဲ့ရ၏။ စစ်ဖြစ်ရခြင်းမှာ ကုန်သွယ် ရောင်းဝယ်ရေး ဖက်တွင် ဒပ်ချတို့ ကြီးပွားထွန်းကားလာသည်ကို အင်္ဂလိပ်တို့က မနာလို မရှုစိမ့်သောကြောင့်ပင်တည်း။

ထိုစစ်ပွဲများ ဖြစ်ပွားသည့် အချိန်အထိ ဒပ်ချနယ်သာလန်သည် ကမ္ဘာပေါ်တွင် ကုန်သွယ် ရောင်းဝယ်ရေးဖက်၌ရင်း၊ ရေကြောင်း ဖက်၌ရင်း အတိုးတက် အထွန်းကားဆုံး နိုင်ငံတခု ဖြစ်နေခဲ့၏။ သို့သော် ၁၆၇၂ ခုနှစ်မှ ၁၆၇၈ ခုနှစ်အထိ နှစ်များအတွင်း ၁၄ ဆက်မြောက် လူဝီဘုရင်သည် နယ်သာလန်အား စိုးမိုးအုပ်ချုပ်ရန် ကြိုးပမ်းခဲ့ရာတွင်၊ နယ်

သာလန်နိုင်ငံသည် အတော်ပင်အထိနာခဲ့၏။ ထို့ပြင် ၁၇၄၇ ခုနှစ်တွင် နယ်သာလန် အုပ်ချုပ်ရေးမှူးချုပ် ရာထူးသည် ဩရိန်းဇား ဆွေမျိုးစု၏ ရိုက်ရာခံ ရာထူးတရပ်ဖြစ်သွားသောအခါ၊ နယ်သာလန် နိုင်ငံ၏ သမတနိုင်ငံ အသွင်သဏ္ဌာန် ပျောက်ကွယ် သွားလေသည်။ သို့သော် ပြင်သစ်တော်လှန်ရေးသမားများက ဩရိန်းစားဆွေမျိုးစုကို ဖြုတ်ချလျက် နယ်သာလန်ကို သမတနိုင်ငံ ပြုလုပ်ခဲ့ပြန်သည်။ ၁၈၀၆ ခုနှစ်တွင် ပြင်သစ်စစ်ဘုရင် နပိုလီယန်သည် နယ်သာလန်အား သိမ်းပိုက်ကာ ညီတော်လူဝီဗိုနပတ်အား နန်းတင်ခဲ့၏။ သို့သော် နောင်အခါတွင် ပြင်သစ်နိုင်ငံတွင်းသို့ နယ်သာလန်ကို သွတ်သွင်းခဲ့သည်။ နပိုလီယန် တန်ခိုးအာဏာ မှေးမှိန် ကျဆင်းသွားသောအခါ၊ ယခုလက်ရှိ နယ်သာလန် နိုင်ငံကို ဖွဲ့စည်း တည်ထောင်ခဲ့၏။ ဩရိန်း ဆွေမျိုးစုမှ မင်းသားတပါးသည် ပဌမ ဝီလျံဘုရင်ဖြစ်လာသည်။ ဗီယင်းနား ကွန်ဂရက်သည် နယ်သာလန် နိုင်ငံတို သတ်မှတ်ပေးရာတွင်၊ တောင်ပိုင်း ပြည်နယ်များနှင့် လပ်ဇင်ဗတ်တို့ကို ထည့်သွင်းပေးခဲ့၏။

ပဌမဝီလျံ လက်ထက် ၁၈၃၀ ပြည့်နှစ်တွင် တောင်ပိုင်း ပြည်နယ်များသည် ပုန်ကန် ထကြွကာ၊ ဗဲလဂျီယမ် နိုင်ငံဟု သီးခြားနိုင်ငံတည်ထောင်ခဲ့၏။ တတိယ ဝီလျံ၏ သမီးတော် ဝီလယ်မင်းနား ဘုရင်မ (ခရစ် ၁၈၉၀–၁၉၄၈) နန်းတက်သော အခါ လပ်ဇင်ဗတ်ပြည်နယ်ကိုလည်း လက်လွှတ်ခဲ့ရပြန်၏။ အဘယ်ကြောင့် ဆိုသော် လပ်ဇင်ဗတ်ပြည်နယ်၏ ထုံးတမ်းအရ နိုင်ငံ၏ အကြီးအကဲသည် မိန်းမသား မဖြစ်စေရဟူသောကြောင့်ပင်တည်း။

ဝီလယ်မင်းနား ဘုရင်မ၏ လက်ထက်၌ပင် ပဌမ ကမ္ဘာစစ်နှင့် ဒုတိယ ကမ္ဘာစစ်ကြီးများ ဖြစ်ပွား လေသည်။ ပဌမ ကမ္ဘာစစ်အတွင်းက နယ်သာလန် နိုင်ငံသည် ကြားနေနိုင်ငံအဖြစ် နေခဲ့သော်လည်း၊ ဒုတိယ ကမ္ဘာစစ် အတွင်းကမူ ၁၉၄၀ ပြည့်နှစ် မေလတွင် ဂျာမနီ နိုင်ငံသည် နယ်သာလန် နိုင်ငံအား ချင်းနင်းဝင်ရောက် တိုက်ခိုက် သိမ်းပိုက် ထားခဲ့လေသည်။ ဝီလယ်မင်းနား ဘုရင်မသည် အင်္ဂလန်ပြည်သို့ ထွက်ပြေးကာ လန်ဒန်မြို့မှ နေ၍ အဝေးရောက် အစိုးရအဖွဲ့ဖြင့် အုပ်ချုပ်ခဲ့ရလေသည်။ ၁၉၄၅ ခုနှစ် မေလတွင် နယ်သာလန်သည် ဖက်စစ်စံနစ်၏ စိုးမိုးမှုအောက်မှ လွတ်မြောက်ခဲ့ပေသည်။ (ဝီလယ်မင်းနား ဘုရင်မ — ရှု။)

၁၉၄၈ ခုနှစ် စက်တင်ဘာလ ၄ ရက်နေ့တွင် ဝီလယ်မင်းနားဘုရင်မသည် ထီးနန်းကို စွန့်လွှတ်ခဲ့ရာ၊ ယင်း၏ သမီးတော် ဂျူလီယာနာ မင်းသမီးက အရိုက် အရာကို ဆက်ခံခဲ့၏။ ဂျူလီယာနာဘုရင်မ၏ အစိုးရအဖွဲ့သည် စစ်ကြောင့် ပျက်စီးနေခဲ့သောတိုင်းပြည်ကိုရင်း၊ တိုင်းပြည်၏ စီးပွားရေးကိုရင်း ပြန်လည် ထူထောင်ခဲ့ရလေသည်။

နယ်သာလန်နိုင်ငံတွင် အစိုးရ၏ ရုံးစိုက်ရာ၊ ကမ္ဘာ့ခုံရုံးတည်ရာနှင့် ဘုရင်မ နန်းစိုက်ရာ ဟိတ်မြို့



# ထင်ရှားသောဒပ်ချ နှင့် ဖလန်းဒါးပန်းချီကျော်များ

**နယ်သာလန်နိုင်ငံသည် ပန်းချီ ဆေးရေး အနုပညာရပ်တွင် ထင်ရှားသော နိုင်ငံ ဖြစ်သည်။ ဗန်အိုက် ညီနောင်၊ ဗရူးဂဲ၊ ရူးဗင်း၊ ဖရန့်ဇဟား၊ ရမ်းဗရန့်၊ ဟော့ဗီမာနှင့် ဗန်ဂေါက်တို့မှာ ကမ္ဘာကျော် ဒပ်ချ နှင့် ဖလန်းဒါး ပန်းချီပညာသည်ကြီးများဖြစ်ကြသည်။ ထိုထိုသောပုဂ္ဂိုလ်တို့၏ လက်ရာများအကြောင်းကို ဤအကြောင်းရပ်တွင် မှတ်တမ်းတင်ထားသည်။**

**နယ်သာလန် အနုပညာ။** ။နယ်သာလန် အနုပညာသမိုင်းကို ခေတ်နှစ်ခေတ်ပိုင်းခြားထားရှိသည်။ ပဌမပိုင်းမှာ ဖလန်းဒါးပန်းချီထွန်းကားသောခေတ်ဖြစ်၍၊ ဒုတိယပိုင်းမှာ ဒပ်ချပန်းချီ ထွန်းကားသော ခေတ်ဖြစ်၏။

ဖလန်းဒါးပန်းချီသည် ၁၄ ရာစုနှစ်ခန့်မှစ၍ထွန်းကားလာသည်။ ပုံတူ အသေးစားများ ရေးခြယ်ခြင်းနှင့် စာအုပ်များတွင် ပန်းချီရေးခြယ်ခြင်း အလေ့တို့သည် အလွန်ခေတ်စားခဲ့၏။ မြို့တော်ခန်းမများနှင့် ဘုရား ရှိခိုးကျောင်းများတွင်လည်း ပန်းချီဆေးရေးခြယ်ကြသည်။ သို့သော်ထိုအဆောက်အအုံများမှာ မြောက်ပိုင်း ဂေါ့သစ်သုကာလက်ရာများ ဖြစ်သဖြင့်၊ ကျယ်ပြန့်သော နံရံကြီးများ မရှိသောကြောင့်၊ သစ်သား မှန်ကူကွက်များ ပေါ်တွင်သာ ပန်းချီဆွဲကြရ၏။ ဘုရားစင် မျက်နှာကြက်နှင့် နံရံတို့ကိုလည်း ပန်းချီဆေးခြယ်၍ တန်ဆာ ဆင်၏။ ရေးဆွဲကြသော ပန်းချီကားများမှာ အလွန်သေးငယ်၍ အနုစိတ်မှုန်းခြယ်ထား၏။ အလင်းရောင်နှင့် အရိပ်ကျပုံကိုလည်း နိုင်နင်းစွာ ဖော်ပြနိုင်၏။

ဟူဗင်းဗရက်ဗန်အိုက် (ခရစ် ၁၃၆၆–၁၄၂၆)နှင့် ယန်ဗန်အိုက် (ခရစ် ၁၃၈၀–၁၄၄၁) ညီနောင်နှစ်ဦးသည် ဖလန်းဒါးပန်းချီကို အုတ်မြစ် ချပေးခဲ့ကြသည်။ ထိုညီနောင်သည်



နယ်သာလန် ပန်းချီကျော် ဗားမေး၏ လက်ရာမှန်တခု

ရှေးက ရှိနှင့်ပြီးဖြစ်သော ဆီဆေးရေးနည်းကို ပိုမိုကောင်းမွန်လာအောင် နည်းသစ်ထွင်၍ ရေးဆွဲခဲ့သည်။ အထူးသဖြင့် ပိုး၊ ဖဲ၊ မှန် စသည်တို့နှင့် အရောင်တောက်ပြောင်သော ပစ္စည်းများကို ရေးဆွဲသရုပ်ဖော်ရာ၌ လက်စွမ်း မြောက်လှပေသည်။

၁၅ ရာစုနှစ် နောက်ပိုင်းတွင်မှ ဖလန်းဒါး ပန်းချီတွင် ဣတလီလက်ရာများ ရောနှော လာလေသည်။ သို့ရာတွင် ရှိရင်းစွဲ ပန်းချီလက်ရာများလည်း မှုမပျက်ဘဲ ဆက်လက်ထွန်းကားလျက် ရှိ၏။ ပတီနီယာနှင့် ဟင်းဒရစ်ဗလက်တို့သည် ရှုမျှော်ခင်းပုံများကို စတင် ရေးဆွဲခဲ့ကြသည်။ ပီတာဗရူးဂဲ ရေးဆွဲသောပုံကြီးများမှာမူ လူထူသော ကပွဲသဘင် စသည်တို့ကို အသေးစိတ်နေရာတကျ ထားသို ဖော်ပြထားသည်ကို တွေ့ရသည်။ တောင်သူ လယ်သမားများ ဘဝကို ဟာသရသပေါ် လွင်အောင် ဖော် ပြ ရေးဆွဲနိုင်သူဖြစ်သည်။ (ဗရူးဂဲ,ပီတာ — ရှု။)

၁၆ ရာစုနှစ်မှ ၁၇ ရာစုနှစ်အတွင်း ထင်ရှားခဲ့သော ပန်းချီပညာရှင်များသည်အောက်တန်းစားနှင့်လူလတ်တန်းစားတို့၏ ဘဝနှင့် ဩကာသလောကဖြစ်သော တောတောင် လယ်ယာစသည့် ရှုခင်းပုံများကိုသာ သရုပ်ဖော်ရေးဆွဲကြသည်။ ထိုခေတ်၌ အထင်ရှားဆုံးပညာရှင်မှာ ရူးဗင်းဖြစ်၍၊ အဖက်ဖက်တွင် လက်ရာ မြောက်လှ၏။ သို့သော် သူ့လက်ရာတွင် ဣတလီပန်းချီ၏အငွေ့အသက်များ ပါဝင်နေသည်။ လူရုပ်ပုံများမှာလည်း အများအားဖြင့် ထယ်ဝါစွာဝတ်စားဆင်ယင်ထားသူများသာဖြစ်၏။ (ရူးဗင်း,ပီတာ ပေါ — ရှု။)

ဒပ်ချပန်းချီမှာ ၁၇ ရာစု နှစ်အတွင်း၌ပင် စတင်ခဲ့သည်။ ထိုခေတ်တွင် ရေ မြေ တော တောင်နှင့် လူတို့နေထိုင်စားသောက်ပုံကိုပင် ရေးဆွဲကြ၏။ စတင် ကျော်ကြား လာသူမှာ ဖရန့်ဇဟား ဆိုသူဖြစ်၍ သူ၏ "ရယ်နေသော မြင်းသည်တော်" အမည်ရှိ ပန်းချီကားမှာ နာမည်ကျော်ကားကောင်းတခုဖြစ်သည်။ ဖရန့်ဇဟားသည် သူ့တိုင်းပြည်၏ စည်ပင်ဝပြောပုံနှင့် ပြည်သူပြည်သားများ၏ဘဝကို စုတ်ချက်ကြမ်းကြမ်းနှင့် ဖော်ပြလေ့ ရှိသည်။ (ဟား,ဖရန့်ဇ — ရှု။) သူနှင့် တခေတ်တည်းပေါ် အကျော်ကြားဆုံး ပန်းချီ ပညာရှင်မှာ ရမ်းဗရန့်ဖြစ်၏။ သဘာဝကို အနီးကပ်ဆုံး ဖော်ပြလေ့ရှိသော ဒပ်ချပန်းချီဆရာ ရမ်းဗရန့် ပေါ်ပေါက်လာသည်တွင် ပိုမို အဆင့်အတန်း မြင့်လာ၏။ ရမ်းဗရန့်၏ လက်ရာ

များတွင် အယူဝါဒရေး ဆိုင်ရာ ပန်းချီကားများ၊ ရှုမျှော်ခင်းပုံများနှင့် လူရုပ်ပုံများစသည်ဖြင့် စုံလင်စွာ ပါဝင်သည်။ (ရမ်းဗရန့် — ရှု။)

နစ်ကလတ်မီး၊ ယန်စတင်း၊ ပီတာဒါဟုနှင့် ဗားမေးတို့သည်လည်း ကျော်ကြားသော ဒပ်ချ ပန်းချီပညာရှင်များ ဖြစ်ကြသည်။ သူတို့သည် မိသားစု ပုံများ၊ အိမ်အတွင်းခန်း တနေရာကို ဖော်ပြသော ပန်းချီကားများနှင့် ကျေးလက်တောရွာ ရှုခင်းများကို အသားပေး၍ ရေးဆွဲကြသည်။ ပန်းချီဆရာကြီး ကွိုက်၊ ဆော်လမွန်၊ ယာကွပ် ဗန်ရွိုက်ဆဒယ်နှင့် ဟောဗီမာတို့သည် စိမ်းလန်းစိုပြေသော နယ်သာလန် တောတောင်သစ်ပင်နှင့် ကောင်းကင် ရှုခင်းတို့ကို သဘာဝကျကျ ရေးခြယ်လေ့ ရှိကြသည်။ ယင်းတို့ထက် ပို၍ ကျော်ကြားသူများကား မြစ်ကမ်း နံဘေးနှင့် ပင်လယ်ကမ်းခြေရှုခင်းများကို ရေးဆွဲလေ့ ရှိသော အန်ဒရီယင်နှင့် ဝီလမ် ဗန်ဒါဗဲ့လဒါဆိုသူ ညီနောင် နှစ်ဦးဖြစ်၏။ ပျားပိတုန်းများ ရစ်ဝဲနေသည့် ပန်းမျိုးစုံ ပန်းချီကားများကို ရေးဆွဲလေ့ ရှိသော ပန်းချီပညာရှင်များ အနက် အထင်ရှားဆုံးမှာ ယန်ဗန်ဟွိုက်ဆမ် ဖြစ်သည်။

၁၇ ရာစု နှစ်ဦးပိုင်းမှ စ၍ နယ်သာလန်၌ ပန်းချီကျော်များနည်းပါးလာပြီးလျှင် ၁၉ ရာစုနှစ်တွင်မတဖန်အမြောက်အမြား ထွန်းကားလာသည်။ ယင်းတို့ အနက် ထင်ရှားသူများမှာ ယိုးဆက်အဇ္ဇရီယယ်၊ ယာကွပ်မာရစ်နှင့် အန်းတွန်



ပန်းချီဆရာကြီး ဗန်ဒိုက်သည် ဤသို့ အရောင်တောက်သော ဖဲ၊ ပိုးစသောပစ္စည်းများကိုရေးဆွဲသရုပ်ဖော်ရာ၌လက်မြောက်လှပေသည်။



နယ်သာလန် ပန်းချီဆရာကြီး ရမ်းဗရန့်၏ “ မြင်းသည်တော် ” ပန်းချီကား

မောတို့ဖြစ်၏။ အထင်ရှားဆုံးမှာမူ ‘အင်ပရက်ရှင်းနစ်’ခေါ် ပန်းချီ ပညာသည်များ၏ ရှေ့တော်ပြေးဖြစ်သည့် ယွန်ကင့်နှင့် ပြင်သစ် ပန်းချီကို လိုက်စားသူ ဗန်ဂေါက်တို့ ဖြစ်သည်။

**နယ်သာလန် အရှေ့အိန္ဒိယ ကျွန်းစု။** ။နယ်သာလန် အရှေ့အိန္ဒိယကျွန်းစုဆိုသည်မှာ အာရှ အရှေ့တောင်ပိုင်းတွင် တည်ရှိ၍၊ ယခင်က ဒပ်ချတို့ ပိုင်ဆိုင်ခဲ့သော ကျွန်းစု ဖြစ်သည်။ ထိုကျွန်းစုတွင် ဆူမတြာကျွန်း၊ ဂျားဗားကျွန်း၊ ဒပ်ချဗော်နီယို၊ စဲလဗီကျွန်း၊ ဒပ်ချ နယူးဂင်းနီ၊ ဗာလီကျွန်း၊ ဇက်ာကျွန်း၊ ဗိလီတန်ကျွန်းနှင့် မိုလပ်ကပ်ကျွန်း စသည့် ကျွန်းကြီးကျွန်းငယ်များ ပါဝင်လေသည်။ ယခုအခါ ဒပ်ချ နယူးဂင်းနီမှ တပါး၊ ကျန် ကျွန်းအားလုံးတို့ကို စုပေါင်း၍ လွတ်လပ်သော အင်ဒိုနီးရှားနိုင်ငံ ထူထောင်ထားရှိပြီး ဖြစ်လေသည်။ (အင်ဒိုနီးရှား နိုင်ငံ — ရှု။)

**နေ့,ဂျွန် (ခရစ် ၁၅၀၅ – ၁၅၇၂)** ။ ။ဂျွန်နေ့သည် စကော့လူမျိုး ဝါဒခေါင်းဆောင်တဦး ဖြစ်လေသည်။ သူသည် စကော့တလန်ပြည် ဟက်ဒင်တန်နယ် ဂစ်ဖိုဂိတ်မြို့တွင် ၁၅၀၅ ခုနှစ်လောက်က မွေးဖွားသည်။ ဂလပ်ဇဂိုးတက္ကသိုလ်၌ ပညာသင်ကြားပြီးလျှင်၊ ခရစ်ယန်သာသနာ့ဘောင်သို့ ဝင်ခဲ့ရာ၊ နောင်သောအခါ ပရိုတက်စတန့်ဂိုဏ်းဝင် ဖြစ်သွား

လေသည်။ ထိုအခါက စကော့တလန်ပြည်ရှိ ခရစ်ယန်အယူဝါဒအဖွဲ့သည် တရားလက်လွှတ်ဖြစ်သော အပြုအမူများကို ပြုမူလျက်ရှိသည်။ ပမာအားဖြင့် သာသနာပြုပြင်ရန်တရားဟောပြောသော ပုဂ္ဂိုလ်တဦးကို ဂိုဏ်းအုပ်ဘုန်းကြီး ကာဒင်နယ် ဗီတန်က မီးရှို့ သတ်ပစ်လိုက်လေသည်။ ကာဒင်နယ်ဗီတန်သည် သာသနာ့အရေခြုံနေသောလူမသမာတယောက်ဖြစ်ရာ၊ အပြစ်ကင်းစင်သော တရားဟောပုဂ္ဂိုလ်ကို သတ်ပစ်သဖြင့်၊ သာသနာပြုပြင်ရန်လိုလားသူများသည် အုပ်မနိုင်ထိန်းမရ ဒေါသူပုန်ထပြီးလျှင် သူ့ကို သတ်ပစ်၍၊ သူနေထိုင်သော စိန်အင်ဒရူးရဲတိုက်ကြီးကို တိုက်ခိုက် သိမ်းပိုက်ကြလေသည်။ ထိုသူတို့ကို အားပေးကူညီသူများစွာရှိရာတွင် ဂျွန်နော့လည်း တဦးအပါအဝင် ဖြစ်သည်။

ထိုအခါက ပြင်သစ်နိုင်ငံသည် စကော့တလန်ပြည်နှင့် မဟာမိတ် ဖြစ်နေရာ၊ အဆိုပါ သာသနာ့ အမိကရုဏ်းကိစ္စနှင့် စပ်လျဉ်း၍၊ ၁၅၄၇ ခုနှစ်၌ ပြင်သစ်ရေတပ်တတပ်က ရဲတိုက်တခုကို ပစ်ခတ်တိုက်ခိုက်သဖြင့်၊ ရဲတိုက်ထဲရှိ စကော့တော်လှန်ရေးသမားတို့သည် အညံ့ခံကြရလေတော့၏။ ဂျွန်နော့နှင့် သူ့အဖော်များသည် အဖမ်းခံရ၍၊ ပြင်သစ်နိုင်ငံသို့ ရောက်သွားကြသည်။ သို့ရာတွင် ၁၅၄၉ ခုနှစ်၌ အင်္ဂလိပ်တို့က ဆောင်ရွက်ပေးသဖြင့် လွတ်မြောက်သွားကြပြီးနောက်၊ ထိုသူတစုသည် အင်္ဂလန်ပြည်၌ သွားရောက်ခိုလှုံနေထိုင်လေသည်။ ဂျွန်နော့သည် အင်္ဂလန်ပြည်၌ နေထိုင်စဉ် ဆုတောင်းချက်ကျမ်း ပြုစုရေး၌ ကူညီခဲ့၏။ ၁၅၅၁ ခုနှစ်တွင် ဘုရင့်သင်းအုပ်ဆရာတော်အဖြစ် ခန့်ထားခြင်း ခံရလေသည်။ သို့ရာတွင် ၁၅၅၃ ခုနှစ်တွင် မေရီတျူဒါ ဘုရင်မ နန်းတက်လာသဖြင့်၊ ပရိုတက်စတန့် ဂိုဏ်းဝင်များ အသက်ဘေးရန်အတွက် စိုးရိမ်လာရသောအခါ၊ ဂျွန်နော့သည် ဆွစ်ဇာလန်ပြည် ဂျီနီးဗားမြို့သို့ သွားရောက်၍၊ ၅ နှစ်မျှ နေထိုင်ခဲ့ရပြန်လေသည်။ ဂျီနီးဗားမြို့၌ ပြင်သစ်လူမျိုး ခရစ်ယန် အယူဝါဒပြုပြင်ရေးခေါင်းဆောင် ကယ်လဗင်နှင့် တွေ့ဆုံခဲ့၏။ (ကယ်လဗင်, ဂျေ — ရှု။)

၁၅၅၉ ခုနှစ်၌ ဂျွန်နော့သည် စကော့တလန်ပြည်သို့ ပြန်သွားလေသည်။ ထိုအချိန်၌ ပြင်သစ်ဩဇာခံ စကော့တလန်ပြည် အစိုးရက ပရိုတက်စတန့် ဂိုဏ်းဝင်များကို နှိပ်ကွပ်နေသဖြင့်၊ နော့သည် ဒန်ဒီနှင့် ပတ်သမြို့များသို့ ထွက်ပြေးတိမ်းရှောင်နေရလေသည်။ ထိုမြို့များမှ နေ၍ ဗရင်ဂျီဂိုဏ်းကို ထိပါးကာ တရားဟောပြောခဲ့ရာ၊ မကြာမီ စကော့တလန်ပြည်၌ ပြည်တွင်းရေးစစ် ဖြစ်ပွားလေတော့သည်။

စကော့တလန်ပြည်အစိုးရတို့သည် ပြင်သစ်တို့ကိုအားကိုးလျက်ရှိရာ၊ ပရိုတက်စတန့် ခေါင်းဆောင်များက သူတို့နှင့် ဂိုဏ်းချင်းတူသော အင်္ဂလန်ပြည်ကို အကူအညီ တောင်းခဲ့လေသည်။ ထိုအခါက အင်္ဂလန်ပြည်၌ ပရိုတက်စတန့်ဂိုဏ်းဝင် အယ်လစ်ဇဗက် ဘုရင်မ အုပ်စိုးလျက်ရှိလေသည်။ အင်္ဂလိပ်တို့၏ အကူအညီကိုရသဖြင့်၊ နောက်ဆုံး၌ ပရိုတက်စတန့်ဂိုဏ်းဝင်များ အရေး သာသွားလေသည်။ ပြင်သစ်စစ်တပ်များလည်း ဆုတ်ခွာသွားရ၍၊ ပရိုတက်စတန့် ခေါင်း



ဂျွန်နော့သည် စကော့တလန်ပြည် ပရိုတက်စတန့် ခရစ်ယန်ဂိုဏ်းကို ခေါင်းဆောင်ကာ ဤသို့တရားဟောခဲ့၏။

ဆောင်များ တန်ခိုးကြီးမားလာကြလေသည်။ နော့သည်လည်း စကော့တလန်ပြည်၌ အလွန် ဩဇာတိက္ကမကြီးသူတယောက် ဖြစ်လာခဲ့လေသည်။ ၁၅၆၁ ခုနှစ်၌ စကော့ဘုရင်မ မေရီ ပြန်ရောက်လာသောအခါ၊ နော့က ဗရင်ဂျီဂိုဏ်းကို စွန့်လွှတ်ရန် သူ့ကို စိတ်လိုက်မာန်ပါ အတန်တန်တိုက်တွန်းခဲ့လေသည်။ သို့ရာတွင် ဘုရင်မက ခေါင်းမာနေခဲ့၏။ ထိုသို့ တိုက်တွန်းလှသောကြောင့်လည်း၊ တခါတွင်သစ္စာဖောက်မှုနှင့် အဖမ်းခံရ၍ လွတ်မြောက်သွားပြီးလျှင်နောက်တခါတွင်ကား တရားမဟောပြောရန် တားမြစ်ခြင်းခံခဲ့ရလေသည်။ နော့သည် မေရီ ဘုရင်မ၏ သားတော်ကလေး ဂျိမ်း နန်းတက်ပွဲ၌ တရားတကြိမ်ဟောပြောခဲ့ပြီးနောက်၊ ၁၅၇၂ ခုနှစ် နိုဝဘာလ ၄ ရက်နေ့တွင် ကွယ်လွန်လေသည်။

**နော့ကလစ်, ဗိုင်းကောင့်** (ခရစ် ၁၈၆၅–၁၉၂၂)။ ။ ဗိုင်းကောင့်နော့ကလစ်ဟု ထင်ရှားသော အဲလဖရက်ချားဝီလျံ ဟမ်းစဝပ်သည် သတင်းစာ လောကကြီးကို ယနေ့အခြေအနေအဆင့်အတန်းသို့ တိုးတက်အောင် ဆောင်ရွက်ခဲ့သော ဗြိတိသျှ သတင်းစာဆရာ ဖြစ်သည်။ သူသည် ၁၈၆၅ ခုနှစ် ဇူလိုင်လ ၁၅ ရက်နေ့တွင် ဒဗ္ဗလင်မြို့၌ မွေးဖွားလေသည်။ သားချင်း ၁၄ ယောက် ရှိသည့် အနက်သားကြီး တဦးဖြစ်၏။ သူ၏ ဖခင်သည် ဝတ်လုံတော်ရဖြစ်လေသည်။

၁၈၆၇ ခုနှစ်တွင် ဟမ်းစဝပ် မိသားစုသည် လန်ဒန်မြို့တော်သို့ ရွှေပြောင်း နေထိုင်ကြသည်။ ၁၈၇၈ ခုနှစ်အသက် ၁၃ နှစ် ကျောင်းသားဘဝ၌ရှိစဉ် အဲလဖရက် ဟမ်းစဝပ်သည် ကျောင်းမဂ္ဂဇင်း စာစောင်ကို ဦးစီးထုတ်ဝေ၏။ အစပဌမတွင် လက်ရေးစာစောင်အဖြစ် ထုတ်ဝေ၍၊နောက်မှ ပုံနှိပ်ထုတ်ဝေသည်။ ထိုနောက် နှစ်နှစ်ကြာသောအခါ၊ သတင်းစာဆရာ အဖြစ်ဖြင့်၊ ပဌမဦးဆုံး အကြိမ် လခစားအလုပ်ကို ရလေရာ၊ ထိုစဉ်က အသက် ၁၅ နှစ်မျှသာရှိသေးပေသည်။

အဲလဖရက်ဟမ်းစဝပ်သည် ဥရောပတခွင်၌ အနှံ့အပြားလှည့်လည်၍ အပြန်တွင်၊ 'လူငယ်စာစောင်' လက်ထောက်အယ်ဒီတာအဖြစ် ဆောင်ရွက်ရာ၊ အသက်မှာ ၁၇ နှစ်မျှသာရှိသည်။ 'မောနင်းပို့' နှင့် 'စိန်ဂျိမ်းဂေဇက်' သတင်းစာများသို့လည်း ဆောင်းပါးများ ရေးသားပေးပို့လေ့ ရှိ၏။ ၁၈၈၄ ခုနှစ်တွင် ကျန်းမာရေး ချို့တဲ့သဖြင့်၊ လန်ဒန်မြို့မှထွက်ခွာ၍ သွားရလေသည်။ ထိုအတွက် ၁၈၈၅ ခုနှစ်မှ ၁၈၈၇ ခုနှစ်များအတွင်းတွင် ကဗင်ထရီမြို့ စာအုပ်ထုတ်ဝေရေးဌာနတခုတွင်ဝင်ရောက်လုပ်ကိုင်သည်။ထိုနောက် ကျန်းမာလာ၍၊ လန်ဒန်မြို့တော်သို့ ပြန်လာသောအခါ၊ 'အန်ဆာ'



ထင်ရှားသော ဗြိတိသျှ သတင်းစာဆရာကြီး လော့နော့ကလစ်

အမည်ရှိ အပတ်စဉ် ဂျာနယ်တစောင်ကို ၁၈၈၈ ခုနှစ်၌ ကိုယ်တိုင် ဦးစီး၍ ထုတ်ဝေသည်။ ထိုအခါ ညီဖြစ်သူ ဟာရိုးသည် အဲလဖရက် ဟမ်းစဝပ်နှင့်အတူ ပူးပေါင်း လုပ်ကိုင်သည်။ ညီအစ်ကို နှစ်ဦးသည် လုပ်ရည်ဝ၍၊ အမြင်ကျယ်လာသဖြင့်၊ စာဖတ်ပရိသတ် ပိုမိုများလာရန်၊ ကျောင်းသား၊ အရပ်သား၊ စျေးသည်နှင့် လူငယ်များ စိတ်ဝင်စားစွာဖြင့် ဖတ်ချင်အောင် ရှင်းလင်းစွာ ရေးသားသော နည်းသစ်များကို တီထွင်ကြလေသည်။ ထိုညီနောင် နှစ်ဦးတို့၏ ကြိုးပမ်းမှုကြောင့်၊ ထိုအချိန် အခါ၌ပင် တနှစ်လျှင် ရရှိသော အမြတ်ငွေမှာ ပေါင်ငါးသောင်းကျော်လေသည်။ ထိုနောက် နှစ်အနည်းငယ်အတွင်းတွင် အဲလဖရက် ဟမ်းစဝပ်သည် ဥရောပ၊ အာဖရိက၊ အိန္ဒိယ၊ ကနေဒါ၊ အမေရိကန် ပြည်ထောင်စုများသို့ လှည့်လည်ခရီးထွက်သည်။ ၁၈၈၈ ခုနှစ်တွင် မေရီအယ်လစ်ဇဗက်နှင့် လက်ထပ်လိုက်လေသည်။

၁၈၉၆ ခုနှစ်တွင် 'ဒေးလီးမေး' ခေါ် နံနက်ထုတ်သတင်းစာကို ထုတ်ဝေသည်။ ပဲနီဝက်ဖြင့် ရောင်းသော သတင်းစာတို့တွင် အဦးဆုံးသတင်းစာဖြစ်၍၊ ကြေးငွေ မတတ်နိုင်သူများပင် ဝယ်ယူ ဖတ်ရှုနိုင်သဖြင့်၊ များစွာ အရောင်းရတွင်ကျယ်လေသည်။ တန်ဖိုးတဝက်နည်းသော်လည်း၊ တပဲနီတန်သတင်းစာများကဲ့သို့ပင် သတင်းစုံလင်၍၊ရေးပုံရေးနည်းမှာလည်း စိတ်ဝင်စားဖွယ်ရာ ဖြစ်သည်။ ခေါင်းကြီးပိုင်းတွင်ကား သူ၏ ထင်မြင်ချက်များကို လွတ်လပ်စွာ ဖော်ပြသည်။ ဟမ်းစဝပ်သည် သူ၏ မျိုးချစ်စိတ်နှင့် နိုင်ငံရေး ယုံကြည်

ချက်ဘိုကို အလေးဂရုပြုကာ ရေးသားလေ့ရှိသည်။ တခါတရံ သူ၏ထင်မြင်ချက်များသည် ရာဇဝတ်ဘေးမှ မကင်းလှပေ။ သို့ရာတွင် မကြောက်မရွံ့ မတုန်မလှုပ်ဘဲ မှန်မှန်ကြီး ရေးသားသည်။အာဖရိကတိုက်တွင် ဗိုးဝါးစစ်ပွဲဖြစ်ပွားချိန်၌ 'ဒေးလီးမေး' ၏ နေ့စဉ်ထုတ်စောင်ရေမှာ ၆၀၀,၀၀၀ ကျော်လေသည်။ ဒေးလီးမေး သတင်းစာ တည်ထောင်ပြီးသည်မှစ၍ ဟမ်းစဝပ်၏ အမည်သည် ဗြိတိသျှ သတင်းစာလောကတွင် အထင်ပေါ် ဆုံး ဖြစ်လာသည်။ ဒေးလီးမေးကို ထုတ်ဝေရာတွင် ယခင်က လန်ဒန်ညနေသတင်းစာ ဖြစ်သော အီးဗနင်းနယူး(စ)ကို ထုတ်ဝေခဲ့စဉ်က ရရှိသော အမြင်သစ် အတွေ့သစ်များကို အသုံးချသဖြင့် များစွာ တိုးတက်သည်။ လန်ဒန် ညနေသတင်းစာမှာ ၁၈၉၄ ခုနှစ်တွင် ဟမ်းစဝပ်ညီနောင်ဘို ဝယ်ယူခဲ့သော သတင်းစာဖြစ်သည်။သူတို့ ဝယ်ယူစဉ်က ပြုတ်လုအံ့ဆဲဆဲဖြစ်နေသော်လည်း၊ သူတို့၏ လုပ်ရည် ဥာဏ်ရည်ကြောင့်၊ မကြာခင် တိုးတက်ကြီးပွားလာသော သတင်းစာတစောင် ဖြစ်လာသည်။

၁၉၀၃ ခုနှစ်တွင် ဟမ်းစဝပ်သည် 'ဒေးလီးမီးရား' သတင်းစာကို ထုတ်ဝေပြန်သည်။ ပဌမအစတွင် ရှုံးသော်လည်း မကြာခင် လူကြိုက်များသော သတင်းစာ ဖြစ်လာသည်။ သို့ရာတွင် နောင်အခါ၌ ထိုသတင်းစာကို ညီဖြစ်သူအား ရောင်းချလိုက်၍၊ သီးခြားလုပ်ကိုင်စေ၏။ ၁၉၀၅ ခုနှစ်တွင် ပြင်သစ်၌ တိုက်ခွဲထား၍၊ ဥရောပတိုက်နိုင် 'ဒေးလီးမေး' သတင်းစာကို ဖြန့်ချီလေသည်။ ထိုနှစ်မှာပင် ဗဲရွန်မည်သော မှူးမတ်ဃယ်ဘွဲ့ကို ရရှိ၍၊ ဗဲရွန်နေဘ့ကလစ်ဖြစ်လာလေသည်။

၁၉၁၄ ခုနှစ် ပဌမကမ္ဘာစစ်ကြီး ဖြစ်စတွင်၊ နေဘ့ကလစ်သည် သတင်းစာပေါင်း များစွာကို ကြီးကိုင် အုပ်ချုပ်ထားလေပြီ။ ယင်းတို့မှာ 'တိုင်း' သတင်းစာ၊ 'ဒေးလီးမေး'၊ 'အီးဗနင်းနယူး (စ)'၊ 'ဝီကလီးဒစ်စပက်'၊ 'အိုဗာဆီးမေး'၊ 'ကွန်တီနင်တယ်ဒေးလီးမေး' နှင့် အခြားသတင်းစာများ ဖြစ်ကြသည်။

'တိုင်း' သတင်းစာကြီးကို ကြီးကိုင်နိုင်မှုမှာ နေဘ့ကလစ်၏ တသက်သုံးတောင့်တရည်မှန်းချက်ကြီး ဖြစ်လေရာ၊မိမိ၏ လက်ထဲသို့ရောက်လာသောအခါ၊ သတင်းစာအရွယ်ကို တိုးချဲ့စေ၍၊ အဖိုးနှုန်းကို လျှော့ချထုတ်ဝေသည်။ ထိုအခါ စောင်ရေများစွာ တိုးတက်ရောင်းချရသည်။ သတင်းစာများကို စောင်ရေများစွာ ထုတ်ဝေရသောကြောင့်လည်း၊ နေဘ့ကလစ်၏ ဩဇာသည် ကြီးမားလာလေသည်။ စစ်သတင်းများကို လွတ်လပ်စွာနှင့် သတ္တိရှိရှိ ဖော်ပြ၍၊ လူထု၏ စိတ်ဓာတ်ကို မြှင့်တင်ပေးခဲ့၏။

နေဘ့ကလစ်သည် သတင်းစာထုတ်ဝေရာ၌ ပြုပြင်ပြောင်းလဲရေး များစွာကိုလည်း ဆောင်ရွက်ခဲ့သည်။ အယ်ဒီတာများ၊ သတင်းထောက်များအား တပတ်လျှင် ငါးရက် လုပ်ချိန် ကန့်သတ်ပေး၍၊ လစာကိုလည်း ရက်ရောစွာ ပေးလေသည်။ထိပ်သီး အယ်ဒီတာအဖွဲ့ဝင်လူကြီးများကို သတင်းစာလုပ်ငန်းတွင် အစုပါဝင်၍၊ အမြတ်ခွဲဝေယူခွင့်ကိုပေးသည်။ အမြော်အမြင်ကြီးသော ပုဂ္ဂိုလ်ကြီး တယောက် ဖြစ်၍၊ နောင်နှစ်များမကြာမီ၊ လေကြောင်းအတတ် ခေတ်စားလာမည့် အကြောင်းကို တင်ကြိုသိမြင်သည်။ လေကြောင်းပျံသန်းရေးတွင် များစွာ စိတ်ဝင်စား၍၊ 'ဒေးလီးမေး' သတင်းစာမှတဆင့် လေကြောင်းအတတ် ထူးချွန်သူများကို ဆုများပေးကမ်းကာ ခြီးမြှောက်လေသည်။ ထိုပြင်အခြား စွန့်စားမှုများတွင်ဝါသနာပါသေးရာ၊ ရေငုပ်သင်္ဘောများကို အားပေးခြင်း၊ ဝင်ရိုးစွန်းနယ်များသို့ စွန့်စားသွားလာခြင်းများကို စရိတ်ထောက်ပံ့ခြင်း ပြုလုပ်သည်။

၁၉၁၇ ခုနှစ် စစ်ကြီးပြီးခါနီးတွင် နေဘ့ကလစ်သည် ဗိုင်းကောင့် ဘွဲ့ထူးဖြင့် ခြီးမြှင့်ခြင်း ခံရသည်။ ရန်သူနိုင်ငံများဆိုင်ရာ၊ ဝါဒဖြန့်ချီရေး ညွှန်ကြားရေးဝန် ရာထူးကို လက်ခံ၍၊ အမျိုးသား အကျိုးကို စွမ်းလှန်းတမံ ဆောင်ရွက်ခဲ့သည်။ နောက်ဆုံး ရန်သူများလက်နက်ချအရှုံးပေးရခြင်းတွင်လည်း နေဘ့ကလစ်၏ အမြင်မှန်မှု၊ ကျွမ်းကျင်မှုများ တစိတ်တဒေသအားဖြင့် ပါဝင်လေသည်။ ထိုကြောင့်ပင်လျှင် ဗြိတိသျှ နန်းရင်းဝန်ကြီး မစ္စတာလွိုက်ဂျော့က နှုတ်မှဖွင့်ဟခြီးကျူးလေသည်။

၁၉၂၁ ခုနှစ်တွင် ကျန်းမာရေးအတွက် အနားယူရန် အကြံပေးချက်အရ၊ ကမ္ဘာကို ရက်ရှည် လည်ပတ်သည်။ ၁၉၂၂ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့တွင် ကွယ်လွန်သည်။ လော့နေဘ့ကလစ်တွင် အမွေဆက်ခံရန် သားသမီးတယောက်မျှမကျန်ရစ်သဖြင့်၊ ဘွဲ့ထူးဂုဏ်ထူးများသည် သူ့တသက်နှင့်ပင် သုန်းရချေသည်။

**နေဘ့သမန်ထုံးဟောင်းပုံပြင်များ။** ။နေဘ့သမန်လူမျိုးတို့၏ကိုးကွယ်မှု အယူဝါဒဆိုင်ရာ ရှေးဟောင်းကဗျာလင်္ကာတို့မှ ယင်းတို့၏ ထုံးဟောင်းပုံပြင်များကို သိရှိရသည်။ ထိုထုံးဟောင်းပုံပြင်များအရ၊ ကမ္ဘာတည်စ၌ အပူဒေသနှင့်အအေးဒေသဟူ၍ ဒေသနှစ်ခုခြားနားလျက်တည်ရှိပြီးလျှင်၊ထိုဒေသနှစ်ခု၏ အကြားတွင် အသူတရာနက်သည့် ချောက်ကြီးရှိသည်ဟု ဆိုသည်။ ထိုချောက်ထဲတွင် အီမီးယာ အမည်ရှိသော ဘီလူးနေထိုင်၏။ ထိုဘီလူးကြီး၏ သားစဉ် မြေးဆက်တို့ ပြန့်ပွားလာသော အခါ၊ သူ၏ အဆက်အနွယ်ဖြစ်သော အိုးဒင်၊ ဗဲလီနှင့် ဗီ ညီနောင် သုံးဦးတို့သည် အီမီးယာ ဘီလူးကြီးကို လုပ်ကြံ သတ်ဖြတ်ကြလေ၏။ အီမီးယာ သေဆုံးလတ်သော်၊ သူ၏ ခန္ဓာကိုယ်သည် အသူတရာနက်သော ချောက်ကို ပိတ်ဆို့ဖုံးလွှမ်း၍လာပြီးလျှင်၊ သူ၏သွေးတို့ စီးကျယိုဆင်းခြင်းကြောင့်၊ ကမ္ဘာတဝှန်းလုံး၌ ရေလွှမ်းမိုးလေ

သည်။ ထိုသို့ ရေလွှမ်းမိုးရာ၌ လူအများ သေဆုံးပျက်စီးရာ၊ နောက်ဆုံး၌ လင်မယား နှစ်ယောက်သာ အသက်ရှင်၍ ကျန်ရစ်လေသည်။ ဤပျက်စီးသည့် အခြေအနေကို နတ်တို့ မနှစ်သက်ရကား၊ သေဆုံးသူ အိမ်းယာ၏ ကိုယ်ခန္ဓာကို ကမ္ဘာဖြစ်အောင် ဖန်ဆင်းလေရာ၊ အိမ်းယာ၏ ဦးခေါင်းခွံသည် ကောင်းကင်ဖြစ်လာ၏။ ဆံပင်မွေးညှင်းတို့သည် သစ်ပင်များ ဖြစ်လာ၏။ ထိုသည်မှစ၍ ကမ္ဘာပေါ်တွင် လူတို့ ပေါက်ဖွား၍ မျိုးစဉ်မျိုးဆက်ပွားများလာကြသည်ဟုအယူရှိသည်။ အချို့ကမူ၊ ကမ္ဘာဦး၌ လူမရှိသည်ကို အိုးဒင်၊ ဗဲလီနှင့် ဗီတို့က တွေ့ရှိရလေသော်၊ အိုးဒင်သည် လူသေနှစ်ဦးကို အသက်သွင်း၍၊ တဦးကားယောကျ်ား၊ တဦးကားမိန်းမဟု သမုတ်ရာ၊ ထိုယောကျ်ားနှင့် မိန်းမတို့မှ အစဉ်အဆက် လူမျိုး အနှံ့အပြား ပေါက်ပွားသည်ဟု ဆိုကြသည်။ ထို့ကြောင့် နေ့သမန်လူမျိုးတို့သည် အိုးဒင်ကို လူနှင့် နတ်တို့၏ဖခင်ဟု အယူရှိကြသည်။

အိုးဒင်သည် သူ၏ စံမြန်းရာ နန်းတော်မှနေ၍ လောကခြင်းရာကို အမြဲရှုလေ့ရှိ၏။ အိုးဒင်၌ ကျီးနှစ်ကောင်ရှိသည်။ ထိုကျီးနှစ်ကောင်သည် ကမ္ဘာ အရပ်ရပ်မှ သတင်းများကို ဆောင်ကြဉ်း၍ အိုးဒင်ထံသို့ ပို့လေ့ရှိ၏။ အိုးဒင်ကိုယ်တိုင်လည်း အတိတ်၊ ပစ္စုပ္ပန်၊ အနာဂတ် ကာလသုံးတန်ကို ကောင်းစွာ သိမြင်စွမ်းရှိသည်။ တခါတရံ အိုးဒင်သည် ကမ္ဘာလောက၌ လှည့်လည်၍ လူတို့၏ အရေး၌ ရှေ့ဆောင်လမ်းညွှန်ပြုလုပ်လေ့ရှိသည်။ အိုးဒင်၏ လက်အောက်၌ နတ် ၁၂ ပါးတို့ရှိကြသည်။ ထိုနတ်တို့သည် အိုးဒင်၏ ရာဇပလ္လင်အောက်ရှိ နန်းတော်ဆောင်တို့တွင် နေထိုင်ကြသည်။ ယင်းနတ်တို့အနက် တန်ခိုးအကြီးဆုံးမှာ အိုးဒင်၏သားဖြစ်သော သောနတ်ကြီးဖြစ်သည်။ သောနတ်သည် ရဲတင်းကို ကိုင်ဆောင်၍ ထုလိုက်သည့်အခါ လျှပ်စစ်လက်ခြင်း၊ မိုးချုန်းခြင်းတို့ ဖြစ်ပေါ်လာတတ်သည်။ ထို့ကြောင့် သောနတ်ကို မိုးချုန်းသောနတ်ဟု အယူရှိကြသည်။ ထိုနတ်သည် တရားဥပဒေနှင့် ထုံးတမ်းစဉ်လာတို့ကို စိုးပိုင်သောနတ်ဖြစ်ရာ လူအများက သူ့အား အိုးဒင်ထက်ပို၍ အလေးအမြတ်ပြုကြသည်။

အိုးဒင်၏ မယားသည် ဖရေးယာဖြစ်၏။ ဖရေးယာသည် ထိမ်းမြားခြင်းနှင့်ဆိုင်သော နတ်သမီးဖြစ်သည်။ ကဗျာလင်္ကာနှင့်ဆိုင်ရာနတ်ကား ဗရာဂိနတ်ဖြစ်သည်။ ထိုနတ်၏ မယား အိုင်ဒူနာ၌ သေခြင်းတရားကို လွန်ဆန်နိုင်သော သစ်သော့သီးများရှိသည်။ ထိုသစ်သော့သီးများကို တနေ့လျှင် တလုံးကျ နတ်တို့အား ဆက်သရသည်။ တနေ့သော် ဘီလူးတို့သည် အိုင်ဒူနာကို ဖမ်းဆီးသွားလေရာ၊ အိုင်ဒူနာ ပြန်၍မလွတ်မခြင်း နတ်တို့သည် အိုမင်း ရင့်ယော်လာခဲ့သည်။ ထိုပြင် မီးနတ်ဟူ၍လည်းရှိ၏။ ထိုမီးနတ်မှာ လိုကီဖြစ်၏။ မီးနတ်သည် နတ်ကကာတို့အတွက် အကြံဉာဏ်ပေးရသော ပုဂ္ဂိုလ်လည်း ဖြစ်၏။ နတ်တကာတို့အား အနှောင့်အရှက်ပြုသော ပုဂ္ဂိုလ်လည်း ဖြစ်၏။ မီးသည် အကျိုးကိုဖြစ်ထွန်းနိုင်၍၊ အကျိုးကိုလည်းဖျက်ဆီးနိုင်သောနည်းတူ၊ လိုကီသည် အပြုနှင့် အဖျက် နှစ်ခုစလုံးနှင့်ဆိုင်သော နတ်ဖြစ်သည်။ တရံရောအခါ လိုကီသည် ပျို့မျစ်နုနယ်တင့်တယ်လှပသောနတ်သားတဦးကို သေကြောင်း ကြံလေသည်။ ထို့ကြောင့် နတ်တို့သည် စိတ်ဆိုး၍၊ လိုကီကို ဖမ်းဆီးကာ၊ ကျောက်ဆောင် တခုတွင် သံကြိုးဖြင့် ချည်နှောင်ထားလေ၏။ လိုကီ၏ ဦးထိပ်ထက်၌ အဆိပ်ခွက်တခုကို ဆွဲချိတ်ထား၍၊ ထိုအဆိပ်သည် လိုကီ၏မျက်နှာပေါ်သို့တစက်တစက်ကျလေသည်။ ထို့ကြောင့်လိုကီ၏မယားသည် ထိုအဆိပ်၏ဒဏ်ကို ဖယ်ရှားရန်အလို့ငှါ၊ အခြားသော ခွက်တခုဖြင့် ခံယူ၏။ သို့ပါသော်ငြားလည်း၊ ခွက်ပြည့်သောအခါ၊ ထိုအဆိပ်ခွက်ကိုယူ၍ သွန်ရသဖြင့်၊ သွန်သည့်ခဏ၌ အဆိပ်သည် လိုကီ၏ မျက်နှာကို လောင်လေသည်။ လိုကီလည်း အဆိပ်လောင်သော ဒဏ်ကြောင့် လွန့်လူးသည်ရှိသော် ကမ္ဘာမြေကြီးသည် လျှင်လှုပ်လေသည်ဟု ဆိုသည်။

နတ်တို့သည် ဤသို့ နေထိုင်လာခဲ့ရာ၊ တခုသော ကာလသို့ ရောက်လတ်သော်၊ ကမ္ဘာလောက၌ သုံးနှစ်မျှတာရှည်သော ဆောင်းဥတုကြီးသည် ဆိုက်ရောက်လာလေ၏။ ထို့ကြောင့် သစ်ပင် ဝါးပင်တို့ သေလေ၏။ လူတို့လည်း တော်မှုတ်ခေါင်းပါး၍ တဦးကတဦးကို သတ်ဖြတ်လေကုန်၏။ ထိုအတွင်း ဝံပုလွေ နှစ်ကောင်သည် အစာငတ်သဖြင့် နေနှင့်လကို ဟပ်မျိုစားသောက်လေ၏။ ကမ္ဘာလည်း ကြီးစွာသောလှုပ်ခြင်းဖြင့် လှုပ်လေ၏။ ထိုအခါ လိုကီကိုချည်နှောင်ထားသော နှောင်ကြိုးသည် ပြတ်သွားပြီးလျှင်၊ လိုကီနှင့် တကွ ဝံပုလွေ နှစ်ကောင်တို့သည် အခြားသော နတ်ဆိုးများနှင့် အတူ ကမ္ဘာကို ဖျက်ဆီးလေရာ၊ အိုးဒင်နှင့် သောနတ်တို့လည်း အခြားသော နတ်များနှင့်အတူ သေကြေပျက်စီးလေ၏။ ဤသည့်နောက်မှ ကမ္ဘာအသစ်ဖြစ်ထွန်းလာပြီးလျှင်၊ တောတောင်ရေမြေ အသစ်ပေါ်ပေါက်လာလေသည်။ တခုသော တောအုပ်မှ ယောကျ်ားမိန်းမနှစ်ဦးတို့ ထွက်လာပြီးလျှင်၊ အိုးသစ် အိမ်သစ် ထူထောင်၍၊ ယင်းအိမ်ထောင်သည် နှစ်ဦးမှ လူဟူသော အမျိုးအနွယ်တို့သည် ပေါက်ဖွားလာလေသည်။

နေ့သမန် လူမျိုးတို့၏ ထုံးဟောင်း ပုံပြင်များသည် အင်္ဂလိပ် လူမျိုးတို့၏ ယဉ်ကျေးမှုကိုပင်လျှင် လွှမ်းမိုးခဲ့ဘူးသည်။ အင်္ဂလိပ် ပြက္ခဒိန် အရဖြစ်သော ဗုဒ္ဓဟူးနေ့၊ ကြာသပတေးနေ့၊ သောကြာနေ့တို့သည် အိုးဒင်နတ်၊ သောနတ်နှင့် ဖရေးယာ နတ်သမီးတို့ကို အစွဲပြု၍ မှည့်ခေါ်သော နေ့များဖြစ်ကြသည်။



နော့သမန်လူမျိုးတို့သည် စစ်ရေးတွင်ရှင်း၊ ပင်လယ်ရေကြောင်းသွားလာရေးတွင်ရှင်း ဝါသနာပါ၍ကျွမ်းကျင်သည့် လူရည်ချွန်များဖြစ်ကြသည်။
ဥရောပတိုက် ယဉ်ကျေးမှုမှာ နော့သမန်လူမျိုးတို့၏ ကျေးဇူးနှင့် မကင်းချေ။

**နော့သမန် လူမျိုး။** ။ခရစ်နှစ် ၇၀၀ မှ ၁၁၀၀ အတောအတွင်း ဥရောပ တိုက် အနောက်ဖက် ကမ်းရိုးတန်း တလျှောက်နှင့် ဗြိတိသျှ ကျွန်းစုတို့သို့ ဝင်ရောက်တိုက်ခိုက်နေသော ပင်လယ်ဓားပြတို့ကား နော့သမန်ခေါ် ဗိုက်ကင်းလူမျိုးတို့ဖြစ်လေသည်။ သူတို့၏ ဇာတိ ချက်မြှုပ်ဒေသမှာ စကန်ဒီနေးဗီးယား ကျွန်းဆွယ်မြောက်ပိုင်း ဖြစ်သည်။စကန်ဒီနေးဗီးယား ကျွန်းဆွယ်၏ ပင်လယ်ကမ်းရိုးတန်းသည် ရှည်လျား၍၊ဖီအော့ခေါ် ကွေ့များပြည့်နှက်လျက်ရှိသဖြင့်၊ ဗိုက်ကင်းတို့သည် သဘာဝအလျောက် သင်္ဘောသားများ ဖြစ်လာကြ၏။ သူတို့သည် သူတို့ရောက်ရာ အရပ်တိုင်းတွင် ဘာတခုမျှ မကျန်အောင် ဖျက်ဆီးပစ်တတ်သောကြောင့်၊ ထိုခေတ်က လူတို့သည် ယင်းတို့ကို နာမည်ကြားရုံမျှနှင့် ဖိမ့်ဖိမ့်တုန်အောင် ကြောက်ကြသည်။

နော့သမန် လူမျိုးတို့၏ စွန့်စားပုံ၊ ရဲရင့်၍ သတ္တိရှိပုံတို့မှာ အလယ်ခေတ် ဥရောပသမိုင်းတွင် ပုံပြင်များဖြင့်ရှင်း၊ ကဗျာလင်္ကာများဖြင့်ရှင်း မှတ်တမ်းတင်ကျန်ရစ်ခဲ့လေသည်။ နော့သမန် လူမျိုးထဲမှ အုပ်စုတစုသည် နော်မန်ဟု တွင်၍၊ ပြင်သစ်ပြည်တွင် အတည်တကျ နေထိုင်ကြပြီးလျှင်၊ နော်မန်ဒီ နယ်ကို တည်ထောင်ကြ၏။ (နော်မန်ဒီနယ် — ရှု။) အခြားအုပ်စုတစုမှာ ဒိန်းမတ်ပြည်မှ လာ၍ ဗြိတိသျှကျွန်းစုကို ပဌမဦးဆုံး ဝင်ရောက်တိုက်ခိုက်သူများဖြစ်၏။ သူတို့သည်အိုင်ယာလန်ကျွန်းနှင့် စကော့တလန်ပြည် အနီးရှိ ဟက်ဗရိဒီးကျွန်းများသို့ သွားရောက်၍၊ မြို့ပြပြည်ရွာတည်ထောင်ခဲ့ကြသည်။ အိုက်စလန်၊ ဂရင်းလန်းနှင့် ဖဲရိုးကျွန်းများကို စတင်တွေ့ရှိ၍၊ ထိုကျွန်းများပေါ်တွင် နေထိုင်ခဲ့ကြ၏။ လေ့အဲရစ်ဆန် ခေါင်းဆောင်သော ဗိုက်ကင်းသင်္ဘောသား တစုသည် ခရစ် ၁၀၀၀ ပြည့်နှစ်လောက်တွင် မြောက်အမေရိကတိုက်၊ နိုဗာစကိုးရှား ကမ်းခြေသို့ ပဌမဦးဆုံး ရောက်သွား ကြသည်။ အခြား နော့သမန်တစုကား ရုရှပြည်ကို မြောက်ဖက်မှ လှည့်ဆင်း၍ တောင်ဖက်သို့ ကီးအက်အထိ နယ်ချဲ့ကာ၊ မြို့ပြ ပြည်ရွာတည်ထောင်၍ နေထိုင်ခဲ့ကြသည်။

နော့သမန်တို့သည် သူတို့နေရင်းဌာနီ စကန်ဒီနေးဗီးယားကျွန်းဆွယ်ကို အစားအစာ လုံလောက်စွာ မရ၍၊ စွန့်လွှတ် ထွက်ခွာသွား ကြသည်ဟု အချို့က ယူဆကြသည်။ စင်စစ်မှာမူ ထိုကြောင့် မဟုတ်။ သူတို့သည် သူတပါး တိုင်းပြည်၏ ပစ္စည်းဥစ္စာ ဘဏ္ဍာ ရွှေငွေတို့ကို လိုချင် ကြ၏။ စစ်တိုက်ရန်ရှင်း၊ ပင်လယ်ခရီးဖြင့် စွန့်စွန့် စားစား သွားရန်ရှင်း အလွန် နှစ်သက်ကြ၏။ ထိုကြောင့် သူတို့၏ အသက်မွေးဝမ်းကျောင်း လုပ်ငန်းသည် မကြာမီ လုယက် တိုက်ခိုက်သော လုပ်ငန်းကြီး ဖြစ်လာလေသည်။ အမှန် စင်စစ် နော့သမန်တို့သည် လူရည်ချွန်များဖြစ်ကြ၏။သူတို့သည် သင်္ဘောဆောက်လုပ်ခြင်းနှင့် ပင်လယ်ကြောင်းကို သူ မတူအောင် ကျွမ်းကျင် တတ်မြောက် ကြသည်။ ဆောင်းရာသီတွင် ခရီးမထွက်ဘဲ၊ သူတို့၌ ရှိသော သင်္ဘောပျက် လှေပျက်များကို ပြင်ဆင် ကြ၏။ အသစ် ဆောက်တန်လည်း ဆောက်ထားကြ၏။ နွေရောက်သော် ထိုလှေ သင်္ဘောတို့ဖြင့် အနီးတဝိုက်ကို လိုက်လံတိုက်ခိုက်ခိုးယူကြတော့သည်။ ယင်းသို့ တိုက်ခိုက်၍ အားရသော အခါ၊ သူတို့နှစ်ခြိုက်သည့် အချမ်းသာဆုံးသော မြို့ကို ရွေးချယ်ပြီးလျှင် သားမယားနှင့် တကွ ပြောင်းရွှေ့နေထိုင်ကြလေသည်။

ဥရောပတိုက် ယဉ်ကျေးမှုမှာ ထိုသူတို့၏ ကျေးဇူးနှင့် မကင်းချေ။ သူတို့၏ ကုန်သင်္ဘောများနှင့် သူတို့တည်ထောင်ထားခဲ့သော ကုန် ကူးသန်းရောင်းဝယ်ရာ မြို့ရွာများကြောင့်၊သူတို့ရောက်သွားသော အရပ်များမှာ တရပ်နှင့် တရပ် ကူးလူး ဆက်ဆံနိုင်၍၊ တတိုင်းပြည်နှင့် တတိုင်းပြည် ပိုမိုရင်းနှီးလာသည်။အင်္ဂလိပ်နှင့် ပြင်သစ်လူမျိုးတို့သည် ဗိုက်ကင်းလှေသင်္ဘောများကို စံနမူနာယူကာ ရေတပ်များ ဖွဲ့စည်းကြ၍၊ ရှေးယခင်ကထက် ပိုမို ကောင်းမွန်သော သံချပ်ကာများကို စစ်တိုက်ရာ၌ အသုံးပြုလာကြ၏။ ပင်လယ်ထဲ၌ သွားလာ စွန့်စားလိုသော စိတ်ဓာတ်သည် ဗိုက်ကင်းတို့မှ တဆင့် အခြား ဥရောပလူမျိုးများသို့ ကူးစက်ပြန့်ပွားသွား၏။ ယင်းတို့ထံမှ အုပ်ချုပ်ရေး စံနစ်များကိုလည်း အခြား ဥရောပလူမျိုးတို့က အမွေ ရလိုက်သည်။ ရုရှပြည်၏ ပဌမ အစိုးရအဖွဲ့ကို ဗိုက်ကင်းတို့က တည်ထောင် ခဲ့သည်။ အိုက်စလန် ပြည်၌ သူတို့ဖွဲ့စည်းထားခဲ့သော အောလသင်းပါလီမန်မှာ နှစ်ပေါင်း တထောင်ကြာပြီ ဖြစ်၍၊ ကမ္ဘာပေါ်တွင် ရှေးအကျဆုံး ပါလီမန် ဖြစ်သည်။

သို့ရာတွင် နေ့သမန် လူမျိုးတို့သည် သူတို့ တိုက်ခိုက်သိမ်းပိုက်လိုက်သော မြို့နယ် ဒေသတို့တွင် သူတို့၏ ယဉ်ကျေးမှု ဓလေ့ထုံးစံတို့ကို ဖြန့်ဖြူးနိုင်စွမ်း မရှိချေ။ သူတပါးတို့၏ ထုံးကိုသာ အတုခိုး နေထိုင်တတ်၏။ ပြင်သစ်ပြည် မြောက်ပိုင်းဖက်၌ နေထိုင်ကြသော နေ့သမန်တို့သည် ပြင်သစ် အဝတ်အစားများကို ဝတ်ဆင်ကြ၍၊ ပြင်သစ်ဘာသာ စကားကိုပင် လိုက်ပြောကြ၏။အခြားဒေသများ၌ အခြေစိုက်သောနေ့သမန်လူမျိုးများသည်လည်း ဒေသ ဓလေ့ ထုံးစံကို လက်ခံကြ၍၊ သူတို့၏ ဓလေ့ထုံးစံကိုကား အနည်းအကျဉ်းလောက်သာ ဖြန့်ဖြူးကြ၏။ နေ့သမန်တို့သည် အစပဌမက ခရစ်ယန်များ မဟုတ်ကြချေ။ နောက် ခရစ်ယန် တိုင်းနိုင်ငံများကို သိမ်းပိုက်လိုက်ရာမှ၊ ခရစ်ယန်များ ဖြစ်လာကြ၏။

**နေ်မန်ဒီနယ်။** ။နေ်မန်ဒီနယ်သည် ပြင်သစ် နိုင်ငံ၏မြောက်ပိုင်း နယ်တနယ် ဖြစ်၍၊ ရာဇဝင်ကြောင်းအားဖြင့် တကြောင်း၊ သစ်ပင်၊ ပန်းမာလ်၊ မြံမြေ၊ ဥယျာဉ်များ လှပစွာ ရှိနေခြင်းကြောင့် တကြောင်း ထင်ရှားလေသည်။

ရှေးအခါက ယခုခေတ် နော်ဝေးနှင့် ဆွီဒင် နိုင်ငံတို့ တည်ရှိရာ ဒေသများမှ မြောက်ပိုင်းသား အမည်တွင်သော နေ့သမန်လူမျိုးများသည် ပင်လယ်ရေပြင်ကြီးကို ဖြတ်ကျော်ကာ၊ နိုင်ငံအရပ်ရပ်ကို သွားရောက်တိုက်ခိုက် အောင်မြင်ကြပြီးနောက်၊ တိုင်းသစ် ပြည်သစ် တည်ထောင်၍ အခြေတကျ နေထိုင် ကြစဉ်က၊ နေ်မန်ဒီနယ်ကိုလည်း တိုက်ခိုက်ရန် ရောက်ခဲ့ကြ၏။ (နေ့သမန်လူမျိုး — ရှု။) ထိုအခါပြင်သစ်ဘုရင်ချားသည် ထိုသို့ ကျူးကျော်လာသူတို့၏ အကြိုးအမူးနှင့် ငြိမ်းချမ်းရေး စာချုပ်များ ချုပ်ဆိုပြီးလျှင်၊ ထိုနယ်ကို ပေးအပ်လိုက်သည်မှ စ၍၊ နေ့သမန် လူမျိုးတို့သည် ပြင်သစ်နိုင်ငံတွင် အခြေ စိုက်မိကြလေသည်။ နေ့သမန်လူမျိုးတို့ကို နှောင်းခေတ်၌ နေ်မန်ဟု ခေါ်လေသည်။ ထိုအချိန်သည်ကား ၉ ရာစုနှစ်အတွင်း ဖြစ်၏။ ထိုအခါမှစ၍ နေ်မန် ခေါင်းဆောင်များသည် တနေ့တခြား တွင်ကျယ်လာလျက်၊ နေ်မန် မှူးကြီးမတ်ကြီး မြို့စားကြီးများ ဖြစ်လာကာ၊ ယင်းတို့ အထဲမှ တဦးသည် ဣတလီသို့ငှင်း၊ တဦးသည် အင်္ဂလန်သို့ငှင်း သွားရောက် အုပ်ချုပ် ခဲ့လေသည်။ ထိုသို့ အင်္ဂလန်သို့ သွားရောက်အုပ်ချုပ်သူမှာ ဝီလျံ-သ-ကွန်ကရာ ဖြစ်သည်။ ဝီလျံ-သ-ကွန်ကရာသည် အင်္ဂလန်ပြည်၌ ထီးနန်းစိုက်သောအခါ၊ နေ်မန်ဒီ နယ်ကို အင်္ဂလန်ပြည်က ပိုင်ဆိုင်သည့် သဘောမျိုး ဖြစ်လာသောကြောင့်၊ နေ်မန်ခေါင်းဆောင်များသည် ပုန်ကန် ထကြွခဲ့ပြီးလျှင်၊ ပြင်သစ်ဘုရင်တို့ထံမှ အကူအညီ တောင်းခဲ့၏။ ဤတွင် ပြည်နယ်၏ အရေးသည် ရှုပ်ရှုပ် ထွေးထွေး ဖြစ်နေခဲ့ရာမှ၊ ပြင်သစ်ပြည့်ရှင် ဖိလစ် အောဂပ်စတပ် ဘုရင်သည် နေ်မန်ဒီနယ်ကို အင်္ဂလန်ပြည့်ရှင် ဂျွန် ဘုရင်ထံမှ တိုက်ခိုက် ရယူ၍၊ ၁၂၀၂ ခုနှစ်မှ ၁၂၀၄ ခုနှစ် အထိ သိမ်းပိုက်ထားခဲ့၏။

သို့သော် တဖက်နှင့် တဖက် ရန်စနက် မအေးဘဲ၊ ၁၃၃၇ ခုနှစ်မှ ၁၄၅၃ ခုနှစ် အထိ အပြန်အလှန် စစ်မက်များ ဖြစ်ပွားခဲ့ရာ၊ ထိုစစ်ပွဲများသည် နှစ်တရာ စစ်ပွဲဟူ၍ ကမ္ဘာ့သမိုင်းတွင် ထင်ရှားသည်။ (နှစ်တရာ စစ်ပွဲ — ရှု။) ပြင်သစ်တို့က အင်္ဂလိပ်တို့ကို နေ်မန်ဒီနယ်မှသာမက ပြင်သစ်ပိုင်မြေပေါ်မှ တခါတည်းတိုက်ထုတ်နိုင်ခြင်းဖြင့် စစ်ပွဲကြီးကို အဆုံးသတ်ခဲ့၏။ အင်္ဂလိပ်တို့သည် ကဲလေး မြို့တမြို့တည်းကိုသာ ပိုင်ဆိုင် ခဲ့ရသည်။ ထိုနယ်ရှိ ကန်းခေါ် ရှေးမြို့ဟောင်းတွင် စစ်နိုင်ဘုရင် ဝီလျံနှင့် မတီလဒါမိဖုရားတို့ လှူဒါန်း ဆောက်လုပ်သွားသောဘုရားရှိခိုးကျောင်းကြီးနှစ်ဆောင်ရှိသည်။ ယင်းတို့သည် ရှေးကျ၍ အမှတ်တရ ဖြစ်စေသော အဆောက်အအုံများ ဖြစ်လေသည်။

ရူးအန်းမြို့မှာ ရှေးအခါက နေ့သမန် လူမျိုးများ အခိုင်အခံ့ တပ်စွဲခဲ့သည့် ဌာနဖြစ်သည့်ပြင်၊ ပြင်သစ် အမျိုးသမီး သူရဲကောင်းအာဇာနည် ဂျုန်းအော့အတ်



ရှေး နော်မန်ဒီနယ် မြို့တော်ဖြစ်ခဲ့သည့် ရူးအန်းမြို့၏ သာယာဖွယ် ရှုခင်းတရပ်

အား စုန်းမဟူ၍ စွပ်စွဲကာ၊ မီးလောင်တိုက် သွင်း၍ သတ်လိုက်သောနေရာဖြစ်၏။ (ဂျုန်းအော့အတ်—ရှု။) ဤမြို့၌ပင် ဘုရားရှိခိုးကျောင်းကြီးတဆောင် ရှိရာ၊ ထိုအတွင်း၌ 'ခြင်္သေ့စိတ်ရှိသော ရစ်ချတ်' ဟူ၍ကမ္ဘာတွင် ကျော်ကြားခဲ့သော အင်္ဂလန်ပြည့်ရှင် ရစ်ချတ်ဘုရင်၏ အသည်းနှလုံးများကို မြှုပ်နှံထားခဲ့လေသည်။

နော်မန်ဒီ နယ်၌ နေထိုင်ကြသူများသည် အများအားဖြင့် အရပ် အမောင်း မြင့်မားသည်။ ပြာသော မျက်လုံးများရှိသည်။ ဆံပင်လည်း အလွန်လှပသည်။ ထိုကြောင့် ရှေးနော့သမန်လူမျိုးတို့၏ အနွယ် အဆက်များဖြစ်ကြောင်း ထင်ရှားသည်။ နော်မန်လူမျိုးတို့သည် အပင်ပန်းခံနိုင်ခြင်း၊ လှုံ့လဝီရိယရှိခြင်း၊ အမျိုးကို ချစ်၍၊ ရှေးစံနစ်များကို မပစ်ပယ်ခြင်း၊ မိမိတို့ တိုင်းပြည်အတွက် ဂုဏ်ယူခြင်း စသည်တို့၌ ထူးကဲထင်ရှားလေသည်။

**နော်မန်ဒီတိုက်ပွဲ။** ။နော်မန်ဒီ တိုက်ပွဲသည် ကမ္ဘာ့သမိုင်းတွင် ကြည်း၊ ရေ၊ လေတပ်တို့ဖြင့် အကြီးအကျယ်ဆုံး စစ်ဆင်သော တိုက်ပွဲ ဖြစ်သည်။ ဒုတိယကမ္ဘာစစ်အတွင်းက ဆိုဗီယက် ရုရှသည် ဥရောပစစ်မြေပြင်တွင် ဂျာမန်တို့ကို တဦးတည်း ရင်ဆိုင်တိုက်ခဲ့ကြရသည်။ ထိုကြောင့် ဆိုဗီယက်ရုရှသည် ထိုစဉ်က မဟာမိတ်ဖြစ်သော ဗြိတိန်နှင့် အမေရိကန်တို့အား ဥရောပ၌ ဒုတိယ စစ်မျက်နှာဖွင့်ရန် တောင်းဆိုလေသည်။ ဤတောင်းဆိုချက် အရ မဟာမိတ်တို့သည် ၁၉၄၃ ခုနှစ်က ပင်လျှင် ဥရောပ၌ ဒုတိယစစ်မျက်နှာဖွင့်ရန် စီစဉ်ခဲ့ကြသည်။ ထိုစီစဉ်ချက် အရ ရည်ရွယ်ချက်မှာ ဂျာမန်လက်အောက်သို့ ကျရောက်နေသော ပြင်သစ်၊ ဗဲလဂျီယမ်နှင့် ဟော်လန် နိုင်ငံတို့ကို ကယ်တင်၍၊ ဂျာမနီနိုင်ငံကို ဝင်ရောက် တိုက်ခိုက်ရန် ဖြစ်လေသည်။ သို့ရာတွင် အနောက်မြောက် ဥရောပတိုက် လွတ်မြောက်ရေးအတွက် မဟာမိတ်တို့သည် ၁၉၄၄ ခုနှစ် ဇွန်လ ၆ ရက်နေ့သို့ ကျရောက်မှပင်လျှင် ကြည်း၊ ရေ၊ လေတပ်တို့ဖြင့် တဟုန်တည်း ထိုးစစ်ဆင်နိုင်ခဲ့သည်။ ထိုသို့ ထိုးစစ် ဆင်ရာ၌ ဥရောပတိုက်ကိုဝင်ရန် နော်မန်ဒီနယ်မှအစပြု၍ ဝင်ရသဖြင့် နော်မန်ဒီတိုက်ပွဲသည် စစ်သမိုင်းတွင် ဥဒါန်း တွင်ရစ်လေသည်။

ဂျာမန်တို့သည် ၁၉၃၉ ခုနှစ် ဒုတိယကမ္ဘာစစ် ဖြစ်စကပင်လျှင် ဥရောပတိုက်ရှိ အရေးကြီးသော ကမ်းခြေအားလုံးကို သိမ်းပိုက်ထားနှင့်ပြီး ဖြစ်ရကား၊ ထိုကမ်းခြေတို့ကို အခိုင်အမာ စီရင်ထားပြီး ဖြစ်သည်။ အတ္တလန္တိတ်သမုဒ္ဒရာ ကမ်းခြေ၌ အင်္ဂတေဖြင့် ဆောက်လုပ်ထားသော အမြောက်တပ် အခြေခံ စခန်းများ၊ မြေမြှုပ်ဗုံးများ၊ ရေမြှုပ်ဗုံးများ၊ သံဆူးကြိုး အရံအတားများ၊ အင်္ဂတေနှင့် သံမဏိတို့ဖြင့် လုပ်သော အကာအကွယ်များ၊ တင့်ကားထောင်ချောက်များ စသည်တို့ဖြင့် စီရင်ထားလေရကား၊ ထိုအရံ အတားတို့သည် ရန်သူတို့ ထွင်းဖောက်၍၊ မရနိုင်ကောင်းသော အရံအတားများ ဖြစ်သည်ဟု နာမည် ကြီးခဲ့လေသည်။ ယင်းသို့ အခိုင်အမာစီရင်ထားသော ခံတပ်၌ စစ်သူကြီး

ဖွန်ရွန်ရှတက်နှင့် စစ်သူကြီး ရွမ်းမဲတို့ ၂ ဦး အုပ်ချုပ်သော ဂျာမန် တပ်မပေါင်း ၆ဝ ကျော် ရှိလေသည်။

ထိုမျှ အင်အားကြီးမားသော ဂျာမန်တို့နှင့် ရင်ဆိုင်ရမည့် မဟာမိတ်တို့မှာ လူ ၁၃၀,၀၀၀ မျှနှင့် သယ်ယူပို့ဆောင်ရေး ယာဉ်ပေါင်း ၂၀,၀၀၀ သာရှိသည်။ မဟာမိတ် တပ်ပေါင်းစု၏ စစ်သေနာပတိချုပ် အဖြစ် ဗိုလ်ချုပ်မှူး အိုက်ဆင်ဟောင်းဝါးက ဦးစီး၍ မဟာမိတ် တပ်ပေါင်းစု ဒုစစ်သေနာပတိချုပ်အဖြစ် ဗြိတိသျှလေတပ်ဗိုလ်ချုပ်မှူး ဆာဝီလျံတက်ဒါက ဆောင်ရွက်သည်။ မဟာမိတ် တပ်ပေါင်းစုကို ကြည်း၊ ရေ၊ လေ တပ်ကြီးသုံးခုခွဲထား၍၊ ကြည်းတပ်ကို စစ်သူကြီးမောင်ဂိုမာရီ ဦးစီးအုပ်ချုပ်သည်။ ကြည်းတပ်၌ ဗြိတိသျှအင်ပိုင်ယာတပ်မတော်နှင့် အမေရိကန် တပ်မတော်တို့ ပါပင်ရာ ဗြိတိသျှအင်ပိုင်ယာ တပ်မတော်ကို မောင်ဂိုမာရီကိုယ်တိုင်ဦးစီး၍ အမေရိကန် တပ်မတော်ကို ဗိုလ်ချုပ် အိုမာဗရက်ဒလေက ဦးစီးသည်။ မဟာမိတ် ရေတပ်များကို ဗြိတိသျှရေတပ်ဗိုလ်ချုပ်မှူး ဆာဗာထရမ်ဟုမ်းရမ့်ဆေးက ဦးစီး၍ မဟာမိတ် လေတပ်များကို ဗြိတိသျှလေတပ်ဗိုလ်ချုပ်မှူး ဆာ တရက်ဖတ်လေးမယ်လိုရီက ဦးစီးလေသည်။

မဟာမိတ် တပ်များ စတင် တက်ရောက် တိုက်ခိုက်ရမည့် နော်မန်ဒီကမ်းခြေသည် ဗလွန်းယီနှင့် ကဗူးမြို့နှစ်မြို့ စပ်ကြားရှိ ဒေသ ဖြစ်သည်။ တာဝန်ယူ တက်ရောက်ရမည့် တပ်များနှင့် တက်ရောက်ရမည့် နေရာတို့ကို လျှို့ဝှက်သော အမည်များဖြင့် သတ်မှတ် ထားလေသည်။ ၁၉၄၄ ခုနှစ် ဇွန်လ ၆ ရက်နေ့တွင် တိုက်ပွဲစရန် သတ်မှတ်ထားသည်။ ဇွန်လ ၅ ရက်နေ့ညတွင် တိုက်ပွဲဝင်ရန် အတွက် အသင့် စီစဉ်ကာ၊ ကမ်းပေါ်သို့ တက်ရောက်မည့် ဗြိတိသျှနှင့် အမေရိကန် တပ်မ ၁၂ တပ်သည် အသင့် စောင့်လျက် ရှိကြလေသည်။ မဟာမိတ် စစ်သင်္ဘောများသည် ဇွန်လ ၅ ရက်နေ့တညလုံး နော်မန်ဒီ ကမ်းခြေအနီး သတ်မှတ်ထားသော နေရာသို့ တိတ်တဆိတ် သွားရောက် နေရာ ယူထားနှင့်ကြသည်။

တိုက်ပွဲ မစမီ ဂျာမန် ခံတပ်စခန်းများကို မဟာမိတ် လေတပ်များက သွားရောက် ဖျက်ဆီး ခဲ့ရလေသည်။ ဇွန်လ ၅ ရက်နေ့ သန်ကောင်ယံ အချိန်တွင် မဟာမိတ် လေတပ်သည် အခေါက်ခေါက် အခါခါ ဂျာမန်စစ်စခန်းများပေါ်သို့ တန်ချိန် ထောင်ပေါင်းများစွာသော ဗုံးများကိုကြဲချစေခြင်းဖြင့်ဂျာမန်တို့အား ကစဉ့်ကလျားဖြစ်စေခဲ့သည်။ ဗြိတိသျှနှင့် အမေရိကန် လေယာဉ်ပျံ ၂,၀၀၀ သည် တသုတ်လျှင် တထောင်စီ ခွဲကာ၊ ပြင်သစ်ကမ်းခြေရှိ အချက်အခြာ နေရာများကို ဗုံးကြဲတိုက်ခိုက်ကြသည်။ ပီ ၃၈ လေယာဉ်ပျံများက ခုတ်မောင်းနေကြသော မဟာမိတ် စစ်သင်္ဘောတို့ကို အကာ အကွယ်ပေး၍၊ ပီ ၄၇ လေယာဉ်ပျံများကမူကား ကမ်းခြေကို သွားရောက် တိုက်ခိုက်ကြသည်။

ဇွန်လ ၆ ရက်နေ့ နံနက် တနာရီခွဲတွင် မဟာမိတ် လေထီး တပ်သားတို့သည် ဂျာမန်တို့ စစ်ကြောင်းနောက်ရှိ တန်တားများ၊ လမ်းများကို သိမ်းပိုက်ရန် ပြင်သစ် မြေပေါ်သို့ ဆင်းသက်ခဲ့ကြသည်။ အမေရိကန် လေထီးတပ်မ ၂ တပ်သည် ရှုဗုမြို့ဖက်ရှိ ကရန်းတန်း ကျွန်းဆွယ်ပေါ်သို့ ဆင်းသက်ကြ၍၊ ဗြိတိသျှလေထီးတပ်သားများကမူ အွန်းမြစ် အရှေ့ဖက်တွင် ဆင်းသက်ကြသည်။

နော်မန်ဒီ ကမ်းသို့ စတင် တက်ရောက် တိုက်ခိုက်ရန် သတ်မှတ် ထားသော အချိန်မှာ ၁၉၄၄ ခုနှစ် ဇွန်လ ၆ ရက် နံနက် ၇ နာရီခွဲဖြစ်သည်။ နံနက် ၆ နာရီခွဲအချိန်တွင် မဟာမိတ်စစ်သင်္ဘောများသည် ဂျာမန် စခန်းများကို အမြောက်များဖြင့် စတင်၍ ဒလစပ် ပစ်ခတ်ကြသည်။ ဂျာမန်တို့၏ ကမ်းခြေစစ်စခန်းများ ဆီသို့ တမိနစ်လျှင် အမြောက်ဆံ တန်ချိန် ၂၀၀ ကျ မှန်မှန် ပစ်ခွင်းလျက် ရှိလေသည်။ ၇ နာရီခွဲတိတိ အချိန်သို့ ရောက်သော အခါ၊ ကြည်းတပ်သားတို့သည် ကမ်းကပ်သင်္ဘောများမှ နေ၍၊ နော်မန်ဒီ ကမ်းခြေရှိ ဂျာမန်တို့အား သုတ်သင်ရန် အပြင်း ဝင်ရောက် တိုက်ခိုက်ကြလေသည်။ ကမ်းခြေသို့ ပဌမဦးဆုံး တက်ရောက်သော တပ်တို့ကား အမေရိကန်ကြည်းတပ်များ ဖြစ်ကြသည်။

တနေရာတွင် အမေရိကန် တပ်တို့သည် အကျအဆုံး နည်းစွာဖြင့် အောင်မြင်စွာ တက်ရောက်၍ ကမ်းခြေမှ အတွင်းသို့ ၅ မိုင်ကျော် ချီတက်ကြပြီးလျှင် လေထီး တပ်သားများနှင့် ဆက်သွယ်မိကြသည်။ အခြားတနေရာတွင်မူ အမေရိကန်တို့ အကျအဆုံးများပြားလှသည်။ တနေ့လုံး သဲသဲ မဲမဲ တိုက်ခိုက်ကြရသည် ဖြစ်ရာ၊ ညဦးတွင် ယင်းတို့သည် တမိုင်ခန့်မျှ ခရီးပေါက်၍၊ ခြေကုပ်စခန်းကို ရယူ နိုင်ခဲ့ကြသည်။ ဗြိတိသျှတို့ ဦးစီးသော ကမ်းခြေမှ တပ်တို့သည် ကမ်းမှ ၅ မိုင်ကွာ အထိ ချီတက်နိုင်ခဲ့ကြ၍၊ ကန်းနှင့် ဗေယူးမြို့ကြားရှိ လမ်းမကြီးကို ထိန်းသိမ်း ထားနိုင် ခဲ့ကြသည်။ အခြားကမ်းခြေ တနေရာတွင်မူ၊ ဗြိတိသျှတပ်တို့သည် အစ ပဌမတွင် ကုန်းရေသွား တင့်ကားများစွာ ဆုံးရှုံး ခဲ့ကြရသော်လည်း၊ နေမဝင်မီ လေထီးတပ်သားများနှင့် ဆက်သွယ်မိကြ၏။ ဇွန်လ ၆ ရက်နေ့ညသို့ ရောက်သော အခါ၌ မဟာမိတ်တပ်တို့သည် ပြင်သစ် ကမ်းခြေတလျှောက်တွင် ခြေကုပ် စခန်းများကို အောင်မြင်စွာ ရရှိခဲ့ကြလေ

သည်။ မဟာမိတ် လေတပ်တို့သည် ဂျာမန်စစ်ကြောင်း နောက်ပိုင်းများကို ဆက်တိုက် ချေမှုန်း တိုက်ခိုက်ကြရာ ၂၄ နာရီအတွင်းရန်သူပေါင်း ၁၀,၀၀၀ ကျော်ကို ဖျက်ဆီး နိုင်ကြလေသည်။

တိုက်ပွဲ စသည်မှ ငါးရက်ကာလ အတွင်း၌ မဟာမိတ်တို့သည် တပ်မ ၁၆ တပ်တို့ကို ကုန်းပေါ်သို့တင်နိုင်ခဲ့ပြီးနောက် နော်မန်ဒီ ကမ်းခြေမိုင် ၈၀ ကို သိမ်းပိုက် မိခဲ့ကြလေသည်။ သို့ဖြင့် ဂျာမန်တို့ ကြွားဝါခဲ့သော ဥရောပ ခံတပ်ကြီးကို အောင်မြင်စွာ တိုက်ခိုက်နိုင်ခဲ့ပြီ ဖြစ်ရာ၊ ရည်ရွယ်ရင်း ဖြစ်သော အနောက်ဥရောပ တိုက်ရှိ တိုင်းပြည်များကို ကယ်တင်ပေးနိုင်သော လင်းရောင်ခြည်သည် ထွန်းပေါ်ခဲ့လေသည်။

# သန်ကောင်နေထွက်နိုင်ငံ

**ဥရောပတိုက် မြောက်ဖက်တွင် တည်ရှိ၍ နွေရာသီ၌ ၂ လကျော်ခန့် နေမဝင်နိုင်သော နိုင်ငံဖြစ်သည်။ တောင် ထူထပ်၍ သဘာဝရှုခင်း သာယာသဖြင့် နွေအခါတွင် နိုင်ငံခြားညေ့်သည် မြောက်မြားစွာ လာရောက် လည်ပတ်လေ့ရှိသည်။ ရှေးအခါကတည်းက နော်ဝေးနိုင်ငံသားတို့သည် ပင်လယ်တွင် ကျက်စားလာခဲ့သူများဖြစ်ရာ တံငါလုပ်ငန်းနှင့် ရေကြောင်းသယ်ယူပို့ဆောင်ရေးလုပ်ငန်းသည် ယင်းတို့၏ အဓိကလုပ်ငန်းများ ဖြစ်ကြသည်။**

နော်ဝေးနိုင်ငံ။ ။နော်ဝေး နိုင်ငံသည် ဥရောပတိုက် ကုန်းမကြီးမှ အတ္တလန္တိတ် သမုဒ္ဒရာ မြောက်ပိုင်းနှင့် အာတိတ် သမုဒ္ဒရာတို့အတွင်းသို့ ထိုးထွက်နေသော စကန်ဒီနေးဗီးယားကျွန်းဆွယ်၏ အနောက်မြောက်ပိုင်းတွင် တည်ရှိသော နိုင်ငံဖြစ်၏။ ထိုနိုင်ငံ၏ အရှေ့မြောက်ဖက်တွင် ဖင်းလန်နိုင်ငံနှင့် ရုရှနိုင်ငံတို့ တည်ရှိသည်။ အရှေ့ဖက်တွင် ဆွီဒင်နိုင်ငံတည်ရှိသည်။မြောက်ဖက်တွင်ကား အာတိတ်သမုဒ္ဒရာ တည်ရှိလျက်၊ အနောက်မြောက်ဖက်နှင့် အနောက်ဖက်တို့တွင် အတ္တလန္တိတ်သမုဒ္ဒရာနှင့် မြောက်ပင်လယ်တို့ အသီးအသီး တည်ရှိပြီးလျှင် တောင်ဖက်တွင် စကာက်ဂရက် ရေလက်ကြား တည်ရှိလေသည်။

နော်ဝေး နိုင်ငံ၏ အကျယ်အဝန်းသည် ၁၂၅,၁၈၂ စတုရန်း မိုင်ဖြစ်၏။ အနောက် တောင်ဖက်မှ အရှေ့မြောက်ဖက်သို့ မိုင်ပေါင်း ၁,၁၀၀ခန့် ရှည်လျား၍၊ အရှေ့ဖက်မှ အနောက်ဖက်သို့ ၄ မိုင်မှ မိုင် ၂၇၀ အထိ ရှည်လျားလေသည်။

နော်ဝေး နိုင်ငံသည် တောင်ကုန်း ထူထပ်သော ကုန်းပြင်မြင့် ဖြစ်သည်။ မြေမျက်နှာပြင် တခုလုံး၏ ၅ ပုံ ၃ ပုံသည် တောင်များဖြင့် ဖုံးအုပ်လျက် ရှိသည်။ တောင်များသည် ပင်လယ်ကမ်းရိုးအထိ တည်ရှိ နေသည်။ သို့ဖြစ်၍ ကမ်းခြေတလျှောက်တွင် ဖီအော့ခေါ် ရေမြောင်ကြားများ ဖြစ်ပေါ် လာသည်။ ဖီအော့များသည် နော်ဝေးနိုင်ငံ ကမ်းခြေတလျှောက်တွင် အများအပြားရှိသည်။ ကမ်းခြေ၌လည်း ကျွန်းငယ်များ ၁,၅၀၀ ခန့် ရှိ၏။ နော်ဝေး နိုင်ငံအတွင်းဖက်တွင် နှင်းများထူထပ်စွာဖုံးအုပ်လျက်ရှိသော မြင့်မားလှသည့်ကုန်းပြင်မြင့်ကြီးများရှိသည်။ထိုကုန်းပြင်မြင့်များမှ ရေခဲမြစ်များ စီးဆင်းလာတတ်သည်။ အရှေ့မြောက်ပိုင်းတွင် ချူလင်တောင်တန်းကြီးသည် နော်ဝေး နိုင်ငံကို ဖင်းလန်နိုင်ငံ၊ ဆွီဒင်နိုင်ငံတို့နှင့် ခြားနား၍ ထားလေသည်။

နော်ဝေး နိုင်ငံ၏ မြစ်ချောင်းများသည် ရေစီးသန်၍၊ ရေမော်များ၊ ရေတံခွန်များဖြင့်လည်း ပြည့်နှက်နေ၏။ သို့ဖြစ်၍ ကူးသန်းသွားလာရေး အတွက် အသုံးမဝင်သော်လည်း၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးအတွက် အရင်းအမြစ် ဖြစ်နေပြီးလျှင်၊ သစ်များ မျှောရန် အတွက်လည်း အသုံးဝင်လေသည်။ ထင်ရှားသော မြစ်များမှာ ဂလွန်းမာ၊ ဒရမ့်ငနှင့် တာနာတို့ဖြစ်၏။ နော်ဝေး နိုင်ငံ၌အိုင်များ အများအပြားရှိရာ၊ ထင်ရှားသော အိုင်များမှာ မျူးဆားအိုင်၊ ဖေးမွန်အိုင်နှင့် ရူးစဗတ်တန်အိုင်တို့ ဖြစ်သည်။

နော်ဝေး နိုင်ငံသည် အာတိတ်ရပ်ဝန်းအတွင်း မိုင်ပေါင်း ၃၀၀ နီးပါးမျှ ထိုးဝင်နေလျက်၊ တနိုင်ငံလုံး၏ ၃ ပုံ ၁ ပုံခန့်သည် သန်ကောင်တိုင်အောင် နေထွက်သောဒေသ၌ ကျရောက်လျက် ရှိသော်လည်း၊ ကမ်းခြေတလျှောက်လုံးလိုလိုကို ရိုက်ခတ် စီးဆင်းနေသော ဂပ်စထရင်းကြောင့်၊ အသင့်အတင့် ပူနွေးလေသည်။ အနောက်ဖက်ကမ်းရိုးတလျှောက်တွင် ဆောင်းရာသီ၌ မျှမျှ တတ ရှိပြီးလျှင်၊ နွေရာသီတွင် အေးလေသည်။ ထို့ပြင် မိုးအတော်များများ ရွာသွန်း၍၊ မြူထူနှင့် မြူများလည်း အတော်အတန်ကျရောက်၏။ တောင်တန်းများနောက်ဖက်ရှိ အတွင်းဖက်တွင်ကား ရာသီဥတုမှာ ပိုမိုခြောက်သွေ့သည်။ဆောင်းရာသီများတွင် ရဲဖန်




နော်ဝေးနိုင်ငံ တည်နေရာပြ မြေပုံ

ရံခါ အလွန်အေးပြီးလျှင် နွေရာသီများတွင်ကား ကမ်းခြေတလျှောက်မှာထက် ပိုမိုပူနွေးလေသည်။ နော်ဝေးနိုင်ငံတွင် နွေရာသီသည် တိုတောင်းသော်လည်း၊ နှစ်လိုဖွယ်ကောင်း၏။ ဆောင်းရာသီတွင် တောင်များနှင့် ချိုင့်ဝှမ်းများသည် နှင်းအထပ်ထပ် ဖုံးအုပ် နေ၍၊ မြစ်များနှင့် ရေတံခွန်များလည်း ရေခဲလေသည်။

နော်ဝေး နိုင်ငံတွင် သစ်တောများသည် တနိုင်ငံလုံး၏ ၄ ပုံ ၁ ပုံခန့်ရှိ၏။ ယင်းသည့် သစ်တောများတွင် ထင်းရှူးပင်၊ဖားထင်းရှူးပင်၊ ဘုဇပတ်ပင်၊ ဝက်သစ်ချပင်၊ အက်ရှပင်၊ သင်းဝင်ပင်၊ မေပယ်ပင် စသည့် သစ်ပင်များ ပေါက်ရောက်လေသည်။

နော်ဝေး နိုင်ငံတွင် ကြေးနီ၊ ဒန်သတ္တုနှင့် ဘော်တို့ထွက်၏။ ထို့ပြင် သံလည်း အတော် များများ ထွက်သည်။ သို့သော် ကျောက်မီးသွေးမှာမူ ကုန်းမကြီးပေါ်တွင် မထွက်ဘဲ၊အာတိတ်သမုဒ္ဒရာအတွင်းရှိ စပစ်ဗားဂင်ကျွန်းစုတွင် ထွက်လေသည်။

နော်ဝေး နိုင်ငံ၏ လူဦးရေမှာ ၁၉၅၅ ခုနှစ်တွင် ခန့်မှန်းခြေ ၃,၄၀၀,၀၀၀ ခန့်ရှိ၍၊ အလွန် လူနေကျဲသော နိုင်ငံဖြစ်၏။ ယင်းသည့် လူဦးရေ အနက် ၄ ပုံ ၃ ပုံခန့်သည် ကျေးလက်များတွင် နေထိုင်သူများ ဖြစ်သည်။

နော်ဝေး နိုင်ငံတွင် ကျယ်ပြန့်သော လွင်ပြင်ကြီးများမရှိချေ။ တနိုင်ငံလုံး၏ ၂၅ ပုံ ၁ ပုံမျှသာ ရှိသော ဒေသ၌သာ စိုက်ပျိုး လုပ်ကိုင် နိုင်၏။ စိုက်ပျိုးခြံများမှာလည်း နေရာအနှံ့ အပြားရှိ ချိုင့်ဝှမ်းများ၏ ကျဉ်းမြောင်းလှသော မြေယာများတွင် တည်ရှိသည်။ လယ်ယာစိုက်ပျိုးရေးဖြင့် အသက်မွေးသူများသည် အခြားလုပ်ငန်း တခုခုဖြင့် အသက်မွေးသူများထက် များပြား၏။ အဓိကကောက်သီးကောက်နှံများမှာမြက်ခြောက်၊ မြင်းစားဂျုံနှင့် အာလူးတို့ဖြစ်သည်။ ထို့ပြင် ရိုင်းစပါး၊ ဂျုံနှင့် မုယောစပါးတို့ကိုလည်း စိုက်ပျိုး၏။ ပြည်တွင်းစားသုံးရန်အတွက်မှုကား မလုံလောက်လှပေ။

တိရစ္ဆာန် မွေးမြူခြင်းမှာ လယ်ယာ စိုက်ပျိုးရေး လုပ်ငန်း၏ အရေးပါသော အဆွယ်အပွား လုပ်ငန်း တရပ်ဖြစ်၏။ နွားနှင့် သိုးများကို အများအပြား မွေးမြူသည်။ ထောပတ်နှင့် ဒိန်ခဲများကို ပြည်တွင်းစားသုံးရန် အတွက်သာမက ပြည်ပသို့ ထုတ်ရောင်းရန် အတွက်ပါ လုပ်ကိုင်၏။ နွားနှင့် သိုးအပြင် ဆိတ်များနှင့် မြင်းများကိုလည်း မွေးမြူ ကြ၏။ မြောက်ပိုင်းရှိ လက်ပ လူမျိုးများသည် အစားအစာ အတွက်၎င်း၊ အဝတ်အထည် အတွက်၎င်း၊ သယ်ယူ ပို့ဆောင်ရေးအတွက်၎င်း တန်ဒြာ သမင်များကို မွေးမြူကြလေသည်။

သစ်လုပ်ငန်းသည်လည်း အတော် အသင့် အရေးပါသော လုပ်ငန်း ဖြစ်၏။ အဓိက ထွက်ကုန်များမှာ သစ်သား၊ သုံးထပ်သား၊ စက္ကူ၊ သစ် ပျော့ဖတ်နှင့် ဆဲလျူလိုဒ့်တို့ဖြစ်ကြ၏။

တံငါ လုပ်ငန်းမှာ နော်ဝေး နိုင်ငံ၏ ရှေးအကျဆုံးနှင့် ယခုထက်တိုင် အရေးအပါဆုံး လုပ်ငန်း တရပ်ဖြစ်နေပေသည်။ ဟဲရင်းငါး၊ ကော့ဒငါး၊ မက္ကရယ်ငါး၊ ဆယ်မန်ငါး၊ ဟဲလဗတ်ငါး၊ ဟက်ဒက်ငါး၊ ဗုဇွန်တုပ် စသည်တို့ကို အကြီးအကျယ် ဖမ်းဆီး ရမိ၏။ ဝေလငါး ဖမ်းလုပ်ငန်းမှာလည်း အရေးပါသော လုပ်ငန်းဖြစ်သည်။ နော်ဝေး နိုင်ငံမှ တကမ္ဘာလုံးထွက် ငါးကြီးဆီ ထက်ဝက်ကျော်ကျော် ထွက်၏။ တံငါ လုပ်ငန်းနှင့် ဆက်စပ်နေသော ငါးစည်သွတ်လုပ်ငန်းမှာလည်း အရေးပါသော လုပ်ငန်း ဖြစ်ပေသည်။

နော်ဝေး နိုင်ငံသည် စက်မှု လက်မှု လုပ်ငန်းများကို တည်ထောင် လုပ်ကိုင်ရာတွင် နှေးကွေးခဲ့သော်လည်း၊ ယခုအခါ ကုန်ထုတ်လုပ်သော နိုင်ငံအဖြစ်သို့ ရောက်အောင် လျှင်မြန်စွာ လုပ်ဆောင်လျက် ရှိ၏။ ယင်းသို့ စက်မှု လက်မှု လုပ်ငန်းများ တည်ထောင် လုပ်ကိုင်နိုင်သည်မှာ နော်ဝေး နိုင်ငံတွင် ရေအားမြောက်မြားစွာ

ရနိုင်သောကြောင့် ဖြစ်သည်။ အဓိက ထွက်ကုန်များမှာ ဓာတုဗေဒ ပစ္စည်းများ၊ စက်ကရိယာများ၊ သစ်သားထည်များ၊ ပိုး၊ ခြည်ထည်များ၊ ပိုးထည်များ၊ ဓါတ်မြေ နှင့် စက္ကူတို့ဖြစ်၏။

သင်္ဘောများဖြင့် သယ်ယူပို့ဆောင်ရေး လုပ်ငန်းသည်လည်း နော်ဝေး နိုင်ငံ၏ အရေးပါသော လုပ်ငန်းတရပ် ဖြစ်သည်။ နော်ဝေး နိုင်ငံသည် ထုတ်ရောင်းသော ကုန်ပစ္စည်းများမှ ရငွေနှင့် တင်သွင်းဝယ်ယူသော ကုန်ပစ္စည်းများ၏ တန်ဖိုးကို ပေးဆပ်ရန် ငွေကြေး မလုံမလောက်ချေ။ သို့ရာတွင် သယ်ယူပို့ဆောင်ရေးလုပ်ငန်းမှ ရရှိသော ငွေများဖြင့် ဖြည့်စွက်ပေးနိုင်လေသည်။

နော်ဝေး နိုင်ငံ၏ အဓိက ဝင်ကုန်များမှာ ကောက်စပါးများ၊ ကုန်ကြမ်းများ၊ အထည်အလိပ်များ၊ သံနှင့် သံမဏိ၊သင်္ဘောများ၊ စက်ကရိယာ၊ ဆီနှင့် ထင်းမီးဆီ စသည်တို့ ဖြစ်သည်။ နော်ဝေး နိုင်ငံမှ အဓိက အားဖြင့် ငါးနှင့် ငါးထွက်ကုန်ပစ္စည်းများ၊ သစ်ပျော့ဖတ်၊စက္ကူ၊ ငါးကြီးဆီ၊ သတ္တုထွက် ပစ္စည်းများ၊ သံရိုင်းနှင့် ကြေးနီရိုင်းတို့ကို တင်ပို့ ရောင်းချလေသည်။

နော်ဝေး နိုင်ငံတွင် သင်္ဘောများဖြင့် ကူးသန်းသွားလာခြင်းမှာ အရေးအပါဆုံးသော ကူးသန်း သွားလာရေး အစီအမံ ဖြစ်၏။ ဖီအော့များသည် ဆိပ်ကမ်းကောင်း အများအပြား ဖန်တီးပေးသည်။ ယင်းသည့် ဖီအော့များ အားလုံးလိုလိုပင် ဆောင်းရာသီတွင် ရေမခဲပေ။ အဓိက ဆိပ်ကမ်းမြို့များမှာ အော့စလိုမြို့၊ ဗားဂင်မြို့နှင့် ထရွန်ဟိမ်းမြို့တို့ဖြစ်၏။

နော်ဝေး နိုင်ငံရှိ မီးရထားလမ်း မိုင်ပေါင်း၂၆၉၀ အနက် အားလုံးလိုလိုမှာ တောင်ပိုင်းတွင်တည်ရှိသည်။ မြောက်ပိုင်းနှင့် အလယ်ပိုင်းတို့ကို ဆက်သွယ်ရန် အတွက် မီးရထားလမ်းတလမ်း ဖောက်လုပ်ဖို့ ကြံရွယ်ထား၏။ နော်ဝေးနိုင်ငံ တောင်ပိုင်းတွင် မော်တော်ကားလမ်းကောင်း များစွာရှိသည်။ နော်ဝေးနိုင်ငံ တောင်ပိုင်းနှင့် မြောက်ပိုင်းတို့ကို ဆက်သွယ်ထားသည့် တခုတည်းသော လမ်းမကြီးကို ဂျာမန်တို့ အုပ်စိုးခဲ့စဉ်က အပြီးသတ် ဖောက်လုပ် ခဲ့၏။ နော်ဝေးနိုင်ငံ မြို့ကြီးများမှာ တမြို့နှင့် တမြို့ လေကြောင်းခရီး အဆက် အသွယ်များရှိ၏။ ထိုပြင် ဆွီဒင်၊ ဒိန်းမတ်၊ နယ်သာလန်၊ ပြင်သစ်နှင့် ဂရိတ်ဗြိတိန်နိုင်ငံတို့နှင့်လည်း လေကြောင်းခရီး အဆက်အသွယ်များ ရှိလေသည်။

နော်ဝေး နိုင်ငံ၏ ပညာရေးမှာ မသင်မနေရ ပညာရေး စံနစ်ဖြစ်၏။ ၇ နှစ်အရွယ်မှ ၁၄ နှစ် အရွယ်အထိ ကလေးသူငယ်များ အားလုံးသည် ကျောင်းများသို့ မသင်မနေရ တက်ရောက် သင်ကြားရ၏။ နော်ဝေးနိုင်ငံ၌ အော့စလိုမြို့နှင့် ဗားဂင်မြို့များတွင် တက္ကသိုလ်ကျောင်းများ ရှိသည်။ သို့သော် ထရွန်ဟိမ်းမြို့ရှိ စက်မှုလက်မှု အတတ်သင်တက္ကသိုလ်၊ ဗားဂင်မြို့ရှိ ကုန်ကူးသန်းရောင်းဝယ်ရေး ကောလိပ်နှင့် အော့စလိုမြို့အနီးရှိ စိုက်ပျိုးရေးကောလိပ်တို့မှလည်း တက္ကသိုလ်ဘွဲ့များပေးလေသည်။ ထိုပြင် စက်မှု လက်မှု အတတ်၊ စိုက်ပျိုးရေး အတတ်နှင့် အနုပညာများကို သီးသန့် သင်ကြားပေးသည့် ကျောင်းများလည်း အများအပြားရှိသည်။ နော်ဝေးနိုင်ငံသူ နိုင်ငံသားအားလုံးလိုလိုပင် စာရေးစာဖတ် တတ်ကြလေသည်။

လူသာရင်ဂိုဏ်း ခရစ်ယန် အယူဝါဒသည် နိုင်ငံတော်၏ အယူဝါဒဖြစ်သည်။ သို့သော် အခြားအယူဝါဒများကိုလည်း လွတ်လပ်စွာ သက်ဝင်ယုံကြည်ခွင့် ရှိ၏။

ယခင်က ခရစ္စတီနာမြို့ဟု တွင်ခဲ့ပြီးလျှင်၊ ယခုအခါ အော့စလိုမြို့ဟုတွင်သော မြို့ကြီးမှာ နော်ဝေး နိုင်ငံ၏ မြို့တော်လည်း ဖြစ်၍ အကြီးဆုံးမြို့လည်း ဖြစ်သည်။ လူဦးရေ ၄၄၇,၀၆၄ ယောက် ရှိ၏။

နော်ဝေး နိုင်ငံသည် စည်းမျဉ်းခံ ဘုရင်အုပ်ချုပ်ရေး စံနစ်ဖြင့် အုပ်ချုပ်သော နိုင်ငံဖြစ်၏။ ယင်း၏ ၁၈၁၄ ခုနှစ် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေသည် ဥရောပ



နော်ဝေးနိုင်ငံ လေးလဟမ္မားမြို့အနီးမှ ဆောင်းရာသီရှုခင်း

တိုက်တွင် နှစ်ပေါင်း အတော်ကြာအောင်၊ အရက်ရောင်းချခြင်း ဆိုး အခြေခံ ဥပဒေတရပ် ဖြစ်ခဲ့ပေသည်။ ဘုရင်မင်းမြတ်သည် အုပ်ချုပ်ရေးအကြီးအကဲ ဖြစ်သော်လည်း၊ ပါလီမန် လွှတ်တော်၏ အများစုကို ကိုယ်စားပြုသည့် ဝန်ကြီးချုပ်နှင့် ယင်း၏ အစိုးရအဖွဲ့တို့ကသာ အုပ်ချုပ်လုပ်ကိုင် သွားလေသည်။ ပါလီမန် လွှတ်တော် ရွေးကောက်ပွဲများကို ၄ နှစ်တကြိမ်ကျင်းပ၏။ ကျားမ မရွေး အသက် ၂၁ နှစ် ပြည့်သူတိုင်း မဲပေးနိုင်၊ ဝင်ရောက် အရွေးခံနိုင်သည်။ ပါလီမန်တွင် အောက်လွှတ်တော်နှင့် အထက်လွှတ်တော် ဟူ၍ လွှတ်တော် နှစ်ရပ် ပါဝင်သည်။

နော်ဝေး နိုင်ငံသည် ကမ္ဘာပေါ်တွင် လူမှုဖူလုံရေး ဥပဒေများကို ရှေးဦးစွာ လုပ်ကိုင် အကောင်အထည်ဖော်ခဲ့သည့်နိုင်ငံများတွင် အပါအဝင် ဖြစ်ခဲ့၏။ နိုင်ငံတော်အစိုးရနှင့် ဒေသန္တရအုပ်ချုပ်ရေး အဖွဲ့တို့၏ ရန်ပုံငွေကို လူမှုဝန်ထမ်း လုပ်ငန်းများ အတွက် များစွာ အသုံးပြုသည်။လုပ်ခစား အားလုံးလိုလိုပင် နိုင်ငံတော် အာမခံ အဖွဲ့တွင် ပါဝင်သည်။ ထိုအဖွဲ့က ဆေးဝါးကုသရာတွင်ရင်း၊ ဆေးရုံသို့ တက်ရောက် ကုသရာတွင်ရင်း ကုန်ကျစရိတ်များကိုသာမက နာမကျန်း ထောက်ပံ့ကြေးများကိုလည်း ထုတ်ပေး၏။ အလုပ်ပြုတ်သွားသူများသည်လည်း အလုပ်လက်မဲ့ ထောက်ပံ့ကြေး ရရှိသည်။ အသက် အရွယ် ၇၀ ကျော်သူများကို သက်ကြီးရွယ်ရင့် အငြိမ်းစားရိက္ခာများ ထုတ်ပေးသည်။ ကလေးတဦးထက် ပိုသော သားသည် မိခင်များအားလုံးသည်လည်း တဦးချင်းထောက်ပံ့ကြေးများ ရရှိနိုင်သည်။

၉ ရာစုနှစ် နောက်ပိုင်းအထိ နော်ဝေး နိုင်ငံသည် တိုင်းငယ် ပြည်ငယ်များဖြင့် အကွဲကွဲ အပြားပြား ဖြစ်နေခဲ့ရာ၊ ၈၈၅ ခုနှစ်လောက်တွင် တနိုင်ငံလုံးကို အောင်မြင်စွာ စည်းရုံးနိုင်ခဲ့ လေသည်။ သို့သော်လည်း များမကြာမီ ထိုသို့စည်းရုံးမိခဲ့သော နော်ဝေး နိုင်ငံသည် ပြန်လည်၍ အကွဲကွဲ အပြားပြား ဖြစ်ခဲ့ရပြန်လေသည်။ ၁၀၀၀ ပြည့်နှစ်မှ ကျော်သော် တဖန် စည်းလုံးမိခဲ့ပြန်၏။ ထိုသို့ ဒုတိယအကြိမ် စည်းလုံးမိသောအခါ၊ ဘုရင်မင်းမြတ်သည် ခရစ်ယန် အယူဝါဒကို နိုင်ငံတော်၏ အယူဝါဒအဖြစ် ပြဋ္ဌာန်း သတ်မှတ်ခဲ့သည်။ ခရစ်ယန် အယူဝါဒ အောက်တွင် နော်ဝေး နိုင်ငံသည် ထွန်းကား တိုးတက်လာခဲ့ရာ၊ ၁၃ ရာစုနှစ်တွင် အာဏာအထွတ်အထိပ်သို့ ရောက်ရှိ ခဲ့လေသည်။ ထိုစဉ်က နော်ဝေး နိုင်ငံတွင် ရှက်တလန်နှင့် အော့ကနီကျွန်းစု၊ ဟက်ဗရီဒီးကျွန်းစု၊ အိုက်စလန်ကျွန်းနှင့် ဂရင်းလန်းကျွန်းတို့ ပါဝင်ခဲ့၏။



နော်ဝေးနိုင်ငံ လိုဖိုတန်ကျွန်းစုရှိ ဆဗျားလဗေးယား မြို့၏ ဆောင်းရာသီ ရှုခင်း



နော်ဝေး နိုင်ငံ၏ မြို့တော်လည်း ဖြစ်၍ အကြီးဆုံး မြို့လည်းဖြစ်သော အော့စလိုမြို့

၁၃၁၉ ခုနှစ်တွင် နော်ဝေး နိုင်ငံနှင့် ဒိန်းမတ်နိုင်ငံတို့သည် ဘုရင်တဦးတည်း၏ လက်အောက်တွင် ပူးပေါင်းမိခဲ့လေသည်။ ၁၃၀၀ ပြည့်နှစ်မှ လွန်သော နှစ်များအတွင်း နော်ဝေးနိုင်ငံသည် တဖြည်းဖြည်း အာဏာတန်ခိုးယုတ်လျော့လာခဲ့၏။ ၁၃၇၅ ခုနှစ်တွင် နော်ဝေးနိုင်ငံ၏ နန်းလျာ မင်းသားသည် ဒိန်းမတ် နိုင်ငံ၏ ဘုရင်အဖြစ် ရွေးကောက် တင်မြှောက်ခြင်း ခံခဲ့ရသည်။ သို့ဖြစ်ရာ နှစ်ပေါင်း ၄၀၀ ကျော်မျှ နော်ဝေးနိုင်ငံနှင့် ဒိန်းမတ်နိုင်ငံတို့သည် ဘုရင်တဦးတည်း လက်အောက်တွင် ပူးပေါင်း ကျရောက်ခဲ့သည်။ ဒိန်းမတ်နိုင်ငံသည် နော်ဝေး နိုင်ငံထက် ပိုမိုတန်ခိုးကြီးသည့်အတိုင်း၊ နော်ဝေး နိုင်ငံသည် တဖြည်းဖြည်းနှင့် ဒိန်းမတ်နိုင်ငံ၏ ပြည်နယ်တခု အဖြစ်မျိုးသို့ ရောက်ခဲ့ရလေသည်။ ထိုပြင် ခရစ်ယန် သာသနာ့ အရေးပုံကြောင့် နော်ဝေးနိုင်ငံ၏ သာသနာရေးဂိုဏ်းသည် ဒိန်းမတ်နိုင်ငံသာသနာရေးဂိုဏ်း၏ လက်အောက်ခံ ဖြစ်ခဲ့ရလေရာ၊ ဒိန်းမတ်နိုင်ငံ၏ ကြီးစိုးမှုသည် ပိုမိုခိုင်မြဲခဲ့၏။ ၁၆၆၀ ပြည့်နှစ်တွင် ဒိန်းမတ်နိုင်ငံဘုရင်သည် နှစ်နိုင်ငံလုံး၏ သက်ဦးဆံပိုင် ဘုရင် ဖြစ်လာခဲ့လေသည်။

၁၇၀၀ ပြည့်နှစ်လွန် နှစ်များအတွင်း ကူးသန်း ရောင်းဝယ်မှု တိုးတက် ထွန်းကားလာခဲ့၏။ နော်ဝေး နိုင်ငံသားများသည်လည်း ဇာတိမာန် တက်ကြွလာလျက်၊ လွတ်လပ်လိုစိတ် ပြင်းပြလာခဲ့သည်။

နပိုလီယန်နှင့် တိုက်ခိုက်ရသော စစ်ပွဲများအတွင်း ဒိန်းမတ် နိုင်ငံသည် ဂရိတ် ဗြိတိန် နိုင်ငံ၏ ရန်သူ ဖြစ်လာခဲ့၏။ သို့သော် နော်ဝေးနိုင်ငံ၏ နိုင်ငံခြား ကုန်သွယ်မှုမှာ ဗြိတိသျှတို့နှင့်သာ လုံးလုံးလျားလျားလိုပင် ပြုလုပ်ခဲ့ရ၏။ ဒိန်းမတ်နိုင်ငံသည် နော်ဝေး နိုင်ငံနှင့် ဗြိတိန်နိုင်ငံတို့ လျှို့ဝှက်စွာ ကူးသန်း ရောင်းဝယ်လျက် ရှိသည်ကို မတားဆီး မပိတ်ပင်နိုင်ဘဲ ရှိခဲ့၏။ ၁၈၁၄ ခုနှစ်တွင် ဒိန်းမတ်နိုင်ငံလည်း နပိုလီယန်နှင့် အတူ စစ်ရှုံးခဲ့ရ၏။ ထိုအခါ ဂရိတ် ဗြိတိန်က အတင်း အကြပ် ပြုသဖြင့်၊ နော်ဝေးနိုင်ငံကို ဆွီဒင်နိုင်ငံသို့ ပေးအပ်လိုက်ရလေသည်။

သို့သော် နော်ဝေး နိုင်ငံသားတို့သည် ဆွီဒင် နိုင်ငံ၏ လက်အောက်ခံ မဖြစ်လိုကြသဖြင့် ကီးစာချုပ်ကို လက်ခံရန် ငြင်းဆန်၍၊ နော်ဝေး နိုင်ငံကို သီးခြား နိုင်ငံအဖြစ် ကျေညာလျက် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေ တရပ်ကို ရေးဆွဲ အတည်ပြုကာ၊ ဒိန်းလူမျိုး ဘုရင်ခံ မင်းသားကြီး ခရစ္စတီယန် ဖရက်ဒရစ်အား ဘုရင်အဖြစ် ရွေးကောက် တင်မြှောက်ခဲ့ကြ၏။ သို့သော် ဆွီဒင် နိုင်ငံနှင့် နော်ဝေးနိုင်ငံတို့ စစ်မက် ဖြစ်ပွား၍ နှစ်ပတ်ခန့် အကြာတွင် နှစ်နိုင်ငံစလုံးက စေ့စပ်၍ စစ်ပြေငြိမ်းလိုက်ကြသည်။ ခရစ္စတီယန်ဖရက်ဒရစ်

သည် ထီးနန်းကို စွန့်လွှတ်ပေးလေရာ၊ ဆွီဒင်ဘုရင်ပင်လျှင် နော်ဝေး နိုင်ငံ ဘုရင်အဖြစ် ရွေးကောက် တင်မြှောက်ခြင်း ခံရ၏။ ထိုသည်မှစ၍ နော်ဝေးနိုင်ငံ၏ ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေသစ်ကို ဆွီဒင် နိုင်ငံသည် လေးစားလာလေသည်။ သို့ရာတွင် ဆွီဒင် နိုင်ငံနှင့် နော်ဝေးနိုင်ငံတို့ ပူးပေါင်းရေးသည် မအောင်မြင်ခဲ့ချေ။ နော်ဝေး နိုင်ငံသားများသည် မိမိတို့၏ နိုင်ငံအား သင်္ဘောများဖြင့် သယ်ယူ ပို့ဆောင်ရေး လုပ်ငန်းတွင် ကမ္ဘာ့ ထိပ်တန်း နိုင်ငံတခု အဖြစ်သို့ ရောက်အောင် လုပ်ကိုင်ခဲ့၏။ ယင်းတို့က ဆွီဒင် နိုင်ငံ၏ ကူးသန်း ရောင်းဝယ်ရေး ကိုယ်စားလှယ်တော်များသည် နော်ဝေးနိုင်ငံ၏ အကျိုးစီးပွားအတွက် ဆောင်ရွက်ပေးနိုင်စွမ်း မရှိဟူ၍ စွပ်စွဲ ပြောဆိုကြလေသည်။

၁၇၀၀ ပြည့်နှစ်လွန် နှစ်များတွင် နော်ဝေး နိုင်ငံသည် စက်မှုလက်မှု လုပ်ငန်းများကို စတင် လုပ်ဆောင်လာခဲ့သည်။ နော်ဝေး နိုင်ငံသားများ၏ လွတ်လပ်ရေး စိတ်မှာ ပြင်းထန်သည်ထက် ပြင်းထန်လာခဲ့၏။ သီးခြား ကူးသန်း ရောင်းဝယ်ရေး ကိုယ်စားလှယ်တော်များ ထားရှိရန် ဥပဒေ တရပ် ပြဋ္ဌာန်းခဲ့ရာတွင်၊ အော့စကာ ဘုရင်က ပယ်ဖျက်ခဲ့သဖြင့်၊ နော်ဝေးနိုင်ငံ စတော်တင် ပါလီမန် လွှတ်တော်က ယင်းအား နန်းချလိုက်လေသည်။

သို့သော် ဆွီဒင် နိုင်ငံနှင့် စစ်ဖြစ်မည့် အရေးကို တားဆီးနိုင်ခဲ့၏။ နော်ဝေး နိုင်ငံ စတော်တင် ပါလီမန် လွှတ်တော်သည် ဒိန်းမတ် မင်းသား ကားလကို ဘုရင်အဖြစ် တင်မြှောက်ခဲ့သည်။ သို့သော် ကားလသည် တနိုင်ငံလုံးက တညီတညွတ်တည်းလိုလိုပင် မဲဆန္ဒပေးကာ ရွေးကောက် တင်မြှောက်မှသာလျှင်၊ ၁၉၀၅ ခုနှစ်တွင် သတ္တမ ဟောကုန် ဘုရင်အဖြစ် ထီးနန်းကို လက်ခံခဲ့လေသည်။

၁၉၀၅ ခုနှစ်မှ ၁၉၄၀ ပြည့်နှစ် အထိဖြစ်သော နှစ်များအတွင်း နော်ဝေး နိုင်ငံသည် မှန်မှန် တိုးတက်ခဲ့လေသည်။ ပဌမ ကမ္ဘာစစ်ကြီးအတွင်း ကြားနေ နိုင်ငံ ဖြစ်ခဲ့သော နော်ဝေးနိုင်ငံသည် ဂျာမန် ရေငုပ် သင်္ဘောများ တိုက်ခိုက်ဖျက်ဆီးမှုကြောင့် သင်္ဘော အများအပြား ဆုံးရှုံးခဲ့ရ၏။ ၁၉၃၀ ပြည့်နှစ်တွင် အစပြုခဲ့သော စီးပွားရေး ကျပ်တည်းမှုသည် နော်ဝေး နိုင်ငံ၏ ကုန်သွယ်မှုအား ထိခိုက်ခဲ့သော်လည်း၊ ဆက်လက်၍ တိုးတက် ကြီးပွားခဲ့သည်။

ဒုတိယ ကမ္ဘာစစ်ကြီး အတွင်း၌လည်း နော်ဝေး နိုင်ငံသည် ကြားနေရန် ကြိုးစားခဲ့၏။ ဒုတိယ ကမ္ဘာစစ်ကြီး ဖြစ်စက၊ နော်ဝေး နိုင်ငံသည် စစ်အတွက် မည်သို့မျှ ပြင်ဆင်ထားခြင်း မရှိခဲ့ပေ။ ၁၉၄၀ ပြည့်နှစ် ဧပြီလ ၉ ရက်နေ့တွင် ဂျာမန်တို့သည် နော်ဝေး နိုင်ငံ၏ ဆိပ်ကမ်းမြို့ကြီးများကို တပြိုင်တည်း တိုက်ခိုက်ခဲ့၍၊ နော်ဝေး နိုင်ငံသည် ဂျာမန် နိုင်ငံအား စစ်ကြေညာခဲ့ရလေသည်။ ဗြိတိသျှ၊ ပြင်

နော်ဝေးနိုင်ငံ တောင်ဖက်ဖျားရှိ ဟန်ဒါမြို့၏ ရှုခင်း



သစ် နှင့် ပိုလန် တပ်စုများသည် နော်ဝေးနိုင်ငံအား ကူညီကာကွယ်ပေးခဲ့သော်လည်း၊ ဇွန်လတွင် ဂျာမန်တို့ နော်ဝေးတနိုင်ငံလုံးကို သိမ်းပိုက်မိလေသည်။ ပါလီမန် လွှတ်တော်က ဘုရင်နှင့် အစိုးရ အဖွဲ့အား တိုင်းတပါးမှနေ၍၊ ဂျာမန်တို့ကို ဆက်လက်ခုခံ တွန်းလှန်သွားရန် ညွှန်ကြားသဖြင့်၊ အဝေးရောက် နော်ဝေး အစိုးရ အဖွဲ့ကို လန်ဒန်တွင် ဖွဲ့စည်းထားရှိခဲ့ရလေသည်။

ဂျာမန်တို့သည် ဗစ်ဒကွန်ကွစ်ဇလင်းအား နော်ဝေးနိုင်ငံအစိုးရအဖွဲ့ကိုခေါင်းဆောင်စေ၏။ (ကွစ်ဇလင်း,ဗီဒ်၊ အေ — ရှု။) သို့သော် မြေအောက် တော်လှန်ရေးကြောင့် ဂျာမန်တို့သည် နော်ဝေး နိုင်ငံတွင် စစ်အင်အား အတန် ကြီးမားစွာ ချထားခဲ့ရ၏။ နော်ဝေးနိုင်ငံသား လူရွယ်ပေါင်း မြောက်မြားစွာ ဆွီဒင် နိုင်ငံနှင့် ဗြိတိန် နိုင်ငံတို့သို့ လွတ်မြောက်ထွက်ပြေးသွားကြပြီးလျှင်၊ နိုင်ငံပတွင် ဖွဲ့စည်းထားသော နော်ဝေး နိုင်ငံ တပ်ဖွဲ့များတွင် ဝင်ရောက် အမှုထမ်းခဲ့၏။ နော်ဝေး နိုင်ငံ၏ ကုန်သင်္ဘောများသည် ဗြိတိန် တိုက်ပွဲအတွက် ထောက်ပံ့ရေး ပစ္စည်းများ သယ်ဆောင်ပေးခဲ့၏။ နော်ဝေး ရေတပ်မတော်သည် ဂျာမန် ရေငုပ်သင်္ဘောများကို တိုက်ခိုက်ခဲ့ပြီးလျှင်၊ ဥရောပ ကမ်းခြေသို့ တက်ရောက်ရာတွင်လည်း ပါဝင် ကူညီခဲ့သည်။

ဆိုဗီယက် တပ်များနှင့် နော်ဝေးတပ်များသည် နော်ဝေးနိုင်ငံ၏ မြောက်ဖျား ခရိုင်များသို့ ၁၉၄၄ ခုနှစ် နောက်ပိုင်းတွင် ချင်းနင်း ဝင်ရောက် တိုက်ခိုက်ခဲ့၏။ သို့သော်လည်း ၁၉၄၅ ခုနှစ် မေလတွင် ဂျာမန်တို့ လက်နက်ချ အညံ့ခံသည်အထိ ကျန်အပိုင်းများမှာ ဂျာမန်တို့၏ လက်တွင်းဝယ် ရှိနေခဲ့သည်။

သတ္တမဟောကုန် ဘုရင်သည် နော်ဝေးနိုင်ငံ၏ အကြိမ် ၄၀ မြောက် လွတ်လပ်ရေး နှစ်ပတ်လည်ဖြစ်သော ၁၉၄၅ ခုနှစ် ဇွန်လ ၇ ရက်နေ့တွင် အော့စလိုမြို့တော်သို့ ပြန်လည်ဆိုက်ရောက်လာခဲ့၏။ နော်ဝေး နိုင်ငံသည် ဒုတိယ ကမ္ဘာစစ်ကြီး အပြီးတွင် ရွေးကောက်ပွဲများကို ပဌမဆုံး ကျင်းပနိုင်ခဲ့သော နိုင်ငံ ဖြစ်လေသည်။ စစ်ပြီးခေတ် စောစောပိုင်းတွင် နော်ဝေး နိုင်ငံသည် သင်္ဘောများဖြင့် သယ်ယူ ပို့ဆောင်ရေး လုပ်ငန်းကို ပြန်လည် ထူထောင်ရန်အတွက်သာ လုံးပန်းခဲ့၏။ သင်္ဘောများ ပြန်လည် တည်ဆောက်ခြင်းမှာ မာရှယ် စီမံကိန်းအရ အမေရိကန် ပြည်ထောင်စု နိုင်ငံက ချေးငှါးခဲ့သောငွေများကြောင့် လျင်မြန်စွာ ပြီးမြောက်ခဲ့လေသည်။ ၁၉၄၉ ခုနှစ်တွင် နော်ဝေး နိုင်ငံသည် မြောက်အတ္တလန္တိတ် စာချုပ်ကို လက်မှတ် ရေးထိုးခဲ့၏။ နော်ဝေးနိုင်ငံ အစိုးရသည် ၁၉၅၀ ပြည့်နှစ်လွန် နှစ်များအတွင်း ကာကွယ်ရေး အတွက် ငွေပေါင်း များစွာ သတ်မှတ်ထားရှိခဲ့သဖြင့်၊ အခွန်တော်များ နှုန်းထား တိုးတက် ကောက်ခံရန် လိုအပ်ခဲ့လေသည်။

နော်ဝေး နိုင်ငံတွင် နာမည်ကျော် ဂီတပညာသည်များနှင့် စာရေးဆရာများ အမြောက်အမြား ထွက်ပေါ်ခဲ့သည်။ ထင်ရှားသော ဂီတပညာသည်များမှာ အက်ဒဗတ်ဂရစ်၊ ခရစ္စတီယန်ဆင်းဒင်၊ ယိုဟန်းဆဗင်းဆင်နှင့် အိုးလ်ဗူးစသည်တို့ ဖြစ်သည်။ ခေတ်သစ်တွင် နော်ဝီဂျန် လူမျိုး စာရေးဆရာများဖြစ်ကြသော ဗျန်စတျာနေဗျန်းဆန်း (၁၉၀၃)၊ နွတ်ဟမ်းဆွန် (၁၉၂၀ ပြည့်နှစ်) နှင့် ဆိဂရိအွန်းဆက် (၁၉၂၈) တို့သည် နိုဗဲစာပေဆုများကိုပင် ရရှိခဲ့၏။ (ဗျန်းဆန်း,ဗျန်စတျာနေ — ရှု။)ဟင်နရစ်အစ်ဗဆင်၏ပြဇာတ်များသည် ကမ္ဘာကျော်လေသည်။

**နို့တိုက် သတ္တဝါ။** ။နို့တိုက် သတ္တဝါသည် သားငယ်ကို နို့ရည် တိုက်ကျွေး မွေးမြူသော သတ္တဝါ ဖြစ်သည်။ ကျောရိုးရှိ သတ္တဝါ အပေါင်းတွင် နို့တိုက် သတ္တဝါသည် အတန်းအမြင့်ဆုံးဖြစ်၏။ (ကျောရိုးရှိသတ္တဝါ — ရှု။) လူသည် နို့တိုက် သတ္တဝါတွင် အပါအဝင် ဖြစ်သည်။ အခြား နို့တိုက်သတ္တဝါတို့သည် များသောအားဖြင့် ခြေလေးချောင်း



'ငါး' ပင်ဖြစ်သော်လည်း၊ သားမွေး နို့တိုက်သည့် ဝေလငါး



မျောက်သည် လူနှင့် အတူဆုံး နို့တိုက်သတ္တဝါ ဖြစ်သည်။

တိရစ္ဆာန်များ ဖြစ်ကြသည်။ သို့သော် ဝေလငါးကဲ့သို့သော တိရစ္ဆာန်မျိုးသည်လည်း နို့တိုက် သတ္တဝါတွင် ပါဝင်၏။ အရွယ်အားဖြင့် ကြွက်ကလေးမှ ဆင်ကြီးအထိ ရှိ၏။ ကျွန်ုပ်တို့ မွေးမြူထားသော မြင်း၊ နွား၊ ဝက်၊ သိုး၊ ခွေး၊ ကြောင်တို့သည် နို့တိုက် သတ္တဝါများ ဖြစ်ကြသည်။

နို့တိုက် သတ္တဝါသည် နှာခေါင်းဖြင့် အသက်ရှူသည်။ ကိုယ်ခန္ဓာ၌ အရေခွံရှိ၍ များသောအားဖြင့် အမွေးပေါက်သည်။ နို့တိုက် သတ္တဝါ အားလုံးလိုလို၌ အရိုးအိမ် ရှိပုံသည် လူမှာ အရိုးအိမ်ရှိပုံနှင့် ခပ်ဆင်ဆင် တူသည်။ ခေါင်းခွံသည် ကျောရိုးပေါ်၌ တည်ရှိ၏။ ခေါင်းခွံ တခုလုံးမှာ အရိုးဖြင့် တဆက်တည်း ပြီးနေ၏။ ထိုခေါင်းခွံတွင် လှုပ်ရှား၍ရသော အောက်မေးရိုး ဆက်သွယ်လျက် ရှိသည်။

နို့တိုက် သတ္တဝါသည် သွေးနွေး သတ္တဝါ ဖြစ်သည်။ သွေးသည် အခန်း လေးခန်းရှိသော နှလုံးမှ ကိုယ်ခန္ဓာ အနှံ့အပြားသို့ လှည့်လည်လျက် ရှိသည်။ နို့တိုက်သတ္တဝါ တိုင်းလို၌ အစာကို ကိုက်ချေရန်အတွက်၎င်း၊ ရန်သူကို ခုခံရန်အတွက်၎င်း သွားရှိသည်။ ဝေလငါးကဲ့သို့ နို့တိုက် သတ္တဝါမျိုး၌ နောက်ခြေ မရှိပေ။ ကင်ဂရူးကောင်၌ ရှေ့ခြေပါသော်ငြားလည်း၊ ထိုခြေမှာ မသန်စွမ်းပေ။

ဝေလ ငါးကို ငါးဟူ၍ မှတ်ထင်တတ်ကြသော်လည်း ငါးမဟုတ်၊ အထက်တွင် ပြဆိုခဲ့သည့်အတိုင်း နို့တိုက် သတ္တဝါသာလျှင် ဖြစ်သည်။ ရေအောက်၌နေသော်လည်း၊ ဝေလငါး၌ အဆုတ်ရှိသောကြောင့်၊ လေကို တိုက်ရိုက် ရှူနိုင်သည်။ (ဝေလငါး — ရှု။) ဩစတြေးလီးယားတိုက်မှ ဘဲတူဖျံတူကောင်သည်လည်း ထူးဆန်းသော နို့တိုက် သတ္တဝါ ဖြစ်သည်။ ထိုအကောင်သည် မိကျောင်းနှင့် ငှက်တို့ကဲ့သို့ ဥ အုရ၍၊ ဥမှ ဘဲတူဖျံတူ ကောင်ကလေးများ ပေါက်၏။ (ဘဲတူဖျံတူကောင် — ရှု။) အိုပေါ့ဆမ်ကောင်နှင့်ရက်ကွန်းဝံတို့ကဲ့သို့သော နို့တိုက် သတ္တဝါများသည် တော၌ နေ၍၊ သစ်ပင်အတက် ကျင်လျင်ကြသည်။ (အိုပေါ့ဆမ်ကောင်။ ရက်ကွန်းဝံ—ရှု။) လင်းနို့ကဲ့သို့သော နို့တိုက်သတ္တဝါများသည် အတောင်ရှိ၍ ပျံနိုင်ကြ၏။ အစာကို ပျံသန်းနေစဉ် ဖမ်းစားနိုင်ကြ၏။ ဝက်ဝံပြု၊ ဗီဗာဖျံ၊ ကြွက်ကတိုး၊ ပင်လယ်ဖျံ စသော နို့တိုက် သတ္တဝါတို့သည် ရေထဲ၌ အနေများ၍၊ ရေကူး အလွန် ကျင်လျင်ကြသည်။ (ဗီဗာဖျံ။ ကြွက်ကတိုး။ ပင်လယ်ဖျံ — ရှု။)

နို့တိုက် သတ္တဝါများသည် ရာသီဥတု အခြေအနေ အမျိုးမျိုးတွင် နေထိုင်နိုင်ကြသည်။ ကမ္ဘာပေါ်၌ အီကွေတာမှ အအေးပိုင်း ဒေသများအထိ၊ ထိုသတ္တဝါများကို တွေ့ရပေသည်။ အချို့ နို့တိုက် သတ္တဝါများ၌ ရန်သူကို ခုခံရန် သွား၊ အစွယ်၊ ခွာတို့ ပါရှိကြသည်။ အချို့ နို့တိုက် သတ္တဝါများသည် ရန်သူကို ရှောင်ရှားနိုင်ရန် လျင်မြန်ဖျတ်လတ်ကြသည်။ အချို့ နို့တိုက် သတ္တဝါမျိုးသည် သစ်သီး သစ်ရွက်တို့ကိုသာလျှင် စားကြ၏။ အချို့ နို့တိုက် သတ္တဝါများသည် ယင်းတို့အောက် ငယ်သော တိရစ္ဆာန်များကို သတ်ဖြတ် စားကြ၏။ ကြံ့ ကဲ့သို့သော နို့တိုက် သတ္တဝါမျိုးသည် ထီးတည်း နေတတ်ကြ၍၊ ဆင်ကဲ့သို့သော နို့တိုက် သတ္တဝါမျိုးသည် အစုနှင့် နေတတ်ကြသည်။

နို့တိုက် သတ္တဝါတို့တွင် သားငယ်ကို ယုယတတ်သော ပင်ကိုယ်သိ ဉာဏ်သည် အထင်ရှားဆုံး လက္ခဏာ ဖြစ်သည်။ ထိုလက္ခဏာသည် လူတို့တွင် အပေါ်လွင်ဆုံး ဖြစ်၏။ ထိုအချက်ကို သားငယ် အပေါ်၌ မေတ္တာထားခြင်း၊ ဂရုတစိုက် ပြုစု စောင့်ရှောက်ခြင်း၊ မိသားစု စိတ်ဓာတ် ရှိခြင်းတို့ဖြင့် သိသာလွယ်ပေသည်။

နို့တိုက် သတ္တဝါကို ပါဏဗေဒ သဘောဖြင့် အမျိုးအစား ခွဲခြမ်းစိတ်ဖြာ ကြည့်လျှင်၊ ဤသို့ ဖြစ်သည်။ နို့တိုက် သတ္တဝါသည် ကျောရိုးရှိ သတ္တဝါမျိုးပေါင်းစုတွင် ပါဝင်သော မျိုးပေါင်း တခု ဖြစ်သည်။ နို့တိုက် သတ္တဝါမျိုးပေါင်းကို သုံးမျိုး ခွဲထားသည်။ ယင်းသုံးမျိုးကား၊ မွန်နိုထရင်း မျိုးပေါင်းခွဲ၊ မာဆူးပီယယ် မျိုးပေါင်းခွဲနှင့် ပလာစင်တယ် မျိုးပေါင်းခွဲတို့ ဖြစ်သည်။ မွန်နိုထရင်း မျိုးပေါင်းခွဲတွင် အဥအုတတ်သော နို့တိုက် သတ္တဝါများ ပါဝင်သည်။ ပုံစံမှာ ဘဲတူဖျံတူကောင် ဖြစ်သည်။ မာဆူးပီယယ် မျိုးပေါင်းခွဲ၌ သားငယ်ကို အကောင်လိုက် မွေးသော်ငြားလည်း၊ မွေးစသန္ဓေသားမှာ ဖွံ့ဖြိုး ကြီးထွားခြင်း မရှိသောကြောင့်၊ မိခင် ဝမ်းပိုက်ရှိ အိတ်တွင် ထည့်သွင်း ထိန်းသိမ်းကာ၊ မွေးမြူပေးရသည်။ ပုံစံမှာ ကင်ဂရူးကောင် ဖြစ်သည်။ (သားပိုက်ကောင်။ ကင်ဂရူးကောင် — ရှု။) ပလာစင်တယ် မျိုးပေါင်းခွဲ၌မူ သန္ဓေသားမှာ ချက်ကြိုးပါရှိပြီးလျှင်၊ မွေး

စတင် ကောင်းစွာ ဖွံ့ ဖြိုး ကြီးထွားပြီး ဖြစ်လေသည်။ ထို မျိုးပေါင်းခွဲတွင် အောက်၌ ပြဆိုလတ္တံ့သော မျိုးစဉ်များ ပါဝင်လေသည်။

ဆင်၊ မြင်း၊ ကျွဲ၊ နွား၊ ကြံ့၊ ရေမြင်း စသော ခွာပါရှိသည့် သတ္တဝါများကို အန်ဂုလာတာ အစုတွင် ထည့်သွင်း၍ ထားသည်။ ထိုအစုထဲတွင် ဆိုင်ရင်းနီယားမျိုးစဉ်တွင် ပါဝင်သော ဒေသန္တရ အခေါ်အားဖြင့် ပင်လယ်နွားဟု ခေါ်သည့် တိရစ္ဆာန်တို ပါဝင်သည်။ ပင်လယ် နွားသည် ဝေလငါးကဲ့သို့ ရေနေ နို့တိုက် သတ္တဝါပင် ဖြစ်သော်လည်း၊ ရေညှိ ရေမှော်ကိုသာ စားသောက်သော တိရစ္ဆာန် ဖြစ်သည်။ ဝေလငါးမှာမူ အသားစား တိရစ္ဆာန် ဖြစ်၍၊ ယင်းကို စီတေးရှီအာ မျိုးစဉ်၌ သွတ်သွင်းထားသည်။

အခြား အသားစား တိရစ္ဆာန်များကိုမူ ကာနီဗိုရာ မျိုးစဉ်တွင် ထည့်သွင်းထားရာ၊ ထိုမျိုးစဉ်၌ ကြောင်၊ ကျား၊ ခြင်္သေ့၊ ဝက်ဝံ၊ ခွေး၊ ဝံပုလွေမှ အစ ပင်လယ်ဖျံ အမျိုးမျိုး အထိ ပါဝင်သည်။ အသားစားသော အမူအကျင့်နှင့် လျော်စွာ သွားနှင့် အရိုးအဆစ် အနေအထားတို့မှာ တိရစ္ဆာန်တို့ကို ဖမ်းဆီး သတ်ဖြတ်ရန် အလို့ငှါ စီမံထားသကဲ့သို့ ရှိ၏။

ကြွက်နှင့်တကွ ယင်းနှင့် စရိုက်တူ တိရစ္ဆာန်များကိုမူ ရိုဒင်ရှာ မျိုးစဉ်တွင် ထည့်သွင်းထားသည်။ ယင်းတိရစ္ဆာန်များ၏ သွားနှင့် မေးရိုးမှာ ကိုက်ဖြတ်ရန် ကိစ္စအတွက် ဆီလျော်လေသည်။ (ကိုက်ဖြတ် သတ္တဝါ — ရှု ။)

အင်းဆက်ပိုးတို့ကို စားသောက်တတ်သော တိရစ္ဆာန်များကိုမူ အင်းဆက်တီဗိုရာ မျိုးစဉ်တွင် ထည့်သွင်းသည်။ ယင်းတို့၌ သွားများသည် အင်းဆက်ပိုးကို စားသောက်နိုင်ရန် ကိစ္စနှင့် ဆီလျော်လေသည်။ များသောအားဖြင့် ညဥ့်အခါ၌ အစာရှာ ထွက်သော တိရစ္ဆာန်များ ဖြစ်၏။ အမြင့်တန်းစား နို့တိုက် သတ္တဝါထဲတွင် ရှေးအကျဆုံးဟု ယူဆရသော တိရစ္ဆာန်များ ဖြစ်၏။ ပုံစံအားဖြင့်ကား ပွေးကောင်နှင့် ဖြူတိရစ္ဆာန်များဖြစ်သည်။ (ပွေးကောင်။ဖြူ — ရှု။)

ခိုင်ရော့ပတာရာ မျိုးစဉ်ထဲတွင် လင်းဆွဲ၊ လင်းနို့ စသော တိရစ္ဆာန်များ ပါဝင်သည်။ ယင်းတို့ကား နို့တိုက် သတ္တဝါထဲတွင် ကောင်းကင်၌ ပျံသန်းတတ်သော အကောင်များ ဖြစ်၍၊ ပျံသန်းနိုင်လေအောင် ရှေ့ခြေတို့မှာ အတောင်သဖွယ် ရှိကြသည်။ (လင်းဆွဲ။ လင်းနို့ — ရှု။)

ခြေချောင်း ငါးချောင်း၊ လက်ချောင်း ငါးချောင်း ရှိသော သတ္တဝါတို့ကို ပရိုင်းမိတ် ဟူ၍ ပါဏဗေဒနည်းအရ အမျိုးခွဲသည်။ ပရိုင်းမိတ်မျိုးစဉ်ထဲတွင် မျိုးရင်း အသီးအသီး ရှိကြရာ၊ အချို့မှာ မျောက်၊ အချို့မှာ လူဝံ ဖြစ်ကြ၏။ပရိုင်းမိတ် မျိုးစဉ်ထဲတွင် ဟိုမီနီဒီ မျိုးစု ပါဝင်၍၊ ထိုမျိုးစု၌ ဟိုမိုဆေးပီးယင်းမျိုးစိတ် တခုတည်း ရှိသည်။ ယင်းမျိုးစိတ်မှာ လူပြစ်၏။ (လူ — ရှု။)



ထိုမျိုးစဉ်များအပြင် ယခုအခါ မျိုးရိုးသုန်းစပြုပြီး ဖြစ်သော အီဒင်တေတာ မျိုးစဉ်လည်း ရှိသေးသည်။ ထိုမျိုးစဉ်၌ သင်းခွေချပ် အစရှိသော တိရစ္ဆာန်မျိုးတို့ ပါဝင်ကြသည်။ ယင်းတိရစ္ဆာန်တို့၌ သွားမပါတတ်ချေ။ သွားရှိစေကာမူ အံ၏ အဆုံး၌သာ ပါရှိတတ်သည်။ (သင်းခွေချပ် — ရှု။)

**နိဗာစကိုးရှားပြည်နယ်။** ။နိဗာစကိုးရှားပြည်နယ်သည် ကနေဒါ နိုင်ငံတွင် ပါဝင်သော ပြည်နယ် တနယ် ဖြစ်၍၊ ကနေဒါ နိုင်ငံ၏ အရှေ့တောင်ဖက်စွန်းတွင် တည်ရှိသည်။ ကနေဒါ နိုင်ငံ၏ ပြည်နယ်များတွင် ဒုတိယ အငယ်ဆုံး ပြည်နယ်တခု ဖြစ်၏။ အကျယ်အဝန်းမှာ စတုရန်း မိုင် ၂၁,၀၆၈ မိုင် ရှိသည်။ နိဗာစကိုးရှား ဟူသော အမည်မှာ လက်တင်အမည် ဖြစ်၍၊ "စကော့တလန်ပြည်သစ်" ဟု အဓိပ္ပါယ်ရ၏။ နိဗာစကိုးရှား ပြည်နယ်တွင် ကနေဒါ နိုင်ငံ အရှေ့ တောင်ဖက်ကျွန်းဆွယ် တခုလုံးနှင့် ကိပ်ဗရက်တန် ကျွန်းတို့ ပါဝင်သည်။

နိဗာစကိုးရှား ပြည်နယ်၏ အရှေ့ဖက်နှင့် တောင်ဖက်တွင် အတ္တလန္တိတ် သမုဒ္ဒရာ၊ အနောက်ဖက်တွင် နယူးဗရန်းဇွစ်ပြည်နယ်၊ မြောက်ဖက်တွင် စိန်လောရင့် ပင်လယ်ကွေ့နှင့် ကဲဗော့ ရေလက်ကြား ဟူသည်တို့ အသီးအသီး တည်ရှိလေသည်။

နိဗာစကိုးရှား ပြည်နယ်၏ မြေမျက်နှာပြင် တခုလုံးလိုလိုမှာ ပြန့်ဖြူးသော လွင်ပြင်များနှင့် ခပ်ပြေပြေ ဖြစ်သော ချိုင့်ဝှမ်းများသာ ဖြစ်၏။ အက်ပလက်ချီယန် တောင်တန်း၏ အဆက် ဖြစ်သော တောင်တန်း နိမ့်နိမ့် တခုသည် အနောက် တောင်ဖက်မှ အရှေ့ မြောက်ဖက်အထိ ပြည်နယ်ကို ဖြတ်သန်းလျက် တည်ရှိ၏။ အတ္တလန္တိတ် ကမ်းခြေသည် အကွေ့အကောက် အလွန်များ၏။ အနောက်ဖက်တွင် အက်ပလက်ချီယန် တောင်တန်းမှ ဖန်ဒီ ပင်လယ်အော်နှင့် စိန်လောရင့် ပင်လယ်ကွေ့ ကမ်းခြေများ အထိ နိမ့်ဆင်းသွားသော အနောက်ဖက် လွင်ပြင်ကြီး ရှိသည်။ ထိုဒေသတွင် မြောက်တောင်တန်းခေါ် တောင်တန်း နိမ့်နိမ့်တခုသည် ဖန်ဒီ ပင်လယ်ကွေ့ တလျှောက်တွင်၎င်း၊ ကော့ဗကွစ် တောင်တန်းသည် မိုင်းနတ်ဗေးဆင်ခေါ် ပင်လယ်ကွေ့ မြောက်ပိုင်း တလျှောက်တွင်၎င်း အသီးအသီး တည်ရှိ၏။ ထိုတောင်များ အကြားရှိ လွင်ပြင်များနှင့် မြစ်ဝှမ်းများသည် အလွန် မြေသြဇာ ကောင်း၏။

ကိပ်ဗရက်တန်ကျွန်းနှင့် နိဗာစကိုးရှားကုန်းမ အကြားတွင် ကျဉ်းမြောင်းသော ကန်ဆို ရေလက်ကြား တည်ရှိ၏။ ကိပ်ဗရက်တန် ကျွန်းပေါ်တွင် နိဗာစကိုးရှား ပြည်နယ်၏ ကျောက်မီးသွေးတွင်း အားလုံးလိုလို တည်ရှိပြီးလျှင်၊ ကမ်း

ခြေတလျှောက်တွင်ကား လုပတင့်တယ် ရှူချင့်စဖွယ်ကောင်းသော သစ်တောများ တည်ရှိလေသည်။

နိုဗာစကိုးရှား ပြည်နယ်၏ မြစ်များသည် ကျဉ်းမြောင်း၍ တိုသည်။ ထင်ရှားသော မြစ်များမှာ အန္နက်ပိုလစ်မြစ်၊ ရှူဗင်နက်ကဒီးမြစ်နှင့် မာဆီမြစ်တို့ ဖြစ်၏။ နိုဗာစကိုးရှား ပြည်နယ်တွင် အိုင်ငယ်ပေါင်း ၄၀၀ ကျော်ကျော်ရှိ၍၊ အကြီးဆုံးသော အိုင်များမှာ ရော့ဆစ်နာအိုင်နှင့် ရှစ်ဟာဗာအိုင်တို့ ဖြစ်လေသည်။

နိုဗာစကိုးရှား ပြည်နယ်၏ ရာသီဥတုသည် နယူးဗရန်းဇွစ် ပြည်နယ်ထက် ပိုမိုမျှတ၏။ (နယူးဗရန်းဇွစ်ပြည်နယ် — ရှု။)ပြည်နယ်တွင် အအေးဆုံးသောအပိုင်း ဖြစ်သည့် အတ္တလန္တိတ် ကမ်းခြေ မြောက်ပိုင်း တလျှောက်၌ပင်လျှင်၊ ဆောင်းရာသီတွင် အပူချိန်သည် ဖာရင်ဟိုက် ၅ ဒီဂရီအောက် ကျခဲ၏။ နွေရာသီတွင် အေး၍ သာသာယာယာရှိသည်။ အတ္တလန္တိတ် ကမ်းခြေ တလျှောက်တွင် မိုးသည်းထန်စွာ ရွာသွန်းသည်။

နိုဗာစကိုးရှား ပြည်နယ်၏ လူဦးရေမှာ ၁၉၅၅ ခုနှစ်တွင် ခန့်မှန်းခြေ ၆၇၃,၀၀၀ ယောက် ဖြစ်၏။

နိုဗာစကိုးရှား ပြည်နယ်တွင် စိုက်ပျိုးရေးသည် အရေးအပါဆုံးသော လုပ်ငန်း ဖြစ်သည်။ မြင်းစားဂျုံ၊ ဂျုံ၊ မုယော ဂျုံ၊ ဖုးပြောင်း၊ ခါးဥဖြူ၊ အာလူး စသည်တို့ကို အဓိကအားဖြင့် စိုက်ပျိုး၏။ သစ်သီးပင်များကိုလည်း စိုက်ပျိုးရာ၊ မြေသြဇာကောင်းသည့် အန္နက်ပိုလစ်မြစ်ဝှမ်းမှ ထွက်သော သစ်သော့သီးများသည် နာမည် ကျော်ကြား၏။ မြို့ကြီးများ အနီးအနား တဝိုက်တွင် နို့ထွက် ပစ္စည်း လုပ်ငန်းမှာ အရေးပါသော လုပ်ငန်း တရပ် ဖြစ်သည်။ ပြည်နယ် တခုလုံးရှိ နေရာ အနှံ့အပြားတွင် သိုးများကို မွေးမြူကြ၏။ ငါးဖမ်း လုပ်ငန်းမှာ ၁၇ ရာစုနှစ်တွင် ပြင်သစ်တို့ စတင် လာရောက် အခြေစိုက်ကာ နေထိုင်ခဲ့သည့် အချိန်မှစ၍ လုပ်ငန်းကြီး တရပ် ဖြစ်ခဲ့လေသည်။ သစ်လုပ်ငန်းကိုလည်း လုပ်ကိုင်၍၊ စက္ကူလုပ်ငန်းအတွက် သစ်ပျော့ဖတ်များကို ထုတ်လုပ်သည်။ နိုဗာစကိုးရှား ပြည်နယ်တွင် ကျောက်မီးသွေး၊ သံ၊ ရွှေ၊ ဂျစ်ပဆမ်နှင့် မန်ဂနိစ်တို့ ထွက်၏။ ကျောက်မီးသွေးနှင့် ရေအား အများအစား ရနိုင်သော သဘာဝအနေ အထားကြောင့် ကုန်ထုတ်လုပ်ရေး လုပ်ငန်းများ လျင်မြန်စွာ တိုးတက်လာခဲ့၏။ နိုဗာစကိုးရှား ပြည်နယ်တွင် သံနှင့် သံမဏိ လုပ်ငန်း စက်ရုံကြီးများ၊ စက္ကူစက်များ၊ သကြားစက်များ၊ ဖိနပ်စက်များ ရှိ၏။

နိုဗာစကိုးရှား ပြည်နယ်သည် ဥရောပတိုက်နှင့်၎င်း၊ အမေရိကန် ပြည်ထောင်စု နိုင်ငံနှင့်၎င်း တွင်ကျယ်စွာ ကုန်သွယ် ရောင်းဝယ် ဖောက်ကား၏။ အဓိက ထွက်ကုန်များမှာ ငါး၊ သစ်၊ ကျောက်မီးသွေး၊ သံနှင့် သံမဏိဖြစ်၍၊ အဓိက ဝင်ကုန်များမှာ အထည်အလိပ်နှင့် စက်ကရိယာများ ဖြစ်လေသည်။



နိုဗာစကိုးရှားပြည်နယ် မြို့တော် ဟဲလဖက်မြို့ရှိ ကျက်သရေဆောင် ရှေးဟောင်း နာရီမျှော်စင်

နိုဗာစကိုးရှားပြည်နယ်၏ ပညာရေးသည် မသင်မနေရ အခမဲ့ဖြစ်၏။ ကျေးလက်ဒေသများရှိ ကလေးသူငယ်များသည် ၁၄ နှစ်အရွယ်အထိ ကျောင်းများတွင် မသင်မနေရ တက်ရောက် သင်ကြားရပြီးလျှင်၊ မြို့ကြီးများတွင်မူကား ၁၆ နှစ်အရွယ်အထိ တက်ရောက်သင်ကြားရလေသည်။ နိုဗာစကိုးရှားပြည်နယ်တွင်တက္ကသိုလ်နှင့် ကောလိပ်ကျောင်း ၉ ကျောင်းမျှရှိရာ၊ ယင်းတို့ကား ဒါလဟိုဇီတက္ကသိုလ်၊ အကေးဒီးယား တက္ကသိုလ်၊ နိုဗာစကိုးရှား စိုက်ပျိုးရေးကောလိပ်ကျောင်း၊နိုဗာစကိုးရှားစက်မှုအတတ်သင် ကောလိပ်ကျောင်းနှင့် စိန်ဖေးဗီးယား တက္ကသိုလ် စသည်တို့ဖြစ်လေသည်။

နိုဗာစကိုးရှားပြည်နယ်၏ မြို့တော်သည် ဟဲလဖက်မြို့ဖြစ်၍၊ အကောင်းဆုံးနှင့် အကြီးဆုံး ဆိပ်ကမ်းမြို့ကြီးများမှာ ဆစ်ဒနီမြို့၊ ဂလေ့စဖေးမြို့နှင့် ဒတ်တမတ်မြို့များ ဖြစ်သည်။

၁၄၉၇ ခုနှစ်တွင် ဂျီနိုးအာမြို့သား ဂျွန်ကဲ့ဗော့ဆိုသူသည် အင်္ဂလန်ပြည့်ရှင် သတ္တမဟင်နရီဘုရင်အတွက် နယ်မြေများရှာဖွေရန် ထွက်ခဲ့ရာ၊ ယခုကိပ်ဗရက်တန်ကျွန်းဟု ခေါ်တွင်နေသည့်ကျွန်းသို့ ရောက်ရှိခဲ့၏။ ၁၅၂၀ ပြည့်နှစ်မှ ၁၅၂၄ ခုနှစ်အထိ ဖလော်ရင့်မြို့သား ရေကြောင်းခရီးသွား ဗေရားဆားနိုး၊စပိန်အစိုးရအမှုတော်ထမ်း ပေါ်တူဂီလူမျိုး ဂိုးမေးနှင့် ပေါ်တူဂီလူမျိုး ဖာဂွန်ဒက်အစရှိသော နယ်သစ်ရှာဖွေသူများသည် ကမ္ဘာ့ အရှေ့ပိုင်းသို့ပေါက်သော အနောက်ဖက်သွား ခရီးလမ်းကြောင်းကိုရှာဖွေယင်း၊ ယခုနိုဗာစကိုးရှားဟုတွင်နေသော ဒေသကမ်းခြေတဝိုက်သို့ ရောက်လာခဲ့ကြသည်။ ၁၅၃၄ ခုနှစ်တွင် ဇာ်ကာတီယေးဆိုသူ ပြင်သစ်လူမျိုး နယ်လှည့်ရှာဖွေသူသည် ကုန်းမကြီးပေါ်သို့ တက်ရောက်လှည့်လည်ခဲ့၏။ (ကာတီယေး, ဂျေ — ရှု။)

၁၆၀၃ ခုနှစ်တွင် ထိုစဉ်က အကေးဒီးယားဟု ခေါ်သော နိုဗာစကိုးရှားကျွန်းဆွယ်၌နယ်သစ်တည်ထောင်ရန်အတွက် ပြင်သစ်ဘုရင်သည် ဆီးယားဒါမွန့်အား စေခိုင်းခဲ့သည်။ ဒါမွန့်သည် ၁၆၀၆ ခုနှစ်တွင်ပို့ရွိုင်ယယ်မြို့ကို တည်ထောင်ခဲ့၏။မကြာမီအခြားပြင်သစ်လူမျိုး နယ်သစ်စိုက်သမားများလည်း တောင်ဖက်ကမ်းခြေတလျှောက်တွင်၎င်း၊ အနွက် ပိုလစ်မြစ်ဝှမ်းတွင်၎င်း အခြေစိုက်နေထိုင်ခဲ့ကြလေသည်။ သို့သော်လည်း နှစ်ပေါင်း တရာကျော်မျှ အကေးဒီးယားသည် ပြင်သစ်နှင့် ဗြိတိသျှ လူမျိုးတို့ တိုက်ပွဲများ ဆင်နွှဲရာ ဒေသဖြစ်ခဲ့၏။ ပို့ရွိုင်ယယ်မြို့သည်လည်း ပြင်သစ်တို့ လက်မှ ဗြိတိသျှတို့လက်သို့၎င်း၊ဗြိတိသျှတို့လက်မှ ပြင်သစ်တို့လက်သို့၎င်း ကြိမ်ဖန်များစွာလက်ပြောင်းလွှဲခဲ့ရပြီးနောက်၊ ၁၇၁၃ ခုနှစ်တွင်ကိပ်ဗရက်တန်ကျွန်းမှတပါးနိုဗာစကိုးရှားတခုလုံးကို ဗြိတိသျှတို့လက်သို့အပ်လိုက်ရလေသည်။ ဗြိတိသျှလူမျိုး ဗိုလ်မှူးကြီး အက်ဒွပ်ကွန်ဝေါလစ်သည် ထိုနယ်သစ်တွင် ဗြိတိသျှတို့၏ အခြေခံ တောင့်တင်းလာစေရန်အတွက် အတ္တလန္တိတ်ကမ်းခြေတွင် ဟဲလဖက်မြို့ကို တည်ထောင်ခဲ့၏။

ပြင်သစ်တို့သည်လူးဝစ္စဗတ်မြို့တွင် ခြေကုပ်ယူထားလျက်ပင် ရှိသေးရာ၊ ဗြိတိသျှကိုလိုနီနယ်သစ်များကို ခြိမ်းခြောက်လျက်ရှိသော ပြင်သစ်တို့၏ရန်ကို လုံးဝဖယ်ရှားပစ်ရန် အတွက်၊ ၁၇၀၀ ပြည့်နှစ်မှ လွန်သောအခါ ပြင်သစ်တို့နှင့် ၂ ကြိမ်မျှ စစ်ပွဲဆင်နွှဲတိုက်ခိုက်ခဲ့ရသေးသည်။ ၁၇၅၅ ခုနှစ်တွင် ပြင်သစ်လူမျိုး နယ်သူနယ်သား ၆၀၀၀ ခန့်တို့သည် ဗြိတိသျှ ဘုရင်မင်းမြတ်၏ သစ္စာတော်ခံယူရန် ငြင်းဆန်ခဲ့သဖြင့်၊ ယင်းတို့အား ဗြိတိသျှ ကိုလိုနီနယ်များတွင် လူစုခွဲ၍ နေရာချထားပေးခဲ့၏။ ၁၇၅၈ ခုနှစ်တွင် လူးဝစ္စဗတ်မြို့ကို ဗြိတိသျှတို့အောင်၍၊ ကိပ်ဗရက်တန်ကျွန်းနှင့် အီလဆန်ဇန်း (ပရင့်စအက်ဒွပ်ကျွန်း) ကျွန်းတို့ကိုရရှိခဲ့ပြန်လေသည်။ ပါရစ်စာချုပ် ချုပ်ဆိုခဲ့ပြီးနောက်တွင် ပြင်သစ်ပြည်သစ်အားလုံးကို ဗြိတိသျှတို့အား ပေးအပ်လိုက်ရလေသည်။

၁၇၅၈ ခုနှစ်တွင် ပြည်သူ့ကိုယ်စားလှယ် တင်မြှောက်ခွင့်ရသော အုပ်ချုပ်ရေးစံနစ် အတည်ဖြစ်လာ၏။ ၁၇၆၃ ခုနှစ်တွင် ကိပ်ဗရက်တန်ကျွန်းကိုပြည်နယ်တွင်း သွတ်သွင်းလိုက်၏။ ၁၇၇၂ ခုနှစ်တွင် စကော့လူမျိုး အမြောက်အမြားကျွန်းဆွယ် မြောက်ပိုင်းနှင့် ကိပ်ဗရက်တန် ကျွန်းပေါ်တွင် လာရောက် အခြေစိုက်နေထိုင်ကြသည်။ ၁၇၁၄ ခုနှစ်တွင် နိုဗာစကိုးရှားနှင့် နယူးဗရန်းဇွစ်တို့ကို ပြည်နယ် ၂ ခုခွဲ၏။

၁၈၄၈ ခုနှစ်တွင် တာဝန်ခံအုပ်ချုပ်ရေးစံနစ်ကို ပေးအပ်ခြင်းခံခဲ့ရပြီးလျှင်၊ ၁၈၆၇ ခုနှစ် ဇူလိုင်လ ၁ ရက်နေ့တွင် ကနေဒါ ဒိုမီနီယန်နိုင်ငံ၏ ပြည်နယ်တခု ဖြစ်လာလေသည်။ ထိုအချိန်အခါမှစ၍ ပြည်နယ်တွင်း စက်မှု လက်မှု လုပ်ငန်းများ မှန်မှန်ပင် တိုးတက် ထွန်းကားလာခဲ့၏။ မီးရထားလမ်းများနှင့် လမ်းမကြီးများကိုလည်း ဖောက်လုပ်ခဲ့၏။ ပညာရေးစံနစ်ကိုလည်း ကောင်းမွန်အောင် ပြုပြင်ခဲ့သည်။

**နိုဗဲ,အဲလဖရက်ဗားနှ (ခရစ် ၁၈၃၃–၁၈၉၆)။ ။** အဲလဖရက်ဗားနှနိုဗဲသည် ဆွီဒစ်လူမျိုး ဓာတုဗေဒပညာရှင် တဦးဖြစ်၏။ ကုန်ပစ္စည်းများ ထုတ်လုပ်သူ အဖြစ်၎င်း၊ ဒိုင်းနမိုက်(ယမ်းဘီလူး) ကို တီထွင်သူ ပညာရှင်တဦးအဖြစ်၎င်း၊ နိုဗဲဆုများ၏ ဒါနရှင် အဖြစ်၎င်း ကျော်ကြားသည်။ (ဒိုင်းနမိုက် — ရှု။)

နိုဗဲအား စတော့ဟုမ်းမြို့၌ ၁၈၃၃ ခုနှစ်အောက်တိုဘာလ ၂၁ ရက်နေ့တွင် ဖွားမြင်၏။ ဖခင်ဖြစ်သူသည် တီထွင်တတ်သူပညာရှင် တဦးဖြစ်သည်။ နိုဗဲသည် စိန်ပီတာစဗတ်မြို့ (ယခုလီနင်ဂရက်မြို့)၌ ပညာသင်ကြားခဲ့ပြီးသော် အမေရိကန်ပြည်ထောင်စုနိုင်ငံသို့သွားရောက်၍၊နာမည်ကျော် အင်ဂျင်နီယာကြီး အဲရစ်ကဆန်အထံ၌ အင်ဂျင်နီယာ အတတ်



ကမ္ဘာ့ငြိမ်းချမ်းရေး စာပေနှင့် သိပ္ပံပညာ ထွန်းကားရေး ရှေးရှု၍ နိုဗဲဆု အလှူပြုခဲ့သူ အဲလဖရက်ဗားနဒ္နိုဗဲ

ကိုသင်ယူခဲ့သည်။ ထိုနောက်တွင် စိန့်ပီတာစဗတ်မြို့သို့ ပြန်လာကာ၊မိမိဖခင်၏ လုပ်ငန်းကို ကူညီယင်း၊ နိုက်ထရိုဂလစ်ဆရင်းကို စမ်းသပ် လုပ်ကိုင်ကြည့်ရာ အောင်မြင်ခဲ့သဖြင့် ပဌမဦးစွာ နိုက်ထရိုဂလစ်ဆရင်း ထုတ်လုပ်သော စက်ရုံတခုကို ဆွီဒင်နိုင်ငံတွင်တည်ထောင်ခဲ့၏။သို့သော်မြေဝြလင့်သည့်အတိုင်း ဘေးကင်းစွာဖြင့် အသုံးမပြုနိုင်ဘဲ၊ ပေါက်ကွဲမှုများ မကြာခဏ ဖြစ်ပေါ်ခဲ့၏။ တကြိမ်တွင် အလုပ်ရုံတွင်း၌ ပေါက်ကွဲမှု မတော်တဆဖြစ်ပွားခဲ့ရာ သူ၏ညီမှာ သေဆုံးသွား၍၊ဖခင်ကြီးမှာလည်း မစွမ်းမသန် ဖြစ်ခဲ့ရလေသည်။

နောက်ဆုံးတွင် ၁၈၆၇ ခုနှစ်၌ သူသည် နိုက်ထရိုဂလစ်ဆရင်းကို အခြားပစ္စည်းတခုနှင့် ပေါင်းစပ်ကြည့်ရာ၊ ဘေးကင်းစိတ်ချစွာကိုင်တွယ်နိုင်သည်ကိုတွေ့ရပြီးလျှင်၊ဒိုင်းနမိုက်ဟု အမည်ပေးခဲ့၏။ ဤတွင် နှစ်အနည်းငယ်အတွင်း သူသည် ဒိုင်းနမိုက်လုပ်ငန်းနှင့် ကြီးပွားလာခဲ့ရာ၊ ကမ္ဘာတွင် အကြွယ်ဝဆုံး ပုဂ္ဂိုလ်များအနက် တဦးအပါအဝင် ဖြစ်လာသည်။ ကမ္ဘာအနှံ့ အပြား၌ ဒိုင်းနမိုက်စက်ရုံများနှင့် ခဲယမ်းမီးကျောက် စက်ရုံများကို တည်ဆောက်ခဲ့သည်။ ဓာတ်ချက် ကော်ဖတ်၊ ပိုးတုနှင့် အခြားကုန်ပစ္စည်း အမျိုးမျိုးကိုလည်း စမ်းသပ် ပြုလုပ်၍ အောင်မြင်ခဲ့၏။ သို့သော် သူသည် ဒိုင်းနမိုက်ကို တီထွင်မိသည့်အတွက် စိတ်မချမ်းမသာဖြစ်ခဲ့ရလေသည်။ သူ၏ ညီ၊ ဖခင်နှင့်တကွ လူပေါင်းများစွာအား အန္တရာယ်ဖြစ်စေသည့် ပစ္စည်းကို ပြုလုပ်မိသောကြောင့် သူ့တွင် အပြစ်ရှိသည်ဟု ယူဆခဲ့၏။ တီထွင်စဉ်ကမူ ငြိမ်းချမ်းစွာ စားသောက်နေထိုင်မှုအတွက် လူသုံးပစ္စည်းတခု အဖြစ် ရည်စူးခဲ့သော်လည်း၊ နောင်အခါ စစ်ပွဲများ၌ ဒိုင်းနမိုက်ကို အသုံးပြုနေကြသဖြင့် မနှစ်မြို့ခြင်းဖြစ်ရလေသည်။ ထို့ကြောင့်ပင် သူ၏သေတမ်းစာ၌ ရန်ပုံငွေ ဒေါ်လာပေါင်း ၉ သန်းခန့်ကို သီးသန့်ထားရှိ၍၊ နှစ်စဉ် ကမ္ဘာ့ငြိမ်းချမ်းရေးအတွက် ကြိုးပမ်းသူ၊ ထူးချွန်သော စာရေးဆရာ၊ ရူပဗေဒတွင်ရှာဖွေတီထွင်နိုင်သူ၊ ဓာတုဗေဒထွင် ရှာဖွေ တီထွင်နိုင်သူ၊ ဆေးပညာ သို့မဟုတ် ဖီဇီယိုလိုဂျီတွင် ရှာဖွေတီထွင်နိုင်သူ၊ ဤငါးဦးအား ဆုများချီးမြှင့်ရန် လျာထားခဲ့လေသည်။ (နိုဗဲဆုများ — ရှု။) အဲလဖရက်နိုဗဲသည် ၁၈၉၆ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်နေ့တွင်၊ ဣတလီနိုင်ငံ ဆန်ရီမိုမြို့၌ ကွယ်လွန်လေသည်။

**နိုဗဲဆုများ။** ။နိုဗဲဆုဟူသည်မှာ၊ ဆွီဒစ်လူမျိုးဓာတုဗေဒ ပညာရှင် အဲလဖရက်ဗားနဒ္နိုဗဲအား အစွဲပြု၍ ခေါ်သောဆု ဖြစ်သည်။ (နိုဗဲ, အဲလဖရက်ဗားနဒ္ — ရှု။) ထိုနိုဗဲဆုသည် အဓိကအားဖြင့် ၅ ဆုရှိသည်။ ယင်းတို့မှာ ရူပဗေဒဆိုင်ရာ အရေးကြီးသော ရှာဖွေတီထွင်မှု အတွက် ဆုတခု၊ ဓာတုဗေဒဆိုင်ရာ အရေးကြီးသော ရှာဖွေတီထွင်မှု အတွက် ဆုတခု၊ ဆေးပညာနှင့် ဇီဝကိစ္စဗေဒ (ဖီဇီယိုလိုဂျီ) ပညာဆိုင်ရာ အရေးကြီးသော ရှာဖွေ တီထွင်မှုအတွက် ဆုတခု၊ စာပေအတွက် ဆုတခု၊ ငြိမ်းချမ်းရေး အတွက် ဆုတခုဟူ၍ ဖြစ်သည်။ ထိုဆုငါးဆုတို့၏ ပျမ်းမျှတန်ဖိုးမှာ မြန်မာငွေ ၂၀၀,၀၀၀ ခန့်မျှရှိလေသည်။ ထိုဆုကို အဖွဲ့များက ဆုံးဖြတ်၍ ပေးသည်။ရူပဗေဒနှင့်ဓာတုဗေဒဆုတို့ကို စတော့ဟုမ်းမြို့ တော်ဝင် သိပ္ပံပညာတံခွန်အသင်းက ခန့်ခွဲပေးသည်။ ဆေးပညာဆိုင်ရာဆုကို စတော့ဟုမ်းမြို့ ကယ်ရိုလင်ပညာမြင့်တင်ရေးအဖွဲ့ကခန့်ခွဲပေးသည်။စာပေအတွက်ဆုကိုစတော့ဟုမ်းမြို့ ဆွီဒင်တော်ဝင် စာပေ ပညာတံခွန် အသင်းက ခန့်ခွဲပေးသည်။ ငြိမ်းချမ်းရေး ဆုကိုမူ၊ နော်ဝေးနိုင်ငံ ပါလီမန်က တင်မြှောက်သော ငါးဦးကော်မတီအဖွဲ့က ခန့်ခွဲပေးသည်။

ဆုအတွက် ယှဉ်ပြိုင် ဝင်ရောက်သူတို့သည် ဆုအတွက် တိုက်ရိုက်လျှောက်ထားခြင်းမပြုရချေ။ ဆုအတွက်ထောက်ခံပိုင်ခွင့်ရှိသော ပုဂ္ဂိုလ်တို့ကသာ၊ ဆုဝင်ထိုက်သူ၏ အမည်ကို တင်သွင်းရသည်။ ဆုကို ဒီဇင်ဘာလ ၁၀ ရက်နေ့ ကျရောက်သည့်အခါ၊ ရွေးချယ် ကြေညာသည်။ ဆုတခုကို ပုဂ္ဂိုလ် ၂ ဦး၊ ၃ ဦးခွဲဝေယူရသည်လည်း ရှိ၏။ တခါတရံ ဆု ၅ ဆုအနက် အချို့ဆုကို မပေးဘဲ ထားသော နှစ်များလည်း ရှိ၏။ ၁၉၁၆ ခုနှစ်၌ မည်သည့်ဆုကိုမျှ မပေးခဲ့ချေ။

၁၉၅၅ ခုနှစ်အထိ နိုဗဲဆုရသောနိုင်ငံနှင့် ရသူများ၏ အ

ရေအတွက်မှာ၊ ရူပဗေဒတွင် ဂရိတ်ဗြိတိန်မှ ၁၄ ဦး၊ဂျာမနီမှ ၁၃ ဦး၊ အမေရိကန် ပြည်ထောင်စုမှ ၁၄ ဦး၊ ပြင်သစ်မှ ၇ ဦး၊ နယ်သာလန်မှ ၅ ဦး၊ ဩစတြီးယားမှ ၃ ဦး၊ ဆွီဒင်မှ ၂ ဦး၊ ဣတလီမှ ၂ ဦး၊ အိန္ဒိယမှ ၁ ဦး၊ ဒိန်းမတ်မှ ၁ ဦး၊ ဂျပန်မှ ၁ ဦးနှင့် အိုင်ယာလန် သမတနိုင်ငံမှ ၁ ဦးဖြစ်၏။

ဓာတုဗေဒတွင် ဂျာမနီမှဦးရေ ၂၀၊ အမေရိကန် ပြည်ထောင်စုမှ ၁၁ ဦး၊ ဂရိတ်ဗြိတိန်မှ ၉ ဦး၊ ပြင်သစ်မှ ၆ ဦး၊ ဆွီဒင်မှ ၄ ဦး၊ ဆွစ်ဇာလန်မှ ၃ ဦး၊ နယ်သာလန်မှ ၂ ဦး၊ ဟန်ဂေရီမှ ၁ ဦး၊ ဩစတြီးယားမှ ၁ ဦးနှင့် ဖင်းလန်မှ ၁ ဦးဖြစ်သည်။

ဆေးပညာနှင့် ဇီဝကိစ္စဗေဒ(ဖီဇီဩလိုဂျီ) ပညာတွင် အမေရိကန်ပြည်ထောင်စုမှ ၁၇ ဦး၊ဂရိတ်ဗြိတိန်မှ ၁၀ ဦး၊ဂျာမနီမှ ၈ ဦး၊ဒိန်းမတ်မှ ၄ ဦး၊ ဆွစ်ဇာလန်မှ ၄ ဦး၊ပြင်သစ်မှ ၃ ဦး၊ဩစတြေးလီးယားမှ ၃ ဦး၊ ဗဲလဂျီယမ်မှ ၂ ဦး၊ကနေဒါမှ ၂ ဦး၊နယ်သာလန်မှ ၂ ဦး၊ဟန်ဂေရီမှ ၂ ဦး၊ရုရှမှ ၂ ဦး၊ဆွီဒင်မှ ၂ ဦး၊ စပိန်မှ ၁ ဦး၊ အာဂျင်တီးနားမှ ၁ ဦး၊ ဣတလီမှ ၁ ဦး၊ ပေါ်တူဂယ်မှ ၁ ဦးနှင့်တောင်အာဖရိကမှ ၁ ဦးဖြစ်၏။

စာပေတွင် ပြင်သစ်မှ ၈ ဦး၊ဂရိတ်ဗြိတိန်မှ ၆ ဦး၊ဂျာမနီမှ ၅ ဦး၊ အမေရိကန် ပြည်ထောင်စုမှ ၅ ဦး၊ ဆွီဒင်မှ ၄ ဦး၊ နော်ဝေးမှ ၃ ဦး၊ ဣတလီမှ ၃ ဦး၊ ဒိန်းမတ်မှ ၃ ဦး၊ ပိုလန်မှ ၂ ဦး၊ စပိန်မှ ၂ ဦး၊ ဆွစ်ဇာလန်မှ ၂ ဦး၊ ဗဲလဂျီယမ်မှ ၁ ဦး၊ အိန္ဒိယမှ ၁ ဦး၊ ရုရှမှ ၁ ဦး၊ ဖင်းလန်မှ ၁ ဦး၊ ချီလီမှ ၁ ဦး၊ အယ်ယာမှ ၁ ဦးနှင့် အိုက်စလန်မှ ၁ ဦးဖြစ်၏။

ငြိမ်းချမ်းရေး ဆုအတွက် အမေရိကန် ပြည်ထောင်စုမှ ၁၂ ဦး၊ ပြင်သစ်မှ ၈ ဦး၊ ဂရိတ်ဗြိတိန်မှ ၆ ဦး၊ဂျာမနီမှ ၃ ဦး၊ ဆွီဒင်မှ ၃ ဦး၊ ဆွစ်ဇာလန်မှ ၃ ဦး၊ ဗဲလဂျီယမ်မှ ၂ ဦး၊ နော်ဝေးမှ ၂ ဦး၊ ဩစတြေးလီးယားမှ ၂ ဦး၊ ဣတလီမှ ၁ ဦး၊ အာဂျင်တီးနားမှ ၁ ဦး၊ ဒိန်းမတ်မှ ၁ ဦး၊ နယ်သာလန်မှ ၁ ဦး အသီးအသီး ရရှိခဲ့ကြလေသည်။

ကမ္ဘာပေါ်တွင်နိုဗဲဆုကို ၂ ကြိမ်တိုင်တိုင်ဆွတ်ခူးနိုင်ခဲ့သူမှာမဒမ်ကျူးရီးဆိုသူအမျိုးသမီးဖြစ်၏။ (ကျူးရီး၊ အမ်—ရှု။) ကျူးရီးသည် ရူပဗေဒဆုကို ၁၉၀၃ ခုနှစ်တွင်၎င်း၊ ဓာတုဗေဒဆုကို ၁၉၁၁ ခုနှစ်တွင်၎င်း ဆွတ်ခူးနိုင်ခဲ့ပေသည်။

**နိုးဝါးနှင့် နိုးဝါးသင်္ဘော။** ။နိုးဝါး (နောဂ) ၏ အကြောင်းကို ခရစ်ယန်သမ္မာကျမ်းစာတွင်ပါဝင်သော ကမ္ဘာဦးကျမ်း၌ ဖော်ပြပါရှိသည်။ ထိုကျမ်းစာ၏ အဆိုကား၊ ကမ္ဘာဦးအခါသမယတွင်၊ ထာဝရ ဘုရားသခင်သည် မိမိဖန်ဆင်းထားသော လူအပေါင်းတို့ မကောင်းမှု ဒုစရိုက်များကိုသာ ပြုကျင့် နေကြသည်ကို သိမြင်ရသဖြင့်၊ လူမှစ၍ တိရစ္ဆာန်များပါ မကျန်၊ မြေကြီး၏ မျက်နှာမှ သုတ်သင်မည်ဟု မိန့်တော်မူ၏။ ထိုအထဲတွင် ထာဝရ ဘုရားသခင်၏ စိတ်တော်နှင့် တွေ့သောသူကား နိုးဝါးပင်တည်း။

နိုးဝါးသည် ဖြောင့်မတ်၏။ ဘုရားသခင် နှစ်သက်သော အမှုကိုသာပြု၏။ သူတယောက်သာလျှင် အပြစ်ကင်းစင်သည်ကို ထာဝရဘုရားသခင် တွေ့ရ၏။ ထိုကြောင့် ဘုရား



နိုးဝါးနှင့် သားများ အားကြိုးမာန်တက် သင်္ဘော ဆောက်လုပ်နေကြစဉ်

သခင်သည် နိုးဝါးကို ချန်လှပ်၍၊ အသက်ရှင်သော သတ္တဝါအပေါင်းတို့အား ပယ်ရှင်းခြင်းငှါ၊မြေကြီးကို ရေလွှမ်းမိုးစေမည်ဟု ဆုံးဖြတ်ပြီးလျှင်၊ နိုးဝါးကိုခေါ် ၍၊ သူနှင့်တကွ သူ၏သားမယားကိုင်း၊တိရစ္ဆာန်ကျေးငှက်အမျိုးအစားတိုင်းမှ အထီးအမတစုံစီကိုင်း တင်ဆောင်နိုင်မည့် သင်္ဘောကြီးတခု တည်ဆောက်ထားရန် ပြောကြားလေ၏။

နိုးဝါးလည်း မိန့်မှာသည့် အတိုင်း သင်္ဘောကို တည်ဆောက်လေ၏။ ထိုနိုးဝါးတွင် ရှမ် (ရှေမ)၊ ဟမ် (ဟာမ) နှင့် ဂျဖက် (ယာဖတ်)ဟူသော သား သုံးယောက်ရှိသည်။ ကောင်းကင်၌ မိုးသားများ ညိုမဲ အုံ့ဆိုင်း လာသောအခါ၊ နိုးဝါးနှင့် သူ၏ သားများသည် မိမိတို့၏ ဇနီးသည်များနှင့်တကွ၊ တိရစ္ဆာန်ကျေးငှက် အမျိုးအစားတိုင်းမှ အထီးအမအစုံနှစ်ကောင်စီတို့ကို ခေါ်ဆောင်လျက်၊ အသင့်ဖြစ်သော သင်္ဘောပေါ်သို့ တက်နေကြ၏။ မကြာမီပင် ဘုရားသခင်သည် ရက်ပေါင်း လေးဆယ်တိုင်တိုင် မိုးကြီးသည်းထန်စွာ ရွာသွန်းစေ၏။ ယင်းသို့ မိုးကြီး သည်းထန်စွာ ရွာသွန်း၍ ရေလွှမ်းမိုးချိန်၌၊ နိုးဝါးသည် အသက် ၆၀၀ ရှိသတည်း။ ရက်ပေါင်း ၁၅၀ ပတ်လုံး ကမ္ဘာပေါ်တွင် မကြုံဘူးသော ရေလွှမ်းမိုးခြင်းကပ် ဆိုက်ရောက်သဖြင့်၊ သင်္ဘောပေါ်ရှိ လူသတ္တဝါအပေါင်းမှအပ၊ အခြားသော သက်ရှိသတ္တဝါ အားလုံးတို့ သေကြေပျက်စီးကြလေသည်။ရက်ပေါင်း ၁၅၀ စေ့သောအခါ၊ ရေသည် ယုတ်လျော့သွားလေ၏။ သင်္ဘောသည်လည်း အာရရက်(အာရရတ်)အမည်ရှိသော တောင်ပေါ်တွင်တင်နေလေသည်။ ထိုမှအရက် ၄၀ ကြာလျှင်၊ နိုးဝါးသည် ရှေးဦးစွာ ကျီးအတကောင်ကိုလွှတ်ကြည့်ရာ၊ ပြန်ရောက်မလာသဖြင့်၊ ချိုးငှက်တကောင်ကို လွှတ်ပြန်သည်။ ပဌမအကြိမ်၌ ချိုးငှက်သည် သံလွင်ရွက်ကို ကိုက်ချီလျက်ပြန်လာသဖြင့်၊ မြေကြီးပေါ်တွင်ရေကုန်ကြောင်း နိုးဝါးသိလေ၏။ သို့သော် ထိုချိုးငှက်ကို ဒုတိယအကြိမ် လွှတ်ရာ၊ ပြန်၍မလာတော့ချေ။

ထိုနောက် နိုးဝါးတို့လူစုနှင့်တကွ တိရစ္ဆာန် ဖိုမအစုံများလည်းသင်္ဘောအတွင်းမှထွက်လာကြ၏။ဘုရားသခင်လည်း နိုးဝါးနှင့် သူ၏သားတို့အား ကောင်းကြီးပေးလျက်၊ ကမ္ဘာပေါ်တွင် မျိုးဆက်ပြန့်ပွားအောင် ပြုလုပ်ရန် ဩဝါဒပေးလေသည်။ထိုပြင်နောက်တကြိမ် ရေကြီးအောင်မဖန်ဆင်းတော့ဟူသော အထိမ်းအမှတ်ဖြင့်၊ ကောင်းကင်တွင် သက်တံ့ကို ဖန်ဆင်းပြလေသည်။

နိုးဝါးသည် ရေလွှမ်းမိုးပြီးနောက်၊ အနှစ် ၃၅၀ အသက်ရှင်၍၊ အသက် ၉၅၀ ပြည့်သော်၊ အနိစ္စရောက်လေ၏။

**နက္ခတ်။** ။ကြယ်များသည် ကောင်းကင် တပြင်လုံးတွင် တညီတညာတည်း ပြန့်လျက် မရှိကြချေ။ တနေရာဘွင် စုကာ၊ တနေရာတွင်ကျဲလျက် ရှိကြသည်။ ရှေးလူတို့သည် ပြန့်ကျဲလျက်ရှိသောကြယ်များအနက်၊ ထွန်းလင်းတောက်ပသော နီးစပ်ရာ ကြယ်များကို နက္ခတ်အဖြစ် စုပေါင်းပြီးလျှင်၊ ထိုကြယ်စုများကို ယောကျ်ား၊ မိန်းမ၊တိရစ္ဆာန်တို့၏ ပုံသဏ္ဌာန်များဖြင့်ဖော်ပြ၍၊ အမည်များပေးထားခဲ့ကြလေသည်။ သို့ရာတွင် ရှေးနှစ်ပေါင်းများစွာက ရှိခဲ့သော ကြယ်စုတို့၏ ပုံသဏ္ဌာန်များသည် ယခုအခါ၌ရှိသော ကြယ်စုတို့၏ပုံသဏ္ဌာန်များနှင့်တူနိုင်ကြမည်မဟုတ်ချေ။ကြယ်တို့သည် ရွေ့ရှားလျက် နေကြသောကြောင့်၊ ကြယ်စုတို့၏ ပုံသဏ္ဌာန်များသည် နှစ်ပရိစ္ဆေဒ များစွာကြာလတ်သော်၊ ပြောင်းလဲသွားဖွယ်ရာရှိလေသည်။ (ကြယ် — ရှု။)

အီဂျစ်လူမျိုး၊ ဗက်ဗီလုံးလူမျိုး၊ ဂရိလူမျိုး၊ ရောမလူမျိုးတို့သည် ကြယ်စုများကို လေ့လာမှတ်သားပြီးနောက်၊ လူပုံသဏ္ဌာန်၊ မြွေပုံသဏ္ဌာန်၊ သားရဲတိရစ္ဆာန်ပုံသဏ္ဌာန်၊ ငှက်ပုံသဏ္ဌာန် စသည်ဖြင့် ပုံသဏ္ဌာန် အမျိုးမျိုးကို အစွဲပြု၍ အမည်များ ပေးထားခဲ့ကြသည်။ အချို့ကြယ်စုများကို လူစွမ်းကောင်းတို့၏ အမည်၊ နတ်သားနတ်သမီးတို့၏ အမည်များဖြင့် မှည့်ခေါ်ခဲ့ကြလေသည်။

ကြယ်များကို ပုံသဏ္ဌာန်စွဲ၍ အမည်ပေးခဲ့သည်မှာ ဂရိတို့ပင်ဖြစ်သည်ဟုပဌမသော်ယူဆကြ၏။ သို့သော် ယူဖရေးတီးမြစ်ဝှမ်း၌တွေ့ရသော ဘီစီ ၃၀၀၀နှင့် ဘီစီ ၅၀၀ အတွင်းပေါ်ပေါက်သောစာများတွင် ကြယ်အကြောင်း အမှတ်အသားများ တွေ့ရသည်ကို ထောက်ရှုပြီး လျှင် ဖိနီရှန်တို့သည် ယူဖရေးတီးမြစ်ဝှမ်းရှိ ကယ်လဒီယန်လူမျိုးတို့ထံမှ နက္ခတ်တို့ကို အမည်သညာ ပေးသောစံနစ်ကို ရရှိသည်ဟုယူဆကြပြန်၏။ ဂရိတို့ကား ဖိနီရှန်တို့ထံမှတဆင့် ထိုစံနစ်ကို ရရှိဟန်တူသည်။ ဘီစီ ၁၆၀—၁၂၅ နှစ်လောက်က ဟိပါးကပ်အမည်ရှိသော နက္ခတ်ပညာရှင်သည် ကြယ်စုပေါင်း ၄၈ ခုကို အရုပ်ကောင်များကဲ့သို့ ပုံသဏ္ဌာန်ဖော်၍၊ အမှတ်အသားများပြုလုပ်ထားခဲ့သည်။ ထိုနောက်နှစ်ပေါင်း ၃၀၀ လောက်တွင် အီဂျစ်လူမျိုး နက္ခတ်ပညာရှင်ကြီး တော်လမီသည် ဟိပါးကပ်မှတ်သားခဲ့သော ကြယ်စုများတွင် အနည်းငယ်ပြင်ဆင်၍၊ကြယ်စု ၄၈ ခုကိုပင် အသိအမှတ်ပြုခဲ့သည် ။အေဒီ ၁၆၀၁ ခုနှစ်တွင် တီကိုဗရာဟေးက ကြယ်စု အသစ်နှစ်ခုကို တွေ့ရှိပြန်သည်။ ထိုမှ နှစ်ပေါင်း ၂၀၀ ခန့်အတွင်း၌ နက္ခတ်ပညာရှင်တို့သည် ကြယ်စုသစ်များကို ထပ်မံ တွေ့ရှိလာကြရာ၊ ၁၈၀၀ ပြည့် နှစ်လောက်တွင် ကြယ်စု အရေ အတွက်မှာ ၁၀၉ ခုဖြစ်လာလေသည်။ သို့သော် ထိုကြယ်စုများတွင် အချို့သည် ပုံတူအမည်ကွဲဖြင့် ထပ်တူဖြစ်နေကြသောကြောင့် နက္ခတ် ပညာရှင်တို့သည် တဦးနှင့်တဦးညှိနှိုင်း၍၊ နောက်ဆုံး၌ ကြယ်စုဘို့၏ အရေအတွက်ကို ၈၈ ခုသို့ လျှော့ချသတ်မှတ်ခဲ့ကြလေသည်။ (နက္ခတ္တဗေဒ — လည်းရှု။)

# ရှေးသိပ္ပံပညာရပ်

**အလွန်ရှေးကျသော ခေတ်အခါမှစ၍၊ လူတို့သည် အာကာသ လောကတွင် စိတ်ဝင်စား ခဲ့ကြလေသည်။ နေ၊ လ၊ ကြယ်၊ ဂြိုဟ်တို့အကြောင်းကို သိလိုခဲ့ကြသည်။ မိမိတို့ မျက်စိဖြင့် ကောင်းကင်၌ မြင်သမျှတို့ကို လေ့လာခဲ့ကြသည်။ စူးစမ်းဆင်ခြင်ခဲ့ကြသည်။ မှတ်သားခဲ့ကြသည်။ ထိုလေ့လာ မှတ်သားချက်များကို အခြေပြု၍၊ယခုအခါ နက္ခတ္တဗေဒ ပညာသည် များစွာ တိုးတက်လာလေသည်။**

နက္ခတ္တဗေဒ။ ။ရှေးသူဟောင်းတို့သည်အာကာသလောကတွင် စိတ်ဝင်စားခဲ့ကြသည့်အလျောက် အာကာသနှင့် စပ်လျဉ်း၍ တွေးတော ကြံဆခဲ့ကြပေသည်။

ရှေးကျသော ဂရိတို့သည် ကောင်းကင်ကို သာမန်မျက်စိနှင့် ကြည့်ရှု၍၊ နေ၊လ၊ ကြယ်တို့နှင့် ပတ်သက်သောအသိတို့ကို ထိုးထွင်းကြံစည်ကြသည်။အီဂျစ်လူမျိုးတို့ကဂရိတို့ထက်စော၍ပင် နက္ခတ္တဗေဒကို လေ့လာလိုက်စားခဲ့ကြပေသည်။ အီဂျစ်ဘုန်းတော်ကြီးတို့သည် နက္ခတ္တဗေဒကို ဆည်းပူး၍ သူတို့၏ အသိများကို သိုဝှက်ထားကြလေသည်။ ထိုဘုန်းတော်ကြီးများကား နှစ်ကို ရက်ပိုင်းဖြင့် ဖော်ပြနိုင်သူများပင် ဖြစ်ကြ၏။

ကျွန်ုပ်တို့၏ဘိုး၊ ဘေး၊ ဘီ၊ ဘင်တို့သည် ရာသီဥတုများကို ပိုင်းခြား၍ သိမြင်ခဲ့ကြလေသည်။ ရာသီဥတုကို ပိုင်းခြားနိုင်ရန်မှာ နေ၊ လ နှင့် ဂြိုဟ် နက္ခတ်တို့၏ အကြောင်းကို အတော်အတန်သိမှ ဖြစ်မည်။ သို့အတွက် သူတို့သည် နေ၊ လ၊ ဂြိုဟ်တို့၏အကြောင်းကို လေ့လာပြီးမှ ရာသီဥတုများကို ပိုင်းခြား ကြည့်ကြလေသည်။ ဖိနီရှန် လူမျိုးတို့သည် နက္ခတ္တဗေဒကို လိုက်စား၍ ပင်လယ်သို့ ခရီးထွက်နိုင်ကြ၏။ အမေရိကတိုက်နှင့် ဩစတြေးလီးယားကျွန်းတို့ကို တွေ့ရှိခဲ့ခြင်းမှာလည်း အမှန်စင်စစ် နက္ခတ္တဗေဒ၏ ကျေးဇူးကြောင့်ပင် ဖြစ်လေသည်။

ဘီစီ ၁၀၀ ကျော်လောက်ကတည်းကပင် ဂရိတို့သည် ကြယ်တို့၏ အချိန်မှန်မှန် ရွေ့ရှားပုံကိုငင်း၊ ဂြိုဟ်တို့၏ အမျိုးမျိုးပြောင်းလဲ ရွေ့ရှားပုံကိုငင်း သတိပြုမိကြ၍၊ ကမ္ဘာမြေကြီးကိုလည်း လုံးသည်ဟု ယူဆခဲ့ကြလေသည်။ သူတို့သည် လတ္တီတွဒ်နှင့် လောင်ဂျီတွဒ် မျဉ်းများကို ဆွဲနိုင်ခဲ့၍၊ နေကြတ်ခြင်း၊ လကြတ်ခြင်းတို့ ပေါ်ပေါက်မည့် အချိန်များကိုပင် တင်ကြိုပြောဆိုနိုင်ခဲ့ကြသည်။ တော်လမီသည် ဂရိတို့ အထဲတွင် နာမည်ကျော်နက္ခတ်ပညာရှင်ကြီး ဖြစ်၏။ သူ၏ အယူအဆတခုမှာ နေစကြဝဠာတွင် ကမ္ဘာမြေကြီးသည် ဗဟို၌ ရှိသည်ဆိုသော အချက် ဖြစ်သည်။ (တော်လမီ — ရှု။) ထိုအယူအဆအရ နေ၊ဂြိုဟ်နှင့်ကြယ်တို့သည် ကမ္ဘာမြေကြီးကို လှည့်ပတ်နေကြသည်ဟု ဆိုလေသည်။ ယခုအခါ ထိုအယူအဆသည် ပြောင်းခဲ့ပြီ။

လူတို့သည် နက္ခတ္တဗေဒကိုလိုက်စားယင်း၊ ဂြိုဟ်၊ နက္ခတ်စသည်တို့ကိုကြည့်နိုင်သော မှန်ပြောင်းများကို တီထွင်လာကြလေသည်။ ဘီစီ ၃၅၀ ပြည့်နှစ်၌ ကွယ်လွန်သူ ဂရိနက္ခတ်ပညာရှင်ကြီး ဒီမော့ကရိတပ်က နဂါးငွေ့လမ်းကြောင်းတွင် မရေမတွက်နိုင်အောင် များပြားသော ကြယ်များ ပါရှိသည်ဟု ထုတ်ဖော် ပြောဆိုခဲ့ဘူးသည့်အတွက်၊ ထိုပညာရှင်ကြီးတွင် မှန်ပြောင်းကဲ့သို့သောကရိယာ တခုခု ရှိရမည်ဟု အချို့က ယူဆကြ၏။ သို့သော် အကယ်၍သာ ရှိရိုးမှန်ပါက လူသိရှင်ကြား မသိရဘဲနှင့် အစပျောက်သွားရန်လမ်းမရှိပေ။ ထို့နောက် အင်္ဂလိပ် လူမျိုး ရော်ဂျာဗေကင်ကလည်း နောင်သောအခါ ကရိယာ တမျိုးဖြင့် အဝေး၌ရှိသော ဝတ္ထုတို့ကို အနီး၌ ရှိသကဲ့သို့ ဖြစ်အောင် လုပ်နိုင်လိမ့်မည်။ နေ၊ လ၊ ဂြိုဟ်တို့၏ပုံတူရိပ်များကို အနီး၌ လာထင်အောင် လုပ်နိုင်လိမ့်မည်ဟူ၍ ခရစ် ၁၂၆၀ ပြည့်နှစ်လောက်တွင် ရေးသားခဲ့ခြင်းဖြင့် မှန်ပြောင်းနှင့် ပတ်သက်၍ နိမိတ်ဖတ်ခဲ့ဘူးပေသည်။ (ဗေကင်, ရော်ဂျာ — ရှု။)

မှန်ပြောင်းပေါ်ပြီဟုသတင်းပြေးနေချိန်တွင်၊မှန်ပြောင်းဖြစ်အောင် ကြံစည်သူများ အကယ်ပင် ရှိခဲ့၍၊ မှန်ပြောင်းကို မည်သူမည်ဝါ လုပ်နိုင်ပြီ ဟူသော သတင်းများလည်း ထွက်ပေါ်လာခဲ့၏။ သို့ရာတွင် မှန်ပြောင်း၏ အရေးပါ အရာရောက်ပုံကို မှန်းဆ သဘောပေါက်ရာမှအစ၊ မှန်ပြောင်းကို အကယ် ဖြစ်မြောက်အောင် စိတ်ရှည်လက်ရှည် ကြံဆောင် ကြိုးစားနိုင်ခဲ့သူမှာ ထိုစဉ်က ဣတာလျံ လူမျိုး သချာ ပါမောက္ခကြီးဖြစ်သူ ဂယ်လီလေအို ဂယ်လီလေအိ ပင် ဖြစ်လေသည်။ ဂယ်လီလေအို ပဌမဦးစွာ ပြုလုပ်သော မှန်ပြောင်းတွင် ထိပ်ဝ နှစ်ဖက်၌ မှန်ဘီလူးများ တပ်ဆင်ထား၍၊ ထိုမှန်ပြောင်းဖြင့် အရာဝတ္ထုတခုကို သုံးဆမျှ ကြီးလာအောင်သာ အကြီးချဲ့၍ မြင်နိုင်သည်။သို့ရာတွင် နောင်သော် အရာဝတ္ထု တခုကို အဆပေါင်း ၃၀ မျှ ကြီးအောင် ချဲ့နိုင်သော မှန်ပြောင်းကို ကြံစည်ပြုလုပ်နိုင်လာလေသည်။ (ဂယ်လီလေအို။ အဝေးကြည့် မှန်ပြောင်း — ရှု။)

နေစကြဝဠာသည် ကမ္ဘာမြေကြီးကို ဗဟိုထားသည် ဟူသော အယူအဆကို လူတို့ ယုံကြည်နေကြစဉ်က၊ ထိုယူဆချက်မှာ လွဲမှားနေသည့်အတိုင်း၊ နက္ခတ္တဗေဒ အစစ်အမှန်သည် မပေါ်ပေါက်နိုင်ခဲ့ပေ။ ပိုး လူမျိုး ကောဲပါးနီကပ်ကမူ ဤသို့ မယူဆဘဲ၊ နေသည်သာ နေစကြဝဠာ၏ ဗဟို

ချက် ဖြစ်သည်ဟု ယူဆရာ၊ သူ၏ အယူအဆကို လူတို့ လက်ခံလာသည့် အချိန်က အစပြု၍ နက္ခတ္တဗေဒ အစစ်အမှန်သည် တဖြည်းဖြည်း ထွန်းကားလာခဲ့ပေသည်။ (ကောပါးနီကပ်, အင် — ရှု။) နက္ခတ္တဗေဒ ခေတ်မှီတိုးတက်လာရခြင်းမှာ အမှန်စင်စစ် ကောပါးနီကပ်၏ မှန်ကန်သောအယူအဆ တခုတည်းကြောင့်သာ မဟုတ်ပေ။ တနေ့တခြား ကောင်းမွန်လာသော မှန်ပြောင်းများနှင့် ဆာအိုက်ဇပ်နျူတန် တွေ့ရှိသော ကမ္ဘာ့ ဆွဲအားနှင့် ပတ်သက်သည့် ဗဟုသုတများကြောင့်လည်း ဖြစ်ပေသည်။ (နျူတန်,ဆာအိုက်ဇပ်။ကမ္ဘာ့ဆွဲအား — ရှု။) ယခုခေတ် နက္ခတ္တဗေဒ၏ ကျေးဇူးကြောင့်လွှမ်းလျက်ရှိသော ရှေးခေတ် အယူအဆများကို ကျွန်ုပ်တို့ သိမြင်လာရပြီ။ ကမ္ဘာမြေကြီးသည် နေစကြဝဠာတွင် အပါအဝင် ဖြစ်သော ဂြိုဟ်တလုံးမျှသာ ဖြစ်ကြောင်းကိုလည်း သဘောပေါက် နားလည်လာကြရပေပြီ။ နေစကြဝဠာတွင် နေကို ဗဟိုပြု၍ လှည့်ပတ်သွားနေသော ဂြိုဟ်များမှာ ယနေ့အထိသိရသလောက် ကျွန်ုပ်တို့ ကမ္ဘာမြေကြီးပါ ဂြိုဟ်ပေါင်း ၉ လုံးရှိ၏။ နေနှင့် အနီးဆုံးမှ အစဉ်အလိုက် ရေတွက်သော် ယင်းတို့မှာ မာကျူရီ (ဗုဒ္ဓဟူးဂြိုဟ်)၊ ဗီးနပ် (သောကြာဂြိုဟ်)၊ ကမ္ဘာ၊ မား (အင်္ဂါဂြိုဟ်)၊ ဂျူပီတာ (ကြာသပတေးဂြိုဟ်)၊ ဆက်တန် (စနေဂြိုဟ်)၊ ယူရေးနပ်၊ နက်ပကျွန်း၊ ပလူတိုတို့ဖြစ်ကြ၏။ နေမှ ထိုဂြိုဟ်တို့၏ အကွာအဝေးမှာ မာကျူရီအတွက် မိုင်ပေါင်း ၃၆ သန်းမှပလူတိုအတွက်မိုင်သန်းပေါင်း ၃၆၇၀ အထိ ရှိလေသည်။

ညဥ့်အခါကောင်းကင်သို့မော့ကြည့်စဥ် မြင်ရသောကြယ်များသည် ငြိမ်သက်စွာ တည်နေကြသည်ဟု ကျွန်ုပ်တို့ ထင်ကောင်း ထင်မိကြပေမည်။ ထိုသို့ ထင်မိခြင်းမှာ ကြယ်တို့သည် တနာရီလျှင် ပျမ်းမျှ မိုင်ပေါင်း ၇၂၀၀၀ အမြန်နှုန်းနှင့် ရွေ့ရှားနေသည်ကို ကျွန်ုပ်တို့ မျက်စိနှင့် မတွေ့မြင်ရသောကြောင့် ဖြစ်သည်။ ကြယ်တို့သည် ကျွန်ုပ်တို့ ကမ္ဘာမြေကြီးနှင့် အလွန် ဝေးကွာသောကြောင့် ထိုမျှ လျင်မြန်သော အသွားနှုန်းနှင့် ပြေးနေသော ကြယ်များကို ငြိမ်သက်နေသည်ဟု ထင်မှတ်ရခြင်း ဖြစ်သည်။ ကြယ်သည် အမြင်အားဖြင့် သေးငယ်သော်လည်း၊ အမှန်အားဖြင့် အဝေးရှိ နေတစင်းပင် ဖြစ်သည်။ အာကာသလောက၌ ရှိသမျှ ကြယ်များအနက် ကြယ်တလုံးမှာ တနာရီတွင် မိုင် ၄၃၀၀၀ နှုန်းဖြင့်၊အခြား ကြယ်များနှင့် စာလျှင် နှေးကွေးစွာ ရွေ့လျက် ရှိသည်။ ထိုကြယ်နှင့် မိုင်ပေါင်း ၉၃ သန်းဝေးသည့် နေရာ၌ ထိုကြယ်ထက် အဆပေါင်း သိန်းသန်းမက သေးငယ်၍၊ ကိုယ်ပိုင် အလင်းရောင် မရှိသော ဂြိုဟ်ကလေး တလုံးသည် ထိုကြယ်မှ အလင်းရောင်ကိုမှီခို၍နေရပေသည်။ အဆိုပါ ကြယ်မှာ အခြားမဟုတ်၊ ကျွန်ုပ်တို့၏ နေပင် ဖြစ်၍၊ ဂြိုဟ်ကလေးမှာ ကျွန်ုပ်တို့၏ ကမ္ဘာမြေကြီးပင် ဖြစ်လေသည်။ ကိုယ်ပိုင် အလင်းရောင်မှာ ကြယ်များတွင်သာ ရှိ၍၊ ကျွန်ုပ်တို့ ကမ္ဘာမြေကြီးကဲ့သို့သော ဂြိုဟ်များနှင့် လကဲ့သို့သော အရံဂြိုဟ်များတွင် မရှိချေ။

လူတို့ မှန်းဆနိုင်သည်ထက် ကျယ်ပြန့်လှသော အာကာသ လောကကြီးကို ဆင်ခြင်ကြည့်လျှင်၊ သူ့ပြည် ငါ့ပြည် စသည်ဖြင့် လုယက် တိုက်ခိုက်၍ လူတို့ သေပျောက်နေကြရသော ဤကမ္ဘာမြေကြီးသည် ပင်လယ်ကမ်းခြေရှိ သဲတပွင့်စာလောက်မျှပင် မရှိကြောင်းကို တွေ့မိပေမည်။ ဤကမ္ဘာမြေကြီး၌သုံးနေကျအတိုင်းအတာတို့ဖြင့် အာကာသလောကတွင်းရှိ အကွာအဝေးများကို မတိုင်းတာနိုင်ပေ။ ကမ္ဘာမြေကြီးပေါ်တွင် မိုင် ၁၀၀၀ မှာ အလွန် ရှည်လျားနေပြီ ဖြစ်သော်လည်း၊ အာကာသ လောကတွင်မူ မိုင် ၁၀၀၀ မှာ အလွန်ပင် တိုတောင်းလှသေး၏။ သို့အတွက် ကျွန်ုပ်တို့မှ ကြယ်တို့၏ အကွာအဝေးကို တိုင်းတာလိုသော် တနှစ်အတွင်း ကြယ်၏ အလင်းရွေ့ရှားသော ခရီးကို ဧကမူအဖြစ် ထား၍ တိုင်းတာရ၏။ အလင်းရောင်ခြည်သည် တနှစ်အတွင်း မိုင်ပေါင်း ၅,၈၄၀,၀၀၀,၀၀၀,၀၀၀ (ကုဋေ ငါးသိန်း ရှစ်သောင်း လေးထောင်) ပြေး၍၊ ထိုခရီးကို "အလင်းနှစ်" ဟုခေါ်ကာ ထိုအတိုင်းအတာဖြင့် ကြယ်တို့၏ အကွာအဝေးကို အလင်း နှစ်ပေါင်း မည်မျှရှိသည်ဟု တိုင်းတာ ပြောဆိုရလေသည်။ (ကြယ် — ရှု။) ကျွန်ုပ်တို့ သုံးသော အဝေးကြည့် မှန်ပြောင်းဖြင့် ကြည့်လျှင် နဂါးငွေ့လမ်းကြောင်း အနောက်ဖက်ရှိ ကြယ်များနှင့် ထိုကြယ်များ အနောက်ဖက်ရှိ ကြယ်စုများကိုပါ မြင်နိုင်သည်။ ထိုကြယ်တို့၏ အလင်းရောင်သည် ကမ္ဘာမြေကြီးသို့ ရောက်အောင် အနှစ် သန်းပေါင်း များစွာ လာရသည်။ သို့အတွက် ထိုကြယ်တို့၏ အကွာအဝေးကို မိုင်နှင့် ဖော်ပြရန်မှာ မဖြစ်နိုင်သလောက် ရှိပေသည်။

အာကာသ လောကတွင် ဟာကျူလီ နက္ခတ်ခေါ် မြောက်ဖက် ကောင်းကင်၌ တည်ရှိသော ကြယ်စုသည် အခြားကြယ်စုတို့ထက် ကြီးမားသော ကြယ်စုတစု ဖြစ်၍၊ ထိုကြယ်စုမှ အလင်းရောင်သည် ကျွန်ုပ်တို့ထံသို့ နှစ်ပေါင်း ၃၆,၀၀၀ ကြာအောင် လာရသည်။ အဓိပ္ပါယ်မှာ ဟာကျူလီ နက္ခတ်စုကို ကျွန်ုပ်တို့ ယနေ့ ကြည့်၍မြင်ရသော အလင်းရောင်သည် ထိုကြယ်စုမှ လွန်ခဲ့သော နှစ်ပေါင်း ၃၆,၀၀၀ ကစ၍ ထွက်လာခဲ့သည်ဟု ဆိုလိုသည်။ ထိုကြယ်စု အစွန်းတဖက်ရှိ ကြယ်တလုံးမှ အလင်းရောင်သည် အခြား တဖက်စွန်းရှိ ကြယ်တလုံးသို့ ရောက်အောင် နှစ်ပေါင်း ၁၀၀ ခန့်သွားရရာ၊ အလင်းရောင်သည် တစက္ကန့်တွင် မိုင်ပေါင်း ၁၈၆,၀၀၀ မိုင် သွားနိုင်ပုံနှင့် စာလျှင် ထိုကြယ်စု မည်မျှကျယ်ပြန့် ကြီးမားသည်ကို ခန့်မှန်းနိုင်လောက်ပေသည်။



ညဥ့်ဖက်တွင် တခါတရံ မြေသို့ အရှိန်နှင့် ထိုးဆင်းလာသောကြယ်ပျံများကို မြင်ဘူးကြပေမည်။ ထိုကြယ်ပျံတို့သည် အမှန်စင်စစ် ကြယ်ပျံများမဟုတ်ကြ၊ ကြယ်မှပဲ့၍ကျသော အပိုင်းအစများ လေထုနှင့် ပွတ်တိုက်မိကာ အပူလွန်ကဲပြီး မီးလောင်ကျွမ်းသွားခြင်း ဖြစ်ကြောင်း နက္ခတ္တဗေဒအရ သိရှိကြရပေပြီ။

## အာကာသလောက၏ ကျယ်ပြန့် ကြီးမားပုံ

တစက္ကန့်လျှင် မိုင်ပေါင်း ၁၈၆,၀၀၀ နှုန်း (အလင်း၏ အသွားနှုန်း) နှင့် ပြေးသော လေယာဉ်ပျံဖြင့် ကျွန်ုပ်တို့သည် ကမ္ဘာမြေကြီးမှ ထွက်ခွါခဲ့သည်ဟုဆိုကြပါစို့။ ကျွန်ုပ်တို့နှင့် အဝေးဆုံးဖြစ်သော ပလူတိုဂြိုဟ်သို့ ရောက်ရန် ၆ နာရီမျှ ကြာပေမည်။ သို့ရာတွင် ကျွန်ုပ်တို့နှင့် အနီးဆုံးဖြစ်သော အယ်လဖာဆင်တော်ရိုင် ကြယ်သို့မူကား လေးနှစ်တိုင်တိုင်ကြာအောင်ပင် သွားရပေလိမ့်မည်။ ထိုမျှ ကြီးမားသော အကွာအဝေးတို့ကို ထောက်ချင့်၍ ကျွန်ုပ်တို့၏ နေစကြဝဠာသည် ကြယ်များရှိရာ အရပ်နှင့် အလွန့်အလွန် ဝေးကွာကြောင်းကို သဘောပေါက်နိုင်ပေသည်။

အာကာသလောကတွင်ရှိသော ကြယ်များကို ရေတွက်ရန်မှာ မဖြစ်နိုင်အောင် ခဲယဉ်း၏။ နက္ခတ်ဆရာကြီးများကမူ ကြယ်ပေါင်း သန်းပေါင်း သုံးသောင်းကျော်ရှိသည်ဟု ရေတွက် ခန့်မှန်းကြလေသည်။ ကျွန်ုပ်တို့ သာမန် မျက်စိနှင့် ကြည့်၍ တွေ့ရသော ကြယ်တလုံးသည် တခါတရံ နှစ်လုံးပူးကြယ် ဖြစ်နေတတ်ပြီးလျှင်၊ အဆိုပါ ကြယ်နှစ်လုံးသည် ဗဟို ဟန်ချက်တခုတည်းကို လှည့်ပတ်၍ နေတတ်ကြသည်ကို တွေ့ရလေသည်။

ကြယ်နှင့် နေစကြဝဠာ အကြောင်းတို့တွင် စိတ်ဝင်စားသူတိုင်း တိမ်တောင် တိမ်တိုက်ကြီးများသဖွယ် တည်နေသော နက်ဗျူလာများကို သိကြလေသည်။ နက်ဗျူလာတို့သည် တခုနှင့်တခုမတူဘဲ အရွယ်အားဖြင့်၎င်း၊ အသွင်အားဖြင့်၎င်း ခြားနားကြသည်။ များသောအားဖြင့် ဓာတ်ငွေ့လုံးကြီးများသာ ဖြစ်၍၊ ထို ဓာတ်ငွေ့များတွင် ဟိုက်ဒရိုဂျင်နှင့် ဟီလီယမ် ဓာတ်ငွေ့တို့ ပါရှိပြီးလျှင်၊ ထို နက်ဗျူလာတို့မှ ကြယ်များ ဖြစ်ပေါ်လာသည်ဟု နက္ခတ်ပညာရှင်ကြီးများက ယူဆ ယုံကြည်ကြလေသည်။ ကြယ်အများ ပါဝင်နေသော နက်ဗျူလာများလည်း ရှိလေသည်။ (နက်ဗျူလာ — ရှု။)

နေ၊ လ၊ ကြယ်၊ ဂြိုဟ်တို့အပြင် ကြယ်တံခွန်များလည်း ရှိသေးသည်။ (ကြယ်တံခွန်— ရှု။) ကြယ်တံခွန်ဆိုသည်မှာ

အမြီးတန်းပါသော ကြယ်မျိုး ဖြစ်၏။ အချို့ ကြယ်တံခွန်တို့သည် နေစကြဝဠာသို့ အချိန်မှန် ရောက် လာတတ်၍၊ အချို့မှာမူ တကြိမ်တခါလာရောက်ပြီးနောက်၊ နောက်ထပ်ပြန်မလာတော့ချေ။

ညဥ့်ဖက်တွင် တခါတရံ မြေသို့ အရှိန်နှင့် ထိုးဆင်းလာသော ကြယ်ပျံများကိုလည်းမြင်ဘူးကြပေလိမ့်မည်။ ကြယ်ပျံတို့သည် အမှန်စင်စစ် ကြယ်များမဟုတ်ကြ။ ကြယ်များမှ ပဲ့၍ကျသော အပိုင်းအစများသာလျှင်ဖြစ်၏။ ထိုအပိုင်းအစတို့သည် ကြယ်များမှ ကမ္ဘာမြေကြီးရှိရာသို့ ကမ္ဘာ့ ဆွဲအားကြောင့် အရှိန်ပြင်းစွာနှင့် ကျလာစဉ် လေထုနှင့် တွေ့ထိသောအခါ လေထုနှင့် ပွတ်တိုက်မှုကြောင့် အပူလွန်ကဲပြီးလျှင် မီးလောင်ကျွမ်းသွားခြင်းပင် ဖြစ်လေသည်။

နက္ခတ္တဗေဒသည် ယခုအခါ အလွန် ခေတ်စားသော ဘာသာတရပ် ဖြစ်လာပေပြီ။ ကျွန်ုပ်တို့ အသက်ထက်ဆုံး လိုက်စား၍ လမ်းဆုံးသို့ မရောက်နိုင်သော သိပ္ပံပညာတရပ်လည်းဖြစ်၏။ ခရစ် ၁၇၄၄ ခုနှစ်တွင် ပြင်သစ် သဘာဝတ္တ ပညာရှင်ကြီး ဩဂတ် (စ) ကွန့်က ကြယ်များနှင့် ပတ်သက်၍ လေ့လာဖို့ မလိုတော့ပြီဟု ပြောဆိုခဲ့ဘူးသည်။ သို့ရာတွင် နောက်များ မကြာမီပင် စပက်ထရိုစကုပ်ခေါ် ရောင်စဉ်ကြည့် ကရိယာ တမျိုးကို တီထွင်နိုင်လာ၍၊ ထိုမှန်ပြောင်းနှင့်ကြည့်သောအခါ လူတို့ သိမြင်နိုင်စွမ်း မရှိဟု ကွန့်ယူဆခဲ့သည့် အရာများကိုပင် တိုးတက်၍ သိမြင်လာလေသည်။ စပက်ထရိုစကုပ်မှာ တရိဂံပရစ်ဇမ်ပုံ ဖန်တုံး၏ သဘောကို မှီး၍ ပြုလုပ်ထားသော ရောင်စဉ်ကြည့် ကရိယာ ဖြစ်သည်။ ထိုရောင်စဉ်ကြည့် ကရိယာဖြင့်၊ နက္ခတ်ပညာရှင်တို့သည် နေနှင့် ကြယ်တို့တွင်ရှိသော အရာဝတ္ထုများကို သိလာကြသည်။ နေတွင် ဟိုက်ဒရိုဂျင်၊ အောက်ဆီဂျင်၊ ဟီလီယမ်၊ ကြေးနီ၊ သံ၊ ခဲ၊ သံဖြူ၊ နစ်ကယ်၊ကိုဗော့၊ ဆီလီကွန် စသော ကမ္ဘာ မြေကြီးပေါ်ရှိ ဒြပ်စင်ပေါင်း ၆၀ ခန့်ရှိ၍၊ ထိုဒြပ်စင် ၆၀ အပြင်၊ ကမ္ဘာမြေကြီးပေါ်တွင် မရှိသော အရာဝတ္ထုများပင် နေတွင် ရှိသေးသည်ကို တွေ့ရလေသည်။ ရောင်စဉ်ကြည့် ကရိယာဖြင့် ကြယ်တို့၏ တခုနှင့်တခု အကြောင်းပြုသော ရွေ့ရှားမှုများ၊ အထူးသဖြင့် ကမ္ဘာမြေကြီးဆီသို့ ရွေ့လာစဉ်နှင့် ကမ္ဘာမြေကြီးမှ ခွါသွားစဉ်၌ ဖြစ်သော ကြယ်တို့၏ တခုနှင့်တခု အကြောင်းပြု ရွေ့ရှားမှု များကိုလည်း ကြည့်ရှု စစ်ဆေးနိုင်လေသည်။ (စပက်ထရိုစကုပ် — ရှု။)

နေ၊လ၊ကြယ်၊ ဂြိုဟ်တို့၏ လှုပ်ရှားမှုများသည် ကျွန်ုပ်တို့ အပေါ်၌ တန်ခိုး သက်ရောက်နေကာ၊ ကျွန်ုပ်တို့၏ ကံကြမ္မာကို ပြုပြင်လျက် ရှိသည်ဟု ဗေဒင် ဆရာများက ယုံကြည်ကြ၏။ ထိုယုံကြည်ချက်အတိုင်း ဟုတ်ချင်မှ ဟုတ်ပေလိမ့်မည်။ သို့ရာတွင် နက္ခတ္တဗေဒသည် စိတ်ဝင်စားဖွယ်ကောင်းသော ပညာတရပ်ဖြစ်၍၊ ထိုပညာမှ ရရှိသော သိမှုများကို အရေးပါ အရာရောက်စွာ လက်တွေ့ အသုံးချနိုင်ပုံကိုမူ ယုံမှားစရာ မရှိပေ။ နက္ခတ္တဗေဒကို သိပ္ပံ ပညာရပ်တို့၏ မိခင်ဟုလည်း ခေါ်ဆိုကြရာ၊ ဤသို့ ခေါ်ဆိုခြင်းမှာ အခြားသော သိပ္ပံ ပညာရပ်တို့သည် ဤနက္ခတ္တဗေဒမှ ပေါက်ပွားလာခြင်းသာဖြစ်သည်ဟု ယူဆသောကြောင့်ဖြစ်လေသည်။

နက္ခတ္တဗေဒသည် တဖြည်းဖြည်း တိုးတက်လာသည်နှင့် အမျှ၊ မည်သည့် တွေ့မှုများကို ဖော်ထုတ်ဦးမည်ကို ကျွန်ုပ်တို့ မတွေးဆနိုင်အောင်ပင် ဖြစ်၏။ သို့သော် ဓာတ်ပုံပညာ၊ မိုးလေဝသပညာ စသော ပညာရပ်များက နက္ခတ္တဗေဒကို အလွန်အမင်း အကူအညီ ပေးနေကြသဖြင့်၊ နက္ခတ္တဗေဒသည် ရှေ့တွင် တိုးတက်သည်ထက် တိုးတက် လာဖို့သာ ရှိပေသည်။ (ဓာတ်ပုံပညာ။မိုးလေဝသပညာ — လည်းရှု။)

**နက္ခတ် ၂၇ လုံး။** ။မြန်မာ နက္ခတ် ကျမ်းများ အရ ကောင်းကင်တွင် နက္ခတ် ၂၇ လုံးရှိသည်။ မြတ်စွာဘုရား လက်ထက် မတိုင်မီက အဘိဇိ ဟူသော နက္ခတ်တလုံးပါ နက္ခတ် ၂၈ လုံး ရှိခဲ့၍၊ နောင်တွင် အဘိဇိနက္ခတ် ပျောက်ကွယ်သဖြင့်၊ နက္ခတ် ၂၇ လုံးသာ ကျန်သည်။

နက္ခတ် ၂၇ လုံးမှာ အဿဝဏီ၊ ဘရဏီ၊ ကြတ္တိကာ၊ ရောဟဏီ၊ မိဂသီ၊ အဒြ၊ ပုဏ္ဏဖုသျှ၊ ဖုသျှ၊ အသလိဿ၊ မာဃ၊ ပြုဗ္ဗာဘရဂုဏ္ဏီ၊ ဥတ္တရာဘရဂုဏ္ဏီ၊ ဟဿဒ၊ စိတြ၊ သွာတိ၊ ဝိသာခါ၊ အနုရာဓ၊ ဇေဋ္ဌ၊ မူလ၊ ပြုဗ္ဗာသဠ်၊ ဥတ္တရာသဠ်၊ သရဝဏ်၊ ဓနသိဋ္ဌ၊ သတ္တဘိသျှ၊ ပြုဗ္ဗာပုရပိုက်၊ ဥတ္တရာပုရပိုက်၊ ရေဝတီ ဟူ၍ ဖြစ်သည်။

ထိုနက္ခတ် ၂၇ လုံးနှင့် စပ်လျဉ်း၍၊ နက္ခတ်လုံးရေနှင့် ပုံပန်း သဏ္ဌာန်တို့မှာ တကျမ်းနှင့် တကျမ်း မတူညီသော်လည်း၊ အများ အသိအမှတ်ပြုသော လုံးရေနှင့် ပုံပန်းသဏ္ဌာန်တို့ကို အောက်တွင် ဖော်ပြထားသည်။

အဿဝဏီ နက္ခတ်မှာ မြင်းခေါင်းသဏ္ဌာန် ခြောက်လုံး ရှိ၍၊ တုရာသီစန်းယှဉ် နက္ခတ် ဖြစ်သည်။ အဿမည်သော နတ် အစိုးရသည်။

ဘရဏီနက္ခတ်မှာ ခုံလောက် သဏ္ဌာန် ၃ လုံး ရှိ၍၊ ဗီရဏီ နတ်သမီး၏ ဘုံဗိမာန် ဖြစ်သည် ဆိုသည်။ ထိုနက္ခတ်ကို ယမမင်း အစိုးရကြောင်းလည်း ဆိုသည်။

ကြတ္တိကာ နက္ခတ်မှာ ကြက်ယက်စု သဏ္ဌာန် ၇ လုံး ရှိသည်။ ဖျောက်ဆိပ်ကြယ်ဟုရင်း၊ သူခိုးနက္ခတ် ဟူ၍ရင်း ခေါ်သည်။ယင်းနက္ခတ်ကိုမီးနတ်မင်းအစိုးရကြောင်းဆို၏။

ဤ နက္ခတ် သုံးလုံးသည် ကျီးတာရာနှင့် ယှဉ်၍ သွား၏။

ရောဟဏီ နက္ခတ်မှာ ငါးကြင်းသဏ္ဌာန် ၁၀ လုံး ရှိသည်။ ထိုနက္ခတ်ကို ဗြဟ္မာနတ် အစိုးရကြောင်း ဆိုသည်။

မိဂသီ နက္ခတ်မှာ လိပ်ခေါင်းသဏ္ဍာန် ၃ လုံး ရှိသည်။ ထိုနက္ခတ်ကို သသီ အမည်ရှိသော လနတ်သား စောင့်ကြောင်း ဆိုသည်။

အဒြနက္ခတ်မှာ လိပ်လက်သဏ္ဍာန် ၁ လုံး ရှိသည်။ ထိုနက္ခတ်ကို ပရမိသွာနတ်မင်း အစိုးရကြောင်း ဆိုသည်။ အထက်ပါ နက္ခတ်သုံးလုံးကား ဟင်္သာ တာရာနှင့် ယှဉ်၍ သွား၏။

ပုဏ္ဏဖုသျှု နက္ခတ်မှာ အဖန်တလဲလဲ မိုးကို ရွာစေတတ်သောကြောင့် ထိုသို့ ခေါ်သည်။ လုံးရေ ၅ လုံးရှိ၍၊ ပုံသဏ္ဍာန်မှာ သင်္ဘောသဏ္ဍာန် ဖြစ်၏။ ထိုနက္ခတ်ကို အဒိတိ နတ်သမီး အစိုးရကြောင်း ဆိုသည်။

ဖုသျှနက္ခတ်မှာ ကျွေးမွေးခြင်း၊ ပွားများခြင်း အနက်ကို စွဲ၍၊ ဖုဿ၊ ဖုသျှဟု ခေါ်ခြင်း ဖြစ်သည်။ နက္ခတ်လုံးရေ ၁၀ လုံး ရှိ၍၊ ငှက်ချေးခံသဏ္ဍာန် ဖြစ်၏။ ထိုနက္ခတ်ကို ဇီဝ ဂြိုဟ် နတ်မင်း အစိုးရကြောင်း ဆိုသည်။

အသလိဿ နက္ခတ်မှာ ခက်ရင်း သဏ္ဍာန် ၄ လုံး ရှိ၏။ ထိုနက္ခတ်ကို ဖဏီမည်သော မြွေနတ်မင်း အစိုးရကြောင်း ဆိုသည်။

ဤနက္ခတ် သုံးလုံးကား ဗုဇ္ဇန်တာရာနှင့် ယှဉ်၍ သွား၏။

မာဃနက္ခတ်မှာ သံကောက်သဏ္ဍာန် ၄ လုံး ရှိသည်။ ထိုနက္ခတ်ကို ပီတရာနတ်မင်း အစိုးရကြောင်း ဆိုသည်။

ပြုဗ္ဗာဘရဂုဏ္ဏီ နက္ခတ်မှာ ဥတ္တရာဘရဂုဏ္ဏီ နက္ခတ်နှင့် ပေါင်း၍၊ ညောင်စောင်းသဏ္ဍာန် ၄ လုံး ရှိသည်။ ထိုနက္ခတ်ကို ယောနိနတ် အစိုးရကြောင်း ဆိုသည်။

ဥတ္တရာဘရဂုဏ္ဏီ နက္ခတ်မှာပြုဗ္ဗာဘရဂုဏ္ဏီနက္ခတ်နှင့်ပေါင်း၍၊ ညောင်စောင်း သဏ္ဍာန် ၄ လုံး ရှိကြောင်း ဆိုသည်။ ထိုနက္ခတ်ကို အယမနတ် အစိုးရကြောင်းလည်း ဆိုသည်။

ဤနက္ခတ် သုံးလုံးကား ချိန်တာရာနှင့် ယှဉ်၍သွား၏။

ဟဿဒ နက္ခတ်မှာ လက်ဝါးနှင့်တူ၍ ခေါ်ခြင်း ဖြစ်သည်။ လက်ငါးချောင်း သဏ္ဍာန် ၅ လုံး ရှိကြောင်း ဆိုသည်။ ထိုနက္ခတ်ကို နေနတ်မင်း အစိုးရကြောင်းလည်း ဆိုလေသည်။

စိတြနက္ခတ်မှာ ပုလဲသဏ္ဍာန် ၁ လုံး ရှိသည်။ ထိုနက္ခတ်ကို တမ္ဗနတ် အစိုးရသည်ဟု ဆိုသည်။

သွာတိ နက္ခတ်မှာ ကသစ်ပွင့် သဏ္ဍာန် ၂ လုံး ရှိသည်။ ထိုနက္ခတ်ကို ပဝနမည်သော လေနတ်မင်း အစိုးရသည်ဟု ဆိုသည်။

ယင်းနက္ခတ် သုံးလုံးကား ဆံကျင်တာရာနှင့် ယှဉ်၍ သွား၏။

ဝိသာခါ နက္ခတ်မှာ ပတ်ဆိုင်းဝိုင်းသဏ္ဍာန် ၁၄ လုံး ရှိသည်။ ထိုနက္ခတ်ကို သက္ကာနီမည်သော သိကြား မိဖုရား သုဇာတာ အစိုးရကြောင်း ဆိုသည်။

အနုရာဓ နက္ခတ်မှာ နဂါးလည်ဆစ်သဏ္ဍာန် ၁၅ လုံး ရှိသည်။ ထိုနက္ခတ်ကို မိတ္တမည်သော နတ် အစိုးရကြောင်း ဆိုသည်။

ဇေဋ္ဌနက္ခတ်မှာ နဂါးချက်မဟု ခေါ်၍၊ ၅ လုံး ရှိ၏။ ထိုနက္ခတ်ကို သိကြားမင်း အစိုးရကြောင်း ဆိုသည်။

ဤနက္ခတ်သုံးလုံးကား တံငါတာရာနှင့် ယှဉ်၍သွား၏။

မူလနက္ခတ်မှာ ၄ လုံး ရှိ၍၊ နဂါးအမြီးဟု ခေါ်သည်။ ထိုနက္ခတ်ကို နိရတိ ရက္ခိုသ် အစိုးရကြောင်း ဆိုသည်။

ပြုဗ္ဗာသဠ် နက္ခတ်မှာ ဥတ္တရာသဠ် နက္ခတ်နှင့် ပေါင်း၍၊ ဆင်မ လှမ်းဟန် ၄ လုံး ရှိကြောင်း ဆိုသည်။ ထိုနက္ခတ်ကို တောယရေနတ် အစိုးရကြောင်းလည်း ဆိုသည်။

ဥတ္တရာသဠ် နက္ခတ်မှာ ပြုဗ္ဗာသဠ် နက္ခတ်နှင့် ပေါင်း၍၊ ဆင်မလှမ်းဟန် ၄ လုံး ရှိကြောင်း ဆိုသည်။ ထိုနက္ခတ်ကို အဿိဒေဝနတ် အစိုးရကြောင်းလည်း ဆိုသည်။

ဤနက္ခတ်သုံးလုံးကား ဆင်တာရာနှင့် ယှဉ်၍သွား၏။

သရဝဏ် နက္ခတ်မှာ မြားသဏ္ဍာန် (ဝါ) မောင်းရင်ဆိုင်း ထမ်းသဏ္ဍာန် သုံးလုံးတန်းလျက် ရှိသည်။ ထိုနက္ခတ်ကို ဟရိမည်သော ပိဿနိုး နတ်မင်း အစိုးရကြောင်း ဆိုသည်။

ဓနသိဒ္ဓနက္ခတ်မှာ အင်ကြင်းသီး သဏ္ဍာန် ၄ လုံးရှိသည်။ ထိုနက္ခတ်ကို ဝသုနတ်မင်း အစိုးရကြောင်း ဆိုသည်။

သတ္တဘိသျှ နက္ခတ်မှာ ဆုံကြီးသဏ္ဍာန် ၆ လုံး ရှိသည်။ ထိုနက္ခတ်ကို ဝရုဏ နတ်မင်း အစိုးရကြောင်း ဆိုသည်။

ယင်းနက္ခတ် သုံးလုံးကား မြင်းတာရာနှင့် ယှဉ်၍သွားလေသည်။

ပြုဗ္ဗာပုရပိုက် နက္ခတ်မှာ နွားခြေ နွားလက်နှင့် တူ၍ ခေါ် ဆိုခြင်း ဖြစ်သည်။ဥတ္တရာ ပုရပိုက် နက္ခတ်နှင့် ပေါင်း၍၊ အင်းပျဉ်သဏ္ဍာန် ၄ လုံး ရှိသည်ဟု ဆိုသည်။ ထိုနက္ခတ်ကို အဇဒေဝ နတ်မင်း အစိုးရကြောင်းလည်း ဆိုသည်။

ဥတ္တရာပုရပိုက် နက္ခတ်မှာ ပြုဗ္ဗာ ပုရပိုက် နက္ခတ်နှင့် ပေါင်း၍၊ အင်းပျဉ်သဏ္ဍာန် ၄ လုံး ရှိကြောင်း ဆိုသည်။ ထိုနက္ခတ်ကို အဟိပြနနတ်မင်း သို့မဟုတ်၊ အဟိဗုဓနတ်မင်း အစိုးရကြောင်းလည်း ဆိုသည်။

ရေဝတီ နက္ခတ်မှာ မြှုံးသဏ္ဍာန် ၉ လုံး ရှိကြောင်း ဆိုသည်။ ထိုနက္ခတ်မှာ အဿဝဏီမှစ၍ ရေသော် ၂၇ လုံး မြောက် နောက်ဆုံး နက္ခတ် ဖြစ်သည်။ ထိုနက္ခတ်ကို ပုမာနတ် အစိုးရကြောင်း ဆိုသည်။ ဤနက္ခတ်သုံးလုံးကား ဗျိုင်းတာရာနှင့် ယှဉ်၍သွား၏။

နက္ခတ် ၂၇ လုံးတို့သည် ရာသီစက်လှည့်၍၊ အစဉ်အတိုင်း တရာသီမှ တရာသီသို့ ကူးဝင်ကြရာ၊ တရာသီလျှင် ၂ လုံး တပါဒ်အားဖြင့်၊ ၁၂ ရာသီတွင် နက္ခတ်စက်တပတ်လည်မိ၍၊ တနှစ်ဟု ခေါ်သည်။ ၁၂ ရာသီ စန်းယှဉ် နက္ခတ်များမှာ ရာသီအလိုက် ၁၂ လုံး ရှိသည်။

**နက္ခတ်မျှော်စင်။** ။နက္ခတ်မျှော်စင်ဆိုသည်မှာ နေ၊ လ၊ နက္ခတ်စသော ကောင်းကင် ဗိမာန်များကို မြေပြင်မှ မျှော်ကြည့်၍ လေ့လာရာ အဆောက်အအုံကို ဆိုလိုပေသည်။ ရှေးအခါကပင် လူတို့သည် ကောင်းကင်ဗိမာန်များကို လေ့လာခဲ့ကြသည်။ အဝေးကြည့် မှန်ပြောင်းများ မပေါ်မီ၊ ရှေးနှစ်ပေါင်း ၂၀၀၀ ကျော်လောက်က၊ အီဂျစ် ဘုန်းတော်ကြီးများသည် ကောင်းကင်၌ ကြယ်များ ထွက်လာပုံကို မိမိတို့၏ ကျောင်းဆောင်များပေါ်မှ နေ၍၊ ကြည့်ရှု လေ့လာခဲ့ကြသည်။ ခရစ်နှစ် ၇၂၀ ပြည့်တွင် ဗဂ္ဂဒက်မြို့မှ ကေးလစ် ဘုရင်သည် နက္ခတ်မျှော်စင် တခုကို ဆောက်လုပ်ခဲ့သည်။ ခရစ်နှစ် ၁၂၁၆ ခုလောက်တွင် တရုပ်နိုင်ငံ ပီကင်းမြို့၌လည်း ကူဗလိုင်ခန် ဘုရင်သည် နက္ခတ်မျှော်စင် တခုကို ဆောက်လုပ်ခဲ့သည်။ ထို့ပြင် ခရစ်နှစ် ၁၅၇၆ ခုလောက်တွင် တီကိုဗရာဟေး ဆိုသူ ဒိန်းလူမျိုး နက္ခတ္တဗေဒ ပညာရှင် တဦးသည်လည်း နက္ခတ် မျှော်စင်တခုကို ဆောက်လုပ်ခဲ့သေးသည်။ ထိုနက္ခတ် မျှော်စင်မှာ ယခုအခါ မရှိတော့ပြီ။ သို့သော် ထိုနက္ခတ်မျှော်စင်၏ ရုပ်ပုံများကို ကြည့်ခြင်းအားဖြင့် ထိုနက္ခတ်မျှော်စင်သည် အထူးပင် ခမ်းနား ကြီးကျယ်ခဲ့ကြောင်း ထင်ရှားပေသည်။ (ဗရာဟေး,တီ—ရှု။)

ယခုခေတ်တွင် ကမ္ဘာ အနှံ့ အပြား၌ နက္ခတ် မျှော်စင်အများအပြားကို တွေ့မြင်နိုင်ကြပေပြီ။ နက္ခတ်မျှော်စင်တို့၏ ထိပ်တွင် အမိုးခုံးကြီးများ ပါရှိရာ၊ ယင်းတို့ကို မြင်ရ၍ဖြင့် နက္ခတ် မျှော်စင်မှန်း အလွယ်တကူ သိရှိနိုင်ကြသည်။ ထိုအမိုးခုံးကြီးသည် လည်နိုင်၍၊ ယင်းအောက်တွင် အဝေးကြည့် မှန်ပြောင်း တပ်ဆင်ထားသည်။ ထိုအမိုးခုံးကြီး၏ အနီးအနားတွင် သီးသန့် အဆောက်အအုံကလေးများ ရှိသည်။ နေကို ကြည့်ရှုရန်အတွက် သံမဏိဖြင့် ဆောက်လုပ်သော မျှော်စင်လည်း ရှိသည်။ ထို့ပြင် ရူပဗေဒ ဓာတ်ခွဲခန်းများ၊ ဓာတ်ပုံကူး မှောင်ခန်းများ၊ မှန်ဘီလူးစသော တန်ဆာပလာများ ထားရာ အခန်းများ ပါရှိသော ဗဟိုရုံး အဆောက်အအုံကြီး တခုလည်း ရှိသည်။

လွန်ခဲ့သော နှစ်ပေါင်း ၅၀ ခန့်ကစ၍၊ နက္ခတ် မျှော်စင်များ၌ ဓာတ်ပုံ ရိုက်နည်းကို တိုးတက်၍ အသုံးပြုလာခဲ့ကြသည်။ ဓာတ်ပုံရိုက်နည်းကို အသုံး များ လာသောအခါ၊ နက္ခတ်မျှော်စင်များကို မြို့နှင့် ဝေးသော နေရာများတွင် ဆောက်လုပ်ကြရသည်။ အဘယ်ကြောင့် ဆိုသော် မြို့မှ မီးရောင်များသည် ဓာတ်ပုံရိုက်ရာ၌ အနှောင့်အရှက် ပြုတတ်သောကြောင့် ဖြစ်သည်။ အထူးအားဖြင့် နက္ခတ်မျှော်စင်များကို ခြောက်သွေ့သော ဒေသများရှိ မြင့်မားသော တောင်ပေါ်တွင် ဆောက်လုပ်တတ်ကြသည်။တောင်



အင်္ဂလန်ပြည် လန်ဒန်မြို့တော် ဂရင်းနစ်ရပ်ရှိ နက္ခတ္တဗေဒ ဇယားများ ပြုလုပ်သည့် ဂရင်းနစ် မျှော်စင်

နက္ခတ်မျှော်စင်

ပေါ်၌ လေထုသည် ပင်လယ်ပြင်နှင့် တပြေးညီညာရှိသော နေရာများမှာထက် ပို၍ တိမ်ကင်းစင်ပြီးလျှင် ကြည်လင်သောကြောင့် ဖြစ်သည်။ ယခုအခါ ကမ္ဘာပေါ်တွင် နက္ခတ်မျှော်စင်ပေါင်း ၃၀၀ ခန့် ရှိရာ၊ ယင်းတို့ကို ဥရောပတိုက်နှင့် အမေရိကတိုက်တို့တွင် အများဆုံး တွေ့ကြရသည်။ အမေရိကတိုက်နှင့် ဥရောပတိုက်တို့ရှိ နက္ခတ် မျှော်စင်ကြီးများမှ ခွဲ၍၊ အာဖရိကတိုက် တောင်ပိုင်းတွင် သီးသန့် နက္ခတ် မျှော်စင်များကို ဆောက်လုပ်ထားကြသည်။ ဤသို့ ဆောက်လုပ်ကြခြင်းမှာ အာဖရိကတိုက် တောင်ပိုင်းရှိ ကောင်းကင်မှာ ပို၍ စိတ်ဝင်စားစရာ ကောင်းပြီးလျှင်၊ ထိုနေရာ၌ မြောက်ဖက် လတ္တီတွဒ်များမှာ မမြင်နိုင်သော ကောင်းကင်မျိုးကို မြင်နိုင်သောကြောင့် ဖြစ်ပေသည်။

ယခုခေတ် နက္ခတ်မျှော်စင်များတွင် အသုံးပြုသော အဓိက ကရိယာမှာ အဝေးကြည့် မှန်ပြောင်းပင် ဖြစ်သည်။ အဝေးကြည့် မှန်ပြောင်းဖြင့် တောက်ပလျက် ရှိသော ကြယ်များ၏ တည်နေရာကို ရှာကြည့်နိုင်ကြသည်။ အချို့သော နက္ခတ်မျှော်စင်တို့တွင် အလွန်တရာ မှေးမှိန်သော ကြယ်များကို လေ့လာနိုင်သည့် အဝေးကြည့် မှန်ပြောင်းကောင်းများ ရှိသည်။ ထိုမျှော်စင်တို့ရှိ အဝေးကြည့်မှန်ပြောင်းများမှာ အထူးပင် ကြီးမားကြသည်။ (အဝေးကြည့် မှန်ပြောင်း — ရှု။)

အမေရိကန် ပြည်ထောင်စု နိုင်ငံ၊ ကာလီဖိုးနီးယားပြည်နယ်၊ ဝီလဆန်တောင်ထိပ်ပေါ်ရှိ နက္ခတ် မျှော်စင်ကို ၁၉၁၉ ခုနှစ်တွင် ဆောက်လုပ်သည်။ ထိုအချိန်အခါက ထိုနက္ခတ်မျှော်စင်ရှိ အဝေးကြည့် မှန်ပြောင်းသည် ကမ္ဘာပေါ်တွင် အကြီးဆုံး ဖြစ်သည်။ ထိုအဝေးကြည့် မှန်ပြောင်းတွင် တပ်ဆင်ထားသော ကြည့်မှန်ခွက်မှာ အချင်းလက်မ ၁၀၀ ရှိသည်။ ထိုအဝေးကြည့် မှန်ပြောင်းထက် ကြီးသော အဝေးကြည့် မှန်ပြောင်းကို ယခုအခါ ကာလီဖိုးနီးယားပြည်နယ် မောင့်ပလိုမာရှိ နက္ခတ်မျှော်စင်၌ တွေ့ရသည်။ ထိုအဝေးကြည့် မှန်ပြောင်း၌ တပ်ထားသော ကြည့်မှန်ခွက်၏ အချင်းမှာ လက်မ ၂၀၀ ရှိသည်။ မှန်ဘီလူးတပ်ထားသော အကြီးဆုံး အဝေးကြည့် မှန်ပြောင်းသည် ရှိကားဂိုး တက္ကသိုလ်ရှိ ယာကစ် မျှော်စင်မှ အဝေးကြည့် မှန်ပြောင်း ဖြစ်သည်။ ထိုမှန်ဘီလူး၏ အချင်းမှာ လက်မ ၄၀ ရှိသည်။

ကရိယာ တန်ဆာပလာ အပြည့်အစုံပါရှိသော နက္ခတ်မျှော်စင်တခု ဆောက်လုပ်ရန်မှာ ငွေကြေး အမြောက် အများ ကုန်ကျပေမည်။ များသောအားဖြင့် နက္ခတ်မျှော်စင်ကို အစိုးရတို့က ဆောက်လုပ် တတ်ကြသည်။ နက္ခတ်ပညာရှင်များသည် ညဥ့်လူများဖြစ်ကြ၍၊ အခြားသူများအိပ်ချိန်၌သာလျှင် အလုပ်လုပ်ကြသည်။ ထိုသူတို့သည် ညဥ့်အချိန်၌ အမိုးခုံးကို ဖွင့်ဟ၍၊ ကြည့်လိုသော ကြယ်များရှိရာသို့



ဂရင်းနစ် မျှော်စင်မှ တယ်လီစကုပ်ဖြင့် မှေးမှိန်သော ကြယ်များကို လေ့လာနိုင်သည်။

အဝေးကြည့်မှန်ပြောင်းကို ချိန်ယူကြသည်။ ထိုကြယ်များမှ လာသော အလင်းရောင်သည် အဝေးကြည့် မှန်ပြောင်းရှိ ကြည့်မှန် သို့မဟုတ် မှန်ဘီလူးပေါ်သို့ ကျရောက်သည်။ ကြယ်ရှုလိုသူသည် အနေမှန်ညှိထားသော ခုံပေါ်မှ အဝေးကြည့်မှန်ပြောင်းရှိ ဓာတ်ပုံရိုက်မှန်ပြားကိုဖြစ်စေ၊ ကြည့်မှန်ဘီလူးကို ဖြစ်စေ ကြည့်ရသည်။ အဝေးကြည့်မှန်ပြောင်းကို ဝှင်း၊ ထိုင်ခုံကိုရွှေ့ပေးရာ၌၊ လျှပ်စစ်မိုတာများကို အသုံးပြုသည်။ အရောင်မှိန်သော ကြယ်များကို ဓာတ်ပုံ ရိုက်ကူးရာ၌ နာရီပေါင်း များစွာ အလင်းရောင်ပေး၍ ရိုက်ကူးရသည်။ အလင်းရောင် ပေးနေချိန်၌ ကြယ်များ၏တည်နေရာများမှာ တဖြည်းဖြည်း ပြောင်းလဲ နေကြသဖြင့် ထိုကြယ်များနှင့်အတူ အလိုအလျောက် လိုက်ပြောင်းစေရန် အဝေးကြည့်မှန်ပြောင်းကို အထူး စီစဉ်ပေးရသည်။

ရှေးကျသည့်အချို့သောနက္ခတ်မျှော်စင်များသည် လက်တွေ့လုပ်ငန်းများ ဆောင်ရွက်ရန် အတွက် ဆောက်လုပ်ထားသော မျှော်စင်များ ဖြစ်ကြသည်။ ပုံပမာ၊ ဒုတိယ ချားဘုရင် ဆောက်လုပ်ခဲ့သော အင်္ဂလန်ပြည်ရှိ ဂရင်းနစ်

နက္ခတ်မျှော်စင်တွင်နက္ခတ္တဗေဒဇယားများကိုပြုလုပ်သည်။ ထိုနက္ခတ္တဗေဒ ဇယားတို့ဖြင့် ဗြိတိသျှ ရေကြောင်း ဌာနသည် ပင်လယ်တွင်း၌သင်္ဘောများမည်သည့်နေရာ၌ ရောက်ရှိနေသည်ကို အတိအကျ ပြောနိုင်သည်။ အထူးအားဖြင့် ယခုခေတ် နက္ခတ်မျှော်စင်များသည် သိပ္ပံပညာရှင်များအဖို့ ရုပ်နိယမများကို သုတေသန ပြုရာဌာနများပင် ဖြစ်သည်။ အချို့သော သိပ္ပံပညာရှင်များသည် ကြယ်များ၏ လေထုထဲတွင် အလွန်ပူပြင်းသော အပူချိန်မျိုး၌၊ အက်တမ်အမျိုးမျိုးတို့ မည်သို့ ပြုမူကြပုံကို လေ့လာကြသည်။ အချို့သော သိပ္ပံပညာရှင်များသည် ကြယ်တခုနှင့် တခု စပ်ကြားရှိ အာကာသမှာကဲ့သို့နေရာတခုတွင် သိပ်သည်းခြင်းအလွန်နည်းပါးသော အခါ အက်တမ်များ မည်ကဲ့သို့ ပြုမူကြပုံကို လေ့လာကြသည်။ အချို့သော သိပ္ပံပညာရှင်များသည် ကြယ်များမှ ရောင်ခြည်ဖြာထွက်အောင် မည်သည့်စွမ်းအင်က ပြုလုပ်သည်ကို လေ့လာကြသည်။

ယခုအခါ သာမန် မျက်စိနှင့် မမြင်နိုင်သော ကြယ်များကိုဓာတ်ပုံရိုက်ယူခြင်းဖြင့် မြင်နိုင်ကြပေပြီ။ ဓာတ်ပုံရိုက်ကူးထားသော ကြယ်များကို မှတ်တမ်း တင်ထားကြသည်။ ဓာတ်ပုံ ရိုက်ကူးခြင်းဖြင့် ကမ္ဘာမှ ကြယ်များ၏ အကွာအဝေးကိုလည်း တိုင်းတာ နိုင်ကြပေပြီ။ ပုံပမာ၊ ကြယ်တလုံးကို တချိန်၌ ဓာတ်ပုံရိုက်ကူးထား၏။နောက်လအနည်းငယ်ကြာသော အခါ ထိုကြယ်ကိုပင် တဖန်ဓာတ်ပုံရိုက်ယူပြန်သည်။ အခြား တနည်းမှာ ကြယ်တလုံးတည်းကို ကမ္ဘာ့မြေမျက်နှာပြင်ပေါ်ရှိ ၂ နေရာမှ တပြိုင်နက် ဓာတ်ပုံ ရိုက်ယူသော နည်းဖြစ်သည်။ဤနည်းတို့ဖြင့် ကြယ်များ၏ အကွာအဝေးကို တိုင်းတာ ယူနိုင်ကြသည်။

သိပ္ပံပညာရှင်တို့သည် စပက်ထရိုစကုပ်ခေါ် ကရိယာဖြင့်လည်း ကြယ်များမှ လာသော အလင်းရောင်ကို စူးစမ်းလေ့လာကြသည်။ ဤသို့လေ့လာရာ၌ ကြယ်တို့တွင် ဖွဲ့စည်းပါရှိသော ပစ္စည်းများကိုငှင်း၊ကြယ်တို့သည် ကမ္ဘာမှ ဖဲကြဉ်သွားကြသလော၊ သို့မဟုတ် ကမ္ဘာသို့ ချဉ်းကပ် လာကြသလောဟူသည်ကိုငှင်း၊ ကြယ်တို့၏အမြန်နှုန်းကိုငှင်း၊ အပူချိန်ကိုငှင်း သိရှိကြသည်။ (စပက်ထရိုစကုပ် — ရှု။)

ပြင်သစ် နိုင်ငံရှိ နက္ခတ်မျှော်စင်သည် အလင်းရောင်၏ အမြန်နှုန်းကို ပဌမဆုံးအကြိမ် တိုင်းတာနိုင်ခဲ့ခြင်းကြောင့် ကျော်စောထင်ရှားသည်။ ရုရှနိုင်ငံ လီနင်ဂရက်မြို့အနီး ပါလကိုဗိုရှိ နက္ခတ်မျှော်စင်သည်ငှင်း၊ ဂျာမနီနိုင်ငံရှိ ပို့စဒမ်နက္ခတ်မျှော်စင်နှင့် ဆွစ်ဇာလန်ရှိ ဗာဗယ်စဗတ် နက္ခတ်မျှော်စင် တို့သည်ငှင်း နာမည်ကျော်ကြား ကြပေသည်။ ထိုနက္ခတ်မျှော်စင်တို့ အပြင် အခြားကျော်ကြားသော နက္ခတ်မျှော်စင်အများအပြား ရှိသေးသည်။ (ကြယ်။ နက္ခတ္တ ဗေဒ။ နက္ခတ် — ရှု။)

**နက်ဇရက်မြို့။** ။တိုင်းပြည်ကိုကြီးစိုးရန်အတွက်၊ ယဟူဒီလူမျိုးနှင့် အာရပ် လူမျိုးတို့ လုယက် တိုက်ခိုက်ကြခြင်းကြောင့် အသက်ပေါင်းများစွာ ဆုံးကြရသဖြင့်ငှင်း၊ ခရစ်တော်မွေးဖွားရာ၊ ခရစ်ယန်အယူဝါဒ စတင် ထွန်းကားရာ အရပ်ဖြစ်၍ငှင်း ကမ္ဘာတွင် ထင်ရှားကျော်စောသည့် ပယ်လက်စတိုင်းပြည်တွင် တည်ရှိသော ဤနက်ဇရက်မြို့သည် တောတောင်မြေပြင်၊ ပန်းဥယျာဉ်အများဖြင့် ခမ်းနားသာယာသော မြို့တမြို့ ဖြစ်လေသည်။ ထိုမြို့သည် မြေထဲ ပင်လယ်နှင့် ဂယ်လီလီ အိုင်ကြီးတို့၏ အလယ်၊ တောင်ကုန်းအစွန်အဖျားတွင်တည်ရှိ၍၊ ခရစ်တော် ငယ်စဉ်က နေထိုင်ခဲ့ရာ ဒေသ ဖြစ်သည့်အလျောက် ကမ္ဘာအရပ်ရပ်မှ ခရစ်ယန်များ လာရောက်ကြည့်ရှု အလေးပြုရာ ဌာန ဖြစ်လေသည်။ ထိုမြို့၏ တောင်ဖက် ၆၅ မိုင်ကွာတွင် ဂျေရုဆလမ်မြို့ရှိလေသည်။ ရာဇဝင်ကြောင်းအားဖြင့်ကြည့်လျှင် ကရူးဆိတ်စစ်ပွဲများဖြစ်ပွားလျက်ရှိသည့် ခရစ် ၁၁ဝဝ ပြည့်နှစ်တွင် ထိုမြို့ကို ခရစ်ယန်များက သိမ်းပိုက်ခဲ့၍ ၁၁၈၇ ခုနှစ်တွင် တူရကီပြည်ရှင် ဘုရင် ဆဲလဒင်က တိုက်ခိုက် ရယူပြန်ရာ ၁၂၂၉ ခုနှစ်သို့ ရောက်သောအခါ ရောမသာသနာစောင့်ဧကရာဇ်ဒုတိယ ဖရက်ဒရစ်က ပြန်လည် သိမ်းယူပြန်လေသည်။

ထိုမြို့သည် ပဌမ ကမ္ဘာစစ်ကြီး အတွင်းက တူရကီ ဂျာမန် မဟာမိတ်တို့၏ စစ်ဌာနချုပ်စခန်းတခု ဖြစ်ခဲ့ဘူးသည်။ ၁၉၁၈ ခုနှစ်တွင် ဗြိတိသျှတပ်များက တိုက်ခိုက်သိမ်းပိုက်ခဲ့၏။ လူဦးရေ ၂ဝဝဝဝ ခန့် ရှိ၍၊ ယနေ့တိုင် ခရစ်ယန်တို့၏ အထွတ်အမြတ်ထားရာ မြို့ဖြစ်လေသည်။

**နက်ပကျွန်နီယမ်။** ။များစွာ မကြာသေးသော ကာလတွင် ဓာတုဗေဒ ပညာရှင်တို့သည် ဒြပ်စင်နှင့် စပ်လျဉ်း၍ ကမ္ဘာပေါ်ရှိ ပစ္စည်း အားလုံးတို့သည် ဒြပ်စင်များဖြင့် ဖွဲ့စည်း ထားသည် ဟူ၍ငှင်း၊ ထိုဖွဲ့စည်းထားသော ဒြပ်စင်များကို မင်ဒလေးယက်၏ အလှည့်မှန် ဇယား၌ပါဝင်သော အကွက် ၉၂ ကွက်တွင် နေရာတကျထည့်သွင်း နိုင်လိမ့်မည်ဟူ၍ငှင်း ယုံကြည်ခဲ့ကြသည်။ ထိုစဉ်က ဒြပ်စင်တို့၏ အိုင်ဆိုတုပ်များကို တွေ့ရှိလာကြပြီ ဖြစ်သော်လည်း၊ ထိုအိုင်ဆိုတုပ်များသည် မူလဒြပ်စင်၏ အက်တမ်အမှတ်နှင့် တူညီနေသည့်ပြင် ဓာတ်တို့၏ ဂုဏ်မှာလည်းအတူတူပင်ဖြစ်နေသောကြောင့် ဒြပ်စင်ဟူသည်မှာ ကမ္ဘာပေါ်တွင် စုစုပေါင်း ၉၂ ခုသာရှိသည်ဟုပင် ယူဆခဲ့ကြ၏။ (အိုင်ဆိုတုပ် — ရှု။)

သို့သော် နှောင်းကာလတို့၌ အတွေ့အကြုံ အသစ်တို့ကိုတွေ့ကြုံလာကြရသည်။ သိပ္ပံပညာရှင်တို့သည် ဒြပ်စင်များကို နျူထရွန်ဖြင့် ဖောက်ခွဲလာနိုင်ကြသည်။ ထိုအခါနျူးကလီးယပ် ခွဲနည်းဖြင့် ယူရေးနီးယမ်း ၂၃၅ ကို ကွဲထွက်စေနိုင်ကြောင်းကို တွေ့လာရသည့်ပြင်၊သာမန်ယူရေးနီးယမ်း(ဒြပ်

စင် ၉၂) နှင့် ယူရေးနီးယမ်း ၂၃၈ ကို နျူထရွန်သွင်းယူခြင်းဖြင့်၊ ယူရေးနီးယမ်း ၂၃၉ ကိုပေါ်ပေါက်လာအောင် ပြုနိုင်ကြောင်း တွေ့ရှိလာကြပြန်သည်။

ထိုယူရေးနီးယမ်း ၂၃၉ ၌ ရေဒီယမ် သတ္တိရှိသည်။ ထိုကြောင့်ယူရေးနီးယမ်း ၂၃၉ သည် မူလအတိုင်း မတည်မြဲဘဲ နက်ပကျွန်နီယမ်ဓာတ်သို့ ပြောင်းတတ်သည်ကိုင်း၊ နက်ပကျွန်နီယမ် ဘဝမှ တဖန် ပလူတိုနီယမ်ဘဝသို့ ပြောင်းတတ်သည်ကိုင်း တွေ့ရှိလာကြသည်။ ထိုသည်မှ စ၍ နက်ပကျွန်နီယမ်ကို ဒြပ်စင် ၉၃ ဟု အမှတ်သညာပြု၍ ပလူတိုနီယမ်ကိုမူ ဒြပ်စင် ၉၄ ဟုအမှတ်သညာပြုကြသည်။ဤဒြပ်စင်နှစ်ခုသည် မူလက မင်ဒလေးယက်၏ အလှည့်မှန်ဇယားတွင် မပါဝင်ခဲ့သော်လည်း၊ယခုအခါ ယင်းတို့ကို အဆိုပါ အမှတ်စဉ်အတိုင်း အလှည့်မှန် ဇယားတွင် သွတ်သွင်း ထားလျက်ရှိချေပြီ။ (ဒြပ်စင်သစ်များ — ရှု။)

**နက်ပကျွန်းဂြိုဟ်။** ။နက်ပကျွန်းဂြိုဟ်သည် နေစကြဝဠာ၌ ပါဝင်သော ဂြိုဟ်တလုံးဖြစ်၍၊နေနှင့် ဒုတိယ အဝေးဆုံး ဂြိုဟ်ဖြစ်၏။ နေမှ ထိုဂြိုဟ်၏ အကွာအဝေးသည် နေမှ ကမ္ဘာ၏ အကွာအဝေးထက် အဆပေါင်း သုံးဆယ်မျှ ရှိသည်။ ထိုဂြိုဟ်ကို သာမန်မျက်စိနှင့် ကြည့်၍ မမြင်နိုင်ချေ။ အလွန်အားကောင်းသောအဝေးကြည့်မှန်ပြောင်းဖြင့်ကြည့်သည့်တိုင်အောင် ထိုဂြိုဟ်၏မျက်နှာပြင် မည်သို့ဖြစ်နေသည်ကို မသိရပေ။ နေမှ ထိုဂြိုဟ်ရရှိသော အလင်းရောင်သည် နေမှ ကျွန်ုပ်တို့ ကမ္ဘာမြေရရှိသော အလင်းရောင်၏ ၁/၉၀၀ မျှသာလျှင်ရှိသည်။ထိုဂြိုဟ်၏အချင်းမှာမိုင်ပေါင်း ၃၁၀၀၀ ခန့်ရှိ၍ ကမ္ဘာထက် ၄ ဆနီးပါး ကြီးသည်။ ၁၆၅ နှစ်ကြာအောင် လှည့်ပြီးမှ နေကို တပတ်ပတ်မိ၏။ ထိုဂြိုဟ်၌ အရံဂြိုဟ်ဖြစ်သော လတစင်းရှိ၍၊ ထိုလရွေ့သွားပုံမှာ ကျွန်ုပ်တို့လရွေ့သွားပုံနှင့် ဆန့်ကျင်ဖက် ဖြစ်သည်။

နက်ပကျွန်းဂြိုဟ်ကို ၁၈၄၆ ခုနှစ်တွင် စတင်တွေ့ရှိသည်။ ထိုဂြိုဟ်တွေ့ရှိမည်ကို အင်္ဂလိပ်လူမျိုး ဂျေ၊ စီ၊ အက်ဒမ်နှင့် ပြင်သစ်လူမျိုး ယူ၊ ဂျေ၊ ဂျေ၊ လာဗဲရယေး ဆိုသူ နက္ခတ်ဆရာနှစ်ဦးက ယူရေးနပ်ဂြိုဟ် လမ်းလွဲသွားနေပုံကို စုံစမ်းရာမှ တင်ကြို၍ ပြောဟော နိုင်ခဲ့ကြလေသည်။

**နက်ဗျူလာ။** ။တိမ်စင်သော ညဥ့်တွင် ကောင်းကင် အနှံ့ အပြား၌ မှုန်မွားမွား အဖြူကွက်များစွာကို မြင်ကြ ရပေမည်။ ထိုအဖြူကွက်တို့သည် ဝင်းလဲ့လဲ့ရှိသော မြူများဆိုင်းနေသကဲ့သို့ ရှိကြသည်။ ထိုအဖြူကွက်တို့ကား အခြားမဟုတ်၊ နက်ဗျူလာများပင် ဖြစ်ကြသည်။ နက်ဗျူလာဟူသောစကားသည် လက်တင် စကားဖြစ်၍ တိမ်ငယ် သို့မဟုတ် မြူပါးဟူ၍၊အဓိပ္ပါယ်ပေါက်သည်။

နက်ဗျူလာတွင် မည်သည့် အရာများ ပါဝင်ဖွဲ့စည်းနေကြောင်းကို ယခုအိုင် တိကျစွာ မသိရသေးပေ။ နက်ဗျူလာတို့ကို နှစ်မျိုးခွဲခြားသတ်မှတ်ထားသည်။ ပဌမအမျိုးသည် နဂါးငွေ့လမ်းကြောင်းတွင် တည်ရှိသည့် နက်ဗျူလာများဖြစ်၍၊ ဒုတိယအမျိုးသည် နဂါးငွေ့လမ်းကြောင်းပြင်ပတွင်တည်ရှိသည့် နက်ဗျူလာများဖြစ်သည်။ပဌမအမျိုးဖြစ်သော နဂါးငွေ့လမ်းကြောင်းအတွင်းရှိ နက်ဗျူလာတို့ကို တဖန် အရောင်မဲ့နက်ဗျူလာနှင့် အရောင်တောက် နက်ဗျူလာဟူ၍၊ နှစ်စားခွဲခြား သတ်မှတ်ထားပြန်၏။

အရောင်တောက် နက်ဗျူလာတို့သည် နဂါးငွေ့လမ်းကြောင်းအတွင်း၌ တည်ရှိ၍၊ ဓာတ်ငွေ့ကဲ့သို့ ဒြပ်နှင့် မြူမှုန်တို့ဖြင့် ဖွဲ့စည်းသော တိမ်စိုင်တိမ်ခဲများဖြစ်သည်။ အရောင်တောက် နက်ဗျူလာတို့၏ ပုံသဏ္ဌာန်သည် တသမတ်တည်း မရှိဘဲ၊ ပြောင်းလဲ၍ နေတတ်သည့်အပြင်၊ ကိုယ်ပိုင်အလင်းရောင်လည်းမရှိကြပေ။ အနီးရှိကြယ်များမှ ရောင်ပြန်ဟပ်မှုကြောင့်သာ လင်းနိုင်ကြ၏။ အိုရီယန် နက္ခတ်ရှိ နက်ဗျူလာသည် သာမန် မျက်စိဖြင့် မြင်နိုင်သော နဂါးငွေ့လမ်းအတွင်းရှိ အရောင်တောက်နက်ဗျူလာဖြစ်သည်။အရောင်မဲ့ နက်ဗျူလာသည်လည်း အရောင်တောက် နက်ဗျူလာကဲ့သို့ပင် နဂါးငွေ့လမ်းကြောင်းအတွင်း၌ရှိ၍၊ မြူမှုန်များဖြင့် ဖွဲ့စည်းသည့် အလွန်ကြီးမား ကျယ်ပြန့်သော တိမ်စိုင်တိမ်ခဲများပင်ဖြစ်သည်။ ထိုနက်ဗျူလာတို့သည် နဂါးငွေ့လမ်းကြောင်းအတွင်းရှိ ကြယ်များကို ဖုံးကွယ်၍ ထားတတ်ကြသည်။

နဂါးငွေ့လမ်းကြောင်းပြင်ပရှိနက်ဗျူလာတို့တွင်၊နေစကြဝဠာမှာကဲ့သို့ပင် ကြယ်သန်းပေါင်း မြောက်မြားစွာ ပါဝင်လေသည်။ သို့ရာတွင် နဂါးငွေ့လမ်းကြောင်း အတွင်းရှိ နက်ဗျူလာတို့ထက် ကျွန်ုပ်တို့ ကမ္ဘာမှ ဝေးကွာကြသောကြောင့်၊ ထိုကြယ်တို့ကို ကျွန်ုပ်တို့ မမြင်ရခြင်းဖြစ်၏။ ထိုနက်ဗျူလာများကို မြူထု သို့မဟုတ် တိမ်စိုင်တခုခုဆိုင်း၍ နေသကဲ့သို့ တွေ့ရတတ်၏။ ထိုနက်ဗျူလာတို့၏ ပုံသဏ္ဌာန်မှာ နဂါးငွေ့လမ်းကြောင်းအတွင်းရှိ နက်ဗျူလာတို့၏ ပုံသဏ္ဌာန်ထက် မှန်ကန်စွာ ရှိတတ်သည်။ အင်ဒရိုမိဒါနက္ခတ်ရှိ နက်ဗျူလာသည် နဂါးငွေ့လမ်းကြောင်းပြင်ပရှိ သာမန်မျက်စိဖြင့် မြင်နိုင်သော နက်ဗျူလာ ဖြစ်သည်။

နက်ဗျူလာတို့သည် နဂါးငွေ့ လမ်းကြောင်း အနီးမှ အပ၊ အာကာသတွင် နေရာအနှံ့အပြား၌ တည်ရှိကြသည်။ ထိုနက်ဗျူလာတို့သည် အခြား အခြားသော စကြဝဠာများတွင် လှည့်ပတ် နေကြသောကြောင့် ‘စကြဝဠာကျွန်းများ’ ဟုပင်အချို့ကမှည့်ခေါ်ကြလေသည်။ နက်ဗျူလာတခုသည် မည်မျှ ကြီးမားသနည်း ဟူမူ၊ တစက္ကန့်လျှင် မိုင်ပေါင်း ၁၈၆,၀၀၀ နှုန်းဖြင့် သွားသောအလင်းသည် တဖက်အစွန်းမှ



နဂါးငွေ့လမ်းကြောင်း ပြင်ပရှိ သာမန် မျက်စိဖြင့် မြင်သာသည့် အင်ဒရိုမီဒါနက္ခတ်ရှိ နက်ဗျူလာ

အခြား တဖက်အစွန်းသို့ရောက်ရှိရန်၊ နှစ်ပေါင်း ၃၀,၀၀၀ မျှ ကြာသည်ဟု ဆိုသည်။ နက်ဗျူလာများနှင့် စပ်လျဉ်း၍ ဆန်းကျယ်စွာသိရှိရသည်မှာ ထိုနက်ဗျူလာတို့သည် ကျွန်ုပ်တို့၏ ကမ္ဘာကြီးမှဖဲကာ ဝေးနိုင်သမျှ ဝေးရာသို့ ရွေ့ရှားနေကြဟန် ရှိခြင်းဖြစ်သည်။

နက်ဗျူလာ သန်းပေါင်းများစွာ ရှိသည့်အနက်၊ ဒိန်းလူမျိုး နက္ခတ်ပညာရှင် ယုဟန်လုသဗီဒရိုင်ယာ (ဂျွန်လူဝီဒရိုင်ယာ) ဆိုသူ မှတ်တမ်းတင်ခဲ့သော နက်ဗျူလာဦးရေမှာ ၁၃,၀၀၀ ခန့် ရှိလေသည်။

**နိုက်တင်းဂေး ဖလောရင့် (ခရစ် ၁၈၂၀–၁၉၁၀)။** ။ ဖလောရင့်နိုက်တင်းဂေးသည် ခေတ်မှီသောသူနာပြုနည်းတို့ကို စတင်တီထွင် အသုံးပြု၍၊ ကရိုင်းမီးယား စစ်အတွင်း၌ စစ်မြေပြင်သူနာပြုလုပ်ငန်းတွင် အာဇာနည် မိန်းမထူးမိန်းမမြတ်ဖြစ်သည်ဟု အသိအမှတ် ပြုခြင်းခံရသော အင်္ဂလိပ်အမျိုးသမီး သူနာပြုဆရာမ ဖြစ်လေသည်။

နိုက်တင်းဂေးသည် ၁၈၂၀ ပြည့်နှစ် မေလ ၁၂ ရက်နေ့တွင် ဣတလီပြည် ဖလောရင့်မြို့၌ မွေးဖွားခဲ့၏။ သို့ရာတွင် မိဖများလုပ်ငန်းရှိရာ အင်္ဂလန်ပြည်၊ ဒါဗီရှိုင်ယာနယ်၌ကြီးပြင်းလာခဲ့လေသည်။ မိဖများသည် မြေပိုင်ရှင် သဌေးကြီးများဖြစ်သည့်ပြင်၊ မင်းစိုးရာဇာ အစရှိသော အထက်တန်းစားလောကတွင် ဝင်ဆံ့၍ ထင်ရှားသူများဖြစ်၏။

သို့ရာတွင် ဖလောရင့် နိုက်တင်းဂေးသည် လူကုံထံတို့၏ စည်းစိမ်၌ သာယာသောစိတ် မရှိဘဲ၊ လွန်စွာ မွန်မြတ်လှသော ဇီဝိတဒါန လုပ်ငန်းဖြစ်သည့် သူနာပြုလုပ်ငန်းတွင်သာ စူးစူးစိုက်စိုက် ဝါသနာပါလေသည်။ အကလေးဘဝကပင် ခြေကျိုးသွားသော ခွေးကလေးတကောင်ကို အရိုးဆက်ပေးခြင်း၊ ကျပ်စည်းပေးခြင်း ပြုလုပ်ခဲ့၏။ ရွာတွင်းရှိ ဆင်းရဲနွမ်းပါးသော သူအို သူနာ များအား အိမ်တိုင် ရာရောက်ဆေးပေးမီးယူ ပြုလုပ်ပေးခဲ့၏။ လူမမာများနှင့် သင့်တော်မည့်အစားအစာကိုလည်း ရံဖန်ရံခါ သွားရောက် ပေးကမ်းတတ်သေးသည်။ ထိုအပြုအမူများအတွက် ဆွေမျိုးမိတ်သင်္ဂဟအပေါင်းအသင်းတို့က ကဲ့ရဲ့ကြသည်။ သို့သော်ဖလောရင့်နိုက်တင်းဂေးသည် မိမိဝါသနာ ပါရင်းဖြစ်သော သူနာပြုလုပ်ငန်းကိုသာ လွတ်လပ်စွာ လုပ်ကိုင်လိုသည့်ဆန္ဒ ပြင်းထန်လာလေသည်။ ထိုအခါ သမီးဖြစ်သူ၏ စိတ်အလိုကိုသိ

ကြသော မိဖများသည် ထိုသူနာပြုလုပ်ငန်းကို မလုပ်စေလို၍၊ ဖလော်ရင့်နိုက်တင်းဂေးအား စိတ်ပြောင်းမှ ပြောင်းစေတော့ဟူသော သဘောဖြင့် ၁၈၄၉ ခုနှစ်ဆောင်းရာသီတွင် အီဂျစ်ပြည်သို့ သူ၏ မိတ်ဆွေများနှင့်အတူ အလည်အပတ်ထည့်လိုက်လေသည်။ အီဂျစ်ပြည်သို့ အသွားတွင် ပြင်သစ်နိုင်ငံပါရစ်မြို့တော်ကိုဖြတ်၍ သွားကြရာ၊ လမ်းခရီးတွင် စိန့်ဗင်းဆင့် သီလရှင် နှစ်ပါးနှင့် တွေ့ဆုံသဖြင့် ထိုသီလရှင်နှစ်ပါးက ဖလော်ရင့်နိုက်တင်းဂေးတို့လူစုအား အီဂျစ်ပြည်ရှိ သူတို့၏ သီလရှင်များ အဖွဲ့နှင့် မိတ်ဆက်စာများကို ပေးအပ်လိုက်ကြလေသည်။ ဖလော်ရင့် နိုက်တင်းဂေးသည် အယ်လက်ဇန္ဒြီးယားမြို့တော်သို့ ရောက်သောအခါ၊ သီလရှင်ကျောင်းများနှင့် ဆေးရုံများသို့ သွားရောက်ကြည့်ရှုလေသည်။ထိုသို့ ကြည့်ရှုခဲ့ရာမှ ဆေးရုံသူနာပြုလုပ်ငန်းနှင့်ဆေးရုံ စောင့်ရှောက်ရေးလုပ်ငန်းများ၏ အရေးပါ အရာရောက်ပုံကို ပို၍ပင် သိရှိခဲ့ရလေသည်။ ထိုမှတဆင့် ဂျာမနီနိုင်ငံရှိ သူနာပြုအတတ်သင်ကျောင်းသို့သွားရောက်ကြည့်ရှုပြန်၏။ နောက်နှစ်တွင် တဖန် ထိုကျောင်းသို့ပင် ပြန်၍သွားပြီးလျှင် သူနာပြုအတတ်ကို လေးလမျှ စံနစ်တကျသင်ယူပြီးနောက် အင်္ဂလန်ပြည်သို့ ပြန်ခဲ့လေသည်။

မူလကပင် သူနာပြုလုပ်ငန်းကို ဝါသနာပါရင်းစွဲရှိသည်တွင် အခြားနိုင်ငံများ၌ သူနာပြုလုပ်ငန်း အဝဝတို့ကို မြင်တွေ့ဆည်းပူးလာခဲ့ရသော ဖလော်ရင့် နိုက်တင်းဂေးသည် အင်္ဂလန်ပြည်သို့ ပြန်လည်ရောက်ရှိလာသောအခါ၊ သူနာပြုလုပ်ငန်းကို ရှေးကထက်တိုး၍ စိတ်အားထက်သန်စွာ လေ့လာသင်ကြားလေတော့သည်။ လန်ဒန်နှင့် အက်ဒင်ဗာရာမြို့ဆေးရုံများတွင် သူနာပြုအတတ်ကို ထပ်မံလေ့လာသင်ကြားပြီးနောက် ၁၈၅၃ ခုနှစ်တွင် ပြင်သစ်နိုင်ငံ ပါရစ်မြို့တော်သို့သွားရောက်ပြီးလျှင် သူနာပြုအဖွဲ့များ ဖွဲ့စည်းတည်ထောင်ရေး အတတ်များကို စုံစုံလင်လင် သင်ကြားပြန်သည်။ ထိုမှတဖန် အင်္ဂလန်ပြည်သို့ ပြန်လည် ဆိုက်ရောက်သောအခါ လန်ဒန်မြို့ ချန်ဒိုလမ်းရှိ မိန်းမဆေးရုံတွင် ဆေးရုံအုပ်အလုပ်ကို လုပ်ကိုင် ခဲ့လေသည်။ မျှားမကြာမီပင် ဖလော်ရင့်နိုက်တင်းဂေးသည် ထိုဆေးရုံကို ချန်ဒိုလမ်းမှ ဟာလေလမ်းသို့ ပြောင်းရွှေ့၍ ဆက်လက် အလုပ်လုပ်ပြန်၏။ ထိုအချိန်၌ ဖလော်ရင့်နိုက်တင်းဂေးသည် အသက် ၃၃ နှစ်အရွယ်ရှိပြီဖြစ်လေသည်။ ဟာလေလမ်း မိန်းမဆေးရုံတွင် လုပ်ကိုင်၍ တနှစ်အကြာတွင် ဥရောပတိုက်၌ ကရိုင်းမီးယန်းစစ်ပွဲ ဖြစ်ပွားလေသည်။ အဆိုပါ စစ်ပွဲတွင် ရုရှကို တိုက်ခိုက်လျက်ရှိသော တူရကီတို့အား ကူညီရန် အင်္ဂလန်ပြည်မှ စစ်တပ်များကို စေလွှတ်လျက်ရှိ၏။ စစ်မြေပြင်၌ တိုက်ပွဲများ အပြင်းအထန် ဖြစ်ပွားလျက်ရှိရာ အင်္ဂလိပ်စစ်သားများသည် အတုံးအရုံး သေဆုံးကြရလေသည်။ဒဏ်ရာရရှိသော စစ်သားများသည်လည်း ဆေးဝါး အကူအညီလုံလောက်အောင် မရကြသောကြောင့် မသေသင့်ဘဲ သေဆုံးကြရ၏။ အချို့မှာ သာမန် အဖျားရောဂါနှင့်ပင် ပြုစုစောင့်ရှောက်မည့်သူမရှိ၍ သေဆုံးကြရ၏။ စကူးတာရီမြို့ရှိ ဗြိတိသျှ စစ်ဆေးရုံ၏ အခြေအနေမှာလည်း ပစ်စလက်ခတ် ဖြစ်နေလေသည်။ မျှားမကြာမီ ထိုသတင်းဆိုးများသည် အင်္ဂလန်ပြည်သို့ တမုဟုတ်ခြင်း ပျံ့နှံ့လာလေသည်။ ထိုအခိုက်တွင် မိတ်ဆွေရင်းချာ ဖြစ်သော စစ်ရေးစစ်ရာ အတွင်းဝန်တဦးသည် ဖလော်ရင့်နိုက်တင်းဂေးထံသို့ စကူးတာရီဆေးရုံအုပ် ရာထူးဖြင့် ကရိုင်းမီးယားသို့ သွားရောက်ပါမည့် အကြောင်း၊ တိုက်တွန်းစာတစောင် ပေးပို့လိုက်လေသည်။ ဖလော်ရင့်နိုက်တင်းဂေးလည်း မိမိကိုယ်တိုင်က သွားရန် စိတ်ညွတ်နေသည့် အလျောက် ပေးအပ်လာသော တာဝန်ကို ဝမ်းသာစွာလက်ခံလိုက်လေသည်။ ထိုနောက် လိုအပ်သော ပစ္စည်းအသုံးအဆောင်များကို ယူဆောင်ကာ၊ ဇွဲကောင်း၍ အရည်အချင်းနှင့် ပြည့်စုံသည်ဟု ယုံကြည်ရသော အခြားသူနာပြုဆရာမကလေး ၃၇ ဦးနှင့် အတူ ကွန်စတန်တီနိုပယ်မြို့သို့ သင်္ဘောနှင့် ထွက်ခွာလာခဲ့လေသည်။

ဖလော်ရင့်နိုက်တင်းဂေးသည် ကွန်စတန်တီနိုပယ်မြို့တော်၏ ဆင်ခြေဖုံးရပ်ကွက်တခုဖြစ်သော စကူးတာရီမြို့သို့ (ယခုအူစကူဒါ) ၁၈၅၄ ခုနှစ် နိုဝင်ဘာလ ၄ ရက်နေ့တွင်ရောက်ရှိလေသည်။ ထိုမြို့သို့ ရောက်သွားသည့် အချိန်မှာ ဗယ်လကလားဗာတိုက်ပွဲ ပြီးစအချိန်နှင့် တိုက်ဆိုင်နေသဖြင့် စစ်



နိုက်တင်းဂေးသည် ကရုဏာရှေ့ထား၍ ညဉ့်နက်သန်းခေါင်တိုင် လူနာတို့အား လှည့်လည် စစ်ဆေး ပြုစုလေ့ရှိသည်။

သားလူနာများသည် စကူးတာရီ ဆေးရုံသို့ အဆက်မပြတ် ရောက်ရှိလာကြ၏။ ဖလော်ရင့် နိုက်တင်းဂေးသည် စကူးတာရီဆေးရုံသို့ ရောက်လျှင်ရောက်ခြင်းပင်၊ ညစ်ပတ်ပေရေလျက် လေကောင်းလေသန့်မဝင်၊ ဖြစ်ချင်တိုင်း ဖြစ်နေသော ဆေးရုံကြီးကို စံနစ်ကျ၍ သန့်ရှင်း စင်ကြယ်သော ဆေးရုံအဖြစ်သို့ လျင်မြန်စွာ ပြုပြင်ပြောင်းလဲလိုက်လေသည်။ဖလော်ရင့်နိုက်တင်းဂေး မရောက်မီက ထိုဆေးရုံတွင် လူနာ ၁၀၀ လျှင် ၄၂ ယောက်မျှ သေဆုံးလျက်ရှိခဲ့ရာ၊ သူရောက်ပြီးနောက် စံနစ်တကျ ပြုပြင်လိုက်၍ မကြာမီပင် ၂ ရာခိုင်နှုန်းသို့ လျော့ကျသွားခဲ့လေသည်။

ဖလော်ရင့်နိုက်တင်းဂေးသည် အလုပ်၏ ဖိစီးမှုကြောင့် တခါတရံ မိမိကိုယ်တိုင် မကျန်းမမာဖြစ်သော်လည်း၊ အနားယူရန် စိတ်ကူးမျှပင် မထည့်ဘဲ၊ စွဲမြဲသောဇွဲ၊ ခိုင်မာသော စိတ်ဓာတ်၊သနားကြင်နာခြင်း ရှေးရှုသော ကရုဏာဖြင့် အလုပ်ကိုမလစ်ဟင်းရအောင် လုပ်ကိုင်ခဲ့သည်။ ညစဉ်ညတိုင်း လူနာများထားရှိရာ အခန်းများသို့ တခန်းပြီးတခန်း မီးအိမ်တလုံးနှင့် ညဥ့်နက် သန်ကောင်၌ပင် လှည့်လည်ကြည့်ရှု စစ်ဆေးလေ့ရှိသည်။ဤအလုပ်ကား ဖလော်ရင့်နိုက်တင်းဂေး၏ နေ့စဉ်ပြုလုပ်နေကျ နိစ္စပတ်ဝတ်တခုပင် ဖြစ်လေတော့သည်။

၁၈၅၆ ခုနှစ် ဇူလိုင်လတွင် စစ်ပွဲပြီးဆုံးသောအခါ၊ဖလော်ရင့်နိုက်တင်းဂေးအား အင်္ဂလန်ပြည်သို့ပြန်လည်ခေါ်ဆောင်ခဲ့ရန်၊ ဗြိတိသျှအစိုးရက အထူးသင်္ဘောတစင်းကို စေလွှတ်ခဲ့၏။ သို့ရာတွင် ထင်ပေါ်မှုကို မနှစ်သက်သော ဖလော်ရင့်နိုက်တင်းဂေးသည် ထိုသင်္ဘောနှင့် မလိုက်လိုသဖြင့် ပြင်သစ်သင်္ဘောတစင်းတွင် တိတ်တဆိတ် လိုက်ပါကာ မည်သူ့အား မျှအသိမပေးဘဲ၊ မိမိ၏ နေအိမ်သို့အရောက်ပြန်ခဲ့လေသည်။ အင်္ဂလန်ပြည်သို့ ပြန်ရောက်ပြီးနောက် စက်တင်ဘာလ လောက်တွင် ဖလော်ရင့် နိုက်တင်းဂေးသည် ဝိတိုရိယဘုရင်မကြီးထံ ဝင်ရောက်ခစားပြီးလျှင် စစ်ဆေးရုံများတွင် လောလောဆယ် ပြုပြင်ရန် လိုအပ်သည်တို့ကို ရှင်းပြ လျှောက်ထားလေသည်။ ဝိတိုရိယ ဘုရင်မကြီးကလည်း ဖလော်ရင့် နိုက်တင်းဂေးအား လုပသောတံဆိပ်တခုနှင့် ခြီးကျူးစာတစောင်ကို ဂုဏ်ပြုအပ်နှင်းလိုက်လေသည်။ စစ်အတွင်း ကူညီထမ်းဆောင်ခဲ့သည်တို့ကို အသိအမှတ် ကျေးဇူးပြုသောအားဖြင့် တိုင်းပြည်က သူ့အား ရွှေဒင်္ဂါးပေါင်ပေါင်း ၅ သောင်းမျှ ချီးမြှင့်ခဲ့၏။ သို့ရာတွင် ဖလော်ရင့်နိုက်တင်းဂေးသည် ထိုငွေများကို ကိုယ်ကျိုးအတွက်အသုံးမပြုဘဲ "နိုက်တင်းဂေး" ဟူသော သူ၏အမည်နှင့် သူနာပြုဌာနတခုကို ဖွင့်လှစ်တည်ဆောက်ခဲ့လေသည်။

ဖလော်ရင့် နိုက်တင်းဂေးသည် အင်္ဂလန်ပြည်သို့ ပြန်ရောက်ကတည်းက ကျန်းမာသည်ဟူ၍ မရှိလှဘဲ၊ အိပ်ရာထဲတွင် အချိန်ကုန်ရသည်သာ များခဲ့သည်။ ထိုသို့ ကျန်းမာရေး ချို့တဲ့မှုကြောင့် ရှေးကကဲ့သို့ အလုပ်များကို စိတ်ရှိသလောက် မလုပ်နိုင်သော်လည်း၊သူနာပြုအတတ်နှင့် ဆေးရုံအုပ်ချုပ်မှု အတတ်ဆိုင်ရာ စာအုပ်စာတမ်းများကို ရေးသားခြင်း၊ ပြည်သူ့ကျန်းမာရေးနှင့် စပ်လျဉ်း၍ အစိုးရအား အဖိုးတန်သည့် အကြံဉာဏ်များ ပေးခြင်းစသော အလုပ်များကိုမူကား သေသည် အထိ ဆောင်ရွက်သွားခဲ့လေသည်။ ဖလော်ရင့်နိုက်တင်းဂေးသည် အသက် ငါးဆယ် ကျော်ဇရာပိုင်းသို့ ရောက်သောအခါ၊ဂရိပညာရှိကြီးပလေးတို၏ ဩဝါဒများနှင့် ခရစ်ယန်တရားများကို သေချာစွာ လေ့လာလေသည်။ တဖက်မှလည်း သူနာပြုအဖွဲ့အသင်းသားနှင့် စာဖြင့် အဆက်အသွယ် ပြုလုပ်သေး၏။ လူမမာတယောက်အဖြစ်ဖြင့် အိပ်ရာထဲ၌ လဲနေစဉ်မှာပင်၊ သူနှင့်တွေ့ဆုံရန် လာရောက်ကြသော နာမည်ကျော် ပုဂ္ဂိုလ်ကြီးများနှင့် မိတ်ဆွေများကို ရံဖန်ရံခါ လက်ခံစကားပြောလေ့ရှိ၏။ တခါတရံ နံနက်စောစော ပန်းခြံထဲ၌ မော်တော်ကားစီးရန် သွားသည်မှတပါး အပြင်သို့ ထွက်သည့်အခါဟူ၍ မရှိလှပေ။ ၁၉၀၇ ခုနှစ်တွင် ဖလော်ရင့် နိုက်တင်းဂေးသည် 'အော်ဒါအော့မဲရစ်' ခေါ် ဘွဲ့ထူးဖြင့် ချီးမြှင့်ခြင်းခံရ၏။ ထိုဘွဲ့ထူးမှာ အလွန် ထူးမြတ်လှသော ဘွဲ့ထူးဖြစ်၍၊ ယခင်က မည်သည့် မိန်းမသားမျှ ထိုဘွဲ့ကို မရရှိခဲ့ဘူးပေ။ ထိုအချိန်၌ကား ဖလော်ရင့် နိုက်တင်းဂေး၏ အသက်မှာ ၈၇ နှစ်ရှိ၍ မျက်စိမှိုင်း နားထိုင်းလျက် တခါတရံ သတိပင် လစ်၍နေလေပြီ။ အထက်ပါ ဘွဲ့ထူးကိုရရှိပြီးနောက် သုံးနှစ်အကြာ ၁၉၁၀ ခုနှစ် ဩဂုတ်လ ၁၃ ရက်နေ့တွင် ပြည်သူ့အကျိုးကို သည်းပိုခဲ့သော ဖလော်ရင့် နိုက်တင်းဂေးသည် ကွယ်လွန်လေသည်။

**နိုက်တင်းဂေးငှက်။** ။နိုက်တင်းဂေးငှက်သည် အသံသာယာသော ငှက်ဖြစ်သည်။ ထိုငှက်၏ ပါဏဗေဒအမည်မှာ 'လူဆင်နီယာမက်ဂါရင်ချာ' ဖြစ်၏။ အင်္ဂလိပ်စာပေတွင် နိုက်တင်းဂေးငှက်၏ ချိုတေးသံကို အကြောင်းပြု၍ စပ်ဆိုသော ကဗျာလင်္ကာများစွာ ရှိသည်။ နိုက်တင်းဂေးငှက်သည် ညဥ့်အခါတွင် သာယာစွာ ဆိုမြည်လေ့ရှိသည်။ မိတ်လိုက်ချိန်တွင်၎င်း၊ အသိုက်ပြုလုပ်ချိန်တွင်၎င်း နေ့ရောညဉ့်ပါ ထိုငှက်၏ သာယာကြည်အေးသော တေးသံကို ကြားရတတ်ပေသည်။

နိုက်တင်းဂေးငှက်သည် အလျား ၆ လက်မခန့်သာ ရှိသည်။ အမွေးအရောင်မှာ အညိုရောင် ဖျော့ဖျော့ဖြစ်သည်။ အနားကပ်မခံသော ငှက်ဖြစ်သည်။ ချုံပင်နှင့်သစ်ပင်နိမ့်များ၌သာ ကျက်စားတတ်သည်။

အသိုက်ကို မြက်ရိုးများ၊ သစ်ရွက်ခြောက် များဖြင့်



ညဉ့်အခါ သာယာစွာ ဆိုမြည်လေ့ရှိသည့် နိုက်တင်းဂေးငှက်

လျှော့လျည်းလျည်း ပြုလုပ်၍၊ ချုံဖုတ်တွင် ကျစ်လစ်စွာ ဝှက်ထားတတ်သည်။ ဥအရောင်မှာ ညိုသည်။

နိုက်တင်းဂေးငှက်ကို ဥရောပတိုက်တခွင်တွင် အမြောက်အမြားတွေ့ရသည်။ အထူးသဖြင့် ပြင်သစ်နိုင်ငံတောင်ပိုင်း၊ စပိန်နိုင်ငံ၊ ပေါ်တူဂယ်နိုင်ငံနှင့် အင်္ဂလန်ပြည် အချို့ဒေသတွင် အများအပြား တွေ့ရသည်။ ဥရောပတိုက် အရှေ့ပိုင်းနှင့် ပါးရှားနိုင်ငံတွင်လည်း နိုက်တင်းဂေးငှက်များရှိသည်။ မြန်မာနိုင်ငံတွင်ကား ဤငှက်မျိုးမရှိချေ။

**နိုက်ထရိုဂျင်။** ။ကျွန်ုပ်တို့ရှူရှိုက်သောလေထဲတွင် နိုက်ထရိုဂျင်ဓာတ်ငွေ့သည် ငါးပိုင်းလေးပိုင်းအချိုးဖြင့် ပါဝင်၏။ ထိုဓာတ်ငွေ့သည် အခြားမည်သည့် ဓာတ်ငွေ့နှင့်မှ ပေါင်းစပ်ခြင်းမရှိဘဲ၊ အောက်ဆီဂျင်နှင့်သာ ရောလျက်ရှိသည်။ လူတို့သည် လေကိုရှူရှိုက်လိုက်သည့်အခါ၊ အောက်ဆီဂျင်နှင့်အတူ နိုက်ထရိုဂျင်ကိုလည်း ရှူမိသည်။ သို့ရာတွင် အောက်ဆီဂျင်သာလျှင် လူ၏သွေးသားစင်ကြယ်မှုအတွက် ကိုယ်တွင်း၌ကျန်ရစ်၍၊ နိုက်ထရိုဂျင်ကိုမူ ရှူထုတ်လိုက်ရ၏။ လုံအောင်ပိတ်ထားသည့် ကရားထဲ၌ ဖြစ်စေ၊ အပြင်အပမှ လေစိမ်းလေသစ် မဝင်လာနိုင်အောင် ပိတ်ဆို့ထားသည့် အခန်းထဲ၌ ဖြစ်စေ မီးထွန်းညှိထားလျှင် ထိုကရားနှင့် ထိုအခန်းတွင်းတွင် အောက်ဆီဂျင် ရှိနေသမျှသာ မီးတောက်လောင်မည်။ ထိုဓာတ်ငွေ့ ကုန်ခမ်းသွား၍ နိုက်ထရိုဂျင်သာ ကျန်နေလျှင် မီးငြိမ်းသွားမည်ဖြစ်၏။ သစ်ပင်နှင့် တိရစ္ဆာန်တို့သည် နိုက်ထရိုဂျင် တခုတည်းကိုသာ မှီခိုနေရလျှင် အသက်မရှင်နိုင်ချေ။ ထိုကြောင့် နိုက်ထရိုဂျင်သည် ဒြပ်စင်တခုတည်းအနေနှင့် လူသတ္တဝါ၊ သစ်ပင်စသည့် သက်ရှိအရာခပ်သိမ်းတို့အား အထောက်အပံ့ မဖြစ်စေနိုင်သည့်ပြင်၊ အခြား ဒြပ်စင်တခုခုနှင့် ပေါင်းစပ်လိုက်လျှင် လူသတ္တဝါတို့၏ ရန်သူကြီးပင် ဖြစ်လာနိုင်ပေသည်။ အလွန် ပြင်းထန်စွာ ပေါက်ကွဲ စေတတ်သော ယမ်းမှုန့်၊ ယမ်းငွမ်း၊ ဒိုင်းနမိုက်၊ နိုက်ထရိုဂလစ်ဆရင်းနှင့် တီ၊ အင်၊ တီတို့သည် နိုက်ထရိုဂျင်နှင့် ပေါင်းစပ်ထားသော ဒြပ်ပေါင်းများ ဖြစ်ကြသည်။

တဖန် အခြားတဖက်မှနေ၍ ကြည့်ပြန်လျှင်၊ သတ္တဝါတို့၏ အသက်ရှင်ရေးသည် နိုက်ထရိုဂျင် အပေါ်၌ တည်သည်ကိုတွေ့ရပြန်၏။ အဘယ်ကြောင့် ဆိုသော် သတ္တဝါတို့၏ အစာတွင်နိုက်ထရိုဂျင်ပါသောကြောင့်ဖြစ်၏။ သတ္တဝါတို့သည် အပင်များမှ နိုက်ထရိုဂျင်ကိုရသည်။ အပင်များမှာမူကား နိုက်ထရိုဂျင်ကို မြေဆီလွှာမှရရှိကြသည်။ ဗက်တီးရီးယားတို့က နိုက်ထရိုဂျင်ကို အပင်များ စားသုံးနိုင်သော နိုက်ထရိတ်အဖြစ်သို့ ပြောင်းပေးသည်။ နိုက်ထရိတ်ကို မရဘဲ အပင်များသည် ပရိုတင်းကို မပြုလုပ်နိုင်ပေ။ ပရိုတင်းသည် အပင်များ ကြီးထွားသန်စွမ်းရေးအတွက် အလွန်အရေးကြီးသည်။ ထိုကြောင့် အပင်များကြီးထွားသန်စွမ်းရန် အခြားဒြပ်စင်တို့ထက် နိုက်ထရိုဂျင်ကိုအထူးသဖြင့်လိုကြောင်းထင်ရှား၏။ မြေဆီလွှာတွင်းရှိ နိုက်ထရိုဂျင်ကို အပင်များက အစဉ်တစိုက် စုတ်ထုတ် သုံးစွဲလာခဲ့သဖြင့် တနေ့နေ့တွင် ထိုဓာတ်မှာ ကုန်ခန်းသွားဖွယ်ရာရှိပေသည်။ သို့ရာတွင် သဘာဝနည်း နှစ်သွယ်အားဖြင့် မြေဆီလွှာတွင်းရှိ ကုန်ခန်းသွားသော နိုက်ထရိုဂျင်ကို ဖြည့်စွက်လျက် ရှိလေသည်။ ပဌမနည်းမှာ ဤသို့ဖြစ်၏။ အပူပိုင်းရှိ တိုင်းပြည်များတွင် မိုးထစ်ချုန်း၍ ရွာသွန်းသည့်အခါ၌၊ လျှပ်စစ် တပြက်ပြက်ရှိတတ်သည်။ ယင်းသို့ လျှပ်စစ် ပြက်သောအခါတိုင်း လေထဲ၌ ပါရှိသည့် အောက်ဆီဂျင်နှင့် နိုက်ထရိုဂျင်တို့ကို လောင်ကျွမ်းစေသဖြင့် ထိုဒြပ်စင် နှစ်ခု ပေါင်းစပ်လျက်၊ နိုက်ထရိတ်ဓာတ်အဖြစ်သို့ ပြောင်းသွား၏။ ထိုနိုက်ထရိတ်ဓာတ်ကို မိုးရေအားဖြင့် မြေဆီလွှာတွင်းသို့ ရောက်သွားစေသည်။

ဒုတိယနည်းမှာကား ဤသို့ ဖြစ်လေသည်။ အပင်များသည် လေမှ နိုက်ထရိုဂျင်ကို တိုက်ရိုက် ရယူ အသုံး မပြုနိုင်ကြချေ။ ဗက်တီးရီးယားများကသာလျှင် လေမှ နိုက်ထရိုဂျင်ကိုယူ၍ အပင်များ၏အစာအဖြစ်သို့ ပြောင်းပေးသည်။ မြေပဲ၊ ပဲလွမ်း စသော ပဲပင်တို့၏ အမြစ်များတွင် အဖုကျိတ်ကလေးများကို တွေ့မြင်နိုင်သည်။ ထိုအဖုကျိတ်များတွင်

နိုက်ထရိုဂျင် ရယူထားသည့် ဗက်ဘီးရီးယားများစုဝေးလျက် ရှိ၍၊ အပင်တို့၏ အစာဖြစ်သော နိုက်ထရိုဂျင် ဒြဗ်ပေါင်းများကို ဖြစ်ပေါ် လာစေသည်။ အဆိုပါ ပဲပင်မျိုးများ သေ၍၊ မြေအတွင်း၌ ဆွေးမြည့် သွားကြသော အခါ၊ ထိုအပင်တို့တွင် ရှိသော နိုက်ထရိုဂျင်ဒြဗ်ပေါင်းများသည် မြေဆီလွှာတွင်းသို့ တဖန် ပြန်ဝင်သွားကြသည်။ သို့နှင့် ပဲပင်မျိုးကို စိုက်ပျိုးခြင်းအားဖြင့် မြေဆီလွှာတွင် နိုက်ထရိုဂျင် ယုတ်လျော့သွားမည့်အစား၊ ထပ်လောင်း တိုးတက်၍ပင် လာလေသည်။

အထက်ပါအဖြစ်သနစ်ကို ရှုလျှင်၊ နိုက်ထရိုဂျင်သည် လေ၌ရှင်း၊ မြေဆီလွှာ၌ရှင်း၊ အပင်များ၌ရှင်း၊ တိရစ္ဆာန်များ၌ရှင်း အသွင် အမျိုးမျိုး ပြောင်း၍ ဘဝလည်လျက် ရှိသည်ကို တွေ့ကြရလိမ့်မည်။ ယင်းသို့ နိုက်ထရိုဂျင် ဘဝလည်ခြင်းကို နိုက်ထရိုဂျင် စက်လည်ပုံဟူ၍ ခေါ်သည်။

တောင်သူ လယ်သမားတို့သည် ဆန်၊ ဂျုံ၊ ဆေး၊ ဝါ စသော အသီးအနှံပင်များကို စိုက်နေကျ လယ်မြေများတွင် တနှစ်ပြီး တနှစ် ဆက်ကာ ဆက်ကာ စိုက်ပျိုးလုပ်ကိုင်ကြသဖြင့်၊ မြေဆီဩဇာများ တဖြည်းဖြည်း ကုန်ခန်း လိုက်လာသည်ကို သိလာကြပြီ ဖြစ်၏။ ထိုအသီးအနှံပင်များသည် မြေဆီလွှာမှ နိုက်ထရိုဂျင်ကို ထုတ်ယူ သုံးစွဲကြရာ ကုန်ခန်းသွားသည့် နိုက်ထရိုဂျင်ကို တနည်းနည်းအားဖြင့် ပြန်လည်ဖြည့်စွက် ပေးရပေမည်။ ထို့ကြောင့် တောင်သူ လယ်သမားတို့သည် လယ်မြေတို့တွင် ဂွါနိုမြေဩဇာနှင့် နိုက်ထရိတ်ဓာတ်ဆားမြေကို ချပေးခြင်းအားဖြင့် ဖြစ်စေ၊ နိုက်ထရိုဂျင်ဖြည့်စွက်နိုင်စွမ်းရှိသည့် ပဲပင်မျိုးကို ထိုလယ်ယာ ခြံမြေများ၌ အလှည့်ကျ စိုက်ပျိုး လုပ်ကိုင်ခြင်းဖြင့် ဖြစ်စေ၊ မြေဩဇာဓာတ် ပျက်ပြားယိုယွင်းခြင်း အန္တရာယ်ကို ကာကွယ် ပေးနိုင်ကြပေသည်။

နိုက်ထရိုဂျင်ပါသော တိရစ္ဆာန်ချေးများကို ရေပုပ်ရေစပ်များနှင့်အတူ ပင်လယ်ထဲသို့ စွန့်ပစ်လိုက်ခြင်းအားဖြင့်ရှင်း၊ ခေတ်ပေါ် ခဲယမ်းမီးကျောက် တမျိုးမျိုး ပေါက်ကွဲစေခြင်းအားဖြင့်ရှင်း ဤမျှလောက် နှစ်ရှည်လများ စုဆောင်းထားရသည့် နိုင်ထရိုဂျင်ကို လူတို့ ဖြုန်းတီးပစ်ရာ ရောက်သည်ဟု ဆိုရပေမည်။ ထို့ကြောင့် နိုက်ထရိုဂျင် ပါဝင်သည့် ဒြဗ်ပေါင်းများကို အလဟဿဆုံးရှုံးစေခြင်းမှ ကွယ်ကာသည့် နည်းနှစ်သွယ်ကို လူတို့ တီထွင်ထားလျက် ရှိပြီ ဖြစ်သည်။ ပဌမနည်းမှာ ပဲပင်မျိုးစိုက်ပျိုးသည့် မြေဆီလွှာတွင် နိုက်ထရိုဂျင်ကို သိမ်းဆည်း သိုလှောင်ထားမည့် ဗက်တီးရီးယား များကို သွင်းပေးခြင်း ဖြစ်သည်။ ထိုသို့ မြေဆီလွှာကို ပြုစုပေးခြင်းဖြင့်၊ အပြင်အပမှ နိုက်ထရိုဂျင်သည် အပင်များ၏ အမြစ်တို့တွင် ရှိသော အဖုကျိတ်အတွင်းသို့ မြန်စွာရောက်ရှိသွားနိုင်ပေမည်။ (ဗက်တီးရီးယား — ရှု။)



နိုက်ထရိုဂျင်ကို စိုက်ပျိုးရေး လုပ်ငန်းတွင် အသုံးပြုရန် ဤသို့အကြီးအကျယ် ချက်၍ ထုတ်လုပ်ယူကြသည်။

ဒုတိယ နည်းမှာ သိပ္ပံနည်းအားဖြင့်၊ လေထဲတွင် ရှိနေသော နိုက်ထရိုဂျင်ကို ဖမ်းယူ၍၊ နိုက်ထရိုဂျင်ဒြပ်ပေါင်းများဖြစ်လာအောင်ဖန်တီးစွမ်းဆောင်နိုင်ခြင်းပင်ဖြစ်သည်။ လျှပ်စစ်ဓာတ်အားကို အသုံးပြု၍၊ နိုက်ထရိုဂျင်နှင့် အခြားဒြပ်စင်တခုခုကို ပေါင်းစပ် လိုက်ခြင်းအားဖြင့်၊ နိုက်ထရစ်အက်ဆစ်၊ အမ်မိုးနီးယားနှင့် မြေသြဇာအတွက် အသုံးချနိုင်သော ကယ်လဆီယမ် ဆိုင်ယာနမိုက်ခေါ် နိုက်ထရိုဂျင်ဒြပ်ပေါင်းတို့ကိုဖြစ်လာစေနိုင်သည်။ (နိုက်ထရစ်အက်ဆစ်။ အမ်မိုးနီးယား — ရှု။)

ဤသို့လျှင် နိုက်ထရိုဂျင်၏ အရေးပါပုံကို သတိပြုမိကြသဖြင့်၊ သိပ္ပံပညာရှင်တို့သည် အမေရိကန် ပြည်ထောင်စုရှိ နိုင်အဂ္ဂရာ ရေတံခွန်၏ ရေအဟုန်အားကို အသုံးပြုလျက် လေထဲတွင် ပျံ့လွင့်နေသော နိုက်ထရိုဂျင်ကို စမ်းသပ်ဖမ်းယူကြည့်ဘူးသည်။ သို့သော်တွက်ခြေမကိုက်ချေ။ ဥရောပတိုက် နော်ဝေး နိုင်ငံ၌ နောက်တကြိမ် ဆက်လက် ကြိုးစားကြပြန်သည်။ နော်ဝေးနိုင်ငံတွင် ရေအား အလုံအလောက် ရရှိသဖြင့်၊ နိုက်ထရိုဂျင် ဖမ်းယူသည့်လုပ်ငန်းမှာ အတော်ပင် ခရီး ရောက်ခဲ့ဘူးသည်။

ဓာတု သင်္ကေတ N စာလုံးဖြင့် ပြသော နိုက်ထရိုဂျင်ကို စကော့တလန်ပြည် အက်ဒင်ဗာရာ မြို့မှ ဒင်နယယ် ရပ်သာဖို့ဆိုသူသည် ၁၇၇၂ ခုနှစ်တွင် စတင်တွေ့ရှိ ခဲ့သည်။ ထိုဓာတ်ငွေ့သည် ဟိုက်ဒရိုဂျင်ထက် တဆယ့်လေးဆကျော်မျှ ပို၍ လေးလံသော်လည်း၊ လေ ရိုးရိုးထက် အနည်းငယ်ခန့်မျှ ပေါ့ပါးလေသည်။ နိုက်ထရိုဂျင်တွင် အဆင်းမရှိ၊ အနံ့မရှိ၊ အရသာ မရှိပေ။ နိုက်ထရိုဂျင်သည် လူတို့၏ အစားအစာတို့တွင် ခွန်အား ဖြစ်စေသည့် ပရိုတင်းဓာတ်၌ ပါဝင်ရုံမျှမက အယ်လကလွိုက်ဆေး၊ ရေမွှေးနှင့် ဆိုးဆေးတို့ကဲ့သို့ အဆိပ် အတောက် မကင်းသည့် အရာတို့၌လည်း ပါရှိလေသည်။ အိမ်ထောင်များတွင် သုံးစွဲနေကျ ဖြစ်သော အမ်မိုးနီးယားသည် နိုက်ထရိုဂျင် ဒြပ်ပေါင်းတမျိုးပင် ဖြစ်သည်။ ထိုပြင် မေ့ဆေးရည်၊ နိုက်ထရစ်အက်ဆစ်ရည်နှင့် ပြင်းထန်စွာ ပေါက်ကွဲတတ်သော နိုက်ထရိုဂျင် ထရိုင်ကလောရိုက်အရည် စသည်တို့တွင် နိုက်ထရိုဂျင်ပါရှိလေသည်။

**နိုက်ထရစ်အက်ဆစ်။** ။နိုက်ထရစ်အက်ဆစ်သည်ပေါက်ကွဲစေသော ခဲယမ်းမီးကျောက် လုပ်ငန်းများအတွက် အသုံးဝင်သည်။ နိုက်ထရစ်အက်ဆစ် အစစ်သည် အရောင် အဆင်းကင်း၍ အခိုးအဖြစ်နှင့် ပျောက်လွင့်တတ်သော အက်ဆစ်ရည်ဖြစ်သည်။ ရေထက် တဆခွဲနီးပါးမျှ ပို၍ လေး၏။ ထိုအက်ဆစ်ရည်သည် အခိုးများ ထပြီးလျှင် အနံ့မှာ မွန်၍ ချဉ်သော အရသာရှိ၏။ ရွှေ၊ ပလက်တီနမ်နှင့် အလျူမီနီယမ် သတ္တုများမှတပါး အခြား ဓာတ်သတ္တုအားလုံးလိုလိုကို အရည် ပျော်စေနိုင်လေသည်။ ဤမျှ ထက်မြက်သောသတ္တိရှိခြင်းကြောင့် ရှေးအခါက ထိုအက်ဆစ်ကို 'အက်ကွာဖောတစ်' ဟုခေါ်လေ့ရှိကြ၏။ အဓိပ္ပါယ်မှာ 'ထက်မြက်သော ရေ' ဟူ၍ ဖြစ်၏။ တန်ခိုးထက်မြက်သော အက်ဆစ်ရည် ဖြစ်သည့်ပြင်၊ အောက်ဆီဂျင်နှင့် နိုက်ထရိုဂျင်ကို ပေးစွမ်းနိုင်သော ဓာတ်ပစ္စည်း တခု ဖြစ်၏။ နိုက်ထရစ်အက်ဆစ်၏ ဓာတု သင်္ကေတမှာ $HNO_3$ ဖြစ်သဖြင့် ထိုအက်ဆစ်၏ မော်လီကျူးတခုတွင် ဟိုက်ဒရိုဂျင် အက်တမ်တခု၊ နိုက်ထရိုဂျင် အက်တမ်တခုနှင့် အောက်ဆီဂျင် အက်တမ်သုံးခုတို့ စုပေါင်း ပါဝင်လျက် ရှိကြောင်းကို သိရသည်။

နိုက်ထရစ် အက်ဆစ်ကို အများအားဖြင့် ချီလီဆော့လပီတာခေါ် ဆိုဒီယမ်နိုက်ထရိတ် $NaNO_3$ ကို ဆာလဖျူရစ် အက်ဆစ်အပြင်းရည်နှင့် ဆတူရောစပ်ပြီးနောက် အငွေ့ကို ပေါင်းချေး ခံယူသောနည်းဖြင့် ချက်ယူ ကြလေသည်။

$$2\,NaNO_3 + H_2SO_4 = Na_2SO_4 + 2\,HNO_3$$

ဆိုဒီယမ်နိုက်ထရိတ် + ဆာလဖျူရစ်အက်ဆစ် = ဆိုဒီယမ်ဆာလဖိတ် + နိုက်ထရစ်အက်ဆစ်

အခြား တနည်းမှာ လျှပ်စစ်နည်းဖြစ်၍ ယခုအခါ များစွာ အသုံးပြုကြသည်။ ထိုနည်းတွင် ကျွန်ုပ်တို့ပတ်ဝန်းကျင်၌ရှိသော လေမှ လျှပ်စစ်ဓာတ်အားဖြင့် နိုက်ထရိုဂျင်နှင့် အောက်ဆီဂျင်တို့ကို ယူ၍ တိုက်ရိုက် ပေါင်းစပ်စေသည်။ ထိုအခါ နိုက်ထရစ်အောက်ဆိုက် NO ကိုရရှိ၏။ ထိုနိုက်ထရစ်အောက်ဆိုက်ကို အောက်ဆီဂျင်နှင့် ထပ်မံ ပေါင်းစပ်စေပြန်သော်၊ နိုက်ထရိုဂျင်ပါရောက်ဆိုက် $NO_2$ ဖြစ်လာ၏။ နိုက်ထရိုဂျင်ပါရောက်ဆိုက်ကို ရေတွင် ပျော်ဝင်စေသောအခါ နိုက်ထရစ်အက်ဆစ်ကို ရရှိ၏။



$N_2 + O_2 = 2NO$ (နိုက်ထရစ်အောက်ဆိုက်)

$2NO + O_2 = 2NO_2$ (နိုက်ထရိုဂျင်ပါရောက်ဆိုက်)

$3NO_2 + H_2O = NO + 2HNO_3$ (နိုက်ထရစ်အက်ဆစ်)

ဤနည်းမှာ လေတွင် ရှိသော နိုက်ထရိုဂျင်ကို အသုံးချနိုင်သောကြောင့် စရိတ်ကုန်နည်း၍ ကောင်းသောနည်းဖြစ်သဖြင့်၊ စိုက်ပျိုးရေးဖက်တွင်၎င်း၊ စီးပွားရေး လုပ်ငန်းများတွင်၎င်း များစွာပင် အသုံးဝင်လေသည်။

ဝါဂွမ်း သို့မဟုတ် ဝါဂွမ်းကဲ့သို့သော သစ်သားအမျှင်ကလေးများကို ဆာလဖျူရစ် အက်ဆစ်နှင့် ပဌမ သမစေပြီး၍ နိုက်ထရစ် အက်ဆစ်နှင့် ရောစပ်လိုက်လျှင် ပိုင်ရောက်ဆီလင်ခေါ် ယမ်းဂွမ်းတမျိုးဖြစ်လာ၏။ တဖန် $HNO_3$ နှင့် ထပ်မံ၍ ရောစပ်ပြန်လျှင် ဟက်ဆာနိုက်ထရိတ်ခေါ် ယမ်းဂွမ်းတမျိုး ဖြစ်လာပြန်၏။ ထိုနှစ်မျိုးစလုံးပင် ပေါက်ကွဲတတ်သော ပစ္စည်းများ ဖြစ်၏။ ယင်းတို့ အနက် ဒုတိယ အမျိုးက ပဌမအမျိုးထက် ပို၍ ပြင်းထန်သည်။

ပိုင်ရော့ဆီလင်ကို အယ်လကိုဟောနှင့် အီသာ နှစ်ခုရော

ထားသော အရည်တွင် ဖျော်ပြီးနောက်၊ အနာလိမ်းဆေး အဖြစ်ဖြင့် အသုံးပြုနိုင်သည်။ ထိုအရည်တွင် လိုသော အရောင်ကို ထည့်ပေးလျှင် လက်သည်း ဆိုးဆေးအဖြစ် အသုံးပြုနိုင်သည်။ ပိုင်ရော့ဆီလင်ကို ပရုတ်နှင့် ရောလိုက်သည့်အခါ၊ ဆဲလျူလွိုခေါ် လိုသလိုပုံသွင်းနိုင်သည့် ပလပ်စတစ်ဖြစ်လာသည့် အတွက် ပလပ်စတစ်လုပ်ငန်းများတွင်လည်း အသုံး ပြုကြ၏။ ထို့ပြင် ယွန်းထည်လုပ်ငန်း၊ဓာတ်ပုံရိုက်ကူးကော်ပြား လုပ်ငန်း၊ ပိုးတုလုပ်ငန်းများတွင်လည်း ပိုင်ရော့ဆီလင်သည် လွန်စွာမှ အသုံး ဝင်လေသည်။

ပေါက်ကွဲ စေတတ်သော ခဲယမ်း မီးကျောက်များသည် ဝါဂွမ်းနှင့် အပင်၏ ကိုယ်ထည် ပစ္စည်းများမှသာ ရနိုင်သည် မဟုတ်သေး၊ ဆပ်ပြာလုပ်ငန်းမှ ရရှိသော ချို၍ ဖြစ်သည့် ဂလစ်ဆရင်းရည်မှလည်း ရရှိ နိုင်သေး၏။ ဂလစ်ဆရင်းရည်ကို နိုက်ထရစ် အက်ဆစ်နှင့် ရောစပ်လိုက်သည်ရှိသော် နိုက်ထရိုဂလစ်ဆရင်းခေါ် အလွန်ပြင်းထန်စွာ ပေါက်ကွဲတတ်သည့် ခဲယမ်းမီးကျောက်ကို ရ၏။ ထိုဝတ္ထုပစ္စည်းသည် အဝါရောင်ရှိသော ဆီဖြစ်၍၊ သတိကြီးစွာနှင့် ကိုင်တွယ်ရလေသည်။ အမှုမဲ့ အမှတ်မဲ့ ကိုင်တွယ်ပါက ဘေးဥပဒ်များတတ်၏။ ထိုနိုက်ထရိုဂလစ်ဆရင်းဆီကို လွှစာနှင့် ယမ်းစိမ်းတို့ဖြင့် သမစေပြီးလျှင် အချောင်းကလေးများဖြစ်အောင် ပြုလုပ်လိုက်သောအခါ၊ ဒိုင်းနမိုက်ခေါ် ပေါက်ကွဲစေတတ်သော ပစ္စည်းကို ရလေသည်။ ဒိုင်းနမိုက်သည် ကိုင်တွယ်နေကျလူများအဖို့၌ ဘေးဥပဒ် မရှိသလောက် ဖြစ်သည်။ (ဒိုင်းနမိုက် — ရှု။)

ကတ္တရာစေးကို ပေါင်းခွေး ခံယူ၍ ရသော တော်လျူအင်းခေါ် ပစ္စည်းကို နိုက်ထရစ် အက်ဆစ်နှင့် ရောစပ်ယူလျှင် ပေါက်ကွဲရာ၌ ဒိုင်းနမိုက်ထက် အဆပေါင်း များစွာ ပြင်းထန်သော ခဲယမ်းမီးကျောက် တမျိုးကို ရရှိသည်။ ထိုပစ္စည်းကို ထရိုင်နိုက်ထရိုတော်လျူအင်းဟု ခေါ်၍ အတိုကောက်အားဖြင့် တီအင်တီဟု ခေါ်၏။ တီအင်တီသည် အဆောက်အအုံကြီးများကို ဖျက်ဆီးရာ၌ အလွန်ခရီးရောက်ခဲ့သဖြင့် စစ်ကြီးအတွင်းက များစွာ အသုံးပြုခဲ့လေသည်။

ကာဗောလစ်အက်ဆစ်ကို နိုက်ထရစ်အက်ဆစ်၊ ဆာလဖျူရစ်အက်ဆစ် အပြင်းရည်တို့နှင့်ရောစပ်လျှင် ထရိုင်နိုက်ထရိုဖီနော့ဟု ခေါ်သော ပစ်ကရစ်အက်ဆစ်ကို ရ၏။ ထိုအက်ဆစ်သည် အဝါရောင် ရှိ၍ ပေါက်ကွဲရာ၌ အလွန် ပြင်းထန်သဖြင့် ပဌမ ကမ္ဘာစစ်ပွဲကြီးအတွင်းက များစွာအသုံးပြုခဲ့ကြလေသည်။ နိုက်ထရစ်အက်ဆစ်သည် ဓာတ်သတ္တုများ၊ ဓာတ်သတ္တုတို့၏ဒြဗ်ပေါင်းများ သို့မဟုတ် ကာဗွန်နိတ်များကို အရည်ပျော်စေ၍ နိုက်ထရိတ်ဓာတ်ဆား ဖြစ်လာစေနိုင်၏။ ထိုနိုက်ထရိတ်ဓာတ်ဆားကို ဘယဆေးများ ဖော်စပ်ရာ၌ရင်း၊ ဓာတ်မြေဩဇာများ ပြုလုပ်ရာ၌ရင်း အသုံးပြုကြ၏။ ထို့ပြင် မီးပန်းများ လုပ်ကိုင်ရာ၌ မီးနီ၊ မီးစိမ်းရရှိအောင်လည်း နိုက်ထရိတ်များကိုပင် အသုံးပြုကြသေး၏။ (ပေါက်ကွဲစရာပစ္စည်း — ရှု။)

**နိုက်သူရဲကောင်းအဖွဲ့။** ။"နိုက်"ဟူသော အင်္ဂလိပ် စကားသည် မူလက လုလင်ဟုသာမန်အဓိပ္ပါယ်ရှိသည်။ကာလရွေ့သော် ထိုစကားသည် လူပျိုတော်ဟူ၍ရင်း၊ စစ်မှုထမ်းဟူ၍ရင်း၊ မြင်းစီးသူရဲကောင်းဟူ၍ရင်း၊ အဓိပ္ပါယ် အဆင့်ဆင့် ပြောင်းလဲလာလေသည်။ ထိုသူတို့သည် မင်း၊ မိဖုရား၊ သားတော် သမီးတော်၊ မြို့စား ရွာစား၊ မှူးကြီးမတ်ရာ၊ သေနာပတိတို့၏ ထံပါး၌ မင်းမှု ထမ်းကြရသည်။ ဥရောပတိုက် အလယ်ခေတ်တွင် တိုင်းပြည်နိုင်ငံတို့၌ အမြဲတမ်းစစ်တပ် ဖွဲ့စည်းထားခြင်း မရှိချေ။ ထို့ကြောင့် တပြည်ထောင်နှင့် တပြည်ထောင် စစ်ခင်းသည့်အခါ၊ မင်းမိဖုရားစသည်တို့သည် ယင်းတို့၏ အမှုထမ်းတို့ကို တဦးချင်း ရင်ဆိုင် တိုက်ပွဲများအတွက် အားကိုး အားထား ပြုကြရသည်။ ထိုအမှုထမ်းတို့သည် ငယ်စဉ်ကပင်လျှင် မြင်းစီးအတတ်၊ လေးမြားအတတ်၊ ဓားခုတ် လှံထိုးအတတ် စသည်တို့၌ တတ်မြောက် ကျွမ်းကျင်ရသည်။ သူရသတ္တိနှင့်လည်း ပြည့်စုံရသည်။ ထိုအခါ ထိုအမှုထမ်းတို့ကို စိုးပိုင်သော အရှင်သခင်တို့က ငါသည် သင့်ကို "နိုက်" ဟု အမည်မှည့်သည် ဟူ၍ဆိုကာ လည်ကုပ်ကို ဓားပြားဖြင့် ရိုက်၍၊ ယင်းတို့ကို သူကောင်းပြုလေသည်။ မူလက ထိုသို့ ဓားပြားဖြင့် ရိုက်မြဲ ဖြစ်သော်လည်း၊ နှောင်းခေတ်တို့၌မှာမူ သူကောင်း ပြုခြင်း ခံရမည့် သူ၏ ပခုံးကို သူကောင်းပြုသူက ဓားဦးဖြင့် တို့ရုံသာ တို့ရသည်။ အလယ်ခေတ်က စစ်မှုထမ်းဟူသည်မှာ မြင်းစီး သူရဲကောင်းများဖြစ်ကြသည်။

ခရစ် ၁၀၉၉ ခုနှစ်မှ စတင် ဖြစ်ပွားခဲ့သော ကရူးဆိတ်စစ်ပွဲများခေတ်တွင် ဆာရာဆင်တို့ကို တိုက်ခိုက်ရာ၌ ခရစ်ယန်မြင်းစီး သူရဲကောင်းတို့၏ ဂုဏ်သတင်းသည် အထူးထင်ပေါ်ကျော်ကြား လာလေသည်။ (ကရူးဆိတ် စစ်ပွဲများ — ရှု။) ၁၁၁၇ ခုနှစ်တွင် ထိုသူရဲကောင်းတို့သည် ခရစ်တော် ဖွားမြင်ရာ ဒေသသို့ လာရောက် ကြကုန်သော ဘုရားဖူးတို့ကို စောင့်ရှောက်ရန် အလို့ငှါ၊ ဂျရူးဆလမ်းမြို့ရှိ ဆော်လမွန်၏ ဘုရားကျောင်းရှိရာ နေရာကို ဗဟိုဌာနပြု၍ နိုက်သူရဲကောင်းအဖွဲ့ဖွဲ့စည်းကြသည်။ ထိုအဖွဲ့၏ ကောင်းသတင်းကျော်စောလာသောအခါ ဥရောပ အရပ်ရပ်မှ သူရဲကောင်းတို့ဝင်ရောက်လာကြသည်။ ထိုသည်မှ စ၍ နိုက်တင်းပလား သူရဲကောင်းအဖွဲ့ ထင်ရှားကာ၊ အင်အားကြီးမားလာလေသည်။ ထိုစဉ်က စိန်ဂျွန်း နိုက်သူရဲကောင်းအဖွဲ့နှင့် တျူတန် သူရဲကောင်းအဖွဲ့တို့သည်လည်း ပေါ်ပေါက်လျက် ရှိသည်။ သို့သော် နိုက်တင်းပလားဘို့က ပို၍ နာမည် ကြီးခဲ့လေသည်။

စတင် ဖွဲ့စည်းလိုက်သည်မှ နှစ်ပေါင်း ၁၅၀ အတွင်းတွင် နိုက်တင်းပလား သူရဲကောင်းအဖွဲ့သည် တန်ခိုးကြီးမား၍ ချမ်းသာ ကြွယ်ဝလာလေသည်။ ထို့ကြောင့် ထိုအဖွဲ့သည် ဘုရင်၏ ဩဇာကိုပင်လျှင် လွှမ်းမိုးစ ပြုလာလေ၏။ ခရစ် ၁၂၉၁ ခုနှစ်တွင် ဆာရာဆင်တို့က နိုက်တင်းပလား သူရဲကောင်းအဖွဲ့ဝင်တို့ကို ဂျုရုဆလမ်းမြို့မှ နှင်ထုတ်လိုက်ကြလေသည်။ ထို့ကြောင့် အဖွဲ့ဝင်တို့သည် စိုက်ပရပ်ကျွန်းမှ တဆင့် ဥရောပတိုက်သို့ ပျံ့နှံ့သွားကြသည်။ သို့သော် ခရစ် ၁၃၁၂ ခုနှစ်တွင် ဂျာမနီပြည်မှ အပ အခြားသော ဥရောပတိုက်ရှိ တိုင်းပြည်တို့က နိုက်တင်းပလား သူရဲကောင်းအဖွဲ့တို့ကို နှိပ်ကွပ် လာပြန်သည်။ အင်္ဂလန်ပြည်၌ ဒုတိယ အက်ဒွပ် (၁၃၀၇–၁၃၂၇) လက်ထက်တွင် ထိုအဖွဲ့ဝင်တို့ကို ဖမ်းဆီးချုပ်နှောင်၍ ယင်းတို့ပိုင် ဥစ္စာပစ္စည်းတို့ကို နိုင်ငံတော်က သိမ်းပိုက်လိုက်လေသည်။ ထိုစဉ်မှ စ၍ နိုက်တင်းပလား သူရဲကောင်း အဖွဲ့သည် တိမ်ကောခဲ့လေသည်။ သို့ရာတွင် သူရဲကောင်း အဖွဲ့ ဖွဲ့စည်းသော အစဉ်အလာမှာကား အင်္ဂလန်နှင့် ဥရောပတိုက်ရှိ နိုင်ငံတို့တွင် ကျန်ရစ်ခဲ့လေရာ၊ ထိုနိုင်ငံတို့၌ သူရဲကောင်း အဖွဲ့တို့သည် ယနေ့တိုင် နာမည် အမျိုးမျိုးဖြင့် ထင်ရှား တည်ရှိနေပေသည်။ ယခုခေတ် ဗြိတိန် နိုင်ငံ၌ နိုက်သူရဲကောင်း အဖွဲ့များ ရှိသည်။ နိုက်သူရဲကောင်းဟူ၍ သူကောင်းပြုခြင်းခံရသော ပုဂ္ဂိုလ်ကို "ဆာ" ဘွဲ့တပ်၍ ခေါ်ရသည်။ ထိုပုဂ္ဂိုလ်၏ ဇနီးကို "လေဒီ" ဟုခေါ်ရသည်။ အမျိုးသမီးကိုယ်တိုင် နိုက်သူရဲကောင်း အဖြစ်ဖြင့် သူကောင်း ပြုခြင်း ခံရသော်၊ ထိုအမျိုးသမီးကို "ဒိမ်း" ဟု ခေါ်ရသည်။

**နင်မစ်၊ ချက်စတာဝီလျံ** (ခရစ် ၁၈၈၅ ဖွား)။ ။အမေရိကန်ရေတပ်ဗိုလ်ချုပ်မှူးဖြစ်၍ အမေရိကန်ပြည်ထောင်စု ပစိဖိတ်ရေတပ် သေနာပတိအဖြစ်ဖြင့် ဒုတိယ ကမ္ဘာစစ်အတွင်းက ဆောင်ရွက်ခဲ့သော ချက်စတာဝီလျံနင်မစ်သည် ၁၈၈၅ ခုနှစ် ဖေဖွာရီလ ၂၄ ရက်နေ့တွင် အမေရိကန် ပြည်ထောင်စုတက်ဆက်ပြည်နယ်၊ ဖရက်ဒရစ်စဗတ်မြို့၌ ဖွားမြင်လေသည်။ အမေရိကန် ပြည်ထောင်စု ကြည်းတပ်ဆိုင်ရာ စစ်တက္ကသိုလ်သို့တက်ရောက်ရန် စိတ်သန်ခဲ့သော်လည်း ဝင်ခွင့်မရသဖြင့် ရေတပ်ဆိုင်ရာ စစ်တက္ကသိုလ်သို့ ဝင်ရောက်ခဲ့ရလေရာ၊ ၁၉၀၅ ခုနှစ်တွင် ဘွဲ့ထူးရခဲ့၏။

စစ်တက္ကသိုလ်မှ အောင်မြင်ခဲ့ပြီးနောက်၊ အာရှရေတပ်စခန်းတွင် ၁၉၀၅ ခုနှစ် ဖေဖွာရီလ ၂၃ ရက်နေ့၌ အလုပ်ဝင်ခဲ့ရလေသည်။ ထိုစခန်းတွင် ၃ နှစ်ကြာမျှ ဆောင်ရွက်ရ၏။ ထိုအတောအတွင်းပဌမရေငုပ်သင်္ဘောတပ်စုတွင် သင်တန်းဆရာ အဖြစ် ဆောင်ရွက်ခဲ့၏။၁၉၀၈ ခုနှစ်ကုန်လောက်တွင် အမေရိကန်သို့ ပြန်သွား၍ ၁၉၀၉ ခုနှစ်တွင် 'ပလန်ဂျာ'



ပစိဖိတ် ရေတပ် ရေကြောင်း ဗိုလ်ချုပ်ကြီး
ချက်စတာဝီလျံနင်မစ်

သင်္ဘောနှင့်ထိုရေငုပ်သင်္ဘောတပ်စုကိုအုပ်ချုပ်ရလေသည်။ ၁၉၁၀ ပြည့်နှစ်တွင် ရေတပ်ဗိုလ်ကြီး အဆင့်အတန်းကို ရခဲ့သည်။ ထိုနောက် အတ္တလန္တိတ် ရေငုပ်သင်္ဘောတပ်စုကို အုပ်ချုပ်ရလေသည်။ ၁၉၁၃ ခုနှစ်တွင် ဂျာမနီ၊ ဗဲလဂျီယမ် စသည့် နိုင်ငံများသို့ လှည့်လည်သွားလာကာ၊ ဒီဇယ်စက်များကို ကြည့်ရှုလေ့လာခဲ့လေသည်။

နင်မစ်သည် ပဌမကမ္ဘာစစ်အတွင်းက အတ္တလန္တိတ် ရေငုပ်သင်္ဘောတပ် ဗိုလ်ချုပ်၏ စစ်ဦးစီးချုပ် အဖြစ် ထမ်းရွက်ခဲ့ရသည်။ ထိုအတောအတွင်း ရေတပ် ဒု ဗိုလ်မှူးကြီး အဆင့်အတန်းသို့ တိုးမြှင့်ခန့်ထားခြင်း ခံခဲ့ရလေသည်။ပဌမကမ္ဘာစစ်ကြီးအပြီးတွင် စစ်သင်္ဘောကြီးများတွင်၎င်း၊ ရေငုပ်သင်္ဘော တပ်စုများကို ကွပ်ကဲအုပ်ချုပ်သူ အဖြစ်၎င်း အမှုထမ်းခဲ့ရ၏။ထို့ပြင် ပါးလဟာဗာသို့ ပြောင်းရွှေ့၍ အမှုထမ်းခဲ့ရသေးသည်။ ၁၉၂၂ ခုနှစ်တွင် နျူးပို့ရှိ ရေကြောင်းစစ်တက္ကသိုလ် အထက်တန်းအရာရှိသင်တန်းသို့ တက်ရောက်သင်ကြားခဲ့ရသည်။ ထိုနောက် အမေရိကန် ရေတပ်ဗိုလ်ချုပ်မှူးရုံးတွင် လုပ်ကိုင်ခဲ့လေသည်။ ၁၉၂၆ ခုနှစ်တွင် ကာလီဖိုးနီးယား တက္ကသိုလ်တွင် အရံ ရေတပ်သားတို့ကို သင်တန်းပေးခြင်း တာဝန်ကို ဆောင်ရွက်သည်။ သူ၏ လုပ်ငန်းသည် အထူးပင် အောင်မြင်ခဲ့၍ သူ၏ အရံရေတပ်သား သင်တန်းများသည် နှောင်းလူတို့အတွက် စံပြု ဖြစ်ခဲ့သည်။ ၁၉၂၇ ခုနှစ်တွင် ရေတပ် ဗိုလ်မှူးကြီး အဆင့်အတန်းကိုရခဲ့သည်။ ၁၉၂၉ ခုနှစ်တွင် ရေငုပ် သင်္ဘောတပ်၌ ပြန်လည်

အမှုထမ်းရလေသည်။ ၁၉၃၈ ခုနှစ် ဇွန်လ ၂၃ ရက်နေ့တွင် ရေတပ်ဗိုလ်ချုပ် ဖြစ်လာ၍၊ ထိုရာထူးဖြင့် ကရူဇာသင်္ဘောတပ် အမှတ် ၂ ကို အုပ်ချုပ်ခဲ့ရသည်။ ထိုနောက် တိုက်သင်္ဘောတပ် အမှတ် ၁ သို့ ပြောင်းရွှေ့ အမှုထမ်းခဲ့ရ၏။ ၁၉၃၉ ခုနှစ်မှ စ၍ ရေကြောင်း ဌာနကြီးမှူး အဖြစ် ၄ နှစ်မျှ ဆောင်ရွက်ရန် ခန့်ထားခြင်းခံခဲ့ရလေသည်။ ၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် ပါးလဟာဗာကို ဂျပန်တို့က ရုတ်တရက် တိုက်ခိုက်သည်ကို ခံခဲ့ရပြီးနောက် ၁၀ ရက်အကြာတွင် နင်မစ်သည် ရေတပ်ဗိုလ်ချုပ်ကြီး အဆင့်အတန်းဖြင့် ပစိဖိတ်ရေတပ်သေနာပတိ အဖြစ် ဆောင်ရွက်သည်။ ထိုအခါ ဗိုလ်ချုပ် နင်မစ်သည် ပစိဖိတ်အလယ်ပိုင်း စစ်မျက်နှာအတွက်လည်း တာဝန် ယူခဲ့ရ၏။ ထိုစစ်မျက်နှာရှိ အမေရိကန် ကြည်း တပ်၊ ရေတပ်နှင့် လေတပ်အားလုံးကို ကွပ်ကဲအုပ်ချုပ်ခဲ့ရသည်။ နင်မစ်၏ ခေါင်းဆောင်မှုဖြင့် အမေရိကန် တပ်ပေါင်းစုသည် ၁၉၄၂ ခုနှစ်မှ ၁၉၄၅ ခုနှစ်များ အတွင်း၌ ဆော်လမွန်ကျွန်းစု၊ ဂီးလဗတ်ကျွန်းစု၊ မယ်ရီယန္နား၊ မာရှယ်၊ ပါလောနှင့် အီဝိုဂျီးမားကျွန်းများကို တကျွန်းပြီး တကျွန်းသိမ်းပိုက်နိုင်ခဲ့သည်။ ထို့ပြင် နင်မစ်၏ ရေတပ်သည် ဖိလစ်ပိုင်တိုက်ပွဲနှင့် အိုကိနာဝါတိုက်ပွဲများတွင်လည်း ပါဝင်တိုက်ခိုက်ခဲ့၏။ ၁၉၄၄ ခုနှစ် ဒီဇင်ဘာလ ၁၅ ရက်နေ့တွင် ရေတပ်ဗိုလ်ချုပ်မှူး ရာထူးသို့ တိုးမြှင့်ခန့်ထားခြင်း ခံရပြီးနောက်၊ ၁၉၄၅ ခုနှစ် စက်တင်ဘာလ ၂၂ ရက်နေ့တွင် တိုကျိုပင်လယ်အော်ထဲရှိ အမေရိကန် စစ်သင်္ဘော မိဇူးရီပေါ်၌ ကျင်းပသော ဂျပန်လက်နက်ချ အခမ်းအနားကို တက်ရောက်၍၊ အမေရိကန်တပ်များ၏ကိုယ်စား စစ်ပြေငြိမ်း စာချုပ်ကို လက်မှတ် ရေးထိုးခဲ့ရလေသည်။ ၁၉၄၅ ခုနှစ် နိုဝင်ဘာလ ၂၀ ရက်နေ့၌ ရေကြောင်း စစ်ဆင်ရေးမှူးအဖြစ် စတင်ဆောင်ရွက်ခဲ့ရလေသည်။ ၁၉၄၆ ခုနှစ် ဧပြီလ ၂ ရက်နေ့တွင် ရေတပ်ဗိုလ်ချုပ်မှူး အဆင့်အတန်းတွင် အမြဲတမ်းခန့်အပ်လွှာကို ရရှိခဲ့လေသည်။ ၁၉၄၇ ခုနှစ်တွင် အိန္ဒိယနိုင်ငံ မြောက်ပိုင်းရှိ ကသ္မီယပြည်နယ်အရေးအတွက် ကုလသမဂ္ဂ၏ စေ့စပ်ဖြန်ဖြေရေး အရာရှိ အဖြစ် ဆောင်ရွက်ခဲ့လေသည်။

**နင်းနိဗမြို့။** ။နင်းနိဗမြို့သည် ရှေးဟောင်း အဆီးရီးယားနိုင်ငံ၏ မြို့တော်ကြီး ဖြစ်ခဲ့ဘူး၏။ ထိုမြို့နေရာဟောင်းကို ၁၈၄၅ ခုနှစ်တွင်ရှေးဟောင်း ပစ္စည်းများ တူးဖော် သူများကစတင်၍ တွေ့ရှိလေသည်။ တွေ့ရသော အဆောက်အအုံပျက်နှင့် ပစ္စည်းအချို့တို့သည် မြို့တံတိုင်းကြီးများ၊ ရုပ်တုများနှင့် ရှေးဟောင်းစာပေများဖြစ်ကြ၏။ ထို့ပြင် ယူဖရေးတီးနှင့် တိုင်းဂရစ်မြစ်တို့၏ မြစ်ဝှမ်း တလျှောက်တွင်လည်း အလားတူ အဆောက်အအုံပျက်များကို တူးဖော် တွေ့ရှိရသဖြင့် ဆက်စပ်ကြည့်ရာတွင် အဆီးရီးယား နိုင်ငံကြီး၏ တိမ်မြုပ် ပျောက်ကွယ်နေသည့် အချက်အလက်တို့ကို ရရှိသဖြင့်၊ ရှေးဟောင်းခေတ်သမိုင်းကို မှန်ကန်စွာ ရေးသားနိုင်ကြသည်။

ထိုနင်းနိဗ မြို့တော်ကြီး ပျက်စီးသွားရခြင်းမှာ အဆီးရီးယန်းဘုရင်များ၏ ရက်စက် ညှဉ်းပန်းမှုများကို မခံနိုင်သော အဇ္ဇရီယယ်လူမျိုးတို့က ဘုရားကိုတိုင်တည်၍ ကျိန်ဆဲရာတွင်ကျိန်စာသင့်သဖြင့် ပျက်စီးရကြောင်းနှင့် အဆိုရှိ၏။ ကျိန်စာသင့်ပုံမှာ ဘီစီ ၆၁၂ ခုနှစ်တွင် မီဒလူမျိုးများသည် ထိုမြို့တော်ကြီးကို တိုက်ခိုက်ဖျက်ဆီးရာ၊တမြို့လုံး ပြုတ်ပြုတ်



ရှေးဟောင်း အဆီးရီးယား နိုင်ငံ၏ မြို့တော်ဖြစ်ခဲ့ဘူးသော နင်းနိဗမြို့ရှိ နင်းမိရော့ဘုရင်၏ နန်းတော်ရှုခင်း

ပြုန်းပျက်စီး၍၊ နောင် နှစ် လ ကြာရှည်လတ်သော် လွင့်စင်လာသော သဲမှုန်များဖြင့် သဲအတိ ဖုံးကာ ပျောက်ကွယ်၍ သွားခဲ့လေသည်။

၁၈၄၅ ခုနှစ်နှင့် ၁၈၅၁ ခုနှစ် စပ်ကြားတွင် ဆာအော်စတင်လေးယဒ်သည် အဆီးရီးယား နိုင်ငံဟောင်း၏ ဘုရင်ဆင်နာကရစ်နှင့် အားရှုူးဗားနီပါးတို့၏ နန်းတော်ဟောင်းနေရာများကို နင်းနိဗဒေသတဝိုက်၌ တွေ့ရှိ၍၊ ကျောက်ဖြူပြားပေါ်တွင် ရေးထားသည့် တောကစားထွက်ပုံများ၊ မြို့တော်ကြီးကို ဝိုင်းရံပုံများ၊ တိုက်ပွဲကြီးများ၊ လူခေါင်းပါသောနွားရုပ်၊ လူခေါင်းပါသော ခြင်္သေ့ရုပ်များကိုလည်း တွေ့ရလေသည်။ အားရှုူးဗားနီပါး ဘုရင်၏ စာကြည့်တိုက်ကြီးမှ ရွှံ့ပြားခြောက်များတွင် ရေးထားသည့် စာများကို ယခုခေတ်၌ ကောင်းစွာ ဘာသာ ပြန်ဆိုနိုင်ပြီဖြစ်၍ အဆီးရီးယား နိုင်ငံနှင့်တကွ ဗက်ဗီလုံးနီးယား နိုင်ငံကြီးတွင် ထိုခေတ်က ထွန်းကားခဲ့သော လောကဓာတ် ပညာ၊ နိုင်ငံသမိုင်း၊ အယူဝါဒရေးရာနှင့်တကွ စာပေပရိယတ္တိများကိုပါ ကောင်းစွာသိရှိကြရလေသည်။ (အဆီးရီးယား — ရှု။)

**နင်းမိဆစ်။** ။နင်းမိဆစ် နတ်သမီးသည် ဂရိထုံးဟောင်းပုံပြင်များ၏ အလိုအရ လူတို့၏ ကုသိုလ်ကံ အကုသိုလ်ကံကို လိုက်၍ တရားစီရင်သော နတ်သမီးဖြစ်သည်။ ထိုနတ်သမီးသည် စည်းစိမ်ဥစ္စာ တန်ခိုး အာဏာကြောင့် မာန်မာနထောင်လွှားသူ လူသားတို့ကို မထောက်မညှာ ရက်စက်စွာ အပြစ် ပေးတတ်သည်ဟု ရှေးသူဟောင်း ဂရိ လူမျိုးတို့က ယူဆကြသည်။ ကာလ ရွေ့လျားလာသော် ထိုနတ်သမီးသည် ကံကောင်းသူတို့ကို ရန်ပြုတတ်သော နတ်သမီးဖြစ်သည်ဟု ယူဆလာကြပြန်သည်။ သို့သော်စင်စစ်မှာမူ ထိုနတ်သမီးသည် ကောင်းမှု မကောင်းမှု၏ အကျိုးအပြစ်အတိုင်း စီရင်သောနတ်သမီးပင်ဖြစ်၏။ လူတို့၏ကောင်းမှု မကောင်းမှု ဟူသမျှကို တိကျအောင် ချင့်ချိန်တိုင်းထွာ၍ လူတို့၏ ကံအကြောင်း တရားကို စီရင်ဖန်တီးပြီးလျှင် ပြစ်ဒဏ်ရှိလျှင် အပြစ်ပေးတတ်သော သဘောကို ဆောင်သော အားဖြင့် ထိုနတ်သမီး၏အဆောင်အယောင်တို့သည် ပေတံ၊ မြင်းဇက်ကြိုးနှင့် ကျာပွတ်ဖြစ်လေသည်။

**နောင်ရိုးတိုက်ပွဲ။** ။နောင်ရိုးတိုက်ပွဲသည်ဘုရင့်နောင်၏ စစ်ပရိယာယ်ကို ထင်ရှားစေသော တိုက်ပွဲ တခု ဖြစ်၏။ (ဘုရင့်နောင် — ရှု။) ဘုရင့်နောင်ဟူသော အမည်မှာ ထိုတိုက်ပွဲတွင် အောင်မြင်သောကြောင့်၊ တပင်ရွှေထီးက ပေးသော အမည်ဖြစ်လေသည်။ ထိုစဉ်အခါက ဘုရင့်နောင်သည် ယောက်ဖတော် တပင်ရွှေထီးဘုရင် အထံတော်၌ ကျော်ထင် နော်ရထာအမည်နှင့် အမှုတော်ကို ထမ်းရွက်နေလေသည်။ သက္ကရာဇ် ၈၉၉ ခုနှစ်တွင် တပင်ရွှေထီးသည် ဟံသာဝတီကိုစစ်သည် အလုံးအရင်းနှင့် ချီတက်တိုက်ခိုက်ရာတွင်၊ ကျော်ထင်နော်ရထာလည်း လိုက်ရ၏။ ဟံသာဝတီမင်း သုရှင်တကာရွတ်ပိသည် ဟံသာဝတီကို လက်လွှတ်လိုက်ပြီးနောက်၊ မိမိ၏စစ်သည် အလုံးအရင်းကို ယူဆောင်ကာ၊ ပြည်ဘုရင် နရပတိနှင့် သွားရောက် ပူးပေါင်းလေသည်။ ထိုအခါ မင်းတရားရွှေထီးသည် ဟံသာဝတီကို အလိုတော် ပြည့်ပြီဖြစ်၍ မုတ္တမကို ချီရအံ့လော၊ ပြည်ကိုပင်ချီတက် လုပ်ကြံရအံ့လောဟု သဘောနှစ်ခွဖြစ်ကာ၊ မှူးမတ်တို့နှင့် တိုင်ပင်တော်မူ၏။ စစ်ရေးတွင် အမြင်ကျယ်လှသော ကျော်ထင်နော်ရထာက ပြည်မြို့သို့ ဆက်လက်ချီတက်တော်မူပြီးမှ အရေးသာလျှင် သာသည့်အလျောက် လုပ်ကြံတော်မူပါ။ အရေးမသာက မုတ္တမသို့ စစ်ကြောင်းလွှဲသင့်ပါသည်ဟု လျှောက်သည်ကို မင်းတရားကြီးသည် နှစ်ချိုက်တော်မူသောကြောင့် ကျော်ထင်နော်ရထာအား ထိုအရေးကို လွှဲအပ်တော်မူ၏။

ကျော်ထင် နော်ရထာလည်း ဟံသာဝတီ၌ သိုဝှက်ထားသော တိုက်လှေများကို ဆုလပ်ပေး၍ ယူစေပြီးသော်၊ လှေတပ်ခုနစ်တပ်ဖွဲ့ကာ ရေကြောင်းမှ မင်းတရားကြီးအား ချီတော်မူစေ၏။ မှန်တို့သည် ဥပါယ်တံမျဉ် ပရိယာယ်ဝေဝုစ်များလှသည်။ ရေတပ် ကြည်းတပ်ကို မကွာ ချီရမည် ဟုဆို၍ သတိုးဓမ္မရာဇာအစရှိသူတို့ကို တပ်လေးတပ်တွင် ဦးစီးစေလျက်၊ လှေတပ်များနှင့်ထက်ကြပ်မကွာ ချီတက်စေလေသည်။ ကျော်ထင်နော်ရထာကိုယ်တိုင်လည်း တိုက်ဆင် ၅၀၊ မြင်း ၅၀၀၊ စစ်သည်သူရဲ ၁၀၀၀၀၊ ဆင်းစီးအမတ် ၅ ကျိပ်နှင့် ကုန်းကြောင်းမှပင် ချီတက်လိုက်ပါလေရာ၊ နောင်ရိုးသို့ ရောက်လာ၏။

နောင်ရိုး တဖက်ကမ်းတွင် ပြည်ဘုရင်ထံသို့ ရေကြောင်းဖြင့် ဆုတ်ခွါထွက်ပြေးသော သုရှင်တကာရွတ်ပိ၏ အမတ်ဗညားဒလနှင့် မင်းရဲအောင်နိုင် အစရှိသူတို့ တိုက်ဆင် ၂၀၀၊ မြင်း ၈၀၀ နှင့် စစ်သည်သူရဲ ၈၀,၀၀၀ တို့ကိုတပ်ကြီး ၅ တပ်ဖွဲ့၍တပ်ချရပ်နားနေသည်ကို တွေ့ရလေသည်။ ကျော်ထင်နော်ရထာလည်း ရန်သူ၏ စစ်အင်အားကို မှန်းဆကြည့်ရှုစေရာ အင်အားချင်းမမျှသည်ကို သိရသော်လည်း ဖောင်များဖွဲ့စေပြီးလျှင် မိမိတပ်များကိုတဖက်ကမ်းသို့ ချောင်းကိုဖြတ်၍ ဖောင်နှင့် ကူးစေ၏။ တဖက်သို့ ရောက်လျှင် မိမိ၏တပ်သားများ နောက်မတွန့်ဘဲ တိုက်ခိုက်နိုင်စေရန် ဖောင်များကိုဖျက်စေ၏။ တပ်မှူးစစ်ကဲများကရန်သူအင်အားကြီးမားလှသည်။ မနိုင်၍ ဆုတ်ခွါရသည်ရှိသော် ဖောင်များမရှိလျှင် အခက်ကြုံရအံ့ဟု လျှောက်တင်ကြ၏။ ကျော်ထင်နော်ရထာလည်း မစိုးရိမ်ကြလင့်၊ ဘုန်းတော်ကြောင့် ဤတိုက်ပွဲတွင် အောင်ပွဲဆင်ရအံ့ဟု ပြန်လည် မိန့်ကြားလေ

သည်။ ထိုအခိုက် မင်းတရားရွှေထီးက ရန်သူကို တွေ့လျှင် မတိုက်နှင့်ဦး၊ ကိုယ်တော်တိုင် တိုက်တော်မူမည်ဟု မြင်းသည်ကျော်များကို စေလွှတ် မိန့်ကြားလိုက်လေရာ၊ ကျော်ထင်နော်ရထာက ဘုန်းတော်ကြောင့် အောင်မြင်လေပြီဟု ပြန်လည် လျှောက်တင်စေ၏။ထိုနောက် 'သည်စစ်ကို ငါတို့အောင်မြင်လျှင်လည်း အသက်ရှည်မည်။ မအောင်မြင်ခဲ့လျှင်လည်း ငါတို့သေရမည်။ သေလေပြီးသည်ကိုလည်း ဘယ်သူကို အပြစ်တော်တင်မည်နည်း' ဟု တပ်မှူး စစ်ကဲအပေါင်းအား စိတ်နှစ်ခွ မရှိစေရန် ရှင်းလင်း မိန့်တော်မူပြီးသော်၊စစ်ကြောင်းများခွဲ၍တိုက်စေ၏။လက်ျာစစ်ကြောင်း၌ ဆင်စီးအမတ် ၁၅၊ မြင်း ၂၀၀၊ စစ်သည် ၃,၀၀၀ ကို ထော်မိုင်းရဲအား ဦးစီးစေ၍၊ လက်ဝဲစစ်ကြောင်းတွင် ထိုမျှသော ဆင်မြင်းဗိုလ်ပါအင်အားကိုပင်ဘယသကြီအားဦးစီးစေ၏။ ကျော်ထင် နော်ရထာ ကိုယ်တိုင်မှာကား အလယ်ကြောင်းမှ နေ၍ ဆင်စီးအမတ် ၂၀၊ မြင်း ၁၀၀၊ စစ်သူရဲ ၄၀,၀၀၀ နှင့် ဝင်ရောက်တိုက်ခိုက်လေသည်။ 'စစ်တို့၏သဘောသည် အင်အား နည်းသည်များသည်ဟူ၍ မရှိ၊ လုပ်ရည်ကြံရည် အရဲအစွမ်းသာ အရင်းဖြစ်သည်'ဟူ၍ ကျော်ထင်နော်ရထာ မိန့်ဆိုသည်ကို ကြားလျှင်၊ ဗိုလ်ပါအများ အားတက်လာသည်နှင့် ရှုပ်ရှုပ် ချ ချ တိုက်ကြ၏။ မွန်တို့ကလည်း မြန်မာဖက်မှ စစ်အင်အားနည်းသည်ဟု မကြောက်မရွံ့စစ်မျက်နှာဖြန့်၍ ကြိုလာ၏။ ကျော်ထင် နော်ရထာလည်း စီးတော်မူသော စွယ်လမန်ဆင်ကို ချွန်းဖွင့်၍ဝင်ပြီးလျှင် ဗညားဒလဆင်ကိုတိုက်၏။ ဗညားဒလလည်း ဆင်ထက်မှ မြင်းသို့ သက်၍ ထွက်ပြေးရလေသည်။ မွန်တပ်များ ၄ စုကွဲ၍ ပျက်လေသည်။ မြန်မာတို့ ဆင်မြင်း သုံ့ပန်း အများအပြား ရရှိလိုက်၏။

မင်းတရား ရွှေထီးလည်း နောက်တနေ့မှ နောင်ရိုးသို့ ရောက်တော်မူလာပြီးလျှင် ကျော်ထင်နော်ရထာကို ခေါ်၍ 'ငါ့ကို မင့်ဘဲကို တိုက်နှင့်သည်၊ ငါ့ပွဲတော်ကိုဖျက်ရာသလော' ဟုမိန့်တော်မူ၏။ထိုအခါကျော်ထင်နော်ရထာက 'ဘုန်းကြီးသည့် အရှင်နှင့် မထိုက်တန်၊ ကျွန်တို့နှင့်သာ ထိုက်တန်သည့်ပွဲဖြစ်၍၊ လုပ်ကြံရဦးမည်လည်း များသေးသည်နှင့် တိုက်ပေသည်' ဟု လျှောက်ပြီးသော် ရသည့်ဆင်မြင်း ဗိုလ်ပါ လက်နက်ကရိယာတို့ကို ဆက်လျှင် အားရတော်မူ၍၊ ကျော်ထင်နော်ရထာအား ဘုရင့်နောင်ဟူသောဘွဲ့ကို ပေးတော်မူသည်သာမက၊ ဝတ်တော်မူသော လက်စွပ် ပတ္တမြားလက်ကောက်တို့ကိုလည်း ပေးသနား၍၊ လိုင်မြို့ကို စားစေသည်။ အောင်ပွဲရ တပ်သားများကိုလည်း အထိုက်အလျောက် အဆောင်အယောင် စားကျေး စားလက် ပေးတော်မူ၏။ ထိုနောက်မှ ရေအား ကြည်းအားဖြင့် ပြည်မြို့သို့ ဆက်လက်ချီတော်မူလေသည်။

**နိုင်ဂျာမြစ်။** ။နိုင်ဂျာမြစ်သည်အာဖရိကတိုက်အနောက်ပိုင်းရှိ မြစ်ကြီးဖြစ်သည်။ ပင်လယ်မှ မိုင် ၁၅၀ ခန့်မျှသာဝေးသော ပြင်သစ်ပိုင်ဂင်းနီနယ်ရှိ ကုန်းမြေမြင့်ပေါ်တွင် မြစ်ဖျားခံပြီးသော်၊ ပဌမဦးစွာ၌ အရှေ့မြောက်ဖက်သို့ရှင်း၊ နောက်တဖန်အရှေ့တောင်သို့ရှင်း စီးဆင်း၍၊ ပြင်သစ်ပိုင် နယ်မှ အင်္ဂလိပ်ပိုင် နိုင်ဂျီးရီးယားနယ်ကို ဖြတ်ကာ ဂင်းနီပင်လယ်ကွေ့ထဲသို့ စီးဝင်လေသည်။ ထိုမြစ်၏ မြစ်ဝကျွန်းပေါ်သည် မိုင် ၇၀ ခန့် ရှည်လျား၍၊ မြစ်ချောင်းအသွယ်သွယ်တို့မှာ ကွန်ချာကို ဖြန့်ချထားဘိသကဲ့သို့၊ မြောက်မြားစွာ ရှုပ်ထွေးလျက် ရှိနေရကား၊ မည်သည့်မြစ်သည် မြစ်မကြီးဖြစ်ကြောင်းပြောဆိုရန်ပင် ခဲယဉ်းလှ၏။ မြစ်ဝကျွန်းပေါ်ဒေသရှိ နေရာများသည် ရာသီဥတုအားဖြင့် ကျန်းမာရေးနှင့်မညီညွတ်ဘဲ စက်စီ ယင်ကောင်များကြောင့် အဖျားရောဂါ ထူထပ်သည်။

နိုင်ဂျာမြစ်၏ မြစ်ညာ အရပ်ဒေသများသည် မြောက်ပိုင်းအာဖရိကတိုက် အနောက်ဖက်သို့ စီးဆင်းသော ဆင်နီဂေါ်မြစ်ဝှမ်းရှိ မြို့များသို့ ကုန်းလမ်း၊ ကားလမ်း၊ မီးရထားလမ်းများဖြင့် ဆက်သွယ်နေသည်။ ထိုကြောင့် အာဖရိကအတွင်း ကျသော ဆဟာရာ သဲကန္တာရသို့ ရောက်လုနီးနီး၊ တင်ဗတ်တူး၊ ဆန်ဆင်ဒင်နှင့် ဆေးဂူးမြို့များအထိ ခရီးသွားရန် လွယ်ကူသည်။

နိုင်ဂျာမြစ်ဝှမ်းသည် မြေဩဇာကောင်းသော အရပ်ဒေသများကို ဖြတ်သန်း စီးဆင်းရသဖြင့် ထိုမြစ်တလျှောက်သို့ တင်ပို့ ရောင်းချသော ကုန်များမှာ အများအားဖြင့် အာဖရိက ထန်းဆီ၊ ဆီစေ့များ၊ အင်တွဲ၊ သစ်စေး၊ ကြက်ပေါင်စေး၊ ကော်ဖီနှင့် ဆင်စွယ်ဟူ၍ ဖြစ်လေသည်။ နိုင်ဂျာမြစ်သည် ကုန်စည်ကူးသန်းရောင်းဝယ်ရေးတွင် အလွန်အသုံးဝင်သော မြစ်ဖြစ်၍ နိုင်းနှင့် ကွန်ဂိုမြစ်များမှ လွဲလျှင် အကြီးဆုံးသောမြစ်ဖြစ်၏။ နိုင်ဂျာမြစ်၏ အကြီးဆုံးသော လက်တက်မှာ ဗေးနွေးမြစ်ဖြစ်သည်။ နိုင်ဂျာမြစ်တွင် မိုင်ပေါင်း ၆၀၀ ခန့်အထိ ကုန်သင်္ဘောကလေးများ မောင်းနှင်သွားလာနိုင်လေသည်။ နိုင်ဂျာမြစ်သည်မိုင်ပေါင်း ၂,၆၀၀ ရှည်လျားလေသည်။

**နိုင်ငံကူးလက်မှတ်။** ။နိုင်ငံကူးလက်မှတ် ဆိုသည်မှာ နိုင်ငံတော်အစိုးရက မိမိ၏ နိုင်ငံသားတဦးအား တိုင်းတပါးသို့ သွားရောက်နိုင်ခွင့် ပြုသော အနေနှင့် ထုတ်ပေးသည့် လက်မှတ်ဖြစ်သည်။ မည်သူမဆို နိုင်ငံရပ်ခြားတိုင်းတပါးသို့ သွားရောက် ဝင်ထွက်လိုသောအခါ နိုင်ငံကူးလက်မှတ်ကို ယူဆောင်သွားရသည်။

လက်မှတ်ရှင်အား လုံခြုံစွာနှင့် လွတ်လပ်စွာ ဖြတ်သန်းသွားလာခွင့် ပြုရန်နှင့် အရေးရှိက လိုအပ်သမျှသော တရား

သဖြင့် အကူအညီအစောင့်အရှောက်ကို ပေးရန် သက်ဆိုင်သူတို့အား ပန်ကြားချက်ပါ လက်မှတ်၌ ပူးတွဲပါဝင်သည်။ နိုင်ငံကူးလက်မှတ်ကို ကြည့်ခြင်းဖြင့် လက်မှတ်ပိုင်ရှင်သည် မည်သည့် နိုင်ငံသားဖြစ်ကြောင်း သိသာသည်။

အချို့ နိုင်ငံတွင် နိုင်ငံကူး လက်မှတ်ကို ပြည်ထဲရေးဌာန၌ လျှောက်ထားရ၍၊ အချို့နိုင်ငံတွင် နိုင်ငံခြားရေးဌာန၌ လျှောက်ထားရသည်။ မြန်မာ နိုင်ငံ၌မူ နိုင်ငံခြားရေးရုံးတွင် လျှောက်ထားရသည်။ လျှောက်ထားသည့် အခါ သုံးကျပ်ခွဲတန် အစိုးရတံဆိပ်တော်ခေါင်းပါ ပုံစံစာရွက်တွင် လိုအပ်သောအချက်အလက်များ ဖြည့်သွင်းပြီးနောက် ဘောင်မပါသော ဓာတ်ပုံအသေးသုံးပုံကို ပူးတွဲတင်ပြရသည်။ ထိုအခါမှ နိုင်ငံတော်ရဲအဖွဲ့၊ အထူး စုံစမ်း ထောက်လှမ်းရေး ဌာနက လျှောက်ထားသူအကြောင်းကို စုံစမ်းသည်။ အလုံးစုံ ကျေနပ်သောအခါတွင် နိုင်ငံကူးလက်မှတ်ကို ထုတ်ပေးလေသည်။ ထိုအခါ လျှောက်ထားသူက လက်မှတ်ခ ငွေတဆယ်ကျပ် ပေးသွင်းရသည်။

နိုင်ငံကူးလက်မှတ်တွင် လျှောက်လွှာနှင့် အတူ တင်ပို့လိုက်သော ဓာတ်ပုံ သုံးပုံအနက် တပုံကို ကပ်ပေးလိုက်၍ ယင်းအပေါ်တွင် အစိုးရတံဆိပ် ရိုက်နှိပ်လိုက်သည်။ လက်မှတ်မှာ စာအုပ်သဖွယ်ဖြစ်၍ အဖုံးပေါ်တွင် ပိုင်ရှင်အမည်၊ အမှတ်စဉ်၊ ထုတ်ပေးသည့် နေ့စွဲတို့ကို ရေးထား၏။

နိုင်ငံကူး လက်မှတ် ရရှိထားသူသည် ယင်းလက်မှတ်ထဲ၌ ရေးသားပါရှိသည့် နိုင်ငံများသို့သာ သွားလာခွင့် ရှိသည်။ ယင်းနိုင်ငံများ ဆိုင်ရာ အရာရှိတို့က နိုင်ငံကူး လက်မှတ်ပေါ်တွင် ထပ်ဆင့် လက်မှတ်ရေးထိုးပြီးဖြစ်မှသာလျှင် ယင်းနိုင်ငံများ၌ နေနိုင်ခွင့်၊ ဝင်ထွက်သွားလာနိုင်ခွင့်များ ရရှိသည်။ ဤသို့ ထပ်ဆင့် လက်မှတ်ရေးထိုး ခွင့်ပြုခြင်းကို ဗီဇာ သို့မဟုတ် နိုင်ငံဝင် လက်မှတ်ဟုခေါ်လေသည်။

နိုင်ငံကူးလက်မှတ်ကို ထုတ်ပေးသည့်နေ့ရက်မှစ၍ သာမန်အားဖြင့် ၅ နှစ် အတည်ဖြစ်သည်။ ငါးနှစ်အတွင်း ခရီးသွားရန်ကိစ္စ အသစ်အသစ်ပေါ်လာတိုင်း လဲလှယ်ခ ငွေတကျပ် ပေးသွင်း၍ လက်မှတ်သစ် လဲလှယ်နိုင်သည်။ နိုင်ငံခြား ခရီးသွားတဦးအဖို့ ဤနိုင်ငံကူး လက်မှတ်သည် အသက်သွေးခဲပမာ အရေး ကြီးလှသည်။

# ရောင်းဝယ်ကုန်ပစ္စည်းဆန်း

**စစ်ပြီးခေတ်တွင် နိုင်ငံခြားနှင့် ဆက်သွယ်ရသော တိုင်းရင်းသားကုန်သည် အမြောက်အမြား ပေါ်ထွက်လာပြီဖြစ်ရာ၊ နိုင်ငံခြားကုန်သွယ်ရေးနှင့် ဆက်စပ်လျက်ရှိသော နိုင်ငံခြားငွေလဲလှယ်မှုကိစ္စတို့ကို သိအပ်လှပေသည်။ ဤအကြောင်းရပ်တွင် နိုင်ငံခြားငွေ လဲလှယ်မှုအကြောင်း သိကောင်းစရာတို့ကို စုံလင်စွာ ဖတ်ရှုလေ့လာနိုင်လေသည်။**

**နိုင်ငံခြားငွေ လဲလှယ်မှု။** ။"နိုင်ငံခြားငွေ လဲလှယ်မှု"ဟူသည်မှာ ယင်းတို့၏ ဓနပစ္စည်းပိုင်ဆိုင်ခွင့်များကို ငွေအဖြစ် တန်ဖိုးထား၍ တိုင်းပြည် တပြည်နှင့်တပြည် လဲလှယ်ရာတွင် အသုံးပြုသည့် နည်းလမ်းစနစ်များနှင့်သက်ဆိုင်သော စီးပွားရေး သိပ္ပံပညာရပ် အစိတ်အပိုင်းတခု ဖြစ်သည်ဟု ဆိုရပေမည်။ ထိုစကားရပ်၏ အဓိပ္ပါယ်တွင် (၁) တနိုင်ငံနှင့် တနိုင်ငံ ငွေလဲလှယ်မှု စနစ်ကို စုံစမ်းရေး၊ (၂) ယင်းသို့ လဲလှယ်ရန် လိုအပ်လာရသော အကြောင်းများ၊ (၃) လဲလှယ်မှုတွင် မည်သည့်အသွင်ကို ထားရှိရေးနှင့် (၄) မည်သည့် အချိုးအစားများ အလိုက်သော်၎င်း၊ မည်သည့် တူညီသော နှုန်းထားများဖြင့်သော်၎င်း လဲလှယ်မှု ပြုလုပ်ကြရသည်ဟူသော အချက်များပါ အကျုံးဝင်လျက် ရှိသည်။

ဘဏ်များက နိုင်ငံခြားငွေ လဲလှယ်မှု ကိစ္စကို ဆောင်ရွက်နေကြသည်ဟု ဆိုရာ၌ စင်စစ်အားဖြင့် နိုင်ငံခြားငွေကို ဝယ်ယူရောင်းချ၍ နေကြခြင်းပင် ဖြစ်၏။ (ဘဏ် — ရှု။) အကြောင်းခြင်းရာကို အသေအချာ မသိသူတို့သည် ထိုငွေမျိုးကို ချိန်ဆ တိုင်းထွာ၍ မရနိုင်သော ကုန်ပစ္စည်း အဆန်းတမျိုးဟု မှတ်ယူကြသည်။ ဘဏ်များက နေ့စဉ်နှင့်အမျှ နိုင်ငံခြားငွေများကို ဝယ်ယူရောင်းချ၍ နေကြသဖြင့် ရန်ကုန်မြို့ရှိ ဘဏ်တိုက်တတိုက်၏ မန်နေဂျာထံသို့ ကျွန်ုပ်တို့ သွားရောက်ကာ၊ ထိုဘဏ်က ရောင်းချနေသည့် အဆိုပါ ထူးဆန်းသောကုန်ပစ္စည်းအကြောင်းကိုမေးမြန်းကြည့်ကြပါစို့။ ဘဏ်မန်နေဂျာက သိစေလိုသော စေတနာထားပါမူ ကျွန်ုပ်တို့အား ယင်း၌ ထားရှိသော နိုင်ငံခြားငွေ အမျိုးမျိုးနှင့် ထိုငွေများ၏ တန်ဖိုးစာရင်းကို ပြသပေလိမ့်မည်။ ထိုပြသသည့် စာရင်းတွင် နိုင်ငံခြားငွေဖြစ်သည့် စတာလင်ပေါင်၊ အိန္ဒိယငွေ၊ ပြင်သစ်၊ ဆွစ်နှင့် ဗဲလဂျီယမ် နိုင်ငံသုံးဖရန့်များ၊ နော်ဝေးနှင့် ဒိန်းမတ်နိုင်ငံသုံး ခရိုနာများ၊ အမေရိကန်ပြည်ထောင်စုသုံး ဒေါ်လာများနှင့် ဩစတြေးလီးယား နိုင်ငံသုံး ပေါင် အစရှိသည်များကိုပင် ရောင်းချရန် အသင့်ရှိနေကြောင်းကို တွေ့မြင်ရပေမည်။ နိုင်ငံခြားငွေများကို ဘဏ်တိုက်များက ကုန်စုံရောင်းသကဲ့သို့ အရောင်းအဝယ် ပြုလုပ်ကြ၏။ ယင်းသို့ အရောင်းအဝယ် ပြုလုပ်သည့် ဘဏ်၏ နိုင်ငံခြားငွေများ ဈေးနှုန်းစာရင်းကို ကုန်စုံဆိုင်တွင်ထားရှိသော

ကုန်စျေးနှုန်းစာရင်းနှင့် နှိုင်းရှည့်၍ ကြည့်မည်ဆိုပါက ကုန်စုံဆိုင်ရှင်က ကုန်အချိန် တပိဿာ(၀ါ)တပေါင်လျှင် မြန်မာကျပ်ငွေမည်မျှနှင့် ရောင်းချမည်ကို တန်ဖိုးထားဘိသကဲ့သို့ ဒေါ်လာငွေ၊ ဖရန့်၊ စတာလင်ပေါင် အစရှိသည်တို့ အပေါ်၌ ကျပ်ငွေမည်မျှ တန်ဖိုးထား၍ ရောင်းချမည်ကို စျေးနှုန်းသတ်မှတ် ထားကြောင်း တွေ့မြင်ရပေလိမ့်မည်။

ဘဏ်များက ပြည်ပရှိ နိုင်ငံခြားသားများ အတွက် လိုအပ်သော ကိစ္စများကို ဆောင်ရွက် ပေးခြင်းကြောင့် နိုင်ငံခြားငွေ ရရှိနိုင်သည်။ထို့ပြင် ပြည်ပတွင် ငွေ အရင်းအနှီး မြှုပ်နှံထားသည့် လုပ်ငန်းများရှိပါက တိုင်းရင်းသားများကလည်း နိုင်ငံခြား ငွေများကို ရရှိနိုင်ကြသေး၏။ နိုင်ငံခြားငွေ အများဆုံးရရှိအောင်လုပ်ဆောင်၍ပေးသူများမှာ ကျွန်ုပ်တို့၏ ထုတ်ကုန် ကူးသူများ ဖြစ်ကြသည်။ နှစ်စဉ် နိုင်ငံခြားသို့ တင်ပို့ရသည့် ထုတ်ကုန်များအတွက် ရရှိသော နိုင်ငံခြားဝင်ငွေသည် ကုဋေပေါင်း များစွာဖြစ်၏။ ထိုထုတ်ကုန်တန်ဖိုးငွေများကို နိုင်ငံခြားငွေ အမျိုးမျိုးအစားစားဖြင့် ရရှိသည့်အခါ၌ ဘဏ်များက သက်ဆိုင်သူများကို ငွေလဲလှယ်၍ ကျပ်ငွေဖြင့် ပေးကာ စာရင်းရှင်းလင်းကြလေသည်။ မြန်မာနိုင်ငံတွင် နေထိုင်သူတို့အဖို့ နောက်ဆုံး တန်ဖိုးကို မြန်မာငွေနှင့် ရရှိမှသာလျှင် ကျေနပ် ကြပေမည်။ ဘဏ်များက နိုင်ငံခြားငွေများကို ရရှိထားကြသည်နှင့်အမျှ နိုင်ငံခြားငွေ အလိုရှိသူများကို ရှာဖွေကြရပေမည်။ ယင်းနိုင်ငံခြားငွေကို အလိုရှိသောသူများသည် အများအားဖြင့် ကျွန်ုပ်တို့၏ သွင်းကုန်ကူးသူများ ဖြစ်ကြ၏။ အဘယ်ကြောင့် ဆိုသော်၊ ထိုပုဂ္ဂိုလ်များသည် နိုင်ငံခြားမှ မှာယူတင်သွင်းသော ကုန်ပစ္စည်းများအတွက် နိုင်ငံခြားငွေဖြင့် ပေးချေရမည် ဖြစ်ခြင်းကြောင့်ပင်တည်း။ထို့မှတပါး ကျွန်ုပ်တို့ အစိုးရကလည်း နိုင်ငံခြားမှ ဝယ်ယူသည့် ကုန်ပစ္စည်းများအတွက်သော်၎င်း၊ ပညာတော်သင်များအား ထောက်ပံ့ရန် စရိတ်အတွက်သော်၎င်း၊ ပြည်ပရှိ မြန်မာသံရုံးများ၏ စရိတ်စကများအတွက်သော်၎င်း၊ နိုင်ငံခြား အစိုးရထံမှ ဖြစ်စေ၊ အဖွဲ့အစည်းများထံမှ ဖြစ်စေ၊ ချေးယူသည့် ငွေများအတွက် အတိုးအရင်း အစရှိသည်တို့ကို ပေးဆပ်ရန် အတွက်သော်၎င်း၊ အခြား တိုင်းနိုင်ငံများသို့ သွားရောက်လည်ပတ်ကြသည့် ခရီးသည်များ၏ စရိတ်စကများအတွက်သော်၎င်း နိုင်ငံခြားငွေ ပေးချေ ကုန်ကျရမည့် တာဝန်လည်း ရှိပေသေးသည်။

ဘဏ်တိုက်၏ တာဝန်မှာ ယင်းနှင့် ဆက်သွယ်သူများအတွက် နိုင်ငံခြား ငွေကို ကျပ်ငွေဖြင့် လဲလှယ်ပေးရန် ဖြစ်ကြောင်း အထက်တွင် ပြဆိုခဲ့ပြီး ဖြစ်၏။ မြန်မာ နိုင်ငံမှ ထုတ်ကုန် ပစ္စည်းများကို နိုင်ငံခြားသို့ တင်ပို့ ရောင်းချသည့်အခါ၊ မည်ကဲ့သို့ ငွေအပေးအယူ လဲလှယ်မှု ပြုလုပ်သည်ကို ပုံစံအားဖြင့် ဖော်ပြရမည် ဆိုလျှင်၊ မြန်မာနိုင်ငံရှိ "ရွှေလိပ်ပြာကုမ္ပဏီ" အမည်ရှိသော ကုမ္ပဏီတခုက အင်္ဂလန်ပြည် မန်ချက်စတာမြို့ရှိ "ဂျွန်အင်ကုမ္ပဏီ" သို့ ကျပ်ငွေ ၂၄,၀၀၀ တန် ဝါဂွမ်းရိုင်းများကို ရောင်းလိုသည့်အခါ၊ထုတ်ကုန်ကူးသူ ရွှေလိပ်ပြာကုမ္ပဏီက ဘဏ်အား ယင်းတင်ပို့ရောင်းချမည့် ကုန်များအတွက် ငွေရယူရန် တာဝန် လွှဲအပ်ရပေမည်။ ကုန်ဝယ်ယူသူကလည်း ကုန်ပိုင်ဆိုင်ခွင့် ရှိသည့် သင်္ဘောတင်ခြင်းနှင့် စပ်ဆိုင်သော စာရွက်စာတမ်းများကို ကျသင့်သော တန်ဖိုးပေး၍ ရွေးယူရန် စီစဉ်ရမည်ဖြစ်၏။ ထုတ်ကုန်ကူးသူသည် ကုန်သွယ်မှုစနစ်ကို မကျွမ်းကျင်သေးလျှင်၊ ဘဏ်က ထိုသူ့အား "ငွေလွှဲစာချုပ်" ကို မည်သို့ ထုတ်ရမည်ကို၎င်း၊ သင်္ဘောတန်ဆာကို မည်သို့ ပြုလုပ်ရရှိနိုင်သည်ကို၎င်း၊ ကုန်များကို မည်သို့ရေကြောင်းအာမခံ ထားရှိရမည်ကို၎င်း၊ ပို့ကုန်စာရင်းကို မည်သို့ပြုလုပ်ရမည်ကို၎င်း နားလည်အောင် ပြောပြ ပေးလိမ့်မည်။ ထုတ်ကုန်ကူးသူက သူ၏ ဝါဂွမ်းရိုင်းကို ဂျွန်အင်ကုမ္ပဏီထံသို့ လိပ်တပ်၍ တင်ပို့ရန်၊ သင်္ဘောကုမ္ပဏီအား ပေးအပ်ပြီးသည့်အခါ သင်္ဘောမာလိန်မှူးထံမှဖြစ်စေ၊ ယင်း၏ ကိုယ်စားလှယ်ထံမှ ဖြစ်စေ သင်္ဘောတန်ဆာကို ရရှိလိမ့်မည်။ ထိုတန်ဆာသည် သင်္ဘောပေါ်သို့ ကုန်များ တင်ပြီး၍ လက်ခံရရှိကြောင်း သင်္ဘောမာလိန်မှူးကဖြစ်စေ၊ကိုယ်စားလှယ်က ဖြစ်စေ လက်မှတ်ရေးထိုးထားသော စာတမ်းဖြစ်သည့် အပြင်၊ ကုန်လက်ခံမည့် သူအား၎င်း၊ ထိုသူက တဆင့် လွှဲအပ်မည့် ပုဂ္ဂိုလ်အား၎င်း သင်္ဘောတင်ခရရှိသည့်အခါ ကုန်ကို ပေးအပ်ပါမည်ဟူသော ဝန်ခံချက်ပါရှိသဖြင့်၊ ကုန်များပိုင်ဆိုင်ခွင့် ရှိကြောင်းကို ပြသသည့် စာရွက် စာတမ်းဖြစ်သည်။ သင်္ဘောတန်ဆာ ရရှိပြီးသည့်နောက်၊ ကုန်တင်ပို့သူက မိတ္တူများ၏ ကျောဖက်တွင် လက်မှတ် ရေးထိုး၍ ငွေလွှဲစာချုပ်နှင့် အတူ သင်္ဘောတန်ဆာ၊ ကုန်စာရင်း၊ ရေကြောင်းအာမခံ စာချုပ်နှင့် အခြားလိုအပ်သော ကုန်တင် စာရွက်စာတမ်းများကိုပါ၊ ဘဏ်သို့ ပေးအပ်ရမည်ဖြစ်သည်။ ယင်းသို့ သင်္ဘောတန်ဆာကို လက်မှတ် ရေးထိုး လွှဲပြောင်းပေးအပ်လိုက်ခြင်းသည် ကုန်ပစ္စည်းများကို ဘဏ်သို့ လွှဲအပ်ပေးရာ ရောက်သဖြင့် ဘဏ်က ကုန်တင်ပို့သူ၏ ကိုယ်စား ကုန်တန်ဖိုးငွေကို ကောက်ခံယူပေးရမည်ဖြစ်၏။ စာရွက် စာတမ်းများအားလုံး နေရာတကျ ရှိခဲ့လျှင် အဆိုပါ ဘဏ်က ထိုစာရွက် စာတမ်းများကို နိုင်ငံခြားရှိ ယင်း၏ ဘဏ်တိုက်ခွဲသို့ ဖြစ်စေ၊ ကိုယ်စားလှယ်ဘဏ်ထံသို့ ဖြစ်စေ ငွေကောက်ခံယူရန်အတွက် ပေးပို့လိမ့်မည် ဖြစ်သည်။ အင်္ဂလန်ပြည်သို့ ကုန်ပစ္စည်းများ ရောက်သည့် အခါ၌ ကုန်ဝယ်ယူသူအား သင်္ဘောကုန်တင် စာရွက်စာတမ်းများကို ဘဏ်က ငွေလက်ခံရရှိပြီးမှ ပေးအပ်လိမ့်မည်ဖြစ်သည်။ ထိုသို့ ငွေလွှဲစာချုပ်ကို လက်ခံ၍ ငွေချေပြီးကြောင်း မြန်မာနိုင်ငံ ဘဏ်က အကြောင်းကြားစာ ရသည့်အခါ ကုန်ပို့သူအား ဘဏ်

ကော်မရှင်နှင့် နိုင်ငံခြား တံဆိပ်တော်ခေါင်းဖိုးတို့ကို ခုနှိမ်၍ ကုန်ဖိုးငွေကို ပေးအပ်လိမ့်မည်။ သို့တည်းမဟုတ် ကြေးနန်းဖြင့် ငွေပေးချေရန် အကြောင်းကြားစာ ရရှိပါလျှင် ဘဏ်က ကုန်တင်ပို့သူအား နှောင့်နှေးခြင်း မရှိဘဲ ငွေကို ထုတ်ပေးနိုင်လိမ့်မည်။

အထက်ဖော်ပြပါ ဥဒါဟရုဏ်တွင် ငွေလွှဲစာချုပ်သည် ကျပ်ငွေ ၂၄,၀၀၀ တန်ဖိုးနှင့် ညီမျှသည့် စတာလင် ပေါင် ၁,၈၀၀ အတွက် ဖြစ်ခဲ့လျှင် တန်ဖိုးကျသင့်သလောက် အခွန်တော်တံဆိပ်ခေါင်းကပ်၍၊ အောက်ပါ စာတမ်းမျိုးကို ရေးဆွဲအသုံးပြုရမည်ဖြစ်သည်။

ထိုငွေလွှဲ စာချုပ်ကို ငွေကောက်ခံရယူရန် ဘဏ်သို့မပေးအပ်မီ၊ "ရွှေလိပ်ပြာကုမ္ပဏီ" က ထောက်ခံလက်မှတ်ရေးထိုးပေးရပေမည်။ ရွှေလိပ်ပြာကုမ္ပဏီအား ငွေလည်စေရန် ကူညီလိုသော ဆန္ဒရှိလျှင် ဘဏ်တိုက်က အဆိုပါ ငွေလွှဲစာချုပ်ကို လက်ငင်းလက်ခံ ဝယ်ယူလိုက်မည် ဖြစ်သည်။ ယင်းသို့ ဝယ်ယူလိုက်ပါက ကုန်တင်ပို့သူသည် အချိန်ကြာရှည်စွာ မစောင့်

လဲလှယ်ရမည့် နိုင်ငံခြားငွေ တန်ဖိုး ပေါင် ၁,၈၀၀။

| တံဆိပ်တော်<br>ခေါင်း |
|---|

ရန်ကုန်မြို့။

ဒီဇင်ဘာလ ၃၀၊ ၁၉၅၇။

ပဌမမူရင်းဖြစ်သော ဤငွေလွှဲစာကို ရရှိပြီးနောက် ၃ ရက် အတောအတွင်း (ဒုတိယမိတ္တူနှင့်တတိယမိတ္တူငွေလွှဲစာများအတွက် ငွေပေးချေခြင်းမပြုရသေးပါမူ) ကျွန်ုပ်အား သို့မဟုတ် ကျွန်ုပ် အာဏာ လွှဲအပ်ထားသူအား လက်ခံ ရရှိထားသော ကုန်တန်ဖိုး စတာလင်ပေါင် တထောင့်ရှစ်ရာကို ပေးချေစေလိုပါသည်။

သို့

ဂျွန်အင်ကုမ္ပဏီ

မန်ချက်စတာမြို့။

ရွှေလိပ်ပြာကုမ္ပဏီ

ဆိုင်းရတော့ဘဲ ငွေချက်ခြင်းရရှိမည်ဖြစ်၏။ သို့သော် ဘဏ်တိုက်က မိမိစိုက်ထုတ်ပေးထားရသည့် ငွေအတွက် အတိုးတွက်နှုတ်ငွေကို ယူပြီးမှ ပေးသော အသားတင်ငွေကိုသာ ရရှိမည် ဖြစ်သည်။ ကုန်တင်ပို့သူထံမှ ငွေလွှဲစာချုပ်ကို အထက်တွင် ပြဆိုသကဲ့သို့ ဘဏ်က လက်ငင်းဝယ်ယူခြင်းမှာ၊ ထိုငွေလွှဲစာကို အချိန်စေ့သည့်အခါ ကုန်ဝယ် သူက လက်ခံပေးချေလိမ့်မည်ဟူသော နားလည်မှု ရရှိထားခြင်းကြောင့်ပင်ဖြစ်၏။ အကယ်၍ ကုန်ဝယ်ယူသူက ကုန်တန်ဖိုးငွေ မပေးချေခဲ့ပါမူ၊ ဘဏ်က ကုန်ပို့သူထံမှ စရိတ်စကကိုပါ စုပေါင်းတွက်ချက်၍ မိမိထုတ်ပေးခဲ့သော ငွေကို ပြန်လည် တောင်းယူမည် ဖြစ်သည်။ ယင်းသို့ တောင်းဆိုရယူနိုင်ရန်ကိုလည်း ကြိုတင်ကာကွယ် စီစဉ်ထားပြီး ဖြစ်သည်ဟု နားလည်ထားအပ်ပေသည်။

## ငွေလဲနှုန်း

နိုင်ငံခြားငွေ ဝင်လမ်းရှိသူ မြန်မာတဦးသည် ဦးစွာ ပဌမ မိမိရရှိသော နိုင်ငံခြားငွေကို မည်သည့်နှုန်းဖြင့် ရောင်းချနိုင်မည်ကို စဉ်းစားရပေမည်။ တနည်းဆိုလျှင် နိုင်ငံခြားငွေ မည်မျှ ပေးခြင်းအားဖြင့် မြန်မာကျပ်ငွေ မည်မျှရရှိမည်ကို အမိကထား၍၊ စူးစမ်းဆင်ခြင်ရမည် ဖြစ်လေသည်။

ငွေလဲနှုန်းဆိုသည်မှာ ငွေတမျိုးနှင့်တမျိုး နှိုင်းချိန်၍ သတ်မှတ်ထားသော တန်ဖိုး (ဝါ) ဈေးနှုန်း ဖြစ်ပေသည်။ ငွေအမျိုးအစား တခု၏ ဈေးနှုန်းဟူသည်မှာလည်း ထိုငွေအမျိုးအစားကို ကမ္ဘာ၏ ရောင်းဝယ်အား အပေါ်တွင် မူတည်လျက် အစဉ်မပြတ် ပြောင်းလဲ နေခြင်းကြောင့် တည်ငြိမ်ခြင်း မရှိပေ။ ဝယ်ယူရောင်းချနိုင်သည့် ကုန်ပစ္စည်းမှန်လျှင် ယင်း၏ ရောင်းဝယ်အားသည် ပြောင်းလဲခြင်း အတက်အကျသဘော ရှိသည်။ တိုင်းပြည်တပြည်က အကြွေးပေးဆပ်ရန်သော်၎င်း၊ မီးရထားစက်ကရိယာများကို ဝယ်ယူရန်သော်၎င်း စတာလင်ပေါင်ကို ပိုမိုရလိုသည့်ဆန္ဒ ရှိကောင်းရှိပေမည်။ သို့မဟုတ် မြန်မာနိုင်ငံရှိ ကုမ္ပဏီတခုက စက်လုပ်ဝတ္တုပစ္စည်းများကို ဝယ်ယူရန်အတွက် နိုင်ငံခြားငွေ အမြောက်အမြား အလိုရှိပေမည်။ သို့မဟုတ် ဂျပန် နိုင်ငံလုပ်ကုန်ပစ္စည်းများကို ဝယ်ယူလိုသူတယောက်က စတာလင်ပေါင်ပေး၍ တိုက်ရိုက်မဝယ်ယူဘဲ ပဌမစတာလင်ပေါင် ရရှိပြီးနောက်မှ ထိုငွေဖြင့် ဂျပန် "ယန်" ကို တဆင့် ဝယ်ယူပြီးလျှင်၊ လိုသောကုန်ပစ္စည်းကို ဝယ်ယူခြင်းအားဖြင့် သူ့အဖို့ ပိုမိုအကျိုးရှိကြောင်းကို တွေ့ရပေမည်။ အဆိုပါ အခြေခံသဘောတရားများနှင့် အခြား များပြားလှသည့် အချက်အလက်များသည်ပင်လျှင် ငွေများ အရောင်းအဝယ် ဈေးနှုန်းကို ပြုပြင်ချယ်လှယ်လျက် ရှိ၏။ ငွေလဲလှယ်ရေး ကိစ္စအဝဝတွင်၊ အစိုးရက ဝင်ရောက်စွက်ဖက် ဆောင်ရွက်ခြင်း မပြုလျှင်၊ ငွေလဲနှုန်းများ အတက်အကျ ပြောင်းလဲ ယိမ်းယိုင်လာမြဲမဓမ္မတာပင် ဖြစ်သည်။ ယင်းသို့ ပြောင်းလဲ ယိမ်းယိုင် ခြင်းသည် နိုင်ငံခြားငွေ ရောင်းဝယ်အားတို့ကို တခုနှင့် တခု ညီမျှစေရန် ပြုပြင် ဖန်တီးပေးလေသည်။

ကမ္ဘာ တဝန်းလုံး အသုံးပြုနေသည့် ငွေအမျိုးအစားအမျာအပြားကို ရွှေဖြင့် ပြောင်းလဲယူနိုင်စဉ်အခါက ငွေ၏ တန်ဖိုးကို ထိုငွေနှင့် လဲလှယ်နိုင်သည့် ရွှေပမာဏအပေါ် တွင် အခြေပြု၍ သတ်မှတ်ထား၏။ ပုံပမာ - ဘဏ်တွင် ပေးအပ်ထားသော ပေါင်တပေါင်၊ သို့မဟုတ် တပေါင်တန် စက္ကူကို ၁၁၃ 'ဂရမ်' အချိန်စီးသော ရွှေဒင်္ဂါးတပြားဖြင့် အချိန်အခါမရွေး လဲလှယ်ယူနိုင်ခွင့်ရှိခဲ့၏။ အမေရိကန် ပြည်ထောင်စုတွင် ဒေါ်လာငွေ ၄.၈၆၆ ကို ၁၁၃'ဂရမ်' အလေးချိန်ရှိသော ရွှေဖြင့် လဲလှယ်ရယူနိုင်ခွင့် ရှိ၏။ သို့ဖြစ်၍ စတာလင်ပေါင် တပေါင်မှာ အမေရိကန် ဒေါ်လာငွေ ၄.၈၆၆ တန်ဖိုးနှင့်ညီမျှပေသည်။ ထိုတန်ဖိုးပင်လျှင် အဆိုပါ ငွေများကို လဲလှယ်နိုင်သည့် နှုန်းဖြစ်ခဲ့၏။ ရွှေစံချိန်ထား၍ ငွေတန်ဖိုးဖြတ်ရသည့် ခေတ်အခါက ငွေအမျိုးအစားတခု၏ တန်ဖိုးသည် ယင်းငွေ၏ ရွှေဝယ်အားကို အခြေခံ ပြုရငြားသော်လည်း ယခုခေတ်အခါတွင် ရွှေကိုသာမက ကုန်ပစ္စည်းနှင့် လုပ်အားအမျိုးမျိုးတို့ကို ဝယ်ယူနိုင်သည့်အင်အားအပေါ် တည်လျက် ရှိသည်။

## ဝယ်အားညှိနှိုင်းမှု

ပဌမ ကမ္ဘာစစ်ကြီး ပြီးသည့်နောက်၊ ဂျာမနီ၊ ပိုလန်နှင့် အခြား တိုင်းနိုင်ငံများတွင် ယင်းတို့၏ ပြည်တွင်းသုံး ငွေများ လဲလှယ်ရေးတန်ဖိုး ကျဆင်းသွားခြင်းသည် အဓိကအားဖြင့် ငွေကြေးဖောင်းပွမှု(ဝါ)ပစ္စည်းနည်း ငွေများမှုကြောင့် ဖြစ်ပေါ်လာသည်။ ထိုအချက်ကို ထင်ရှားအောင် ပြလို၍ ဝယ်အားညှိနှိုင်းမှု သဘောတရားကို ထိုနိုင်ငံတို့က ကြံစည်အသုံးပြုလိုက်ကြလေသည်။

အဆိုပါ သဘောတရားကို အဓိပ္ပါယ် ပေါ်လွင်အောင် ဥဒါဟရုဏ်ပြရမည် ဆိုလျှင် မြန်မာ နိုင်ငံရှိ တဦးတယောက်သော သူသည် ထားဝယ်ခရိုင်၊ မောင်းမကန် အရပ်သို့ အားလပ်ခွင့်ယူ၍ ခေတ္တသွားရောက်လည်ပတ် နေထိုင်သည့်အတွက် ကျပ်ငွေ ၁၀၀ဝ ကုန်ကျမည်ဆိုကြပါစို့။ အကယ်၍ မောင်းမကန်သို့ သွားမည့်အစား မိန်နီသို့ သွားရောက် နေထိုင်ပါက မောင်းမကန်မှာကဲ့သို့ပင် နေရေးစားရေး အဆင့်အတန်း မခြားနားဘဲ စရိတ်ငွေမလ္လာယုဒေါ်လာ ၅၀၀ သာ ကုန်ကျမည် ဆိုလျှင် မြန်မာငွေ ၁၀၀ဝ သည် မလ္လာယုဒေါ်လာ ၅၀၀ နှင့် ညီမျှသည်ဟုထိုသူအဖို့ သဘောတူလက်ခံနိုင်ဖွယ်ရာ ရှိခြင်းကြောင့် မလ္လာယု ၁ ဒေါ်လာကို မြန်မာငွေ ၂ ကျပ်နှင့် လဲလှယ်ပါက မျှတသော နှုန်းထားဟု ယူဆပေလိမ့်မည်။

ထိုနည်း တူစွာ ကုန်သည် တယောက်သည် သယ်ယူပို့ဆောင်ခ စရိတ်အပါအဝင် မလ္လာယု ဒေါ်လာ ၅၀၀ ပေး၍ ပီနန်တွင် ဝယ်ယူရရှိနိုင်သော ရော်ဘာကုန်ပစ္စည်းများကို မြန်မာနိုင်ငံတွင် ကျပ်ငွေ ၁,၀၀၀ ပေးကာ ဝယ်ယူနိုင်လျှင် ထိုသူကလည်း မလ္လာယု ၁ ဒေါ်လာနှင့် မြန်မာငွေ ၂ ကျပ် တန်ဖိုးထား၍ လဲလှယ်ခြင်းသည် မျှတသည်ဟု သဘောရရှိပေမည်။

ထို့ကြောင့် တနိုင်ငံနှင့် တနိုင်ငံ ယင်းတို့၏ ငွေ အမျိုးအစားတခုနှင့် တခု ဝယ်အားကို လိုက်၍ တန်ဖိုးဖြတ်သော ငွေလဲနှုန်းသည် ကုန်သွယ်လုပ်ငန်း လုပ်ကိုင်သူများ အဖို့ လဲလှယ်သင့်သော နှုန်းထားပင် ဖြစ်ပေသည်။ တနည်း ဆိုလျှင် ဘောဂဗေဒ ပညာရှင်များ၏ အယူအဆအားဖြင့် ငွေနှစ်မျိုးနှစ်စားရှိရာ၌ တမျိုးနှင့် တမျိုး လဲလှယ်ရန် ဖြစ်ပေါ်လာသည့်နှုန်းသည် ယင်းတို့ အသီးအသီး၏ ဝယ်အားနှင့် မခြားနားပေ။ ယင်းသည်ပင်လျှင် ဝယ်အား ညီမျှင်းမှု သဘောတရားပင် ဖြစ်သည်။ သို့သော် ဤကိစ္စသည် ရင်းနှီးငွေ လွတ်လပ်စွာ ပြောင်းရွှေ့လှုပ်ရှားမှု၊ အကောက်တော်နှုန်းစည်းကြပ်မှုများနှင့် သက်ဆိုင်ရာတိုင်းပြည်အစိုးရအသီးအသီးတို့၏ ခိုင်မြဲ တည်တံ့မှု စသော အကြောင်း အချက်အမျိုးမျိုးတို့အပေါ် တွင်လည်း အခြေပြုလျက် ရှိပေသည်။

## ငွေခက်နှင့် ငွေလွယ်များ

တိုင်းပြည် တပြည်တွင် အရေးကြီးသည့် သွင်းကုန်များအတွက် ပေးချေကုန်ကျရန်အမှန်တကယ်လိုနေသည့်ငွေမျိုးကို ထုတ်ကုန် လုပ်ငန်းမှ လုံလောက်စွာ မရရှိနိုင်လျှင်သော်၎င်း၊ သို့တည်းမဟုတ် ယင်းသို့ လိုငွေ ဖြစ်ပေါ်လာရာ၌ဖြည့်တင်းရန်လုံလုံလောက်လောက် ချေးယူ၍မရရှိနိုင်လျှင်သော်၎င်း ထိုငွေမျိုးကို အဆိုပါ တိုင်းပြည်အဖို့ "ငွေခက်" ဟုခေါ်ဆိုရပေမည်။ တနည်းအားဖြင့် လိုသလောက် မရသော ငွေမျိုးသည် "ငွေခက်" ပင် ဖြစ်၏။ အဆိုပါ "ငွေခက်" မှ အပ အခြားသော ငွေမျိုးကို တခါတရံ "ငွေလွယ်" ဟု ခေါ်ဝေါ်သမုတ်ကြ၏။အမှန်အားဖြင့်နိုင်ငံအသီးအသီးက တိုင်းပြည် တပြည်အပေါ် တွင် ပေးစရာထက်၊ ရစရာများ နေသည့်အခါ၊ထိုတိုင်းပြည်၏ ငွေမှာ အဆိုပါ နိုင်ငံများအဖို့ ငွေလွယ်ဖြစ်ရလေသည်။ အမေရိကန်ငွေစာရင်းဝင် နိုင်ငံများ၏ ငွေများသည် ကျွန်ုပ်တို့ အဖို့ "ငွေခက်" များ ဖြစ်လေသည်။

## စတာလင်နယ်

၁၉၃၁ ခုနှစ်၌ အင်္ဂလန်ပြည်တွင် ရွှေရန်ပုံငွေလျော့ပါး ကျဆင်းသွားသဖြင့်၊ ဗြိတိသျှ အင်ပိုင်ယာအဖွဲ့ဝင်နိုင်ငံ အများအပြားနှင့် အခြားတိုင်းနိုင်ငံများတို့သည် ယင်းတို့တိုင်းပြည်ငွေများကို ရွှေဖြင့် ဆက်သွယ်ထားရှိခြင်းထက် စတာလင်ငွေနှင့် ဆက်သွယ်ထားခြင်းသည် ပိုမိုခိုင်မြဲလိမ့်မည်ဟု ယူဆကြပြီးလျှင်၊ ပေါင်ဖြင့် မြဲမြဲစွဲနှုန်းထားချည်ကာ သတ်မှတ်ထားကြခြင်းမှ အစပြု၍၊ စတာလင်အုပ်စု (ဝါ) စတာလင်နယ်သည် ပေါ်ပေါက်လာခဲ့သည်။ ယခုအခါ စတာလင်အုပ်စုတွင် မိမိတို့ အလိုရှိသော "ငွေခက်" များ ရရှိရေးအတွက်ယူနိုက်တက်ကင်းဒမ်း နိုင်ငံနှင့် ပေါင်စတာလင်ငွေကို ဆက်စပ်ရန် သဘောတူညီထားသည့် နိုင်ငံများအားလုံး ပါဝင်ကြ၏။ ထိုအုပ်စုသည် မိမိတို့၏ဆန္ဒအရဖွဲ့စည်းထားသည့် အဖွဲ့တခု ဖြစ်သဖြင့်၊ ပါဝင်ပြီးသောနိုင်ငံများအနက်၊ မည်သည့်နိုင်ငံမဆို ထွက်လိုကထွက်နိုင်ခွင့်ရှိပေသည်။ အဖွဲ့သို့ ဝင်လိုသော်ကား မဝင်နိုင်ချေ။စတာလင်သည် ယူနိုက်တက်ကင်းဒမ်း၏ ငွေအမျိုးအစား ဖြစ်ပေသည်။ စတာလင်အုပ်စုတွင် ပါဝင်သော အခြားအဖွဲ့ဝင် နိုင်ငံများသည် မိမိတို့ သက်ဆိုင်ရာပြည်တွင်းသုံး ငွေများရှိကြသည်။ သို့သော် ထိုငွေများသည်စတာလင်ငွေနှင့် ပုံသေနှုန်းများထား၍၊ ဆက်စပ်လျက်ရှိကြသည်။ ပုံပမာ-အင်္ဂလိပ်ငွေ ၁ သျှီလင်၊ ၆ ပဲနိနှင့် မြန်မာငွေတကျပ်ညီမျှ၍၊အင်္ဂလိပ်ငွေ ၁၆ သျှီလင်သည် ဩစတြေးလီးယားပေါင်တပေါင်နှင့် ညီမျှ၏။သို့သော် ဒေါ်လာအုပ်စုသို့ ပေးသွင်းရန် ငွေကို အချို့ကိစ္စများအတွက် ရွှေဖြင့်ဖြစ်စေ၊ ဒေါ်လာငွေဖြင့် ဖြစ်စေ ပေးသွင်းကြရ၏။ ယူနိုက်တက်ကင်းဒမ်းကစတာလင်အုပ်စုတအုပ်စုလုံးအတွက် ရွှေနှင့်ဒေါ်လာ ရန်ပုံငွေကို လက်ကိုင် ထားရှိရလေသည်။

သို့ဖြစ်၍၊စတာလင်အုပ်စုသည်ဘဏ်လုပ်ငန်းအဖွဲ့အစည်းကြီးတခုပမာ တည်ရှိပေသည်။ ထိုအုပ်စုတွင် ပါဝင်သည့် နိုင်ငံများသည် မိမိတို့ အများကောင်းကျိုး အတွက်၊ တခုတည်းသော စီးပွားရေးဝါဒ၏ ပန်းတိုင်သို့ ရှေးရှုလျက်၊ တိုင်ပင်နှီးနှောကာ ပူးပေါင်းဆောင်ရွက်သွားကြရသည်။ အဆိုပါ ဝါဒ၏ ရည်ရွယ်ချက် တခုမှာ စတာလင် အုပ်စု အတွက် ရွှေနှင့်ဒေါ်လာရန်ပုံငွေများကို မ,တည်စုဆောင်းပေးရန်ပင် ဖြစ်ပေသည်။ ထိုရည်မှန်းချက် အတိုင်း၊ အဖွဲ့ဝင် နိုင်ငံအသီးအသီးက အများအကျိုး ဖြစ်ထွန်းစေရန်၊ ဒေါ်လာငွေ ပိုမိုရရှိရေးနှင့် ပိုမိုစုဆောင်းရေးတို့ကို ဂရုပြုလျက်၊ ကြိုးစားဆောင်ရွက်ကြကုန်၏။

## နိုင်ငံခြား ငွေပေးငွေယူရှင်းတမ်း

တိုင်းပြည်တပြည်သည် သွင်းကုန် ပစ္စည်းများအတွက် သာမက အခြား ငွေကြေးကိစ္စများအတွက်လည်း ပြည်ပသို့ ငွေပေးချေရမည် ဖြစ်သည်။ ထိုတိုင်းပြည်သည် နိုင်ငံခြားသားပိုင် သဘောတင် လုပ်ငန်းများအတွက်သော်၎င်း၊နိုင်ငံခြားသားများက ထမ်းဆောင် ပေးကြသည့် လုပ်အားအတွက်သော်၎င်း အခကြေးငွေ ပေးရပေမည်။ တိုင်းပြည်အ

တွင် နေထိုင်ကြသူများသည်လည်း ပြည်ပ နိုင်ငံများသို့ အလုပ်ကိစ္စအတွက်ဖြစ်စေ၊ အလည်အပတ် ဖြစ်စေ ခရီးသွားရောက်ကြသည့်အခါ၌၊ နိုင်ငံခြားငွေ သုံးစွဲကြမည့် အပြင်၊ ပြည်ပရှိ ဆွေမျိုး ဉာတိသို့သော်ရင်း၊ မိခိုသူများထံသို့ သော်ရင်း ငွေလွှဲ ပေးပို့လိုကြပေမည်။ နိုင်ငံခြားမှ ငှါးရမ်းပြသသော ရုပ်ရှင်ကားငှါးခများအတွက်လည်း ပေးရန်ရှိပေမည်။ နိုင်ငံခြား အစိုးရ၊ ကမ္ဘာ့ဘဏ်၊ ကမ္ဘာ့ငွေကြေးဆိုင်ရာ အဖွဲ့ စသည်တို့ကဲ့သို့သော အဖွဲ့အစည်းများထံမှ ချေးယူသည့်ငွေအတွက် အတိုးအရင်းစသည်တို့ကို ပေးဆပ်ရန်လည်း ရှိပေဦးမည်။ ထို့ပြင် အခြား ငွေကြေးကိစ္စ အမျိုးမျိုးအတွက် နိုင်ငံခြားသို့ လွှဲပြောင်းပေးပို့ရမည့် ငွေများလည်း ရှိပေဦးမည်။ ယင်းသို့သောငွေအပေးအယူကိစ္စရပ်များတွင်၊စာရင်းသဘောအရ တဖက်နှင့်တဖက် အလားတူ ညီမျှမှုရှိရပေလိမ့်မည်။ တိုင်းပြည်တပြည်အဖို့ ထုတ်ကုန်ပစ္စည်း ရောင်းရသည့်အတွက် ရရှိသော ဝင်ငွေအပြင်၊ နိုင်ငံခြားဧည့်သည်များထံမှ တိုင်းပြည်တွင်းသို့ ခေတ္တ လာရောက်လည်ပတ်ကြသည်နှင့်အမျှ ယင်းတို့ သုံးစွဲကြသည့် ငွေများကိုလည်း ရရှိနိုင်လေသည်။ ထိုသို့သော ငွေအပေးအယူကိစ္စများအားလုံးကိုခြုံ၍ ထည့်သွင်းပြုစုထားရှိသော စာရင်းကို "နိုင်ငံခြား ငွေပေးငွေယူရှင်းတမ်း" ဟု ခေါ် ဆိုကြပေသည်။ ထိုနိုင်ငံခြား ငွေပေးငွေယူ ရှင်းတမ်းသည် စင်စစ်အားဖြင့် ကာလအပိုင်းအခြားတခုအတွက် တိုင်းပြည်တပြည်က ကျန်အခြား ကမ္ဘာတဝှန်းလုံးရှိ တိုင်းနိုင်ငံအသီးအသီးတို့နှင့် ငွေပေးငွေယူ ပြုလုပ်ခြင်း၏ မှတ်တမ်းတခုပင် ဖြစ်သည်။

ထိုးတမ်းစဉ်လာအရ၊နိုင်ငံခြားငွေပေးငွေယူ ရှင်းတမ်းကို နှစ်ပိုင်း ခွဲခြားထားရှိလေသည်။ တပိုင်းတွင် သာမန် ငွေဝင်ငွေထွက် စာရင်းနှင့် ပတ်သက်သော ငွေ အပေးအယူကိစ္စများ ပါဝင်၍၊ အခြားတပိုင်းတွင် ငွေရင်း ငွေနှီး အဝင်အထွက်စာရင်းနှင့် ပတ်သက်သည့် ငွေပေးငွေယူကိစ္စများ ပါဝင်လေသည်။ သာမန် ငွေဝင်ငွေထွက်စာရင်းသည် တိုင်းပြည်တပြည်၏ ရငွေနှင့် သုံးငွေ အခြေအနေကို အသေးစိတ်ဖော်ပြထားသည်သာမက၊ ပိုငွေနှင့် လိုငွေ မည်သည့် အခြေအနေရှိသည်ကိုလည်း တွက်ချက် ဖော်ပြထားသော စာရင်းဖြစ်၏။ ငွေရင်းငွေနှီး အဝင်အထွက် စာရင်းမှာ တိုင်းပြည်ပိုင်ရွှေနှင့် နိုင်ငံခြား ငွေများဖြစ်သော စတာလင်ပေါင်နှင့် ဒေါ်လာအင်အားအပြင်၊ ပေးဆပ်ရန်ကြွေးမြီတာဝန်နှင့် ခံစားခွင့်အစရှိသည်တို့၏ အခြေအနေကို အသေးစိတ် ဖော်ပြထားသော စာရင်းဖြစ်သည်။

ထို့ကြောင့် စာရင်းကိုင်ပညာ သဘော အရ၊ ငွေရင်းငွေနှီးအဝင်အထွက် စာရင်း၏လက်ကျန်ငွေသည် ဆန့်ကျင်ဖက်ဖြစ်သော သာမန်ငွေဝင်ငွေထွက်စာရင်း၏ လက်ကျန်ငွေနှင့် ညီညွတ်ရမည်။ သာမန်ငွေဝင်ငွေထွက်စာရင်းတွင် ပိုငွေရှိနေက၊ နိုင်ငံခြား ငွေပေးငွေယူ ရှင်းတမ်း၏ အခြေအနေ ကောင်းသည်ဟု ခေါ်ဆိုရမည် ဖြစ်သည်။ အဆိုပါ ငွေစာရင်း အရ လျော့ငွေ(ဝါ) လိုငွေ ဖြစ်ပေါ်နေလျှင်၊ နိုင်ငံခြားငွေ အခြေအနေမကောင်းဟု ပြောဆိုရပေမည်။

## ငွေကြေးလဲလှယ်မှုကြီးကြပ်ရေး

နိုင်ငံခြားငွေဝင်ငွေထွက် မမျှမတဖြစ်နေခြင်းကို ကောင်းမွန်လာအောင် ပြုပြင်ရန် အလို့ငှါ၊ တိုင်းပြည်တပြည်သည် ငွေလဲလှယ်မှု ကြီးကြပ်ရေးစနစ်ကို လက်ခံလိုက်နာကျင့်သုံးသွားကောင်းသွားပေလိမ့်မည်။ တိုင်းပြည်တပြည်က ခေတ်နှင့်လျော်ညီစွာ၊ မိမိ၏ ဂုဏ်သိက္ခာကို ထောက်ထား၍ရင်း၊ တိုင်းပြည်လူထု၏နေထိုင်စားသောက်မှုစရိတ် သက်သာလာစေခြင်းငှါ သွင်းကုန် ပစ္စည်းများ၏ ပြည်တွင်းတန်ဖိုးကို ကျဆင်းစေလို၍ရင်း၊ ဥရောပ တိုင်းနိုင်ငံများတွင် နေထိုင်သည့် တိုင်းရင်းသားများ ယေဘုယျ ထင်မြင် ယူဆကြသကဲ့သို့ ငွေတန်ဖိုး လျော့နည်းသွားခြင်းသည် ငွေဖောင်းပွမှုလက္ခဏာပင် ဖြစ်သည့်အတွက် စီးပွားရေး အခြေအနေ ကမောက်ကမ ဖြစ်လိမ့်မည်ဟုယူဆ၍ရင်း မိမိ၏ပြည်တွင်းသုံးငွေလဲလှယ်ရေးတန်ဖိုး မကျဆင်းစေဘဲ တည်မြဲစေလိုသည့် ဆန္ဒရှိပေမည်။

အဆိုပါ အခြေအနေများ ဖြစ်ပေါ်လာသည့်အခါ၊ ငွေလဲလှယ်မှု ကြီးကြပ်ရေး စနစ်သည် ကုစားနိုင်သည့် ဆေးကောင်းတလက်ပင် ဖြစ်သည်။ သို့ဖြစ်၍၊ နိုင်ငံခြား ငွေဝင်ငွေထွက်အခြေအနေကို ချိန်ခွင်လျှာသဖွယ် မတိမ်းမစောင်းစေရန်နှင့် ပြည်တွင်းသုံးငွေ လဲလှယ်ရေးတန်ဖိုး တည်တံ့စေရန် (ဝါ) အလျင်အမြန် အကြမ်းအရမ်း အဆက်မပြတ် အတက်အကျ ဖြစ်နေသော ငွေလဲလှယ်ရေး နှုန်းများကို အနည်းဆုံး တားဆီးစေရန်၊ ၁၉၃၀ ပြည့်နှစ်တလျှောက်လုံးအတွင်းနှင့်ကုန်သွယ်မှု စီးပွားရေးအကြီးအကျယ် ပျက်ပြားယုတ်လျော့သွားသည့်ခေတ်အတွင်းက တိုင်းပြည်အများအပြားပင် ငွေလဲလှယ်မှု ကြီးကြပ်ရေးစနစ်ကို တီထွင်ဆောင်ရွက်သွားကြသည်။ အထူးသဖြင့်၊ နာဇီဂျာမနီနိုင်ငံတွင် အခြားနိုင်ငံများနှင့် ငွေကြေးကိစ္စ အဆက်အသွယ်များပြုလုပ်ရာ၌ အလွန်စေ့စပ်သည့် ငွေလဲလှယ်မှု ကြီးကြပ်ရေးနည်းစနစ်ရှိလေသည်။ စစ်ပြီးခေတ်အတွင်း ဗြိတိန်နိုင်ငံနှင့် အခြားစတာလင်အုပ်စု အပါအဝင် နိုင်ငံအများအပြားပင်၊ ဒေါ်လာနှင့်အခြားငွေခက်တို့ကို စီစစ် ချွေတာသုံးစွဲရန်အတွက် ငွေလဲလှယ်မှု ကြီးကြပ်ရေး နည်းစနစ်ကို လိုက်နာကျင့်သုံးကြလေသည်။

နိုင်ငံခြားငွေကိစ္စ အဝဝတွင်၊ အစိုးရက ကောင်းကျိုးကိုမျှော်ကိုး၍ ကြားဝင်ဆောင်ရွက်ပါက၊ ထိုသို့ ဆောင်ရွက်သည့်နည်းမှာ ငွေလဲလှယ်မှု ကြီးကြပ်ရေး နည်းတမျိုးပင်

ဖြစ်သည်။ "ငွေလဲလှယ်မှု ကြီးကြပ်ရေး" ဟူသော စကားရပ်ကို နိုင်ငံခြား ငွေလဲလှယ်မှု ကန့်သတ်ချက်များဟူသည့် အဓိပ္ပါယ်နှင့် မကြာခဏ သုံးစွဲလေ့ရှိ၏။ ငွေလဲလှယ်မှု ကြီးကြပ်ရေးစနစ် အမျိုးမျိုး အစားစားတွင် နိုင်ငံခြား ငွေလဲလှယ်မှု ကန့်သတ်ချက်လည်း ပါဝင်လေသည်။

နိုင်ငံခြားငွေ လဲလှယ်မှုလုပ်ငန်း လုပ်ကိုင် သူများနှင့် ဘဏ္ဍာရေး သတင်းစာ ဆရာများ သုံးစွဲလျက်ရှိသော အရပ်စကားအရ၊ "ကြီးကြပ်ရေး" ဆိုသည်မှာ ငွေရေးကြေးရေးဆိုင်ရာ တာဝန်ခံများအတွက်သော်၎င်း၊ သို့တည်းမဟုတ် အဆိုပါ တာဝန်ခံများကသော်၎င်း ဆောင်ရွက်သော ငွေလဲလှယ်မှုလုပ်ငန်းများပင်ဖြစ်သည်။ အကျယ် အပြန့်ဆုံးသော အဓိပ္ပါယ်မှာငွေလဲလှယ်မှု ကြီးကြပ်ရေး လုပ်ငန်းဟူသည် ဗဟိုဘဏ်၏သာမန်လုပ်ငန်းအစိတ်အပိုင်း တခုဖြစ်လေသည်။ ထိုလုပ်ငန်းသည် တိုင်းရင်းငွေ၏ ပြည်ပအခြေအနေခိုင်မြဲမှု ရရှိရန်အတွက် ဆောင်ရွက်ရသည့် ဗဟိုဘဏ်တခု၏ အရေးအကြီးဆုံးသော လုပ်ငန်းတရပ်ပင် ဖြစ်သည်။

တိုင်းပြည်တပြည်၏အပြင်အပငွေဝင်လမ်းများကို စတင်၍ အခြေပြုစုစည်းရုံးခြင်းနှင့် ရယူထိန်းသိမ်းခြင်းတို့ကို ထိုတိုင်းပြည်၏အစိုးရကိုယ်စား ဗဟိုဘဏ်က အစဉ်အလာအရ ဆောင်ရွက်ချ၍၊ ရွှေဆောင် ကူးသန်းရောင်းဝယ်ရေး ဘဏ်များမှာမူ လူထုနှင့် တိုက်ရိုက် ဆက်သွယ်ရသည်နှင့် အမျိုးစံအတိုင်း အစိုးရ၏တဆင့် ကိုယ်စားလှယ်များ ဖြစ်ကြရလေသည်။ တိုင်းရင်းငွေနှင့် သီးခြားသတ်မှတ်ထားသော ငွေများကို ဗဟိုဘဏ်ကဖြစ်စေ၊ နိုင်ငံခြားငွေများ ရောင်းဝယ်ခွင့် ရရှိထားသည့်ဘဏ် (ဝါ) အဖွဲ့အစည်းကဖြစ်စေ၊ အရောင်းအဝယ် ပြုလုပ်ကြရမည် ဖြစ်သည်။ ယင်းသို့ရောင်းဝယ် ပြုလုပ်ခြင်းသည် အစိုးရက ခွင့်ပြုထားသည့် ကိစ္စရပ်အတွက်သာဖြစ်ရမည်။ သီးခြားသတ်မှတ်ထားသည့် နိုင်ငံခြားငွေများကို ပြည်တွင်းနေထိုင်သူများက မည်သည့် အတွက် ဝယ်ယူ ရောင်းချလိုသည်ကို စစ်ဆေး သုံးသပ်ရန် နည်းအမျိုးမျိုး တီထွင် ပြုလုပ်ထားသည်။ ထိုမျှသာမက၊ သွင်းကုန် ပစ္စည်းများအတွက် တန်ဖိုးပေးချေရန်နှင့် ထုတ်ကုန် ပစ္စည်းများအတွက်ရောင်းရတန်ဖိုးငွေကို ရယူရန် ကိစ္စများသည် အထူးအရေးကြီးသည့် အလျောက်၊ ကုန်သွယ်မှု လုပ်ငန်းများ လွယ်ကူနိုင်သရွေ့ လွယ်ကူစေရန် ဆောင်ရွက်လျက်၊ သွင်းကုန်နှင့်ထုတ်ကုန် လိုင်စင်ထုတ်ပေးရေး စနစ်ကို အဓိက ကြီးကြပ်ရေးစက်ယန္တရားအဖြစ် အားကိုးအားထား အမှီသဟဲ ပြုလုပ်စမြဲပင် ဖြစ်သည်။ (ကုန်သွယ်ရေး — လည်းရှု။)

ငွေရေးကြေးရေး (ဝါ) ပုဂ္ဂလိက ငွေလွှဲရေးနှင့် ပတ်သက်သည့် ငွေပေး ငွေယူကိစ္စများအတွက် ငွေလဲလှယ်မှုကြီးကြပ်ရေး စနစ်အရ၊ ဗဟိုဘဏ်သို့သော်၎င်း၊ ဗဟိုဘဏ်၏ကိုယ်စားလှယ်တဦးဦးထံသို့သော်၎င်း လျှောက်လွှာသီးခြားတင်သွင်းရမည် ဖြစ်သည်။ သို့မှသာလျှင် အမှန်တကယ် လိုအပ်သည့် ငွေလဲလှယ်မှုများအတွက် လဲလှယ်၍ ရရှိသော နိုင်ငံခြားငွေများနှင့် ပြည်တွင်း နေထိုင်သူများရရှိအပ်သည့် သီးခြားသတ်မှတ်ထားသော နိုင်ငံခြား ငွေများကိုပါ တိုင်းပြည်သို့ လွှဲအပ် ပေးလိုက်ကြောင်းကို သိနိုင်ပေမည်။ ပြည်ပရှိ ဆွေမျိုး ဉာတိများအား ထောက်ပံ့ရန် အတွက်သော်၎င်း၊ နိုင်ငံခြားသို့ ခရီးသွားရန် အတွက်သော်၎င်း၊ ပြည်ပရှိ ပုဂ္ဂိုလ်သို့မဟုတ် အဖွဲ့အစည်းများအား လှူဒါန်းပေးကမ်းရန် အတွက်သော်၎င်း၊ အခြားငွေလွှဲရေး ကိစ္စများအတွက်သော်၎င်း ရန်ပုံငွေမည်မျှ အကုန်အကျခံ၍ ငွေလွှဲပြောင်းခွင့်ပြုရမည်ဟူသည်မှာ တိုင်းပြည်၏ပြည်ပ ငွေ ဝင်လမ်းအခြေအနေပေါ်တွင် တည်နေပေသည်။ စစ်မက်အင်္ဂါ အခြင်းဖြစ်ပွားသည့် အခါသမယတွင်၊ယင်းသို့သော ငွေလွှဲခွင့်လျှောက်လွှာမျိုးတို့ကို အတတ်နိုင်ဆုံး သုံးသပ် စစ်ဆေးပြီးမှ၊ မပေးမဖြစ်သည့် ကိစ္စများအတွက်သာ ဖြတ်တောက်၍အနည်းဆုံး ပေးကြကုန်၏။မှ,တည်ရင်းနှီးငွေများကို နိုင်ငံခြားသို့လွှဲပြောင်းပေးရမည့်အခါ၌လည်း၊အသေအချာ လေ့လာစုံစမ်းသုံးသပ်ရပေမည်။ ထိုပြင် စစ်အတွင်းတွင် အဆိုပါ ငွေလဲလှယ်ခွင့်မျိုးကို တိုင်းပြည်အတွက် လက်ငင်းအကျိုး ဖြစ်ထွန်းမည်ဟု အထင်အရှား ပြသနိုင်မှသာလျှင် ခွင့်ပြုနိုင်မည် ဖြစ်လေသည်။ မူအားဖြင့် အစိုးရ၏ ကိုယ်စားလှယ်ဖြစ်သည့် ဗဟိုဘဏ်သည် ပြည်တွင်းနေထိုင်သူများ ပိုင်ဆိုင်၍ နိုင်ငံခြားတိုင်းပြည်အချို့တွင်ရှိသော၊ ငွေဖြင့် အလွယ်တကူ လဲလှယ်ရယူနိုင်သည့် ပိုင်ဆိုင်ခွင့်များကို စုပေါင်း လက်ကိုင် ထားရှိပြီးလျှင်၊ အဆိုပါ ပြည်တွင်းနေထိုင်သူများက ရရှိအပ်သော နိုင်ငံခြားငွေများကိုလည်း၊ အစိုးရသတ်မှတ်ထားသည့် နှုန်းများဖြင့်လဲလှယ်ရယူနိုင်သည့်အားလျော်စွာ၊ ပြည်ပရန်ပုံငွေအင်အားစုကြီးတိုးတက်လာစေရန်၊ထိုနည်းဖြင့် စုမ်းဆောင်ပေးရလေသည်။ ထိုပြည်ပ ရန်ပုံငွေထဲမှ ထုတ်ယူသုံးစွဲလိုသည့်အခါတိုင်း၊ အစိုးရ၏ အသိအမှတ်ပြုချက်နှင့် ခွင့်ပြုချက်ကို ရယူရမည်ဖြစ်သည်။ ငွေလဲလှယ်မှု ကြီးကြပ်ရေး စနစ်ကို အသုံးပြုသည့် အစိုးရများသည် ထုတ်ကုန်နှင့် သွင်းကုန်ပစ္စည်းဈေးနှုန်းများကို မချကြပ်မတ်၍ ကန့်သတ်ပေးရမည်ဖြစ်သည်။မဟုတ်မမှန် ကုန်စာရင်းများကို လိမ်လည် ပြသခြင်းနှင့် စိန်၊ ရွှေ၊ ရတနာ၊ ကြေးငွေများကို တိုင်းပြည်မှ ခိုးဝှက်ထုတ်ယူခြင်းအစရှိသော မသမာသည့် လိမ်လည်နည်းအမျိုးမျိုးတို့ဖြင့်၊ ငွေလွှဲမှု ကြီးကြပ်ရေး စည်းမျဉ်းများကို သွေဖည်ရှောင်တိမ်းရန်ကြံစည်အားထုတ်မှုတို့ကိုသက်ဆိုင်ရာအစိုးရများက ကြီးလေးသောအပြစ်ဒဏ်များပေးလေ့ရှိကြ၏။ ယင်းသို့ အရေးယူရခြင်းမှာ အစိုးရအနေနှင့်ရရှိသော နိုင်ငံခြားငွေများကို ကန့်သတ်ခြင်းဖြင့် တိုင်းပြည် အကျိုးခံ

စားစေရမည်ဟု ယူဆရသောကိစ္စရပ်များအတွက်သာအသုံးပြုစေလိုခြင်းကြောင့်ပင် ဖြစ်သည်။ သို့ဖြစ်၍ ငွေလဲလှယ်မှုကြီးကြပ်ရေးစံနစ်သည် ဗဟိုစီမံကိန်း၏ အင်အား ကြီးမားသော လက်သုံးကရိယာတခုဖြစ်နိုင်သည်သာမက၊ အပြည်ပြည်ဆိုင်ရာ ငွေကြေး အပေးအယူကိစ္စများကြောင့် ထိခိုက်သည့် စီးပွားရေးအခြေအနေအမျိုးမျိုးတို့ကို အစိုးရအတွက် ထိထိရောက်ရောက် ပြုပြင်ကြီးကြပ်ပေးနိုင်သည့် စွမ်းအားလည်းရှိပေသည်။ ထိုစံနစ်ကို ရံဖန်ရံခါ မသုံးဘဲနေ၍မဖြစ်သော်လည်း၊ထိုစံနစ်သည် အန္တရာယ်ဖြစ်တတ်သောကြောင့် သတိနှင့်ချင့်ချိန် နိုင်းဆလျက်၊ လိုသလောက်သာ အသုံးပြု၍၊ ကူးသန်းရောင်းဝယ်ရေးနှင့် နိုင်ငံရေး ဝါဒများ၏ လက်ကိုင်တုတ်အဖြစ်သို့ ရွေ့လျော့ကျဆင်းမသွားရလေအောင်၊ ဂရုပြု ထိန်းသိမ်း အပ်ပေသည်။

## နိုင်ငံခြားငွေ လဲလှယ်နှုန်းထိန်း ရန်ပုံငွေ

ငွေလဲလှယ်ရေး နှုန်းထား အတက်အကျ မငြိမ်မသက် လှုပ်ရှားနေခြင်းများကို ရှောင်ရှားလိုသည့် အတွက်၊ နိုင်ငံခြားငွေ လဲလှယ်နှုန်းထိန်း ရန်ပုံငွေကို ထူထောင်ရသည်။ စတာလင်ငွေ လဲလှယ်ရေးတွင် အမြတ်ကိုမျှော်ကိုး၍ ဈေးကစားမှုကြောင့် ဖြစ်ပေါ်သည့် လှုပ်ရှားမှုတို့ကို နှိမ်နင်းပပျောက်စေခြင်း၄ါ (ဝါ) စတာလင်ငွေ လဲလှယ်ရေးနှုန်းထား ရုတ်တရက် ပြင်းပြင်းထန်ထန်အတက်အကျ ယိမ်းယိုင်မှုများကို တားမြစ်စေခြင်း၄ါ၊ ၁၉၃၂ ခုနှစ်တွင် ဗြိတိသျှငွေလဲလှယ်နှုန်း ညီမျှရေး ငွေစာရင်းဟူ၍ နည်းသစ်ထွင်ကာ ဖန်တီးလာသကဲ့သို့၊ အမေရိကန် ပြည်ထောင်စုကလည်း ငွေလဲလှယ်နှုန်း ပိုမို တည်တံ့ခိုင်မြဲရေးကို အားပေးမြှင့်တင်ရန်၊ ၁၉၃၄ ခုနှစ်တွင်၊တည်တံ့ရေး ရန်ပုံငွေကို တည်ထောင်ခဲ့လေသည်။ နိုင်ငံခြားငွေ လဲလှယ်နှုန်းထိန်း ရန်ပုံငွေသည် ကုန်သိုလှောင်၍ ဈေးကစားသကဲ့သို့ နိုင်ငံခြားငွေနှင့် စပ်လျဉ်း၍ ဝယ်လိုအား ပြောင်းလဲမှုများကိုရောင်းလိုအား စီမံခန့်ခွဲမှုဖြင့်၎င်း၊ ရောင်းလိုအား ပြောင်းလဲမှုများကို ဝယ်လိုအား ထိန်းသိမ်းအုပ်ချုပ်မှုဖြင့်၎င်း၊ အဆင်ပြေလည်စေရန် အပြန်အလှန် ဆောင်ရွက်ပေးရ၏။ သို့ဖြစ်၍ နိုင်ငံခြားငွေ လဲလှယ်နှုန်းထိန်း ရန်ပုံငွေ၌ ညီညွတ်ပြည့်စုံရမည့် လက္ခဏာအင်္ဂါများမှာ၊ ဤသို့ဖြစ်သည်။ ဦးစွာ၌ ထိုရန်ပုံငွေသည် အတော်အတန် လုံလောက်သည့် ပြည်တွင်းသုံးငွေနှင့် နိုင်ငံခြားငွေသော်၎င်း၊ ရွှေသော်၎င်းဖြစ်ရမည်။ နိုင်ငံခြား ငွေဝင်ငွေထွက် အခြေအနေ တည်ငြိမ်မှုမရှိသည့်အခါတွင်၊ ငွေလဲလှယ်ရေးနှုန်းထားနှင့် ပြည်တွင်းရှိ ဘဏ်များ၏ ငွေချေးဝါဒကို ထိခိုက်လာတတ်သဖြင့်၊ ထိုသို့ ထိခိုက်သော ဒဏ်ကို သက်သာစေရန် နိုင်ငံခြားငွေ လဲလှယ်နှုန်းထိန်း ရန်ပုံငွေက ကြားခံအနေဖြင့် ဆောင်ရွက်သည်။ အဆိုပါ ရန်ပုံငွေ၏ အင်န်းအတာသည် ထိုရန်ပုံငွေ၏ ငွေဝင်လမ်း အင်အားအပေါ်တွင် တည်လျက် ရှိပေသည်။ ထိုအခြင်းအရာများကြောင့်၊ နိုင်ငံခြားငွေ လဲလှယ်နှုန်းထိန်း ရန်ပုံငွေကို ယာယီယိမ်းယိုင်လှုပ်ရှားမှုများကိုသာပြုပြင်ပေးရန်အတွက် အသုံးပြုအပ်ပေသည်။

## အပြည်ပြည်ဆိုင်ရာ ငွေကြေး ပူးပေါင်းဆောင်ရွက်ရေး

မည်သည့်တိုင်းနိုင်ငံမဆို၊မိမိတိုင်းပြည်၏ ငွေလဲလှယ်ရေးနှုန်းများကို စီမံပြုပြင် လိုလျှင်သော်၎င်း၊ သို့တည်းမဟုတ် ငွေလဲလှယ်မှုကြီးကြပ်ရေးစံနစ်ကို စတင်ဆောင်ရွက်လိုလျှင်သော်၎င်းအခြားတိုင်းနိုင်ငံများကို လတ်တလော သိသိသာသာ မထိခိုက်ဘဲ၊ မပြုလုပ်နိုင်ကြပေ။ သို့ဖြစ်၍၊ နိုင်ငံခြားငွေ လဲလှယ်မှုကိစ္စ ဟူသမျှကို အပြည်ပြည်ဆိုင်ရာ ပူးပေါင်းဆောင်ရွက်ရေးနည်းဖြင့် ဆောင်ရွက်ထိုက်ပေသည်။ ၁၉၄၄ ခုနှစ်၊ ဇူလိုင်လတွင်ရေးဆွဲခဲ့သော ဗရက်တန်ဝုဒ်စာချုပ်တွင် အကြံ ပေးထားသည့် အတိုင်း၊ "ကမ္ဘာ့ငွေကြေးဆိုင်ရာ ရန်ပုံငွေအဖွဲ့"ကို ဖွဲ့စည်းတည်ထောင်လာခဲ့ခြင်းမှာ၊ အပြည်ပြည်ဆိုင်ရာ ငွေကြေး ပူးပေါင်း ဆောင်ရွက်ရေးနည်းဖြင့်၊ နိုင်ငံခြားငွေ တန်ဖိုးနှုန်းအပြိုင်အဆိုင်လျှော့ချရေးကို၎င်း၊ နိုင်ငံခြားငွေ လဲလှယ်မှု ကြီးကြပ်ရေးကို၎င်း ပဒ္မမဆုံးအကြိမ် ညီညီညွတ်ညွတ်စုချိုး၍၊ အစားထိုးရန် အားထုတ်လိုက်ခြင်းပင် ဖြစ်လေသည်။ယင်းအဖွဲ့ ပေါ်ပေါက်လာခြင်းမှာ တိုင်းပြည်ဆိုင်ရာ တည်တံ့ရေး ရန်ပုံငွေအဖွဲ့များ၏ လျော်ကန်သော တိုးတက်ခြင်းပင် ဖြစ်၏။ အဆိုပါအဖွဲ့က တိုင်းပြည်အသီးအသီးတို့၏ ငွေများကို လဲလှယ်နိုင်မည့် တန်ဖိုးနှုန်းများတည်တံ့စေရန်အတွက်နိုင်ငံအချင်းချင်း စုပေါင်းတွဲဖက်၍ ကုန်သွယ်ခြင်းကို ကူညီအားပေးမြှင့်တင်ရန် ရည်ရွယ်ရင်းရှိပေသည်။ ထိုကြောင့် အဖွဲ့ဝင် နိုင်ငံများ၏ ငွေကြေးဝါဒကို နိုင့်ထက်စီးနင်းခြင်းမပြုဘဲ၊ နဂို အသွင်နှင့်ပင် အများဆုံး စစည်းမှုရရှိနိုင်ရန် အဖွဲ့အနေဖြင့် ကြိုးစားလိုက်ခြင်းပင်ဖြစ်၏။ ယေဘုယျ အားဖြင့်၊ ရွှေစံချိန် စံနစ်သို့ ပြန်လည်ရောက်ရှိလိမ့်မည်ဟူ၍၎င်း၊ ရင်းနှီးငွေ ပြောင်းရွှေ့လှုပ်ရှားမှုများကိုကန့်သတ်ခြင်းမှတပါး၊ အခြားငွေလဲလှယ်မှု ကန့်သတ်ချက်များကို ဖျက်သိမ်းနိုင်လိမ့်မည် ဟူ၍၎င်း မျှော်လင့်ရပေသည်။ အကယ်၍ အဆိုပါ ကမ္ဘာ့ငွေကြေးဆိုင်ရာ ရန်ပုံငွေ အဖွဲ့သည် မိမိ၏ ရည်မှန်းချက်ပန်းတိုင်သို့ရောက်အောင် တက်လှမ်းနိုင်ခဲ့သည်ရှိသော်၊ ယခုခေတ်တွင် ရင်ဆိုင်နေရသော အပြည်ပြည်ဆိုင်ရာ ငွေကြေးစံနစ်၏ အခက်အခဲ ပြဿနာအများအပြားကို ပြေလည်သွားအောင် ဖြေရှင်း ပေးနိုင်ပေလိမ့်မည်။ (ကုန်သွယ်ရေး။ ဘောဂဗေဒ — လည်းရှု။)

ဦးမင်းဆွေ

# ဇာတိမာန်တက်ကြွစေသည့်တေးသံ

**လွတ်လပ်သော နိုင်ငံတိုင်း၌ နိုင်ငံတော် သီချင်းများရှိကြသည်။ နိုင်ငံတော်သီချင်းသည် ဇာတိမာန် တေးသံဟု ခေါ်နိုင်သော အမျိုးသားသီချင်းပင်ဖြစ်သည်။ နိုင်ငံတော်သီချင်းအဖြစ် အဘယ်ကြောင့် သီဆိုကြရပါသနည်း။ မြန်မာနိုင်ငံတော်သီချင်းကို မည်သူရေးစပ်ခဲ့၍၊ မည်သည့်ကာလက အတည်ပြုခဲ့ပါသနည်း။ ဆက်လက်လေ့လာကြည့်ကြပါစို့။**

**နိုင်ငံတော်သီချင်း။** ။နိုင်ငံတော်သီချင်းဆိုသည်မှာ အမျိုး၊ ဘာသာ၊ သာသနာဂုဏ်ကို ကြီးမြင့်အောင်၊ ခြီးမြှင့်ရေးစပ်ထားသော သီချင်းပင် ဖြစ်သည်။ အချုပ်အခြာ အာဏာပိုင် လွတ်လပ်သော နိုင်ငံတိုင်းလိုလို၌၊ နိုင်ငံတော်သီချင်းများရှိကြလေသည်။ နိုင်ငံတော်သီချင်းကို တနည်းအားဖြင့်၊ အမျိုးသားသီချင်း (ဝါ) ဇာတိမာန်တေးသံဟူ၍လည်း ခေါ်ဆိုနိုင်ပေသည်။ ယင်းသည့် နိုင်ငံတော်သီချင်းကို ပွဲလမ်းသဘင်များတွင်၎င်း၊ လူထု အခမ်းအနားများတွင်၎င်း သီဆိုဘီးမှုတ်ကြရသည်။

မြန်မာနိုင်ငံတွင် ရှေးမြန်မာဘုရင်များ လက်ထက်က နိုင်ငံတော် သီချင်းဟူ၍ မရှိခဲ့ချေ။ သို့သော် ဘုရင်မင်းမြတ်များ၏ ဘုန်းတန်ခိုးတေဇာ အာဏာတို့ကို ခြီးကျူးရေးစပ်ထားသော ဘုန်းတော်ဘွဲ့ သီချင်းများကို တနည်းအားဖြင့် နိုင်ငံတော်သီချင်း (ဝါ) အမျိုးသား သီချင်းဟု မှတ်ယူခေါ်ဆိုနိုင်၏။ ဘုန်းတော်ဘွဲ့ သီချင်းများသည် တနည်းအားဖြင့် ကိုယ့်နိုင်ငံကို၎င်း၊ ကိုယ့်အမျိုးဘာသာ၊ သာသနာကို၎င်း ချစ်ခင်လေးမြတ်လာအောင် သွေးထိုး နှိုးဆွပေးခဲ့သော သီချင်းများ ဖြစ်လေသည်။

မြန်မာနိုင်ငံသည် ဗြိတိသျှ အင်ပိုင်ယာအတွင်းသို့ သက်ဆင်းကျရောက်ခဲ့ရသည့်နောက်ပိုင်းတွင် "အကျွန်ုပ်တို့၏ဘုရင်ကို ဘုရားသခင် ကာကွယ်စောင့်ရှောက်တော်မူပါ" ဟု အစချီသော ဗြိတိသျှ အမျိုးသားသီချင်း(ဝါ) ဗြိတိန်နိုင်ငံတော်သီချင်းသည် မြန်မာနိုင်ငံတဝှန်းလုံးတွင် ပြန့်နှံ့ခဲ့သည်။

သို့သော် မြန်မာ့နိုင်ငံရေး ဇာတ်ခုံတွင် တို့ဗမာအစည်းအရုံးဟူ၍ ပေါ်ပေါက်လာသောအခါ၊ မြန်မာနိုင်ငံ၏ ပဌမဦးဆုံး အမျိုးသားသီချင်းဟု ဆိုရမည် ဖြစ်သော "တကောင်းအဘိရာဇာ တို့ဗမာ သာကီမျိုးဟာမို့ မညှိုးဂုဏ်တေဇာ" ဟု အစချီသည့် တို့ဗမာသီချင်းလည်း ပေါ်ပေါက်၍ လာခဲ့ရပေသည်။ ယင်း တို့ဗမာသီချင်းကို ရေးစပ်ခဲ့သူမှာ ဝိုင်အမ်ဘီ ဆရာတင် ဖြစ်သည်။ ဝိုင်အမ်ဘီ ဆရာတင်သည် ခေတ်ပညာတတ် ပုဂ္ဂိုလ်တဦးဖြစ်၍၊ ဂီတ အနုပညာရှင် ကျောင်းဆရာလည်း ဖြစ်သည်။ တို့ဗမာအစည်းအရုံးဝင် ဖြစ်လာသောအခါ၊ သခင်တင်ဟု တွင်သည်။ မြန်မာနိုင်ငံလွတ်လပ်ရေးရပြီးနောက်တွင် ဆရာတင်အား နိုင်ငံတော်အစိုးရက ဝဏ္ဏကျော်ထင်ဘွဲ့ ခြီးမြှင့်ခဲ့သည်။ သို့သော် ဆရာတင်သည် မကြာမီ ကွယ်လွန်လေသည်။ တို့ဗမာ သီချင်းကို ဆရာတင်သည် တို့ဗမာ အစည်းအရုံးဝင် သခင်များ၏ တာဝန်ပေး တိုက်တွန်းချက်အရ ရေးစပ်ခဲ့ခြင်း ဖြစ်သည်။ ထိုအခါမှစ၍ ဒုတိယ ကမ္ဘာစစ်အတွင်း ဂျပန်ခေတ်တခေတ်လုံး တို့ဗမာသီချင်းသည် မြန်မာတို့၏ အမျိုးသားသီချင်းအဖြစ် ရပ်တည်ခဲ့ပေသည်။

၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့၌ မြန်မာနိုင်ငံသည် အချုပ်အခြာ အာဏာပိုင် လွတ်လပ်သော နိုင်ငံ ဖြစ်လာ၏။ အချုပ်အခြာအာဏာပိုင် လွတ်လပ်သော နိုင်ငံဖြစ်လာသည်နှင့် တပြိုင်နက်၊ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေတွင် နိုင်ငံတော်အလံ၊ နိုင်ငံတော်တံဆိပ်နှင့် နိုင်ငံတော်သီချင်းတို့ကို ထည့်သွင်းပြဋ္ဌာန်းကြရမည် ဖြစ်သည်။ ထိုကြောင့် ၁၉၄၇ ခုနှစ် ဇွန်လ ၁၈ ရက် ဗုဒ္ဓဟူးနေ့တွင် ကျင်းပသော မြန်မာနိုင်ငံ တိုင်းပြုပြည်ပြု လွှတ်တော်၏ ဆဋ္ဌမအကြိမ်မြောက် အစည်းအဝေးတွင်၊ ဤကိစ္စကို တင်ကြို၍၊ မြင်းခြံကျေးလက်တောင်ပိုင်းအမတ် ဦးဘဂျမ်းက နိုင်ငံတော် အလံ၊ နိုင်ငံတော် တံဆိပ်နှင့် နိုင်ငံတော် သီချင်းတို့အတွက် စဉ်းစားထောက်ခံရေး ကော်မတီခန့်ရန် အဆိုတင်သွင်းသည်။ ယင်းအဆိုကို လွှတ်တော် တရပ်လုံးက သဘောတူညီခဲ့ရာ၊ ဒီးဒုတ် ဦးဘချိုအား သဘာပတိအဖြစ်ဖြင့် ဦးဆောင်စေ၍၊ ကော်မတီကို ဖွဲ့စည်းခဲ့လေသည်။ ကော်မတီလူကြီးများမှာကား ဦးအောင်ဇေယ၊ ဗိုလ်မှူးအောင်၊ မန်းထွန်းရင်၊ ဗိုလ်အောင်ကြီး၊ ဒေါ်ခင်လှ၊ ဆရာသုမင်း၊မိုင်းပွန်စော်ဘွားကြီး၊ ဒူးဝါးဇော်လွန်းနှင့် ဦးဝမ်ကိုဟောတို့ ဖြစ်ကြသည်။ ထိုနောက် ထိုကော်မတီတွင် လုပ်ငန်းဆိုင်ရာ ကျွမ်းကျင်သော ပညာသည်ကြီးများ ပါဝင်ရန် လိုအပ်သဖြင့်၊ ပန်းချီဆရာ ဦးငွေကိုင်နှင့် ဦးအုန်းလွင်အား၎င်း၊ ဂီတဖက်ဆိုင်ရာ ဦးဘသန်းနှင့် ဒဂုန်ဆရာတင်အား၎င်း၊ အသံလွှင့်ဌာနခွဲဆိုင်ရာ ဦးခင်ဇော်နှင့် ဦးထင်ဖတ်အား၎င်း ထပ်ဖြည့်အဖွဲ့ဝင်များအဖြစ်ခန့်ထားသည်။တိုင်းပြုပြည်ပြုလွှတ်တော်ရုံး အထူးအရာရှိ ဦးသိန်းဟန်ကိုလည်း ကော်မတီ၏ အတိုင်ပင်ခံအဖြစ် ထားရှိသည်။

သို့သော်လည်း ဇူလိုင်လ ၁၉ ရက်နေ့ နိုင်ငံတော် လုပ်ကြံမှုကြီးတွင် ဗိုလ်ချုပ်အောင်ဆန်းနှင့်အတူ ကော်မတီသဘာပတိ ဒီးဒုတ်ဦးဘချိုနှင့် ကော်မတီဝင် မိုင်းပွန်စော်ဘွားကြီးတို့လည်း ပါဝင်ကျဆုံးခဲ့ရသဖြင့်၊သဘာပတိ ဒီးဒုတ် ဦးဘချို၏ နေရာတွင် သခင်တင်အား၎င်း၊ မိုင်းပွန်စော်ဘွားကြီး၏

နေရာတွင် မိုးမိတ်စော်ဘွားကြီးအားရင်း အစားထိုး၍ ခန့်အပ်ခဲ့ကြသည်။ ထိုပြင် ကော်မတီဝင်တဦးဖြစ်သူ ဦးဝမ်ကိုဟော နုတ်ထွက်သွားသောကြောင့်၊ ယင်း၏နေရာတွင် ဦးငွန်တိုးအား အစားထိုး ခန့်အပ်ခဲ့လေသည်။

ထိုကော်မတီက တိုဗမာသီချင်းသားမှ စကားလုံးများကို ကောက်နုတ်၍၊ တေးသွားကို မူလအတိုင်း အပြည့်အဝယူကာ၊ နိုင်ငံတော် သီချင်းမူကို တင်ပြကြသည်။ ယင်းသို့သခင်တင် အမှူးပြုသော ကော်မတီက တင်ပြသည့် နိုင်ငံတော် သီချင်းမူကို ဝန်ကြီးချုပ်နှင့် ကော်မတီ အဖွဲ့ဝင်အချို့တို့က သီချင်းစာသား အနည်းငယ် ပြင်ဆင်၍ လက်ခံခဲ့ကြလေသည်။ ထိုသီချင်းမှာ အောက်ပါအတိုင်း ဖြစ်၏။

"အမျိုးသားရေး ကြိုးပမ်းစို့လေ၊ ဒို့ပြေ ဒို့မြေ၊ အရှေ့ကနေဝန်း ထွန်းသစ်စပုံသို့ ဒို့ဆောင်သမျှ အောင်ရမည်မှာ မလွဲပေ။ ဒို့ပြေ- ဟေ့ ဒို့မြေ၊ ဒို့ပြည်ထောင်စုပေ၊ ဒို့တတွေရဲ့ပြေ၊ ဒို့တတွေရဲ့မြေ၊ တိုင်းရင်းသား အမွေ။"

"(ကမ္ဘာမကြေ ဗမာပြေ ဒို့ဘိုးဘွားအမွေစစ်မို့ ချစ်မြတ်နိုးပေ)၂၊ ဒါဒို့ပြေ ဒါဒို့မြေ ဒို့ကိုယ်ပိုင်မြေ၊ ဒို့ဘိုးဘွားအမွေစစ်မို့ ချစ်မြတ်နိုးပေ၊ ဒို့ပြေ ဒို့မြေ အကျိုးကို ကာကွယ်သည်ပိုးမလေ၊ ဒို့ပြည်ထောင်စုအမွေ အဘိုးတန် ဤမြေ ဒို့တာဝန်ပေ။ "လက်ခံပြီးသော ထိုနိုင်ငံတော် သီချင်းမူကို အတည်ပြုရန်အတွက်၊ ၁၉၄၇ ခုနှစ် စက်တင်ဘာလ ၂၂ ရက်နေ့တွင် ကျင်းပသော တိုင်းပြု ပြည်ပြု လွှတ်တော် တတိယ ညီလာခံ၏ အငွမ အကြိမ်မြောက် အစည်းအဝေး၌ တင်ပြဆွေးနွေးကြသည်။ ယင်းသို့ ဆွေးနွေးကြရာတွင်၊ မန္တလေးမြို့မ အနောက်တောင်ပိုင်း အမတ် ဗိုလ်ခင်မောင်ကလေးက ပြင်ဆင်ချက်တင်သွင်း၍၊ မြန်အောင် ဦးတင်က ထောက်ခံခဲ့သည်။ ထိုကြောင့် နိုင်ငံတော် သီချင်းမူမှာ ဝိုင်အမ်ဘီဆရာတင်၏ မူလတေးသွား အတိုင်းပင် ဖြစ်သော်လည်း၊ သီချင်းစာသား၌ ပြင်ဆင်ချက်များ ပါဝင်ခဲ့ရပြန်လေသည်။ သို့သော် အဆိုပါ ပြင်ဆင်ချက်ကိုပင် လွှတ်တော် တရပ်လုံးက လက်ခံ အတည်ပြုခဲ့သည်။ လက်ရှိ မြန်မာနိုင်ငံတော်သီချင်းမှာ အောက်ပါအတိုင်း ဖြစ်လေသည်။

"တရားမျှတ လွတ်လပ်ခြင်းနဲ့မသွေ၊ ဒို့ပြေဒို့မြေ၊ များလူခပ်သိမ်း ငြိမ်းချမ်းစေဘို့ ခွင့်တူညီမျှ ဝါဒဖြူစင်တဲ့ပြေ၊ ဒို့ပြေ ဒို့မြေ၊ ပြည်ထောင်စု အမွေ အမြဲတည်တံ့စေ၊ အဓိဋ္ဌာန်ပြုပေ၊ ထိန်းသိမ်းစို့လေ။

(ကမ္ဘာမကြေ ဗမာပြေ ဒို့ဘိုးဘွား အမွေစစ်မို့ ချစ်မြတ်နိုးပေ)၂၊ ပြည်ထောင်စုကိုအသက်ပေးလို့ ဒို့ကာကွယ်မလေ၊ ဒါဒို့ပြေ ဒါဒို့မြေ ဒို့ပိုင်နက်မြေ၊ ဒို့ပြေ ဒို့မြေ အကျိုးကို ညီညာစွာ ဒို့တတွေ ထမ်းဆောင်ပါစို့လေ ဒို့တာဝန်ပေ အဖိုးတန်မြေ။"

ကနေဒါ နိုင်ငံ၏ ပြဋ္ဌာန်း အတည်ပြုထားသော နိုင်ငံတော်သီချင်းမှာ "အကျွန်တို့၏ဘုရင်ကို ဘုရားသခင် ကာကွယ်စောင့်ရှောက်တော်မူပါ" ဟူသော ဗြိတိန် နိုင်ငံတော် သီချင်းပင် ဖြစ်သော်လည်း၊ ကနေဒါ နိုင်ငံသူ နိုင်ငံသားအများစုကမူ "အိုကနေဒါ" ဟူသော သီချင်းကိုသာလျှင်၊ မိမိတို့၏ နိုင်ငံတော်သီချင်း အဖြစ် မှတ်ယူ သဘောထားခဲ့ကြလေသည်။ အစိုးရ မင်းခမ်း မင်းနားများ ကျင်းပ၍၊ နိုင်ငံတော်သီချင်းကို သီဆိုတီးမှုတ်ကြသည့် အခါတိုင်းတွင် "အကျွန်တို့၏ ဘုရင်ကို ဘုရားသခင် ကာကွယ်စောင့်ရှောက်တော်မူပါ" ဟူသော သီချင်း အပြီး၌ "အိုကနေဒါ" သီချင်းကို သီဆိုတီးမှုတ်လေ့ရှိခဲ့ကြသည်။ ထို "အိုကနေဒါ" သီချင်းစာသားကို ဆာ အေ၊ဗီ၊ ရုသီးယားဆိုသူက ၁၈၈၀ ပြည့်နှစ်တွင် ပြင်သစ်ဘာသာဖြင့်ရေးစပ်ခဲ့၍၊တေးသွားမှာမူ ကလစ်ဇာလာဗဲလီဆိုသူ၏ တေးသွားဖြစ်လေသည်။ "အိုကနေဒါ" သီချင်းကို ၁၉၀၈ ခုနှစ်တွင် အာ၊ အက်(စ)၊ ဝီးယားဆိုသူက မူလ ပြင်သစ်ဘာသာမှ အင်္ဂလိပ်ဘာသာသို့ ဆီလျော်အောင် ပြန်ဆိုခဲ့သည်။ ထိုပြင် ကနေဒါ နိုင်ငံ၏ အခြားထင်ရှားသော အမျိုးသား သီချင်းတပုဒ်မှာ "မေပယ်ရွက်ဖြာအမြဲသာ" ဟူသည့် သီချင်း ဖြစ်၏။ ထိုသီချင်း၏ စာသားနှင့် တေးသွားနှစ်မျိုးစလုံးကို ခရစ် ၁၈၆၇ ခုနှစ်တွင် အယ်လက် ဇန္ဒာမျူအားဆိုသူက ရေးစပ် အသံသွင်းခဲ့သည်။

တရုပ်နိုင်ငံတွင် ဒေါက်တာ ဆွန်ယတ်ဆင်ရေးသားပြုစုခဲ့သော "ဆန်မင်ချူအိ" ခေါ် ဒီမိုကရေစီ ဝါဒ ပြုစုပျိုးထောင်ရေးအတွက် အခြေခံ အချက် ၃ ရပ် စာအုပ်မှ စာသားများကို ကောက်နုတ်၍၊ ချင်းမော်ယွန်းဆိုသူက ၁၉၂၈ ခုနှစ်တွင် ရေးစပ် အသံသွင်းပေးခဲ့သော သီချင်းသည် နိုင်ငံတော်သီချင်း အဖြစ် ထင်ရှားခဲ့လေသည်။

ဥက္ကဋ္ဌကြီး မော်စီတုံးခေါင်းဆောင်သည့် တရုပ်ပြည်သူ့သမတနိုင်ငံအစိုးရ တက်လာသောအခါ၊ တရုပ်ပြည်သူ့ သမတနိုင်ငံ၏ နိုင်ငံတော် သီချင်း အဖြစ်ဖြင့်၊ "မျိုးချစ် အပျော်ထမ်းတပ်သားများ စစ်ချီသံ" သီချင်းသည် ပိုမို၍ ထင်ရှားကျော်ကြားခဲ့လေသည်။ထိုသီချင်းသည် "ချီလိုင်" ဟု အစချီလျက် "ကျွန်ဘဝမှ လွတ်မြောက်လိုသူတို့ ထကြလော့" ဟု အဓိပ္ပါယ်ရ၏။ သီချင်းစာသားကို ရေးစပ်ခဲ့သူမှာ တီယင်ဟန်ဖြစ်၍၊ အသံသွင်းပေးခဲ့သူမှာ နီအာ ဖြစ်လေသည်။

ဗြိတိသျှတို့၏ လက်အောက်တွင် ကျရောက်နေခဲ့ရသည့် အချိန်အခါက၊ အိန္ဒိယ နိုင်ငံသူနိုင်ငံသား အပေါင်းသည် "အကျွန်တို့၏ ဘုရင်ကို ဘုရားသခင် ကာကွယ် စောင့်ရှောက်တော်မူပါ" ဟူသော ဗြိတိသျှနိုင်ငံတော် သီချင်းကိုသာလျှင်၊ သီဆိုတီးမှုတ်ခဲ့ကြရသည်။ သို့သော် ထိုအချိန်ထိုအခါက ကိုယ်ပိုင်အမျိုးသားသီချင်းမရှိ၍ကား မဟုတ်ချေ။ လွတ်လပ်ရေး မရသေးသောကြောင့်၊ တိမ်မြုပ်နေခဲ့ရခြင်းသာ ဖြစ်သည်။ လွတ်လပ်ရေးရရှိလာသော အခါတွင် "ဂျာ

# နိုင်ငံတော်သီချင်း

နားဂါးနားမာနား'' သည် အိန္ဒိယနိုင်ငံ၏ နိုင်ငံတော် သီချင်း ဖြစ်လာလေတော့သည်။ ထိုသီချင်းကို ရေးစပ်ခဲ့သူမှာ ကမ္ဘာကျော်အိန္ဒိယစာပေဖခင်ကြီး ရာဗင်ဒြာနတ်တဂိုး ဖြစ်သည်။ ရေးစပ်ခဲ့သည့် ခုနှစ်ကိုကား ၁၉၁၂ ခုနှစ်မတိုင်မီကဟု မှန်းဆရလေသည်။

"ဂျာနားဂါးနားမာနား'' တွင် အပိုဒ် ငါးပိုဒ်ပါဝင်၍၊ ပွဲလမ်းသဘင် အခမ်းအနား တိုင်းတွင် ထိုငါးပိုဒ်လုံးအစား ပဌမတပိုဒ်တည်းကိုသာ သီဆိုတီးမှုတ်ကြသည်။ 'ဂျာနားဂါးနားမာနား' ကို ၁၉၅၀ ပြည့်နှစ် ဇန္နဝါရီလ ၂၄ ရက်နေ့တွင် အိန္ဒိယဥပဒေပြုလွှတ်တော်က နိုင်ငံတော်သီချင်း အဖြစ်ဖြင့် လက်ခံအတည်ပြုခဲ့လေသည်။

'ဂျာနားဂါးနားမာနား' နှင့် အတူ ထင်ရှားကျော်ကြားသော အခြားအမျိုးသား သီချင်းတပုဒ်မှာ "ဘန္ဒေမာတရံ'' ဖြစ်သည်။ ထိုသီချင်းကို ဗန်ကင်း ချန္ဒရာ ချက်တာဂျီဆိုသူက ရေးစပ်ခဲ့သည်။အိန္ဒိယဥပဒေပြုလွှတ်တော်က ထို"ဘန္ဒေမာတရံ''သီချင်းကို"ဂျာနားဂါးနားမာနား''သီချင်းနှင့်တန်းတူ သဘောထားကြောင်း ဆုံးဖြတ်ခဲ့လေသည်။

ပါကစ္စတန် နိုင်ငံတော် သီချင်းကို ရေးစပ်အသံသွင်းခဲ့သူတို့မှာ ကွယ်လွန်သူ မစ္စတာ အေ၊ ဂျီ၊ ချဂလာနှင့် အေ၊အေ၊ ဟာဇစ် ဂျူလွန်ဒူရီတို့ဖြစ်သည်။ သီချင်း၏ တေးသွားကို ကွယ်လွန်သူ မစ္စတာ အေ၊ ဂျီ၊ ချဂလာက ၁၉၅၀ ပြည့်နှစ် ဩဂုတ်လတွင် ရေးစပ်ခဲ့၍၊ သီချင်း၏ စာသားကိုမူ အေ၊ အေ၊ ဟာဇစ် ဂျူလွန်ဒူရီက ၁၉၅၃ ခုနှစ် မတ်လတွင် ရေးသား ပြုစုခဲ့လေသည်။

အဆိုပါ ပါကစ္စတန်နိုင်ငံတော်သီချင်းတွင် အပိုဒ်သုံးပိုဒ်မျှ ပါဝင်သည်။ ပဌမအပိုဒ်တွင် နိုင်ငံ၏သစ္စာကို စောင့်သိနိုင်ကြပါစေသတည်းဟု ရေးသားထားသည်။ ဒုတိယအပိုဒ်တွင်မူ နိုင်ငံသူ နိုင်ငံသားအပေါင်းတို့၏ စည်းလုံးညီညွတ်မှုအင်အားဖြင့် နိုင်ငံတော်ကြီးသည် ရည်မှန်းရာ ပန်းတိုင်အရောက် အမြဲတမ်းအောင်မြင်စွာ ချီတက်နိုင်ပါစေသတည်းဟု ဆုတောင်းထားသည်။ တတိယနှင့် နောက်ဆုံး အပိုဒ်တွင်ကား လခြမ်းနှင့် ကြယ်တို့ပါဝင်သော ပါကစ္စတန်နိုင်ငံ၏ နိုင်ငံတော်အလံကို ချီးကျူးဂုဏ်ပြုကာ ရေးသားစီကုံးထားလေသည်။

ပြင်သစ်နိုင်ငံ၏ နိုင်ငံတော်သီချင်းမှာ "လာမာဆလေ့'' ဖြစ်သည်။ ကမ္ဘာ့နိုင်ငံအသီးအသီးရှိ နိုင်ငံတော် သီချင်းများအနက် အထင်ရှား အကျော်ကြားဆုံးနှင့် တိုင်းသူပြည်သားလူအများတို့အား စိတ်ဓာတ်အတက်ကြွစေဆုံးသော နိုင်ငံတော်သီချင်းမှာ ယင်းသည့် လာမာဆလေ့သီချင်းပင်ဖြစ်ပေသည်။

ထိုနိုင်ငံတော်သီချင်းကို ပြင်သစ်တပ်မတော်မှ ဗိုလ်ကြီး ရူဇာဒါလီ ဆိုသူက ၁၇၉၂ ခုနှစ် ဧပြီလ ၂၅ ရက်နေ့တွင် စထရက်စဘူးမြို့၌ ရေးစပ်သီကုံးခဲ့လေသည်။ မူလက ရူဇာဒါလီသည် အဆိုပါသီချင်း၏အမည်ကို "ရိုင်းမြစ်တပ်မတော်၏ စစ်ချီသံ'' ဟု သတ်မှတ်မှည့်ခေါ်ခဲ့၏။ သို့သော် မာဆေးမြို့ကိုအစွဲပြု၍ မာဆလေ့ စစ်သီချင်းဟု တိုင်းသူပြည်သားအများက ခေါ်ဝေါ်လာခဲ့သည်မှာ ယနေ့တိုင်အောင်ပင် ဖြစ်လေသည်။

မာဆလေ့ သီချင်းကို ရူဇာ ဒါ လီ ရေးသားခဲ့စဉ်အခါက ၆ ပိုဒ်သာပါဝင်ခဲ့၏။ ထိုနောက် ဂျာနယ် ဒီလစ်ထရေချာ စာစောင်အယ်ဒီတာ ဒူဗွားက အပိုဒ် ၅ နှင့် ၆ အကြားတွင် တပိုဒ် ဖြည့်သွင်း ရေးသားလိုက်သောကြောင့် စုစုပေါင်း ၇ ပိုဒ် ဖြစ်သွားလေတော့သည်။

ဂျာမနီနိုင်ငံ၏ နိုင်ငံတော် သီချင်းမှာ 'ဒွိုက်ချလန်ဒွိုက်ချလန်အူဗာအားလေး' အမည်ရှိသော သီချင်းဖြစ်သည်။ ယင်းသီချင်း အမည်၏ မြန်မာအဓိပ္ပါယ်မှာ "ဂျာမနီသည် အပြည်ပြည်၏ အထွတ်တွင်'' ဟူ၍ ဖြစ်သည်။ ထိုသီချင်း၏စာသားများကို ဩဂတ်ဟော့ဖမန်းဖွန်ဖာလာဆလေးဗင်းဆိုသူက ၁၈၄၁ ခုနှစ်တွင် ရေးသားခဲ့သည်။ တေးသွားမှာမူ ဖရန့်ဂျိုးဇက်ဟိုင်းဒင်ဆိုသူပုဂ္ဂိုလ်တဦးဖွဲ့စပ်ခဲ့သည့် ဩစတြီးယားနိုင်ငံတော်သီချင်း၏ တေးသွားဟောင်းဖြစ်သည်။ ထိုသီချင်းကို ၁၉၂၂ ခုနှစ် ဩဂုတ်လ ၁၁ ရက်နေ့တွင် ဂျာမန်အစိုးရက နိုင်ငံတော်သီချင်းအဖြစ်ဖြင့် ပြဋ္ဌာန်းအတည်ပြုခဲ့လေသည်။

ဂရိတ်ဗြိတိန် နိုင်ငံ၏ နိုင်ငံတော် သီချင်းမှာ "အကျွန်ုပ်တို့၏ ဘုရင်ကို ဘုရားသခင် ကာကွယ် စောင့်ရှောက်တော်မူပါ'' ဖြစ်သည်။ ထိုသီချင်း၏ စာသားနှင့် တေးသွားတို့ကို ရေးစပ်သူနှင့် စပ်လျဉ်း၍ ဝိဝါဒ အမျိုးမျိုး ကွဲပြားလျက် ရှိနေလေသည်။ အချို့က ထိုသီချင်းကို ပဌမအယ်လစ်ဇဗက်ဘုရင်မလက်ထက်တွင် ဂျွန်ဗူးဆိုသူဂီတပညာရှင်တဦး ရေးစပ်ခဲ့သည်ဟု ဆိုကြသည်။ သို့သော် ပညာရှင် အများကမူ ထိုအဆိုကို လက်မခံခဲ့ကြချေ။

အဆိုပါ ဂရိတ်ဗြိတိန်၏ နိုင်ငံတော်သီချင်းတွင် မူလက သုံးပိုဒ်သာ ပါဝင်ခဲ့သော်လည်း ယခုအခါ နောက်ထပ် တပိုဒ်တိုးလျက် လေးပိုဒ်ဖြစ်လာ၏။ယင်းသို့ တပိုဒ်တိုးကာပြောင်းလဲခဲ့သည့် အကြောင်းကို အစိုးရကိုယ်တိုင်က ၁၉၄၆ ခုနှစ် အောက်တိုဘာလ ၂၀ ရက်နေ့တွင် ထုတ်ပြန်ကြေညာသည်။

ဂရိတ်ဗြိတိန် နိုင်ငံတော် သီချင်း၏ အဓိပ္ပါယ်ကို နှစ်ခြိုက်ကြသောကြောင့်၊ ဂရိ၊ လက်တင်ဘာသာ စသည်များသို့ စာသားကို ပြန်ဆိုယူကြသည်။တေးသွားကိုလည်း အမေရိကန်၊ ဂျာမနီ၊ ဒိန်းမတ်နှင့် ဆွီဒင် နိုင်ငံများက ကူးယူ၍ မိမိတို့၏ ဘာသာ စကားလုံးများထည့်သွင်း ရေးစပ်ကာ အသုံးပြုခဲ့ကြလေသည်။ ယခု ဒုတိယ အယ်လစ်ဇဗက်ဘုရင်မ၏ လက်ထက်တွင်မူ "အကျွန်ုပ်တို့၏ ဘုရင်ကို ဘုရားသခင် ကာကွယ် စောင့်ရှောက်တော်မူပါ'' အစား "အကျွန်ုပ်တို့၏ ဘုရင်မကို

ဘုရားသခင် ကာကွယ် စောင့်ရှောက်တော်မူပါဟု''ဟု ပြင်ဆင် သီဆိုခဲ့ကြလေသည်။

အယ်ယာနိုင်ငံ၏ နိုင်ငံတော် သီချင်းမှာ "စစ်သည်တော်တေးသံ'' အမည်ရှိသော သီချင်းဖြစ်သည်။ သီချင်းသားကို ပီယာဒါကားနီ ဆိုသူက ရေးသား၍၊ တေးသွားကိုမူ ကားနီနှင့် ပက်ထရစ်ဟီနီတို့က စပ်ဆိုခဲ့သည်။ အဆိုပါ သီချင်းကို ၁၉၁၂ ခုနှစ်၌ 'အိုင်းရစ်ဖရီးဒမ်း' အမည်ရှိစာစောင်တွင် ပဌမဦးဆုံး အကြိမ် ပုံနှိပ်ထုတ်ဝေခဲ့၍ ၁၉၂၆ ခုနှစ် ဇူလိုင်လတွင် အယ်ယာ နိုင်ငံ၏ နိုင်ငံတော်သီချင်းအဖြစ် သတ်မှတ်ပြဋ္ဌာန်းခဲ့လေသည်။

ဂျပန်နိုင်ငံ၏ နိုင်ငံတော် သီချင်းမှာကား "ကိမိဂယိုဝ'' ဖြစ်သည်။ အဆိုပါ သီချင်းကို ဟာယရှိဟိရိုကာမိ ဆိုသူ ပုဂ္ဂိုလ်က ရှေးဟောင်း ၉ ရာစု ခေတ်က တေးဟောင်းတပုဒ်ကို ယူ၍၊ စပ်ဆိုခဲ့ခြင်း ဖြစ်လေသည်။ သီချင်း၏ အဓိပ္ပါယ်မှာ "ဂျပန်ဘုရင်၏ အင်ပိုင်ယာကြီး တည်တံ့ခိုင်မြဲပါစေ'' ဟူသော ဆုတောင်း ဖြစ်လေသည်။

ဖိလစ်ပိုင် နိုင်ငံ၏ နိုင်ငံတော် သီချင်းမှာ "ဖိလစ်ပီးနတ်'' အမည်ရှိသော သီချင်း ဖြစ်သည်။ တေးသွားမှာ ဂီတဆရာ ဂျူလီယန်ဖိလစ်ပီ၏ တေးသွား ဖြစ်၍၊ သီချင်းသားမှာမူ စစ်သားကဗျာဆရာ ဟိုဇေးပါလမာ၏ ဖိလစ်ပီးနတ် အမည်ရှိသော ကဗျာဖြစ်လေသည်။ ဖိလစ်ပိုင် နိုင်ငံသည် လွတ်လပ်ရေးရသော ၁၉၄၆ ခုနှစ်အထိ အဆိုပါ ဖိလစ်ပီးနတ်သီချင်းနှင့်အတူ "ကြယ်ပေါင်းခြံရံ ဒိုအောင်လံ'' အမည်ရှိသော အမေရိကန်ပြည်ထောင်စု နိုင်ငံတော် သီချင်းကိုပါ အခမ်းအနားများတွင် သီဆိုတီးမှုတ် ကြရလေသည်။

ထိုင်းလင်း (ယိုးဒယား) နိုင်ငံ၏ နိုင်ငံတော် သီချင်းမှာကား "စန်ရာဆုန်ဗရာမီ'' အမည်ရှိသော သီချင်း ဖြစ်သည်။ အဆိုပါ သီချင်း၏ တေးသွားကို ယိုးဒယားဘုရင် ချူလာလွန်ကွန်၏ စေခိုင်းချက်အရ စကော့ပူမြို့ရှိ အင်္ဂလိပ်လူမျိုး တီးဝိုင်းဆရာ ဟဒ်ဆန်ဆိုသူက ၁၈၇၁ ခုနှစ်တွင် ရေးစပ်ပေးခဲ့ရလေသည်။ ထိုနောက် ချူလာလွန်ကွန် ဘုရင်ကြီးသည် သီချင်းသားကို ယိုးဒယား စာရေးဆရာတဦးအား အဆိုပါ တေးသွားအတိုင်း ယိုးဒယားဘာသာဖြင့် ရေးသွင်း စေခဲ့လေသည်။

ဆိုဗီယက် ဆိုရှယ်လစ် ပြည်ထောင်စု သမတနိုင်ငံ၏ နိုင်ငံတော်သီချင်းမှာ သီးသန့်အမည်ဟူ၍ မရှိဘဲ နိုင်ငံတော် သီချင်းဟုသာ ခေါ်ဝေါ်သုံးစွဲကြသည်။ ရုရှတော်လှန်ရေးကြီး မဖြစ်ပွားမီ ဇာဘုရင်များအုပ်စိုးစဉ်ကာလက 'ဗိုဇေဇာရီယာချရန်နီ' အမည်ရှိသော သီချင်းသည် ရုရှနိုင်ငံတော် သီချင်း ဖြစ်ခဲ့သည်။ အဆိုပါ သီချင်းအမည်၏ အဓိပ္ပါယ်မှာ ဘုရားသခင်သည် ဇာဘုရင်အား ထိန်းသိမ်းစောင့်ရှောက်ပါစေဟူ၍ ဖြစ်သည်။ ရုရှတော်လှန်ရေးကြီး အောင်မြင် ပြီးဆုံးသွားသောအခါ၊ 'အင်တာနေရှင်နေး' အမည်ရှိသော သီချင်းသည် နိုင်ငံတော်သီချင်း ဖြစ်လာခဲ့ပြန်သည်။ သို့ရာတွင် နောက်ဆုံး အတည်ပြုထားသော နိုင်ငံတော် သီချင်းမှာကား၊ အထက်၌ ဆိုခဲ့ပြီး ဖြစ်သော အမည်မဲ့ သီချင်းဖြစ်၍ တေးသွားကို အေ၊ ဗွီ၊ အယ်လစ်ဇန္ဒရော့ဆိုသူ ပုဂ္ဂိုလ်က ရေးစပ်ခဲ့၍ သီချင်းသားကိုမူ ဆာဂီး မိဟားလကော့ ဆိုသူ ရေးသားခဲ့လေသည်။

အမေရိကန် ပြည်ထောင်စု နိုင်ငံ၏ နိုင်ငံတော် သီချင်းမှာ 'ကြယ်ပေါင်းခြံရံ ဒိုအောင်လံ' ဖြစ်သည်။ အဆိုပါ သီချင်း၏ သီချင်းသားကို ဖရန်စစ် စကော့ ကီး ဆိုသူက ၁၈၁၄ ခုနှစ် စက်တင်ဘာလ ၁၄ ရက်နေ့တွင် ရေးသားခဲ့သည်။ တေးသွားမှာကား 'ကောင်းကင်ဘုံရှိ အနက်ကရီအွန်သို့' ဟူသော ရှေး အင်္ဂလိပ်တေးဟောင်း တပုဒ်အတိုင်းပင် ဖြစ်၍၊ အဆိုပါ တေးဟောင်းကို ဂျွန်စတက်ဖို့ စမစ်ဆိုသူက ရေးစပ်ခဲ့လေသည်။ 'ကြယ်ပေါင်းခြံရံ ဒိုအောင်လံ' သီချင်းကို ၁၉၃၁ ခုနှစ် မေလ ၃ ရက်နေ့တွင် အမေရိကန် ကွန်ဂရက်လွှတ်တော်မှ နိုင်ငံတော်သီချင်းအဖြစ် သတ်မှတ် ပြဋ္ဌာန်းခဲ့လေသည်။

**နိုင်ငံတော်အကြွေး။** ။နိုင်ငံအစိုးရက ပြည်သူတို့အားလည်းကောင်း၊ နိုင်ငံခြားအစိုးရတို့အားလည်းကောင်း ပေးဆပ်ရန်ရှိသော ငွေကို နိုင်ငံတော်အကြွေးဟု ခေါ်သည်။ နိုင်ငံတော် အကြွေးတွင် ပြည်တွင်းကြွေးနှင့် ပြည်ပကြွေးဟူ၍ နှစ်မျိုး ရှိသည်။ ငွေတိုက်စာချုပ်၊ ငွေတိုက်အပ်ငွေလက်မှတ်၊ငွေစုစာချုပ်၊ အစိုးရငွေချေးစာချုပ်၊ ငွေစုလက်မှတ်စသည်တို့ ရောင်းခြင်းသည်လည်းကောင်း၊ နိုင်ငံတော် အိုနာစာရန်ပုံငွေကိုလက်လှည့်သုံးခြင်းသည်လည်းကောင်း၊ နိုင်ငံတော်အစိုးရက ပြည်သူတို့ထံမှ ငွေချေးခြင်းမည်သည်။ ယင်းကို ပြည်တွင်းကြွေးဟု ခေါ်သည်။ ပြည်ပကြွေးဟူသည်မှာ နိုင်ငံခြားအစိုးရထံမှ ဖြစ်စေ၊ ကမ္ဘာ့ဘဏ်မှဖြစ်စေ ချေးသော ငွေကို ခေါ်သည်။

နိုင်ငံတော် အစိုးရတိုင်းလိုလိုပင် ဝင်ငွေထက် သုံးရန်ငွေကမျာ းရန်ရှိသောအခါ၊အသုံးစရိတ်ကာမိစေရန် တနည်းနည်းဖြင့် ငွေချေးယူကြရသည်။ စစ်ဖြစ်ချိန်၌ စစ်မှုရေးရာကို ထိရောက်စွာဆောင်ရွက်နိုင်ရေးအတွက် ငွေချေးရ၍၊ စစ်ပြီးသည့်အခါ၌လည်း နိုင်ငံတော်တိုးတက်ဖွံ့ဖြိုးစေမည့် လုပ်ငန်းများနှင့် နောင်လာနောက်သားအမျိုးဆက်များအတွက် အကျိုးသက်ရောက်စေမည့် လုပ်ငန်းများကို လုပ်ကိုင်ရန် ငွေချေးရသည်။ လမ်း၊ တူးမြောင်း၊ ဆည်၊ ရေအားလျှပ်စစ်ဓာတ်အားပေးရုံစသော အရှည်သဖြင့် အကျိုးရှိမည့် လုပ်ငန်းများအတွက် ချေးငွေများကို အသုံးပြုကြလေသည်။

ဘဏ်၊ အသက်အာမခံ ကုမ္ပဏီနှင့် ငွေကြေးတတ်နိုင်သူများက နိုင်ငံအကျိုးကို ရည်ရွယ်၍ရင်း၊ ရရှိမည့် အတိုး အညှန့်မြော်ကိုး၍ရင်း၊လုံခြုံစိတ်ချမှု ရှိ၍ရင်း ငွေတိုက် စာချုပ်

နှင့် ငွေစုလက်မှတ်များစွာ ဝယ်ယူကြသည်။ ယင်းလုပ်ငန်းကား ၂ ဖက်အကျိုးရှိသော လုပ်ငန်းဖြစ်သည်။ နှစ်တိုငွေချေးလိုသူများအတွက် နှစ်တိုငွေစုလက်မှတ်များရှိသကဲ့သို့ နှစ်ရှည်ချေးလိုသူများအတွက် နှစ်ရှည်အာမခံစာချုပ်များရှိသည်။ နှစ်ရှည် အာမခံစာချုပ်များကို အင်္ဂလန်ပြည်တွင် 'ကွန်ဆိုး'ဟု ခေါ်သည်။

ပြည်တွင်းမှ ချေးယူသည်ဖြစ်စေ၊ ပြည်ပမှ ချေးယူသည်ဖြစ်စေ၊ငွေချေးယူသောအခါ၊အစိုးရတို့သည်ချေးယူသောငွေရင်းကိုပြန်လည်ပေးဆပ်ရမည့် နေ့စွဲရက်စွဲတို့အပြင်၊ နှစ်စဉ်ပေးသွားမည့်ငွေတိုးများကိုပါ ဖော်ပြထားသော ဝန်ခံစာချုပ်များကို မြီရှင်များအား ထုတ်ပေးရ၏။ အချိန်ကိုဆိုင်း၍ ပြန်လည်ပေးဆပ်ရန် စီမံထားသော ရည်ရွယ်ချက်မှာ အစိုးရတို့သည် နိုင်ငံတော်အပေါ်၌တင်ရှိသော ကြွေးမြီအားလုံးတို့၏တာဝန်ကို လက်ရှိအခွန်ထမ်းများအပေါ်၌သာ လွှဲပုံချထားမပေးလိုသောကြောင့်ဖြစ်သည်။

ယခုအခါ ကမ္ဘာပေါ်တွင် အကြွေးကင်းသောနိုင်ငံဟူ၍မရှိသလောက် ရှားသည်။ အမေရိကန် ပြည်ထောင်စုကဲ့သို့ကြွယ်ဝသောနိုင်ငံသည်ပင် ၁၉၅၅ ခုနှစ် ဇွန်လ ၃၀ ရက်နေ့ စာရင်းအရ နိုင်ငံတော် အကြွေးပေါင်း ဒေါ်လာ ကုဋေ ၂၇,၄၃၇ ကျော်ရှိသည်။ ထို့အတူ ဗြိတိန်နိုင်ငံသည်လည်း ၁၉၅၇ ခုနှစ်တွင်နိုင်ငံတော်ကြွေးအဖြစ်ကုဋေ ၂,၇၀၀ ပေးဆပ်ရန် ရှိသည်။ စစ်ဒဏ်ကြောင့် ပြာပုံ ဖြစ်ခဲ့ရာမှ ပြန်လည်ထူထောင်နေရသောမြန်မာနိုင်ငံ၌မူ ၁၉၅၆–၇ ဘဏ္ဍာတော်နှစ်အတွင်းကပြည်တွင်းချေးငွေပေါင်း ကျပ် ၁၁၁၂ သန်းနှင့် ပြည်ပချေးငွေ ကျပ် ၂၁ သန်းကျော်ရှိရာ စုစုပေါင်း ကျပ် ၁၁၃၃ သန်း ခန့်မှန်းခြေ ရှိလေသည်။

# ကမ္ဘာ့ငြိမ်းချမ်းရေးအတွက် ကြိုးပမ်းမှု

**နိုင်ငံပေါင်းချုပ်အသင်းကြီးဖြစ်ပေါ်လာပုံ၊ယင်း၏ရည်ရွယ်ချက်များနှင့်ဆောင်ရွက်ချက်များ၊ အုပ်ချုပ်ရေးဇက်ယန္တရားတွင် မည်သို့သော အဖွဲ့အစည်းများပါရှိပုံ၊ အဘယ်ကြောင့် ဖျက်သိမ်းလိုက်ရပုံ သေည်တို့ကို စုံလင်စွာဖော်ပြထားသည်။**

**နိုင်ငံပေါင်းချုပ်အသင်းကြီး။** ။၁၉၁၄ ခုနှစ် ပဌမကမ္ဘာစစ်၏ ဒဏ်ကို ခံခဲ့ရသော ကမ္ဘာသူ ကမ္ဘာသားတို့သည် စစ်ကို အလွန်မုန်းတီးလာကြသည်။ အနာဂတ်တွင် စစ်ပွဲ တဖန် မဖြစ်ပွားအောင် ကြိုးပမ်းရန် အထူးပင် လိုလားလာကြသည်။ သို့ဖြစ်၍ ကမ္ဘာပေါ်တွင် ထာဝစဉ် ငြိမ်းချမ်းမှုတည်မြဲရေးကို အားထုတ် လေသည်။ အမှန်အားဖြင့်ဆိုလျှင် ပဌမကမ္ဘာစစ်မဖြစ်ပွားမီ ရှေးနှစ်ပေါင်း များစွာကပင်လျှင် စစ်ကို မုန်းတီးသူများသည် နိုင်ငံအချင်းချင်း မကျေနပ်မှု သဘောကွဲလွဲမှုတို့ကို မျက်နှာစုံညီ စည်းဝေးဆွေးနွေး၍ အနုနည်းနှင့် ဖြေရှင်းနိုင်ရန် ကြိုးပမ်းခဲ့လေသည်။

ထိုကဲ့သို့ ကြိုးပမ်းကြသောကြောင့် ၁၉၂၀ ပြည့်နှစ်တွင် အပြည်ပြည်ဆိုင်ရာ အဖွဲ့အစည်းဖြစ်သော နိုင်ငံပေါင်းချုပ်အသင်းကြီး ပေါ်ပေါက်လာခဲ့လေသည်။ နိုင်ငံပေါင်းချုပ်အသင်းကြီးကို ဖွဲ့စည်းရန် စတင်ကြံစည်သူကား အမေရိကန်ပြည်ထောင်စု၏ သမတ ဝုဒရိုဝီလဆန် ဖြစ်သည်။ (ဝီလဆန်၊ ဝုဒရို—ရှု။) ၁၉၁၈ ခုနှစ် ဇန္နဝါရီလ ၈ ရက်နေ့တွင်ထုတ်ပြန်သော သူ၏အချက်ကြီး ၁၄ ချက်တွင် ငြိမ်းချမ်းရေးအတွက် နိုင်ငံပေါင်းစုံ ပါဝင်သော အသင်းကြီးတခု ဖွဲ့စည်းရေးကို ဖော်ပြထားသည်။ ထို့နောက် စစ်ပြေငြိမ်းရေး ညီလာခံများတွင် တင်ပြဆွေးနွေးပြီးသော် နိုင်ငံပေါင်းချုပ် အသင်းကြီး ဖွဲ့စည်းရေးကို "ဗာဆေးစာချုပ်" တွင်ထည့်သွင်းရန် သဘောတူကြလေသည်။

နိုင်ငံပေါင်းချုပ် အသင်းကြီးကို နိုင်ငံပေါင်းချုပ်အသင်းစာချုပ်အရ ၁၉၂၀ ပြည့်နှစ် ဇန္နဝါရီလ ၁၀ ရက်နေ့တွင်တည်ထောင်သည်။ အပိုဒ်ပေါင်း ၂၆ ပိုဒ် ပါဝင်သော ထိုစာချုပ်သည် စင်စစ် ဗာဆေးစာချုပ်၏ တစိတ်တဒေသဖြစ်သည်။ ထိုစာချုပ်ကို စစ်သူကြီး (ထိုစဉ်က ဗိုလ်ချုပ်မှူး) စမတ်နှင့် လော့ရောဗတ်စဲစီးတို့ ပါဝင်၍၊ သမတ ဝီလဆန်က သဘာပတိအဖြစ်ဆောင်ရွက်သော အထူးကော်မစ်ရှင် အဖွဲ့က ရေးဆွဲခဲ့လေသည်။

ထိုစာချုပ် အရ အသင်းဝင် နိုင်ငံများသည် အသင်းဝင်နိုင်ငံတိုင်း၏ လွတ်လပ်ရေးနှင့် နယ်ပယ်များ မကွဲမပြားတည်ရှိရေးတို့ကို အသိအမှတ် ပြုကာ ပြင်ပမှ လာရောက်ကျူးကျော်တိုက်ခိုက်မှုများကို ကာကွယ်ပေးရန် တာဝန်ယူရသည်။ ထို့ပြင် အငြင်းပွားမှုနှင့် သဘောကွဲလွဲမှုများရှိလျှင် ရှေးဦးစွာ အသင်းသို့ တင်ပြခြင်း၊ သို့မဟုတ် ခုံတင်ဆုံးဖြတ်ခြင်းများ မပြုဘဲ၊ အကြမ်းမဖက်ရန်ကိုလည်း တာဝန်ယူရလေသည်။ အသင်းကြီး၏ ဌာနချုပ်သည် ဆွစ်ဇာလန်နိုင်ငံ ဂျီနီဗားမြို့တော်တွင် တည်ရှိသည်။

နိုင်ငံပေါင်းချုပ် အသင်းကြီးကို အမေရိကန်သမတ၏ အကြံပေးချက်အရ ဖွဲ့စည်းခဲ့ကြသော်လည်း၊ အမေရိကန်ပြည်ထောင်စုသည် အသင်းသား အဖြစ် မပါဝင်ခဲ့ချေ။ အမေရိကန်နှင့် မသက်ဆိုင်သော အရေးကိစ္စများတွင် အမေရိကန်လူမျိုးတို့က ဝင်ရောက် မစွက်ဖက်လိုသောကြောင့်

မဝင်ခဲ့ခြင်းပင် ဖြစ်လေသည်။ အသင်းဝင်များသည် ပဌမဦးစွာတွင် မဟာမိတ်နိုင်ငံ ၂၉ နိုင်ငံနှင့် ကြားနေနိုင်ငံ ၁၃ နိုင်ငံ ပေါင်း ၄၂ နိုင်ငံဖြစ်၏။ ၁၉၃၄ ခုနှစ်တွင် ဆိုဗီယက်ရုရှနိုင်ငံလည်း အသင်းဝင် ဖြစ်လာသည်။ ပဌမကမ္ဘာစစ်အတွင်းက မဟာမိတ်တို့နှင့် ဆန့်ကျင်ဖက်နိုင်ငံများဖြစ်သော ဂျာမနီ၊ ဩစတြီးယားနှင့် တူရကီနိုင်ငံများသည်လည်း အသင်းဝင်များ ဖြစ်လာကြသည်။

နိုင်ငံပေါင်းချုပ် အသင်းစာချုပ်တွင် အသင်းကြီး၏ ရည်ရွယ်ချက်များကို ဖော်ပြထားသည်။ယင်းတို့မှာ နိုင်ငံအချင်းချင်း ဖြစ်ပွားသော ဝိဝါဒများကို အပြည်ပြည်ဆိုင်ရာ တရားဥပဒေအရ စီရင် ဆုံးဖြတ်၍၎င်း၊ ခုံတင် ဆုံးဖြတ်၍၎င်း စစ်မက်ဖြစ်ပွားခြင်းကို တားဆီးရန်၊ လက်နက် အင်အား လျှော့ပေါ့ရေးကို ဆောင်ရွက်ရန်၊ လက်နက်၊ ယစ်မျိုး၊ မိန်းမနှင့် ကလေး အရောင်းအဝယ်ပြုခြင်းကို တားမြစ်ရန်၊ အလုပ်သမားများအား တရား မျှတသော အခွင့်အရေးများကို ပေးရန် စသည်တို့ ဖြစ်လေသည်။

နိုင်ငံပေါင်းချုပ် အသင်း၏ အုပ်ချုပ်ရေး စက်ယန္တရားတွင် အဖွဲ့ကြီး ငါးဖွဲ့ပါဝင်သည်။ ယင်းတို့မှာ လွှတ်တော်၊ ကောင်စီ အဖွဲ့၊ အတွင်းရေးမှူးရုံး၊ အပြည်ပြည် ဆိုင်ရာ အမြဲတမ်းတရားရုံးတော်နှင့် အပြည်ပြည်ဆိုင်ရာ အလုပ်သမားအစည်းအရုံးတို့ ဖြစ်လေသည်။

အဆင်ဗလီခေါ် လွှတ်တော်သည် အသင်းကြီးတွင် အာဏာအရှိဆုံးအဖွဲ့ဖြစ်၍၊ တနှစ်တကြိမ် အစည်းအဝေးကျင်းပသည်။ ထိုအဖွဲ့ကြီးသို့ အသင်းဝင် နိုင်ငံများက ကိုယ်စားလှယ်သုံးဦး စေလွှတ်ခွင့်ရရှိသော်လည်း၊ တနိုင်ငံလျှင် မဲဆန္ဒတမဲသာ ပေးနိုင်ခွင့် ရှိသည်။ လွှတ်တော်သည် အသင်းကြီးနှင့် သက်ဆိုင်သော ကိစ္စရပ်အားလုံးကို၎င်း၊ အတွင်းရေးမှူးချုပ်ခန့်ထားရေးနှင့် စပ်လျဉ်းသော ကိစ္စကို၎င်း၊ အသင်းသားသစ်များ ပါဝင်ခွင့် ရရှိရေးကိစ္စကို၎င်း စဉ်းစား ဆွေးနွေးနိုင်သည်။ အရေးမကြီးသော ကိစ္စရပ်များမှတပါး၊ ကိစ္စရပ်အားလုံးတွင် တညီတညွတ်တည်း သဘောတူညီချက်ကို ရရှိရမြဲ ဖြစ်သည်။

ကောင်စီ အဖွဲ့မှာ မူကား အသင်းကြီး၏ အမှုဆောင်အဖွဲ့ဖြစ်ပြီးလျှင် ၃ လတကြိမ်စည်းဝေးလေ့ရှိသည်။ အသင်းကြီးတည်ထောင်စက ကောင်စီအဖွဲ့တွင် အမြဲတမ်းအဖွဲ့ဝင် ၄ ဦးနှင့် လွှတ်တော်က နှစ်စဉ် ရွေးကောက် တင်မြှောက်ရသောယာယီအဖွဲ့ဝင် ၄ ဦး၊ ပေါင်း ၈ ဦးပါဝင်သည်။ ထိုအမြဲတမ်းအဖွဲ့ဝင်များမှာ ဂရိတ်ဗြိတိန်၊ ပြင်သစ်၊ ဣတလီနှင့်ဂျပန်နိုင်ငံတို့ဖြစ်၏။ ၁၉၂၂ ခုနှစ်၌ အသင်းကြီးတွင် နောက်ထပ်အဖွဲ့ဝင်နိုင်ငံများ တိုးလာသဖြင့် လွှတ်တော်တွင်လည်း အဖွဲ့ဝင်ဦးရေ တိုးလာရကား၊ ယာယီအဖွဲ့ဝင် ဦးရေကို ၄ ဦးမှ ၆ ဦးသို့ တိုးမြှင့်လိုက်သည်။ ၁၉၂၆ ခုနှစ်တွင် ဂျာမနီနိုင်ငံကို အမြဲတမ်းအဖွဲ့ဝင် နိုင်ငံအဖြစ် သဘောတူ တင်မြှောက်ကြပြန်သဖြင့်၊ အမြဲတမ်းအဖွဲ့ဝင် ၅ ဦး ဖြစ်သွားပြန်သည်။ ယာ



ဆွစဇာလန်နိုင်ငံ ဂျီနီဗားမြို့တော်၌ရှိ နိုင်ငံပေါင်းချုပ် အသင်းကြီး၏ ဌာနချုပ် အဆောက်အအုံကြီး

ယီအဖွဲ့ဝင် ဦးရေကိုလည်း ၉ ဦးအထိ တိုးလိုက်လေသည်။ ၁၉၃၃ ခု နှစ်တွင် ယာယီအဖွဲ့ဝင်များကို ၁၀ ဦးအထိ တိုးလိုက်ပြန်၍၊ ၁၉၃၆ ခုနှစ်တွင် ၁၁ ဦးအထိ တိုးချဲ့လိုက်၏။ ၁၉၃၅ ခုနှစ်၌ ကောင်စီအဖွဲ့တွင် အမြဲတမ်းအဖွဲ့ဝင် ၄ ဦးနှင့် ယာယီအဖွဲ့ဝင် ၁၀ ဦးပါဝင်ခဲ့သည်။ ထိုစဉ်က ဂရိတ်ဗြိတိန်၊ ပြင်သစ်၊ ဣတလီနှင့် ရုရှနိုင်ငံများသည် အမြဲတမ်း အဖွဲ့ဝင်များ ဖြစ်ခဲ့လေသည်။ ကောင်စီအဖွဲ့သည် အသင်းကြီးနှင့် သက်ဆိုင်သော ကိစ္စရပ်များကို ဆောင်ရွက် ပိုင်သည်။ အချုပ်ဆိုရသော် ကမ္ဘာကြီး၏ ငြိမ်းချမ်းရေးနှင့် သက်ဆိုင်သော ကိစ္စရပ်ဟူသမျှကို ဆောင်ရွက်နိုင်ပေသည်။

အသင်းကြီး၏ အမြဲတမ်း အထွေထွေ အတွင်းရေးမှူးကို ကောင်စီအဖွဲ့က ရွေးချယ်ခန့်ထားလေသည်။ အထွေထွေ အတွင်းရေးမှူးနှင့် သူ၏ ရုံးသားများသည် အသင်းကြီး၏ ရုံးကိစ္စအဝဝတို့ကို ဆောင်ရွက် ရလေသည်။ အသင်းဝင်နိုင်ငံများချုပ်ဆိုသော စာချုပ်အားလုံးကို အတွင်းရေးမှူးရုံးတွင် မှတ်ပုံတင်၍ အတွင်းရေးမှူးက ထုတ်ပြန်ကြေညာရသည်။ ထိုသို့ မပြုလုပ်လျှင် စာချုပ်သည် တရားမဝင်ချေ။

အပြည်ပြည်ဆိုင်ရာအမြဲတမ်းတရားရုံးတော်သည် အသင်းကြီး၏ အရေးပါသော အစိတ်အပိုင်းတခုဖြစ်သည်။ ထိုရုံးတော်တွင် တရားသူကြီး ၁၁ ဦးနှင့် လက်ထောက် တရားသူကြီး ၄ ဦးတို့ရုံးထိုင်ကြသည်။ တရားသူကြီးများသည် တရားဥပဒေအရာတွင် အထူးတတ်ကျွမ်းပေါက်မြောက်သူများဖြစ်ကြသည်။ ယင်းတို့ကို လွှတ်တော်နှင့်ကောင်စီ တွဲဖက်အစည်းအဝေးမှ မဲများရာဖြင့် ရွေးချယ်ခန့်ထားသည်။ သူတို့၏ ရာထူးသက်တမ်းကား ၉ နှစ်ဖြစ်သည်။ အပြည်ပြည် ဆိုင်ရာ အမြဲတမ်း တရားရုံးတော်သည် ဟော်လန်နိုင်ငံတွင် တည်ရှိသည်။ ထိုရုံးတွင် အပြည်ပြည်ဆိုင်ရာတရားဥပဒေနှင့် သက်ဆိုင်သည့် အမှုအခင်းများ၊ ပြည်ထောင်အချင်းချင်းထားရှိအပ်သော ကတိခံဝန်ချက်များကို ဖောက်ဖျက်မှုများ၊ ပြည်ထောင်အချင်းချင်း ချုပ်ဆိုထားသော စာချုပ်ပါ အချက်အလက်များကို အဓိပ္ပါယ်တိကျစွာ ကောက်ယူရေး စသည်တို့ကို လက်ခံ စဉ်းစား၍၊ အဆုံးအဖြတ်ပေးသည်။

အပြည်ပြည် ဆိုင်ရာ အလုပ်သမား အစည်းအရုံးသည် နိုင်ငံတကာရှိ အလုပ်သမားများ၏ အခြေအနေကို မြှင့်တင်ပေးရန် ရှေးရှုသော အဖွဲ့ဖြစ်သည်။ ယင်းကို ဂျီနီဗားမြို့၌ ထားရှိလေသည်။ အဖွဲ့သည် အနည်းဆုံး တနှစ်လျှင် တကြိမ်ကျ၊ အပြည်ပြည်ဆိုင်ရာ အလုပ်သမား ညီလာခံကို ဖိတ်ခေါ်ကျင်းပလေသည်။ ထိုညီလာခံသို့ အစိုးရ၊ အလုပ်ရှင်နှင့် အလုပ်သမားများ၏ ကိုယ်စားလှယ်များ တက်ရောက်ကြရသည်။ ထိုပြင် အဖွဲ့၏လက်အောက်တွင် အပြည်ပြည် ဆိုင်ရာ အလုပ်သမားရုံး ရှိသေးသည်။ ထိုရုံးကို အုပ်ချုပ်ရေး အဖွဲ့က ကြီးကိုင်သည်။ အုပ်ချုပ်ရေး အဖွဲ့တွင် အစိုးရ ကိုယ်စားလှယ် ၁၂ ဦး၊ အလုပ်ရှင်များ ကိုယ်စားလှယ် ၇ ဦးနှင့် အလုပ်သမားများ ကိုယ်စားလှယ် ၇ ဦး ပါဝင်သည်။

လွှတ်တော်၏မဲ ၃ ပုံ ၂ ပုံရရှိသော နိုင်ငံများသည် အသင်းကြီးသို့ ဝင်နိုင်သည်။ သို့သော် ထိုနိုင်ငံများသည် ကိုယ်ပိုင်အုပ်ချုပ်ရေး ရရှိသော နိုင်ငံများ ဖြစ်ရပေမည်။ ဒိုမီနီယန်နိုင်ငံများနှင့် ကိုလိုနီနိုင်ငံများသည်လည်း၊ကိုယ်ပိုင်အုပ်ချုပ်ရေးရရှိနေလျှင် အသင်းကြီးတွင် ပါဝင်နိုင်သည်။ အသင်းကြီးမှ နုတ်ထွက်လိုသောအခါ ၂ နှစ်ကြိုတင်အကြောင်းကြားရ၍ ဆောင်ရွက်ရန် ရှိသော တာဝန် ဝတ်တရားများကို ပြေလည်အောင် ဆောင်ရွက်ပြီးမှသာ နုတ်ထွက်နိုင်သည်။

နိုင်ငံပေါင်းချုပ် အသင်းကြီးသည် မည်မျှပင် မွန်မြတ်သော ရည်ရွယ်ချက်များနှင့် တည်ထောင် ထားခဲ့စေကာမူ၊ အသင်းဝင်များ အချင်းချင်း မသင့်မတင့်ဖြစ်မှုတို့ကြောင့်၎င်း၊ အရေးကြီးသော ကိစ္စရပ်များတွင် တညီတညွတ်တည်းဆုံးဖြတ်ချက်ချမှတ်ရန် လိုသောကြောင့်၎င်း ခရီးရောက်သင့်သလောက် မရောက်ခဲ့ချေ။ အမေရိကန် ပြည်ထောင်စုက အသင်းဝင်မဟုတ်သောကြောင့်လည်း အသင်းကြီး၏ အင်အားသည် လျော့ပါးလျက်ရှိခဲ့၏။ အသင်းကြီးသည် ပဌမတွင် အပြည်ပြည်နှင့် သက်ဆိုင်ရာ အရေးမပါလှသည့် ကိစ္စများကို ပြေပြစ်အောင် ဆောင်ရွက်နိုင်ခဲ့သော်လည်း တနေ့တခြား ဩဇာမှေးမှိန်လာသည်။ စည်းကမ်းဖောက်ဖျက်သောနိုင်ငံများကို စီးပွားရေး သပိတ်များဖြင့် အရေးယူခဲ့သော်လည်း အကျိုးမထင်ခဲ့ချေ။ အသင်းကြီး၏ အမိန့်မနာခံလိုသောနိုင်ငံများသည် နုတ်ထွက်သွားကြလေသည်။

၁၉၃၂ ခုနှစ်တွင် မန်ချူးရီးယား အရေးတော်ပုံနှင့် စပ်လျဉ်း၍၊ အသင်းကြီး၏ဝါဒကို မကြိုက်သောကြောင့် ဂျပန်နိုင်ငံသည် နုတ်ထွက်လိုက်၏။ နောက်တနှစ်တွင် ဂျာမနီနိုင်ငံကလည်း လက်နက်လျှော့ပေါ့ရေးကိုမကျေနပ်သောကြောင့် ဂျပန်၏နမူနာအတိုင်း နုတ်ထွက်ပြန်သည်။ ၁၉၃၇ ခုနှစ်တွင် အီသီအိုးပီးယား (အက်ဗီဆီးနီးယား) အရေးကြောင့် ဣတလီနိုင်ငံက နုတ်ထွက်လိုကြောင်း ကြိုတင်အကြောင်းကြားခဲ့၏။ နိုင်ငံပေါင်းချုပ် အသင်းကြီးသည် ဂျာမနီနိုင်ငံက ဩစတြီးယား နိုင်ငံ၊ ချက်ကိုဆလိုဗားကီးယားနိုင်ငံနှင့် ပိုလန်နိုင်ငံတို့သို့ ဝင်ရောက်တိုက်ခိုက်သည်ကို မည်သို့မျှ အရေးမယူခဲ့ချေ။ သို့သော် ရုရှ ဖင်းလန် စစ်ပွဲ ဖြစ်ပွားသော အခါ ၁၉၃၉ ခုနှစ်တွင် ရုရှနိုင်ငံကို အသင်းကြီးမှ ထုတ်ပယ်လိုက်လေသည်။ နိုင်ငံပေါင်းချုပ် အသင်းကြီးသည် တဖြည်းဖြည်းတန်ခိုးမှေးမှိန်လာခဲ့၍ အသင်းဝင်နိုင်ငံများကပင်လျှင် အလေးမမူ၊ ဂရုမစိုက်သည့် အခြေသို့ ရောက်သွားလေသည်။ အသင်းကြီးသည် နိုင်ငံရေးဖက်တွင် အောင်မြင်မှု မရရှိခဲ့သော်လည်း၊ ဒုက္ခသည်များအား အကူအညီပေးရေး၊ ကူးစက်ပြန့်ပွားတတ်သော ရောဂါများ ကာကွယ်ရေး၊ ယစ်မျိုး

အရှေ့အလယ် လူအရှေ့အလယ်တားဆီးပိတ်ပင်ရေး၊ အလုပ်သမားတို့၏ အခြေအနေကို တိုးမြှင့်ရေး စသည့် လုပ်ငန်းများကိုမူကား အတော်ပင် အောင်မြင်စွာ ဆောင်ရွက်နိုင်ခဲ့လေသည်။

ဒုတိယ ကမ္ဘာစစ်ကြီး ပြီးဆုံး၍ ၁၉၄၆ ခုနှစ် ဧပြီလသို့ ရောက်သောအခါ နိုင်ငံပေါင်းချုပ် အသင်းကြီးကို ဖျက်သိမ်း၍ ယင်း၏ နေရာတွင် ကမ္ဘာ့ကုလသမဂ္ဂအသင်းကြီးသည် ပေါ်ထွန်း လာလေသည်။ (ကုလသမဂ္ဂ — ရှု။)

**နိုင်ငံရေးပညာ။** ။နိုင်ငံရေးပညာဟူသော ဝေါဟာရ၏ အနက် အဓိပ္ပါယ်ကို ပညာရှင်အသီးသီးတို့က အမျိုးမျိုး ဖွင့်ဆိုကြ၏။ သို့ရာတွင် လူများစုက လက်ခံသော အနက်အဓိပ္ပါယ်မှာ ဤသို့အတိုင်း ဖြစ်၏။ နိုင်ငံရေး ပညာဆိုသည်မှာ နိုင်ငံ၏အကြောင်းအရာများကို လေ့လာသော သိပ္ပံပညာရပ် ဖြစ်သည်။ ဘီစီ ၅ ရာစု နှစ်ခန့်က ဂရိလူမျိုး သဘာဝတ္တဗေဒပညာရှင်ဖြစ်သောဆိုကရေးတီးနှင့်ပလေးတိုတို့သည် ယင်းတို့၏ တပည့်များဖြစ်ကြသော အက်သင်း မြို့သားလူငယ်များအား နိုင်ငံရေးပညာကို စတင် သင်ကြား ပို့ချခဲ့၏။ အယ်ရစ္စတိုတယ်က နိုင်ငံရေး ပညာရပ်ကို ပိုမိုတိကျစေရန် မွမ်းမံခဲ့၏။ ယခုခေတ်တွင်မူ နိုင်ငံရေးပညာရပ်သည် တောမတ်ဟော့၊ ဂျွန်လော့၊ ဒေဗစ်ဟုမ်းနှင့် မွန်တေဂူတို့၏ တိုးတက်သော အယူအဆများကြောင့် ကြီးပွားထွန်းကား လာလေသည်။

နိုင်ငံရေး ပညာရပ်သည် (၁) နိုင်ငံတော်က ပြဋ္ဌာန်းအတည်ပြုလိုက်သော ဥပဒေများအလိုက် နိုင်ငံတော်သားတို့ တဦးနှင့် တဦး မည်သို့ ဆက်ဆံကူးလူးနေကြပုံ၊ (၂) နိုင်ငံတော်သားသည်နိုင်ငံတော်နှင့်တဦးချင်းအနေဖြင့်သော်၎င်း၊ နိုင်ငံတော်သား တစုအနေဖြင့်သော်၎င်း မည်သို့ ဆက်သွယ်နေပုံ၊ (၃)နိုင်ငံတနိုင်ငံသည် အခြား နိုင်ငံတနိုင်ငံနှင့် မည်သို့ ဆက်သွယ်နေပုံတို့ကို လေ့လာသောပညာရပ်ဖြစ်၏။ တနည်းအားဖြင့် ဆိုသော် နိုင်ငံရေး ပညာသည် နိုင်ငံတော် အကြောင်း၊ ဥပဒေအကြောင်းနှင့် လူမှုကိစ္စအကြောင်းတို့ကို လေ့လာသော ပညာရပ်တခု ဖြစ်ပေသည်။

နိုင်ငံရေး ပညာသည် နိုင်ငံတော်နှင့် သက်ဆိုင်သည့် ကိစ္စအဝဝတို့ကို လေ့လာသောပညာရပ်ဖြစ်ရကား နိုင်ငံဆိုသည်ကို ယေဘုယျအားဖြင့် ရှင်းလင်းရန် လိုပေသည်။ နိုင်ငံတနိုင်ငံ ဟူ၍ သတ်မှတ်နိုင်ရန် လိုအပ်သောအင်္ဂါရပ်များမှာ —

(၁) လူဦးရေ
(၂) သတ်မှတ်ထားသော နယ်မြေ
(၃) အစိုးရ
(၄) အချုပ်အချာအာဏာ

တို့ပင်ဖြစ်သည်။

လူဦးရေသည် နိုင်ငံတနိုင်ငံ၌ မရှိလျှင် မဖြစ်သော အင်္ဂါရပ်ဖြစ်သည်။ နိုင်ငံတနိုင်ငံတည်ထောင်နိုင်ရန် လူဦးရေမည်မျှ မည်မျှရှိရမည်ကို သတ်မှတ်မထားသော်လည်း၊လူဦးရေ အတော်အသင့် ရှိမှသာ နိုင်ငံတနိုင်ငံကို ကောင်းစွာ တည်ထောင်နိုင်ပေလိမ့်မည်။ ဤအချက်နှင့် စပ်လျဉ်း၍ ထင်ရှားသော သာဓကမှာ ကမ္ဘာပေါ်ရှိ လူနေမဲ့ဒေသကို မည်သူကမျှ နိုင်ငံတနိုင်ငံဟူ၍ အသိအမှတ် မပြုပေ။ သို့သော် လူဦးရေများသော်လည်း အခြားအင်္ဂါရပ်များ ချွတ်ယွင်း နေပါကလည်း နိုင်ငံဟုမခေါ်နိုင်ပေ။

နိုင်ငံတနိုင်ငံ၏ ဒုတိယ အရေးပါအရာရောက်သော အင်္ဂါရပ်မှာ တိကျစွာ သတ်မှတ်ထားသော နယ်မြေ ဖြစ်သည်။ နယ်မြေ တိကျစွာ သတ်မှတ်ထားခြင်း မရှိသော ဒေသကို နိုင်ငံဟု မခေါ်နိုင်ချေ။

နိုင်ငံတနိုင်ငံ၏ အရေးပါသော တတိယ အင်္ဂါရပ်မှာ အစိုးရဖြစ်၏။ အစိုးရဆိုသည်မှာ တိုင်းသူ ပြည်သားတို့က မိမိတို့အား အုပ်ချုပ်စီမံရန်အချုပ်အချာ အာဏာကို လွှဲအပ်ပေးထားခြင်း ခံရသော လူတယောက်ကိုသော်၎င်း၊ လူတစုကိုသော်၎င်း ဆိုလိုပေသည်။ ယခုခေတ်တွင် ယေဘုယျအားဖြင့် အစိုးရကို နှစ်မျိုးနှစ်စား ခွဲခြားနိုင်သည်။ ယင်းတို့မှာ သမတအစိုးရ အမျိုးအစားနှင့် ကက်ဗိနက်အစိုးရ အမျိုး အစားတို့ပင်ဖြစ်သည်။ အချုပ်အားဖြင့်ဆိုသော် နိုင်ငံတနိုင်ငံ ဟု ခေါ် ဆိုနိုင်ရန် သမတအစိုးရသော်၎င်း၊ကက်ဗိနက်အစိုးရသော်၎င်း ရှိရမည်ဖြစ်သည်။

နိုင်ငံတနိုင်ငံ၏ စတုတ္ထအင်္ဂါရပ်မှာ အချုပ်အချာ အာဏာဖြစ်သည်။ အချုပ်အချာ အာဏာကို နိုင်ငံတော်တွင်းရှိ မည်သည့်အသင်းအပင်းအဖွဲ့အစည်းကမျှပိုင်ဆိုင်ခွင့်မရှိပေ။ အချုပ်အချာ အာဏာကို နိုင်ငံသူ နိုင်ငံသားများက ရွေးကောက်တင်မြှောက်ထားသော အစိုးရကသာလျှင် နိုင်ငံတော် အုပ်ချုပ်ရေးအတွက် ပိုင်ဆိုင် လေသည်။ အချုပ်အချာအာဏာမရှိသော နိုင်ငံကို နိုင်ငံဟု မခေါ်နိုင်ပေ။

ဤသို့ အင်္ဂါရပ်လေးရပ် ပြည့်စုံမှသာလျှင် နိုင်ငံတနိုင်ငံအဖြစ် အသိအမှတ် ပြုနိုင်ပေသည်။ နိုင်ငံရေး ပညာသည် ယင်းအင်္ဂါ လေးရပ်နှင့် ပြည့်စုံသော နိုင်ငံ၏ အကြောင်းအရာကို လေ့လာသော ပညာရပ်ဖြစ်သည်။ ထိုသို့ လေ့လာရာတွင် နိုင်ငံတနိုင်ငံနှင့် တနိုင်ငံ အုပ်ချုပ်ပုံချင်း မတူသည်ကိုတွေ့ရှိရလေသည်။နိုင်ငံတနိုင်ငံ၏ အုပ်ချုပ်ရေးသည် အယူအဆအမျိုးမျိုး အပေါ်တွင်အခြေခံကာ ကွဲပြား ခြားနားလေသည်။ နိုင်ငံတော် အုပ်ချုပ်ပုံနှင့် စပ်လျဉ်း၍ ထင်ရှားစွာ ကွဲပြားနေသော အယူဝါဒများမှာ —

(၁) မင်းမဲ့ဝါဒ
(၂) ပုဂ္ဂလိကဝါဒ
(၃) ဆိုရှယ်လစ်ဝါဒ စသည်တို့ဖြစ်ပေသည်။

မင်းမဲ့ဝါဒဆိုသည်မှာ နိုင်ငံတော် တည်ရှိမှုကို လက်မခံငြင်းပယ်သော ဝါဒပင်ဖြစ်သည်။ မင်းမဲ့ဝါဒီများ၏ အယူအဆမှာ နိုင်ငံတော်နေရာတွင် စီးပွားရေးရာ အသင်းအဖွဲ့များဖြင့် အစားထိုးမည် ဟူသော အယူအဆပင် ဖြစ်သည်။ ထိုစီးပွားရေး အသင်းအဖွဲ့များက အစိုးရအဖွဲ့တာဝန်ဝတ္တရားများကို ထမ်းရွက်မည်ဟု ဆိုသည်။ မင်းမဲ့ဝါဒီတို့သည် ဤသို့ အစိုးရအဖွဲ့တာဝန်ကို စီးပွားရေး အသင်းအပင်းများက တာဝန်ယူခြင်းအားဖြင့် တင်းကြပ်သော အာဏာကို ဖျက်ပစ်နိုင်လိမ့်မည်ဟူ၍ အယူရှိကြသည်။

ပုဂ္ဂလိကဝါဒဆိုသည်မှာ ပုဂ္ဂလိကတဦးချင်း လွတ်လပ်စွာ စီးပွားကုန်သွယ်ခွင့်၊ လွတ်လပ်စွာ နေထိုင် စားသောက်ခွင့်တို့ကိုနိုင်ငံတော်ကသော်ရင်း၊ အစိုးရက သော်ရင်း အာဏာဖြင့် ဝင်ရောက်မစွက်ဖက်ရန် လိုလားသောဝါဒပင်ဖြစ်သည်။ ပုဂ္ဂလိကဝါဒီတို့သည် နိုင်ငံတော် တည်ရှိမှုကို မငြင်းပယ်ဘဲ လက်ခံသော်လည်း၊ နိုင်ငံတော် တည်ရှိမှုသည် မကောင်းဟု ယူဆသည်။ ပုဂ္ဂလိက လွတ်လပ်မှုကို တိုးချဲ့ခြင်းဖြင့်သာ နိုင်ငံတော်၏ အခွင့်အာဏာကို တိုးချဲ့ရမည် ဟူ၍လည်း ပုဂ္ဂလိကဝါဒက ဆိုလေသည်။ ထို့ပြင် နိုင်ငံတော်သည် နိုင်ငံအကျိုးဖြစ်ထွန်းစေရန်ဟူသော အကြောင်းပြချက်ဖြင့် ကိစ္စအဝဝတို့ကို လက်ဝါးကြီး အုပ်ထားခဲ့ပါလျှင် ပုဂ္ဂလိကလွတ်လပ်မှုကို ချိုးဖောက်ရာ ရောက်မည်ဟု ဆိုသည်။ အားလုံး ခြုံ၍ ဆိုလျှင် ပုဂ္ဂလိကဝါဒဆိုသည်မှာ နိုင်ငံတော်၏ လုပ်ငန်း အဝဝတို့ကို ပုဂ္ဂလိကများ၏ အကျိုးစီးပွားအား မည်မျှ မြှင့်တင်ပေးသနည်းဟူသော အချက်နှင့် ပိုင်းဖြတ်သော အယူအဆပင်ဖြစ်လေသည်။

ဆိုရှယ်လစ်ဝါဒဆိုသည်မှာလယ်ယာသစ်တောသတ္တုတွင်း စက်ကရိယာ၊ စက်ရုံကြီးများ စသည့် အများနှင့်သက်ဆိုင်သော လုပ်ငန်းရပ်ကြီးများကို အစုအဖွဲ့ကသော်ရင်း၊ တဦးတယောက်ကသော်ရင်း ပိုင်ဆိုင်ခွင့်မရှိစေဘဲ၊ နိုင်ငံတော်ပိုင် ပြု၍ (ဝါ) အများပိုင်ပြု၍ လူနေမှု အဆင့်အတန်း မြှင့်တင်ရေးအတွက် စီမံကိန်းရေးဆွဲကာ ဆောင်ရွက်ရမည်ဟူသော ဝါဒပင်ဖြစ်၏။ ဆိုရှယ်လစ် ဝါဒ၏ ဆောင်ပုဒ်တခုမှာ လုပ်သမျှ ခံစားခွင့် ရှိရမည်ဟူသော ဆောင်ပုဒ် ဖြစ်၏။ ကွန်မြူနစ် ဝါဒသည် ဆိုရှယ်လစ်ဝါဒနှင့် ရည်ရွယ်ချက်ချင်း တူညီကြ၏။ ကွန်မြူနစ်ဝါဒနှင့် ဆိုရှယ်လစ် ဝါဒတို့ ကွဲပြားပုံမှာ တိုးတက်မှု အဆင့်အတန်းတွင်သာ ဖြစ်၏။ ကွန်မြူနစ်လောကကို ဆိုရှယ်လစ် လောကမှ တဆင့် တက်ရ၏။ (ကွန်မြူနစ်ဝါဒ။ ဆိုရှယ်လစ်ဝါဒ — ရှု။)

ဤသို့အားဖြင့် နိုင်ငံတော်ကို အုပ်ချုပ်ရာတွင် အယူဝါဒအလိုက် စံနစ်အမျိုးမျိုး ကွဲပြားခြားနား နေကြသည်ကိုလည်း နိုင်ငံရေး ပညာကို လေ့လာဆည်းပူးသူတို့သည် မျက်ခြည်မပြတ် ဂရုမူကြရပေသည်။

နိုင်ငံရေး ပညာသည် နိုင်ငံတော် အကြောင်း အရာကို လေ့လာဆည်းပူးသော သိပ္ပံပညာရပ်ဟု အတိုချုံးကာ ဖော်ပြကြ၏။ နိုင်ငံတော်၏ အကြောင်းအရာဆိုသည်မှာ နက်နဲကျယ်ဝန်းလှသဖြင့် နိုင်ငံရေးပညာရပ်ပင်လျှင် ကျယ်ဝန်းသော သိပ္ပံပညာရပ်ကြီးတခု ဖြစ်လာခဲ့ပေသည်။

**နိုင်ငံဝန်ထမ်း။** ။နိုင်ငံဝန်ထမ်းဟူသည်မှာ နိုင်ငံတော်၏ ဝန်ကို ထမ်းဆောင်နေသော ဗဟိုအစိုးရအမှုထမ်းအရာထမ်းများကို ဆိုလို၏။ နိုင်ငံဝန်ထမ်း အဖွဲ့များ ဆိုသည်တွင် ကုန်းတပ်၊ ရေတပ်နှင့် လေတပ်မှ တပါး၊ လုပ်ငန်းကျွမ်းကျင်မှုရှိ၍ အမြဲတမ်းခန့်ထားသည့် အခြား ပြည်ထောင်စု အစိုးရအမှုထမ်းအားလုံး ပါဝင်လေသည်။ နိုင်ငံတော်ဝန်ထမ်းအဖွဲ့အမျိုးမျိုး အစားစား ရှိပေသည်။ ဗဟိုရုံးဖြစ်သော အတွင်းဝန်များရုံးရှိ စာရေး စာချီမှအစ အတွင်းဝန်ချုပ် အထိ အရာထမ်းအမှုထမ်းများ၊နယ်အုပ်ချုပ်ရေးဆိုင်ရာများ ဖြစ်သော စာရေးစာချီ၊ မြို့ပိုင်၊ နယ်ပိုင်၊ ခရိုင်ဝန်၊ တိုင်းမင်းကြီးနှင့်ဗဟိုအစိုးရခန့်ထားသော ဌာနအသီးအသီးရှိ အလားတူ အရာထမ်းအမှုထမ်းများကို နိုင်ငံဝန်ထမ်းဟု ခေါ်၏။

နိုင်ငံဝန်ထမ်းတို့သည် တိုင်းပြည်၏ တာဝန်ကို ထမ်းရွက်နေသည့် အမြဲတစေ တည်ရှိနေရသော အမှုထမ်းအဖွဲ့ဖြစ်၍၊ ယေဘုယျအားဖြင့် အသက် ၅၅ နှစ် မပြည့်မခြင်းအမှုထမ်းခွင့် ရှိလေသည်။

## နိုင်ငံဝန်ထမ်း စတင်တည်ထောင်ပုံ

နိုင်ငံဝန်ထမ်း အဖွဲ့ကို အနောက်နိုင်ငံ နည်းစံနစ်ဖြင့် စတင် ဖွဲ့စည်းခဲ့သည်မှာ ဗြိတိသျှခေတ်တွင် ဖြစ်သည်။ ရှေးမြန်မာမင်း ခေတ်ကလည်း မြန်မာမင်းတို့ အုပ်ချုပ်ပုံနည်းစံနစ်အရ၊ မင်းမှုထမ်းအဖွဲ့ကို စံနစ်တကျ ဖွဲ့စည်းခဲ့သည်။ (မြန်မာမင်းအုပ်ချုပ်ပုံ — ရှု။)

မြန်မာပြည်သို့ အင်္ဂလိပ်များ စတင် ဝင်ရောက်ခဲ့သည့် အချိန် ၁၈၂၄ ခုနှစ်မှစ၍ ၁၈၆၂ ခုနှစ်အထိ အင်္ဂလိပ် အစိုးရသည် စံနစ်တကျဖြစ်သော ဝန်ထမ်းအဖွဲ့ကို ဖွဲ့စည်းခြင်း မရှိသေးဘဲ၊ မြန်မာပြည်ကို အိန္ဒိယဗဟိုအစိုးရ လက်အောက်တွင် ထားရှိ၍၊ အိန္ဒိယပြည်မှ အရာထမ်းအမှုထမ်းများကို ခေါ်ယူကာ၊အထက်တန်း ရာထူးကြီးများတွင် ခန့်ထားခဲ့ပြီးလျှင်၊ တိုင်းပြည်ငြိမ်ဝပ်ပိပြားရေးကို အဓိကလုပ်ငန်း အဖြစ်ထားလျက် ဆောင်ရွက်စေခဲ့၏။ ထို့ဥရောပတိုက်သား အရာရှိများအောက်တွင် စစ်ကဲ၊ မြို့အုပ်၊ တိုက်သူကြီး၊ ရွာခေါင်း၊ ကြေးထမ်းကြီးစသည်များကို နယ်အုပ်ချုပ်ရေးတွင် အကူအညီရရှိရန် ခန့်ထားခဲ့သည်။ ဤကဲ့သို့ ဝန်ထမ်းအဖွဲ့ ဖွဲ့စည်းပုံမှာ ယာယီသဘောမျှသာ ဖြစ်လေသည်။

၁၈၆၂ ခုနှစ်မှ ၁၈၉၇ ခုနှစ်အထိ ဖြစ်သည့် ကာလသို့

ရောက်မှသာလျှင် မြန်မာနိုင်ငံ ဝန်ထမ်းအဖွဲ့သည် ဗြိတိသျှ အုပ်ချုပ်ပုံစံနစ် ပုံသွင်သို့ ရောက်ရှိလာခဲ့ပေသည်။ထိုအချိန်မှပင် မြန်မာပြည်ကို ပြည်နယ်တခုအဖြစ် သတ်မှတ်လိုက်ပြီးလျှင် နိုင်ငံ့ဝန်ထမ်း အဖွဲ့များကို ပြန်လည် ပြုပြင်ခဲ့၏။

ထိုခေတ်အခါက ဝန်ထမ်းအဖွဲ့ကို ၂ဖွဲ့သီးခြားဖွဲ့စည်းခဲ့၏။ ပဌမ ဖွဲ့သည့် ဝန်ထမ်းအဖွဲ့သည် ဘားမားကော်မစ်ရှင် အဖွဲ့ဖြစ်၏။ထိုဝန်ထမ်းအဖွဲ့သည် ထိပ်တန်းအဖွဲ့ဖြစ်၍၊ထိုဝန်ထမ်းအဖွဲ့တွင်းသို့ ဥရောပ တိုက်သားများကိုသာ ခန့်ထား၏။ ထိုကော်မစ်ရှင် အဖွဲ့၏ ၃ ပုံ ၂ ပုံသည် လန်ဒန်မြို့တွင် ကျင်းပသော အပြိုင်စာမေးပွဲစံနစ်ဖြင့် ရွေးချယ်ခန့်ထားခြင်းခံရသော အိန္ဒိယ ပဋိညာဉ်ခံ အဖွဲ့ဝင်များဖြစ်၏။ ကျန် ၃ ပုံ ၁ ပုံသည် စစ်ဖက်ဆိုင်ရာ အရာရှိများနှင့် အခြား ဝန်ထမ်းအဖွဲ့များမှ ရွေးချယ်ခန့်ထားသူများ ဖြစ်၏။

ဒုတိယ ဝန်ထမ်းအဖွဲ့သည် ပြည်နယ်ဝန်ထမ်း အဖွဲ့ဖြစ်၏။ တတိယ နောက်ဆုံးအကြိမ် မြန်မာပြည်ကိုသိမ်းပိုက်စအချိန်နှစ်ဦးပိုင်းတွင် ထိုအဖွဲ့တွင်းသို့ အိန္ဒိယပြည်ဖွဲ့သော်ငြား၊ မြန်မာပြည်ဖွဲ့သော်ငြား နေထိုင်လျက်ရှိသော ဥရောပတိုက်သားများနှင့် မြန်မာမင်း လက်အောက်တွင် အမှုထမ်းခဲ့ဘူးသော ပုဂ္ဂိုလ်များကို ခေါ်ယူ ခန့်ထားခဲ့လေသည်။

ထိုဝန်ထမ်း အဖွဲ့ကို အတန်းအစားနှစ်မျိုး ထပ်မံခွဲခြားထားပြန်သည်။ ပဌမအတန်းအစားမှာ ဝန်ထောက်တန်းဖြစ်၍၊ ဒုတိယအတန်းအစားမှာ မြို့အုပ်တန်း ဖြစ်သည်။

ထိုစဉ်အခါက မြန်မာနိုင်ငံ၏အုပ်ချုပ်ရေးစံနစ်သည် ငြိမ်ဝပ်ပိပြားရေးကိုသာ အဓိကထားနေသဖြင့် ထိုဝန်ထမ်းအဖွဲ့များသည် စီရင်အုပ်ချုပ်မှုဝန်ထမ်းအဖွဲ့များသာ ဖြစ်သည်။ အခြား သီးခြားလုပ်ငန်းရပ်များ အတွက် ဝန်ထမ်းအဖွဲ့ဟူ၍ မရှိခဲ့ပေ။ ပမာအားဖြင့် ၁၈၆၂ ခုနှစ် မတိုင်မီက အရေးပိုင်သည် ရဲအဖွဲ့၏ အကြီးအကဲအဖြစ် ဆောင်ရွက်၍၊ မိမိနယ်အတွင်းရှိ ထောင်အုပ်ချုပ်သူ အကြီးအကဲလည်း ဖြစ်သည်။

၁၈၆၂ ခုနှစ် နောက်ပိုင်း၌ အတွင်းဝန်ရုံးအဖွဲ့ ပေါ်ပေါက်လာပြီးလျှင် ၁၈၈၆ ခုနှစ်အထိ အတွင်းဝန် တဦးနှင့် လက်ထောက်အတွင်းဝန် တဦးတည်းဖြင့် ဆောင်ရွက်လာရာမှ ဌာနများလုပ်ငန်းများ ပိုမို ကျယ်ဝန်း များပြားလာ၍၊ အတွင်းဝန်ရုံးအဖွဲ့ကို တိုးချဲ့ခဲ့၏။ ထိုတိုးချဲ့သော အတွင်းဝန်ရုံးအဖွဲ့၌ လုပ်ငန်းဌာနများ ထပ်မံဖန်တီးခဲ့လေသည်။

၁၈၇၂ ခုနှစ်တွင် ကြေးတိုင်အရာရှိများကို စတင် ခန့်ထားခဲ့ခြင်းဖြင့်၎င်း၊ ၁၉၀၀ ပြည့်နှစ်တွင် ကြေးတိုင်မင်းကြီး လက်အောက်ခံ မြေစာရင်းဌာန ဖွင့်လှစ်ခဲ့ခြင်းဖြင့်၎င်း၊ ၁၇၇၀ ပြည့်နှစ်တွင် လုပ်ငန်းဌာနကို အင်ဂျင်နီယာချုပ် အောက်တွင် ထားရှိ ဖွင့်လှစ်ခဲ့ခြင်းဖြင့်၎င်း၊ ၁၉၀၄ ခုနှစ်တွင် သမဝါယမ ငွေချေးအသင်း ဌာနကို ဖွင့်လှစ် ခဲ့ခြင်းဖြင့်၎င်း၊ ၁၉၀၅ ခုနှစ်တွင် သစ်တောဌာနကို အုပ်ချုပ်ရန် သစ်တောဌာန မင်းကြီးချုပ်ကို ခန့်ထားခဲ့ခြင်းဖြင့်၎င်း၊ ၁၉၀၅ ခုနှစ်တွင် တရားစီရင်ရေးနှင့် အုပ်ချုပ်ရေး တာဝန်ဝတ်တရားများ ခွဲခြားရေးကို စတင် ဆောင်ရွက်လိုက်ခြင်းဖြင့်၎င်း၊ ဝန်ထမ်းအဖွဲ့ အသစ်များ ဌာနအလိုက်၊ ၁၉၀၆ ခု နှစ်တွင် စိုက်ပျိုးရေး ညွှန်ကြားရေး ဝန်ကို ခန့်ထားခြင်းဖြင့်၎င်း၊ ၁၉၁၀ ခုနှစ်တွင် သန့်ရှင်းရေး မင်းကြီးကို ခန့်ထားခြင်းဖြင့်၎င်း ကျွမ်းကျင်မှုဌာနအသီးအသီးကို ဖန်တီးခဲ့လေသည်။

အထက်ပါ အရာထမ်းများ အဆင့်ရှိ နိုင်ငံတော် ဝန်ထမ်းအဖွဲ့နှင့် အတူ အရေးပါအရာရောက်သော စာရေးစာချီ ဝန်ထမ်းအဖွဲ့ကိုလည်း တည်ထောင်ဖန်တီးခဲ့၏။ စာရေးများကို ဗြိတိသျှ အုပ်ချုပ်ရေးအစပိုင်း၌၊ ဗြိတိသျှတို့သည် မိမိတို့၏ အုပ်ချုပ်ပုံ စံနစ်၊ မိမိတို့၏ စိတ်နေစိတ်ထားနှင့် မိမိတို့၏ ဘာသာရပ်တွင် အတွေ့အကြုံ ဗဟုသုတများခဲ့သည့် အိန္ဒိယတိုင်းရင်းသားတို့ကို ခေါ်ဆောင်ခန့်ထား၏။ ထိုနောက် အင်္ဂလိပ်မြန်မာကျောင်းများ ဖွင့်လှစ်ပြီးသည့်နောက်ပိုင်း၌၊ ထိုကျောင်းထွက်များကို ခန့်ထားခဲ့သည်။ သို့ရာတွင် ရုံးသုံးဘာသာသည် အင်္ဂလိပ်စာဖြစ်ခဲ့၍ အိန္ဒိယအမျိုးသားကပြားများကိုသာ အများအားဖြင့် စာရေးစာချီဝန်ထမ်းအဖွဲ့ အထက်ပိုင်းနေရာများ၌ ခန့်ထားခဲ့လေသည်။

နိုင်ငံ့ဝန်ထမ်း အဖွဲ့ပုံစံနှင့် ဖွဲ့စည်းပုံမှာ အထက်ပါ ပုံစံအတိုင်းသာလျှင် တည်ရှိခဲ့ပြီးလျှင် ၁၉၃၇ ခုနှစ် နောက်ပိုင်းတို့၌သာ အနည်းငယ် ပြင်ဆင်မှု ပြုပြင်မှုများကို တွေ့နိုင်သော်လည်း အခြေခံ 'မူ' မှာ မပြောင်းလဲခဲ့ပေ။

အင်္ဂလိပ်များ ထွက်ခွာသွားသည့် ၁၉၄၇ ခုနှစ်အထိ တွေ့ရှိရသည့် နိုင်ငံ့ဝန်ထမ်းများ ဖွဲ့စည်းပုံ စည်းမျဉ်းပုံစံတို့သည် ၁၉၃၇ ခုနှစ် နောက်ပိုင်းကာလ၌ ဖန်တီးခဲ့သည့် ပုံစံအတိုင်းပင် ဖြစ်လေသည်။

၁၉၃၇ ခုနှစ်အထိ နိုင်ငံ ဝန်ထမ်းများကို ရွေးချယ် ခန့်ထားရာတွင်၊ မိမိတို့ သဘောအတိုင်းသာ ခန့်ထားခဲ့ကြ၏။ ပြည်နယ် ဝန်ထမ်း အဖွဲ့ဝင်အဖြစ် ခန့်ထားရာတွင် အချို့ကို တိုက်ရိုက် ရွေးချယ်ခန့်ထား၍၊ အချို့ကိုကား စာမေးပွဲ ကျင်းပ၍ ခန့်ထား၏။

၁၉၃၇ ခုနှစ်နောက်ပိုင်း၌ စည်းစံနစ်ကျနသော ရွေးချယ်ခန့်ထားရေး အတွက် ရာထူးဝန် အဖွဲ့ကို ဖွဲ့စည်းခဲ့၏။ ထိုရာထူးဝန် အဖွဲ့သည် နိုင်ငံ့ဝန်ထမ်းများ ခန့်ထားရန် အတွက် ဆိုင်ရာစာမေးပွဲများ ကျင်းပရန် တာဝန် ရှိပြီးလျှင်၊ အစိုးရအား နိုင်ငံတော်ဝန်ထမ်း ခန့်ထားရေး၊ ရာထူးတိုးတက်ပေးရေးစသော ဝန်ထမ်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ အကြံဉာဏ်ပေးရလေသည်။

သို့ရာတွင် ထိုရာထူးဝန် အဖွဲ့သည် အကြံပေးအဖွဲ့သာ ဖြစ်၍၊ အချို့ကိစ္စရပ်များ၌ ရာထူးဝန် အဖွဲ့နှင့် မတိုင်ပင်သော ဆုံးဖြတ်ချက်များလည်း ရှိ၏။

ပုံစံအဖြစ်တည်ရှိနေသောနိုင်ငံ့ဝန်ထမ်းအဖွဲ့အစည်းတွင်—
(၁) ပဌမတန်း နိုင်ငံ့ဝန်ထမ်းအဖွဲ့
(၂) ဒုတိယတန်း နိုင်ငံ့ဝန်ထမ်းအဖွဲ့
(၃) လက်အောက် နိုင်ငံ့ဝန်ထမ်းအဖွဲ့
(၄) စာရေးစာချီအဖွဲ့ဟူ၍ တွေ့ရှိနိုင်၏။

## ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ နိုင်ငံ့ဝန်ထမ်းအဖွဲ့

၁၉၄၈ ခုနှစ်တွင် လွတ်လပ်ရေး ရပြီးသောအခါ၊ ပြည်ထောင်စု မြန်မာနိုင်ငံ၏ နိုင်ငံ့ဝန်ထမ်းအဖွဲ့ ဖွဲ့စည်းပုံမှာ ဗြိတိသျှခေတ်မှ ပုံစံအတိုင်းပင် ဖြစ်၍၊ အချို့ အခေါ် အဝေါ် ရာထူးဆင့်ခွဲပုံစသည်တို့၌သာ ပြုပြင်ထားသည်ကိုတွေ့နိုင်၏။ နိုင်ငံ့ဝန်ထမ်းအဖွဲ့တွင် အဓိကအားဖြင့်—
(၁) အရာရှိအရာခံ အဖွဲ့အစည်းနှင့်
(၂) စာရေးစာချီ အဖွဲ့အစည်းဟူ၍ နှစ်မျိုး နှစ်စား တွေ့နိုင်၏။ စာရေးစာချီ အဖွဲ့အစည်း၌ ရာထူးဆင့် အမျိုးမျိုး ခွဲခြားထားသကဲ့သို့ အရာရှိ အရာခံ အဖွဲ့အစည်းတွင်လည်း ခွဲခြားသတ်မှတ်ထားသည်။

အရာရှိ အရာခံ အဖွဲ့အစည်း၌—
(၁) နိုင်ငံ့ဝန်ထမ်း (အငယ်တန်း) အဆင့်
(၂) ။ (အကြီးတန်း) အဆင့်
(၃) ။ (အရွေးအချယ်ခံတန်း) အဆင့်
(၄) အောက်တန်း အုပ်ချုပ်ရေးအဆင့်
(၅) အထက်တန်း အုပ်ချုပ်ရေး အဆင့်ဟူ၍ ခွဲခြားထားပြီးလျှင်၊ ထိုအဆင့်တိုင်းအဆင့်တိုင်း အတွက် ရာထူးစုကို သတ်မှတ်ထားရှိ၏။

ထိုနည်းတူစွာပင် စာရေးစာချီ အဖွဲ့အစည်း၌လည်း—
(၁) အောက်တန်း စာရေးအဆင့်
(၂) အထက်တန်းစာရေး အဆင့်
(၃) ဌာနခွဲ စာရေး အဆင့်
(၄) ရုံးအုပ် အဆင့် ဟူ၍ ခွဲခြား သတ်မှတ် ထားရှိလေသည်။

## နိုင်ငံ့ဝန်ထမ်းများ ခန့်ထားပုံ

စာရေးစာချီများကို ခန့်ထားရာ၌၊ အနည်းဆုံး အရည်အချင်းအဖြစ်ဖြင့်(၁၀)တန်း၊ သို့မဟုတ် တက္ကသိုလ်ဝင်တန်း၊ သို့မဟုတ် တန်းမြင့် ကျောင်းထွက်လက်မှတ်ရ စာမေးပွဲ အောင်မြင်ရမည်ဟု သတ်မှတ်ထားသည်။

စာရေးစာချီ အဖြစ် ဝင်ရောက် လုပ်ကိုင်မည့်သူသည် အသက် ၁၈ နှစ်မှ ၂၅ နှစ်အတွင်း ရှိရမည်။ ထိုအကန့်အသတ် အဘွင်း မကျရောက်ပါက၊ သက်ဆိုင်ရာ ဌာနအကြီးအကဲ၏ သျှော့ပေါ့ခွင့်ကို ရယူရမည်။

နိုင်ငံ့ဝန်ထမ်းအရာထမ်းများအတွက်မူ၊ နိုင်ငံ့ဝန်ထမ်းအဖွဲ့များရှိ ရာထူးစုများသို့ ခန့်ထားရန် နည်းလမ်းများနှင့် သော်၎င်း၊ ခန့်ထားရာ၌ လိုက်နာရမည့် မူများနှင့်သော်၎င်း စပ်လျဉ်းသည့် ကိစ္စ အရပ်ရပ်တွင် သက်ဆိုင်ရာ အာဏာပိုင်များသည် ၁၉၅၃ ခုနှစ် ပြည်ထောင်စု ရာထူးဝန်အဖွဲ့ အက်ဥပဒေပုဒ်မ ၁၁ အရ၊ ရာထူးဝန်အဖွဲ့နှင့် တိုင်ပင်ရမည့်ပြင်၊ နိုင်ငံ့ဝန်ထမ်းအဖွဲ့ အငယ်တန်းရာထူးနှင့် အကြီးတန်းရာထူး များတွင် ခန့်ထားမည့် သူများနှင့် စပ်လျဉ်း၍ သင့်တော်သည်ကို သက်ဆိုင်ရာ အာဏာပိုင်တို့က ရာထူးဝန်အဖွဲ့နှင့် ညှိနှိုင်းတိုင်ပင်ရမည် ဖြစ်၏။ သို့ရာတွင် (၆) လထက်မပို သော ကာလ အပိုင်းအခြားအတွက် ခေတ္တ ခန့်ထားခြင်းဖြစ်လျှင်၊ ရာထူးဝန်အဖွဲ့နှင့် ညှိနှိုင်းတိုင်ပင်ရန် မလိုပေ။

၁၉၅၃ ခုနှစ် ပြည်ထောင်စု ရာထူးဝန်အဖွဲ့ အက်ဥပဒေပုဒ်မ ၁၃ အရ၊ နိုင်ငံ့ ဝန်ထမ်း အငယ်တန်းနှင့် အကြီးတန်း ရာထူးများသို့ အများအားဖြင့် အပြိုင်စာမေးပွဲ စံနစ်ဖြင့် ရွေးချယ်ခန့်ထားလျက်ရှိသည်။ ကျွမ်းကျင်မှု လိုအပ်သောရာထူး များဖြစ်သည့်စိုက်ပျိုးရေးအုပ်၊ စိုက်ပျိုးရေးဝန်ထောက်၊သစ်တောဝန်ထောက်၊ လမ်းဝန်ထောက်အစရှိသည့်ရာထူးများသို့ လိုအပ်သော ကျွမ်းကျင်မှု အရည်အချင်း ရှိသူများကိုသာလျှင်၊ ပြည်ထောင်စုရာထူးဝန်အဖွဲ့ကစိစစ်ခန့်ထားလေသည်။ လုပ်သက် ရှိသူများကိုမူ၊ အသက် ကန့်သတ်ချက်ကို လျှော့ပေါ့၍၊ အပြိုင်စာမေးပွဲ ဝင်ရောက်ဖြေဆိုခွင့်ပြုလေသည်။

အခြားခန့်ထားသည့် နည်းတနည်းမှာ လုပ်သက်ရင့်သူများအား အငယ်တန်း အဖွဲ့မှ အကြီးတန်းအဖွဲ့သို့ ရာထူးတိုးမြှင့်ခန့်ထားခြင်း ဖြစ်လေသည်။

အရွေးအချယ်ခံတန်း၊ အောက်တန်း အုပ်ချုပ်ရေး၊ အထက်တန်းအုပ်ချုပ်ရေး၊ဤသုံးဆင့်တို့သို့မူ၊ အပြိုင်စာမေးပွဲ စံနစ်ဖြင့် ခန့်ထားခြင်း လုံးဝမရှိဘဲ၊ နိုင်ငံ့ဝန်ထမ်း(အကြီးတန်း)မှ သော်၎င်း၊ ထိုထက်မြင့်သော ရာထူးအဆင့်များမှ သော်၎င်း ရာထူးတိုးတက်ပေးခြင်းစံနစ်ဖြင့် ခန့်ထားသည်။

နိုင်ငံ့ဝန်ထမ်းများကိုခန့်ထားရာ၌၊ ဆိုင်ရာ ရာထမ်းမှုထမ်း နည်းဥပဒေ စည်းမျဉ်းဥပဒေများအရသာ ခန့်ထားရပေသည်။ ထိုနိုင်ငံ့ဝန်ထမ်းအဖွဲ့ရှိ ရာထူးများသို့ ခန့်ထားရေးနှင့် စပ်လျဉ်းသည့် နည်းဥပဒေများကို သက်ဆိုင်ရာ ဌာနများက ရေးဆွဲသတ်မှတ်ထားလေသည်။ ပုံပမာ-မြန်မာနိုင်ငံ့ဝန်ထမ်း (အကြီးတန်း) နှင့် (အငယ်တန်း) နည်းဥပဒေများ၊ မြန်မာ နိုင်ငံ စာရေး စာချီများ ခန့်ထားရေး နည်းဥပဒေများ စသည်ဖြင့် ရှိကြလေသည်။

## အမြဲတမ်းခန့်ထားခြင်း

နိုင်ငံ့ဝန်ထမ်းများကို စတင်ခန့်အပ်ပြီးသည့်နောက်၊ အစမ်းခန့်အဖြစ် ထားရှိ၍၊ အလုပ်သင်ကြားစေသည်။ ထိုဝန်

ထမ်းတို့သည် ကန့်သတ်ထားသောကာလကျော်လွန်သည့်အခါ၊ ဌာနဆိုင်ရာစာမေးပွဲများကို သတ်မှတ်ထားသည့် အဆင့်အတန်းမှ အောင်မြင်ပြီး၍၊ ကြေနပ်ဖွယ်ရှိသော အလားအလာပြနိုင်ပါက၊ အမြဲတမ်းခန့်ထားခြင်း ခံရလေသည်။

## ရာထူးတိုးတက်ပေးခြင်း

ပြည်ထောင်စု ရာထူးဝန်အဖွဲ့ အက်ဥပဒေ ပုဒ်မ ၁၄ အရ နိုင်ငံ့ဝန်ထမ်း အဖွဲ့ဝင်တို့အား နိုင်ငံ့ဝန်ထမ်း အငယ်တန်းရာထူးမှ အကြီးတန်းရာထူးသို့ တိုးမြှင့်လျှင်ဖြစ်စေ၊ အမြဲတမ်းရာထူးတိုးမြှင့်ခန့်ထားရန်ကိစ္စ ပေါ်ပေါက်လျှင် ဖြစ်စေ၊ နိုင်ငံ့ဝန်ထမ်း အဖွဲ့တဖွဲ့မှ အခြားအဖွဲ့တဖွဲ့သို့ ရွှေ့ပြောင်းလာရန်ကိစ္စ ပေါ်ပေါက်လျှင်ဖြစ်စေ သင့်တော်သည် မတော်သည်ကို သက်ဆိုင်ရာ အာဏာပိုင်တို့က ပြည်ထောင်စု ရာထူးဝန်အဖွဲ့နှင့် တိုင်ပင်၍ ဆောင်ရွက်ကြရလေသည်။

ထို့ပြင် အရာထမ်းတို့အား ခေတ္တ ရာထူးတိုးမြှင့်ပေးရန်ကိစ္စနှင့် နိုင်ငံ့ဝန်ထမ်းအဖွဲ့တဖွဲ့မှတဖွဲ့သို့ ယာယီ ရွှေ့ပြောင်းပေးရန် ကိစ္စများတွင်၊ ၆ လထက် ကျော်လွန်၍ ဆောင်ရွက်ရမည့် ရာထူးဖြစ်လျှင်၊ ထိုကိစ္စကို ပြည်ထောင်စု ရာထူးဝန်အဖွဲ့နှင့် တိုင်ပင်ရသည်။

## နိုင်ငံ့ဝန်ထမ်းတို့၏ အခွင့်အရေးနှင့် စည်းကမ်းသေဝပ်မှု စည်းမျဉ်းများ

နိုင်ငံ့ဝန်ထမ်းတို့သည် ပြည်သူလူထု ထံမှ ကောက်ခံရရှိသော အခွန်တော်ငွေများမှ လစာရရှိသူများ ဖြစ်သည့်ပြင်၊ မိမိတို့ ကျွမ်းကျင်မှု အရည်အချင်းအလိုက်၊ တိုင်းပြည်၏ တာဝန်ကို ထမ်းဆောင်နေရသူများ ဖြစ်ခြင်းကြောင့်၊ တိုင်းပြည် တာဝန် ဆောင်ရွက်ရာ၌ စည်းကမ်း သေဝပ်မှုရှိရန် လိုအပ်သည်။ နိုင်ငံ့ဝန်ထမ်းတို့ လိုက်နာရန် အတွက်၊ မြန်မာနိုင်ငံ အစိုးရအမှုထမ်း အရာထမ်းများ အပြုအမူနည်းဥပဒေနှင့် စည်းကမ်းသေဝပ်မှုနှင့် အယူခံခြင်း နည်းဥပဒေများကို ပြဋ္ဌာန်းထားလေသည်။

နိုင်ငံ့ဝန်ထမ်းများသည် အဂတိလိုက်စားခြင်း မရှိရန် အတွက်၊ ၁၉၄၇ ခုနှစ် အဂတိလိုက်စားမှု အက်ဥပဒေဖြင့်၎င်း၊ နိုင်ငံ့ဝန်ထမ်းများသည် ပြည်သူ့ပစ္စည်းများကို အလွဲသုံးစားပြုခြင်း၊ ပျက်စီး အကျိုးယုတ်အောင် ပြုလုပ်ခြင်းမှ ကာကွယ်ရန် အတွက်၊ ပြည်သူ့ပစ္စည်းကာကွယ်ရေး အက်ဥပဒေ စသည်တို့ဖြင့်၎င်း ကွပ်ကဲကြပ်မတ်ချက်များကို စီမံထားရှိလေသည်။

နိုင်ငံ့ဝန်ထမ်းတို့သည် အစိုးရ၏ အရေးကြီးသော ကိစ္စရပ်များကို ဆောင်ရွက်နေရသူတို့ဖြစ်၍၊ အစိုးရ၏ လုပ်ငန်းရပ်အချို့တို့သည် ပြည်သူလူထုနှင့် တိုင်းပြည်လုံခြုံမှုအတွက် လျှို့ဝှက်ထားသင့်သောကိစ္စများ ဖြစ်ပေသည်။ တိုင်းပြည်နှင့် ပြည်သူတို့ အကျိုးယုတ်စေနိုင်မည့် ပေါက်ကြားမှုများ မဖြစ်ပွားစေနိုင်ရန် လျှို့ဝှက်ချက် ပေါက်ကြားမှု အက်ဥပဒေကို ပြဋ္ဌာန်းထားလေသည်။ နိုင်ငံ့ဝန်ထမ်းတို့၏ အပြုအမူကို တိုင်းပြည် အကျိုးအတွက် ထိန်းသိမ်းရန် လိုအပ်၍၊ စည်းမျဉ်းဥပဒေများဖြင့် တဖက်မှ ကြပ်မတ်ထားသကဲ့သို့ တိုင်းပြည်၏ တာဝန်ကို ကျွမ်းကျင်ရာ ကဏ္ဍမှ ဆောင်ရွက်နေသူများဖြစ်၍၊ မိမိတို့ လုပ်ငန်းဆောင်ရွက်ရာ၌ ကြေနပ်နှစ်သိမ့်မှု ရှိကြရန် အတွက်၊ အခြားတဖက်မှ အမှုထမ်းတို့၏ အခွင့် အရေးများကို အက်ဥပဒေ၊ နည်းဥပဒေများဖြင့် ပြဋ္ဌာန်းပေးထားပေသည်။

အားလပ်ခွင့် ရယူရေး၊ အစိုးရထံမှ ငွေချေးရေး၊ သွားဖွားမှု ခွင့်ရက်ရရေး၊ အသက် အာမခံ ထားရှိနိုင်ရေး၊ အခမဲ့ ဆေးဝါးကုသရေး စသည့် ကိစ္စရပ်များ အတွက် စည်းမျဉ်းဥပဒေများ ပြုလုပ်ထားရှိလေသည်။

ထို့ပြင် နိုင်ငံတော် ဝန်ထမ်းများအား အကြောင်းမဲ့ ထုတ်ပယ်ခြင်း၊ ရာထူးချထားခြင်း မပြုလုပ်နိုင်ရန် အတွက်လည်း ကာကွယ်မှု ပေးထားလေသည်။ နိုင်ငံ့ဝန်ထမ်းတဦးအား အရေးယူလိုပါက၊ စံနစ်တကျ တရားမျှတစွာ အရေးယူစုံစမ်းရန် အတွက်၊ ဌာနဆိုင်ရာ စုံစမ်းမှုကို ပဋိမဦးစွာ ပြုလုပ်ရန် ညွှန်ကြားထား၍၊ ထိုဌာနဆိုင်ရာ စုံစမ်းမှုကို တရားမျှတစွာ ဆောင်ရွက်နိုင်ရန်၊ ဌာနဆိုင်ရာ စုံစမ်းစစ်ဆေးခြင်း စည်းမျဉ်းကို သတ်မှတ် ထားရှိပေသည်။ နိုင်ငံ့ဝန်ထမ်းများသည် မိမိတို့အပေါ် တွင် ချမှတ်သော အမိန့်ကို အယူခံနိုင်ခွင့်လည်း ရှိလေသည်။

နိုင်ငံ့ဝန်ထမ်း တဦးသည် အစိုးရ၏ အမှုတော်ကို ကျေပွန်စွာထမ်းဆောင်ပြီးသော် လုပ်သက်ပြည့်ပါက၊ အငြိမ်းစားရိက္ခာ ရယူခွင့်ရှိလေသည်။ အကယ်၍ လုပ်သက်မပြည့်သေးဘဲ၊ နာမကျန်းဖြစ်လျှင်သော်၎င်း၊ မိမိထမ်းဆောင်နေသည့် အမြဲတမ်း ရာထူးကို ဖျက်သိမ်းလျှင်သော်၎င်း အချိုးကျရိက္ခာ ရရှိလေသည်။

ထို့ပြင် အစိုးရ အမှုတော်ကို ထမ်းဆောင်နေစဉ် အတွင်း ဆက်လက် အမှုမထမ်းနိုင်လောက်အောင်၊ ဒဏ်ရာ ရရှိပါကလည်း၊ ကရုဏာကြေးနှင့် ပင်စင်ရိက္ခာ ရရှိသေးပေသည်။

## နိုင်ငံ့ဝန်ထမ်းများ၏ အလားအလာ

နိုင်ငံတော်၏ တာဝန်ဝတ်တရားများကို မိမိတို့ကျွမ်းကျင်သည့် ကဏ္ဍမှ သစ္စာရှိစွာ အရည်အချင်း ပြည့်ပြည့်ဝဝနှင့် ဆောင်ရွက်ခြင်း အရေးပါ အရာရောက်ပုံကို တနေ့တခြား သိမြင်လာသည်နှင့် အမျှ၊ နိုင်ငံ့ဝန်ထမ်းတို့၏ အရည်အချင်း ပြည့်ဝရေးနှင့် လုပ်ငန်းတွင် ကြေနပ် နှစ်သိမ့်မှုရရေးအတွက် စတင်ဆောင်ရွက်လာခဲ့ကြပေသည်။

ပြည်ထောင်စု မြန်မာနိုင်ငံ၌ နိုင်ငံ့ဝန်ထမ်းများ၏

စည်းကမ်းသေဝပ်မှု၊ လုပ်ရည်ကိုင်ရည် ပြည့်ဝမှုတို့ တိုးတက်ကောင်းမွန်လာရန် ပြည်သူ့တာဝန်များ ဆောင်ရွက်မှုကို ကြီးကြပ်ညှိနှိုင်းရေးနှင့် နိုင်ငံဝန်ထမ်းအဖွဲ့များတွင် ရာထူးတိုးမြှင့်ပေးရေး၊ အမှုထမ်း ပြဿနာရပ်များ ဖြေရှင်းရေး၊ အစိုးရ၏ ဆောင်ရွက်ချက်များကို ညီညွတ်စွာ ရှိစေရန် ညှိနှိုင်းပေးရေးတို့အတွက် စီမံဆောင်ရွက်ရန် အတွင်းဝန်ချုပ်ကို တာဝန်ပေးခဲ့လေသည်။

ထို့ပြင် အတွင်းဝန်ချုပ်သည် ပြည်သူ့ဝန်ထမ်းများ သင်တန်းပေးရေး၊ ပြည်သူ့အုပ်ချုပ်ရေး ပညာဗိမာန်နှင့် ဖွဲ့စည်းရေးနှင့် နည်းနိသျ ဌာနခွဲတို့ကို အုပ်ချုပ်ဆောင်ရွက်ရသဖြင့်၊ ယခုအခါ၌ ကမ္ဘာ့ကုလသမဂ္ဂ ကျွမ်းကျင်မှု အကူအညီပေးအဖွဲ့နှင့် ပြည်သူ့အုပ်ချုပ်ရေး ဝန်ထမ်းအဖွဲ့ (အမေရိကန်) တို့၏ အကူအညီဖြင့် အုပ်ချုပ်ရေး ပညာရပ်များကို သင်ကြားရန်၊ နိုင်ငံဝန်ထမ်းများကို နိုင်ငံခြားသို့ စံနစ်တကျ စေလွှတ်နေသည်။ သင်တန်း အနေဖြင့်လည်း အတွင်းဝန်ရုံးစာရေးစာချီ ဝန်ထမ်းအဖွဲ့များ၊ အတွင်းဝန်ကလေးများနှင့် မြန်မာနိုင်ငံတော် ဝန်ထမ်း (အကြီးတန်း) အဖွဲ့ဝင်တို့အား စံနစ်တကျ ခေတ်မီစွာ သင်တန်းပေးလျက်ရှိနေသည်။

ပြည်သူ့အုပ်ချုပ်ရေး ပညာဗိမာန်နှင့် ခေတ်မီအုပ်ချုပ်ရေး ပညာဆိုင်ရာ ပိဋကတ်တိုက်ကြီး တခုကို တည်ထောင်ခဲ့၍၊ အထက်တန်း အရာရှိများအားလည်း အုပ်ချုပ်ရေး ပညာနှင့် စပ်လျဉ်းသည့် ဆွေးနွေးနှီးနှော ဖလှယ်ပွဲများ ကျင်းပရေး၊ အုပ်ချုပ်မှုပညာ ပြန့်ပွားရေးအတွက် ဆောင်ရွက်လျက်ရှိပေသည်။ ဦးစိုးရင်

**နိုင်ငံသမိုင်း။** ။နိုင်ငံသမိုင်းဆိုသည်မှာ နိုင်ငံ၏အတ္တုပ္ပတ္တိ (ဝါ)ရှေးဟောင်းနှောင်းဖြစ်တို့ကို ရေးမှတ်ထားသည့် မှတ်တမ်းပင် ဖြစ်သည်။ သို့ဖြစ်ရကား၊ နိုင်ငံ သမိုင်းကို သိလိုသော်၊ ကျွန်ုပ်တို့သည် အချိန် အခါအလိုက် ခေတ် အဆင့်ဆင့်ကို သတိနှင့် ကြည့်ရှု၍၊ မှတ်သားလေ့လာကြရသည်။

ခရီးသွားတယောက်သည် လမ်းတလျှောက်လုံးတွင် တွေ့သမျှ အရာဝတ္ထုတို့ကို ဗဟုသုတ အလို့ငှါ မှတ်သားသကဲ့သို့ ရှေးလွန်လေပြီးသည်က ယခုအချိန်ထိ လူတို့၏ ရှေးဟောင်းဘဝ ရိုင်းစိုင်းသည့်အခါမှ တစတစ ယဉ်ကျေးမှု ပေါ်ပေါက်လာသည်အထိ၊ ခရီးလမ်းစဉ် တလျှောက်တွင် ပေါ်ပေါက်ဖြစ်ပျက်သမျှတို့ကို နိုင်ငံသမိုင်းသည် စေ့စပ်သေချာစွာ မှတ်သားရသည်။ လူသာမက မြင်မြင်သမျှ အရာဝတ္ထုများပါ တခုနှင့် တခု၊ တဦးနှင့် တဦး မည်သို့ ဆက်သွယ်ကြောင်း၊ လူအမျိုးမျိုးသည် မိမိတို့၏ ကာလဒေသ အလိုက် မည်ကဲ့သို့ ထင်မြင်ယူဆ ပြုမူခဲ့ကြောင်း၊ အသိဉာဏ်တိုးတက်၍ လာသောအခါ အဆိုပါသဘောတရားများကို မည်သို့ မည်ပုံ လက်ခံကြောင်း၊ မည်မျှလက်ခံကြောင်း၊ မည်သည့် အယူဝါဒတို့ကို ကိုးကွယ်ယုံကြည်ကြောင်း စသည်တို့ကို လေ့လာခြင်းပင်လျှင် လူတို့၏ နိုင်ငံသမိုင်းဖြစ်လေသည်။ သမိုင်းဆရာ တဦး၏ ထင်မြင်ယူဆချက်သည် အခြားသမိုင်းဆရာ တဦး၏ ယူဆချက်နှင့် တူချင်မှ တူပေမည်။ မိမိ၏ ယူဆချက်များ မှန်မမှန်မှာ ထိုခေတ် ထိုအခါက သက်သေခံဝတ္ထုပစ္စည်းများပေါ် တွင်အခြေပြုလျက် ရှိ၏။ထိုဝတ္ထုပစ္စည်းသက်သေခံတို့သည်ကား အဆောက်အအုံပျက်ကြီးများ၊ ဂူသင်းချိုင်းဟောင်းများ၊ ဘုရားပုထိုးများ၊ ရုပ်တုရုပ်လုံးများမှစ၍ ရိုးသုံး၊ နန်းသုံး၊ အရပ်သုံး စာရွက်မှတ်တမ်းများ၊ တရားဥပဒေဆိုင်ရာစာတမ်းများ၊ စာပေကျမ်းဂန်များ၊ နေ့စဉ်မှတ်တမ်းများ၊ သတင်းစာများ၊ မျက်မြင်ရေးသားချက်မှတ်စုများနှင့် သမိုင်းဝတ္ထု၊ ဒဏ္ဍာရီပုံပြင်များဖြစ်သည်။

ဤကဲ့သို့ ဝတ္ထုပစ္စည်း အထောက်အထား သက်သေခံ အကိုးအကားများကို ရှာဖွေ သုံးသပ်ရာ၌ အထူးသတိချပ်ရပေမည်။ အဘယ်ကြောင့်ဆိုသော် အချို့သော သက်သေခံ အထောက်အထားများသည် အစစ်မဟုတ်ဘဲ အတုအယောင် ဖြစ်ကောင်း ဖြစ်၍နေတတ်သောကြောင့်တည်း။ တမင်သက်သက် လိမ်ညာ ခြင်းကြောင့်သော်၎င်း၊ လူမျိုးရေး၊ ဘာသာရေး၊ ဂိုဏ်းဂဏအရေး၊ ပုဂ္ဂိုလ်စွဲ စသည်တို့၏ သွေးဆောင်ခြင်းကြောင့်သော်၎င်း၊ အတုအယောင်တို့သည် ဖြစ်ပေါ်နိုင်၏။ ထို့ပြင်အကယ်ပင် သဘောရိုးဖြင့် မှတ်တမ်းတင်စေကာမူ မှတ်တမ်းတင်သူအား ပြောကြားလာသူသည် အမှားကို အမှန်ထင်၍သော်၎င်း၊ အမှန်ကို သိလျက်နှင့် ကွယ်ဝှက် ထိန်ချန်၍သော်၎င်း သမိုင်းအတုအယောင်တို့ကို မှတ်တမ်း တင်မိတတ်သည်။

တနည်းအားဖြင့်လည်း စာရေးသူသည် မင်းပြစ်မင်းဒဏ်ကို ကြောက်ရွံ့၍သော်၎င်း၊ သို့မဟုတ် မိမိကိုယ်တိုင် မနှစ်မြို့ဖွယ် အကြောင်းများကို မရေးလို၍သော်၎င်း သမိုင်း၌ အမှားတို့သည် ဖြစ်ပေါ်နိုင်သည်။ သို့ဖြစ်၍ သမိုင်းလိုက်စား ရှာဖွေသူသည် ထိုအချက်များကို ကောင်းစွာသတိပြုရပေလိမ့်မည်။

နိုင်ငံသမိုင်းကို ရှေးအခါက စာပေပညာရပ်တခု အနေဖြင့် သဘောထား၍၊ ဖတ်ချင့်စဖွယ် စာပေမြောက်အောင် ရေးခြင်းသာ အရေးကြီးသည်ဟုမှတ်ထင်ခဲ့ကြရာ၊ ယခုခေတ်၌မူ နိုင်ငံသမိုင်းပညာရပ်ကို သိပ္ပံပညာရပ် အနေဖြင့် ဆိုင်ရာခေတ်နှင့် လျော်ညီသည့် သဘာဝကို ဖော်ပြကာ၊ တိကျမှန်ကန်သော အချက်အလက်များကို ထုတ်ဖော်ခြင်းကပို၍ အရေးကြီးကြောင်း ယူဆလာကြပြီ။

ရေးခြင်း၊မှတ်ခြင်းစသော မှတ်တမ်းများ စတင်ပေါ် ထွန်းခဲ့သည်မှာနှစ်ပေါင်း ၅,၀၀၀ ခန့်သာရှိသေး၍၊ထိုခေတ်မတိုင်မီက၊ ကမ္ဘာဦး လူတို့၏ ယဉ်ကျေးမှု စတင်ခဲ့သော အချိန်ကို သမိုင်းမတင်မီခေတ်ဟု ခေါ်၏။ ကျွန်ုပ်တို့ စုဆောင်းရရှိ

သမျှဖြစ်သောနိုင်ငံသမိုင်းတွင် ထိုသမိုင်းမတင်မီခေတ်က အဖြစ် အပျက်များ တဝက်ခန့်ပါရှိ၏။ နှစ်အပိုင်းအခြားအားဖြင့်ဆိုသော်၊ ဘီစီ ၃၀၀၀ ခန့်မှ အေဒီ ၃၇၅ ခန့်အထိ ဖြစ်လေသည်။

ကမ္ဘာ့သမိုင်းတွင် အေဒီ ၃၇၅ မှ ၁၅၀၀ အထိ တည်ခဲ့သောခေတ်ကို ''အလယ်ခေတ်'' ဟု ခေါ်သည်။ ခရစ် ၈၀၀ ပြည့်နှစ်သို့တိုင်သော အလယ်ခေတ်၏ အဦးကာလသည် သမိုင်းအနေဖြင့် များစွာ ရှုပ်ထွေးသော အကူးအပြောင်းကာလ ဖြစ်လေရာ၊ ထိုခေတ်ကို ''အမှောင်ခေတ်'' ဟု ခေါ်ကြသည်။ ၈၀၀ ပြည့်နှစ်မှ ၁၃၀၀ ပြည့်နှစ်အထိသော ကာလသည် အလယ်ခေတ်၏ အတိုးတက်ဆုံးကာလဖြစ်သည်။ ထိုခေတ်မှာ ရှားလမိန်းဘုရင် လက်ထက်မှစ၍၊ ဣတာလျံ အမျိုးသား ကဗျာဆရာကြီး ဒန်တီ လက်ထက်အထိ ဖြစ်သည်။ (ရှားလမိန်းဘုရင်။ ဒန်တီ,အလီဂျာရီ — ရှု။)

ထိုခေတ်တွင် ဦးစွာဥ္ပဒေသရာဇ်စံနစ် ထွန်းကားခဲ့သည်။ ခရစ်ယန် ဘုန်းတော်ကြီးကျောင်းများ၏ ပညာရေး စံနစ်လည်း ပျံ့နှံ့ ခဲ့သည်။ ထိုပညာရေး စံနစ်ကြောင့်၊ ပညာ ရှာမှီးသော မလေ့လည်း ပေါ်ပေါက်လာခဲ့သည်။ ထိုနောက်၌ကား သာသနာရေးဆိုင်ရာ ကရူးဆိတ် စစ်ပွဲများဖြစ်ပွားသည်။ (ကရူးဆိတ်စစ်ပွဲများ — ရှု။) ထိုခေတ်တွင် သုခုမ အနုပညာများ ခေတ်စားလာပြီးလျှင်၊ အထူးသဖြင့် ဂေါ့သဗိသုကာ အတတ်သည် ဖွံ့ဖြိုးလာလေသည်။ ၁၃၀၀ ပြည့်နှစ်မှသည် ၁၅၀၀ ပြည့်နှစ်အထိသော ကာလသည် ဥဘက်သစ် အရေးပုံဟု ခေါ်သော ''ရီနေဆွန်း'' ခေတ်ဖြစ်သည်။ (ဥဘက်သစ်အရေးပုံ — ရှု။) ၁၅၀၀ ပြည့်နှစ်မှ လွန်သောအခါ နိုင်ငံသမိုင်းအလိုအားဖြင့် ''ခေတ်သစ်'' ဟု ခေါ်သော ယခုပစ္စုပ္ပန်ခေတ်သို့ ရောက်လာလေသည်။ ဤခေတ်တွင် ပဒေသရာဇ်ပြည်နယ်တို့ ကွယ်ပျောက်၍၊ ပြည်နယ်တို့ကို စုပေါင်းဖွဲ့စည်းထားသော နိုင်ငံများ ပေါ်ပေါက်လာသည်။ ဥရောပတိုက်ရှိ နိုင်ငံတို့သည်လည်း ပင်လယ်ရပ်ခြားဒေသတို့တွင် နယ်သစ်များကို ရှာဖွေလာကြသည်။ သိပ္ပံပညာ ထွန်းကားလာသည်။ ဒီမိုကရေစီ သဘောတရားတို့လည်း ခေတ်စားလာလေသည်။

နိုင်ငံသမိုင်းဟူသည် အုပ်စိုးသောမင်းတို့၏ အမည်နာမ၊ ခုနှစ်သက္ကရာဇ် စသည်တို့ကိုသာ ပြဆိုရာဖြစ်သော မှတ်တမ်းများသာဖြစ်ခဲ့ပါမူ၊ ပျင်းရိငြီးငွေ့ဖွယ် ကောင်းပေလိမ့်မည်။ သို့သော် နိုင်ငံသမိုင်းသည် ထိုသို့ကား မဟုတ်။ ရှေးသူဟောင်းတို့နှင့် ကမ္ဘာပေါ်ရှိ တိုင်းကားပြည်ရွာ ဒေသအသီးသီးတို့၌ရှိသော လူအများတို့ မည်သို့ နေထိုင်၊ ဝတ်ဆင်၊စားသောက်ကြသည်ကိုရင်း၊ လယ်ယာကို မည်သို့ ထွန်ယက်လုပ်ကိုင်ကြသည်ကိုရင်း၊ စားသုံးပစ္စည်းကို မည်သို့ ထုတ်လုပ်ကြသည်ကိုရင်း၊ ကုန်ပစ္စည်းတို့ကို မည်သို့ ရောင်းဝယ်ဖောက်ကားကြသည်ကိုရင်း၊ မည်သို့သော ဥပဒေတို့ဖြင့် စိုးမိုးအုပ်ချုပ်ကြသည်ကိုရင်း၊မည်သို့သော ကိုးကွယ်ရာအယူဝါဒရှိကြသည်ကိုရင်း၊ မည်သို့သော စာပေ အနုပညာတို့ကို ရေးသားတီထွင်ကြသည်ကိုရင်း မှတ်တမ်းတင်ခြင်းသည် သမိုင်းကို မှတ်တမ်းတင်ခြင်းဖြစ်သည်။ဤသို့သမိုင်းတင်ခြင်း၌ ဥရောပနိုင်ငံသမိုင်းတို့တွင် ထင်ရှားသောသူတို့ကား၊ ဂရိနိုင်ငံ၌ သမိုင်းကို စတင်ပြုစုသူ ဟီရော့ဒိုးတပ် (ဘီစီ ၄၈၄–၄၂၄)၊ ရောမနိုင်ငံတွင် လစ်ဗီနှင့်တက်စီတပ်(ဘီစီ ၅၄–အေဒီ ၁၇)၊ အင်္ဂလန်ပြည်တွင် အက်ဒ်ဝပ်ဂစ်ဗန် (၁၇၃၇–၉၄)၊ မကောလေး (၁၈၀၀–၅၉)၊ ထရီဗဲလျန် (၁၈၇၆)၊ ဖစ်ရှား (၁၈၆၅–၁၉၄၀) ဟူသည်တို့ဖြစ်သည်။ (ဟီရော့ဒိုးတပ်။ ဂစ်ဗန်,အက်ဒ်ဝပ်။ မကောလေး,လော့ — ရှု။) တရုပ်နိုင်ငံသမိုင်းတွင် ထင်ရှားသော သမိုင်းပြုစုသူ ပညာရှင်တို့မှာ ဆူမာချီယန် (ဘီစီ ၁၄၅–၈၇) နှင့် ဆူမာကွန်း (အေဒီ ၁၀၆၆–၈၄) တို့ဖြစ်သည်။ (ဆူမာချီယန်။ တရုပ်ပြည်သူ့သမတနိုင်ငံ — ရှု။)မြန်မာနိုင်ငံသမိုင်းတွင်ဦးကုလားသည် သမိုင်းပြုပုဂ္ဂိုလ်အဖြစ် ထင်ရှားသည်။(ကုလား၊ ဦး။မြန်မာရာဇဝင်များ — ရှု။)

# မြန်မာနိုင်ငံသားဖြစ်လိုသလား

**နိုင်ငံသားဟူသော စကား၏ အဓိပ္ပါယ်၊ နိုင်ငံသားအဖြစ် မည်သို့ခံယူရပုံ၊ မည်သည့် အကြောင်းကြောင့် နိုင်ငံသားအဖြစ်မှ ဆုံးရှုံးနိုင်ပုံ၊ နိုင်ငံသားတို့၏ အခွင့်အရေးနှင့် တာဝန်ဝတ်တရားများ စသည်တို့ကို ဖော်ပြထားသည်။**

**နိုင်ငံသားအဖြစ်။** ။နိုင်ငံသားဟူသော ဝေါဟာရသည် သာမန်အားဖြင့် နေထိုင်ရာ အရပ်ကိုစွဲ၍၊ ထိုနိုင်ငံအတွင်းရှိ သူများကို ရည်ညွှန်းသော်လည်း၊ တရားဥပဒေအရာ၌မူကား ဤကဲ့သို့မဟုတ်ပေ။မည်သည့်ဒေသ၌ နေသည်ဖြစ်စေ၊ နိုင်ငံတနိုင်ငံ၏ သစ္စာတော်ကို ခံယူစောင့်ထိန်းရသူကိုသာလျှင် ထိုနိုင်ငံသားအဖြစ် အသိအမှတ်ပြုသည်။ ထိုသူတို့ကိုလည်း ထိုနိုင်ငံက စောင့်ရှောက်ကာကွယ်ရန် တာဝန်ယူရသည်။ တနည်းအားဖြင့်ဆိုလျှင်၊ နိုင်ငံသားတဦး၏ သစ္စာခံမှုသည် ထိုနိုင်ငံ၏ ထိန်းသိမ်း စောင့်ရှောက်နိုင်မှုနှင့်အမျှပင် ဖြစ်သည်။ သာဓကတရပ်မှာ၊ ဒုတိယကမ္ဘာစစ်ကြီး အတွင်း၌၊

ဗြိတိသျှ အမျိုးသားလည်းမဟုတ်၊ ဗြိတိသျှ နိုင်ငံသားအစစ်လည်းမဟုတ်စေကာမူ၊ ဗြိတိသျှအစိုးရတို့က ထုတ်ပေးသော နိုင်ငံကူးလက်မှတ်ကို ခံယူသောသူသည် တတိုင်းတနိုင်ငံသားပင် ဖြစ်သော်လည်း၊ ဗြိတိသျှနိုင်ငံ၏ သစ္စာတော်ကို စောင့်ထိန်းရန် တာဝန်ရှိသည်ဟု အင်္ဂလန်ပြည်ရှိ အမြင့်ဆုံးဖြစ်သော တရားရုံးတော်က အဆုံးအဖြတ် ပေးခဲ့ဘူးလေသည်။ သို့အတွက်၊ ဗြိတိသျှ နိုင်ငံကူးလက်မှတ်ကို ဆောင်ယူထားသော နိုင်ငံခြားသားတဦးသည် ဗြိတိသျှနိုင်ငံ အပြင်အပဥ္စပင်လျှင် နိုင်ငံတော် သစ္စာဖောက်မှုအတွက် ပြစ်ဒဏ်ခံထိုက်သည်ဟု စီရင်ခဲ့သည်။ တဖန်လည်း ဗြိတိသျှ နိုင်ငံသားအစစ်အမှန်ပင် ဖြစ်သော်လည်း၊ ထိုနိုင်ငံသားနေထိုင်ရာ ဒေသကို ဗြိတိသျှအစိုးရတို့ အကာအကွယ် အထိန်းအသိမ်း မပေးနိုင်သည့်အခါ၊ ထိုနိုင်ငံ၏ သစ္စာကို စောင့်ထိန်းရန် မလိုဟု ၂၀ ရာစု နှစ်ဦးလောက်တွင် တောင်အာဖရိကတိုက်၌ ဖြစ်ပွားသော ဗြိတိသျှတို့နှင့် ဗိုးဝါးလူမျိုးတို့၏ စစ်ကာလအတွင်း ပရီဗီကောင်စီက အဆုံးအဖြတ် ပြုခဲ့ဘူးလေသည်။

နိုင်ငံသားတို့ အပေါ်၌ သက်ဆိုင်ရာ နိုင်ငံက ကာကွယ်စောင့်ရှောက်ရမည့် ဝတ်တရား၏ ပမာဏမှာမူ ထိုသက်ဆိုင်ရာနိုင်ငံ၏ ပြည်တွင်း ဥပဒေ အရသာ ဖြစ်သဖြင့်၊ တနိုင်ငံနှင့် တနိုင်ငံ မတူကြချေ။ ယေဘုယျအားဖြင့်၊နိုင်ငံသား တတန်းစားတည်းသာ ဖြစ်ကြသော်လည်း၊ အချို့အချို့သော နိုင်ငံတို့၌ နိုင်ငံသားချင်းပင်လျှင် အခွင့်အရေး ရရှိမှုနှင့် နိုင်ငံတော်၏ အကာအကွယ် ခံယူရမှုတို့သည် ညီတူညီမျှ မဖြစ်သည်ကို တွေ့ရှိရ၏။ ဤကဲ့သို့ ခွဲခြားမှုမျိုးသည် ရှေးကာလ၌ အတော်အတန်ပင် ရှိခဲ့သော်လည်း၊ ယခုအခါ၌မူ တဖြည်းဖြည်းပပျောက်လာ၍၊ မရှိသလောက် ဖြစ်နေပြီ။ တိုင်းပြည်အနည်းငယ်တွင်သာ၊ ဤသို့ ခွဲခြားမှု ရှိနေသေးသည်ကို တွေ့ရသည်။ လွန်ခဲ့သော နှစ်ပေါင်း ၃၀ ကျော်ခန့်ကပင်လျှင်၊ ဥရောပတိုက်သား ဗြိတိသျှ နိုင်ငံသားနှင့် ဥရောပတိုက်သားမဟုတ်သော ဗြိတိသျှနိုင်ငံသားကို ခွဲခြားမှုသည်၎င်း၊ ၁၉၃၅ ခုနှစ်၌ ဂျာမနီနိုင်ငံတွင် ပြဋ္ဌာန်းခဲ့ဘူး၍၊ ယခုအခါမှာမူ ဖျက်သိမ်းပြီး ဖြစ်သော အာရိယန်လူမျိုး ဂျာမနီနိုင်ငံသားနှင့် အာရိယန်လူမျိုးမဟုတ်သော ဂျာမနီနိုင်ငံသားကို ခွဲခြားမှုသည်၎င်း၊ တောင်အာဖရိကတိုက်၌ ယနေ့တိုင်ပင်လျှင် တည်မြဲနေသေးသော နိုင်ငံသား လူမဲလူဖြူခွဲခြားမှုသည်၎င်း သာဓကများ ဖြစ်ပေသည်။

## နိုင်ငံသားဖြစ်မြောက်ရေး

နိုင်ငံသားများတွင် ဇာတိအားဖြင့် ဖြစ်သော နိုင်ငံသားနှင့် နိုင်ငံသားအဖြစ် ခံယူရရှိသော နိုင်ငံသားဟူ၍ နှစ်မျိုးနှစ်စား ကွဲပြားလျက်ရှိ၏။ ဇာတိအားဖြင့် ဖြစ်သော နိုင်ငံသားသည် မွေးဖွားလာသည့် အချိန်မှစ၍ အလိုအလျောက် နိုင်ငံသားဖြစ်လာ၏။ နိုင်ငံသားအဖြစ် ခံယူရရှိသော နိုင်ငံသားမှာမူ မိမိ၏ ပင်ရင်းနိုင်ငံသားအဖြစ်ကို စွန့်လွှတ်၍၊ နိုင်ငံအသစ်၏ နိုင်ငံသားအဖြစ်ကို ရယူသောသူဖြစ်၏။ ယေဘုယျအားဖြင့် အခွင့်အရေး ခံစားရရှိရာ၌ နိုင်ငံသား နှစ်မျိုးစလုံးမှာ တန်းတူပင် ဖြစ်သည်။ သို့သော် နိုင်ငံခြားသားဘဝမှ ကူးပြောင်းလာသော နိုင်ငံသားကိုမူ အခါကာလအကန့် အသတ် ထား၍၊ အသစ်ခံယူသောနိုင်ငံ၏ နိုင်ငံသားအဖြစ်မှ ပျက်ပြယ်စေနိုင်ခွင့်ကို ထိုအသစ်နိုင်ငံက သတ်မှတ်ထားရှိတတ်လေသည်။

## နိုင်ငံသားဖြစ်စေသော နည်းလမ်းများ

ဇာတိအားဖြင့် ဖြစ်သော နိုင်ငံသား၊ ခံယူရရှိသဖြင့် ဖြစ်သော နိုင်ငံသားဟူ၍ နှစ်မျိုးနှစ်စားကွဲပြားကြောင်းကို အထက်တွင် ဖော်ပြခဲ့ပြီ။ ဇာတိအားဖြင့် နိုင်ငံသားအဖြစ် ရရှိရာ၌ အချို့သောနိုင်ငံများတွင် သက်ဆိုင်သူတို့၏ မွေးဖွားရာဒေသကို မှုမတည်ဘဲ၊ ယင်းသူတို့၏အနွယ်၊ တနည်းအားဖြင့် သွေးသား အပေါ်၌ မူတည်လေသည်။ ယင်းကို ဥပဒေစကားဖြင့် 'မျိုးရိုးမူတည်ထုံး' ဟု အသိအမှတ်ပြုကြသည်။ အချို့အချို့သော နိုင်ငံတို့၏ တရားဥပဒေတွင် သက်ဆိုင်သော ပုဂ္ဂိုလ်၏ မွေးဖွားရာဒေသကို မူတည်သဖြင့် ထိုထုံးကို 'မွေးဖွားရာဒေသ မူတည်ထုံး' ဟု ဥပဒေ အရာတွင် အသိအမှတ်ပြုကြသည်။ အချို့အချို့သော နိုင်ငံတို့တွင်မူကား ထိုထုံးနှစ်ရပ်စလုံးကို ဖက်စပ်သောမူဖြင့် နိုင်ငံသားဖြစ်ရေး မဖြစ်ရေးကို အဆုံးအဖြတ်ပြုကြသည်။ သို့အတွက် ဂျာမနီ၊ ဆွီဒင်၊ ဆွစ်ဇာလန် အစရှိသော ဥရောပနိုင်ငံ အချို့တို့နှင့် တရုပ်နိုင်ငံ အစရှိသော အာရှတိုက် နိုင်ငံအချို့တို့တွင် ပုဂ္ဂိုလ်တဦးသည် အဆိုပါနိုင်ငံတို့၏ နိုင်ငံသားဖြစ်သော ဖခင်က ပေါက်ဖွားလျှင်၊ မည်သည့်နိုင်ငံ၏ နယ်မြေအတွင်း၌ မွေးဖွားစေကာမူ၊ ဖခင်၏နိုင်ငံကိုလိုက်၍ နိုင်ငံသားဖြစ်သည်ဟု အသိအမှတ် ပြုကြလေသည်။ ဂျာမနီ၊ ဂရိတ်ဗြိတိန်၊ အမေရိကန် ပြည်ထောင်စုနှင့် အချို့သော နိုင်ငံများတွင်မူကား၊ ထိုနိုင်ငံတို့၏ နိုင်ငံသားများ၏ သားသမီးတို့သည် နိုင်ငံခြားတွင်မွေးဖွားသည် ဖြစ်စေကာမူ၊ အဖ၏ ဇာတိကို လိုက်၍ နိုင်ငံသားဖြစ်သည်။ ပုံစံအားဖြင့်ဗြိတိသျှနိုင်ငံသားတဦးသည် မြန်မာနိုင်ငံတွင် သားသမီးမွေးဖွားသည့်အခါ၊ ထိုသားသမီးသည် အဖဇာတိကိုလိုက်၍ ဗြိတိသျှ နိုင်ငံသားဖြစ်သည်။ ထို့ပြင် အဆိုပါဂျာမနီ၊ ဂရိတ်ဗြိတိန်နှင့် အမေရိကန်ပြည်ထောင်စုတို့၏ နယ်နိမိတ်အတွင်းတွင် တပါးသော နိုင်ငံသားတို့၏ သားသမီးများ မွေးဖွားပါက၊ တပါးသော နိုင်ငံသား၏ သားသမီးပင်ဖြစ်စေကာမူ၊ မွေးဖွားရာ ဒေသကိုစွဲ၍၊ ထိုဒေသ၏ နိုင်ငံသားဟု အသိအမှတ်ပြုကြလေ

သည်။ ပုံစံအားဖြင့် မြန်မာနိုင်ငံသား တဦးသည် ဗြိတိန်နိုင်ငံ၌ မွေးဖွားလျှင်၊ သူ၏ မိဘတို့သည် မြန်မာနိုင်ငံသားပင်ဖြစ်စေကာမူ၊ သူ့ကိုမူ ဗြိတိသျှ နိုင်ငံသားဟု ဗြိတိသျှတို့က အသိအမှတ်ပြုလေသည်။

နိုင်ငံသားအဖြစ် ခံယူခြင်းတွင် နိုင်ငံခြားသားပင် ဖြစ်သော်လည်း၊ မိမိ နှစ်သက် နေထိုင်ရာဒေသတို့၌ ထိုနိုင်ငံဆိုင်ရာ တရားဥပဒေအရ နိုင်ငံသား အဖြစ် လျှောက်ထားတောင်းယူ၍၊ နိုင်ငံသားအဖြစ်ခံယူသော နိုင်ငံသား ဖြစ်မြောက် လာနိုင်သည်။ ၂၀ ရာစုနှစ်မတိုင်မီက လက်ထပ်ထိမ်းမြားခြင်းအားဖြင့် နိုင်ငံခြားလူမျိုးဖြစ်သော မိန်းမတယောက်သည် မိမိယောကျ်ား သစ္စာခံယူသော နိုင်ငံသားအဖြစ်ကို ရရှိသည်ဟု နိုင်ငံတကာတို့က အသိအမှတ်ပြုခဲ့ကြလေသည်။ သို့သော် ၁၉၂၀ ပြည့်နှစ်နောက်ပိုင်းတွင် နိုင်ငံအသီးအသီးတို့၌မိန်းမများ၏အခွင့်အရေးကို တိုးမြှင့်သောအားဖြင့် လက်ထပ်ခြင်းဟူသော အကြောင်းတခုတည်းဖြင့်သာ သက်ဆိုင်ရာ မိန်းမသည် မိမိ၏ မူရင်းနိုင်ငံသား အခွင့်အရေးကို မဆုံးရှုံးစေရဟု လက်ခံလာကြ၏။ သို့အတွက် မိန်းမတဦးသည် မိမိယောကျ်ားနှင့် ထပ်တူထပ်မျှ နိုင်ငံသားအဖြစ်ကို အလိုအလျောက် မရရှိတော့ဘဲ၊ မိမိ၏ သဘောအတိုင်းသာလျှင် လက်မထပ်မီက နိုင်ငံသား အနေကိုဂင်း၊ မိမိလင်ယောကျ်ား၏ နိုင်ငံသားအနေကိုသော်ဂင်း ရွေးချယ်နိုင်ခွင့် ရှိလေသည်။

## နိုင်ငံသားအဖြစ်မှဆုံးရှုံးခြင်း

နိုင်ငံသားဖြစ်နိုင်သည့် နည်းလမ်းအသွယ်သွယ် ရှိသကဲ့သို့ နိုင်ငံအသီးအသီးတွင် နိုင်ငံသား အဖြစ်ကို ဆုံးရှုံးစေနိုင်သည့် နည်းလမ်းအဖုံဖုံ ရှိလေသည်။

နိုင်ငံခြားအစိုးရ လက်အောက်တွင် အမှုထမ်းခြင်း၊ နိုင်ငံတော်မှ နှစ်ရှည်လများ ထွက်ခွာ၍ အရပ်တပါးတွင် သွားရောက်နေထိုင်ခြင်း စသည်တို့ကြောင့်လည်း နိုင်ငံသားအဖြစ်ကို ဆုံးရှုံးစေနိုင်လေသည်။

ထိုပြင် မိမိ ပင်ရင်းနိုင်ငံသား အဖြစ်ကို စွန့်လွှတ်၍၊ တခြားတနိုင်ငံ၏ နိုင်ငံသား အဖြစ်ကို ခံယူခြင်းအားဖြင့်လည်း ပင်ရင်းနိုင်ငံသားအဖြစ်မှ ဆုံးရှုံးစေနိုင်သည်။ တခါတရံ နိုင်ငံ၏ဥပဒေများဖြင့် နိုင်ငံသားများ အဖြစ်မှ ရပ်စဲစေနိုင်သေး၏။

## နိုင်ငံသားတို့၏အခွင့်အရေးနှင့်တာဝန်ဝတ်တရား

ကမ္ဘာပေါ်ရှိ နိုင်ငံအသီးအသီးတို့သည် အခြားနိုင်ငံသားများအား မပေးသောအခွင့်အရေးမျိုးကို မိမိတို့ နိုင်ငံသားများအား ပေးလေသည်။ နိုင်ငံသားများသည် မိမိတို့ ပင်ရင်းနိုင်ငံတွင် ထာဝစဉ် နေထိုင်ခွင့် ရရှိသည်။ နိုင်ငံတနိုင်ငံသည် အကြောင်း တခုခုကြောင့် မလိုလားအပ်သော နိုင်ငံခြားသားများကို မိမိတို့၏ နိုင်ငံတွင်းမှ နှင်ထုတ်နိုင်သော်လည်း၊ မိမိတို့၏ နိုင်ငံသားများကိုမူ ထိုသို့မပြုလုပ်နိုင်ချေ။ နိုင်ငံသားများသည် မည်သည့် အရပ်ဒေသတွင် ရောက်နေသည်ဖြစ်စေ၊သက်ဆိုင်ရာနိုင်ငံကလိုအပ်သောအကာအကွယ်များကို ပေးရလေသည်။ အကယ်၍ မြန်မာနိုင်ငံသားတဦးသည် တရုပ်နိုင်ငံတွင် ဘေးဒုက္ခရောက်နေပါက၊ တရုပ်နိုင်ငံရှိ မြန်မာသံအမတ်ကြီးထံတွင် အကူအညီတောင်းဆိုနိုင်သည်။

နိုင်ငံခြားသို့ သွားရောက်မည့် နိုင်ငံသား တဦးအား ဆိုင်ရာ အစိုးရက '၎င်းသူသည် အခြေအနေရှိသော နိုင်ငံသားတဦးဖြစ်ပါသည်' ဟူသော နိုင်ငံကူးလက်မှတ်ကို ထုတ်ပေးလေသည်။ ထိုသူအဖို့တွင် သွားလေရာ၌ အဆိုပါ လက်မှတ်သည် သူ၏ အကျင့်စာရိတ္တ၊ အခြေအနေတို့ကိုထောက်ခံသောလုံခြုံစိတ်ချရသည့်လက်မှတ်ဖြစ်လေသည်။ (နိုင်ငံကူးလက်မှတ် — ရှု။)

နိုင်ငံသားတိုင်းတွင် မဲဆန္ဒ ပေးနိုင်ခွင့်ရှိ၍၊ ရာထမ်းမှုထမ်းများအဖြစ် ထမ်းဆောင်နိုင်ခွင့်လည်း ရှိလေသည်။ သာမန်အားဖြင့်ကား၊ နိုင်ငံသားဟူသည်မှာ နိုင်ငံတနိုင်ငံ၏ အသင်းဝင် ဖြစ်လေသည်။ မည်သည့် အစိုးရမျိုးတက်ရောက်နေသည်ဖြစ်စေ၊ နိုင်ငံသားသည် နိုင်ငံသားအဖြစ်မှမပြောင်းလဲချေ။ ထိုပြင် နိုင်ငံသားတိုင်း၌ ခံစားရန် အခွင့်အရေးများရှိသကဲ့သို့၊ထမ်းဆောင်ရမည့် တာဝန် ဝတ်တရားများလည်း ရှိလေသည်။ တာဝန်သိသော နိုင်ငံသားတိုင်းသည် မိမိ၏ အရည်အချင်းရှိသလောက် နိုင်ငံ၏အကျိုး၊ လူထု၏ အကျိုးအတွက် ဆောင်ရွက်ရန် ဦးမလေးချေ။ ပမာဆိုရသော် ဥရောပတိုက် နိုင်ငံများတွင် နိုင်ငံသားတိုင်းသည် နှစ်ပေါင်းမည်ရွေ့ မည်မျှဟူ၍ သတ်မှတ်ထားသည့်အတိုင်း ကုန်းတပ်သို့မဟုတ် ရေတပ်တွင် ဝင်ရောက် စစ်မှုထမ်းရလေသည်။ အရေးကြုံလာသော်၊နိုင်ငံကာကွယ်ရေးတွင် ပါဝင် အမှုထမ်းနိုင်ရန်ဖြစ်၏။ ဒီမိုကရေစီနိုင်ငံများတွင် အစိုးရသည် လူထု၏ ဆန္ဒအပေါ်၌ တည်နေရာ၊ လူထုသည် မဲဆန္ဒဖြင့် မိမိတို့၏ သဘောထားကို သိစေပါမှ၊ မိမိတို့သဘောအတိုင်း အစိုးရက အုပ်ချုပ်ပေးမည်ဖြစ်သည်။ သို့ဖြစ်ရာ၊ မဲဆန္ဒ ပေးနိုင်ခွင့်တွင် တာဝန်ပါ အကျုံးဝင်လာသည်။ မဲဆန္ဒပေးရမည့် တာဝန်သည် ဒီမိုကရေစီ နိုင်ငံများရှိ နိုင်ငံသားတိုင်း၏ တာဝန်ပင်ဖြစ်၏။

ထိုပြင် နိုင်ငံတော်၏သစ္စာကို စောင့်သိခြင်း၊နိုင်ငံတော်၏ တရားဥပဒေများကို စောင့်သိရိုသေရခြင်း၊ အခွန် အတုတ်များကို ထမ်းဆောင်ရခြင်း၊အစိုးရကိုထောက်ခံကူညီရခြင်း စသည်တို့သည်လည်း နိုင်ငံသားတို့၏ သာမန် ဝတ်တရားများတွင် ပါဝင်လေသည်။

ဒေါက်တာ ဦးအေးမောင်

**နိုင်လွန်။** ။နိုင်လွန်သည် ပလပ်စတစ်တမျိုး ဖြစ်သည်။ ထိုပလပ်စတစ် ပေါ်လာခြင်းဖြင့် ယခုခေတ်လူတို့သည်များစွာ အကျိုးရှိကြသည်။ (ပလပ်စတစ် — ရှု။) နိုင်လွန်သည် အခိုင်ဆုံး၊ အရှန်းကန်နိုင်ဆုံးသောပစ္စည်းတခုဖြစ်၍၊ ယင်းကို အမျှင်ဖြစ်စေ၊ အပြားဖြစ်စေ၊ အရည်ဖြစ်စေ၊ အတုံးအခဲဖြစ်စေ ပြုလုပ်၍ရသည်။ ရေကို အနည်းငယ်သာ စုတ်ယူသဖြင့်၊ နိုင်လွန် အဝတ်အထည်ကို လျှော်ဖွပ်သောအခါ အခြားအဝတ်အထည်တို့ထက်သျင်မြန်စွာ ခြောက်သွေ့လွယ်သည်။

၁၉၃၈ ခုနှစ်တွင် နိုင်လွန်ကို စတင်၍ ခြေအိတ်၊လက်အိတ်များပြုလုပ်သုံးစွဲကြသည်။ ထိုနောက်အတွင်းခံအင်္ကျီ၊ ရေကူးအင်္ကျီ၊ ဖိနပ်ကြိုးစသည့် ပစ္စည်းများကို ပြုလုပ်ယူကြသည်။ ထိုပစ္စည်းတို့မှာ ခိုင်ခံ့၍၊ ရှန်းကန်နိုင်သော သတ္တိကောင်းသောကြောင့်၊ လူအများပင် ကြိုက်နှစ်သက်ကြပေသည်။ ဒုတိယကမ္ဘာစစ်ကြီး အတွင်းက နိုင်လွန်သည် ပေါ့ပါး၍ ခိုင်ခံ့သဖြင့်၊ လေထီး ပြုလုပ်ရန်အတွက် သင့်လျော်သည်ကိုတွေ့ရှိကြသည်။ ယခုအခါ သွားပွတ်တံနှင့် ဝက်မင်ဘီးအမျိုးမျိုး၏ အမွေးအမှင်ကို နိုင်လွန်ဖြင့် ပြုလုပ် ကြသည်။ ဆရာဝန်များသည် ပြဲဟသော အနာကို နိုင်လွန်ကြိုးဖြင့် ချုပ်ယူကြသည်။

နိုင်လွန်ပြုလုပ်ရာ၌ အသုံးပြုသော ဓာတုဗေဒ ဒြပ်ပေါင်းနှစ်ခုမှာ ဟက်ဆာမီသီလင်းဒိုင်အမင်းနှင့် အဒီပစ်အက်ဆစ်တို့ဖြစ်သည်။ ထိုဒြပ်ပေါင်းနှစ်ခုလုံးတွင် ကာဗွန်နှင့် ဟိုက်ဒရိုဂျင်ပါသည်။ ထိုဒြပ်ပေါင်း နှစ်ခုကို ဓာတ်ပေါင်းယူသောအခါ ဟက်ဆာမီသီလင်း ဒိုင်အမ်မိုးနီးယမ်း အဒီပိတ်ခေါ် ဒြပ်ပေါင်းကိုရရှိသည်။ ထိုဒြပ်ပေါင်းကို ဓာတုဗေဒပညာရှင်များက နိုင်လွန်ဓာတ်ဆားဟူ၍ခေါ်ကြသည်။ နိုင်လွန်ဖြစ်ပေါ်လာရန် ကြိုးစားအားထုတ်သူတို့အနက် အထင်အရှားဆုံးမှာ အမေရိကန်ပြည်ထောင်စု ဒျူးပွန့် ကော်ပိုရေးရှင်းမှ ဓာတုဗေဒ ပညာရှင်ဒေါက်တာ ဒဗျူ အိပ်(ချ) ကရော်သာ ဆိုသူဖြစ်သည်။

နိုင်လွန်သည် ပဒုမ္မာပိတ်ထက် ပါးသော်လည်း တွန့်ခြင်း ကြေခြင်း မရှိသဖြင့် မီးပူတိုက်ပေးရန်ပင် မလိုချေ။ ပိုးတုပင်ဖြစ်လင့်ကစား ပိုးကဲ့သို့ပျော့အိတွဲကျခြင်း၊အရောင်တောက်ပြောင်ခြင်း မရှိဘဲ လှပသပ်ရပ်စွာ ဝတ်ဆင်သူ၏ ကိုယ်လုံးကို ပေါ်ထင်စေသည်။ ယခုအခါ နိုင်လွန်အရောင်အမျိုးမျိုးနှင့် ပုံစံအမျိုးမျိုး ပေါ်နေပေပြီ။ ဓာတုဗေဒပညာရှင်တို့သည် နိုင်လွန်ကို လူ့ အသုံးအဆောင် ပစ္စည်း အမျိုးမျိုးအဖြစ် အသုံးပြုနိုင်ရန် စမ်းသပ်လျက် ရှိကြပေသည်။



နိုင်လွန်သည် တွန့်ခြင်း၊ ကြေခြင်း မရှိသည့်ပြင် လျှော်ဖွပ်ပြီးနောက် ခြောက်သွေ့လွယ်သဖြင့် အဝတ်အထည် လုပ်ငန်းတွင် ယင်းကို များစွာ အသုံးပြုလျက် ရှိပေသည်။



အောက်သို့ ပေ ၃၀၀ ကျော် အရှိန်ဖြင့် ဖြာဆင်းနေသည့် အမေရိကန် နိုင်ငံဖက်ရှိ နိုင်အဂ္ဂရာ ရေတံခွန်၏ သာယာဖွယ် ရှုခင်း

**နိုင်အဂ္ဂရာရေတံခွန်။** ။ကြည်လင် အေးမြသော ရေ၊ ရှုမျှော်မဆုံးအောင်လှပသော လျှိုမြောင် ကျောက်ကမ်းပါးများနှင့် စိမ်းလန်းစိုပြည်နေသော သစ်ပင်ပန်းပင်တို့ကြောင့် ကမ္ဘာပေါ်တွင် အလှပဆုံးသော သဘာဝ ရှုခင်းတရပ်ဖြစ်သည့် နိုင်အဂ္ဂရာရေတံခွန်သည် အမေရိကန်ပြည်ထောင်စုနှင့် ကနေဒါနိုင်ငံတို့ကိုပိုင်းခြား သတ်မှတ်ထားသော နိုင်အဂ္ဂရာမြစ်ထဲ၌ရှိလေသည်။ နိုင်အဂ္ဂရာမြစ်သည် အီရီအိုင်ကြီး၏ ထွက်ပေါက်တခုဖြစ်၍ ထိုအိုင်ကြီးမှ ၃၆ မိုင်ခန့် ကွာဝေးသော အွန်တေးရီးယိုးအိုင်ထဲသို့ စီးဝင်သည်။ စင်စစ် ယင်းသည် ရေပြင်ကြီး နှစ်ခု ဆက်သွယ် ထားသောကြောင့် ရေလက်ကြားတခုဖြစ်သည်ဟု ဆိုနိုင်လေသည်။

နိုင်အဂ္ဂရာမြစ် စတင်စီးဆင်းရာ အီရီအိုင်သည် စီးဝင်ရာ အွန်တေးရီးယိုးအိုင်ထက် ၃၂၆ ပေခန့်ပိုမြင့်သည်။ယင်းသည် အီရီအိုင်မှ အစပြု၍မြောက်ဖက်သို့အစဉ်အတိုင်း စီးဆင်းလာရာ ၆ မိုင်ကျယ်သည့် ဂရင်းကျွန်းကြောင့် မြစ်ကြောင်းသည် နှစ်ဖြာကွဲကာ ပြန်လည် ပေါင်းဆုံပြီးနောက်၊ ရေတိမ်ချောင်းကြီးတခုအဖြစ် ဆက်လက်စီးဆင်းသည်။ ထိုမှ အောက်ဖက် ၄ မိုင်ခန့် အကွာတွင်၊ ထုံးကျောက် ကမ်းပါးပြတ်ကြီးမှ အောက်သို့ ထိုးကျသွားရာ၊ ဆိတ်ကျွန်းကြောင့် ရေကြောင်း နှစ်ဖြာကွဲလျက်၊ ကမ္ဘာပေါ်တွင် ထင်ရှား ကျော်စောလှသော ရေတံခွန် နှစ်သွယ်ဖြစ်ပေါ်လာသည်။ မြောက်ဖက်ရှိ ရေတံခွန်သည် ၁၆၇ ပေ မြင့်၍ ပေ ၁,၄၀၀ ခန့်ကျယ်ဝန်းသည်။ ယင်းကို အမေရိကန်ရေတံခွန်ဟု ခေါ်သည်။ တောင်ဖက်ရှိရေတံခွန်သည် ၁၅၈ ပေမြင့်၍ အကျယ်ဆုံးနေရာတွင် ၂,၉၅၀ ပေ ကျယ်ဝန်းသည်။ယင်းကို ကနေဒါရေတံခွန်ဟူ၍၎င်း၊ မြင်းခွာပုံသဏ္ဌာန် ရှိသောကြောင့် မြင်းခွာရေတံခွန်ဟူ၍၎င်း ခေါ်ဝေါ်လေသည်။ ရေတံခွန်ကြီးနှစ်ခုမှတသွင်သွင်စီးဆင်းလျက် ရှိသော ရေ၏ထုထယ်မှာ တနာရီလျှင် ကုဗပေ ၁၀၀,၀၀၀,၀၀၀ ဟုခန့်မှန်းရသည်။ ရေတံခွန်ကြီးများကို ညဥ့်အခါတွင် ရောင်စုံမီးမောင်းကြီးများ ထိုးထားသဖြင့် ကြည့်မငြီးအောင်ပင် လှပလေသည်။ သို့ရာတွင် ရေတံခွန်ကြီးများမှ ရေအားဖြင့် ထုတ်ယူသော လျှပ်စစ်ဓာတ်အားပေးစက်ရုံများနှင့် ထိုဓာတ်အားပေးစက်ရုံများကို အမှီပြု၍ ပေါ်ပေါက်လာသော စက်ရုံများကြောင့် ရေအဟုန်လျော့နည်းသွားကာ၊ ရေတံခွန်များ၏ ပသာဒရှုခင်း ပျက်ပြားသွားဖွယ်ရာ အကြောင်း ပေါ်ပေါက်လာခဲ့၏။ ထို့ကြောင့် အမေရိကန် ပြည်ထောင်စု အစိုးရနှင့် ကနေဒါနိုင်ငံ အစိုးရတို့သည် စက်မှု လက်မှု လုပ်ငန်းဆိုင်ရာ ကိစ္စများ အတွက် အမေရိကန် ပြည်ထောင်စုဖက်တွင် တစက္ကန့်လျှင် ရေ ကုဗပေ ၂၀,၀၀၀ အသုံးပြုရန်နှင့် ကနေဒါဖက်တွင် ကုဗပေ

၃၆,၀၀၀ အသုံးပြုရန် သဘောတူညီ သတ်မှတ် ထားရှိခဲ့ကြလေသည်။

ထို့ပြင် သဘာဝ ရှုခင်းသာကို ဆက်လက် ထိန်းသိမ်းထားရှိရန်အတွက် ရေတံခွန်ကြီးများတဝိုက်တွင် ပန်းခြံကြီးများ ပြုလုပ်ထားသည်။ အမေရိကန် ပြည်ထောင်စုဖက်ရှိ ပန်းခြံမှာ နယူးယောက့်ပြည်နယ် ပန်းခြံဟု ခေါ်၍၊ ၁၁၅ ဧကခန့် ကျယ်ဝန်းသည်။ ကနေဒါ နိုင်ငံဖက်ရှိ ဝိတိုရိယဘုရင်မ နိုင်အဂ္ဂရာ ပန်းခြံသည် ၁၅၄ ဧက ကျယ်ဝန်းသည်။

နိုင်အဂ္ဂရာမြစ်သည် ရေတံခွန်ကြီးများ ရှိရာမှ တဖန်၊ တဖက်တချက်တွင် အမြင့်ပေ ၂၀၀ မှ ၃၀၀ အထိရှိ၍ မတ်စောက်သော ကျောက်ကမ်းပါးကြီးများဖြင့် ပြီးသည့် နိုင်အဂ္ဂရာ ချောက်ကြီးတလျှောက် စီးဆင်းသွား၏။ ထိုမှ တဖန် ၂ မိုင်ခန့် စီးဆင်းသွားပြီးနောက်၊ တမိုင်ခန့် ရှိသော မြစ်ကြောင်းတလျှောက်သည် ရေမော်များဖြင့် ပြည့်နှက်နေသည်။ ယင်းသည့်ရေမော်များသည် 'ဝဲကတော့ ရေမော်များ' ဟူ၍ ရေတံခွန်များကဲ့သို့ပင် နာမည် ကျော်ကြားသည်။ ထိုရေမော်များ အလွန်တွင် နာမည်ကျော် ဝဲကတော့ တခုရှိသည်။

နိုင်အဂ္ဂရာ ရေတံခွန်များမှာ ကမ္ဘာကျော်သည့် အလျောက်၊ ကမ္ဘာအရပ်ရပ်မှ ဗဟုသုတ စုဆောင်းရန်နှင့် အပျော်ခရီးထွက်သူများသည် မပြတ်မလပ် လာရောက်ကြည့်ရှုကြသည်။ ရေတံခွန်ကြီးများ အနီး၌ ရှုခင်းကောင်းသော နေရာများတွင် ရေတံခွန်ကို ကြည့်ရန်အတွက် နေရာ ထိုင်ခင်းများ သီးခြား ပြုလုပ်ပေးထားသည်။

နိုင်အဂ္ဂရာ ဟူသည်မှာ အီရာကွာ အမေရိကန်တိုင်းရင်းသားများက ပေးထားသော အမည်ဖြစ်၍ "မိုးခြိမ်းသံပြုသောရေ" ဟု အဓိပ္ပါယ်ရလေသည်။

**နိုင်းမြစ်။** ။နိုင်းမြစ်သည် အလျားမိုင်ပေါင်း ၄,၀၀၀ ခန့်ရှိ၍ အာဖရိကတိုက်တွင် အရှည်ဆုံးဖြစ်ပြီးလျှင်၊ ကမ္ဘာပေါ်တွင် ဒုတိယ အရှည်ဆုံး မြစ်တသွယ်ဖြစ်လေသည်။ ထို့ပြင် ကမ္ဘာပေါ်၌ အီကွေတာအနီးတွင် မြစ်ဖျားခံ၍ သမပိုင်းဇုန်အတွင်းသို့ စီးဝင်သည့် တခုတည်းသောမြစ်မှာ နိုင်းမြစ်ပင်ဖြစ်သည်။

နိုင်းမြစ်၏ မြောက်ဖက်၌ မြေထဲပင်လယ်၊ အရှေ့ဖက်၌ အာရေဗျ သဲကန္တာရနှင့် ပင်လယ်နီ၊ တောင်ဖက်၌ ဆူဒန်နိုင်ငံနှင့် အနောက်ဖက်၌ လစ်ဗျန်သဲကန္တာရတို့ အသီးအသီး တည်ရှိ၏။ နိုင်းမြစ်သည် မြစ်ညာတွင် နိုင်းမြစ်ပြာနှင့် နိုင်းမြစ်ဖြူဟူ၍ မြစ်နှစ်သွယ် အဖြစ် တည်ရှိနေရာ၊ နိုင်းမြစ်ပြာသည် အက်ဗီးဆီးနီးယန်း တောင်တန်းများတွင် မြစ်ဖျားခံ၍၊ နိုင်းမြစ်ဖြူသည် အာဖရိကတိုက် အလယ်ပိုင်းရှိ ဝိတိုရိယအိုင်၊ အဲလဗတ်အိုင်နှင့် အက်ဒွပ်အိုင်တို့၌ မြစ်ဖျားခံလေသည်။ နိုင်းမြစ်ဖြူသည် ယင်းသို့မြစ်ဖျားခံကာ၊ မြောက်ဖက်သို့ စီးဆင်းသွားရာ၊ ကွန်ဂိုမြစ်၏ အရှေ့မြောက်ဖက်



နိုင်းမြစ်သည် ကမ္ဘာပေါ်တွင် ဒုတိယ အရှည်လျားဆုံးမြစ်ဖြစ်ရုံမက အီကွေတာနှင့် အနီးဆုံး မြစ်ဖျားခံသည့် မြစ်ဖြစ်သည်။



နိုင်းမြစ် ပဌမ ရေတံခွန် အနီး ဆောက်လုပ်ထားသည့် အက်ဆူးဝန် ဆည်ရိုးကြီးသည် အီဂျစ်နိုင်ငံ စိုက်ပျိုးရေးကို ဖွံ့ဖြိုးစေ၏။

အရပ်တွင် များပြားလှစွာသော မြစ်ချောင်းတို့စီးဝင်ပေါင်းဆုံသည်။ ခါတွမ်းမြို့အနီးသို့ ရောက်သော အခါ၊ နိုင်းမြစ်ပြာနှင့် ပေါင်းဆုံမိလေသည်။ ထိုမှ တဖန်နိုင်းမြစ်သည် သဲကန္တာရဒေသကို ဖြတ်သန်း၍ မြောက်ဖက်သို့ ဆက်လက်စီးဆင်းသွားရာ၊ မြစ်ကြောင်းသည် တဖြည်းဖြည်း ကျဉ်းမြောင်းလာသည်။ နိုင်းမြစ်သည် ကိုင်ရိုမြို့၏ တောင်ဖက်တွင် ပေ ၃၀၀ ခန့်ပင် မကျယ်တော့ချေ။ ခါတွမ်းမြို့နှင့် အက်ဆူးဝန်မြို့တို့အကြားတွင် ရေတံခွန်ကြီး ၆ ခုရှိ၏။ ယင်းတို့ကြောင့် လှေ သင်္ဘောများ ခုတ်မောင်း သွားလာရန် ခက်ခဲသည်။ နိုင်းမြစ်သည် အီဂျစ်နိုင်ငံကို ဖြတ်သန်း စီးဆင်း ပြီးသော်၊ မြစ်ဝတွင် ရေကြောင်းနှစ်သွယ်ဖြစ်လျက် မြေထဲပင်လယ်တွင်းသို့ စီးဝင်လေသည်။

နိုင်းမြစ်ဝှမ်းသည် ကမ္ဘာပေါ်တွင် လယ်ယာ စိုက်ပျိုးလုပ်ကိုင်ရန် အတွက် မြေဩဇာ အကောင်းဆုံးသော ဒေသများတွင် အပါအဝင်ဖြစ်၍၊ ဘီစီ ၅၀၀၀ ခန့်ကပင် အီဂျစ်တောင်သူလယ်သမားတို့သည် နိုင်းမြစ်ဝှမ်းတွင် ကောက်ပဲသီးနှံများ စိုက်ပျိုး လုပ်ကိုင်ခဲ့ကြသည်။ နှစ်စဉ် နွေရာသီနှောင်းလများတွင် နိုင်းမြစ်သည် ပတ်ဝန်းကျင် မြေနိမ့်ဒေသတခွင်ကိုရေလွှမ်းမိုးလေ့ရှိ၏။ ယင်းသို့လျှံတက်လာသော မြစ်ရေများ ပြန်လည် ကျဆင်းသွားသောအခါ၊ ထိုမြေနိမ့်ဒေသများတွင် နုံးတင်မြေနု၊ မြေဆီမြေနှစ်များ တင်ကျန်ခဲ့လေသည်။ နိုင်းမြစ် ရေလွှမ်းမိုးခြင်း၏ အကျိုးကျေးဇူးကို နှစ်စဉ်နှစ်တိုင်း အထူးခံစားရသော ဒေသမှာ အက်ဆူးဝန်မြို့၏ မြောက်ဖက်ဒေသပင် ဖြစ်သည်။ အက်ဆူးဝန်တွင် ဆည်ရိုးကြီးတခု ဆောက်လုပ် ထားလေသည်။ နိုင်းမြစ်ဝှမ်းမှ ဝါဂွမ်း တဧကထွက်သည် အမေရိကန် ပြည်ထောင်စုမှ ဝါဂွမ်းတဧကထွက်၏ နှစ်ဆခွဲခန့် ရှိသည်။ နိုင်းမြစ်၏မြစ်ဝကျွန်းပေါ် ဒေသသည် လူဦးရေ ထူထပ်သည်။ မြေဩဇာ ထက်သန်သည့် မြေတလက်မမျှပင်မချန်၊ တနှစ်ပတ်လုံး စိုက်ပျိုးလုပ်ကိုင်သည်။ နွေရာသီတွင် ဆည်မြောင်းများဖြင့် ရေသွင်း စိုက်ပျိုးသည်။ နိုင်းမြစ်ဝှမ်း၌ ဆောင်းရာသီတွင် ဂျုံ၊ မုယောစပါး၊ ကလိုဗာပဲပင်၊ ပဲတောင့်နှင့် ဟင်းသီးဟင်းရွက် စသည်တို့ကိုစိုက်ပျိုး၍၊နွေရာသီတွင် အများအားဖြင့် ဖူးပြောင်း၊ ကြံနှင့် ဝါဂွမ်းစသည်တို့ကို စိုက်ပျိုးကြလေသည်။

နိုင်းမြစ်ကမ်းပါး တလျှောက်တွင် ကမ္ဘာ့ယဉ်ကျေးမှု အစပြုခဲ့သည်ဟု ဆိုသည်။ အီဂျစ်နိုင်ငံနှင့် ဆူဒန်နိုင်ငံတို့ အပေါ်တွင် နိုင်းမြစ်၏ကျေးဇူးကား ကြီးမားလှပေသည်။ မြေကြီးကို မြေဩဇာထက်သန်စေရန်၎င်း၊ ရေသွင်းစိုက်ပျိုးရန် အတွက် လိုအပ်သမျှရေကို ရရှိစေရန်၎င်း နိုင်းမြစ်သည် နှစ်စဉ် ရေလျှံခြင်း မရှိခဲ့သော်၊ ပတ်ဝန်းကျင်ဒေသ တခုလုံးသည် သဲကန္တာရအတိ ဖြစ်သွားဖွယ်ရှိလေသည်။



ဣတလီနိုင်ငံ ဖလော်ရင့်မြို့ရှိ နိုင်းအိုဗီ ကျောက်ရုပ်

**နိုင်းအိုဗီ။** ။ဂရိထုံးဟောင်းပုံပြင်တွင် သားသမီးကိုမှီ၍ မာနတက်ကြွသဖြင့်၊ ပူဆွေးဒုက္ခ ရောက်ရသည့် အဖြစ်ကို နိုင်းအိုဗီ၏ အကြောင်း၌ ဖော်ပြပါရှိလေသည်။ သီးဗီးဘုရင်၌ နိုင်းအိုဗီဟုတွင်သော မိဖုရားရှိရာ၊ ထိုမိဖုရား၌ သားတော် ခုနစ်ပါး၊ သမီးတော် ခုနစ်ပါး ထွန်းကားသည်။ သို့ရာတွင် လီတိုဟူသော နတ်သမီး၌ အပေါ်လို နတ်သားနှင့် အားတီမစ်နတ်သမီးဟူ၍ သားသမီး နှစ်ဦးသာ ထွန်းကားသည်။ ဤအချက်ကို အမှီပြု၍ နိုင်းအိုဗီသည် သူသာလျှင် လီတို နတ်သမီးထက် အပူဇော်ကို ခံထိုက်သည်ဟု ပြောဆိုမိလေသည်။ ထိုကြောင့် လီတိုနတ်သမီးသည် အမျက်ထွက်၍၊ နိုင်းအိုဗီ၏ သားသမီးတို့ကိုသတ်ရန် အပေါ်လိုနှင့် အားတီမစ်တို့အား စေခိုင်းရာ၊ အပေါ်လိုနှင့် အားတီမစ်တို့လည်း ဆိပ်လူးမြားဖြင့် လိုက်လံသတ်ဖြတ်သဖြင့်၊ ခလော်ရစ်ဟူသော သမီးတော်မှတပါး အားလုံးသေဆုံးကြလေသည်။ ထိုအခါတွင်မှ နိုင်းအိုဗီသည် နောင်တကြီးစွာရ၍၊ သည်းထန်စွာ ငိုကြွေးလေရာ၊ ဇုနတ်မင်းကြီးသည် သူ၏ အဖြစ်အပျက်ကို မကြည့်ရက်နိုင်သောကြောင့်၊ သူ့အား ကျောက်တောင် အဖြစ်သို့ ဖန်ဆင်းလိုက်ရလေသည်။ ထိုကျောက်တောင်မှ ရေစိမ့်ယိုစီးသည်ကို နိုင်းအိုဗီ၏ မျက်ရည်ဟု ရှေးဟောင်းဂရိတို့က ယူဆကြသည်။ ထိုကျောက်တောင်ကို ဆီပိုင်လပ်ကျောက်တောင်ဟု ခေါ်သည်။ (ဂရိနတ်များ — ရှု။)

**နစ်ကရားဂွနိုင်ငံ။** ။နစ်ကရားဂွနိုင်ငံသည် အလယ်ပိုင်း အမေရိကန်နိုင်ငံငယ်များတွင်အကြီးဆုံးနိုင်ငံဖြစ်လေသည်။ ထိုနိုင်ငံ၏ နယ်နိမိတ်မှာ မြောက်ဖက်၌ ဟွန်ဒူးရပ်နိုင်ငံ၊ တောင်ဖက်၌ ကော်စတာရီးကားနိုင်ငံ၊ အရှေ့ဖက်၌ ကယ်ရစ်ဗျန်ပင်လယ်၊ အနောက်ဖက်၌ ပစိဖိတ်သမုဒ္ဒရာဟူ၍ ဖြစ်သည်။ နစ်ကရားဂွနိုင်ငံ၏ ကမ်းရိုးတန်းသည် ကယ်ရစ်ဗျန် ပင်လယ်ဖက်တွင် မိုင်ပေါင်း ၃၀၀ မျှ ရှည်လျားး၍၊ ပစိဖိတ် သမုဒ္ဒရာဖက်တွင် မိုင် ၂၀၀ မျှ ရှည်လျား၏။ အကျယ်အဝန်းမှာ ၅၇,၁၄၅ စတုရန်း မိုင် ဖြစ်လေသည်။ ကုန်းပြင်မြင့်ကြီးတခုသည် နစ်ကရားဂွနိုင်ငံ၏ အလယ်ဗဟိုကို ဖြတ်သန်း၍၊ ထိုနိုင်ငံကို နှစ်ပိုင်းခွဲခြားထားသည်။ ထိုကုန်းပြင်မြင့်၏ အရှေ့ဖက်တွင် မတ်စောက်းတိုး မြေနိမ့်ရပ်ဝန်းခေါ် ကျယ်ပြန့်သည့် ကမ်းမြောင်လွင်ပြင်တည်ရှိ၏။ ထိုဒေသတွင် မိုးအလွန်သည်းထန်စွာ ရွာသွန်းသဖြင့် သစ်တောများ ထူထပ်စွာ ပေါက်ရောက်သည်။ ဗဟိုကုန်းပြင်မြင့်၏ အနောက်ဖက်တွင်လည်း မြေနိမ့်ရပ်ဝန်းတခု တည်ရှိ၏။ ယင်းသည့် မြေနိမ့်ရပ်ဝန်းသည် ပစိဖိတ် သမုဒ္ဒရာ ကမ်းခြေရှိ ဖွန်ဆေးကား ပင်လယ်ကွေ့မှသည် နစ်ကရားဂွ နိုင်ငံ တောင်ဖက်ပိုင်းအထိ၊ ယင်းမှတဖန် ထိုတောင်ဖက်ပိုင်းကို ဖြတ်သန်း၍ ကယ်ရစ်ဗျန်ပင်လယ်ကမ်းခြေအထိ ကျယ်ပြန့်သည်။

နစ်ကရားဂွနိုင်ငံ၏ တောင်ထူထပ်သည့် အလယ်ပိုင်းတွင် မြေသြဇာကောင်းသည့် ချိုင့်ဝှမ်းကြီးတခုတည်ရှိ၏။ ထိုချိုင့်ဝှမ်းသည် မိုင် ၃၀၀ ခန့်ရှည်လျား၍၊ မိုင် ၁၀၀ ခန့် ကျယ်သည်။ နိုင်ငံထွက် ကောက်ပဲသီးနှံများ အများအပြားစိုက်ပျိုးလုပ်ကိုင်ရာဒေသဖြစ်လေသည်။ နစ်ကရားဂွနိုင်ငံ၌ မီးတောင်ပေါများသည်။ ထိုမီးတောင်များသည် မကြာခဏ ပေါက်ကွဲ တတ်သဖြင့် လူနေ အိမ်ခြေများ ပျက်စီးရလေသည်။

နစ်ကရားဂွနိုင်ငံတွင် မြစ်ချောင်းလည်း ပေါများသည်။ ထင်ရှားသောမြစ်များမှာ အက်စကွန်ဒီဒို၊ ရီအိုဂရန်ဒီ၊ ကျူမာ၊ ဝါဝါနှင့် ဆန်ဟွမ်တို့ ဖြစ်လေသည်။ ထိုပြင် နစ်ကရားဂွအိုင်နှင့်မနားဂွအိုင်ဟူ၍ ထင်ရှားသော ရေအိုင်ကြီး ၂ ခုလည်းရှိသေး၏။ နစ်ကရားဂွအိုင်မှာ ထိုနိုင်ငံတွင် အကြီးဆုံးဖြစ်၍၊ အလျား ၉၆ မိုင်၊ အနံ ၃၉ မိုင်ရှိသည်။ မနားဂွအိုင်မှာ အလျား ၃၈ မိုင်၊ အနံ ၁၀ မိုင်မှ ၁၆ မိုင်အထိ ရှိသည်။ ထိုရေအိုင်နှစ်ခုကို တီပီတာပါမြစ်က ဆက်သွယ်ထားသည်။ မနားဂွအိုင်၏ တောင်ဖက်ကမ်းခြေ၌ မနားဂွမြို့တော်တည်ရှိလေသည်။

နစ်ကရားဂွနိုင်ငံသည် ယေဘုယျအားဖြင့် ပူအိုက်သော

နိုင်ငံဖြစ်သည်။ ကယ်ရစ်ဗျန် ပင်လယ်ကမ်းခြေဖက်တွင် မိုးအများဆုံး ရွာသွန်း၍၊ ပစိဖိတ် ကုန်းပြင်မြင့်များနှင့် အနောက်ဖက် မြေနိမ့် ရပ်ဝန်းများတွင် မိုးအတော်အသင့်ရွာသွန်း၏။ မတ်စကီးတိုး မြေနိမ့်ရပ်ဝန်းသည် ကမ္ဘာပေါ်ရှိ မိုးအများဆုံး ရွာသွန်းရာ ဒေသများတွင် အပါအဝင်ဖြစ်သည်။ အလယ်ပိုင်း ကုန်းပြင်မြင့်များတွင်ကား ကောက်ပဲသီးနှံများ စိုက်ပျိုး ဖြစ်ထွန်းရုံလောက်သာ ရွာသွန်း၏။ နစ်ကရာဂွာအလယ်ပိုင်းတွင် ရာသီဥတုသည် အတန်ငယ် အေးသဖြင့် ထင်းရှူးတောများနှင့် ဝက်သစ်ချတောများ ပေါက်ရောက်သည်။ မြက်ခင်းလွင်ပြင်များကိုလည်း ကြိုးကြားတွေ့ရလေသည်။

နစ်ကရာဂွာနိုင်ငံ၏ လူဦးရေသည် ၁၉၅ဝ ပြည့်နှစ်တွင် ခန့်မှန်းခြေ ၁,ဝ၅၇,ဝ၂၃ ယောက်ဖြစ်ရာ၊ အလယ်ပိုင်း အမေရိကန် နိုင်ငံများထဲတွင် အကျယ်အဝန်းဆုံး ဖြစ်သော်လည်း လူနေအကျဲဆုံးဖြစ်လေသည်။ နစ်ကရာဂွာနိုင်ငံသူ နိုင်ငံသားများသည် အများအားဖြင့် စပိန်လူမျိုးနှင့် အင်ဒီးယန်းလူမျိုးတို့မှ ဆင်းသက်ပေါက်ပွားလာသူများဖြစ်သည်။ လူဦးရေ ၅ ပုံ ၁ ပုံ နီးပါးမှာ နီးဂရိုးလူမျိုးဖြစ်သည်။ ထို့ပြင် ဥရောပတိုက်သား အများအပြားလည်း နေထိုင်လျက်ရှိ၏။ ဗရင်ဂျီကိုဏ်းဝင် များပြားသည်။ သို့သော် အယူဝါဒ လွတ်လပ်မှုရှိလေသည်။

နစ်ကရာဂွာနိုင်ငံသည် မြေသြဇာ အလွန်ကောင်းသည်။ နိုင်ငံသူ နိုင်ငံသား အများအစားမှာ တောင်သူလယ်သမားများ ဖြစ်၏။ နစ်ကရာဂွာနိုင်ငံ အရှေ့ပိုင်းတွင် ငှက်ပျော၊အုန်း ပိုင်းထွက် သီးနှံများနှင့် ဝါဂွမ်းစိုက်ပျိုး၏။ အနောက်ဖက်




နစ်ကရာဂွာနိုင်ငံ တည်နေရာပြ မြေပုံ

မြေနိမ့်ရပ်ဝန်းတွင်၊ စပါး၊ ပဲအမျိုးမျိုး၊ ဖူးပြောင်း၊ အပူပိုင်းထွက်သီးနှံများ၊ ကိုကိုးနှင့်ကြံ စိုက်ပျိုးသည်။ မနာဂွာအနီးရှိ ကုန်းပြင်မြင့်တွင် ကာဖီစိုက်ပျိုးသည်။ မိုးမများလွန်းသော အရပ်ဒေသများတွင် နွားများမွေးမြူသည်။

နစ်ကရာဂွာနိုင်ငံသည် အခြားအလယ်ပိုင်း အမေရိကန်နိုင်ငံများထက် ဓာတ်သတ္တုပေါများသည်။ ရွှေ၊ ဘော်၊ ကြေးနီ၊ ကျောက်မီးသွေးနှင့် အဖိုးတန် ကျောက်မျက်ရတနာများကို အလယ်ကုန်းပြင်မြင့် အရှေ့ဖက်ပိုင်းတွင် တူးဖော်ရရှိ၏။ သို့သော် သယ်ယူပို့ဆောင်ရေး ခက်ခဲ၍၊ လုပ်အား ရှားပါးသဖြင့် အကြီးအကျယ် တူးဖော်လုပ်ကိုင်ခြင်း မပြုရသေးပေ။

နစ်ကရာဂွာနိုင်ငံ၏ အဓိက ထွက်ကုန်တို့သည် ရွှေ၊ ကာဖီနှင့် ငှက်ပျောဖြစ်ကြသည်။ ထို့ပြင် ဝါဂွမ်း၊ ကြက်ပေါင်စေး၊ သားရေစိမ်း၊ ဆေးရွက်၊ မဟော်ဂနီ သစ်သား စသည်တို့လည်းထွက်သည်။ အဓိက ဝင်ကုန်များမှာ စက်ကရိယာ၊ အထည်အလိပ်၊ ဆီများ၊ ဓာတုဗေဒ ပစ္စည်းများနှင့် စားကုန်သောက်ကုန်များ ဖြစ်လေသည်။

နစ်ကရာဂွာနိုင်ငံရှိ ထက်ဝက်ခန့်မျှသော လူဦးရေသည် စာရေးစာဖတ်မတတ်ကြပေ။ သို့သော်ထိုအခြေအနေကိုတိုးတက်ကောင်းမွန်လာစေရန် ကြိုးပမ်းဆောင်ရွက်လျက်ရှိကြသည်။ အထက်တန်းကျောင်းများသည် ကိုယ်ပိုင်ကျောင်းများဖြစ်၍၊ အစိုးရက ထောက်ပံ့ကြေးများ ပေးထားလေသည်။ ထို့ပြင် အစိုးရသည် စစ်တက္ကသိုလ် ကျောင်းတကျောင်းဖွင့်လှစ်ထားရှိ၏။ လေယွန်၊ ဂရာနားဒါးနှင့် မနာဂွာမြို့များတွင် တက္ကသိုလ်များရှိသည်။ နိုင်ငံတော် ရုံးသုံးဘာသာစကားမှာ စပိန် ဘာသာစကား ဖြစ်လေသည်။ သို့သော် ကျောင်းများတွင် အင်္ဂလိပ်ဘာသာကို သင်ကြားပေးသည်။

နစ်ကရာဂွာနိုင်ငံသည် သမတနိုင်ငံဖြစ်သည်။ သမတကို ၆ နှစ်တကြိမ် ရွေးကောက် တင်မြှောက်၏။ ယင်းသည် ဝန်ကြီး ၁၇ ဦး၏ အကူအညီဖြင့် နိုင်ငံကို အုပ်ချုပ်သည်။ ဌာနကြီး ၁၅ ခုနှင့် ဒေသကြီး ၂ ခုတို့ကို ဝန်ကြီးတဦးစီက ခွဲဝေကာ တာဝန်ယူရလေသည်။ နစ်ကရာဂွာ ကွန်ဂရက်လွှတ်တော်တွင် အဖွဲ့ဝင် ၁၆ ဦးပါဝင်သော ဆီးနိတ် လွှတ်တော်နှင့် အဖွဲ့ဝင် ၄၂ ဦးပါဝင်သော ပြည်သူ့လွှတ်တော်ဟူ၍ ဥပဒေပြုလွှတ်တော် နှစ်ရပ်ပါဝင်သည်။ ယင်းတို့ကို ၆ နှစ်တကြိမ် ရွေးကောက်တင်မြှောက်ရ၏။

ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေကို မကြာခဏပြင်ဆင်ခဲ့ရာ၊ ၁၉၅ဝ ပြည့်နှစ်တွင် နောက်ဆုံးအကြိမ် ပြင်ဆင်ခဲ့၏။ သို့သော် အခြေခံ ဥပဒေသည် အရေးပါသင့်သလောက်မပါလှဘဲ၊ အုပ်ချုပ်ရေးမှာ စင်စစ်အားဖြင့် အာဏာရှင် စနစ်မျိုးဖြစ်နေသည်။ မည်သို့ဖြစ်စေ တရားလွှတ်တော်ချုပ်မှ

တရားဝန်ကြီးများကိုကား ပြည်သူလူထု၏ မဲဆန္ဒဖြင့် ရွေးကောက် တင်မြှောက်သည်။

နစ်ကရားဂွနိုင်ငံ၏ မြို့တော်သည် မနားဂွအိုင်၏ ကမ်းခြေရှိ မနားဂွမြို့ဖြစ်၍၊ ၁၉၅၀ ပြည့်နှစ်တွင် ခန့်မှန်းခြေ လူဦးရေ ၁၀၉,၃၅၂ ယောက်ရှိသည်။ ၁၉၃၁ ခုနှစ်က မြေငလျင်ကြောင့် အကြီးအကျယ် ပျက်စီးခဲ့၏။ ပစိဖိတ် ကမ်းခြေမြောက်ပိုင်းရှိ ကိုရင်တိုမြို့သည် အရေးအပါဆုံးသောသင်္ဘောဆိပ်မြို့ဖြစ်၍၊ နိုင်ငံ၏ ကုန်တင် ကုန်ချ ၃ ပုံ ၂ ပုံကို ဤဆိပ်ကမ်းတွင် ပြုလုပ်သည်။ ထိုမှအရှေ့တောင် ၂၅ မိုင်ခန့်အကွာရှိ လေယွန်မြို့တွင်ကား ခေတ်မှီ အဆောက်အအုံများရှိ၏။

၁၅၀၂ ခုနှစ်တွင် ခရစ္စတိုဖာ ကိုလံဗပ်သည် ဆန်ဟွမ်မြစ်ဝသို့ ဆိုက်ရောက်ခဲ့သည်။ နောက်အနှစ် ၂၀ ခန့်ကြာသောအခါ၊စပိန်လူမျိုး ဟီးလဂွန်းသားလိတ်သေအားဗီးလားသည် နယ်ပယ် လှည့်လည် စူးစမ်းရှာဖွေရန်အတွက် ပနာမာ ကျွန်းဆွယ်မှနေ၍၊ မြောက်ဖက်သို့ ခရီးထွက်ခဲ့လေသည်။ ထိုဒေသတဝိုက်ကို နစ်ကရားဂွနိုင်ငံဟု ခေါ်သည်မှာ နစ်ကရားဂွခေါ် အင်ဒီးယန်းလူမျိုးစုကြီးကို အစွဲပြု၍ ခေါ်ခြင်း ဖြစ်၏။ ထိုနစ်ကရားဂွ အင်ဒီးယန်းလူမျိုးစုနှင့် ပေါင်းသင်းဆက်ဆံရသည်မှာလွယ်ကူသည့်အပြင် ယင်းတို့ပင် အခြားအင်ဒီးယန်းလူမျိုးစုများကို ကူညီနှိမ်နင်းပေးခဲ့လေသည်။

၁၅၂၄ ခုနှစ်တွင် ဂရာနားဒါးမြို့ကို တည်ထောင်ခဲ့၏။ စပိန်တို့၏ လက်အောက်ခံဖြစ်သော ကိုလိုနီခေတ်တွင် နစ်ကရားဂွကို ဂွါတီမားလ မြို့တော်မှနေ၍၊ ကပ္ပတိန် ဂျင်နရယ်တဦးက အုပ်ချုပ်ခဲ့ရာ၊ ပြင်ပလောကနှင့် အဆက်အသွယ်မရှိသလောက် ဖြစ်ခဲ့ရလေသည်။ ၁၈၂၁ ခုနှစ်တွင် အခြားသော အမေရိကန် အလယ်ပိုင်း တိုင်းပြည်များနှင့်အတူ စပိန်တို့၏ လက်အောက်မှ ပုန်ကန်ထကြွကာ၊ လွတ်လပ်ရေးကို ရယူခဲ့၏။ သို့သော် ပဌမဦးစွာတွင် မက္ကဆီကို နိုင်ငံတော်နှင့် ပူးပေါင်းခဲ့၍၊ နောင်သောအခါ အမေရိကန် အလယ်ပိုင်း အဖွဲ့ချုပ်နှင့် ပူးပေါင်းခဲ့ပြီးလျှင်၊ နောက်ဆုံးတွင် ၁၈၃၈ ခုနှစ်၌ လွတ်လပ်သော သမတနိုင်ငံ ဖြစ်လာလေသည်။

နစ်ကရားဂွနိုင်ငံသမိုင်းသည် အုပ်စုများအသီးအသီး အကြားတွင် ပေါ်ပေါက်လျက်ရှိသော အခက်အခဲများ အကြောင်းတို့နှင့်သာ ပြည့်နှက်နေလေသည်။ ယင်းသည့် အခက်အခဲများသည် မကြာခဏ ဆိုသလိုပင် ပုန်ကန်ထကြွမှုများ၊ လက်နက်ကိုင် ပဋိပက္ခမှုများနှင့် ဖြေရှင်းရသည့် အဖြစ်သို့ ဆိုက်ရောက်သွားခဲ့သည်။ သယ်ယူပို့ဆောင်ရေးနှင့် ကူးသန်းသွားလာရေး ချို့တဲ့သဖြင့်၊ အချို့သော ဒေသများမှာ အရောက်အပေါက် နည်းပါးလှသည့်အပြင်၊ ထိုဒေသများတွင် နေထိုင်ကြသူများသည် အချင်းချင်း သူစိမ်းပြင်ပြင် ဖြစ်နေလေတော့၏။ ယင်းသို့ဖြင့် စည်းလုံးမှုနှင့် တိုးတက်မှုတို့တွင် များစွာ နှောင့်နှေးခဲ့ရလေသည်။

နစ်ကရားဂွသမတနိုင်ငံ တည်ထောင်ခဲ့ပြီးနောက် အနှစ် ၂၀ မျှ လေယွန်နှင့် ဂရာနားဒါးမြို့များသည် နိုင်ငံအား ကြီးစိုးမှုနှင့် စပ်လျဉ်း၍ အချင်းများခဲ့၏။ ၁၈၅၅ ခုနှစ်တွင် ဂရာနားဒါးမြို့အနီးရှိ မနားဂွမြို့ကို မြို့တော်အဖြစ် သတ်မှတ်လိုက်သောအခါ လေယွန်မြို့သူမြို့သားများသည် မခံမရပ်နိုင်ဖြစ်ကာ၊ အမေရိကန် ပြည်ထောင်စု၊ တင်နက်ဆီပြည်နယ်သားတဦးဖြစ်သော ဝီလျံဝေါ့ကားနှင့် သူ၏ အဖော် ၆၆ ဦးတို့၏ အကူအညီကိုရယူခဲ့၏။ သို့သော် ဝေါ့ကားသည် အရေးကိစ္စများကို မိမိသဘောအတိုင်း လုပ်ဆောင်ကာ၊ နစ်ကရားဂွနိုင်ငံ သမတအဖြစ်ပင် တနှစ်မျှခံယူခဲ့သေးသဖြင့်၊ လေယွန်မြို့သူ မြို့သားများသည် သူ့အား ဖိတ်ခေါ်မိသည်ကို နောင်တကြီးစွာရရှိခဲ့လေသည်။ နောင်သောအခါ ဗြိတိသျှ၊ အမေရိကန် သင်္ဘော ကုမ္ပဏီများနှင့် နိုင်ငံနီးချင်း အစိုးရတို့သည် ဝီလျံဝေါ့ကားကို နှင်ထုတ်သဖြင့်၊ ဝီလျံဝေါ့ကားလည်း နစ်ကရားဂွနိုင်ငံမှ ထွက်ပြေးလေသည်။ထိုသူသည် နိုင်ငံတွင်းသို့ ပြန်ဝင်ရန် နှစ်ကြိမ်ကြိုးပမ်းခဲ့ရာ၊ ဒုတိယအကြိမ်တွင် ဟွန်ဒူးရပ်၌ ဖမ်းမိ၍ ပစ်သတ်ခြင်းခံရလေသည်။

၁၉၁၂ ခုနှစ်တွင် နစ်ကရားဂွ နိုင်ငံ၏ ပြည်တွင်းရေးသည် မငြိမ်မသက်ဖြစ်လာပြန်သဖြင့်၊ နိုင်ငံတွင်းပြန်လည်ငြိမ်ဝပ်ပိပြားလာစေရန်အတွက် အမေရိကန် ပြည်ထောင်စု အစိုးရထံ အကူအညီ တောင်းခဲ့ရလေသည်။ အမေရိကန်ပြည်ထောင်စုကလည်း ကမ်းတက် ရေတပ်သားများ စေလွှတ်၍ ကူညီသည်။ ယင်းသို့ပင် အနှစ်အစိတ်မျှသော ကာလအတွင်း အမေရိကန် ပြည်ထောင်စုသည် မကြာခဏပင် နစ်ကရားဂွနိုင်ငံကို ကမ်းတက်ရေတပ်များ စေလွှတ်ချထား၍ ကူညီခဲ့ရသည်။ ၁၉၃၃ ခုနှစ်တွင် အမေရိကန် ကမ်းတက် ရေတပ်သားများကို နောက်ဆုံးအကြိမ် ရုပ်သိမ်းခဲ့၏။

၁၉၃၂ ခုနှစ်တွင် သမတအဖြစ် ရွေးကောက် တင်မြှောက်ခြင်းခံရသော ဆာကားဆားအား ရာထူးသက်တမ်းမကုန်ဆုံးမီ၊ ယင်း၏ တူတော်သူ ဗိုလ်ချုပ်အားနားဆတားဆိယိုဆိုမိုးဆားက ရာထူးမှ ဖြုတ်ချလိုက်၏။ ဆိုမိုးဆားသည် ယင်းသို့ ရာထူး မတရားရယူခဲ့သော်လည်း၊ နောက်ဆုံးတွင် အမေရိကန် ပြည်ထောင်စုနှင့် နိုင်ငံနီးချင်းတို့က အသိအမှတ်ပြုအောင် စွမ်းဆောင်နိုင်ခဲ့သည်။ ၁၉၃၆ ခုနှစ်၌ သူ၏ တပ်သားများကွပ်ကဲသော ရွေးကောက်ပွဲကြီးတွင် ဆိုမိုးဆားသည် သမတအဖြစ် ရွေးကောက်ခြင်း ခံရသည်။ ၁၉၃၉ ခုနှစ်တွင် ကွန်ဂရက်လွှတ်တော်အား အခြေခံ ဥပဒေသစ်တရပ် ရေးဆွဲရန် အမိန့်ပေး၍၊ သူ၏ ရာထူးသက်တမ်းကိုလည်း ၁၉၄၇ ခုနှစ်အထိ တိုးမြှင့်ခဲ့သည်။ ထိုသို့ နှစ်ရှည်လများ အာဏာရှင် စံနစ်ဖြင့် အုပ်ချုပ်ခဲ့ရာ၊ ၁၉၄၄ ခုနှစ်တွင် လက်နက်ကိုင် တော်လှန်မှုတရပ် ပေါ်ပေါက်ခဲ့၏။ ၁၉၄၇ ခုနှစ်တွင် ဆိုမိုးဆားသည် ရာထူးမှ နုတ်ထွက်သည်။ ၁၉၄၅ ခု

နှစ်တွင် နစ်ကရားဂွနိုင်ငံသည် ကုလသမဂ္ဂသို့ ဝင်ခဲ့၏။ ၁၉၄၉ ခုနှစ်တွင် မဟာမိတ်စာချုပ်တရပ် ချုပ်ဆိုကာ၊ ကော်စတာရီးကားနိုင်ငံနှင့် နယ်ခြားအချင်းများမှုများကို ပြီးပြတ်စေခဲ့လေသည်။

၁၉၅၀ ပြည့်နှစ် မေလ ၆ ရက်နေ့တွင် ထိုစဉ်က သမတ ဖြစ်သော ဗစ်တာရိုမန်ယီးရေးယေး ကွယ်လွန် လေရာ၊ ကွန်ဂရက်က ဆိုမိုးဆားအား ရေးယေး၏ ရာထူးသက်တမ်း ကုန်သည်အထိ သမတအဖြစ် ရွေးကောက် တင်မြှောက်ခဲ့ သည်။ ထိုနောက် များမကြာမီ ကျင်းပခဲ့သော ရွေးကောက် ပွဲတွင် ၁၉၅၁ ခုနှစ် မေလမှ အစပြုသည့် ၆ နှစ်ရာထူးသက် တမ်းအတွက် ဆိုမိုးဆားကိုပင် သမတအဖြစ် တင်မြှောက် ခဲ့လေသည်။

**နစ်ကလတ်ဇာဘုရင်များ။** ။၁၉ ရာစုနှစ်ဦးတွင်ဥရောပ တိုက် တဝှန်းလုံး၌ တော်လှန်ရေး စိတ်ဓာတ်များ ပျံ့နှံ့နေ ရာ၊ ဇာဘုရင်တို့ စိုးမိုးအုပ်ချုပ်သော ရုရှနိုင်ငံသို့လည်း ထို စိတ်ဓာတ်သည် ကူးစက်လာလေသည်။ ထိုကြောင့်တော်လှန် ရေးစိတ်ဓာတ် ပြင်းပြသော ရုရှလူငယ်များသည် လျှို့ဝှက် သော အသင်းအပင်းများဖွဲ့ကာ တော်လှန်စေရန်၊ အဖိနှိပ်



၃၅ ဇာဘုရင်နန်းဆက် နောက်ဆုံးစံ ဒုတိယနစ်ကလတ်

ခံနေရသော လူထုကို လှုံ့ဆော် ပေးလေသည်။ သို့ဖြင့် ဒီဇင်ဘာလ တော်လှန်ရေးသမားများဟုခေါ်သော ရုရှတော် လှန်ရေး အဖွဲ့ဝင်များသည် ပဌမဇာဘုရင် အယ်လက်ဇန္ဒာ အား တော်လှန်ရန် ကြိုးပမ်းကြစဉ်၊ ၁၈၂၅ ခုနှစ် ထိုဒီဇင်ဘာ လအတွင်း၌ပင် ဇာဘုရင် အနိစ္စရောက်သွားလေသည်။

ပဌမနစ်ကလတ် (ခရစ် ၁၇၉၆ – ၁၈၅၅)။ ထိုနောက် အယ်လက်ဇန္ဒာ၏ ညီတော်သည် ပဌမနစ်ကလတ်အမည်ဖြင့် နန်းတက်ကာ၊ တော်လှန်ရေးသမားများအား နှိပ်ကွပ်ရာ တွင် အချို့အားထောင်ချသည်။ အချို့အား နယ်ခြားသို့ ပို့ သည်။ ကျန်တချို့ကိုမူ သုတ်သင်ပစ်လေသည်။

ပဌမ နစ်ကလတ်သည်ကား တော်လှန်ရေးကို ဖိနှိပ်သူ သက်သက်ပင် ဖြစ်သည်။ သူသည် အာဏာရှင်သဖွယ် အုပ် စိုးသည်။ သူ၏ လက်ထက်တွင် ရုရှနိုင်ငံ၌ ဘုရင့်သူလျှိုများ အနှံ့အပြားချထား၍၊ အစိုးရကိုဝေဖန်သူများအား ဖမ်း ဆီး၍ အပြစ်ဒဏ်ပေးလေသည်။ တိုင်းပြည်လူထုအား ကျပ် တည်းစွာ အုပ်ချုပ်လေသည်။ သို့သော်လည်း အုပ်ချုပ်ပုံ သည် စည်းကမ်းစနစ်မကျသောကြောင့် လာဘ်ပေးလာဘ် ယူ များပြားလှသည်။

နစ်ကလတ် လက်ထက်တွင် စစ်ပွဲ များစွာ ဖြစ်ပွားသည်။ ၁၈၃၁ ခုနှစ်တွင်၊ ပိုလန်သူပုန်ကို နှိမ်နင်းခဲ့ရ၏။ နစ်ကလတ် ဘုရင်ကား ရုရှနိုင်ငံ၏ နယ်နိမိတ်ကို အစဉ်သဖြင့်၊ တောင် ဖက်သို့ တိုးချဲ့လိုသည်။ ထိုကြောင့် ၁၈၂၇–၉ ခုနှစ်တွင် တူရကီနိုင်ငံကို တိုက်ခိုက်၍၊ ဒန်းညုနယ် တောင်ပိုင်းသို့ မိမိ ဩဇာ ပျံ့နှံ့စေ၏။

၁၈၅၄ ခုနှစ်တွင်၊ ကရိုင်းမီးယားနယ်၌ အင်္ဂလိပ်နှင့် ပြင်သစ်တို့ကတဖက်၊ ရုရှတို့ကတဖက် စစ်မက်ဖြစ်ပွား၍၊ ထို စစ်ပွဲကို ကရိုင်းမီးယားစစ်ပွဲဟု ခေါ်လေသည်။ စစ်ဖြစ်ရ သောအကြောင်းရင်းမှာ တူရကီပိုင်ကွန်စတန်တီနိုပယ်မြို့နှင့် တူရကီဘုရင် စူလတန်၏ နယ်များကို သိမ်းယူလိုသော ကြောင့် ဖြစ်လေသည်။ သို့ရာတွင် အင်္ဂလိပ်နှင့် ပြင်သစ်တို့က တူရကီဖက်မှ ကူညီတိုက်ပေးသည့်အတွက် နစ်ကလတ်ဘုရင် သည် မိမိစစ်ရေး မသာကြောင်းကို သိရှိရသော အခါ၊ စိတ် ထိခိုက်ရခြင်းကြောင့် ၁၈၅၅ ခုနှစ်တွင် ကွယ်လွန်လေသည်။ ထိုစစ်ပွဲကား ၁၈၅၆ ခုနှစ်တွင်မှ ပြီးဆုံးလေသည်။ ထိုဘုရင် ကွယ်လွန်သည့်နောက်၊ သူ၏သားတော် ဒုတိယ အယ်လက် ဇန္ဒာက ထီးနန်းဆက်ခံသည်။ ဒုတိယ အယ်လက်ဇန္ဒာ ကွယ် လွန်သော်၊ သူ၏သားတော် တတိယ အယ်လက်ဇန္ဒာက ထီးနန်းဆက်ခံသည်။

ဒုတိယ နစ်ကလတ် (ခရစ် ၁၈၆၈–၁၉၁၈)။ ဒုတိယ နစ်ကလတ်သည် ဇာဘုရင် နန်းဆက်တွင် နောက်ဆုံး စိုးစံ သော ဘုရင်ဖြစ်သည်။ ၁၈၆၈ ခုနှစ်တွင် မွေးဖွား၍၊ တတိယ အယ်လက်ဇန္ဒာ၏ သားတော်ဖြစ်သည်။ ၁၈၉၄ ခုနှစ်

အောက်တိုဘာလတွင် မင်းဖြစ်သည်။ ထိုဘုရင်ကား ပဥ္စမ နှစ်ကလတ်၏ မြစ်တော်ပင်တည်း။ ယခင် ဇာဘုရင်များ ကဲ့သို့ပင် အာဏာကို လုံးဝ လက်ဝယ်ထားလိုသည်။ သို့ ရာတွင် သနားကြင်နာစိတ် ရှိသူဖြစ်၍၊ ပြည်သူလူထုအား ရက်ရက်စက်စက် ဖိနှိပ်ချုပ်ချယ်ခြင်း မပြုချေ။ သို့ဖြစ်သော် ငြားလည်း တော်လှန်ရေးသမားများကိုကား အထူးဖိနှိပ် လေသည်။ ထို့ကြောင့် တနှစ်အတွင်း လူပေါင်း ၁၀၀,၀၀၀ ကျော်မျှကို ဆိုက်ဗီးရီးယားသို့ နယ်နှင်ဒဏ်ပေးလေသည်။ နိုင်ငံရေးနှင့် အုပ်ချုပ်ရေးတို့၌ကား အစီအမံအကွဲအကဲ ပျော့ညံ့၍၊ နှစ်ကလတ်ဘုရင်သည် မိဖုရား၏ ဩဇာလွှမ်းမိုး ခြင်းကိုသာ ခံရ၏။

၁၉၀၄–၀၅ ခုနှစ်များတွင်၊ ရုရှနှင့်ဂျပန် စစ်ဖြစ်ကြလေ သည်။ ထိုအခါ ရုရှတို့ စစ်ရေးနိမ့်၍၊ နယ်အချို့ကို ဂျပန်အား ပေးအပ်ရသည်။ ဤအတွင်း ရုရှနိုင်ငံ စစ်ဖက်နှင့် အုပ်ချုပ် ရေးဖက်၌ အကျင့်ဖောက်ပြား၍ လာဘ်စားသောအရာရှိ ဆိုးများရှိနေကြောင်း ထင်ရှားလာသည်။ ပြည်သူတို့က လည်း အစိုးရအပေါ် မကျေမနပ် ဖြစ်လာ၏။ သပိတ်များ အဓိကရုဏ်းများ ဖြစ်လာ၏။ တော်လှန်ရေးလုပ်ငန်းများ လည်း ပျံ့နှံ့လာ၏။ ထို့ကြောင့် နောက်ဆုံးတွင် ဇာဘုရင် လည်း 'ဒူးမား' ခေါ် ဥပဒေပြု လွှတ်တော်ကို ခေါ်ပေးရ သည်။သို့ရာတွင် ဇာဘုရင်သည် အမျိုးမျိုးပရိယာယ်ဆင်၍၊ မိမိကြိုးကိုင်ခံမည့်လွှတ်တော်ဖြစ်အောင် ကြိုးစားသည်။ ထို့ ကြောင့်ပင် ပြည်သူတို့သည် လုံးဝမကျေနပ်ချေ။တော်လှန် ရေးလှုပ်ရှားမှုများသည်သာလျှင်တနေ့တခြား ပြင်းထန်လာ သည်။ ဇာဘုရင်၏ အစိုးရကလည်း တော်လှန်ရေးသမား များအား ဖမ်းဆီး၊ ထောင်ချ၊ နယ်နှင်စသည်ဖြင့် အမျိုးမျိုး ဖိနှိပ်အုပ်ချုပ်လေသည်။

၁၉၁၄ ခုနှစ်တွင် ပဥ္စမ ကမ္ဘာစစ်ကြီး ဖြစ်ပွားသောအခါ၊ ရုရှသည် အင်္ဂလိပ်၊ ပြင်သစ်တို့နှင့် ပူးပေါင်း၍၊ ဂျာမနီကို တိုက်လေ၏။ ရုရှ စစ်ဗိုလ်နှင့် အရာရှိတို့၏ ညံ့ဖျင်းမှုနှင့် ဖောက်ပြန်မှုတို့ကြောင့်၊ ပဥ္စမနှစ်နှစ်တွင် ရုရှတို့သည် နေရာ တကာ၌ အရှုံးကြီးရှုံးကြသည်။ အစိုးရသည်လည်း ဒူးမား လွှတ်တော်နှင့် ပူးပေါင်းဆောင်ရွက်ခြင်း မရှိပေ။ ထိုစဉ်က ဂျာမနီနှင့်သီးခြား ငြိမ်းချမ်းရေးစာချုပ် ချုပ်ဆိုမည့်လေသံ များ ဖြစ်ပေါ်လာ၏။

သို့ဖြစ်၍ ၁၉၁၇ ခုနှစ် မတ်လတွင် တော်လှန်ရေး ယမ်း အိုးကြီးပေါက်ကွဲသဖြင့်၊ ဇာဘုရင်သည်လည်း ထီးနန်းကို စွန့်ရလေသည်။ ဇာဘုရင်၊ မိဖုရားနှင့် သားတော်သမီးတော် များအား ဗော်လရှီဗစ်ဂိုဏ်းသားတို့က ဖမ်းဆီးချုပ်နှောင် ထား၍၊ ၁၉၁၈ ခုနှစ်တွင် သုတ်သင်လိုက်လေသည်။ ဤသို့ ဖြင့် ရုရှနိုင်ငံ၌ နှစ်ပေါင်းများစွာ သက်ဦးဆံပိုင် စိုးစံခဲ့သော ဇာဘုရင်မင်းဆက်သည် ဤတွင်ပြတ်လေ၏။

**နှစ်ကယ်သတ္တု။** ။နှစ်ကယ်ကို ၁၇၅၁ ခုနှစ်မှသာ စတင် တွေ့ရှိခဲ့သဖြင့်၊ ကျွန်ုပ်တို့ အသုံးများသော သတ္တုစာရင်း တွင် နှစ်ကယ် ပါဝင်ခဲ့သည်မှာ များစွာမကြာသေးပေ။ လွန်ခဲ့သည့် နှစ်ရာပေါင်း အနည်းငယ်ခန့်က ဗိုဟီးမီးယား နယ်တွင် သတ္တုတူးသမားများသည် ကြေးနီ သတ္တုရိုင်းနှင့် အလွန်တူသော သတ္တုရိုင်းတမျိုးကို အမှတ်တမဲ့ တွေ့ရှိခဲ့ကြ ၍၊ ကြေးနီသတ္တုရိုင်းဟု အထင်မှားပြီးလျှင် ကျိုချက်ခဲ့ကြ ရာ၊ ကြေးနီမထွက်သည်ကို တွေ့ရှိခဲ့ကြသည်။ ထိုအချိန်မှ အစပြု၍ ထိုသတ္တုရိုင်းကို အလွန်ဒုက္ခပေးသော နတ်ဆိုးဟု အဓိပ္ပါယ်ရသည့် နှစ်ကယ် ဟူသော ဝေါဟာရဖြင့် မှည့်ခေါ် ခဲ့လေသည်။

နှစ်ပေါင်းများစွာ ကြာပြီးနောက်၊ ဤသတ္တုရိုင်းမှ နှစ် ကယ်သတ္တုကို ထုတ်ယူရရှိလာသောအခါ၊ ယခင်ပေးထား သည့် အမည်ဖြင့်ပင်၊ ထိုသတ္တုကို မှည့်ခေါ်ခဲ့သည်။ ယခု ကျွန်ုပ်တို့ သုံးစွဲလျက်ရှိသော နှစ်ကယ်ကို ကနေဒါနိုင်ငံ အွန်တေးရီးယိုးပြည်နယ်ရှိ ဆဒ်ဗာရီမြို့မှ ရရှိကြသည်။ ဤ သတ္တုတွင်းသည် ဘဲဥပုံသဏ္ဌာန်ရှိ၍၊ အလျား ၃၆ မိုင်၊ အနံ မိုင် ၁၀ ရှိသည်။ ထိုတွင်းကို ၁၈၈၃ ခုနှစ်၌ ကနေဒီယန် ပစိ ဖိတ် မီးရထားလမ်း ဖောက်လုပ်ခဲ့စဉ်က စတင်တွေ့ရှိခဲ့သည်။ ဤသတ္တုတွင်းကို မတွေ့ရှိမီ အချိန်အခါက၊ နှစ်ကယ်ကို ဩစတြေးလီးယားတိုက်၏ အရှေ့မြောက်ဖက် ၁၀၇၇ မိုင် အကွာရှိ နယူးကယ်လီဒိုးနီးယားကျွန်းမှ ရရှိခဲ့ကြသည်။

နှစ်ကယ်သည် အဖြူတွင် အဝါရောင် အနည်းငယ်သန်း နေသော သတ္တုဖြစ်၏။ ကိုဗော့ကဲ့သို့ သံလိုက်သတ္တိအနည်း ငယ်ရှိ၏။ နန်းဆွဲ၍ ရ၏။ အပြားရိုက်ခတ်၍လည်းရ၏။ မာ သော သတ္တုတမျိုးဖြစ်သော်လည်း၊ သံမဏိလောက် မမာ ချေ။ သို့သော် သံမဏိအပျော့စားတွင် နှစ်ကယ်ရောပေး သောအခါ၊ သံမဏိမှာ နဂိုထက် ခက်မာလာ၏။ ရိုးရိုးသံမဏိ နှင့် နှစ်ကယ်ရောထားသောသံမဏိ နှစ်မျိုးတွင်၊ ရိုးရိုးသံမဏိ သည် တန် ၁၀၀ ဖိအားကို ခံနိုင်လျှင်၊ နှစ်ကယ်ရောထား သော သံမဏိသည် နှစ်ကယ်အချိုးကိုလိုက်၍ တန် ၁၃၀ မှ ၁၈၀ အထိ ခံနိုင်၏။

နှစ်ကယ်ကို ပွတ်တိုက်ပေးသောအခါ၊ ပြောင်လက်လာ ၏။ စက်ဘီးတွင် ပြောင်လက်နေသော အစိတ်အပိုင်းများ သည် နှစ်ကယ်ရည် သုတ်ထားသော ပစ္စည်းများ ဖြစ်၏။ နှစ်ကယ်သည် ဤအစိတ်အပိုင်းများကို သစ်လွင်တောက်ပ နေစေရုံမျှ မကသေးဘဲ၊ အောက်ခံတွင်ရှိသော သံမဏိကို သံချေးမတက်အောင် ကာကွယ်ပေး၏။ ထို့ကြောင့် ဗုံဗိုင် ခေါင်းများ၊ ရေချိုးခန်းအသုံးအဆောင်များ၊ မြင်းကကြိုး တန်ဆာပလာများ စသည်တို့တွင် ပါရှိသည့် သတ္တုအစိတ် အပိုင်းများနှင့် မော်တော်ကား ပစ္စည်းများကို နှစ်ကယ်ရည် သုတ်လိမ်းပေးလေ့ရှိကြသည်။

နစ်ကယ် ရာခိုင်နှုန်း ၃၀ ပါရှိသော သံမဏိကို အင်ဗာဟုခေါ်သည်။ အင်ဗာ၏ ထူးခြားသော ဂုဏ်တရပ်မှာ သာမန်အပူချိန် ပြောင်းလဲမှုကြောင့် ကြွထခြင်းမရှိသော အချက်ပင်ဖြစ်၏။ ရှေးအခါက သုံးစွဲခဲ့သော သံပေကြိုးများသည် သတ်မှတ်ထားသည့် အပူချိန်၌သာလျှင် တိကျမှန်ကန်၏။ အပူချိန်တိုးလာသောအခါ၊ သံကြိုးသည် ဆန့်ထွက်လာ၍၊ အပူချိန် နိမ့်ကျသွားသောအခါ၊ ကျုံ့ဝင်သွားသဖြင့်၊ တိကျမှန်ကန်စွာ တိုင်းတာလိုသည့် အလုပ်များတွင် အခက်အခဲနှင့်တွေ့ခဲ့ကြရ၏။သို့သော် ယခုအခါ သံပေကြိုးများကို အင်ဗာဖြင့် ပြုလုပ်ထားသောကြောင့်၊ ဤအခက်အခဲမျိုးကို မတွေ့ကြရတော့ပေ။

နစ်ကယ်သံမဏိတွင် ကရိုမီယမ် ရောစပ် ပေးသောအခါ၊ သံချေးမတက်နိုင်သော နစ်ကယ် ကရိုမီယမ် သံမဏိကို ရသည်။ ယခုခေတ် စားပွဲသုံးဓား၊ မောင်းချဓား၊ နာရီစသော အသုံးအဆောင်များကို နစ်ကယ်ကရိုမီယမ်သံမဏိဖြင့် ပြုလုပ်လေ့ရှိကြရာ၊ ထိုသံမဏိမျိုးဖြင့် ပြုလုပ်ထားသော အသုံးအဆောင်များပေါ်တွင် အစွန်းခံ သံမဏိဟု စာတမ်းများထိုးလျက် တွေ့ကြရသည်။စစ်နှင့်ပတ်သက်၍လည်း နစ်ကယ်ကရိုမီယမ်သံမဏိကို အမြောက်ဆံများနှင့် စစ်သင်္ဘောများတွင် သံချပ်ကာများ ပြုလုပ်ရန် အသုံးပြုကြသည်။

အချို့သော တိုင်းနိုင်ငံတို့တွင် နစ်ကယ်အစစ် သို့မဟုတ် နစ်ကယ်နှင့် ကြေးနီ သတ္တုရောဖြင့် ပြုလုပ်သော ပိုက်ဆံကို အမြောက်အမြားသုံးစွဲကြသည်။ ပဌမ ကမ္ဘာစစ်ကြီး အတွင်းက ဩစတြီးယား၊ ဟန်ဂေရီ၊ ဂျာမနီနှင့် တူရကီ နိုင်ငံတို့သည် မဟာမိတ်တို့၏ ဝိုင်းဝန်းခြင်းကို ခံနေရ၍၊ အပြင်မှ နစ်ကယ်ကို မရရှိခဲ့ခြင်းကြောင့်၊ မိမိတို့တိုင်းပြည်များတွင် သုံးစွဲလျက်ရှိသည့် နစ်ကယ် ပိုက်ဆံများကို သိမ်းယူပြီးလျှင် စစ်ပစ္စည်းများ ပြုလုပ်ရန် အသုံးချခဲ့ကြရလေသည်။

**နည်းလေးဆယ်။** ။ပိဋကတ်တော်ကျမ်းဂန်များသည်အထူးထူးသောနည်းတို့ဖြင့် သိမ်မွေ့နက်နဲ၏။ ထိုသိမ်မွေ့နက်နဲကြောင်းဖြစ်သော နည်းဘို့သည် လေးဆယ်မျှ ရှိကြသည်ဟု ဆိုစမှတ် ပြုကြကုန်၏။

ပိဋကတ်အမေ်ာ ခင်ကြီးပျော် တောင်တွင်းသာသနာပိုင်ဆရာတော်ဘုရားကြီး စီရင်တော်မူခဲ့သော သဒ္ဒါကြီး ပုဒ်စစ်ကျမ်း၌ကား၊ အချုပ်အားဖြင့် နည်းငါးဆယ့်ငါးပါးပြဆိုထား၏။ အပွားနှင့်တကွရေတွက်မူ၊ ထိုထက်မက များပြား၏။ ဆရာတော် ဦးပုဏ်၏ နယမုခဒီပနီကျမ်းနှင့်အညီ ရေတွက်မူ၊ အပွားနှင့်တကွ နည်းတရာရှိ၏။ နည်းလေးဆယ်ဟုခေါ်စမှတ်ပြုသည့်အတိုင်း ခေါင်းစဉ်တပ်သော်လည်း၊ ဤ၌ကား ယခုခေတ်တွင်အသုံးပြုနေကျဖြစ်သော နည်းငါးဆယ့်ငါးပါးကိုပင် အကျဉ်းအားဖြင့် ပြဆိုပေအံ့။

၁။ အနီးကိုဆိုသဖြင့် အဝေးကိုလည်း ရသောနည်းသည် ပစ္စာသန္န နည်းမည်၏။ ပုံစံကား၊ ကာကေ ဝါရယ မစ္ဆမှာ။ ။မစ္ဆမှာ၊ ငါးမှ။ ကာကေ၊ ကျီးတို့ကို။ ဝါရယ၊ တားမြစ်လော့။ ။ဤ၌ ကာကေဟူသောနည်းသည် ကျီးတည်းဟူသော အနီးကိုဆိုသဖြင့်၊ သိန်း၊ စွန် အစရှိသော အဝေးကိုလည်း ရသောကြောင့် ပစ္စာသန္နနည်းမည်၏။

၂။ အစဉ်အတိုင်းမဆိုမူ၍ အနီးမှစ၍ဆိုသောနည်းသည် ပစ္စာသတ္တိနည်းမည်၏။ ။ပုံစံကား၊ သော ဣမံ လောကံ သ ဒေဝကံ သ မာရကံ။ ။သော၊ ထိုမြတ်စွာဘုရားသည်။ သ ဒေဝကံ၊ နတ်နှင့်တကွသော။ သ မာရကံ၊ မာရ်နှင့်တကွသော။ ဣမံလောကံ၊ ဤလောကကို။ ။ဤ၌ သမာရကံဟူသော နည်းသည် နတ်ပြည်ခြောက်ထပ်တည်းဟူသော ရသင့်တိုင်းကို မယူမူ၍၊ ဝသဝတ္တီ နတ်ပြည်တည်းဟူသော အနီးကိုသာ ယူရသောကြောင့် ပစ္စာသတ္တိနည်းမည်၏။

၃။ ပြဓာန်းသည်ကိုဆိုသဖြင့် မပြဓာန်းသည်ကိုလည်းရသောနည်းသည် ပဓာနနည်းမည်၏။ ပုံစံကား၊ ရာဇာ အာဂစ္ဆတိ။ ။ရာဇာ၊မင်းသည်။ အာဂစ္ဆတိ၊ လာ၏။ ။ဤ၌ ရာဇာဟူသောနည်းသည် မင်းတည်းဟူသောပြဓာန်းသည်ကို ဆိုသဖြင့်၊ မပြဓာန်းသော ခြွေရံပရိသတ်ကိုလည်း ရသောကြောင့် ပဓာနနည်းမည်၏။

၄။ အစိတ်ကိုမှတ်၍ဆိုသဖြင့် အပေါင်းကိုလည်းရသောနည်းသည် ဥပလက္ခဏနည်းမည်၏။ပုံစံကား၊ လဒ္ဓါတ ပတ္တော ရာဇကုမာရော။ ။လဒ္ဓါတပတ္တော၊ ရအပ်သော ထီးဖြူရှိသော။ ရာဇကုမာရော၊ မင်းသား။ ။ဤ၌လဒ္ဓါတပတ္တောဟူသောနည်းသည် ထီးဖြူတည်းဟူသောအစိတ်ကိုဆိုသဖြင့်၊ မင်းမြောက်တန်းဆာ ငါးပါးတည်းဟူသော အပေါင်းကိုလည်း ရသောကြောင့် ဥပလက္ခဏနည်းမည်၏။

၅။ အထင်ကိုဆိုသဖြင့် အလုံးစုံကိုရသောနည်းသည် နိဒဿန နည်းမည်၏။ ပုံစံကား၊ သဒ္ဓါဒေယျာနိ ဘောဇနာနိ ဘုဉ္ဇိတွာ။ ။ သဒ္ဓါဒေယျာနိ၊ သဒ္ဓါ၍လှူအပ်ကုန်သော။ ဘောဇနာနိ၊ ဘောဇဉ်တို့ကို။ ဘုဉ္ဇိတွာ၊ သုံးဆောင်ကုန်၍။ ။ ဤ၌ ဘောဇနာနိဟူသော နည်းသည် ဘောဇဉ်တည်းဟူသော အထင်ကိုဆိုသဖြင့်၊ ပစ္စည်းလေးပါး တည်းဟူသော အလုံးစုံကိုလည်း ရသောကြောင့် နိဒဿနနည်းမည်၏။

၆။ ဌာနီဖြင့် ဌာနကိုမှတ်၍ အများကိုဆိုသဖြင့် အနည်းကိုလည်းရသောနည်းသည် ယေဘုယျနည်းမည်၏။ပုံစံကား၊ ခဒိရ ဝနံ၊ ရွာစေတောတည်း။ ။ဤ၌ ခဒိရဝနံဟူသောနည်းသည် ရှားပင်တည်းဟူသောဌာနီဖြင့် တောတည်းဟူသော ဌာနကိုမှတ်၍၊ ရှားပင်တည်းဟူသော အများကိုဆိုသဖြင့်၊ ထိုတော၌ရှိသော သစ်ဆိမ့်၊ ရှစ်ရှား၊ သဖန်းခါး အစရှိသော အနည်းကိုလည်း ရသောကြောင့် ယေဘုယျနည်းမည်၏။

၇။ ဌာနဖြင့်ဌာနီကိုမှတ်၍ အများကိုဆိုသဖြင့် အနည်းကိုလည်းရသောနည်းသည် တဗ္ဗဟုလနည်းမည်၏။ ပုံစံကား၊ ဝနစရကော၊ တောဥ္ဂ လှည့်လည်တတ်သူ။ ။ဤ၌ ဝနစရကောဟူသောနည်းသည် တောတည်းဟူသောဌာနဖြင့်မုဆိုးတည်းဟူသော ဌာနီကိုမှတ်၍ တောဥ္ဂကျင်လည်ခြင်းတည်းဟူသော အများကိုဆိုသဖြင့် မွှာဥ္ဂကျင်လည်ခြင်းတည်းဟူသော အနည်းကိုလည်း ရသောကြောင့် တဗ္ဗဟုလနည်းမည်၏။

၈။ မကင်းရာကိုဆိုသဖြင့် မကင်းတတ်သည်ကိုလည်း ရသောနည်းသည် နာနန္တရိကနည်းမည်၏။ ပုံစံကား၊ ဃတတ္တိကဿ ဃဋ္ဋမာနယ။ ။ဃတတ္တိကဿ၊ ထောပတ်ကိုအလိုရှိသောသူအား။ ဃဋ္ဋံ၊ အိုးကို။အာနယ၊ ဆောင်ခဲ့လော့။ ။ဤ၌ ဃဋ္ဋဟူသောနည်းသည် အိုးတည်းဟူသောမကင်းရာကိုဆိုသဖြင့်၊ ထောပတ်တည်းဟူသော မကင်းတတ်သည်ကိုလည်းရသောကြောင့် နာနန္တရိကနည်းမည်၏။

၉။ မကင်းတတ်သည်ကိုဆိုသဖြင့် မကင်းရာကိုလည်းရသောနည်းသည် အဝိနာဘာဝနည်းမည်၏။ ပုံစံကား၊ အာတာပီ နိပကော ဘိက္ခု။ ။အာတာပီ၊ ကိလေသာကို ပူပန်စေတတ်သော။ နိပကော၊ ရင့်သော ပညာရှိသော။ ဘိက္ခု၊ ရဟန်းသည်။ ။ဤ၌ နိပကောဟူသောနည်းသည် ပညာတည်းဟူသော မကင်းတတ်သည်ကို ဆိုသဖြင့် သတိတည်းဟူသော မကင်းရာကိုလည်း ရသောကြောင့် အဝိနာဘာဝနည်းမည်၏။

၁၀။ ဆက်ဆံသဖြင့် မမှတ်မူ၍၊ မဆက်ဆံသဖြင့် မှတ်၍ဆိုသော နည်းသည် အသာဓရဏနည်းမည်၏။ ပုံစံကား၊ ဘေရိသဒ္ဒေါ၊ စည်သံ။ ။ဤ၌ကား ဘေရိသဒ္ဒေါဟူသောနည်းသည် လက်ခတ် တည်းဟူသော တူရိယာမျိုးနှင့် ဆက်ဆံသဖြင့် မမှတ်မူ၍၊ စည်ကြီး တည်းဟူသော တူရိယာမျိုးနှင့် မဆက်ဆံသဖြင့် မှတ်၍ဆိုသောကြောင့် အသာဓာရဏနည်းမည်၏။

၁၁။ တက်ရာသက်ရာ၌ သားတို့၏ ခြေရာကိုမြင်သဖြင့် ကျောက်ဖျာ၌ သားတို့၏ခြေရာကို သိရသကဲ့သို့၊ အစအဆုံးကိုဆိုသဖြင့် အလယ်ကိုလည်း သိရသောနည်းသည် မိဂ ပဒ ဝလဥ္ဇနနည်းမည်၏။ ပုံစံကား၊ ကရုဏာဝိယ သတ္တေသု ပညာ ယဿမဟေသိနော။ ။ယဿမဟေသိနော၊ အကြင်မြတ်စွာဘုရား၏။ သတ္တေသု၊ သတ္တဝါတို့၌။ ကရုဏာဝိယ၊ ကရုဏာကဲ့သို့။ ပညာ၊ ပညာသည်။ (ပဝတ္တိတ္ထ၊ ဖြစ်လေပြီ)။ ။ဤ၌ ကရုဏာပညာဟူသောနည်းသည် ကရုဏာလျှင် အကြောင်းရှိသော သီလတည်းဟူသော အစ၊ ပညာတည်းဟူသော အဆုံးကို ဆိုသဖြင့် သမာဓိ တည်းဟူသော အလယ်ကိုလည်း သိရသောကြောင့် မိဂ ပဒ ဝလဥ္ဇနနည်းမည်၏။

၁၂။ တပုဒ်တည်းဖြစ်လျက် သတ္တိပြားသဖြင့် နှစ်နက်ရကောင်းသောနည်းသည် ဘိန္နသတ္တိ သမဝေတနည်းမည်၏။ ပုံစံကား၊ သေတောဓာဝတိ။ ။သေတော၊ ဖြူသောသတ္တဝါသည်။ (ဝါ) သာ၊ ခွေးသည်။ဣတော၊ ဤအရပ်မှ။ ဓာဝတိ၊ ပြေး၏။ ။ဤ၌သေတောဟူသောနည်းသည် ဤသို့ တပုဒ်တည်းဖြစ်လျက် နှစ်နက်ရကောင်းသောကြောင့် ဘိန္နသတ္တိ သမဝေတနည်းမည်၏။

၁၃။ တပုဒ်တည်းဖြစ်လျက် အချင်းချင်းစပ်သဖြင့် များသောအနက်ကို ဟောစွမ်းနိုင်သောနည်းသည် သိလေသနည်းမည်၏။ ပုံစံကား၊ ပီဏေတိ ဇနတံ သုမီ။ ။သုမီ၊ လမင်းသည်၊ (ဝါ) မြတ်စွာဘုရားသည်။ ဇနတံ၊ သတ္တဝါအပေါင်းကို။ ပီဏေတိ၊ ပျော်စေတတ်၏။ ဤ၌ သုမီဟူသောနည်းသည် တပုဒ်တည်း ဖြစ်လျက် ဤသို့များသောအနက်ကို ဟောစွမ်းနိုင်သောကြောင့် သိလေသနည်းမည်၏။

၁၄။ ဆီမီးသည် တပြိုင်နက်အမိုက်ကို ဖျောက်ခြင်း၊ အလင်းကိုပြုခြင်း၊ ဆီကိုခန်းစေခြင်း၊ ဆီမီးစာကို ကုန်စေခြင်းကိစ္စကို ပြီးစေနိုင်သကဲ့သို့၊ တပုဒ်တည်းဖြစ်လျက် များသောအနက်ကို ဟောစွမ်းနိုင်သောနည်းသည် ပဒီပနည်းမည်၏။ ပုံစံကား၊ ဥပရျောဓိ ကိဿရဝစနေ။ ။အဓိကိဿရဝစနေ၊ လွန်သောအနက်၊ အစိုးရခြင်းဟူသော အနက်ကို ဟောသည်။ သတိ၊ ရှိသော်။ (ဝါ) အဓိ ကိဿရဝစနေ၊ လွန်သောအနက်ကို အစိုးရသော သူ ရှိ၏ ဟူသော အနက်ကို ဟောသည်။ သတိ၊ ရှိသော်။ ဤ၌ ဣဿရဟူသောနည်းသည် တပုဒ်တည်းဖြစ်လျက် ဤသို့ များသော အနက်ကို ဟောစွမ်းနိုင်သောကြောင့် ပဒီပနည်းမည်၏။

၁၅။ တခုသော ယက်ကန်းသားသည် နှစ်ထပ်သောချည်ဖြစ်သကဲ့သို့၊ တပုဒ်တည်းဖြစ်လျက် နှစ်နက်ကို ဟောစွမ်းနိုင်သောနည်းသည် တန္တနည်းမည်၏။ ။ပုံစံကား၊ ဝသ ဝါဝ။ ။ဝသ၊ ဝသဓာတ်၏၊ ဝအက္ခရာ၏။ ။ဤ၌ ဝသဟူသောနည်းသည် တပုဒ်တည်းဖြစ်လျက် ဤသို့ နှစ်နက်ကို ဟောစွမ်းနိုင်သောကြောင့် တန္တနည်းမည်၏။

၁၆။ တခုကိုချေ၍ တခုကြွင်းပြုသော နည်းသည် ဧကသေသနည်း မည်၏။ ပုံစံကား၊ ပုရိသောစ ပုရိသောစ ပုရိသာ။ ။ပုရိသောစ၊ ယောကျ်ားလည်း။ ပုရိသောစ၊ ယောကျ်ားလည်း။ ပုရိသာ၊ ယောကျ်ားတို့။ ။ဤ၌ ပုရိသာဟူသောနည်းသည် ပုရိသ သဒ္ဒါတခုကိုချေ၍ ပုရိသသဒ္ဒါတခုကြွင်း ပြုသောကြောင့် ဧကသေသနည်း မည်၏။

၁၇။ အနက်ပြားလျက် သဒ္ဒါချင်းတူသည်၏ အဖြစ်ဖြင့် တခုတည်း ညွှန်းပြသောနည်းသည် သာမည နိဒ္ဒေသနည်းမည်၏။ ပုံစံကား၊ သဟသေယျံ ကပ္ပေယျ။ ။သဟသေယျံ၊ သဟ၊ တကွ။ သေယျံ၊ တမိုးတရံတည်းသော ကျောင်းအိပ်ရာနေရာ၌ အိပ်ခြင်းကို၊ ကပ္ပေယျ၊ ပြုငြားအံ့။ ။ဤ၌

သေဃျှဟူသောနည်းသည် ဤသို့ အနက်ပြားလျက် သေဃျှ သဒ္ဒါချင်းတူသည်၏ အဖြစ်ဖြင့် တခုတည်း ညွှန်းပြသော ကြောင့် သာမညနိဒ္ဒေသနည်း မည်၏။

၁၈။ သစ်ပင်မရှိခဲ့သော် သစ်ပင်ရိပ် ပျောက်သကဲ့သို့ နိမိတ်မရှိခဲ့သော် ကာရိယ ပျောက်ရသော နည်းသည် မဟိရုဟ နည်းမည်၏။ ပုံစံကား၊ သတ္တာ တည်း။ ။ဤ၌ သတ္တာ ဟူသောနည်းသည် သိဝိဘတ်တည်းဟူသော နိမိတ် မရှိခဲ့သော် အာအပြုတည်းဟူသော ကာရိယပျောက်သော ကြောင့် မဟိရုဟနည်း မည်၏။

၁၉။ စန္ဒြကန် ကျောက်ကြောင့် ဖြစ်သောရေသည် စန္ဒြ ကန်ကျောက် မရှိသော်လည်း မပျောက်သကဲ့သို့၊ နိမိတ်မရှိ သော်လည်း၊ ကာရိယမပျောက်သောနည်းသည် စန္ဒြကန္တ နည်းမည်၏။ ပုံစံကား၊ သတ္တာတည်း။ ။ဤသတ္တာဟူ သောနည်းသည် သိဝိဘတ်တည်းဟူသော နိမိတ်မရှိသော် လည်း၊ အာအပြုတည်းဟူသော ကာရိယ မပျောက်သော ကြောင့် စန္ဒြကန္တနည်းမည်၏။

၂၀။ သူရိယကန်ကျောက်ကြောင့် ဖြစ်သော မီးသည် သူရိယကန်ကျောက် မရှိသော်လည်း မပျောက်သကဲ့သို့၊ နိမိတ် မရှိသော်လည်း ကာရိယ မပျောက်သော နည်းသည် သူရိယကန္တနည်းမည်၏။ ပုံစံကား၊ သတ္တာတည်း။ ။ဤ သတ္တာ ဟူသောနည်းသည် သိဝိဘတ်တည်းဟူသော နိမိတ် မရှိသော်လည်း၊ အာ အပြု တည်းဟူသော ကာရိယ မ ပျောက်သောကြောင့် သူရိယကန္တနည်းမည်၏။

ယခုပြဆိုခဲ့ပြီးသော နည်းသုံးမျိုး ပုံစံနှင့် အဓိပ္ပါယ်တို့ မှာ မထူးခြားသော်လည်း၊ နည်းတို့ကို ပြဆိုရာ၌ နာမည်ကွဲ ပြားသည်ကို ထောက်၍၊ သီးခြားနည်းသုံးခုအဖြစ်ဖြင့် ပြဆို ထားသည်။

၂၁။ သရက်ပင်ရင်း၌ ချိုးရေတည်းခြင်းဟူသော ကြိ ယာ တခုတည်းဖြင့် သရက်ပင်ကို ရေသွန်းခြင်း၊ ဆရာကို ရေချိုးစေခြင်းတည်းဟူသော နှစ်ကိစ္စ ပြီးသကဲ့သို့၊ တချက် တည်းပြသဖြင့် နှစ်နက်ပြီးသောနည်းသည် အမ္ဗသေစန ဂရု သိနာန နည်းမည်၏။ ပုံစံကား၊ သေသေသုစ သုတ်၏ ဥဒါ ဟရုဏ်၌ ကောပကာရောကထိတည်း။ ။ကောပကာရော၊ အဘယ်မည်သော အပြား။ ကထိ၊ အဘယ်မည်သော အ ပြား။ ။ဤ၌ ကောပကာရော ဟူသော နည်းသည် တ ချက်တည်းပြသဖြင့် သုတ်၏ဥဒါဟရုဏ်ကိစ္စ၊ ကထိဟူသော ပုဒ်၏ဝါကျကိစ္စ ဟူသော နှစ်နက်ပြီးသောကြောင့် အမ္ဗသေ စန ဂရုသိနာနနည်းမည်၏။

၂၂။ ဂေါသဒ္ဒါသည် ယှဉ်ဘက် ဗလိဗဒ္ဒသဒ္ဒါ၏အနက်ကို ချန်၍ နွားငယ်၊ နွားလတ်ဟူသောအနက်ကို ဟောသကဲ့သို့ ယှဉ်ဘက်သဒ္ဒါ၏ အနက်ကိုချန်၍ဟောသောနည်းသည်ဂေါ ဗလိဗဒ္ဒနည်းမည်၏။ ပုံစံကား၊ ဓမ္မောစ ဝိနယောစ ဒေသိ တော ပညတ္တော။ ။ဓမ္မောစ၊တရားတော်ကိုလည်း။ ဒေသိ တော၊ဟောအပ်၏။ဝိနိယောစ၊ဝိနည်းကိုလည်း။ပညတ္တော၊ ပညတ်အပ်၏။ ။ဤ၌ ဓမ္မောဟူသော နည်းသည် ဝိနည်း ပိဋကတ် တည်းဟူသော ယှဉ်ဘက်ဝိနယသဒ္ဒါ၏ အနက်ကို ချန်၍ သုတ္တန်ပိဋကတ် အဘိဓမ္မာ ပိဋကတ် တည်းဟူသော အနက်ကို ဟောသောကြောင့် ဂေါဗလိဗဒ္ဒနည်းမည်၏။

၂၃။ ပုညသဒ္ဒါသည် ယှဉ်ဘက် ဉာဏသမ္ဘာရသဒ္ဒါ၏ အ နက်ကိုချန်၍ ဉာဏ်၏အဆောက်အဦမှတပါး ကောင်းမှုကို သာဟောသကဲ့သို့၊ ယှဉ်ဘက်သဒ္ဒါ၏အနက်ကို ချန်၍ဟော သောနည်းသည် ပုညဉာဏသမ္ဘာရနည်းမည်၏။ ပုံစံကား၊ ဓမ္မောစ ဝိနယောစ ဒေသိတော ပညတ္တောတည်း။ ။ဤ၌ ဓမ္မောဟူသောနည်းသည် ဝိနည်း ပိဋကတ်တည်းဟူသော ယှဉ်ဘက် ဝိနယသဒ္ဒါ၏ အနက်ကိုချန်၍ သုတ္တန်ပိဋကတ် အဘိဓမ္မာပိဋကတ်ကိုသာ ဟောသောကြောင့် ပုညဉာဏ သမ္ဘာရနည်းမည်၏။

၂၄။ လိုက်သဖြင့် သိအပ်သော အနက်ရှိသော နည်း သည် အဓိကာရနည်းမည်၏။ ပုံစံကား၊ ပုဗ္ဗောစတည်း။ ။ ဤ၌ ပုဗ္ဗောစဟူသောနည်းသည်၊ ပုဗ္ဗောစ၊ ရှေ့သရသည် လည်း။ ဒီဃံ၊ ဒီဃအဖြစ်သို့။ ပပ္ပေါတိ၊ ရောက်၏။ ဤသို့ ဒီဃသဒ္ဒါ လိုက်သဖြင့် သိအပ်သောအနက်ရှိသောကြောင့် အဓိကာရနည်းမည်၏။

၂၅။ လည်၍ယူအပ်သဖြင့် သိအပ်သောနည်းသည် အာ ဝုတ္တိနည်းမည်၏။ ပုံစံကား၊ ပုဗ္ဗောစတည်း။ ။ဤ၌ ပုဗ္ဗောစ ဟူသောနည်းသည်၊ ပုဗ္ဗောစ၊ ရှေ့သရသည်လည်း။ ဒီဃံ၊ဒီဃအဖြစ်သို့။ ပပ္ပေါတိ၊ ရောက်၏။ ဤသို့ ဒီဃသဒ္ဒါ ကိုလည်၍ ယူအပ်သဖြင့် သိအပ်သော အနက် ရှိသော ကြောင့် အာဝုတ္တိ နည်းမည်၏။

၂၆။ ဝဲသည် အထပ်ထပ်လည်သကဲ့သို့ ရုပ်တခု၌များစွာ သောသုတ်တို့ဖြင့် စီရင်ရသောနည်းသည် အာဝဋ္ဋနည်းမည် ၏။ ပုံစံကား၊ ပုရိသောတည်း။ ။ဤ၌ပုရိသောဟူသော နည်းသည် ရုပ်တခု၌ သော၊ သရလောပေါ အစရှိသော များစွာသောသုတ်တို့ဖြင့် စီရင်ရသောကြောင့် အာဝဋ္ဋနည်း မည်၏။

၂၇။ တလှေဖြင့် တင်သောဝန်ကို တလှေဖြင့်၊ တလှည်း ဖြင့်တင်သောဝန်ကိုတလှည်းဖြင့် တင်ဆောင်သကဲ့သို့၊ ရုပ် တခု၌ များစွာသော သုတ်တို့ဖြင့် စီရင်သောနည်းသည် နာဝါ သကဋ္ဋနည်းမည်၏။ ပုံစံကား၊ ပုရိသောတည်း။ ဤ၌ ပုရိသောဟူသော နည်းသည် ရုပ်တခု၌ သော၊ သရ လောပေါ အစရှိသော များစွာသော သုတ်တို့ဖြင့် စီရင်ရ သောကြောင့် နာဝါသကဋ္ဋနည်းမည်၏။

၂၈။ အရေအတွက်အားလျော်စွာ ယူရသော နည်းသည် ယထာ သင်္ချ နည်း မည်၏။ ပုံစံကား၊ ဣဝဏ္ဏု ဝဏ္ဏာ

ဈ္ဇလာ။ ။ဣလာဏ္ဏုဝဏ္ဏာ၊ ဣဝဏ်ဉဝဏ်ဘိုသည်။ ဈ္ဇလာ၊ ဈ္ဇ အမည် လအမည်ရှိကုန်၏။ ။ဤ၌ ဣဝဏ္ဏု ဝဏ္ဏာဟူသော နည်းသည် ဣဝဏ်သည် ဈ္ဇမည်၏။ ဉဝဏ်သည် လမည် ၏ဟု အရေအတွက်အား လျော်စွာ ယူရသောကြောင့် ယထာသင်္ချ နည်းမည်၏။

၂၉။ ထိုယထာသင်္ချ နည်းသည်ပင် အစဉ်အတိုင်း ယူရ သောကြောင့် ယထာက္ကမနည်း မည်၏။

၃၀။ ရသင့်သည်အား လျော်စွာ ယူရသောနည်းသည် ယထာလာဘနည်းမည်၏။ ပုံစံကား၊ သက္ခရ ကထလိကမ္ပိ မစ္ဆာဂုမ္ဗမ္ပိ တိဋ္ဌန္တမ္ပိ စရန္တမ္ပိ ပဿတိ။ ။သက္ခရကထလိကမ္ပိ၊ ကျောက်စရစ်အိုးခြမ်းကိုရင်း။မစ္ဆာဂုမ္ဗမ္ပိ၊ ငါးလိပ်အပေါင်းကို ရင်း။တိဋ္ဌန္တမ္ပိ၊ ရပ်သည်ကိုရင်း။ စရန္တမ္ပိ၊သွားသည်ကိုရင်း။ ပဿတိ၊ မြင်၏။ ။ဤ၌ သက္ခရကထလိကမ္ပိ အစရှိသော နည်းသည် ကျောက်စရစ်အိုးခြမ်း ရပ်သည်ကို မြင်၏။ ငါး လိပ် ရပ်သည်ကိုရင်း၊ သွားသည်ကိုရင်း မြင်၏ဟု ရသင့် သည် အားလျော်စွာ ယူရသောကြောင့် ယထာလာဘ နည်း မည်၏။

၃၁။ တခုတည်း၌တည်လျက် အလုံးစုံသော ဝါကျအား ကျေးဇူးပြုတတ်သောနည်းသည်ဒီပကနည်းမည်၏။ပုံစံကား အကာသိ အတ္တနော အတ္ထံ၊ ပရတ္ထမ္ပိစ သော ဇိနော။ ။ သောဇိနော၊ ထိုမြတ်စွာဘုရားသည်။ အတ္တနော၊ ကိုယ် တော်၏။ အတ္ထံ၊ အကျိုးစီးပွားကို။ အကာသိ၊ ပြုတော်မူ ၏။ ပရတ္ထမ္ပိစ၊သူတပါးတို့၏ အကျိုးစီးပွားကိုလည်း။အကာ သိ၊ ပြုတော်မူ၏။ ။ဤ၌ အကာသိဟူသောနည်းသည် တခုတည်း၌တည်လျက် အလုံးစုံသော ဝါကျအား ကျေးဇူး ပြုတတ်သောကြောင့် ဒီပကနည်းမည်၏။

၃၂။ ဆိုခဲ့ပြီးသည်မှရင်း၊ ဆိုလတ္တံ့သည်မှရင်း အကြွင်း ကိုယူရသောနည်းသည် ပါရိသေသ နည်းမည်၏။ ပုံစံကား၊ သော ဣမံလောကံ သ ဒေဝကံ သ မာရကံတည်း။ (အနက် ပေးခဲ့ပြီ။) ဤ၌ သဒေဝကံဟူသောနည်းသည် ဆိုလတ္တံ့ သော ဝသဝတ္တိနတ်ပြည်မှ အကြွင်းဖြစ်သော နတ်ပြည်ငါး ထပ်ကိုယူရသောကြောင့် ပါရိသေသနည်းမည်၏။

၃၃။ ယဉ်သောနွားဖြင့် ရိုင်းသောနွားကို ဖမ်းသကဲ့သို့ ထင်သဖြင့် မထင်သည်ကိုသိစေသော နည်းသည် ဂေါဂဏှ နည်းမည်၏။ ပုံစံကား၊ သေဋ္ဌန္တိ ပသတ္ထတရံ။ ။သေ ဋ္ဌန္တိ၊ သေဋ္ဌံဟူသည်ကား။ ပသတ္ထတရံ၊ အထူးသဖြင့် ချီးမွမ်း အပ်သည်တည်း။ ။ဤ၌ ပသတ္ထတရံ ဟူသောနည်းသည် ထင်သော တရပစ္စည်းဖြင့် မထင်သော ဣဋ္ဌ ပစ္စည်းကို သိ စေဘတ်သောကြောင့် ဂေါဂဏှနည်းမည်၏။

၃၄။ ကျီးသည် မျက်စိတဖက်ဖြင့် အစာနှင့်ရန်သူ နှစ်ပါး ကိုကြည့်သကဲ့သို့၊ နှစ်ပုဒ်ကို ငဲ့သော နည်းသည် ကာကော လောကန နည်းမည်၏။ ပုံစံကား၊ ရညော ပဟိတော ဒူ တော။ ။ရညော၊ မင်းသည်။ ပဟိတော၊ စေလွှတ်အပ် သော။ ဒူတော၊ တမန်။ တနည်း၊ ပဟိတော၊ စေလွှတ်အပ် သော။ ရညော၊မင်း၏။ ဒူတော၊ တမန်။ ။ဤ၌ ရညော ဟူသော နည်းသည် ဤသို့ပဟိတောနှင့် ဒူတော ဟူသော နှစ်ပုဒ်ကို ငဲ့သောကြောင့် ကာကော လောကန နည်း မည်၏။

၃၅။ ငှက်သည် သစ်ပင်သို့ အလိုလိုကပ်သကဲ့သို့ သုတ် ဖြင့်မကပ်ဘဲ အလိုလိုကပ်သောနည်းသည် ရုက္ခသကုဏနည်း မည်၏။ ပုံစံကား၊ အဂ္ဂိ တည်း။ ဤ၌ အံမောနိဂ္ဂဟိတံဈလ ပေဟိ ဟူသောသုတ်ဖြင့် ပြုအပ်သော နိဂ္ဂဟိတ်သည် သုတ် ဖြင့်မကပ်ဘဲ ရှေ့သရသို့ အလိုလိုကပ်သောကြောင့် ရုက္ခ သကုဏနည်းမည်၏။

၃၆။ ဆင်စွယ်ကိုဖြတ်သကဲ့သို့ သံဝဏ္ဏေတဗ္ဗပုဒ်ကို ဖြတ် ၍ထားသောနည်းသည် ဒန္တစ္ဆေဒနနည်းမည်၏။ ပုံစံကား၊ ဝစနတ္ထောစ သော ဝရောစာတိ ဝစနတ္ထဝရော။ ။ဝစ နတ္ထောစ၊ ပါဠိတော်၏ အနက်သည်လည်း။ သော၊ ထိုပါဠိ တော်၏ အနက်ဟူသည်။ ဝရောစ၊ မြတ်သည်လည်း။(ဟော တိ၊ ဖြစ်၏။)ဣတိ၊ ထိုကြောင့်။ ဝစနတ္ထဝရော၊ ဝစနတ္ထဝရ မည်၏။ ။ဤ၌ဝစနတ္ထဝရောဟူသောနည်းသည် ဝစနတ္ထ ဝရံဟူသော သံဝဏ္ဏေတဗ္ဗပုဒ်ကို ဖြတ်၍ ထားသောကြောင့် ဒန္တစ္ဆေဒန နည်းမည်၏။

၃၇။ ဆင်စွယ်ကို တဖန်ပွတ်ပြန်သကဲ့သို့ သံဝဏ္ဏေတဗ္ဗအ တိုင်း တဖန်ထားပြန်သောနည်းသည် ဒန္တသောဓနနည်းမည် ၏။ ပုံစံကား၊ တံ ဝစနတ္ထ ဝရံတည်း။ ။ဤ၌ဝစနတ္ထဝရံ ဟူသောနည်းသည် ဝစနတ္ထဝရံဟူသော သံဝဏ္ဏေတဗ္ဗပုဒ်အ တိုင်း တဖန်ပြန်၍ထားပြန်သောကြောင့် ဒန္တသောဓနနည်း မည်၏။

၃၈။ မြွေသည် အရေသစ်ကို ရသဖြင့် အရေဟောင်းကို စွန့်သကဲ့သို့ အနက်သစ်ကိုဟောသဖြင့် အနက်ဟောင်းကို စွန့်သောနည်းသည် တစောသဇ္ဇနည်း မည်၏။ ပုံစံကား၊ ရညော ပုတ္တော ရာဇပုတ္တော။ ။ ရညော၊မင်း၏။ ပုတ္တော၊ သားတည်း။ ရာဇပုတ္တော၊ မင်း၏သား။ ။ဤ၌ရာဇပုတ္တော ဟူသော နည်းသည် သမာသ်၌ သား ဒြဗ်တည်းဟူသော အနက်သစ်ကို ဟောသဖြင့် မင်းဒြဗ်တည်းဟူသော အနက် ဟောင်းကိုစွန့်သောကြောင့် တစောသဇ္ဇနည်းမည်၏။

၃၉။ တအိမ်၌ရသော ဆွမ်း၌ ထပ်၍တအိမ်၌ဆွမ်းကို ခံ သကဲ့သို့ အနက်ဟောင်း၌ ထပ်၍ အနက်သစ်ကိုဟောသော နည်းသည် ဘိက္ခာစရိယနည်း မည်၏။ ပုံစံကား၊ ရညော ပုတ္တော ရာဇပုတ္တောတည်း။ ။ဤ၌ ရာဇပုတ္တောဟူသော နည်းသည် မင်းဒြဗ်၏ သားဒြဗ်နှင့် စပ်ခြင်းတည်းဟူသော အနက်ဟောင်း၌ထပ်၍ သားဒြဗ်တည်းဟူသော အနက်သစ် ကိုဟောသောကြောင့် ဘိက္ခာစရိယနည်းမည်၏။

၄၀။ ရသင့်ရတိုင်းကို မယူမူ၍ အလွန်ကိုသာယူရသော နည်းသည် အတိသယနည်းမည်၏။ ပုံစံကား၊ အဘိရူပဿ ကညာ ဒါတဗ္ဗာ။ ။အဘိရူပဿ၊ အလွန်အဆင်းလှသော သူအား။ ကညာ၊ သတို့သမီးကို။ ဒါတဗ္ဗာ၊ပေးအပ်၏။ ။ ဤ၌ အဘိရူပဿ ဟူသောနည်းသည် အဆင်းလှသော ယောကျ်ားတည်းဟူသော ရသင့်တိုင်းကို မယူမူ၍ အဆင်း လှသော ယောကျ်ားအပေါင်းတို့တွင် အထူးသဖြင့် အဆင်း လှသော ယောကျ်ားတည်း ဟူသော အလွန်ကိုသာ ယူရ သောကြောင့် အတိသယနည်းမည်၏။

၄၁။ သစ်ပင်တက်ရာ၌ အထက်အောက် ခေါ်ဝေါ်သကဲ့ သို့ အထက်အောက် မရကောင်းသော အနက်၌ အထက် အောက် ခေါ်ဝေါ်သောနည်းသည် ရုက္ခာရုဠှနည်းမည်၏။ ပုံစံကား၊ အဓောဋ္ဌိတံ၊ အောက်၌တည်သော ဗျည်း။ ။ ဤ၌ အဓောဋ္ဌိတံ ဟူသော နည်းသည် အထက်အောက် မရကောင်းသောဗျည်းဟူသော အနက်၌ အထက်အောက် ဟူ၍ခေါ်ဝေါ်သောကြောင့် ရုက္ခာရုဠှနည်းမည်၏။

၄၂။ ခရီးသွားရာ၌ ရောက်ပြီးသည်ကို နောက်၊ မရောက် သေးသည်ကိုရှေ့ခေါ်ဝေါ်သကဲ့သို့ရှေ့ခေါ်ဝေါ်မြဲအတိတ်ကို နောက်၊ နောက်ခေါ်ဝေါ်မြဲ အနာဂတ်ကိုရှေ့ ခေါ်ဝေါ် သောနည်းသည်မဂ္ဂဂမနည်းမည်၏။ပုံစံကား၊ပုရေ အဓမ္မော ဒိပ္ပတိ။ ။အဓမ္မော၊ မသူတော်တရားသည်။ ပုရေဒိပ္ပတိ၊ မတောပက်မီ။ တနည်း၊ ပုရေဒိပ္ပတိ၊ တောက်ပမည်လည်း မသိ။ တနည်း၊ ပုရေ၊ ရှေ့၌။ ဒိပ္ပတိ၊ တောက်ပလတ္တံ့ ။ ။ ဤ၌ဤသုံးပါးသောအနက်တို့တွင် နောက်အနက်၌ အနာ ဂတ်ကိုရှေ့ဟုခေါ်ဝေါ်သောကြောင့် မဂ္ဂဂမနည်းမည်၏။

၄၃။ မဆိုသော်လည်း လိုအပ်သောအနက် ပြီးသော နည်းသည် အဝုတ္တသိဒ္ဓိနည်းမည်၏။ ပုံစံကား၊ ပဿေယျ တံ ဝဿသတံ အရောဂံ။ ။ဝဿသတံ၊ အနှစ်တရာပတ်လုံး။ အရောဂံ၊ အနာရောဂါကင်းသော။ တံ၊ သင့်ကို။ ပဿေယျ၊ ပဿေယျံ၊ မြင်ရလို၏။ ။ဤ၌ ပဿေယျ တံ ဝဿသတံအ ရောဂံဟူသောနည်းသည် သင်အနှစ်တရာ အနာကင်းသည့် အဖြစ်ကိုငါမြင်လို၏ဟုဆိုသဖြင့်မဆိုသော်လည်း ငါအသက် တရာရှည်လို၏ဟူသော လိုအပ်သောအနက်သည် ပြီးသော ကြောင့် အဝုတ္တသိဒ္ဓိနည်းမည်၏။

၄၄။ မကင်းရာသည်ဖြစ်၍ အနက် ရောက်သောအားဖြင့် ယူအပ်သောနည်းသည် အတ္ထာပန္နနည်းမည်၏။ ပုံစံကား၊ ဒေဝဒတ္တော ဒိဝါ နဘုဉ္ဇတေ ထူလော။ ။ဒေဝဒတ္တော၊ဒေဝ ဒတ်သည်။ဒိဝါ၊ နေ့အခါ၌။ နဘုဉ္ဇတေ၊ မစားဘဲ။ ထူလော၊ ဆူဖြိုး၏။ ။ဤ၌ ဒေဝဒတ္တော ဒိဝါ နဘုဉ္ဇတေ ထူလော ဟူသောနည်းသည် အစာ၌ မကင်းရာသည်ဖြစ်၍ ညဉ့်၌ စား၏ဟု အနက်ရောက်သောအားဖြင့် ယူရသောကြောင့် အတ္ထာပန္န နည်းမည်၏။

၄၅။ ပြန်သောအားဖြင့်ယူရသောနည်းသည် ဗျတိရေက နည်းမည်၏။ ပုံစံကား၊ ဟိယျတ္တနီ သတ္တမီ ပဉ္စမီ ဝတ္တမာနာ သဗ္ဗဓာတုကံတည်း။ ။ဤဟိယျတ္တနီ သတ္တမီ ပဉ္စမီ ဝတ္တမာ နာသဗ္ဗဓာတုကံဟူသော နည်းသည် ပရောက္ခာ၊ အဇ္ဇတနီ၊ ဘဝိဿန္တိ၊ ကာလာတိပတ္တိဝိဘတ်တို့သည် အသဗ္ဗဓာတ်မည် ကုန်၏ဟု ပြန်သောအားဖြင့် ယူရသောကြောင့် ဗျတိရေက နည်းမည်၏။

၄၆။ တိုက်ရိုက်ဆိုတိုင်း ယူအပ်သောအနက်ရှိသောနည်း သည် နီတတ္ထနည်းမည်၏။ပုံစံကား၊ပါဏော နဟန္တဗ္ဗော။ ။ ပါဏော၊ သတ္တဝါကို။ နဟန္တဗ္ဗော၊ မသတ်အပ်။ ။ဤ၌ ပါဏော နဟန္တဗ္ဗောဟူသော နည်းသည် သတ္တဝါတဦးတ ယောက်ကိုမျှ မသတ်အပ်ဟု တိုက်ရိုက်ဆိုတိုင်း ယူအပ်သော ကြောင့် နီတတ္ထနည်းမည်၏။

၄၇။ ဆောင်၍ ယူအပ်သော အနက်ရှိသော နည်းသည် နေယျတ္ထနည်းမည်၏။ပုံစံကား၊သဗ္ဗေ တသန္တိ ဒဏ္ဍဿ။ ။ သဗ္ဗေ၊ အလုံးစုံသောသူတို့သည်။ ဒဏ္ဍဿ၊ ဒဏ်မှ။ တသန္တိ၊ လန့်ကုန်၏။ ။ဤ၌ သဗ္ဗေ တသန္တိ ဒဏ္ဍဿဟူသောနည်း သည် အနာဂါမ် ရဟန္တာပုဂ္ဂိုလ်ကိုထား၍ ခပ်သိမ်းသော သတ္တဝါတို့သည် ဒဏ်မှလန့်ကုန်၏ဟု ဆောင်၍ ယူအပ်သော အနက်ရှိသောကြောင့် နေယျတ္ထနည်းမည်၏။

၄၈။ ဝါကျအနက်သို့ အစဉ်လိုက်တတ်သော အနက်၌ ခေါ်ဝေါ်အပ်သော နည်းသည် အန္ဝတ္ထနည်းမည်၏။ ပုံစံ ကား၊ ဂစ္ဆတီတိ ဂေါ။ ။ဂစ္ဆတိ၊ သွားတတ်၏။ ဣတိ၊ ထို ကြောင့်။ ဂေါ၊ ဂေါမည်၏။ ။ဤ၌ ဂေါဟူသောနည်း သည် သွားတတ်၏ဟူသောဝါကျအနက်သို့ အစဉ်လိုက်တတ် သော နွားဟူသောအနက်၌ ခေါ်ဝေါ်အပ်သောကြောင့် အန္ဝတ္ထနည်းမည်၏။

၄၉။ ထို၌ထင်သောနည်းဖြင့် ဤ၌ ခေါ်ဝေါ်အပ်သော နည်းသည် ရုဠှီနည်းမည်၏။ ပုံစံကား၊ ရူပါဒီသု သဇ္ဇတီတိ သတ္တော။ ။ရူပါဒီသု၊ ရုပ်စသည်တို့၌။ သဇ္ဇတိ၊ ကပ်ငြိ တတ်၏။ ဣတိ၊ ထိုကြောင့်။ သတ္တော၊ သတ္တမည်၏။ ။ ဤသတ္တောဟူသောနည်းသည် ဆန္ဒရာဂရှိသောပုဂ္ဂိုလ်တည်း ဟူသော ထို၌ထင်သောအားဖြင့် ဆန္ဒရာဂကင်းသောပုဂ္ဂိုလ် တည်းဟူသော ဤ၌ ခေါ်ဝေါ်အပ်သောကြောင့် ရုဠှီနည်း မည်၏။

၅၀။ ရှေး၌ဖြစ်ဘူးသော အလားအားဖြင့် ထို၌ခေါ်ဝေါ် အပ်သောနည်းသည် ဘူတပုဗ္ဗဂတိကနည်းမည်၏။ ပုံစံကား၊ ရူပါဒီသု သဇ္ဇတီတိ သတ္တောတည်း။ (အနက်ပေးခဲ့ပြီ)။ဤ ၌သတ္တောဟူသောနည်းသည် တပ်ခြင်းဟူသော ရှေး၌ဖြစ် ဘူးသောအလားအားဖြင့် ဆန္ဒရာဂကင်းသော ပုဂ္ဂိုလ်တည်း ဟူသောထို၌ ခေါ်ဝေါ်အပ်သောကြောင့် ဘူတပုဗ္ဗဂတိက နည်းမည်၏။

၅၁။ ပြီးပြီးလျှက် အလွန်အားဖြင့် ဆိုအပ်သောနည်းသည် ဥက္ကဋ္ဌနည်းမည်၏။ ပုံစံကား၊ ကေပ္ပါဒ နိရေစာစ ကောလမ္ဗကာ ဝတ္ထုကာ။ ။(ဓမ္မာ၊ စေတသိတ်တို့သည်) ကေပ္ပါဒနိရောခာစ၊ စိတ်နှင့် တကွဖြစ်ခြင်း တကွချုပ်ခြင်းလည်း ရှိကုန်၏။ ကောလမ္ဗဏဝတ္ထုကာစ၊ တူသောအာရုံ တူသောဝတ္ထုလည်း ရှိကုန်၏။ ။ဤ၌ ကေဝတ္ထုကာ ဟူသော နည်းသည် ကေပ္ပါဒနိရောစ ကောလမ္ဗဏ ဟူ၍ ဆိုက စိတ်နှင့်ယှဉ်သည် အဖြစ်သည် ပြီးပြီးလျှက် အလွန်အားဖြင့် ဆိုအပ်သောကြောင့် ဥက္ကဋ္ဌနည်းမည်၏။

၅၂။ အပြားမဲ့အားဖြင့်ဆိုအပ်သောနည်းသည် အဘေဒနည်းမည်၏။ ပုံစံကား၊ သဗ္ဗော ဂါမော အာဂတော။ ။ သဗ္ဗော၊ အလုံးစုံသော။ ဂါမော၊ ရွာသည်။ အာဂတော၊ လာ၏။ ။ဤ၌ သဗ္ဗော ဂါမော ဟူသော နည်းသည် ရွာနှင့် ရွာနေလူကို အပြားမဲ့အားဖြင့် ဆိုအပ်သောကြောင့် အဘေဒနည်းမည်၏။

၅၃။ တစိတ်အားဖြင့်ခေါ်ဝေါ်အပ်သောနည်းသည်ကေဒေသ ဝေါဟာရနည်းမည်၏။ ပုံစံကား၊ ဒတ္တော တည်း။ ။ ဒတ္တော၊ ဒေဝဒတ်။ ။ဤ၌ ဒတ္တောဟူသော နည်းသည် ဒေဝဒတ်ဟူသော အမည်ကို တစိတ်အားဖြင့် ခေါ်ဝေါ်အပ်သောကြောင့် ကေဒေသ ဝေါဟာရနည်း မည်၏။

၅၄။ အက္ခရာလာခြင်း အစရှိသည်ကို စီရင်သော နည်းသည် နိရုတ္တိနည်းမည်၏။ ပုံစံကား၊ နက္ခတ္တရာဇာရိဝ တာရကာနံ။ ။တာရကာနံ၊ ကြယ်တို့အား။ နက္ခတ္တရာဇာဣဝ၊ လမင်းကဲ့သို့တည်း။ ။ဤ၌ နက္ခတ္တ ရာဇာရိဝ ဟူသော နည်းသည် ရ အက္ခရာလာ၍ စီရင်သောကြောင့် နိရုတ္တိနည်းမည်၏။

၅၅။ လိင်အစရှိသည်ကို ပြန်သောနည်းသည် ဝိပလ္လာသနည်းမည်၏။ ပုံစံကား၊ သိဝိပုတ္တာနိ အဝှယ။ ။သိဝိပုတ္တာနိ၊ သိဝိသားတို့ကို။ အဝှယ၊ ခေါ်လော့။ ။ဤ၌ ပုတ္တာနိဟူသောနည်းသည် ပုတ္တေဟုဆိုအပ်သော ပုလ္လိင်ကို နပုံးလိင်အားဖြင့် ပုတ္တာနိဟု ပြန်သောကြောင့် ဝိပလ္လာသနည်းမည်၏။

(ဤနည်းတို့နှင့် စပ်လျဉ်း၍ အကျယ် သိလိုသူတို့သည် သဒ္ဒါကြီး ပုဒ်စစ်စုံကျမ်းလာ နည်းစစ်တွင် — ရှုလေ။)

ဆရာဥာဏ်

နတ်။ ။နတ်ဆိုသည်မှာ သတ္တဝါတို့ ကိုးကွယ် အားထားရာ ပုဂ္ဂိုလ်ကို ဆိုသည်။ ဝေါဟာရလီနတ္ထဒီပနီကျမ်း၌ 'ငါတို့မြန်မာမှာ နာထသဒ္ဒါကိုရည်၍နတ်ခေါ်ဝေါ်သည်ယူရမည်။ ထိုနာထသဒ္ဒါကား ကိုးကွယ်ရာ အနက်ရသည် မှတ်ရမည်'ဟု အဆိုရှိသည်။ ယင်းနတ်သည်လည်း—

(၁) ဝိသုဒ္ဓိနတ်။ ။ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ရဟန္တာများ၊

(၂) ဥပပတ္တိနတ်။ ။နတ်ပြည်၊ ဗြဟ္မာပြည်၌ ဖြစ်သော နတ်ဗြဟ္မာများ၊

(၃) သမ္မုတိနတ်။ ။မင်း၊ မိဖုရား၊ သားတော်၊ သမီးတော်များ၊

ဟူ၍ သုံးမျိုးဖြစ်သည်။ ယင်းသုံးမျိုးတို့တွင် ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ ရဟန္တာများကို နတ်ဆိုသည်မှာ၊ ပစ္စုပ္ပန်ဘဝနှင့် တမလွန်ဘဝအတွက် စီးပွားချမ်းသာ ဖြစ်ထွန်းစေရန်ငှ‌င်း၊ ဘေးဥပဒ် အန္တရာယ်တို့ကို ကာကွယ်စေရန်ငှ‌င်း၊ သတ္တဝါတို့ ကိုးကွယ်အားထားရာဖြစ်၍ ဆိုသည်။ (ဘုရား — ရှု။)

နတ်ပြည်၊ ဗြဟ္မာပြည်၌ ဖြစ်သော နတ်ဗြဟ္မာများကို နတ်ဆိုသည်မှာ၊ အချို့လူတို့အယူအဆအားဖြင့် ပစ္စုန်ပ္ပန်ဘဝအတွက် စီးပွားချမ်းသာ ဖြစ်ထွန်းစေရန်ငှ‌င်း၊ ဘေးဥပဒ် အန္တရာယ်ဘို့ကို ကာကွယ်စေရန် (ဝါ) မပြုလုပ်စေရန်ငှ‌င်း သတ္တဝါတို့ ကိုးကွယ်အားထားရာ ဖြစ်၍ဆိုသည်။

အထူးအားဖြင့် နတ်ဆိုသော စကား၌၊ "သတ္ထာဒေဝမနုဿာနံ" စသောပါဠိတို့၌ ဒေဝ-အရ၊ နတ်နှင့်ဗြဟ္မာကိုယူရသကဲ့သို့၊နတ်နှင့်ဗြဟ္မာကို ယူရသောကြောင့် ဗြဟ္မာကိုထည့်သွင်း၍ပြသည်။

(တနည်း) နတ်ဆိုသော စကားအရ၊ အကျဉ်းအားဖြင့် ရေတွက်သော်၊ ပိဋကတ်တော်ကျမ်း၌ ပါရှိသော နတ်များကား၊ နတ်ပြည်ခြောက်ထပ်ရှိ နတ်များ၊ ဗြဟ္မာဘုံနှစ်ဆယ်ရှိ ဗြဟ္မာများ၊ သုတ်မဟာဝါပါဠိတော် မဟာသမယသုတ်၌ ပါရှိသော နတ်များ၊ သုတ်ပါထေယျပါဠိတော် အာဋာနာဋိယသုတ်၌ ပါရှိသောနတ်များ၊ ဘုမဇိုဝ်၊ ရုက္ခဇိုဝ်၊ အာကာသဇိုဝ်နတ်များ စသည်တို့ ဖြစ်သည်။

(တနည်း) လောကုတ္တရာဘက်ဆိုင်ရာ ပိဋကတ်တော်ကျမ်းများ၌ ပါရှိသောနတ်များ၊ လောကီဘက်ဆိုင်ရာ ကျမ်းများ၊ ရာဇဝင်၊ မဟာဝင်၊ သာသနာဝင် စသော ကျမ်းများ၌ ပါရှိသော နတ်များ၊ ရှေးစာဟောင်း စာတမ်းများ၌ပါရှိသော နတ်များ၊ လူတို့မိရိုးဘလာ၊ အယူအဆ စိတ်ဆန္ဒအလျောက် ကိုးကွယ်အားထားကြသော နတ်များနှင့် ထိုထိုအရပ်ဒေသတို့၌ ကိုးကွယ်ကြသော နတ်များကို ထည့်သွင်းရေတွက်လျှင် အလွန်များပြားလှသည်။

ထိုသို့ များပြားသော်လည်း ပြည်ထောင်စု မြန်မာ နိုင်ငံတော် ဗလိနတ်စာ ပူဇော်နည်း စာအုပ်တွင် ပါရှိသောနတ်များစာရင်းကို အဓိကထား၍ ပြဆိုပါမည်။

ထိုစာအုပ်တွင် ပါရှိသော နတ်များ စာရင်းကား၊ ၁၂၁၈ ခုနှစ် တပို့တွဲလဆန်း ၈ ရက် တနင်္ဂနွေနေ့၊ မန္တလေး ရတနာပုံ ပဌမမြို့တည် နန်းတည်အခါတော်၊ တောခုတ်အခါတော်မှစ၍၊ ပနက်စိုက်ထူအခါတော်၊ မြေသနစ် အခါတော်၊ တိုင်ထူအခါတော်၊ အုတ်မြစ်စီခင်း အခါတော်၊ နန်းသိမ်းအခါတော်တို့၌ တင်ကြား ပသပူဇော်ရန် ဒီပဲယင်း ဆရာ

တော်၊ စံကျောင်းဆရာတော် စသော တံဆိပ်တော်ရ ဆရာတော်ကြီး ရှစ်ပါးနှင့် သတိုးမင်းကြီး မဟာမင်းလှကျော်သူ ပုခန်းမြို့စားဝန်ကြီး၊ သတိုးမင်းကြီး မဟာမင်းလှ စည်သူ စသော လူပညာရှိ ပုဂ္ဂိုလ်ကြီး တဆဲ့သုံးဦး စီမံထားသော မန္တလေးရွှေမြို့တော်တည် စာတမ်းလာစာရင်း ဖြစ်ပါသည်။

အထူးအားဖြင့် နတ်များ စာရင်းကို ပြဆိုရာ၌ ၃၇ မင်းနှင့် ဆက်စပ်နေသဖြင့်၊ သုတ်ပါထေယျ ပါဠိတော် အာဋာနာဋိယသုတ်တွင် ပါရှိသော နတ်စစ်သူကြီး ၃၇ ပါး စာရင်းကို ထည့်သွင်း ပြဆိုပါမည်။

## နတ်စစ်သူကြီး ၃၇ ပါး

(၁) ဣန္ဒ
(၂) သောမ
(၃) ဝရုဏ
(၄) ဘာရဒွါဇ
(၅) ပဇာပတိ
(၆) စန္ဒန
(၇) ကာမသေဋ္ဌ
(၈) ကိန္နုဃဏ္ဍု
(၉) နိဃဏ္ဍု
(၁၀) ပနာဒ
(၁၁) ဩပမညု
(၁၂) မာတလိ
(၁၃) စိတ္တသေန
(၁၄) နဠောရာဇ
(၁၅) ဇနေသဘ
(၁၆) သာတာဂိရ
(၁၇) ဟေမဝတ
(၁၈) ပုဏ္ဏက
(၁၉) ကရတိယ
(၂၀) သိဝက
(၂၁) မုစလိန္ဒ
(၂၂) ဝေဿာမိတ္တ
(၂၃) ယုဂန္ဓရ
(၂၄) ဂေါပါလ
(၂၅) သုပ္ပရောဓ
(၂၆) ဟိရိ
(၂၇) နေတ္တိ
(၂၈) မိန္ဒိယျ
(၂၉) ပဉ္စာလစန္ဒ
(၃၀) အာဠဝက
(၃၁) ပဇ္ဇုန္န
(၃၂) သုမန
(၃၃) သုမုခ
(၃၄) ဒဓိမုခ
(၃၅) မဏိ
(၃၆) မာဏိဝရ
(၃၇) သေရိသက

## နတ်ဗြဟ္မာများ

(၁) ဗြဟ္မာဘုံ ၂၀ ရှိ ဗြဟ္မာများ
(၂) နတ်ပြည်ခြောက်ထပ်ရှိ နတ်များ

## နတ်ကြီးငါးပါး

(၁) သူရဿတီ
(၂) စန္ဒီ
(၃) ပရမီသွာ
(၄) မဟာပိန္နဲ
(၅) ဂေါရမန္တ

## ဂြိုဟ်ကြီး ၉ လုံး

(၁) တနင်္ဂနွေဂြိုဟ်
(၂) တနင်္လာဂြိုဟ်
(၃) အင်္ဂါဂြိုဟ်
(၄) ဗုဒ္ဓဟူးဂြိုဟ်
(၅) ကြာသပတေးဂြိုဟ်
(၆) သောကြာဂြိုဟ်
(၇) စနေဂြိုဟ်
(၈) ရာဟုဂြိုဟ်
(၉) ကိတ်ဂြိုဟ်

## အခြားနတ်များ

(၁) နေနတ်
(၂) လနတ်
(၃) မီးနတ်
(၄) လေနတ်
(၅) ပဇ္ဇုန်နတ်
(၆) မဏိမေခလာနတ်

## အချို့ဒေသန္တရနတ်များ

(၁) မန္တလေးရွှေတောင်စောင့်နတ်
(၂) တောင်ပြုံးနတ်
(၃) တောင်သမန်နတ်
(၄) တောင်မြင့်နတ်
(၅) တောင်ကျဉ်းနတ်
(၆) ကြာပင်ရှင်မနတ်
(၇) ကန်လယ်ရှင်မနတ်
(၈) ဆည်ကတော်နတ်
(၉) ရွှေဂူကတော်နတ်
(၁၀) ရွှေပြည်ရှင်နတ်
(၁၁) ပွေးမကြီးနတ်

ထိုမှ တပါး အရပ်ဒေသအလိုက် ကိုးကွယ် အားထားကြသော ဒေသန္တရနတ် အများအပြားပင်ရှိသည်။ ကိုယ်စောင့်နတ်၊ မြို့စောင့်နတ်၊ ရွာစောင့်နတ်၊ တောစောင့်နတ်၊ တောင်စောင့်နတ်များလည်း ရှိသည်။

အပြင် ၃၇ မင်းနတ်တို့တွင် မဟာဂိရိနတ်ကို မြန်မာတနိုင်ငံလုံး ကိုးကွယ်ကြ၍၊ ဒေသန္တရနတ်တို့တွင်လည်း ရေငန်ပိုင် ဦးရှင်ကြီးကို မြန်မာနိုင်ငံအောက်ပိုင်း၌ ကိုးကွယ်ကြသည်။

## အတွင်း ၃၇ မင်း

(၁) သိကြား
(၂) မဟာဂိရိ
(၃) ဝိဇ္ဇုမ္ဘ
(၄) ဝိရူပက္ခ
(၅) ကုဝေရ
(၆) ဇမ္ဗူဒီပ
(၇) ဇမ္ဗူတံဆိပ်
(၈) ဇမ္ဗူချမ်းသာ
(၉) ဇမ္ဗူကြက်သရေ
(၁၀) ဇမ္ဗူသပြေ
(၁၁) ဇမ္ဗူတန်ဆောင်
(၁၂) ဇမ္ဗူတမွတ်
(၁၃) ဇမ္ဗူရန်အောင်
(၁၄) ရွှေသက်စိုး
(၁၅) ဗျဿဂီ
(၁၆) မဟေသရ
(၁၇) ရွှေပြည်သင်
(၁၈) ရွှေညိုသင်
(၁၉) ရွှေစကား
(၂၀) ပွဲစားကြီး
(၂၁) ခရားပင်စောင့်
(၂၂) အင်ကြင်းပင်စောင့်
(၂၃) ယင်နှင်
(၂၄) အာဠဝက
(၂၅) ကြေးစန္ဒီ
(၂၆) ကြော့စန္ဒီ
(၂၇) ဆင်ဖြူရှင်
(၂၈) ငဆွယ်သင်
(၂၉) ဖက်ပသင်
(၃၀) မြင်းဖြူရှင်
(၃၁) မာရ်နတ်
(၃၂) မန်ကျည်းပင်စောင့်
(၃၃) သူရဿတီ
(၃၄) ငွေယ်သင်

(၃၅) ထုံသင်းကြီး (၃၇) ရွှေမြို့ရှင်
(၃၆) မဟာပိန္နဲ

## အပြင် ၃၇ မင်း

| | |
|---|---|
| (၁) မဟာဂီရိ | (၂၀) မယ်တော်ရွှေစကား |
| (၂) တောင်ကြီးရှင် | (၂၁) ယွန်းဘုရင် |
| (၃) ရွှေနပေ | (၂၂) မောင်မင်းဖြူ |
| (၄) သုံးပန်လှ | (၂၃) မန္တလေး ဘိုးတော်ကြီး |
| (၅) မင်းခေါင်ကြီး | |
| (၆) မင်းတရားကြီး | (၂၄) ရွှေဖျဉ်းကြီး |
| (၇) သံတော်ခံ | (၂၅) ရွှေဖျဉ်းငယ် |
| (၈) ရွှေနော်ရထာ | (၂၆) မင်းသား မောင်ရှင် |
| (၉) အောင်စွာမကြီး | (၂၇) ထီးဖြူဆောင်း |
| (၁၀) ငါးစီးရှင် | (၂၈) သားတော်မင်းခေါင် |
| (၁၁) ဆင်ဖြူရှင် | (၂၉) မယ်တော် ရွှေအိမ်စိ |
| (၁၂) တောင်မကြီး | (၃၀) မင်းစည်သူ |
| (၁၃) မြောက်မင်းရှင်ဖြူ | (၃၁) ဘိုးမင်းကျော် |
| (၁၄) ရှင်တော် | (၃၂) မြောက်ဘက်ရှင်မ |
| (၁၅) ညောင်ချင်းအို | (၃၃) အနောက် မိဖုရား |
| (၁၆) တပင်ရွှေထီး | (၃၄) ရှင်ကုန်း |
| (၁၇) မင်းရဲအောင်ထင် | (၃၅) ရှင်ကွ |
| (၁၈) ရွှေစစ်သင် | (၃၆) ရှင်နဲမိ |
| (၁၉) မောင်ပိုးတူ | (၃၇) ကိုးကျောင်းတကာ |

## ရှင်းလင်းချက်

အတွင်း ၃၇ မင်း၊ အပြင် ၃၇ မင်း ထားခြင်းကား သုတ်ပါထေယျပါဠိတော် အာဋာနာဋိယသုတ်တွင် ပါရှိသော နတ်စစ်သူကြီး ၃၇ ပါးကို အတုယူ၍ ထားဟန်တူသည်။ ဦးဖိုးကျား ၃၇ မင်း စာအုပ်၌ ယင်းနတ်စစ်သူကြီး ၃၇ ပါးကို ဗုဒ္ဓဘာသာ ၃၇ မင်းဟု ပြဆိုလျက် ရှိသည်။

၃၇ အရေအတွက်မှာလည်း ၃၇ မင်းသာ မကသေး၊ အသံ ၃၇ ချင်း၊ အဆို ၃၇ ချင်း၊ သဘင်သည် ၃၇ ရပ်၊ ထားရေး ၃၇ ချင်း၊ သိုင်းရေး ၃၇ ချင်း၊ ဒိုင်းရေး ၃၇ ချင်း၊ ကာရေး ၃၇ ချင်း၊ အဲမောင်း ၃၇ ချင်း၊ တက်ရေး ၃၇ ချင်း၊ လောကုတ္တရာဘက်တွင်လည်း ဗောဓိပက္ခိယတရား ၃၇ ပါးဟူ၍၊ ၃၇ အရေအတွက်မှာ အလွန်အသုံးများ၍ ခေတ်စားလျက် ရှိသည်။

အထူးအားဖြင့် ဦးဖိုးကျား ၃၇ မင်းစာအုပ်တွင် အတွင်း ၃၇ မင်း၌ အာဠဝက၊ ကြေးစန္ဒီ၊ ကြော့စန္ဒီ နတ်သုံးပါးမပါ။ ယင်းတို့အစား စန္ဒီ၊ စန္ဒာ၊ အာဠဝီ နတ်သုံးပါးပါလာသည်။ ကြွင်းသောနတ် ၃၄ ပါးတို့ကား တူညီကြသည်။

အပြင် ၃၇ မင်း၌လည်း တောင်ကြီးရှင်၊ မယ်တော် ရွှေအိမ်စိ၊ ဘိုးမင်းကျော်၊ ကိုးကျောင်းတကာ နတ်လေးပါး မပါ။ ယင်းတို့အစား သိကြား၊ နှမတော်၊ ကျော်စွာ၊ တောင်ငူရှင် မင်းခေါင် နတ်လေးပါး ပါလာသည်။ ကြွင်းသော ၃၃ ပါးတို့ကား တူညီကြသည်။ ဦးကြီးဖေ

နတ်ကိုးကွယ်သော ဝါဒသည် မြန်မာနိုင်ငံ၌သာ မဟုတ်၊ ကမ္ဘာ့ အရပ်ရပ်တွင် အနှံ့အပြား ထွန်းကားလျက်ရှိသည်။ နတ်တို့ကို လူတို့ကိုးကွယ်ကြခြင်းမှာ မိမိတို့ထက်ပို၍ တန်ခိုးရှိသည်ဟု ယုံကြည်ကြသောကြောင့်ပင် ဖြစ်၏။ ကမ္ဘာဦးအစကတည်းကပင် နတ်ကိုးကွယ်ခြင်းသည် လူမျိုးတိုင်း၌ ရှိခဲ့၏။ လူမျိုးတိုင်း လူမျိုးတိုင်းက မိမိတို့ထက် နေရာတကာတွင် တန်ခိုးသာသည်ဟု ယူဆထားသော နတ်များကို အမည်အမျိုးမျိုး ပေးကာ ကိုးကွယ် ကြလေသည်။ ရှေးဂရိလူမျိုးများက သူတို့နတ်ကို ဇု ဟူ၍ရှင်း၊ ရောမလူမျိုးများက ဂျူပီတာဟူ၍ရှင်း၊ ယဟူဒီလူမျိုးများက အဒိုနေဟူ၍ရှင်း၊ ခရစ်ယန်တို့က ဂျီဟိုးဗားဟူ၍ရှင်း အသီးအသီး အမည်များပေးကာ ကိုးကွယ်ကြ၏။ (ဂရိနတ်များ — ရှု။)

ရှေးကျသော လူများနှင့် လူရိုင်းများသည် နတ်များကို အလွန်ယုံကြည်၍၊ နတ်ဆိုလျှင်အထူးကိုးကွယ်ကြသည်။ သူတို့ကိုးကွယ်သော နတ်မှာ တပါးတည်း မဟုတ်၊ မြောက်မြားစွာ ရှိ၏။ ထိုသို့ ရှိရခြင်းမှာလည်း အခြားကြောင့် မဟုတ်။ ပဌမဦးစွာ ကမ္ဘာဦးလူတို့က နေ လ နက္ခတ်တာရာ တို့သည် လူတို့ကို အထောက်အပံ့ ပြုသော သဘာဝ ဓမ္မများပင် ဖြစ်သည်ဟု ယုံကြည်ကြ၏။ နေမင်းရှိ၍သာ လူတို့သည်အလင်းရောင်ရကြသည်။ညဥ့်အခါ၌လည်း လမင်းကြီးရှိ၍ ညဥ့်မှောင်မိုက်ခြင်းမှ သက်သာရာ ရကြသည်။ မိုးနတ်သားရှိ၍ မိုးရွာသဖြင့်၊ လူတို့သည် ပူအိုက်ခြင်းမှသက်သာရာရ၍၊ သစ်ပင် ပန်းမာလ်သစ်သီးဝလံများဖွံ့ဖြိုးသည်။ တောင်စောင့်နတ်ရှိ၍၊ သစ်ပင်များ ပေါက်ရသည်။ ယင်းသို့ ယုံကြည်အားကိုးချက်အမျိုးမျိုးဖြင့် နေ၊ လ၊ မိုး၊ လေ၊ နက္ခတ်စသည်တို့ကို ကိုးကွယ်ကြသဖြင့်၊ ရှေးလူများအဖို့ ကိုးကွယ်ရသည့် နတ်အရေအတွက် များပြား လာရတော့၏။

ရှေးလူများကမိမိတို့ကိုးကွယ်သော နတ်အားလုံးတို့သည် ကောင်းကင်တည်း ဟူသော ဖခင်နှင့် ပထဝီမြေ တည်းဟူသောမိခင်မှ မွေးထုတ်လိုက်သည့် သားသမီးရတနာများဖြစ်သည်ဟု အယူရှိကြ၏။ အချုပ်မှာ ကောင်းကင်နှင့် မြေကြီးပင်ဖြစ်၏။ ထိုတောတောင် ရေမြေစောင့် နတ်များသည် မိမိတို့ထက် တန်ခိုးရှိ၍၊ မိမိတို့ကိစ္စ ပြီးမြောက်စေရန် သူတို့၏ အကူအညီကို ရှေးလူများသည် တောင်းခံလေ့ ရှိ၏။ အမှန်စင်စစ် ကမ္ဘာဦးက နတ်များသည် သူတို့ကို ကိုးကွယ်သော လူများနှင့် စိတ်စရိုက်ချင်း တူကြသည်သာ ဖြစ်၏။ သူတို့သည် စိတ်ဆိုးတတ်သည်။ မနာလို ဝန်တိုရှိထတ်သည်။

ရန်ငြိုးထားတတ်သည်။ သူတို့ကိုလူများက စားဦးစားဖျား ဖြင့်ပူဇော်ပသ၍၊တောင်းပန်အသနားခံရသည်။ အကူအညီ တောင်းကြရသည်။

အီဂျစ် လူမျိုးတို့သည် ရှေးပဝေဏီကတည်းက တတ် ကျွမ်းလိမ္မာမှု၊ ယဉ်ကျေးမှုတို့တွင် အထက်တန်း ကျသော လူမျိုးများ ဖြစ်သည့်အတိုင်း၊ သူတို့ခေတ်တွင် နတ်ကိုးကွယ် သော ဝါဒသည် တနည်းတဖုံအဆင့်အတန်းတက်လာသည်။ အစ ပဌမ၌ အီဂျစ်လူမျိုးတို့သည် အခြား လူမျိုးများကဲ့သို့ နတ်အမျိုးမျိုးကို ကိုးကွယ်ကြသည်။ သူတို့သည် နေ နတ် သား၊ လနတ်သား၊ မိုးနတ်သားများနှင့် အခြား နတ်များ ကို သာမက နွား၊ ကြောင်၊ မိကျောင်း၊ ကြွေစသော တိရစ္ဆာန်များကိုပင် နတ်များကဲ့သို့သဘောထား၍ကိုးကွယ် ကြသည်။ သို့ရာတွင် နောက်၌ အီဂျစ်ဘုရင် အက်ခနာတန် သည် နတ်အမျိုးမျိုးကိုးကွယ်သော ဝါဒကို ပိတ်ပင်တားမြစ် ၍၊ တိုင်းသူပြည်သားများအား နေနတ်သား တပါးတည်းကို သာ ကိုးကွယ်စေသည်။ (အီဂျစ်၊ ရှေးခေတ် — လည်းရှု။)

အီဂျစ်လူမျိုးများက အစပြု၍ နတ်တပါးတည်းကိုသာ ကိုးကွယ်လိုက်သောအခါ၊ အခြား လူမျိုးများကလည်း ထိုအတိုင်း လိုက်နာကြလေသည်။ ဖက်ဗီလုံးပြည်သားများ၊ ဂရိ လူမျိုးများနှင့် ရောမလူမျိုးတို့သည် မိမိတို့အတွက် တန် ခိုးအကြီးဆုံးသော နတ်တပါးကိုသာ ရွေးချယ်၍၊ ထိုနတ်ကို ပင် ပူဇော်ပသ ကိုးကွယ်ကြသည်။ အခြားနတ်များသည် ထိုနတ်၏ လက်အောက်ခံနတ်ငယ်များဖြစ်သည်ဟုယူဆကြ ကုန်၏။ ဂရိတို့သည် အခြား နတ်ကိုးကွယ်သော လူမျိုးတို့ကဲ့ သို့ မည်သည့်အရာမဆို နတ်များကြောင့် ဖြစ်ရသည်ဟူသော ရှေးဟောင်း ဝါဒကို လက်မခံဘဲ၊ လောကသဘာဝ အဖြစ် အပျက်များကို အကျိုးအကြောင်း ဆက်စပ်ကာ ဆင်ခြင် သုံးသပ် ကြသည်။ သို့ဖြစ်၍လည်း သူတို့၏ အသိပညာမှာ သိသိ သာသာ တိုးတက်ခဲ့သည်။ ဤသို့ နတ်များစွာ ကိုး ကွယ်ခဲ့ရာမှ နတ်တပါးတည်းကိုသာ ကိုးကွယ်လာကြသော အခါ၊ လောကတွင် အလွန်တန်ခိုးကြီးသော ထာဝရ ဘုရား တပါးတည်းသာ ရှိသည်ဟု လူတို့ထင်မြင်ယူဆလာကြ၏။ ထိုတန်ခိုးအကြီးဆုံးသော နတ်ဟု ဆိုအပ်သည့် ဘုရားသာ လျှင် ကိုးကွယ်ရာ အစစ်ဖြစ်၍၊ အခြားနတ်များမှာ ဘုရား၏ တပည့်ငယ်သားများ ဖြစ်လေသည်။

လောကတွင် ထာဝရဘုရား တပါးတည်းသာ ရှိသည် ဟူသော ခရစ်ယန်ဝါဒသည် ယဟူဒီလူမျိုးတို့၏ အယူဝါဒမှ ဆင်းသက်လာသည်။ ရှေးဦးပေါ်သော ခရစ်ယန်တို့သည် ယဟူဒီများသာ ဖြစ်၏။ ယဟူဒီတို့သည်လည်း လက်ဦး ပဌမတွင် နတ်များစွာကို ကိုးကွယ်ကြသည်။ နောက်မှ ဘုရားတဆူတည်းကိုသာ ကိုးကွယ် ကြ၍၊ ထိုဘုရားသည် တန်ခိုးအနန္တ ရှိပြီးလျှင် ကမ္ဘာကြီးနှင့် လူသတ္တဝါအားလုံး ကို ဖန်ဆင်း ခဲ့သော ထာဝရဘုရား ဖြစ်သည်ဟု ယုံကြည် လာကြသည်။ ထို့ပြင် ထာဝရ ဘုရားသည် တရားနှင့် ပြည့်ဝ သော ဘုရား ဖြစ်၍၊ လူများ၏ စိတ်ဆန္ဒကိုသိတော်မူသည်ဟု သူတို့က ဆိုသည်။

**နတ္တလင်းမြို့။** ။နတ္တလင်းမြို့သည် သာယာဝတီခရိုင် ဇီး ကုန်းနယ်အတွင်းရှိ နတ္တလင်းမြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ မြို့၏ အရှေ့ဖက်တွင် ပဲခူးရိုးမတောင်၊ အနောက်ဖက်တွင် လှိုင်မြစ်၊ တောင်ဖက်တွင် ဇီးကုန်းမြို့နှင့် မြောက်ဖက်တွင် ပေါင်းတည်မြို့တို့ တည်ရှိသည်။

ရန်ကုန် ပြည် မီးရထားလမ်းနှင့် ကားလမ်းပေါ်တွင် တည်ရှိသော နတ္တလင်းမြို့သည် ရန်ကုန်မြို့မှ ရထားလမ်း အတိုင်း ၁၂၅ မိုင်ဝေး၍၊ ပြည်မြို့မှ ၃၇ မိုင် ကွာလှမ်းသည်။ ကားလမ်းအတိုင်းဆိုသော်၊ ရန်ကုန်မြို့မှ ၁၃၈ မိုင်ဝေးသည်။ ထို့ပြင်ဇီးကုန်းမြို့နှင့် ၉ မိုင်ဝေးပြီးလျှင်၊ ပေါင်းတည်မြို့နှင့်မှ ၅ မိုင်ခွဲဝေးသည်။ မြို့၏ မြောက်ဖက် ၂ မိုင်ခန့် ကွာလှမ်း သောအရပ်၌ ဘိုးသာအောင်ကုန်း ရွာကြီးရှိ၍၊ ယင်းအနီးရှိ ဘိုးသာအောင်ကုန်း တန်တားကြီးသည် သာယာဝတီခရိုင် နှင့် ပြည်ခရိုင် နယ်ခြားမှတ်တိုင်ကြီးသဖွယ် တည်ရှိသည်။ နတ္တလင်းမြို့သည် အကျယ်အဝန်းအားဖြင့် ၀.၆၂ စတုရန်း မိုင် ရှိသည်။

ယခု နတ္တလင်းမြို့ တည်ရှိရာ ဒေသတွင် ရှေးအခါက ပဲခူး ရိုးမ တောင်ညိုမှစ၍ လှိုင်မြစ်တွင်းသို့ စီးဝင်သော ဖောင် ချောင်းသည် ဖြတ်သန်းစီးဆင်းလေသည်။ ထိုစဉ်က နတ္တ လင်းမြို့ဟူ၍ မရှိသေးဘဲ၊ သင်ပန်းကုန်း၊ ဂျင်းယားကုန်း၊ ရွာမ၊ သာဇီ၊ ဇီးကုန်းကလေးဟူသော ရွာများသာရှိသည်။ ရွာမကလေး (ရွာမရပ်ကွက်) အနီးတွင် သခွတ်ပင်တပင် နှင့် နတ်စင်တစင်ရှိသည်။ ယင်းသည့် သခွတ်ပင်အောက်တွင် သာယာဝတီမင်းနှင့် ပြည်မင်းတို့ ကြက်တိုက်လေ့ရှိသည်ဟု ဆိုသည်။ ထို့ပြင် ထိုနေရာတွင် လူသူမရှင်းလင်းရဘဲ၊ အမြဲ ရှင်းလင်းလျက် တလင်းဖြစ်နေသောကြောင့်၊ နတ်များက တလင်း ပြုပြင်ပေးသည်ဟု ယူဆကာ၊ ယင်းမြို့ကို နတ္တလင်း မြို့ဟု မှည့်ခေါ်ခဲ့ခြင်း ဖြစ်သည်ဟုလည်း ဆိုကြလေသည်။ ယခုအခါ ယင်းသခွတ်ပင်ကြီးကို ညောင်ပင်မျိုထားပြီ ဖြစ် သော်လည်း၊ နတ်စင်ကိုမူကား အထင်အရှား တွေ့မြင်နိုင် သေးသည်။

နတ္တလင်းမြို့၏ အနီးအပါးတွင် သစ်တောကြိုးဝိုင်းများ ရှိသဖြင့်၊ ယင်းမြို့၏ ထွက်ကုန်များမှာ ကျွန်း၊ ပျဉ်းကတိုးနှင့် သစ်ရိုင်းတို့အပြင် ဆန်စပါး၊ ပဲစသည့် လယ်ယာထွက် ပစ္စည်း များဖြစ်သည်။ ရထားလမ်း ကားလမ်းများဖြင့် ဝေးနီးဆက် သွယ်နေသဖြင့်၊ ရောင်းဝယ် ဖောက်ကား သွားလာရန် လွယ်ကူသော မြို့ဖြစ်သည်။ မြို့၏ အနောက်တောင်ဖက်

၉ မိုင်အကွာတွင် တာပွန်မြို့ရှိရာ၊ ယင်းမှတဆင့် ဧရာဝတီမြစ်ပေါ်ရှိ မြန်အောင်၊ ကြံခင်းစသော မြို့များနှင့်လည်း ဆက်သွယ်ရောင်းဝယ် ဖောက်ကားနိုင်သည်။

၁၉၅၃ ခုနှစ် သန်ကောင် စာရင်းအရ နတ္တလင်းမြို့၏ လူဦးရေသည် ၇၉၂၇ ယောက်ရှိသည်။ မြို့အဝင်ရှိ မန္တလေးမဟာမြတ်မုနိ ပုံတော်အတိုင်း သွန်းလုပ်ထားသော သကျမဟာမုနိဘုရားသည် ယင်းမြို့ရှိ တန်ခိုးကြီးဘုရား ဖြစ်သည်။

**နတ်တော်လ။** ။နတ်တော်လသည် မြန်မာတဆယ့်နှစ်လတွင်ကိုးကြိမ်မြောက်လဖြစ်၏။ဆောင်းဥတုတွင်ပါဝင်သည်။ နတ်တော်လကို ပုဂံခေတ်ကျောက်စာများတွင် နတ္တာဝ်ဟူ၍၎င်း၊ နတ်တာ်ဟူ၍၎င်း၊ နတ်တာဝ်ဟူ၍၎င်း၊ နတ္တဝ်ဟူ၍၎င်း ရေးသားသည်ကို တွေ့ရ၏။ နတ်တော်လအကြောင်းကို ဝေါဟာရလီနတ္ထဒီပနီကျမ်းတွင် အဆိုနှစ်မျိုး တွေ့ရ၏။ ပဌမအဆိုမှာ နတ်တော်လတွင် မဟာပိန္နဲနတ်အား ပူဇော်ပသရသည်ဟု ဆိုပြီးမှ၊ဒုတိယအဆိုတွင်ထိုလ၌ မဟာဂီရိနတ်မောင်နှမအား ပူဇော်ပသရသည်ဟု ဆိုပြန်သည်။နတ်တော်လဟု တွင်သည်မှာ ထိုလတွင် နတ်ကို ပူဇော်ပသရခြင်းကြောင့် ဖြစ်သည်။ ဗေဒင် အခေါ်အဝေါ်အားဖြင့် နတ်တော်လကို ဓနုရာသီဟု ခေါ်၏။ ထိုရာသီတွင် မိဂသီနက္ခတ်နှင့် လမင်းတို့ ယှဉ်ပြိုင်မွန်းတည့်၏။ နေမင်းသည် ပြုဗ္ဗာသဠ်နက္ခတ်နှင့် ယှဉ်ပြိုင်လေသည်။ ရာသီရုပ်မှာ လေးစွဲသောယောကျာ်းရုပ် ဖြစ်၏။ ရာသီပန်းကား သဇင်ပန်းတည်း။ ဤကိုရည်၍ ဖိုးသူတော်ဦးမင်း တဆယ့်နှစ်ရာသီဘွဲ့တွင်—

'ရှစ်ခွင်ကို မြူဆင်းလို့ ငွေနှင်းတဲ့ နတ်စို။
ဂမုန်းသဇင်တို့၊ စုံခွင်မှာ လေချိုညှင်းက၊
ထုတ်သွင်းဗယ်ညာနှံ့၊ သင်းပျံ့ပျံ့ချို။
ယုဂန္ဓိုရ်၊ တောင်မိုထိပ်ဖျား။
ရွှေလစန္ဒီနှင့်၊ မိဂသီ ရောင်ခြည်ဖျန်းတယ်၊
မြန်း တူကြွသွား။'

ဟူ၍ စပ်ဆိုထား၏။ ရှေးဘုရင်များလက်ထက်က၊ ရွှေသိုင်းများ ရှေ့ဆောင်ကာ၊ ဘုရင်မင်းမြတ်အား ဆက်သရမြဲ ဖြစ်သော ပန်းမြတ်သဇင်တို့ ဤနတ်တော်လတွင် ဖူးပွင့်မြဲဖြစ်ကြောင်းကို ရည်၍၊ ရှင်ဥတ္တမကျော်က—

'ရွှေသိုင်းဝင့်ချီ၊ မိုးရင့်သီလျက်၊ မတီကေတု၊ တိုင်းဇေယုက၊သမ္မုတိမှန်၊ ကေသာနှံ့သည်၊ ရွှေလျှံသဇင်၊ ဂမုန်းအင်လည်း၊ ဥကင်မြင့်ဘောင်၊ ရန့်လျှောင်ခဲ့'။

ဟူ၍ စပ်ဆိုထားခဲ့၏။ နတ်တော်လ ရာသီပန်းဖြစ်သောသဇင်ပန်းကို နတ်ပန်းဟူ၍ အယူရှိကြ၏။ သဇင်ပန်းမှာတောတွင်း ပေါက်သော်လည်း၊ ဘုရင်မင်းမြတ်အား ရှေးဦးစွာ ဆက်သပြီးမှ အများပြည်သူတို့ ဆွတ်ယူ ပန်ဆင် ကြရလေသည်။

ဤကိုရည်၍

'စုံမြိုင်ရင်းမှာ၊ ကြိုင်သင်းတောလုံး၊ ရနံ့ဖုံးသား၊ ပတ်ကိုးဝန်းကျင်၊ မြေတွင်မရောက်၊ ပင်ပေါ်ပေါက်၍၊ နှင်းသောက်ရှင်ရှင်၊ ဖူးတံဆင်သည်၊ သဇင်ရွှေပွင့်၊ လျှပ်ရောင်ဝင့်သို့၊ လှတင့်စိမ်းထွေး၊ နတ်ပန်းမွှေးကို၊ မနှေးလျှင်မြန်၊ မိန့်တော်ပြန်လျက်၊ မျက်မှန်ကျောက်စုံ၊ ရွှေနန်းဘုံသို့၊ ဖူးငုံပေါ်စ၊ တင်ဆက်သသည်၊ နောက်မှပြည်သူ၊ သုံးယူပန်ဆင်၊'

ဟူ၍ ဦးယာက ဆယ့်နှစ်ရာသီဘွဲ့ လူးတားတွင် ရေးစပ်ထားခဲ့၏။

နတ်ပန်းသဇင် ဖူးပွင့်သည့် နတ်တော်လ သမယတွင်၊ ရှေးမြန်မာမင်းများ ရှိစဉ်အခါက၊နတ်ပွဲသဘင်နှင့် ဆင်ဖမ်းပွဲများကို ကျင်းပလေ့ ရှိလေသည်။ ဤသည်ကို ရည်၍၊ ဦးအောင်ကြီး၏ အင်းဝမြို့ဘွဲ့ ဆယ့်နှစ်ရာသီ လူးတားတွင်—

'သာစွလေ။ ။မိုင်းဝေမြရီ၊ မိဂသီနှင့်၊ အညီပြည့်လ၊ ရံဝန်းပလျက်၊ချမ်းမြရတု၊ ဓနုရာသီ၊ အညီမွမ်းဖြင်၊ ဂမုန်းအင်နှင့်၊ သဇင်ပွင့်ပေါ်၊ လနတ်တော်ကား၊ ပူဇော်ကြီးစွာ၊မင်းဆရာတို့၊မဟာပိန္နဲ၊ရွှေညဲ့ကြည်ငင်၊ တိမ်ညင်တွဲအောက်၊သွင်းရောက်ပြွမ်းပြွမ်း၊ကျုံးလုံးမွမ်းမျှ၊ ဆင်ဖမ်းသဘင်၊ ပျော်ပါးရှင်သည်၊ မြေပြင်ထိန့်ရိုက်မွန်းတည့်လေ။ ။ပွင့်လင်းစည်သည် ရွှေပြည်ရွှေဝနန်းတည့်လေ။'

ဟူ၍ စပ်ဆိုထားလေသည်။

ဟသာ်တာရာ ထွန်းပသည့် နတ်တော်လ ရာသီဘွင်နံနက် စက်နာရီ ၆ နာရီ ၂၇ မိနစ်တွင် နေထွက်၍၊ညနေစက်နာရီ ၅ နာရီ ၂၃ မိနစ်ခန့်တွင် နေဝင်သည်။ မြန်မာ နာရီအားဖြင့် နေ ၂၆ နာရီရှိပြီးလျှင်၊ညဉ့် ၃၄ နာရီ ရှိလေသည်။ ဤကိုရည်၍ ဦးယာက—

'တေဇော မာတ်ခန်း၊ ရာသီနန်းဝယ်၊ နှင်းဖျန်းရှန်းစို၊ မြိုင်လုံးညိုသား၊ ခေါ်ဆိုမည်ရ၊ ဒွေးဒေဟဟု၊ သည်လရတု၊ဓနုခေါ်တွင်၊ ရာသီခွင်၌၊ နေ့လျှင်နာရီ၊ ဆဒွေးစီ၍၊ တလီညဉ့်ရေး၊ သုံးဆယ့်လေးတည့်၊ ချမ်းအေးနှင်းဖျော်၊ လနတ္တော် ကို' ဟူ၍ စပ်ဆိုထား၏။

နတ်တော်လတွင် ကြာသပတေးနှင့် စနေနေ့များသည် ပြဿဒါး ရက်များ ဖြစ်ကြ၍၊ တနင်္လာ၊ ဗုဒ္ဓဟူးနှင့် သောကြာနေ့များသည် ရက်ရာဇာများ ဖြစ်ကြသည်။ နတ်တော်လတွင် ရက်မစုံကွယ်သဖြင့် ရက်ပေါင်း ၂၉ ရက်သာ ရှိ၏။

**နတ်မောက်မြို့။** ။မကွေးခရိုင် နတ်မောက်မြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ မကွေးမှ ၃၆ မိုင်ကွာဝေးသည်။ ပျဉ်းမနားကျောက်ပတောင်း မီးရထားလမ်းပေါ်တွင် တည်ရှိ၍၊ပျဉ်းမနားမှ ၉၂ မိုင် ဝေးလေသည်။ ဧရာဝတီမြစ်ရိုးတွင် တည်



နတ်မောက်မြို့ရှိ ဗိုလ်ချုပ်အောင်ဆန်း မွေးဖွားရာ နေအိမ်

ရှိသော၊ မကွေးမြို့၊ အောင်လံ (အာလံ) မြို့များနှင့်လည်း ကားလမ်း အဆက်အသွယ် ရှိ၏။

နတ်မောက်မြို့နယ်မှ အဓိက ထွက်သော အသီးအနှံများမှာ နှမ်း၊ မြေပဲနှင့် ပြောင်းတို့ ဖြစ်သည်။ ဆန်စပါးကို ယင်းချောင်း တလျှောက်တွင် ဆည်မြောင်းများဖြင့် စိုက်ပျိုးကြသည်။

နတ်မောက်မြို့သည် မြန်မာ စာပေ လောကတွင် ထင်ရှား ကျော်ကြားသော စုံနံ့သာမြိုင် ရှာပုံတော်ကြီး သီချင်းကို ရေးသား ပြုစုသူ ဦးကြော့နှင့် မြန်မာ့ လွတ်လပ်ရေး ဗိသုကာကြီး ဗိုလ်ချုပ် အောင်ဆန်းတို့၏ ဇာတိမြို့ ဖြစ်သည်။ နတ်မောက်မြို့နယ်၏ လူဦးရေမှာ ၁၉၅၆ ခုနှစ် ခန့်မှန်းခြေ အရ ၁၂၄,၂၄၀ ယောက် ဖြစ်လေသည်။

# စာဆိုစစ်ဘုရင်

**သီဟသူရ ဘွဲ့မည်ရင်းခံ တောင်ငူဘုရင် နတ်သျှင်နောင်သည် မြန်မာစာပေလောကတွင် ရတုဖွဲ့ဆိုခြင်း၌ အထူးထင်ရှားသော စာဆိုတော်ကြီးဖြစ်ပေသည်။ စကားလုံး ကြွယ်ဝသူဖြစ်သောကြောင့် အစိပ်ပွါယ်တူသော်လည်း၊ စကားလုံးချင်းမထပ်တူရအောင် သုံးစွဲနိုင်သဖြင့် ထူးခြားသည်။ အနုပညာဖြစ်သော စာဆိုမှု တီးမှုတ်မှုတို့၌သာ လိမ္မာ တတ်မြောက်သည် မဟုတ်၊ ဆင်စီး မြင်းစီး ဓားခုတ် လှံထိုးစသော လက်ရုံးရည်၌လည်း ကျွမ်းကျင်လေသည်။**

**နတ်သျှင်နောင်။** ။မြန်မာ စာပေ လောကတွင် ရတုဖွဲ့နွဲ့ရာ၌ တံခွန်စိုက်ခဲ့သော နတ်သျှင်နောင်သည် သက္ကရာဇ် ၉၄၄ ခုနှစ်တွင် တောင်ငူ ရွှေနန်းကို သိမ်းမြန်း အုပ်စိုးတော်မူသော မဟာဓမ္မရာဇာ ဘွဲ့ခံ တောင်ငူ ရွှေနန်းတည်မင်း၏ သားတော် ဖြစ်သည်။ သက္ကရာဇ် ၉၄၀ ပြည့်နှစ်တွင် ဖွားမြင်၏။ ဘွဲ့မည်ရင်းမှာ သီဟသူရ ဖြစ်သည်။ သက္ကရာဇ် ၉၇၁ ခုတွင် သီဟသူရ ဟူသော ဘွဲ့ဖြင့်ပင် တောင်ငူ ရွှေနန်းကို ဆက်ခံ သိမ်းပိုက်သည်။

နတ်သျှင်နောင်သည် ငယ်စဉ်ကပင် အတီး အမှုတ် အဆိုတို့တွင် ဝါသနာ ပါတော်မူသည်။ တောင်ငူ ရွှေနန်းတွင်

စောင်း၊ ငြင်း၊ ပတ်သာ တူရိယာတတ်သူတို့ကို မွေးမြူ ချီးမြှောက်၍၊ ကိုယ်တော်တိုင်ကလည်း ထိုအတတ်များကို ကောင်းစွာ ကျွမ်းကျင်သည်။ သို့ဖြစ်ရကား၊ ရတု ကဗျာဖွဲ့နွဲ့ရာတွင် ထိုဂီတပညာ၏ အထောက်အပံ့ကို များစွာရခဲ့၏။ အနုပညာဖြစ်သော စာဆိုမှု တီးမှုတ်မှုတို့၌သာ လိမ္မာ တတ်မြောက်သည် မဟုတ်၊ ဆင်စီး၊ မြင်းစီး၊ ဓားခုတ်၊ လှံထိုး စသည့် လက်ရုံးရည်၌လည်း ကျွမ်းကျင်တော်မူ၏။ ဝါသနာလည်း များစွာပါသဖြင့်၊ နှစ်စဉ် နှစ်တိုင်း ပေါင်းလောင်း မြစ်၏အနောက် သာယာလှသော မြေပြင်တွင် ဆောင်းလ ရာသီတိုင်း ဆင်ခင်း မြင်းခင်းပွဲကို ကျင်းပ၍၊ ဆင်မြင်းတို့၏ အရည်အချင်းကို စမ်းစေသည်။ ဦးရီးတော် ဟံသာဝတီ ဘုရင် စစ်ချီတိုင်း နတ်သျှင်နောင် မလိုက် မပါရသည့်အခါ ဟူ၍ မရှိ။ ထိုမျှသာ မကသေး၊ ကိုယ်တော်၏ စိတ် ပျော်ရွှင်မှုကို အလေးပြုကာ သိုးဆောင်းတို့က ပိုလိုဟု ခေါ်သော ဂူလီ (ကုလီ) သဘင်ကိုလည်း၊ မကြာခဏပင် ညီတော် ဦးရီးတော်တို့နှင့်အတူ ကစားတော်မူတတ်၏။ သာခက ပြုရသော်၊ နန်းတော်မြောက် ဈေးလမ်းမကို အညီညှိစေ၍၊ မင်းညီ မင်းသား မှူးမတ် အပေါင်းကို ဂူလီ ကစား ပျော်ရွှင်စေသည်။ မိမိကိုယ်တိုင်လည်း ကစားပျော်ရွှင်တော်မူသည်။ ထိုကြောင့်ပင်၊ 'နေမင့်နွယ်ရင်း၊ မင်းထက်မင်းလျှင်၊ သလင်းအုတ်စီ၊ နန်းမြေညီဝယ်၊ ကုလီသဘင်၊ မြင်းနှင့်ရွှင်၏။' ဟု 'ဝေဇယန္တာတွင်' ချီရတုတွင် ကုလီသဘင် ကစား ပျော်ရွှင်ဟန်ကို စပ်ဆိုခဲ့ခြင်းပင် ဖြစ်သည်။ (ဂူလီကစားခြင်း — ရှု။)

ရာဇကဗျာ စပ်ဆိုမှု၌ သူမတူအောင် လက်စွမ်းထက်သည့်ပြင်၊ စကားလုံးလည်း ကြွယ်ဝသူ ဖြစ်သည့် အလျှောက် အဓိပ္ပါယ် တမျိုးတည်းကို စကားလုံး အမျိုးမျိုး ပြောင်း၍ ရေလဲနှင့် သုံးသွားနိုင်သူ ဖြစ်လေသည်။ တနည်းကား၊ ကြိယာ တခုတည်းကို အဓိပ္ပါယ် အမျိုးမျိုး ပေါက်အောင် အခြား အက္ခရာ မယှဉ်ဘဲ ရေးသား ဖွဲ့နွဲ့တတ်သည် ဟူ၏။ အကြောင်းအရာ တခုတည်းကိုလည်း စကား ပရိယာယ် အမျိုးမျိုးဖြင့် ဖော်ပြတတ်သည်။ ပုံစံအားဖြင့် 'တသောင်း ရှစ်ပြန်' ချီ ရတု၌ အခံပိုဒ် အလိုက်ပိုဒ်များကို အဓိပ္ပါယ် သဘောချင်း ထပ်တူ ဖြစ်သော်လည်း၊ စကားလုံး မထပ်ရအောင် သုံးစွဲခဲ့ပုံမှာ—

'တသောင်းရှစ်ပြန်၊ လေးထောင်လွန်သား၊ ယုဂန်လှည့်သွား၊ လ ရထားနှင့်၊ နတ်သားနီးကြ၊ သောကာလတွင်၊ သောကမွှာ၊ ဌာပနာသား၊ သစ္စာဉာဏ်ပေါင်း၊ မရှုတောင်းသည်၊ ညီနှောင်းနောင်စော၊ မြတ်မှင်ဘွေ့။ ။ကြာမောနွေရက်၊ သက်ဆက်သည်ချည်း၊ မနည်းကုံးသီ၊ များလေပြီတည့်၊ နွှဲမှိဘူစုံ၊ ဘုန်းချင်းဆုံကို၊ ကြေးမုံအသွင်၊ ရှုမြင်နေကျ၊ ပါချင်လှ၍၊ ထိန်းယရွှေဘော်၊ လျှောက်ပါသော်လည်း၊ နားတော်မညွတ်၊ ဆင်းကြာနတ်သည်။ ။နှုတ်လွတ်မပါ မြွက်သောကြောင့်။' ဟူ၍ အခံရတု တပိုဒ်ကို စပ်ဆို သီကုံးလိုက်ပြီးလျှင်—

'တသောင်းရှစ်မည်၊ လေးထောင်တည်ကို၊ ရစ်လည်လှည့်ပတ်၊ လပြာသာဒ်နှင့်၊ ရန်နတ်နီးခိုက်၊ သောစဉ်ကြိုက်ဝယ်၊ ထိန်ရိုက်သပြေ၊ အာဏာမွေသား၊ သရေစမ့်၊ သောကရွှေမှောက်၊ တည်ခဲ့မြောက်သည်၊ ကျောက်ဆောက်လျှံပြောင်၊ မိတည်းနောင်။ ။ရည်စောင်လနှစ်၊ အသစ်အသင့်၊ ကြားဆင့်လေသုံ့၊ မပျံ့စဘူး၊ အမူးအမော်၊ ကြိုးသည်သော်ကား၊ နားတော်ပျံ့ညောင်း၊ ညွတ်ချင်ကောင်းဟု၊ ရွှေပေါင်းလှည့်ဖြား၊ လျှောက်ပါငြားလည်း၊ ရွှေသားမြလျှံ၊ မွတ်ညက်စီသည်။ ။ချစ်သံမြွက် မခြည်သောကြောင့်။' ဟူ၍ အလိုက် ရတုကို စီကုံးခြင်း ဖြစ်လေသည်။ ချစ်သူ ဓာတုကလျာ၏ ရုပ်ရည်ကို ဖွဲ့နွဲ့သော 'လှခေါင်ငြိမ့်' 'လှမျိုးကြွယ်' 'ယဉ်မျိုးစုံ' 'ညိုနွဲ့နှောင်း' 'ယဉ်ရွှန်းမြ' 'လှခေါင်ထွတ်' စသော အာလုပ် အခေါ်အဝေါ် ကလေးများသည် နတ်သျှင်နောင်၏ ကဗျာတို့တွင် အမျိုးမျိုးသော ဝေါဟာရကြွယ်မှုကို ပြပေသည်။ ဓာတုကလျာကား ဟံသာဝတီ ဆင်ဖြူများရှင် မင်းတရားကြီး၏ သမီးတော် ဖြစ်သည်။

ယင်းသို့ အဆင်း အင်္ဂါနှင့် ပြည့်စုံလှသော ဓာတုကလျာအား စွဲမက်နေရကား၊ စာအညှာ ကဗျာကလေးများမှာ အဆန်းတကြယ် ထွက်ခဲ့၏။ 'ရှစ်ဆိုင်ရွှက်ကြာ' ချီ စာတော်တွင်၊ 'နှစ်ပြိုင်ဖက်ရှာ၊ ဝတီသာမှ၊ စံရာစံထား၊ ရွေးခဲ့ခြား၍၊ သိကြားတမျှ၊ ပြိုင်လှာသလည်း၊ သော်တာ့ရောင်တွင်၊ ကြယ်နှယ်ထင်ဟု' ဟူ၍ ကွင်းကွင်းကွက်ကွက်ပေါ်လွင်စွာ စပ်ဆိုခဲ့၏။ မယ်ဘွဲ့ မောင်ဘွဲ့ ရတုများအပြင်၊ ဘုရားဘွဲ့ စစ်ချီရတု မိုးဘွဲ့ ရာသီဘွဲ့ စသည်တို့ကိုလည်း စပ်ဆိုခဲ့သေး၏။ အထူးသဖြင့် မယ်ဘွဲ့ မောင်ဘွဲ့များ၌ နတ်သျှင်နောင်၏ စာသည် မင်းနဝဒေးကြီး၏ စာထက် သာလေသည်။ သို့ရာတွင် ဘုရားတိုင် ရတု၌မူ နဝဒေးကြီးက နတ်သျှင်နောင်ထက် ဗဟုသုတ သာကြောင်း ထင်ရှား၏။ (နဝဒေးကြီး — လည်းရှု။)

သက္ကရာဇ် ၉၇၄ ခုနှစ်တွင် သံလျင်မြို့စား ကုလားငကော်နှင့် မုတ္တမမြို့စား ဗညားဒလတို့ တောင်ငူသို့ ချီတက်တိုက်ခိုက်ရာ၊ သံလျင်သို့ ပါသွား လေသည်။ အင်းဝဘုရင် မဟာဓမ္မရာဇာ မင်းမြတ်သည် ထိုအကြောင်းကြားတော်မူသဖြင့်၊ ထိုနှစ်တွင်ပင် သံလျင်မြို့ကို ချီတက် တိုက်ခိုက်ရာ အောင်မြင်သည်။

အောင်မြင်ပုံမှာ ဤသို့ဖြစ်၏။ သက္ကရာဇ် ၉၇၄ ခုနှစ် တန်ခူးလပြည့်နေ့တွင် မြန်မာသူရဲကောင်းတို့သည် အရှေ့မျက်နှာတံခါး၌ အစောင့်ထားသည့် ပေါ်တူဂီ ၁၂ ယောက်ကို ညဉ့်တချက်တီးကျော်တွင် ထိုးခုတ်သတ်ဖြတ်၍၊ မြို့တံခါး

ကို ဖွင့်ပေးသည်နှင့် မင်းမဟာဓမ္မရာဇာ၏ ရဲမက်တို့သည် တဟုန်တည်း ဝင်ကြသည်။ မြို့လေးမျက်နှာကလည်း တညီတညွတ်တည်း တက်ကြသည်နှင့် မခံမရပ်နိုင်ဘဲ၊ ထိုနေ့ မိုးလင်းတွင် သံလျင်မြို့ ပျက်လေသည်။ သံလျင်ပျက်လျှင် ဖိုလ်မှူး စေကာ်နှင့် နတ်သျှင်နောင်ကို လက်ရဖမ်းမိသည်။ ထိုနောက် မဟာဓမ္မရာဇာက စေကာ်အား—

'ငါအကြိမ်ကြိမ် စာပေးမှာထားသည်။ ငါ့ရန်သူကို အပ်ရမည်ဆိုသည်ကို မပေးအပ်နေသည်မှာ ယခု ငါ့လက်သို့ ရောက်ပြီ။ အသနားခံ၍ တောင်းပန်လျှင် ချမ်းသာပေးမည်' ဟု မိန့်တော်မူလေသည်။

ပေါ်တူဂီဗိုလ်မှူးကလည်း 'ကျွန်ုပ်တွင် အပြစ်မရှိသည်ကို အဘယ်ကြောင့် တောင်းပန်ရမည်နည်း။ အရှင်မင်းကြီး၏ ရန်သူဖြစ်ခဲ့လျှင် ခပ်သိမ်းသော သူအပေါင်းတို့၏ ရန်သူဖြစ်ရအံ့တော့လော။ ကျွန်ုပ်အား မိတ်ဖွဲ့လာလျှင် ကျွန်ုပ်၏ မိတ်ဆွေခင်ပွန်းဖြစ်သည်။ မိတ်ဆွေခင်ပွန်းကို အမှန်မချွတ်မယွင်း စွမ်းဆောင်ရမည်ဖြစ်၍၊ စွမ်းဆောင်ပေးသည့် ဓမ္မတာအတိုင်း တနေ့မွေးလျှင် တနေ့သေရမြဲဖြစ်သည်။ ယခုအရှင်မင်းကြီးလက်သို့ရောက်၍ ပြုလိုရာ ပြုနိုင်မည်ပင် ဖြစ်တော့သည်။ သို့ရာတွင် ကျွန်ုပ်နှင့် တောင်ငူမင်းမှာ သေလျှင်သေချင်း၊ ရှင်လျှင်ရှင်ချင်း၊ သစ္စာကတိ ကြီးစွာရှိသည်။ သေလျှင်လည်းအတူ၊ ရှင်လျှင်လည်းအတူတူဖြစ်လိုသည်' စသည်ဖြင့် မတုန်မလှုပ်လျှောက်ကြားသည်။ (ဒီဗရစ်တို — ရှု။)

တဖန် တောင်ငူမင်းကို စစ်မေးပြန်လျှင်လည်း 'ငါ့အကြောင်းကို စစ်မေးလျှင် ငါ့အကြောင်းကို သိပြီးပင် ဖြစ်တော့သည်။ ဤပေါ်တူဂီ အမျိုးသားတို့နှင့် ပေါင်းယှက်၍ တသွေးတသားတည်းဖြစ်ပြီးရကား၊ သေဘေးကိုကြောက်သာတော့မည်မဟုတ်။ ဓမ္မတာတမ်း ဖြစ်မြဲပျက်မြဲပင်။ ငါ တယောက်တည်းသာ ဖြစ်ရပျက်ရသည်မဟုတ်။ လက်သို့ ရောက်သည်ဟု သတ်သော်လည်း ကိုယ်ကာယအကောင်သာ သေမည်။ အသက်ကို စိုးပိုင်သည်မဟုတ်၊ ပြုလိုရာပြုလေ ခံမည်'ဟူ၍ မိန့်တော်မူလျှင်၊ တောင်ငူမင်းနှင့် စေကာ်တို့ကို သက္ကရာဇ် ၉၇၄ ခု တန်ခူးလပြည့်ကျော် ၃ ရက်စနေနေ့တွင် သံလျင်မြို့ ဈေးလယ်၌ ကားကြက်၍ ကွပ်မျက်သည်။ သံလျင်တွင် အနိစ္စရောက်ရသည်ကို အကြောင်းပြု၍၊ နတ်သျှင်နောင်ကို သံလျင်ရောက် မင်းတရားဟူ၍တွင်သည်။ နတ်သျှင်နောင်သည် ကွယ်လွန်သည့်အခါ၌ အသက် ၃၅ နှစ်အရွယ်မျှသာ ရှိသေးသည်။

**နန့်မြို့။** ။နန့်မြို့သည် ပြင်သစ်နိုင်ငံ၊ ပါရစ်မြို့တော်၏ အနောက်တောင်ဖက် ၂၄၇ မိုင်ခန့် ဝေးသော လွားမြစ်ကမ်းခြေတွင် တည်ရှိသည်။ ပင်လယ်မှ ၃၅ မိုင်ခန့် ကွာဝေးသော်လည်း၊ အလွန်စည်ကားသော ဆိပ်ကမ်းမြို့ဖြစ်သည်။ ဆိပ်ခံတန်တားများသည် ၂ မိုင်ခန့် ရှည်လျား၍၊ ဒုတိယကမ္ဘာစစ်ကြီးမဖြစ်မီက မြစ်ကိုဖြတ်ကာ ဆောက်လုပ်ထားသော တန်တား ၂၁ ခုရှိသည်။ နန့်မြို့သည် သင်္ဘောများ တည်ဆောက်ရာဌာနတခုဖြစ်သည်။ ထိုပြင် ထိုမြို့တွင် အင်ဂျင်နီယာလုပ်ငန်း၊ စက္ကူလုပ်ငန်း၊ ဓာတုဗေဒပစ္စည်းလုပ်ငန်းနှင့် မသိုးစာ စိမ်ခြင်း လုပ်ငန်းစသည့် လုပ်ငန်းများလည်း ရှိလေသည်။

နန့်မြို့သည် ရှေးယခင်က ဒျူဘွဲ့ရ ဗရစ်တန်နီစား အဆက်ဆက် အုပ်စိုးခြင်းခံခဲ့ရပြီးနောက်၊ ၁၄၉၁ ခုနှစ်တွင် ပြင်သစ်ဘုရင်၏ လက်အောက်သို့ ရောက်ရှိခဲ့လေသည်။ ပြင်သစ်ပရိုတက်စတန့်ဂိုဏ်းဝင်၊ ဟျူးဂျနိုးများအား လွတ်လပ်စွာ ကိုးကွယ်ခွင့်စသော ပြည်သူ့ အခွင့်အရေးများ ပေးအပ်ခဲ့သောနန့်ပြန်တမ်းကို ပြင်သစ်ပြည့်ရှင် စတုတ္ထဟင်နရီဘုရင်သည် ၁၅၉၈ ခုနှစ်တွင် နန့်မြို့မှ ထုတ်ပြန်ကြေညာခဲ့သည်။ နန့်မြို့တွင် စိန်ပီယား၊ စိန်ဂျိမ်းစသည့် ထင်ပေါ် ကျော်ကြားလှသော ဘုရားရှိခိုးကျောင်းကြီးများအပြင်၊ လှပတင့်တယ်သော အခြား အဆောက်အအုံကြီးများလည်း ရှိသည်။ ထိုမြို့တွင် နေထိုင်လျက်ရှိသော လူဦးရေမှာ ၁၉၅၄ ခုနှစ်တွင် ၂၂၂,၇၉၀ ယောက်ခန့်ဖြစ်သည်။

ဒုတိယ ကမ္ဘာစစ်ကြီးအတွင်းက ဂျာမန်တပ်များသည် ၁၉၄၀ ပြည့်နှစ် ဇွန်လ ၂၀ ရက်နေ့တွင် နန့်မြို့ကိုတိုက်ခိုက်သိမ်းပိုက်ခဲ့သည်။ ထိုနောက်တွင် မဟာမိတ် လေတပ်များကလည်း နန့်မြို့ရှိ သင်္ဘောကျင်းများကို အပြင်းအထန်ဗုံးကြဲတိုက်ခိုက်ဖျက်ဆီးခဲ့၏။ သို့သော် ၁၉၄၄ ခုနှစ် ဩဂုတ်လ ၉ ရက်နေ့တွင် ဂျာမန်တို့ကို နန့်မြို့မှ အပြီးတိုင်တိုက်ထုတ်နိုင်ခဲ့လေသည်။

**နန္ဒထေရ်။** ။နန္ဒထေရ်သည် ဂေါတမမြတ်စွာဘုရားလက်ထက် ထင်ရှားသော ထေရ်တပါးဖြစ်သည်။ သုဒ္ဓေါဒနမင်းနှင့် ဂေါတမီ မိဖုရားတို့၏ သားတော်ဖြစ်၍ မြတ်စွာဘုရား၏ ညီတော်ဖြစ်သည်။ ထို့ကြောင့် ညီတော် မင်းနန်ဟုလည်း တွင်သည်။

နန္ဒမင်းသားသည် နှမတော် ဇနပဒကလျာဏီနှင့် လက်ထပ်မည့်ဆဲဆဲတွင် မြတ်စွာ ဘုရားက သပိတ်ထမ်း ခေါ်ဆောင်သွားကာ၊ ကျောင်းတော်သို့ ရောက်သောအခါ၊ ရဟန်းပြုပေးသည်။ နန္ဒရဟန်းသည် ဇနပဒကလျာဏီကို စွဲလမ်းအားကြီး၍၊ သာသနာတော်၌ မပျော်မွေ့နိုင်သဖြင့်၊ လူထွက်အံ့ဟု လျှောက်ကြားသောအခါ၊ မြတ်စွာဘုရားသည် ဒေဝစာရီ ကြွချီရာသို့ ခေါ်ဆောင်သွားသည်။

လမ်းခရီး၌ မျောက်မအိုတကောင်ကိုပြ၍၊ ဇနပဒကလျာဏီနှင့် မည်သူ အလှပိုသည်ကိုရင်း၊ နတ်ပြည်သို့ ရောက်သော် နတ်သမီးတို့ကိုပြ၍၊ မည်သူအလှပိုသည်ကိုရင်း နန္ဒရဟန်း

အား သဘောစမ်း၍ မေးမြန်းသည်။ နတ်သမီးများ၏အလှကို နှစ်သက်သည်ဟုဆိုရာ၊ သူတို့ကို အလိုရှိသော် လေ့ကျက်ရွှတ်ပွားရန် မြတ်စွာဘုရားက လက္ခဏာရေး သုံးပါးနှင့်စပ်သော တရားကို ပေးတော်မူ၏။ အကြောင်းအရာ အကျယ်ကို သိလိုလျှင်၊ ဓမ္မပဒအဋ္ဌကထာ၊ ယမကဝဂ်တွင် ဖော်ပြထားသည်။

နန္ဒရဟန်းသည် နတ်သမီးကို အလိုရှိသောဆန္ဒ ပြင်းပြသဖြင့် ထိုတရားကိုရွှတ်ဆိုနေရာ၊ ရွှတ်ဆိုဖန် များသော်၊ အနက်အဓိပ္ပါယ်ကို သိရသဖြင့် အာသဝေါတရား ကင်းပြတ်၍၊ အရဟတ္တဖိုလ်သို့ရောက်သည်။ ထိုအခါမှ နန္ဒရဟန်းသည် နတ်သမီးတို့ကို အလိုမရှိတော့ကြောင်းဖြင့် လျှောက်ကြား၍ တရား၌သာ မွေ့လျော်လေသည်။

**နန္ဒဘုရင်၊ ငါးဆူဒါယကာ** (မြန်မာ ၉၄၃–၉၆၀)။ ။ ငါးဆူဒါယကာ နန္ဒဘုရင်သည် ဘုရင့်နောင်၏ သားတော်ဖြစ်သည်။ သက္ကရာဇ် ၉၄၃ ခုနှစ်တွင် ဘုရင့်နောင် နတ်ရွာစံသောအခါအရိုက်အရာဖြစ်သောဟံသာဝတီထီးနန်းကို သားတော်နန္ဒဘုရင်က ဆက်ခံစိုးစံသည်။ (ဘုရင့်နောင် — ရှု။)

နန္ဒဘုရင် နန်းတက်သောအခါ၊ လက်အောက်ခံမင်းများကား၊ အင်းဝတွင် သတိုးမင်းစော၊ပြည်တွင် သတိုးဓမ္မရာဇာ၊ တောင်ငူတွင် မင်းခေါင်၊ ညောင်ရမ်းတွင် မင်းရဲ နန္ဒမိတ်၊ မုတ္တမတွင် သီရိသုဓမ္မရာဇာ၊ ဇင်းမယ်တွင် နော်ရထာစောတို့ဖြစ်ကြသည်။ ထိုမင်းငယ်အသီးအသီးတို့သည် ဘုရင့်နောင်၏ ညီတော်သားတော်နှင့် သမက်တော်တို့ချည်း ဖြစ်သည်။ မြို့ကြီးပြည်ကြီးတို့ကို ထိုသို့ သားတော်ညီတော် စသည်တို့ကို အပိုင်စားပေး၍ အသီးအခြား အုပ်ချုပ်စေသော ထုံးစံမှာ၊ စိတ်သဘောညီညွတ်က နိုင်ငံ၏ အားတခုဖြစ်သော်လည်း၊ စိတ်သဘောကွဲပြားဆန့်ကျင်သည်နှင့် တပိုင်နက်၊ နိုင်ငံပျက်စီးရန် အကြောင်းတခုဖြစ်လေသည်။ နန္ဒဘုရင်သည် မိမိ၏လက်အောက်ခံ ထိုမင်းငယ် အသီးအသီးတို့နှင့် မသင့်မတင့်ဖြစ်ခဲ့ရာ၊ ညီညွတ်ရေးပျက်ပြား၍ မင်းငယ်အသီးအသီးက နန္ဒဘုရင်၏ လက်အောက်မှ တော်လှန် ပုန်ကန်ခဲ့ကြလေသည်။

နန္ဒဘုရင်သည် ခမည်းတော် ဘုရင့်နောင်ကဲ့သို့ပင် ဘုန်းလက်ရုံးအာဏာနှင့်ပြည့်စုံသော မင်းဖြစ်သည်။ ပုန်ကန်ခြားနားကုန်သော လက်အောက်ခံ မင်းငယ်တို့ကို ခမည်းတော်ဘုရင့်နောင်ကဲ့သို့ပင်၊ ချေမှုန်းနှိမ်နင်းလေသည်။ သို့ရာတွင် တပင်ရွှေထီး ဘုရင့်နောင်တို့၏ လက်ထက်ကတည်းက စစ်ကြောင့် ပင်ပန်းခဲ့လှပြီဖြစ်သော နိုင်ငံတော်သည် နန္ဒဘုရင်၏ လက်ထက်သို့ ရောက်သောအခါ၊ ပြိုကွဲခြင်းသို့ ရှေးရှုခဲ့လေသည်။ နန္ဒဘုရင်ကိုယ်တိုင်ကလည်း တိုင်းနိုင်ငံကို စည်ပင် ဝပြောအောင် ပြန်လည် ထူထောင်ရမည့် အစား၊ စစ်ပွဲများချည်း ခင်းကျင်းတိုက်ခိုက်ခဲ့သည်။ နိုင်ငံတွင်းပုန်ကန်မှုများကို နှိမ်နင်းနေရသည့်အကြားမှ ယိုးဒယားသို့ အကြိမ်ပေါင်းများစွာ စစ်ချီတက် တိုက်ခိုက်ခဲ့သည်။ သို့ရာတွင် နန္ဒဘုရင်သည် ယိုးဒယားမှ စစ်ရှုံး၍ချည်း ပြန်လာခဲ့ရသည်။

နန္ဒဘုရင်သည် စစ်ဆင် တိုက်ခိုက်မှုတွင် ချီးမွမ်းဖွယ်ကောင်းလောက်အောင်စွမ်းရည်နှင့်ပြည့်စုံသောပုဂ္ဂိုလ်တဦးဖြစ်သည်။ခမည်းတော်ဘုရင့်နောင်၏ လက်ထက်ကတည်းကပင် အရေးပါသော စစ်သူကြီးဖြစ်ခဲ့သည်။ သို့သော် နန္ဒဘုရင်သည် အခြေအနေနှင့်အခါသမယကို ဆင်ခြင် သုံးသပ်နိုင်ခြင်းမရှိခဲ့ချေ။မိမိ၏ နန်းသက်တလျှောက်လုံးတွင် အဆက်မပြတ် နှစ်စဉ်နှစ်တိုင်း စစ်ပွဲများ ဆင်နွှဲတိုက်ခိုက်ခဲ့သည်။ နိုင်ငံသူ နိုင်ငံသားတို့မှာလည်း စစ်ကြောင့် ပင်ပန်းခဲ့လှကြပြီဖြစ်သည်။ တဖက်တွင် ပြည်ပနိုင်ငံများဖြစ်သော မြောက်ဖက်ရှိ တရုပ်နိုင်ငံ၊ တောင်ဖက်ရှိ ယိုးဒယားနိုင်ငံများသို့ စစ်အကြိမ်များစွာ ချီတက်တိုက်ခိုက်ခဲ့လျက်၊ အခြားတဖက်၌ကား၊ ပြည်တွင်းမင်းငယ်များ၏ ခြားနားပုန်ကန်မှုများကို နှိမ်နင်းနေခဲ့ရလေသည်။

ဤသို့အားဖြင့် စစ်ကြောင့် ပင်ပန်းလျက်ရှိသော နိုင်ငံဝယ်၊ အခြားသော ပြည်တွင်းချွတ်ယွင်းမှုများလည်း ပေါ်ပေါက်လာခဲ့လေတော့သည်။ ၉၅၇ ခုနှစ်၌ စိုက်ပျိုးပြီးစပါးနှင့်သီးနှံပင်များကို ကြွက်အများကျသဖြင့်၊ တော်မွတ်ခေါင်းပါးခြင်းဘေးကြီးပင် ပေါ်ပေါက်ခဲ့လေသည်။ မြို့တော်ဖြစ်သော ပဲခူးတွင်လည်း အုပ်ချုပ်ရေး အခြေခံ မခိုင်သဖြင့်၊ နိုင်ငံခြားနှင့် ကူးသန်းရောင်းဝယ်ရေးများ ပျက်ပြားကာ၊ နိုင်ငံတော်၏ စီးပွားရေးလည်း တဖြည်းဖြည်း ယိမ်းယိုင်၍လာသည်။ နိုင်ငံသူ နိုင်ငံသား အများအပြားလည်း မင်းတိုင်းကိုကြောက်၍ ရဟန်းပြုကြသည်။သို့ရာတွင် နန္ဒဘုရင်သည် အချို့သောရဟန်းတို့ကို ဝိနည်းတော်နှင့်အညီ မကျင့်ဟူ၍ လူပြုစေသည်။ အချို့သော ရဟန်းများအားလည်း ညောင်ရမ်း၊ အင်းဝ၊ စစ်ကိုင်း၊ ရှမ်းပြည်တို့သို့ ပို့သည်။ မွန်လူမျိုးအမြောက်အမြားလည်း ရခိုင်၊ ဇင်းမယ်၊ယိုးဒယားတို့သို့ ပြေးဝင်ခိုလှုံကြသည်။ ဤသို့ပြုတော်မူသည်ကို နောင်အခါ၌ "ငါးဆူဒါယကာ အမှားတော်ပုံ" ဟူ၍ စာအုပ် ရေးသားသည်ကိုတွေ့ရ၏။ယိုးဒယားနိုင်ငံကလည်း ပဲခူး၊ မုတ္တမနှင့်ထားဝယ်မြို့များသို့ ဝင်ရောက်တိုက်ခိုက်လာလေသည်။

ယင်းသို့ အင်အားယွင်းယိုလျက် ယိမ်းယိုင်ပြိုလဲလုဖြစ်နေသော နန္ဒဘုရင်၏ ဟံသာဝတီပဲခူးနိုင်ငံကို ၉၆၀ ခုနှစ်တွင် တောင်ငူမင်း မင်းရဲသီဟသူနှင့် ရခိုင်ဘုရင် မင်းရာဇာကြီးတို့ ပူးပေါင်း၍ တိုက်ခိုက်ကြံစည်ကြရာ၊ ပဲခူးလည်း ပျက်လေသည်။ ပဲခူးမှ ရနိုင်သမျှသော စည်းစိမ် ဥစ္စာရတနာများကို တောင်ငူမင်းနှင့် ရခိုင်ဘုရင်တို့ ခွဲဝေ၍ ယူသည်။ နန္ဒဘုရင်အားလည်း တောင်ငူမင်း ဖမ်းယူ ခေါ်ဆောင်သွားသည်။

ရခိုင်ဘုရင်သည် ယိုးဒယားမှ ဘုရင့်နောင်သိမ်းယူလာသော ဟိန္ဒူနတ်ကြေးရုပ်ကြီးများနှင့် အမြောက်ကြီးများကို သိမ်းယူသည်။ ထိုနောက် ပဲခူးမြို့ကြီးကို မီးတင်ရှို့ဖျက်ဆီးကြလေသည်။

ပဲခူးအရေးတော်ပုံကို ကြားသောအခါ၊ ယိုးဒယားဘုရင် ဖြူနရာဇ်လည်း စေစုခွဲရန်အတွက် ပဲခူးသို့အပြင်းချီလာသည်။ (ဖြူနရာဇ် — ရှု။) သို့ရာတွင် အရောက်နှောင်းသဖြင့်၊ ပဲခူးမြို့ပျက်ကြီးကိုသာ တွေ့ရသောကြောင့်၊ ပဲခူးတဝိုက်ကို တိုက်ခိုက်ပြီးလျှင် တောင်ငူသို့ ချီတက်၍ ခေတ္တမျှ ဝိုင်းရံ လုပ်ကြံပြီးနောက် တပ်နုတ်၍ ယိုးဒယားသို့ပြန်သည်။

ရခိုင်ဘုရင်လည်း ရခိုင်သို့အပြန်တွင် တောင်ငူမင်းနှင့် ပူးပေါင်း၍ ပဲခူးကို မလုပ်ကြံမီက တိုက်ခိုက် သိမ်းယူထားသော သံလျင်မြို့တွင် မိမိ၏လက်သုံးတော် တဦးဖြစ်သော ပေါ်တူဂီလူမျိုး ဖိလစ် ဒီဗရစ်တို ခေါ် ငစက်ကာအား မင်းရဲသီဟသူ၏ သဘောတူညီချက်အရ၊ အလုံးအရင်းနှင့် အစောင့်ချထားခဲ့လေသည်။ (ဒီဗရစ်တို — ရှု။)

တောင်ငူမင်း ဖမ်းဆီးခေါ်ဆောင်သွားခြင်းကို ခံရသော နန္ဒဘုရင်လည်း တောင်ငူသို့ ရောက်ပြီးနောက်၊ သက်တော် ၆၆ နှစ်တွင် တောင်ငူမင်း မိဖုရားနှင့် နတ်သျှင်နောင်တို့လုပ်ကြံ၍ အနိစ္စရောက်သည်။ နန္ဒဘုရင်သည် တောင်ငူသို့ပါသောကြောင့်၊ တောင်ငူရောက်မင်းတရားဟုလည်း တွင်သည်။ ကောင်းမှုတော်ဘုရားငါးဆူကို တည်ထားကိုးကွယ်ခြင်းကြောင့်၊ ငါးဆူဒါယကာ နန္ဒဘုရင်ဟုလည်း ခေါ်တွင်လေသည်။

**နန္ဒဘုရင် တိုက်ပွဲများ။** ။ဟံသာဝတီ ဆင်ဖြူများရှင်မင်းတရားကြီး၏သားတော် ငါးဆူဒါယကာ နန္ဒဘုရင် လက်ထက်တွင် ဖြစ်ပွားသော တိုက်ပွဲများကို နန္ဒဘုရင်တိုက်ပွဲများဟု ခေါ်ကြသည်။

သက္ကရာဇ် ၉၄၃ ခုနှစ် (၁၅၈၁) တွင် ဆင်ဖြူများရှင် ဘုရင့်နောင်မင်းတရားကြီး နတ်ရွာစံသောအခါ သားတော် နန္ဒဘုရင်နန်းတက်သည်။ ခမည်းတော် မင်းတရားလက်ထက် နိုင်ငံတော် ချဲ့ထွင်ခဲ့သမျှတွင် ခိုင်မြဲသောအုပ်ချုပ်မှုကို မပေးနိုင်သောကြောင့် လက်အောက်ခံဖြစ်သော ပဒေသရာဇ်နိုင်ငံတို့သည် ယခင်ကကြောက်ရွံ့၍ရင်း၊ ပုဂ္ဂိုလ်စွဲအားဖြင့်ရင်း၊ ဝါဒကိုနှစ်ခြိုက်၍ရင်း စည်းလုံးခဲ့ကြသော်လည်း၊ ဘုရင့်နောင်နတ်ရွာစံသောအခါတွင် ကိုယ့်မင်းကိုယ်ချင်း သီးခြားနေကြရန် ရည်ရွယ်၍၊အသီးသီးခွဲထွက်ရန် ခြေလှမ်းပြင်ကြတော့သည်။ အသီးအခြားအုပ်ချုပ်ခွင့် ပေးထားသော ညီတော်သားတော်တို့သည်လည်း စိတ်သဘောကွဲပြားကြသဖြင့် စစ်မက်မှု များရသည်။

နန္ဒဘုရင်ကား ခမည်းတော် ဘုရင့်နောင် မင်းတရား၏ အောင်ပွဲများစွာ၌ အရေးပါသော စစ်သူကြီး ဖြစ်သည်။ စစ်ဆင်စစ်တိုက်တို့တွင် ချီးမွမ်းဖွယ်ကောင်းလောက်အောင် စွမ်းရည်နှင့်ပြည့်စုံသူလည်း ဖြစ်သည်။ တရုပ်ပြည် တောင်ပိုင်းတိုက်ပွဲများ၌ တရုပ်တို့၏ အချီးအမွမ်းခံရသူလည်းဖြစ်သည်။ သို့ရာတွင် နန္ဒဘုရင်သည် အလုံးအရင်း အင်အားနှင့်ပြည့်စုံသော ဘထွေးတော်ညီတော်တို့နှင့် အသင့်အတင့်မကျင့်ခြင်း၊ အခြေအနေနှင့် အခါသမယကို သုံးသပ်၍မဆောင်ရွက်တတ်ခြင်းတို့ကြောင့် အရေးဟူသမျှ လစ်ဟင်းကာ အဆုံး၌ စည်းစိမ်အသက် ပျက်စီးဆုံးရှုံးရသည်။

နန္ဒဘုရင် နန်းတက်သည်နှင့် တပြိုင်နက် သီးခြားခွဲထွက်ရန် ဟန်ပြင်သော ပဒေသရာဇ်နိုင်ငံတို့တွင် အင်းဝသည် ပဌမဖြစ်၍ ယိုးဒယားသည် ဒုတိယဖြစ်သည်။ သက္ကရာဇ် ၉၄၄ ခုနှစ်တွင် နန္ဒဘုရင်၏သားတော် အိမ်ရှေ့ဥပရာဇာ မင်းကြီးစွာနှင့် အိမ်ရှေ့မိဖုရား နတ်ရှင်မယ်တော်တို့ မကြည်ရှိကြ၍ တွန်းဖယ်ရာတွင် အိမ်ရှေ့မိဖုရား နဖူးတော်နှင့် သလွန်တော်စွန်းထိ၍ သွေးယိုသည်ကို ဝတ်လဲတော်နှင့် သုတ်ပြီးလျှင် ဗူးတွင် သွတ်ကာ တံဆိပ်လက်ရာနှင့် ခမည်းတော် အင်းဝဘုရင် သတိုးမင်းစောသို့ ဆက်၍ တိုင်ရာမှအစ ပင်ကိုယ်စိတ်ဝမ်း ကွဲချင်နေသော နန္ဒဘုရင်နှင့် အင်းဝ ဘုရင်ခံ သတိုးမင်းစောတို့ စိတ်ဝမ်းကွဲကြသည်။အင်းဝဘုရင်ခံက ခြားနားရန် လူသူစည်းရုံးသည်ကို နန္ဒဘုရင် ကြားသိတော် မူသောအခါ သားတော် မဟာဥပရာဇာကို မြို့စောင့် ခန့်တော်မူ၍ သက္ကရာဇ် ၉၄၅ ခု တန်ခူးလပြည့်နေ့တွင် အင်းဝသို့ စစ်ချီတော်မူသည်။

နန္ဒဘုရင်ကိုယ်တိုင်တပ်မပြု၍ တပ် ၁၇ တပ်တွင် တိုက်ဆင် ၁,၅၀၀၊ မြင်း ၁၅,၀၀၀၊ စစ်သည် သူရဲ ၁၅၀,၀၀၀ နှင့် ချီတော်မူသည်။ ပြည်မင်း တောင်ငူမင်းတို့လည်း ယင်းတို့အင်အားနှင့် တကြောင်း ချီရသည်။ ရောက်တော်မူလျှင် ပင်းယတွင် တပ်ချသည်။ ယင်းသို့ ဆင်လုံး မြင်းလုံး များလှသည်ကို ကြားသော အင်းဝဘုရင်သည် နန္ဒဘုရင်ထံသို့ ဆင်စီးချင်း တိုက်ရန် စကားကမ်းလှမ်းလိုက်ရာ နန္ဒဘုရင်ကလည်း သဘောတူညီလိုက်သည်။

သက္ကရာဇ် ၉၄၆ ခု ကဆုန်လပြည့်ကျော်တရက် အင်္ဂါနေ့တွင် နန္ဒဘုရင်မင်းမြတ်သည် ဆင်တော်စောရန်နင်းကို ရှေ့ကွန်ရွက်လှမ်းပြီးလျှင် ဇေယျဇလကို နောက်တော် ထိုင်စေ၍ လက်ဝဲတော်က ဆင်ကူ ၃၀၊ လက်ျာတော်က ဆင်ကူ ၃၀ နေစေကာ ပင်းယမြောက် သစ်ဆိမ့်ပင် အရပ်တွင် စစ်အင်ကျင်း၍နေတော်မူသည်။အင်းဝဘုရင် သတိုးမင်းစောလည်း ဆင်တော် သန်မြင့်စွာကို ရှေ့ကွန်ရွက်လှမ်းပြီးလျှင် ကျောက်ရစ်စားကို နောက်တော် ထိုင်စေ၍ လက်ဝဲတော်က ဆင်ကူ ၃၀၊ လက်ျာတော်က ဆင်ကူ ၃၀ စီရင်တော်မူကာ မြို့က ထွက်သည်။ တံတားဦးသို့ ရောက်တော်မူလျှင် ရဲမက်တို့ကို

စစ်မျက်နှာဖြန့်စေ၍ မင်း ၂ ပါး တိုက်တော်မူမည်ဟု စီရင်ခင်းကျင်းစဉ်တွင် ဟံသာဝတီ ဘုရင်၏ကျွန်တော် တရုပ်မော်စားသည် ရဲမြတ်စွာဟူသော ဆင်ကိုစီး၍ အင်းဝဘုရင်ထံသို့လွှတ်လာသည်ကို အင်းဝဘုရင်၏ကျွန်တော် ပြင်စည်စားသည် နာဂဝရ ဟူသော ဆင်ကိုစီး၍ ခံသည်။ တရုပ်မော်စားဆင်နှင့် အတော်ကြာဇွေကြစဉ်တွင် အင်းဝဘုရင်သတိုးမင်းစော လိုက်၍ တိုက်တော်မူသည်။ တရုပ်မော်စား ဆင်မျက်နှာ သုန်၍ပြေးရာတွင် ကုန်းလယ်စီး ဘယရာဇသူ လှံနှင့်လှတ်သည်။ တရုပ်မော်စား နံကို လှံသင့်၍ ဆင်ထက်ကကျ၍ သေလေသည်။ ဆင်ကိုလည်း ရတော်မူသည်။

ယင်းသို့ဖြစ်စဉ် နန္ဒဘုရင် ဆင်တော်နှင့် ပြင်စည်စားဆင်တို့တိုက်ရာတွင် ပြင်စည်စားဆင် အားမတန်၍ မျက်နှာအသုန်တွင် ဆင်ကကျ၍ ပြင်စည်စားကို အရှင်ရတော်မူသည်။ ထိုအခါမှ မင်းနှစ်ပါး ယှဉ်၍ တိုက်တော်မူကြသည်။ သို့ရာတွင် ဘုန်းကြီးသောမင်းချည့်ဖြစ်သဖြင့် တပါးကိုတပါးမနိုင်ဖြစ်နေစဉ် ဆင်ကူများကလည်း ကူညီမတိုက်ဝံ့ဖြစ်ကြသည်။ အင်းဝဘုရင်သည် ဆင်တော်ကို ဆုတ်စေ၍ အားယူစေပြီးလျှင် ချွန်းဖွင့်၍ ယောက်ဖတော်ကို တိုက်တော်မူရာ နန္ဒဘုရင်စီးသော ဆင်တော် စောရန်နင်းကို ထိုးမိသဖြင့် စွယ်လုံးကျွံ၍ ခိုက်ခိုက်တုန်ချေသည်။ ထိုအခါ နန္ဒဘုရင်၏ဆင်ကူများ လာရောက်ကြသဖြင့် အင်းဝဘုရင် ဆင်တော်ပန်းလှသည်နှင့်ဆုတ်ရသည်။ နန္ဒဘုရင်သည် ဥပေါသထ ဟူသောဆင်တော်ကို ပြောင်း၍ စီးတော်မူပြီးလျှင် လက်ဝဲလက်ျာဆင်ကူများနှင့် ထွက်တော်မူပြန်သည်။ အင်းဝဘုရင်ဆင်တော် ပင်ပန်းလှ၍ ရေသို့ ဆင်းချေသော် အလိုတော်မရပြီဖြစ်သဖြင့် အင်းဝဘုရင်လည်း ဆုတ်ရချေသည်။ နန္ဒဘုရင်ရဲမက်တော်တို့က အင်းဝဘုရင်ဆုတ်သည်ကိုမြင်လျှင် လိုက်၍တိုက်သဖြင့်မခံနိုင်ဖြစ်ရာ အင်းဝဘုရင်သည် စုရုံးမိသမျှလက်နက်နှင့်တံတားဦးကသည်အင်းဝမြစ်ကိုကူး၍မန္တလေးအရှေ့ဘုတ်ကန်ကြီး တောင်ခြေရင်းတွင် တပ်နှင့်ခံ၍ နေတော်မူသည်။ သို့ရာတွင် ဆင်ကောင်းမြင်းကောင်းနှင့် ရဲမက်ဗိုလ်ပါနည်းလှသဖြင့် ထိုနေရာတွင်ခံမနေတော့ဘဲ တရုပ်မင်းဥတည့်ဘွားထံမှ စစ်ကူတောင်းကာ ဟံသာဝတီကို လုပ်ကြံရန်ကြံစည်၍ မြင်းခုနစ်တပ်၊ ရဲမက် ၂ ထောင်နှင့် တရုပ်ပြည်သို့သွားတော်မူသည်။ ခန္တီးသို့ရောက်လျှင် နာ၍ အနိစ္စရောက်တော်မူသည်။

ဟံသာဝတီ မင်းတရားလည်း အင်းဝကို အလိုတော်ပြည့်လျှင် နှမတော်အင်းဝမိဖုရားကို ဟံသာဝတီသို့ ကောင်းမွန်စွာ ဆောင်တော် မူခဲ့သည်။ သစ္စာတော်ခံများ ဖြစ်သောပြည်၊ တောင်ငူ၊ ဇင်းမယ်နှင့် ယိုးဒယားဘုရင်တို့အား အင်းဝသို့ ချီတော်မူစဉ်က နောက်တော်လိုက်ရန် ခေါ်တော်မူသည်။ ပြည်၊ တောင်ငူ၊ ဇင်းမယ် ဘုရင်တို့က အလုံးအရင်းနှင့် လိုက်သော်လည်း ယိုးဒယား ဘုရင် မဟာ ဓမ္မရာဇာ (စော်ဘွားသောင်ကျည်)သည် ကိုယ်တိုင်မလိုက်ဘဲ သားတော် ဖြနရာဇ် (ဖြနရေဆုအင်) ကို အကူလွှတ်မည်ဟုသာ အကြောင်းကြားလိုက်၏။ သို့ရာတွင် ဖြနရာဇ်သည် နန္ဒဘုရင် အင်းဝသို့ ချီပြီဟု ကြားသည်နှင့် တပြိုင်နက် နောက်တော်သို့မလိုက်ဘဲ ဖင့်နွဲ၍ချီလာကာ ယိုးဒယားမွန်နယ်စပ်ရှိမှုအန်ခရင်းအရပ်၌အလုံးအရင်းနှင့်တပ်စွဲရင်း အင်းဝတိုက်ပွဲအကြောင်း စောင့်၍ နားထောင်နေလေသည်။အင်းဝပြည်ကစတင်ပုန်ကန်ပြီကိုသိသောဖြနရာဇ်သည် မိမိတို့ယိုးဒယားပြည်အဖို့ ခြားနားရန် အချိန်ဆိုက်ပြီဟု ယူဆသည့်အလျောက် စောင့်ဆိုင်းနေခြင်းဖြစ်သည်။ အင်းဝတိုက်ပွဲတွင် နန္ဒဘုရင်ဖက်မှ နိုင်ပါက ယိုးဒယားကိုပါ ဆက်၍တိုက်မည်ဆိုလျှင် တိုက်နိုင်သဖြင့် မြန်မာဘုရင် ခေါ်လာခဲ့သော ယိုးဒယားအမျိုးသားများကို ပြန်လည် ခေါ်ယူသွားကာ အင်အား ပိုမို တောင့်တင်းစေရန် လူသူ စုဆောင်းမည်။ အင်းဝတိုက်ပွဲ၌ နန္ဒဘုရင်ဖက်မှ ရှုံးပါက ဟံသာဝတီ နေပြည်တော်ကို ဝင်ရောက်တိုက်ခိုက် သိမ်းယူမည် ဟူသော အကြံပြုလေသည်။ (ဖြနရာဇ် — ရှု။)

ဖြနရာဇ်မင်းသားနှင့်ရဲမက်တို့ မှုအန်ခရင်းတွင် ယင်းသို့ တပ်စွဲနေသည်ကို ကြားသောအခါ မြို့စောင့်ကျန်ခဲ့သော မဟာဥပရာဇာ မင်းကြီးစွာသည် ဗညားကျန်းနှင့် ဗညားရမ်း ခေါ် မွန် ၂ ဦးကို မှုအန်ခရင်းသို့ လွှတ်၍ ဖြနရာဇ်မင်းသားထံ အစုံစမ်းလွှတ်လိုက်သည်။ ဖြနရာဇ် မင်းသားနှင့် ရဲမက်တော်တို့သည် မြောက်ဖက်သို့ချီတက်လာ၍ မဟာဥပရာဇာမင်းကြီးစွာကို ရှေ့မှ ဆီးတိုက်သည် ရှိသော် မွန်တို့က ဖြနရာဇ်အား နောက်မှနေ၍ တိုက်ခိုက်ရန်ဖြစ်သည်။ သို့ရာတွင် လျှို့ဝှက်မှာလိုက်သော အရေးအခင်းသည် မွန်ဘုန်းတော်ကြီးမှတဆင့် ဖြနရာဇ်မင်းသားထံ ပေါက်ကြားသွားလေသည်။ ထိုအခါ နန္ဒဘုရင်၏ ညှဉ်းဆဲနှိပ်စက်မှုကို ခံနေရသဖြင့် မွန်တို့သည် မြန်မာတို့အပေါ်၌ မခံမရပ်နိုင် ဖြစ်နေချိန်ဖြစ်သည်။ အချို့မွန်တို့သည် ယိုးဒယားပြည်ဖက်သို့ပင် ပြောင်းရွှေ့တိမ်းရှောင်နေကြသည်။

မဟာဥပရာဇာ၏ အကြံကိုသိသော ယိုးဒယားမင်းသား ဖြနရာဇ်သည် မြန်မာမင်း လက်အောက်ခံ မဟုတ်တော့ကြောင်း၊ မြန်မာမင်းကို ခြားနားပြီ ဖြစ်ကြောင်း အတိအလင်းကျေညာ၍ စစ်တောင်းမြစ်ကိုဖြတ်ကာ ဟံသာဝတီသို့ချီလာသည်။ ယိုးဒယားစစ်သည်တို့ ဟံသာဝတီနေပြည်တော်သို့ ချီလာကြောင်းကြားသောအခါ မဟာဥပရာဇာသည် ကျုံးမြောင်းပြင်ဆင်၍ အမြောက်သေနတ်တင်လျက် အတင်းအကြပ် ခံတော်မူသည်။ ယိုးဒယားဖြနရာဇ်လည်း မြို့ရင်းသို့ချဉ်း၍ တပ်တောင်တာနှင့် နေစဉ် နန္ဒဘုရင်အင်းဝကိုအောင်မြင်၍ ပြန်လာတော်မူကြောင်းကို ကြားသည်နှင့်

ဟံသာဝတီမှသည် မုတ္တမသို့ပြန်၍ အရှေ့ဖက် တလွှားတွင် ရှိသောလူများကို သိမ်းယူကာ ယိုးဒယားသို့ ပြန်လေသည်။ ပြနရာဇ်နှင့် အတူ ယိုးဒယားအိမ်ထောင်ပေါင်း တသောင်း ခန့်ပါသွားသည်ဟု ဆိုလေသည်။

ယိုးဒယားတို့ ဝင်ရောက် နှောင့်ယှက်သည့် သတင်းကို နန္ဒဘုရင် ကြားသိရသောအခါ တပ်ကြီး လေးတပ်ကို တိုက်ဆင် ၄၀၀၊ မြင်း ၄,၀၀၀၊ လူ ၅၀,၀၀၀ နှင့် အင်းဝမှ အလျင်ချီ၍ လိုက်ရလေသည်။ ထိုနောက် ဟံသာဝတီသို့ ရောက်သော် တပ်ခုနစ်တပ်ကို သားတော် မဟာဥပရာဇာ အားအုပ်ချုပ်စေ၍ တိုက်ဆင် ၅၀၀၊ မြင်း ၅,၀၀၀၊ စစ် သည်သူရဲ ၇၀,၀၀၀ နှင့် ယိုးဒယားသို့ ချီစေသည်။ ယိုးဒ ယားသို့ရောက်လျှင် အလျင်ချီလေသော ဗညားကျန်းတော တို့ လေးတပ်နှင့် ပေါင်း၍ ယိုးဒယားမြို့မြောက် စက္ကလိ ဟူသောအရပ်တွင် တပ်တည်၍ နေသည်ကို ယိုးဒယားမင်း သား ပြနရာဇ် မြို့မှ ထွက်တိုက်သည်။ အရပ်အနေ မသင့် သဖြင့် မြန်မာရဲမက်တော်တို့ ရှုံးရသည်။ ယင်းအကြောင်း ကို နန္ဒဘုရင်ကြားတော်မူလျှင် မိုးလလည်း ကျခါနီးသဖြင့် တကြောင်း၊ အလုံးအရင်းဆင်မြင်းလည်း နည်းသဖြင့် တ ကြောင်း ပြန်ခေါ်တော်မူသဖြင့် သားတော် ဥပရာဇာတို့ ၁၁ တပ်လုံး ပြန်လှည့်ခဲ့ရသည်။

ယိုးဒယားမြို့တော်ကို ဘုရင့်နောင်မင်းတရားလက်ထက် ကကဲ့သို့ပင် အခုအခံမရှိ အလွယ်နှင့် သိမ်းပိုက်နိုင်လိမ့်မည် ဟုအထင်ကြီးခဲ့သမျှ လွဲပြီဖြစ်ကြောင်းကို နန္ဒဘုရင်သည် ၉၄၈ ခုနှစ် တိုက်ပွဲအပြီးတွင် သိရှိလေသည်။ ထို့ကြောင့် ဘုရင့်နောင်လက်ထက်ကနှင့်မခြား ရဲမက်တော် အလုံးအ ရင်းရအောင် စုဆောင်းရန် အကြံရသည်။ ထို့ပြင် ယိုးဒ ယားမင်းသည် အယုဒ္ဓယမြို့တော်ကို ရဲမက် အလုံးအရင်းနှင့် ခုခံနိုင်ရန် မြောက်ဖက်နယ်စပ်မှ တပ်များကို ရုပ်သိမ်းထား ကြောင်း သိသဖြင့် မြောက်ဖက်နယ်စပ်တွင် မျိုးရိက္ခာ များစိုက်ပျိုးစုဆောင်းထားရန် တင်ကူး၍ လူပေါင်းများစွာ လွှတ်ထားလေသည်။

သက္ကရာဇ် ၉၄၇ ခုနှစ် တန်ခူးလတွင် တပ် ၁၉ တပ်ကို သားတော် မဟာဥပရာဇာအား ဦးစီးစေ၍ တိုက်ဆင်တ ထောင်၊ မြင်းတသောင်းနှစ်ထောင်၊ စစ်သည်သူရဲတသိန်း နှစ်သောင်းနှင့်ယိုးဒယားသို့ချီစေပြန်သည်။မြန်မာတပ်များ ချီလာသည်ကြားလျှင် ယိုးဒယားမင်းသား ပြနရာဇ်သည် တပ် ၁၅ တပ်နှင့် လကွန်းဟူသော အရပ်မှ ကြို၍တိုက် သည်။ မြန်မာတို့ဖက်မှ တပ်လေးတပ်ခွဲ၍ တိုက်သဖြင့် ပြနရာဇ်တပ်များ စက္ကလိဟူသော အရပ်တိုင်အောင် ဆုတ်၍ ခံတပ်တည်ကာ အခိုင် အခံ့ ပြုနေသည်။ မြန်မာတို့က တ ကြိမ်နှစ်ကြိမ်လုပ်ကြံသော်လည်း မပျက်သဖြင့် ရှည်သော် မျိုးရိက္ခာကုန်၍ တော်မည် စိုးသောကြောင့် ဆုတ်ယောင်ပြု၍ ပြနရာဇ်တပ်များ လိုက်အတိုက်တွင် ခံတိုက်ရန် စီစဉ်ရသည်။ တပ်များ နုတ်ဟန်ပြုသည်ကို ပြနရာဇ်လည်း ဆင်မြင်း အလုံး အရင်းနှင့် လိုက်၍ တိုက်ရာ မြန်မာတို့သည် လကျာ်ကြောင်း စစ်မျက်နှာမှ တပ်ခြောက်တပ်၊ လက်ဝဲကြောင်းစစ်မျက်နှာ မှတပ်ခြောက်တပ်၊ အလယ်ကြောင်းမှ မဟာဥပရာဇာနှင့် ကျန်တပ်များက ဖြန့်၍ခံသည်။ ပြနရာဇ်တပ်သည် လကျာ် ကြောင်းကိုမြင်လျှင် လကျာ်ကြောင်းကို မတိုက်ဘဲ လက် ဝဲကြောင်းကို ဖိတိုက်ရာ လက်ဝဲကြောင်းတပ် ၆ တပ် ကစဉ့် ကလျား ဖြစ်သည်။ လက်ဝဲကြောင်း ပျက်လျှင် အလယ် ကြောင်းကိုတိုက်ရာ မဟာဥပရာဇာတို့၏တပ်များ ဆုတ်ရ သည်။ လကျာ်ကြောင်းကို တိုက်ပြန်လေရာ သံမြို့နှင့်အတူ ခံသည်ကို မြင်လျှင် ပြနရာဇ်မတိုက်ဝံ့၍ ပျက်သည့် တပ်များ မှ လူသူဆင်မြင်းတို့ကို သုံ့ပန်းဖမ်း၍ ခံတပ်သို့ ပြန်သည်။ မြန်မာတပ်များလည်း ဆင်မြင်းလူသူစုရုံး၍ပြန်ရာ သက္ကရာဇ် ၉၄၇ ခု ဝါခေါင်လတွင် ဟံသာဝတီသို့ရောက်သည်။

ယိုးဒယားကို ယင်းသို့ အကြိမ်ကြိမ်ချီ၍ လုပ်ကြံသော် လည်း အရေးတော် မပြီးနိုင်ဖြစ်လှသဖြင့် နန္ဒဘုရင်မင်း မြတ်သည် ဆင်မြင်း အလုံးအရင်းနှင့် ကိုယ်တော်တိုင်ချီမှ ဖြစ်တော့မည်ဟုနှလုံးပိုက်မိလေသည်။ထို့ကြောင့် သက္ကရာဇ် ၉၄၇ ခု တန်ဆောင်မုန်း လဆန်း ၉ ရက်နေ့တွင် နန္ဒ ဘုရင်ကိုယ်တိုင် တပ် ၂၄ တပ်ကို အုပ်ချုပ်၍ တိုက်ဆင် ၂,၂၀၀၊ မြင်း ၁၂,၀၀၀၊ စစ်သည်သူရဲ ၂၅၀,၀၀၀ နှင့် ယိုးဒ ယားသို့ ချီတော်မူသည်။ သားတော် မဟာဥပရာဇာကို မြို့စောင့်ထားခဲ့သည်။ ယိုးဒယားသမိုင်း၌မူ နန္ဒဘုရင်မင်း မြတ်သည် စစ်သည်တော် ၂၅၀,၀၀၀ ကိုတပ်မကြီး ၃ တပ်ခွဲ ၍ တတပ်ကို ကိုယ်တော်တိုင်၊ တတပ်ကို သားတော်မဟာ ဥပရာဇာ၊ ကျန်တတပ်ကို တောင်ငူဘုရင်ခံတို့ ဦးစီးကာ ယိုးဒယားသို့ ချီသည်ဟု ဖော်ပြထားသည်။

နန္ဒဘုရင်သည် ဆင်လုံး မြင်းရင်း ရဲမက်ဗိုလ်ပါများနှင့် ချီလာပြီဟူသော သတင်းကို ယိုးဒယားမင်းသား ပြနရာဇ် ကြားလျှင် ကျေးလက်ရှိ ဆန်ရေနှင့် သူရဲသူခက်ကောင်း တို့ကိုရွေးယူ၍ မြို့တော်တွင်းသို့ချည်း သွင်း၍ ခံစေသည်။ နန္ဒဘုရင်မင်းမြတ်သည် ယိုးဒယားသို့ရောက်သော် ၂၄ တပ် သားတို့ကို စစ်မျက်နှာဖြန့်စေ၍ အကြိမ်ကြိမ် လုပ်ကြံသော် လည်း၊ များပြား လှစွာသော ပြောင်းသေနတ် လက်နက် တို့၏ ဒဏ်ချက်ကြောင့် ရဲမက်တို့ အထိအခိုက်များလှသဖြင့် မြို့ကိုရတော် မမူနိုင်ချေသော်၊ မြို့ကို ဝိုင်းရံ နေစေသည်။ သို့ရာတွင် မြို့တည်ရာမြစ်ကြီးသည် ကျယ်လှသဖြင့် ဧနန်း အောင် မရံနိုင်ကြချေ။ ခရိုင်နယ်ပယ်တို့တွင် ဖွဲ့စည်းထား သောပြနရာဇ်၏ ပြောက်ကျားတပ်များကလည်း မြန်မာ တပ်များထံသို့ ပေးပို့သည့် ရိက္ခာအဆက်အသွယ်ကိုတဖြတ် တည်းဖြတ်နေကြသဖြင့် လေးငါးလခန့် ကြာသော်၊ ရဲမက်

တော်တို့ အစားအသောက်ပြတ်လတ်၍ အနာအဖျားများ လာသည်။ ယင်းအဖြစ်အပျက်ကို ယိုးဒယားမင်း သိလေလျှင် လေးရက်တကြိမ် ငါးရက်တကြိမ် မြို့မှထွက်၍တိုက်သဖြင့် ရဲမက်တို့ ဒဏ်ရာရ၍ အသေအပျောက်များလေသည်။ ထို့ကြောင့် တပ်များကို ပြန်လည် နုတ်သိမ်း၍ မိုးစဲသောအခါမှ ဆင်မြင်းဗိုလ်ပါ ဖြည့်တင်းလျက် နိုင်ငံတော် အလုံးရှိ ထီးဆောင်း မင်းအပေါင်းတို့နှင့် ချီတော်မူရန် အကြံတော်ရကာ ၉၄၉ ခု ကဆုန်လဆန်းတရက်နေ့ဘွင် မင်းတရားကြီးသည် တပ်တော်များနှင့် အတူ ယိုးဒယားမှ ပြန်တော်မူသည်။ တောင်ငူမင်း သားတော် နတ်သျှင်နောင်အား နောက်တပ်အုပ် ခန့်တော်မူ၍ ဆုတ်ခဲ့ရာ၊ မြန်မာတို့ ဆုတ်ကြောင်းကြားလျှင် ယိုးဒယားမင်း ဗြနရာဇ်သည် ၁၅ တပ်နှင့် အတူ တရေမိုးတက်၊ အင်းတော်အရပ် တိုင်အောင် လိုက်လာသဖြင့် နတ်သျှင်နောင်တို့ ခံတိုက်သဖြင့် ယိုးဒယားတို့ ဆုတ်ကြရသည်။ နန္ဒဘုရင်သည် ဝါဆိုလဆန်း ၄ ရက်နေ့တွင် ဟံသာဝတီသို့ ပြန်ရောက်သည်။

ယိုးဒယားကို အကြိမ်ကြိမ် လုပ်ကြံ၍ မရလျှင် ရှမ်းပြည် ယွန်းပြည်တို့ကလည်း မြန်မာတို့အပေါ် နှလုံး မပျပ် မဝပ် ရှိလာသည်။သက္ကရာဇ် ၉၅၂ ခုနှစ်တွင် မိုးကောင်း စော်ဘွား ပုန်ကန်သောင်းကျန်းသဖြင့် သားတော် ပြည်မင်းသတိုးဓမ္မရာဇာနှင့် တောင်ငူမင်း သားတော် နတ်သျှင်နောင်တို့အား တပ် ၁၁ တပ်ကို အုပ်ချုပ်စေ၍တိုက်ဆင် ၅၀၀၊ မြင်း ၆,၀၀၀၊ စစ်သည် ၁၀၀,၀၀၀ နှင့် ထိုနှစ် တန်ဆောင်မုန်းလဆန်း ၅ ရက်နေ့တွင် မိုးကောင်းသို့ ချီစေသည်။ မြို့ပြကျုံးမြောင်း အခိုင်အလုံပြု၍ ခံနှင့်သော မိုးကောင်းစော်ဘွားကို ရှုပ်ရှုပ် ချွံချွံ တိုက်ခိုက်၍ အောင်ခဲ့ကြသည်။

ယိုးဒယားကိုမနိုင်က ယင်းသို့ပင် အခြားပြည်နယ်များက ထောင်ထားသောင်းကျန်းမည့်အရေးကိုမြင်သဖြင့်နန္ဒဘုရင်သည် သားတော်မဟာဥပရာဇာအား တပ်၂၄ တပ်နှင့်အတူ ၉၅၂ ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၁၂ ရက်နေ့တွင် ယိုးဒယားသို့ ချီစေသည်။ ထိုအချိန်တွင် ယိုးဒယားဘုရင် နတ်ရွာစံ၍ သားဘော်ဗြနရာဇ် နန်းတက်ပြီး ဖြစ်သည်။ မြန်မာတို့ လက္ခန်းအရပ်သို့ ရောက်လျှင် ဗြနရာဇ်လည်း ဆင်ညွှံမြင်းညွှံတို့ကို လက္ခန်းတွင် ပြု၍ နေစေပြီးမှ ကိုယ်တိုင်မူ အမတ် ၆ ကျိပ်ဆင်ကောင်း ၆၀ နှင့် တောထဲ၌ ပုန်း၍ နေသည်။ လက္ခန်းတွင် ယိုးဒယားတပ်များကို တွေ့သော အခါ ဥပရာဇာ တပ်များသည် စစ်မျက်နှာ ဖြန့်၍ ရှုပ်ရှုပ် ချွံချွံ လိုက်၍ တိုက်သည်။ ယိုးဒယားစစ်သည်တို့ တဖြည်းဖြည်း ဆုတ်ရာသို့ မြန်မာတပ်များ လိုက်တိုက်ရာ ပုန်းနေသော ဗြနရာဇ် တောမှထွက်၍ တိုက်သဖြင့် မြန်မာတို့၏ ၂၄ တပ်လုံး ကစဉ့်ကလျားဖြစ်ရသည်။ ရဲမက်တော်တို့လည်း အထိအခိုက်များသဖြင့် တပ်များ ပရမ်းပတာ ဖြစ်ကာ မစုနိုင်မရုံးနိုင် အလျှင်အမြန် ဆုတ်ခဲ့ရသည်။ တန်ခူးလတွင် ဟံသာဝတီသို့ ပြန်ရောက်သော် သားတော်အား ခမည်းတော် နန္ဒဘုရင်က နှုတ်ပြစ်တင်တော်မူသည်။

သက္ကရာဇ် ၉၅၃ ခုနှစ်တွင် မိုးကောင်းစော်ဘွားကြီးသား မိုးစစ်စားသည် မိုးကောင်းမြို့ကိုဝင်၍ ပုန်ကန်သောင်းကျန်း ပြန်လေသောကြောင့် တိုက်ဆင် ၆၀၀၊ မြင်း ၆,၀၀၀၊ ရဲမက် ၈၀,၀၀၀ ပါသော တပ် ၁၆ တပ်ကို သားတော်မင်းရဲကျော်စွာကို ဗိုလ်မှူးခန့်တော်မူ၍ မိုးကောင်းသို့ ချီစေရပြန်သည်။ အခိုင်အလုံခံနှင့်သော မိုးကောင်းမြို့ကို ခုနစ်လခန့် ဝန်းရံထားရာ မြို့တွင်းသားတို့ မျိုးရိက္ခာပြတ်လတ်သဖြင့် စော်ဘွားနှင့် တကွ တမြို့လုံးလက်နက်ချသည်။

မြန်မာတို့ယိုးဒယားသို့ အကြိမ်ကြိမ်ချီ၍ တိုက်ခိုက်သော်လည်း မအောင်မြင်သည်မှာ လုပ်ရည် ကြံရည် ညံ့၍ ဖြစ်သည်။ ထို့ကြောင့် ဟံသာဝတီသို့ တိုင်အောင် စမ်း၍ ချီရသော် သင့်မည်ဟု ယိုးဒယားမင်း ဗြနရာဇ်သည်ကြံ၍ ဩယားဝင်၊ ဩယား သုဝဏ္ဏလောက်၊ ဩယားပိတ်စဲ၊ ဩယားပိတ်သလောက်တို့အား တတပ်စီ အုပ်ချုပ်စေကာ တိုက်ဆင် ၄၀၀၊ မြင်း ၄,၀၀၀၊ စစ်သည် ၅၀,၀၀၀ နှင့် ဝင်ယော်အရပ်သို့ အရောက် ချီလာသည်။ ယင်းအကြောင်းကို ကင်းထိုးသူတို့ လျှောက်၍ နန္ဒဘုရင်ကြားသော် မုတ္တမ ၃၂ မြို့စားတို့ကို ဆီးကြို၍ ခံလင့်စေရာ ယိုးဒယားတပ်များ ညဥ့်တွင်းချင်းပင် ဆုတ်ခွါကြရသည်။

ယိုးဒယားနှင့် အရေးတော်မပြီး ရှိလှသဖြင့် နန္ဒဘုရင်မင်းမြတ်သည် သားတော် မဟာဥပရာဇာနှင့် တကွ မင်းညီမင်းသား မှူးတော် မတ်တော်တို့အား ခေါ်ယူ နှုတ်ပြစ်တင်တော်မူပြီးနောက် သက်စွန့်ကြိုးပမ်း အမှုတော်ထမ်းရန် အမိန့်တော်ချလေသည်။ ၉၅၄ ခု နတ်တော်လဆန်း ၂ ရက်နေ့တွင် သားတော် မဟာ ဥပရာဇာအား ဇင်းမယ်ဘုရင် တတပ်၊ တောင်ငူဘုရင်နှင့် သားတော် နတ်သျှင်နောင် တတပ်၊ ပြည်သတိုးဓမ္မရာဇာတတပ် စသည်ဖြင့် ၂၆ တပ်ကို ဦးစီးစေ၍ တိုက်ဆင် ၁,၅၀၀၊ မြင်း ၂၀,၀၀၀၊ စစ်သည် ၂၄၀,၀၀၀ နှင့် ယိုးဒယားသို့ ချီတက်စေသည်။ ယိုးဒယားသို့ တပို့တွဲလဆန်း ၈ ရက်နေ့ ရောက်လျှင် မဟာဥပရာဇာသည် ရဲဘုန်းစုံ ဆင်တော်ကို စီး၍ လကျာ်မှ ပြည်ဘုရင် သတိုးဓမ္မရာဇာအား အလုံးအရင်းနှင့် နေစေ၍၊ လက်ဝဲမှ နတ်သျှင်နောင်အား အလုံးအရင်းနှင့်နေစေသည်။ ဇာပရိစားက လကျာ်ဖက်မှ ပေါက်ကျော်ဇေယျဆင်ကို စီး၍ နေရသည်။ ယိုးဒယားမင်း ဗြနရာဇ်လည်း ဗြလပုံဟူသော ဆင်ကိုစီး၍ အလုံးအရင်းနှင့် မြို့မှထွက်လာသည်။ မဟာဥပရာဇာအားမြင်လျှင် ဆင်ကို မဟာဥပရာဇာရှိရာသို့ အပြင်းလွှတ်သည်။ ဤသို့ဗြနရာဇ်လွှတ်လာသည်ကို မြင်သော ဇာပရိစားသည် သူ၏ မုန်ပြည့်သောဆင်ကို ဗြနရာဇ်ထံလွှတ်ရာ

မြန်ရာဇ်ဆင်ကိုမတွေ့ဘဲ မဟာဥပရာဇာစီးသော ဆင်ကို တွေ့သဖြင့် မဟာဥပရာဇာလည်း အပန်းတကြီး တိုက်တော်မူရသည်။ ယင်းသို့စဉ်တွင် ယိုးဒယားတို့ ပစ်လွှတ်လိုက်သော စိန်ပြောင်း သင့်သဖြင့် ဆင်ဦးတွင် မဟာဥပရာဇာ ဆုံးချေသည်။ သို့ရာတွင် မြန်ရာဇ်တို့ မသိစေရန် မဟာဥပရာဇာကို မ၍ ဆင်ကို ချုံသို့မှီ၍ နေစေသည်။ နတ်သျှင်နောင်၊ သတိုးဓမ္မရာဇာ၊ ဇင်းမယ်ဘုရင် စသော တပ်မှူး စစ်ကဲအပေါင်းတို့ကလည်း ဆင်ကို ချွန်းဖွင့်ကာ ဖိ၍ တိုက်ကြသဖြင့် မြန်ရာဇ်သည် မြို့တော် အထိ ဆုတ်ကာ မြို့တွင်းမှ ခံလေသည်။ မြန်မာတို့ ဖက်မှလည်း မဟာဥပရာဇာဆုံးပြီ ဖြစ်သဖြင့် ဤမျှ အရေးသာရုံနှင့်ပင် နေပြည်တော်သို့ ပြန်၍ ဥပရာဇာ အလောင်းကို သင်္ဂြိုဟ်သင့်ပြီဟု ဆွေးနွေး ဆုံးဖြတ်ကာ ဟံသာဝတီသို့ ပြန်ခဲ့ကြရာ တပေါင်းလတွင်ရောက်ကြသည်။ ယိုးဒယားမင်း မြန်ရာဇ်နှင့် မဟာဥပရာဇာတို့ စီးချင်းတိုက်၍ နိုင်သော နေရာတွင် ဘုရားတဆူ တည်ထားသည်။ ယင်းတိုက်ပွဲနောက် မြန်မာတို့ ယိုးဒယားသို့ စစ်ချီမှု မရှိတော့ချေ။ ယိုးဒယားတို့ကသာ မြန်မာနိုင်ငံတွင်းသို့ အကြိမ်ကြိမ်ချီလာသည်။

သက္ကရာဇ် ၉၅၅ ခုနှစ်တွင် မော်ပီမှ မွန်တို့ပုန်ကန်၍ ၉၅၆ ခုနှစ်တွင် မော်လမြိုင်စား ပုန်ကန်သည်။ မွန်အမြောက်အများ ရခိုင်၊ ဇင်းမယ်၊ ယိုးဒယားတို့သို့ ပြေးဝင်ကြသည်။ ၉၅၆ ခုနှစ်တွင် ယိုးဒယားမင်းမြန်ရာဇ်သည် မော်လမြိုင်စား မွန်တို့နှင့် ပေါင်း၍ ဟံသာဝတီသို့ ချီလာသည်။ ဇင်းမယ်၊ ပြည်၊ တောင်ငူတို့က စစ်ကူလာသဖြင့် ဟံသာဝတီမှပြန်ဆုတ်ပြီးလျှင် အရှေ့ဖက်မွန်ဟူသမျှကို သိမ်းယူသွားသည်။ ထိုနှစ်တွင်ပင် သားတော် ပြည်ဘုရင်ခြားနားသည်။ ဤတွင် နန္ဒဘုရင်သည် တောင်ငူမင်း၊ ညောင်ရမ်းမင်း၊ ဇင်းမယ်မင်းတို့ အပေါ်၌ပါ မယုံမကြည်ရှိ၍ သားသမီး ဆင်မြင်းတို့ ပို့ထားရမည်တောင်းသဖြင့် ထိုမင်းများ စိတ်ဝမ်းကွဲ၍ ခြားနားသည်။ သက္ကရာဇ် ၉၆၀ ပြည့်နှစ်တွင် တောင်ငူဘုရင်နှင့် ရခိုင်ဘုရင်တို့ပေါင်း၍ ဟံသာဝတီကို တိုက်ရာ ၉၆၁ ခုနှစ်တွင် ဟံသာဝတီပျက်၍ နန္ဒဘုရင် တောင်ငူသို့ ပါတော်မူသည်။

ဤတွင် နန္ဒဘုရင်၏ တိုက်ပွဲများ ပြီးဆုံးလေ၏။

**နန္ဒဝန်ငှက်။** ။များစွာသော လူတို့သည် ငှက်ထဲတွင် နန္ဒဝန်ငှက်ကို အလှဆုံးဟု ဆိုကြသည်။ နန္ဒဝန်ငှက်သည် လူသူအရောက်အပေါက် နည်းသည့် နယူးဂင်းနီကျွန်းနှင့် အနီးပတ်လည်ကျွန်းများ၏ တောတောင်ထူထပ်သောဒေသများတွင် ပျော်ပါးကျက်စားလေ့ ရှိသည်။ ထိုကျွန်းများရှိ ကျွန်းသူ ကျွန်းသားများသာလျှင် နန္ဒဝန်ငှက်ကို သိမြင် ကြလေသည်။ ပြင်ပမှ လူတို့တွင် နန္ဒဝန်ငှက်ကို ကိုယ်တိုင် ကိုယ်ကျမြင်ဘူးသူ ရှားလှသည်။



အလှတွင် တစ်စွဲသည့် နန္ဒဝန်ငှက် မိသားစု

သို့ဖြစ်လေရာ နှစ်ပေါင်း အတော်ကြာသည့် တိုင်အောင် လူများသည် နန္ဒဝန်ငှက်နှင့် စပ်လျဉ်း၍ ထူးထူး ထွေထွေ မသိကြရချေ။ ကနဦး၌ထိုငှက်သည် ကောင်းကင်၌သာ အမြဲတမ်း ပျံဝဲနေပြီးလျှင် မြေသို့ လုံးဝသက်ဆင်းခြင်းမရှိဟု ယုံကြည်ကြသည်။ အမှန် စင်စစ်ကား ထိုသို့ မဟုတ်ချေ။ နန္ဒဝန်ငှက်များသည် အခြားသော ငှက်များကဲ့သို့ပင် သစ်ပင်ထက်၌ နားကြသည်။အိပ်တန်းတက်ကြသည်။ တိုင်းရင်းသားဖြစ်သော ကျွန်းသူ ကျွန်းသားများသည် ထိုငှက်များကို အမွေးအတောင်များ မပျက်စီးအောင် ပစ်ခတ်ဖမ်းဆီးသည်။ ထိုနောက်ခြေထောက်များကို ဖြတ်ပြီးလျှင်၊ ဥရောပတိုက်သို့ ပို့လေသည်။ သို့ဖြစ်၍ နန္ဒဝန်ငှက်တွင် ခြေထောက်များမရှိဟု ဥရောပတိုက်သားများက အထင်မှားတတ်ကြလေသည်။

အလှတွင် တစ်စွဲသော နန္ဒဝန်ငှက်သည် ငှက်များတွင် အရုပ်ဆိုးအကျည်းတန်ဆုံးသော ကျီးကန်းများနှင့် မျိုးတူဖြစ်သည်မှာ အံ့ဩဖွယ်ရာပင် ဖြစ်လေသည်။ နန္ဒဝန်ငှက်သည် ကျီးကန်းနှင့် အဆင်းအင်္ဂါတွင် မတူဆုံးသော ငှက်ဖြစ်၏။ နန္ဒဝန် ငှက်မျိုး ၅၀ ခန့်ရှိမည်ဟု ထင်ရသည်။ အားလုံးသော ငှက်မျိုးကို ပစိဖိတ်သမုဒ္ဒရာရှိ ကျွန်းများ၌သာ တွေ့ရသည်။အရွယ်မှာ စာကလေးအရွယ်မှ ကျီးကန်းအရွယ်အထိ

အစားစား ရှိလေသည်။ နန္ဒဝန်ငှက်၌ အသွေးအရောင်တောက်ပသော အမွေးအတောင်ရှိသည်။ ဦးခေါင်းနှင့်လည်တိုင်၌ အမွေးတိုများ ထူထပ်စွာ ဖုံးနေရာ၊ ကတ္တီပါနှင့် တူလှပေသည်။ အတောင်မှာ ခရမ်းရောင်၊ မြစိမ်းရောင်၊ အဝါရောင်၊ ကာဖီရောင် စသည်ဖြင့် ရောင်စုံ ရောယှက်နေသည်။ တောင်ပံအောက်တွင်ကား ၂ ပေခန့် ရှိသော လိမ္မော်ရောင် အတောင်များ ရှိသည်။ ထိုအတောင်များကို ဖြန့်လိုက်သောအခါ တကိုယ်လုံးကို ဖုံးလွှမ်းသွား၍၊ အရောင်မျိုးစုံတောက်ပသည်ကို တွေ့မြင် နိုင်လေသည်။

နွေဦးပေါက် ရာသီတွင် နန္ဒဝန် ငှက်ဖိုများသည် စုရုံး၍ မိမိတို့အလှကို ပြကြယင်း၊ အမျိုးမျိုးသော ကိုယ်ဟန်အမူအရာဖြင့်ကခုန်ကြသည်။ ထိုသို့ ကပြသည်ကို နန္ဒဝန် ငှက်မများက အနီးအနားမှနေ၍ ငေးမောကြည့်ရှုကြသည်။ နန္ဒဝန်ငှက်မများမှာမူကား၊ ငှက်ဖိုများကဲ့သို့ လှပသောရောင်စုံ အတောင်များ မရှိဘဲ၊ သာမန် ငှက်များကဲ့သို့သာ ဖြစ်လေသည်။

နန္ဒဝန်ငှက်သည် အလွန်မြင့်မားသော သစ်ပင်ထက်၌ အသိုက်သုပ်လေသည်။ အသိုက်တွင် ဥနှစ်ဥ သုံးဥသာ ရှိသည်။ အသိုက်ကို ငှက်မများကသာကာကွယ်စောင့်ရှောက်ရသည်။ နန္ဒဝန်ငှက်ကို ဖမ်း၍၊ လှောင်အိမ်နှင့် ထားသောအခါ အသက်မရှည်ချေ။

နန္ဒဝန်ငှက်မျိုးတွင် ထင်ရှားသော အမျိုးများမှာ ပရာဒိစီအပိုဒါငှက်မျိုး၊ ပရာဒိစီရူဗရာငှက်မျိုးနှင့် လော့ဖော်ရိနာဆူပါဗာငှက်မျိုးများ ဖြစ်လေသည်။

**နန်းကင်းမြို့။** ။တရုပ်ပြည်သူ့သမတနိုင်ငံတော်၏ အကြီးဆုံးသောမြို့များတွင် တမြို့အပါအဝင် ဖြစ်သော နန်းကင်းမြို့သည် ကျန်ဆူးနယ်၏ မြို့တော် ဖြစ်၏။ ယန်ဆီကျန်မြစ်ဝမှ မိုင်ပေါင်း ၂၀၀ ခန့်ကွာဝေး၍ ထိုမြစ်၏ တောင်ဖက်ကမ်းမှ ၂ မိုင်ခန့်အကွာတွင် တည်ရှိသည်။ နန်းကင်းဟူသည်မှာ တောင်ဖက်မြို့တော်ဟူ၍ အနက်ရသည်။ နန်းကင်းမြို့၏ အဝန်းမှာ မိုင် ၂၀ ခန့်ရှိ၍ မြင့်မားလှသော မြို့ရိုးကြီး ဝန်းရံလျက်ရှိသည်။ နန်းကင်းမြို့၏မြောက်ဖက်မြို့တံခါးနှင့် ယန်ဆီမြစ်တို့အကြားတွင် ဆီယာကွမ် ဆင်ခြေဖုံးရပ်ကွက် တည်ရှိသည်။ ထိုရပ်ကွက်သည်ပင်လျှင် နန်းကင်းမြို့၏ ဆိပ်ကမ်းဖြစ်သည်။ ဆီယာကွမ်နှင့် ယန်ဆီမြစ်တဖက်ရှိ ပူးကောင်းမြို့တို့သည် ကူးတို့ဖြင့်အဆက်အသွယ် ရှိသည်။ ပူးကောင်းမြို့သည် မြောက်ဖက်ရှိ ပီကင်းမြို့တော်နှင့်လည်း မီးရထားလမ်း



ယွန်လိုဘုရင် လက်ထက် မယ်တော်အား သတိရသောအားဖြင့် နန်းကင်းမြို့၌ တည်ထားခဲ့သော ကြွေစေတီ မျှော်စင်

အဆက်အသွယ် ရှိလေသည်။ နန်းကင်းမြို့နှင့် ရှန်ဟိုင်းမြို့ တို့ကို မီးရထားလမ်းဖြင့်ဆက်သွယ်ထားသည်။ မြစ်ကြောင်း သွားသင်္ဘောများ နန်းကင်းမြို့တွင် ဆိုက်ကပ်၍ပင်လယ်ကူး သင်္ဘောများသည် နန်းကင်းမြို့ အရောက် တနှစ်ပတ်လုံး ဝင် ထွက် သွားလာနိုင်သည်။ နန်းကင်းမြို့သည် ယန်ဆီမြစ် ကြောင်းတလျှောက် အရေးပါသော ကုန်သွယ်ဌာနဖြစ်၏။ စက်မှုလက်မှု လုပ်ငန်းများ အနည်းငယ်သာ ရှိသော်လည်း ကြွေထည်၊ ဖိုလတ်မြေ၊ ပိုးထည်၊ စက္ကူ၊ ဇာ၊ ဗရိုကိတ် စသော ကုန်ပစ္စည်းများ ထွက်သည်။

ဒေါက်တာ ဆွန်ယတ်ဆင်သည် တရုပ် သမတနိုင်ငံကို တည်ထောင်၍ယာယီသမတအဖြစ်ဆောင်ရွက်စဉ် ၁၉၁၁ ခု နှစ်က ထိုနန်းကင်းမြို့ကို တရုပ်သမတ နိုင်ငံ၏ မြို့တော်အဖြစ် သမုတ်ခဲ့သည်။ (ဆွန်ယတ်ဆင်၊ ဒေါက်တာ — ရှု။) သို့သော် မကြာခဏ မြို့တော် အပြောင်းအလဲများ ရှိခဲ့ရာ၊ ၁၉၂၇ ခု နှစ်တွင်တဖန်နန်းကင်းမြို့ကိုပင် မြို့တော်သမုတ်ခဲ့ရပြန်သည်။ ထိုသည်မှ အစပြု၍ ပြုစုပျိုးထောင် ထားခဲ့သော စက်မှု လက်မှုလုပ်ငန်းတို့သည် ၁၉၃၇ ခုနှစ် ဒီဇင်ဘာလတွင် ဂျပန် များဝင်ရောက် တိုက်ခိုက်သိမ်းပိုက်ခဲ့သောကြောင့် ပျက်စီး ခဲ့ရလေသည်။

နန်းကင်းမြို့၏ လမ်းမကြီးများသည် အသင့် အတင့် ကျယ်ပြန့်၍ သပ်ရပ် သန့်ရှင်း၏။ ခေတ်မှီ အဆောက်အအုံ အများအပြားရှိ၏။ တရုပ် နိုင်ငံတွင် ဖြစ်ပွားခဲ့သော တော် လှန်ရေးများကြောင့်၊တရုပ်အင်ပိုင်ယာနိုင်ငံခေတ်က တည် ဆောက်ထားသော နန်းတော်နှင့် အစိုးရပိုင် အဆောက် အအုံ များစွာတို့သည် ပျက်စီးခဲ့သည်။ ကြွင်းကျန်လျက် ရှိသော နန်းတော်ရာကို ယခုအခါ ပြတိုက်အဖြစ်ဖြင့် အသုံး ပြုလျက် ရှိကြ၏။

နန်းကင်းမြို့တွင် ယွန်လိုဘုရင် လက်ထက် ခရစ် ၁၄၁၁ ခု နှစ်၌ မယ်တော်အား သတိရသောအထိမ်းအမှတ် အဖြစ်ဖြင့် ဆောက်လုပ်ခဲ့သော ကြွေစေတီမျှော်စင်ကြီးသည် အလွန် ထင်ရှားသည်။ နန်းကင်းမြို့၏ အပြင်ဖက် မြို့အထက် မိုးနေ သော တောင်ကုန်းတခုပေါ်တွင် တရုပ်သမတနိုင်ငံ၏ ပဌမ သမတကြီး ဒေါက်တာ ဆွန်ယတ်ဆင်၏ ရုပ်ကလာပ်ကို သင်္ဂြိုဟ်ရာ အာဇာနည် ဗိမာန်ကြီးရှိသည်။

နန်းကင်းမြို့သည် ရှေးအထက်ကျော် ကာလက စာပေ ထွန်းကားသော အရပ် ဖြစ်ခဲ့၏။ နန်းကင်းမြို့တွင် အမျိုး သား တက္ကသိုလ်ရှိသည်။ နန်းကင်းမြို့သည် ၁၃၆၈ ခုနှစ်မှ ၁၄၁၁ ခုနှစ်အထိ မင်းနန်းဆက်တို့၏နေပြည်တော်ဖြစ်ခဲ့၏။ မင်းနန်းဆက်ဘုရင်တို့၏သင်းချိုင်းမြေသည် ယခုတိုင်အထင် အရှားတည်ရှိလေသည်။ ၁၉၂၇ ခုနှစ်မှ စ၍ ၁၉၃၇ ခုနှစ်တွင် ဂျပန်များ ဝင်ရောက် သိမ်းပိုက်သည့် အချိန်အထိ တရုပ် နိုင်ငံ၏ မြို့တော်ဖြစ်ခဲ့သည်။ ဂျပန်တို့ သိမ်းပိုက် ထားခဲ့ စဉ်ကလည်း ကာလ အတန်ကြာ ဝမ်ချင်ဝေခေါင်းဆောင် သော တရုပ် ရုပ်သေးအစိုးရ၏ မြို့တော်လည်း ဖြစ်ခဲ့ သေး၏။ ၁၉၄၆ ခုနှစ်တွင် တရုပ်နိုင်ငံ၏ မြို့တော်အဖြစ်သို့ ပြန်လည်ရောက်ရှိခဲ့ရာ၊ ၁၉၄၉ ခုနှစ်တွင် တရုပ်ကွန်မြူနစ် တပ်မတော်က သိမ်းပိုက် ခဲ့လေသည်။ နန်းကင်းမြို့၏ လူဦး ရေသည် ၁၉၅၀ ပြည့်နှစ်တွင် ခန့်မှန်းချက်အရ ၁,၀၂၀,၀၀၀ ယောက် ဖြစ်လေသည်။

**နန်းကြိုး။** ။နန်းကြိုးသည် သေးငယ် ရှည်လျား ပျော့ ပျောင်းသော သတ္တုကြိုး ဖြစ်သည်။ နန်းကြိုးကို အမျိုးမျိုး အသုံးပြုကြသည်။နန်းဆွဲနိုင်သည့်သတ္တုမျိုးကိုသာ နန်းကြိုး အဖြစ် ပြုလုပ်နိုင်သည်။ နန်းဆွဲရာတွင် အသုံးအများဆုံး သတ္တုများမှာ ကြေးနှင့် သံမဏိဖြစ်သည်။ ပလက်တီနမ်၊ ရွှေ၊ ငွေနှင့် အလူမီနီယမ်တို့ကိုလည်း ကိစ္စအလိုက် အသုံး ပြုနိုင်သည်။

နန်းကြိုး ပြုလုပ်ရာတွင် သတ္တုကို ပဌမဦးစွာ အပြားဖြစ် အောင်ခတ်ယူရသည်။ ထို့နောက် အမျှင်များ ဖြစ်အောင် တဖန်ခွဲစိတ်ရပြန်သည်။ ထို့နောက် အချောင်း ဖြစ်အောင် ထုရိုက်ပေးသည်။ ပြီးလျှင် ထိုသတ္တုချောင်းကို နန်းဆွဲရ သည်။ ယခုခေတ်၌ အသုံးပြုသော နန်းဆွဲနည်းမျိုးသည် ၁၄ ရာစုနှစ်တွင် စတင်ပေါ်ပေါက်သည်။ ထိုစဉ်က နန်းဆွဲရာ ၌၊ လူကိုယ်တိုင်အားစိုက်၍ ဆွဲခဲ့ရ၏။ ထို့နောက် လူကိုယ် တိုင် မဆွဲဘဲ၊ ရစ်လုံးတွင် ပတ်၍ ဆွဲခြင်း၊ ထိုမှ တဆင့် ရေ အားဖြင့် ဆွဲခြင်းစသော နည်းများကို တိုးတက်တီထွင်ခဲ့ကြ ပြန်သည်။ ၁၉ ရာစုနှစ်သို့ ရောက်မှ ခေတ်မှီသော စက်များ ဖြစ်ထွန်း လာခဲ့လေသည်။

စက်ဖြင့် သံမဏိ နန်းကြိုးပြုလုပ်ပုံမှာ ရှေးဦးစွာ သံမဏိ ချောင်းများကို အပူတိုက် ပေးပြီးနောက် ဒလိမ့်တုံးများ နှင့် အဆင့်ဆင့် ဖိညှစ်ပေးခြင်းဖြင့်၊ ခဲတံရှိ ခဲချောင်းထက် အရွယ် သေးငယ် လာအောင် ပြုလုပ်ရသည်။ ထို့နောက် ထိုသံမဏိချောင်းကို ခွေပေး၍၊ အအေးခံပြီးလျှင် နန်းဆွဲ စက်ရှိရာသို့ ပို့ဆောင်သည်။ ထိုအချိန်တွင် သံမဏိချောင်း ၌ အကြေးတက်လျက်ရှိ၏။ ထို့ကြောင့် အကြေးကို အက် ဆစ်ရည်နှင့်ချွတ်ပေးရ၍၊ အက်ဆစ်ကို တဖန် အယ်လကာ လီရည်နှင့် ဆေးကြောပစ်ရ ပြန်သည်။ ထို့နောက် သံမဏိ ချောင်း၏အဖျားကို ချွန်ပေးပြီးသော်၊ နန်းပြင်ရှိသေးငယ် သော အပေါက်ထဲသို့ သွင်း၍ နန်းဆွဲယူရသည်။ နန်းပြင်ကို မာကျောသော သံမဏိဖြင့် ပြုလုပ်လေ့ရှိ၏။ သို့သော်အထူး ကိစ္စတို့အတွက်မူ နန်းပြင်ကို စိန်ဖြင့် ဖြစ်စေ၊ ပတ္တမြားဖြင့် ဖြစ်စေ ပြုလုပ်ရသည်။ နန်းဆွဲရာတွင် တကြိမ်တည်းနှင့် ကိစ္စမပြီးချေ။ တကြိမ်ထက် တကြိမ် သေးငယ်သော အ ပေါက်ထဲသို့ ထည့်၍၊ အလိုရှိသော အရွယ်ဖြစ်လာအောင်

ဆက်ကာ ဆက်ကာ ဆွဲပေးရလေသည်။ သို့သော် ဤသို့ ဆက်ကာဆက်ကာနန်းဆွဲခိုက်တွင်၊ နန်းကြိုးသည် မာကျော ကြွပ်ဆတ်သာလေ့ရှိသဖြင့်၊ ထိုသို့မဖြစ်ဘဲ ပျော့ပျောင်းခိုင်မာနေစေရန် မကြာမကြာ အပူတိုက်ပေးထားရသည်။လွယ်ကူစွာ နန်းဆွဲနိုင်အောင်လည်း အစဉ်အမြဲ ဆီထည့်ပေးရလေသည်။

နန်းပြင်တွင် ဖောက်ထားသော အပေါက်များမှာ အရွယ်အမျိုးမျိုး ရှိ၏။ အလွန်သေးငယ်သော နန်းကြိုးများအတွက် စိန်နန်းပြင်တွင် ဖောက်ထားသော အပေါက်များမှာ အရွယ်အားဖြင့် အချင်း ၀.၀၀၂ လက်မမှ ၀.၀၀၄ လက်မအထိ အစားစားရှိပေသည်။ နန်းကြိုး၏ ပုံသဏ္ဌာန်မှာလည်း စတုရန်းပုံ၊ ဘဲဥပုံ၊ အပြားပုံ၊ သို့မဟုတ် ကြိုက်ပုံ စသည်ဖြင့် အမျိုးမျိုး ရှိပေသည်။ သို့ရာတွင် သာမန် ကိစ္စများအတွက်မူ နန်းကြိုးအလုံးများကိုသာ အသုံးများကြလေသည်။

ကြေးနန်းကြိုးနှင့် လျှပ်စစ်ဓာတ်ကြိုးများအတွက် ကြေးနီ နန်းကြိုးများကို အသုံးပြုလေ့ရှိကြသည်။ မှန်ပြောင်းများတွင် အသုံးပြုသည့် နန်းကြိုးများမှာ အလွန် သေးငယ်ကြသဖြင့်၊ ယင်းတို့ကို ပလက်တီနမ်ဖြင့်ပြုလုပ်ကြရသည်။ ထိုနန်းကြိုးမျိုးသည် တလက်မ၏ အပုံငါးသောင်းပုံလျှင် တပုံအထိ သေးငယ်၏။ နန်းကြိုးကို ရိုက်သံ၊ ဝင်းခတ်သံကြိုး၊ အလွန်သိမ်မွေ့သည့် နာရီစပရင်၊ ဆန်ခါ၊ တူရိယာကြိုးနှင့် သိပ္ပံဆိုင်ရာ ကရိယာတန်ဆာပလာများ အဖြစ်ဖြင့် အသုံးချရသည်။ နန်းကြိုးဖြင့် ပြုလုပ်ထားသော အာမခံ ကြိုးကြီးများနှင့် ရေမြှုပ်ကြေးနန်းကြိုးများတွင် နန်းကြိုးကလေးများကိုလိမ်ကျစ်၍ ထားသည်။ ကြိုးတန်တားကြီးများတွင် အသုံးပြုထားသော ကြိုးကြီးများမှာလည်း ထောင်ပေါင်းများစွာသော လိမ်ကျစ်ပြီးသား နန်းကြိုးကလေးများကို ထပ်မံလိမ်ကျစ်၍ ထားခြင်းပင် ဖြစ်သည်။

သံဆူးကြိုးကို အမေရိကန်ပြည်ထောင်စု၌ ၁၈၇၅ ခုနှစ်လောက်တွင် ကျွဲ နွားများထားသော ခြံကို ဝင်းခတ်ရန်အတွက် စတင်တီထွင်ခဲ့သည်။ သံဆူးကြိုးကို ပြုလုပ်ပုံမှာ နန်းကြိုးနှစ်ချောင်းကိုဖြစ်စေ၊ အများကို ဖြစ်စေ ပူးလိမ်ပြီးလျှင် သံဆူးများကို တခုနှင့် တခု အနည်းငယ်ခွါ၍ တပ်ဆင်ထားသည်။ သံဆူးကြိုးနှင့် တကွ အိမ်ပြင်တွင်အသုံးပြုသော နန်းကြိုးများကို များသောအားဖြင့် သံချေးမတက်စေရန် သွပ်ရည်စိမ်ထားလေ့ ရှိသည်။ သံဆူးကြိုးများကို အထူးသဖြင့်အသုံးအများဆုံးနေရာကား စစ်မြေပြင်ပင်ဖြစ်သည်။

နန်းကြိုးများကို အကွက်ဖော်၍ ရက်လုပ်ထားသော သံဆန်ခါများလည်း ရှိ၏။ ထိုသံဆန်ခါများကို ဝင်းထရံအတွက်သာမက၊ ယခုခေတ် လမ်းခင်းရန်၊ သို့တည်း မဟုတ် အဆောက်အအုံဆောက်လုပ်ရန် ကိစ္စအတွက် ကန်ကရစ်အင်္ဂတေတွင် ထည့်သွင်း အသုံးပြုလေ့ ရှိကြသည်။

# ပြည်တန် ကျောက်မျက် ရတနာ

**အရည်အသွေးအားဖြင့်ရင်း၊ ပမာဏအားဖြင့်ရင်း အကောင်းဆုံးဖြစ်၍၊ တန်ဖိုးမဖြတ်နိုင်အောင် ထိုက်တန်သော ကျောက်မျက်ရတနာတို့ မည်သည်ကား တိုင်းပြည်၏အထွတ်အထိပ် ဘုရင် စိုးမင်းတို့နှင့်သာ ထိုက်တန်သည်ဟု ရှေးအခါက ယူဆခဲ့ကြသည်။ မြန်မာမင်းတို့၏ ပတ္တမြားမောက်၊ ဗြိတိသျှ သရဖူမှ 'ကိုဟိနူး' စိန်၊ ရုရှနိုင်ငံမှ 'အော်လော့' စိန်၊ ပြင်သစ်နိုင်ငံမှ 'ဒရက်ဂွန်' ပတ္တမြားတို့သည်ကား ထိုကဲ့သို့သော ကျောက်မျက်ရတနာများ ဖြစ်လေသည်။**

**နန်းစဉ်ရတနာ။** ။နန်းစဉ်ရတနာ ဟူသည်မှာ ဘုရင်မင်းအဆက်ဆက် မပျောက်မပျက်စေဘဲ ထိန်းသိမ်း ထားရှိမြဲဖြစ်သော ကျောက်မျက်ရတနာများ ဖြစ်သည်။ ယင်းကဲ့သို့ မင်းအစဉ်အဆက် အမွှန်အမြတ် ထားရှိအပ်သော ရတနာများသည် အရည်အသွေးအားဖြင့်ရင်း၊ ပမာဏအားဖြင့်ရင်း အကောင်းဆုံး ဖြစ်ရသည့်အပြင်၊ တန်ဖိုးအားဖြင့်လည်း အဖိုးမဖြတ်နိုင်လောက်အောင် ထိုက်တန်သည့် ကျောက်ကောင်းမျက်မြတ်များသာလျှင် ဖြစ်ကြသည်။

မြန်မာ နိုင်ငံကို စိုးစံခဲ့ကြသော ရှေးမြန်မာမင်းများရှိစဉ်အခါက နန်းစဉ်ရတနာများကို အစဉ်အဆက်စောင့်ထိန်းထားလေ့ ရှိ၏။ ယင်းတို့တွင် ပတ္တမြားသည် မြန်မာမင်းတို့၏ အထွတ်အမြတ် ထားအပ်သော ရတနာဖြစ်လေသည်။ မြန်မာနိုင်ငံကို ဗြိတိသျှတို့ သိမ်းယူလေသော်၊ ထိုကဲ့သို့ ထားရှိခဲ့သော နန်းစဉ်ရတနာများကိုလည်း ဗြိတိသျှတို့ ယူဆောင်သွားကြလေသည်။ ယင်းတို့အနက် အထင်ရှားဆုံး နန်းစဉ်ကျောက်မျက်ရတနာတို့မှာ ငမောက်ကျောက်၊ လှော်ကားတင်ကလေးကျောက်၊ လှော်ကားတင်ကြီးကျောက်၊ ဆင်မတော်ကျောက်၊ စံကျောက်တော်နှင့် အခြား နဂါးဒိုလ် စသော ကျောက်တို့ ဖြစ်၏။ ကျောက်ဟူရာ၌ ပတ္တမြားကို ပင်ဆိုလို၏။ ငမောက်ကျောက်သည် ကွမ်းသီးလုံးငယ်ခန့်ပမာဏရှိ၍၊အကွက်မဖော်ရသေးသောစင်းလုံးချောပတ္တမြားဖြစ်၏။ ရတီချိန်မှာ ၉၀ ကျော်ရှိ၏။ အခန်းတွင်းဝယ် ထိုကျောက်ကို ကလပ်ပေါ်၌ တင်ထား၍ မှောင်ချသော်၊ မီးကဲ့သို့ လင်းသည် ဆို၏။ နွားနို့ဂွမ်းစသည်တို့တွင် ထည့်

သောအခါ ဆေးနီဆိုးသကဲ့သို့ နီသည်။ ကျောက်ကို မှောက်ကြည့်သောအခါ အရည်တစက်စက် ယိုကျမည်ကဲ့သို့ ထင်ရသောဟူ၏။ ယင်းကျောက်ကို အင်းဝဘုရင် ပြည်မင်းလက်ထက် သက္ကရာဇ် ၁၀၂၃ ခုနှစ်တွင် ချင်းတွင်းရွာမှ ငမောက်ဆိုသူ လာရောက်ဆက်သ၍ ငမောက်ကျောက်ဟု တွင်ကြောင်း အဆိုရှိ၏။ လှော်ကားတင်ကလေးကျောက်သည် ရတီချိန် ၂၀ ရှိ၍၊ ဘိုးတော်ဘုရားလက်ထက်တွင် လှော်ကားလှေနှင့် တင်ယူ ဆက်သသောကြောင့် လှော်ကားတင်ကျောက်ဟု တွင်၏။ လှော်ကားတင်ကြီး ကျောက်သည် ရတီချိန် ၄၀ ကျော်သည်။ ကုန်းဘောင်မင်း လက်ထက်၊ သက္ကရာဇ် ၁၁၉၉ ခုနှစ်တွင် မိုးကုတ်မြို့ရှိ ကျောက်တွင်းတခုမှ လှော်ကားလှေနှင့် တင်ဆောင်လာ၍ ဆက်သထားခြင်းဖြစ်၏။ ဆင်မတော်ကျောက်သည် ရတီချိန် ၄၀ ကျော်ရှိ၍၊ ဆင်မတော်နှင့် တင်ဆက်သော ကျောက်ဖြစ်လေသည်။ စံကျောက်တော်သည် ၆ ရတီခန့်သာရှိသော်လည်း အရည်အသွေး အလွန်ကောင်း၍ စံပြုရသောကျောက်ဖြစ်၏။

အင်္ဂလန်ပြည်ဘွင် နန်းစဉ်ရတနာများ အဖြစ် သရဖူနှင့် ရာဇလှံ့တံ အစရှိသော မင်းမြောက်တန်ဆာများကိုသတ်မှတ်ထားရှိလေသည်။ ယင်းတို့ကို လန်ဒန်မျှော်စင်ကြီးရှိ ဝိတ်ကဖီး အဆောင်တွင် အစဉ်အဆက် ထိန်းသိမ်း ထားရှိသည်။ ထိုမင်းမြောက်တန်ဆာများတွင် ကမ္ဘာကျော် 'ကိုဟီးနူး' စိန်ကြီး၊ 'အာဖရိက၏ကြယ်ပွင့်ကြီး' ခေါ် ရတီချိန် ၅၁၆ ½ ရှိစိန်တုံးကြီး၊ ကြက်ဥငယ်ခန့်ရှိသော ပတ္တမြားနှင့် အခြားအဖိုးမဖြတ်နိုင်သော နီလာ၊ မြ၊ ပုလဲ စသည်တို့ကို တပ်ဆင် ပြုလုပ်ထားလေသည်။ (သရဖူ — ရှု။)

စကော့တလန်ပြည်၌လည်း ရှေးခေတ် နန်းစဉ် ရတနာအချို့ကို အက်ဒင်ဗာရာ ရဲတိုက်တွင် ယခုတိုင် သိမ်းဆည်းပြသထားလေသည်။ ပြင်သစ်နိုင်ငံတွင် ရှေးအခါက ဗူဗွန်မင်းများနှင့် နပိုလီယန်ဗိုနာပတ် အဆက်အနွယ်များသည် အဖိုးတန် ကျောက်မျက်များကို စုဆောင်း သိမ်းလှေရှိခဲ့သော်လည်း၊ ပြင်သစ် တော်လှန်ရေးခေတ် အတွင်းဝယ် နာမည်ကျော်ကျောက်ကောင်းရတနာများစွာ ပျက်စီးပျောက်ဆုံးခဲ့လေသည်။ ယင်းတို့အနက် စိန်ကြီးတလုံးနှင့် ပတ္တမြားကြီးတလုံးကိုမူ ပြန်လည်တွေ့ရှိခဲ့၏။ စိန်ကြီးမှာ 'ရီးဂျင့်' သို့မဟုတ် 'ပစ်' ဟုအမည်တွင်၍၊ မသွေးမီက ရတီချိန် ၄၁၀ ရှိသော်လည်း၊ သွေးပြီးသောအခါ ရတီချိန် ၁၈၆ ၁/၁၆ ခန့်သာ ရှိလေ




အင်္ဂလန်ပြည် လန်ဒန်မြို့တော်ရှိ လန်ဒန်မျှော်စင်၌ ထိန်းသိမ်းထားရှိသော ဗြိတိသျှ နန်းစဉ်ရတနာများ

သည်။ ပတ္တမြားကြီးမှာ 'ဒရက်ဂွန်' သို့မဟုတ် 'ကိုဒါဖြိုတန်းယ' ဟုတွင်သည်။ ယခုအခါ ရီဂျင့် စိန်ကြီးနှင့် အခြား ပြင်သစ်ဘုရင်များ၏ လက်ဝတ် ရတနာများအပြင်၊ မင်းမြောက်တန်ဆာ အချို့ကို ပြင်သစ်နိုင်ငံ ပါရစ်မြို့ရှိ လူးဗရပြတိုက်တွင်ပြသသိုမှီးထား၏။ ဣတလီနိုင်ငံမှ လောင်ဗာဒီသံ သရဖူကိုမူ အဖိုးအထိုက်တန်ဆုံး နန်းစဉ်ရတနာအဖြစ် သတ်မှတ်ထားကြလေသည်။ ယင်းကို ခရစ်တော်အား ကားတိုင် တင်ရာ လက်ဝါးကပ်တိုင်မှ သံဖြင့် ပြုလုပ်ထားသည်ဟု ဆို၏။ ပေါ်တူဂယ်နိုင်ငံမှ နန်းစဉ်ရတနာများအနက်၊ 'ဗရာဂန်ဇာ' စိန်ကြီးမှာမူ ရတီချိန်ပေါင်း ၁၆၈၀ ရှိသည်ဟုဆိုလေရာ၊ ဥဿဖယားကျောက် ဖြစ်ဟန်တူပေသည်။

ရုရှနိုင်ငံတွင်မူ ရှေး ရိုမင်နော့ မင်းဆက်တို့သည် နန်းစဉ်ရတနာများကို စုဆောင်းထိန်းသိမ်း၍ ဆောင်းရာသီ နန်းတော်၌ ထားရှိခဲ့ကြလေသည်။ ယင်းတို့တွင် ရတနာများစီခြယ်ထားသော သရဖူနှင့် မင်းတို့၏ အဆောင်အယောင်များ ပါဝင်လေသည်။ ထိုရတနာများအနက် ထင်ရှားသည့်ကျောက်မျက်တို့မှာ ရတီချိန် ၁၉၄ ¾ ရှိသော 'အော်လော့' စိန်ကြီးနှင့် ရတီချိန် ၈၅ ရှိသော 'ရှား' စိန်ကြီးတို့ အပြင် ငှုံးကြယ်ခေါ် ရတီချိန် ၄၀ ရှိ ပတ္တမြားစသည်တို့ ဖြစ်၏။

ဤကဲ့သို့ နန်းစဉ်ရတနာများကို အစဉ်အဆက် ထိန်းသိမ်းစုဆောင်းထားရှိသော အလေ့သည် ရှေးနှစ်ပေါင်းများစွာကပင်ရှိခဲ့လေသည်။ မဟာဇနကဇာတ်တော်၌ အရိဋ္ဌဇနကမင်းကြီး၏မိဖုရား၊ ဘုရားလောင်း၏မယ်တော်သည် မိမိလာပြည်ကို ပေါလဇနက သိမ်းယူလတ်သော်၊ အသက်ဘေးမှ လွတ်မြောက်ရန် မထင်ရှားသော အသွင်ဖြင့် တိုင်းပြည်မှ ထွက်ပြေးခဲ့ရာတွင် နန်းစဉ်ရတနာအချို့ကို ဆောင်ယူသွားခဲ့ကြောင်းကို ဖတ်ရှုတွေ့ရှိရပေသည်။



မြောက်ဝင်ရိုးစွန်းသို့ လှည့်လည် ရှာဖွေခဲ့သူ မနော်ဝေးနိုင်ငံ နိုင်ငံပြုသုခမိန် ဖရစ်တယော့နန်းဆန်

**နန်းဆန့်,အက်(ဖ)** (ခရစ် ၁၈၆၁ – ၁၉၃၀)။ ။မြောက်ဝင်ရိုးစွန်းဒေသသို့ သွားရောက်လှည့်လည်ရှာဖွေသူ ဖရစ်တယော့နန်းဆန်သည် ၁၈၆၁ ခုနှစ်အောက်တိုဘာလ ၁၀ ရက်နေ့တွင်နော်ဝေးနိုင်ငံရှိ၊ယခင်က ခရစ်စတီအားနီးယားမြို့ဟုခေါ်သော အော့စလိုမြို့အနီးတွင် ဖွားမြင်သည်။ ခရစ်စတီအားနီးယား တက္ကသိုလ်၌ ပညာသင်၍ ဘွဲ့ရပြီးသည့်နောက်၊ ဗားဂျင်မြို့ဇီဝဗေဒပြတိုက်၌ အကြီးအမှူးအဖြစ်ဖြင့် အလုပ်လုပ်သည်။ ၁၈၈၈-၈၉ ခုနှစ်တွင် ဂရင်းလန်းကျွန်း ရေခဲပြင်ကြီးကို အရှေ့မှ အနောက် ဖြတ်သန်းသွားယင်း၊ ထိုဒေသရှိ လူများနှင့် ဇီဝဗေဒဆိုင်ရာ အချက်အလက်တို့ကို လေ့လာခဲ့လေသည်။ ၁၈၉၀ ပြည့်နှစ်တွင် ကိုယ်တိုင်ရေးသား ထုတ်ဝေလိုက်သော "ဂရင်းလန်းကျွန်းကို ပဌမအကြိမ် ဖြတ်သန်းခြင်း"ခေါ် စာအုပ်နှင့် ၁၈၉၃ ခုနှစ်တွင် နောက်ထပ်ဆက်လက် ရေးသားသော "အက်စကီးမိုး လူမျိုးတို့၏ဘဝ" ခေါ် စာအုပ်များကား ထိုသို့ လေ့လာခဲ့ရာမှရသော အတွေ့အကြုံတို့ကို စုပေါင်း၍ မှတ်တမ်းတင်သော စာအုပ်များဖြစ်လေသည်။ ၁၈၉၃ ခုနှစ်တွင် မြောက်ဝင်ရိုးစွန်းဒေသဖြစ်သော အာတိတ် သမုဒ္ဒရာသို့ 'ဖရမ်း' အမည်ရှိ သင်္ဘောဖြင့် ခရီးထွက်ခဲ့ပြန်သည်။ သူသည် ဥရောပတိုက်နှင့်အာရှတိုက်မြောက်ဖက်ကမ်းခြေတို့ကိုပတ်၍၊သင်္ဘောကို ရေခဲစိုင်မျော တခုနှင့်အတူ မျောချခဲ့လေသည်။ ယင်းသို့ဖြင့် အာတိတ်သမုဒ္ဒရာ ဒေသမှ ဂရင်းလန်းကျွန်း အရှေ့ဖက်ကမ်းခြေသို့စီးဆင်းသောရေစီးကြောင်းတခုရှိသည်ဟူသော အယူအဆသည် မှန်ကန်ကြောင်းကို စိတ်ချစွာသိရှိရပြီးမှ နန်းဆန်သည် ယိုဟန်းဆင်ခေါ် အဖော်တဦးနှင့်အတူ ရေခဲပြင်တွင် ခြေလျင်ခရီးဆက်ကာထွက်ခဲ့၏။ ထိုအခါက လူတို့သွားနိုင်သည့် အဝေးဆုံးနေရာဖြစ်သော မြောက်လတ္တီတွဒ် ၈၆° ၁၄' သို့ရောက်ရှိခဲ့လေသည်။ သူသည် ဖရင့်ဂျိုးဆက်လန်းဒေသတွင် ဆောင်းခိုခဲ့သည်။ ၁၈၉၆ ခုနှစ်တွင် ဂျက္ကဆန်ဟမ်းဇဝပ် ခရီးသွားအဖွဲ့က တွေ့ရှိ၍၊ ပြန်လည်ခေါ်ဆောင်လာခဲ့လေသည်။ နော်ဝေးသို့ပြန်ရောက်သောအခါ၊ ၁၈၉၇ ခုနှစ်တွင် "မြောက်ဖက် အစွန်ဆုံး" ခေါ် စာအုပ်ကို ရေးသား ထုတ်ဝေခဲ့ရာ၊ အလွန် အရောင်းရတွင်ကျယ်လေသည်။ ထို့ပြင် သူသည် အာတိတ်သမုဒ္ဒရာဒေသ အတွေ့

အကြုံများနှင့် အကဲခတ် လေ့လာချက်များကို လန်ဒန်မြို့နှင့် အခြားနေရာအများတွင် လှည့်လည်ဟောပြောခဲ့သည်။ ၁၉၀၅ ခုနှစ်မှစ၍ နော်ဝေးနိုင်ငံရေးတွင် ပါဝင်ဆောင်ရွက်၍ ဆွီဒင်နိုင်ငံမှ နော်ဝေးပြည်ကို ခွဲထုတ်ရန်ကြိုးပမ်းခဲ့လေသည်။ ထိုနောက် နော်ဝေးနိုင်ငံဟူ၍ တသီးတခြားဖြစ်လာလာသော်၊ နန်းဆန်သည် ဂရိတ်ဗြိတိန်နိုင်ငံသို့ ပဌမဦးဆုံး နော်ဝေးသံအမတ်ကြီးအဖြစ် ခန့်ထားခြင်းခံရသည်။ သံအမတ်အဖြစ်ဖြင့် နှစ်နှစ်မျှ လုပ်ဆောင်ခဲ့ပြီးနောက်၊ သံအမတ်အလုပ်မှ ၁၉၀၈ ခုနှစ်တွင် နုတ်ထွက်၍၊ အာတိတ်ဒေသတွင် သမုဒ္ဒရာဆိုင်ရာ သုတေသနများပြုရန် ခရစ်စတီအားနီးယား တက္ကသိုလ် ပါမောက္ခရာထူးကို လက်ခံခဲ့လေသည်။ ထိုနောက် မြောက်အတ္တလန္တိတ်သမုဒ္ဒရာတွင် လှည့်လည်ကာ သုတေသန ပြုခဲ့သည်။ ၁၉၁၂ ခု၊ ၁၉၁၃ ခု၊ ၁၉၁၄ ခုနှစ်များတွင်လည်း အလားတူ သုတေသန လုပ်ငန်းများကို ပြုလုပ်ခဲ့သည်။ ၁၉၁၇ ခုနှစ်တွင် အစိုးရ မစ်ရှင်အဖွဲ့တဖွဲ့၏ ခေါင်းဆောင်အဖြစ်ဖြင့် ရိက္ခာတင်သွင်းရေးကိစ္စကို စေ့စပ်ဆွေးနွေးရန် အမေရိကန်ပြည်ထောင်စုသို့ သွားရောက်ခဲ့၍၊ ၁၉၁၉ ခုနှစ်တွင် နိုင်ငံပေါင်းချုပ် အသင်းကြီးသို့ နော်ဝေးနိုင်ငံ၏ ကိုယ်စားလှယ်ချုပ်အဖြစ် တက်ရောက်ခဲ့၏။ ၁၉၂၀ ပြည့်နှစ်တွင် ဆိုက်ဗီးရီးယား ပြည်နယ်မှ စစ်သုံ့ပန်းများ ထုတ်ယူရေးအတွက် အပြည်ပြည်ဆိုင်ရာအဖွဲ့၏ ညွှန်ကြားရေးဝန်အဖြစ် ခန့်ထားခြင်းခံရ၏။ ၁၉၂၁ ခုနှစ်မှ ၁၉၂၃ ခုနှစ်အထိ ရုရှနိုင်ငံတွင် အစာငတ်မွတ် ခေါင်းပါးသူများအား ကယ်ဆယ်ရေးအဖွဲ့၏ ညွှန်ကြားရေးဝန် ဖြစ်လာခဲ့ပြန်၍ လူပေါင်း ၁၂ သန်းကို အစာရေစာ ကျွေးမွေးခဲ့သည်။ ထိုလုပ်ငန်းကို အကြောင်းပြု၍ နန်းဆန်သည် ၁၉၂၂ ခုနှစ်၌ နိုဗဲဆုကို ရရှိသည်။ နိုဗဲဆုမှရရှိသော ကြေးငွေတို့ကို ရုရှနိုင်ငံ စံပြ လယ်ယာတည်ထောင်ရေး၌ အသုံးပြုရန် လှူဒါန်းခဲ့သည်။

နန်းဆန်သည် နိုင်ငံပေါင်းချုပ် အသင်းကြီးတွင် နော်ဝေးနိုင်ငံ ကိုယ်စားလှယ်အဖြစ်ဖြင့် ဆောင်ရွက်ခဲ့စဉ်က၊ ဂျာမနီနိုင်ငံကို နိုင်ငံပေါင်းချုပ် အသင်းကြီး၌ လက်ခံရန် ကြိုးပမ်းခဲ့သည်။ ၁၉၂၅ ခုနှစ်၌ နန်းဆန်သည် စကော့တလန်ပြည် စိန်အင်ဒရူးတက္ကသိုလ်၏ ပါမောက္ခချုပ်အဖြစ် ခန့်အပ်ခြင်းကိုခံရသည်။

၁၉၂၆ ခုနှစ်တွင် နော်ဝေးနိုင်ငံ၏ ဝန်ကြီးချုပ်ရာထူးကို ပေးအပ်သော်လည်း လက်မခံခဲ့ပေ။ ၁၉၂၈ ခုနှစ်၌ကား သူ၏ သုတေသနဆိုင်ရာ အကြောင်းအရာတို့ကို အမေရိကန်ပြည်ထောင်စု၌ မြို့တကာသို့ လှည့်လည်၍ ဟောပြောခဲ့သည်။ နန်းဆန်သည် မြောက်ဝင်ရိုးစွန်းသို့ လေသင်္ဘောဖြင့် ခရီးထွက်ရန် ပြင်ဆင်နေဆဲ၊ ၁၉၃၀ ပြည့်နှစ် မေလ ၁၃ ရက်နေ့တွင် အော့စလိုမြို့၌ ရုတ်တရက်ကွယ်လွန်သွားလေသည်။

**နပ်ဖီး, ဗိုင်းကောင့်** (ခရစ် ၁၈၇၇ ဖွား)။ ။ဗိုင်းကောင့်နပ်ဖီးသည် ထင်ရှားသောအင်္ဂလိပ်လူမျိုး မော်တော်ကားလုပ်ငန်းရှင်ကြီးတဦးဖြစ်၏။ သူ၏နာမည်ရင်း အပြည့်



ဗိုင်းကောင့်နပ်ဖီး ၁၉၁၄ ခုနှစ်တွင် တီထွင် ဆောက်လုပ်သည့် နာမည်ကျော် မော်တော်ကား

အစုံမှာ ဝီလျံရစ်ချတ်မောရစ်ဖြစ်၏။ အင်္ဂလန်ပြည် အလယ်ပိုင်း ဝုစတားနယ်တွင် ၁၈၇၇ ခုနှစ်၌ ဖွားမြင်၍၊ အောက်စဖို့မြို့ အနီး ကောင်လီရွာ ကျောင်းကလေးတွင် ပညာ သင်ကြားခဲ့လေသည်။ လူလားမြောက်၍ ၁၇ နှစ်သားအရွယ်သို့ ရောက်သောအခါ၊စက်ဘီးပြင်ဆိုင်တဆိုင်တွင် လက်ထောက်အဖြစ်ဖြင့် ဝင်ရောက်လုပ်ကိုင်ခဲ့၏။ ထိုနောက် များမကြာမီ အတွင်း၌ ကိုယ်ပိုင် စက်ဘီးလုပ်ငန်း တရပ်ကို ဖွင့်လှစ်လေသည်။ စက်ဘီးလုပ်ငန်းတွင် လုပ်သက် အတန်ရင့်၍ စက်ကရိယာဖက်တွင် အတော်အသင့် တတ်မြောက်လာသည့်အခါ၊ ၁၉၀၀ ပြည့်နှစ်၌ မော်တော်ဆိုင်ကယ်များကို စတင်လုပ်ကိုင်ခဲ့၏။ ထိုနောက် မော်တော်ကားကို ၁၉၁၁ ခုနှစ်တွင် ဦးစွာ တီထွင်လုပ်ကိုင်၍၊ ၁၉၁၂ ခုနှစ်တွင် မော်တော်ကားလုပ် စက်ရုံကို တည်ထောင် ဖွင့်လှစ်လေသည်။ ထိုစက်ရုံမှ ထွက်သော မောရစ်ကားများသည် ပေါ့ပေါ့ပါးပါးရှိ၍ ခိုင်ခံ့တောင့်တင်းပြီးလျှင်၊ ဆီစားလည်း အလွန် သက်သာသောကြောင့်၊ လူကြိုက်အလွန်များ၏။ ပဌမကမ္ဘာစစ်ကြီးအတွင်းတွင် မောရစ်၏မော်တော်ကားလုပ်ငန်းသည် ထူးကဲစွာ တိုးတက်လာခဲ့သည်။ စစ်ကြီး ပြီးဆုံး သွားသောအခါ၊ တန်ဖိုးပေါပေါနှင့် အိမ်ထောင်တိုင်း သုံးနိုင်စေရန် ရည်သန်၍၊ မော်တော်ကားများကို အများထွက် စံနစ်ဖြင့် အကြီးအကျယ် ပြုလုပ် ရောင်းချခဲ့သည်။ မောရစ်၏ လုပ်ငန်းကျွမ်းကျင်မှုနှင့် ရောင်းဝယ်ရေး စွမ်းရည်တို့ကြောင့်၊ မောရစ်မော်တော်ကားလုပ်ငန်းသည် ကမ္ဘာပေါ် တွင် အကြီးဆုံးသော မော်တော်ကားလုပ်ငန်းတခု အဖြစ်သို့ မကြာမီပင် ရောက်ရှိလာခဲ့လေသည်။

အင်္ဂလန်ပြည်၏ စက်မှုလက်မှုလုပ်ငန်း အဆင့်အတန်း မြင့်ရေးအတွက် ကြိုးပမ်းခဲ့သည်သာမက၊ လူအများ၏ အကျိုးစီးပွားကိုလည်း လိုလား ရွက်ဆောင်ခဲ့သဖြင့် ဗြိတိသျှဘုရင့်အစိုးရသည် မောရစ်အား ၁၉၃၄ ခုနှစ်တွင် ဗဲရွန်ဘွဲ့ကိုအပ်နှင်းကာ သူကောင်းပြုခဲ့၏။ ထိုနောက် ၁၉၃၈ ခုနှစ်တွင် တဖန် ဗိုင်းကောင့်အဆင့်အတန်းသို့ တိုးမြှင့်ချီးမြှောက်လိုက်ပြန်သည်။ ထိုအချိန်မှစ၍ ဗိုင်းကောင့်နပ်ဖီးဟု ထင်ရှားလာ၏။

ဗိုင်းကောင့်နပ်ဖီးသည် ပညာရေးနှင့် ကျန်းမာရေးအဖွဲ့အစည်းများသို့ ရန်ပုံငွေများ ရက်ရောစွာ ထည့်ဝင်လှူဒါန်းခဲ့၏။ ၁၉၃၆ ခုနှစ်နှင့် ၁၉၃၇ ခုနှစ်များအတွင်း၌ ဆေးဒင်္ဂါးပေါင်ပေါင်း ၃၀၀,၀၀၀ ကိုဆေးပညာနှင့်အခြားသုတေသနလုပ်ငန်းများအတွက် အောက်စဖို့ဒ်တက္ကသိုလ်သို့ လှူဒါန်းခဲ့သည်။ ၁၉၃၉ ခုနှစ်တွင် ဗြိတိသျှ ကြည်း၊ ရေ၊ လေ တပ်မတော်သားများ စိတ်လက်ပျော်ရွှင်မှုအတွက် သုံးစွဲရန် ပေါင်ပေါင်း ၁,၅၀၀,၀၀၀ ကိုလှူဒါန်း၏။ ထိုနောက် ၁၉၄၃ ခုနှစ်တွင် လူထုကောင်းစားရေးနှင့် သိပ္ပံပညာ သုတေသနလုပ်ငန်းများအတွက် ထာဝစဉ် အထောက်အပံ့ဖြစ်စေရန်၊ ပေါင်ပေါင်း ၁၀,၀၀၀,၀၀၀ ကို အမြဲတမ်း ရန်ပုံငွေအဖြစ်ဖြင့် လှူဒါန်းခဲ့သည်။

**နာဗ်ကြော**။ ။နာဗ်ကြောများသည် နာဗ်မျှင်များနှင့် ပြည့်နှက်နေသည့် ကြိုးကဲ့သို့သော အဖွဲ့အစည်းဖြစ်သည်။ ဆိုလိုသည်မှာ နာဗ်ကြောများသည် ခန္ဓာကိုယ်၏ တနေရာမှ တနေရာသို့ စေ့ဆော်မှုများကို သယ်ဆောင်သွားကြသည့် ရှည်လျားသော နာဗ်ဆဲ အခက်အလက်များ ဖြစ်သည်။ထိုနာဗ်ကြောများက ခန္ဓာကိုယ်တွင် တယ်လီဖုန်းစံနစ်သဖွယ် အမှုများကို ဆောင်ရွက်ပေးကြလေသည်။ ခန္ဓာကိုယ်ရှိ အစိတ်အပိုင်းတခုခု၏ နာဗ်မျှင်များသည် အများအားဖြင့် စုစည်းလျက် ရှိကြပြီးလျှင် ကျောရိုး နာဗ်ကြိုးသို့ ရောက်လုဆဲနေရာအထိ မခွဲခွါကြချေ။ ကျောရိုးနာဗ်ကြိုးသို့ အရောက်တွင် အခြေခံ နှစ်ခုအဖြစ်သို့ ကွဲထွက်သွား၍ တခုစီတွင် နာဗ်မျှင်တမျိုးစီသာ ပါရှိလေသည်။

နာဗ်ကြောအဖွဲ့တွင် နာဗ်ဆဲများနှင့် နာဗ်မျှင်များရှိသည်။ နာဗ်မျှင်တိုင်းသည် နာဗ်ကြော ဆဲမှ ဖြာထွက်သည်။ ဦးနှောက်နှင့် ကျောရိုး နာဗ်ကြိုးတို့သည် နာဗ်ကြောအဖွဲ့၏ ဗဟိုဖြစ်သည်။ နာဗ်မျှင် တမျှင်စီသည် အာရုံများကို တဖက်တည်းသို့သာ သယ်ဆောင်သွားလေသည်။ ကိစ္စတမျိုးတည်းကိုသာဂရုပြုသည့် အထူး နာဗ်ကြောများလည်း ရှိသေးသည်။ ပုံပမာ အမြင်နှင့်ဆိုင်သော နာဗ်ကြောသည် အမြင်နှင့် ဆိုင်သော အာရုံ တမျိုးတည်းကိုသာ ဂရုပြုလေသည်။ ထိုနည်းအတူ အကြားနှင့် အခြားအာရုံများနှင့်ဆိုင်သော နာဗ်ကြောများလည်း ရှိသေးပြီးလျှင်၊ ယင်းတို့က သက်ဆိုင်ရာ အာရုံတမျိုးစီကိုသာ ဂရုပြုကြလေသည်။

ဦးနှောက်သို့ အာရုံကိုသယ်ဆောင်လာသော နာဗ်ကြောများအား ဝင်နာဗ်ကြောများဟု ခေါ် သည်။ ယင်းတို့သည် ပြင်ပလောကမှ အပူအအေး၊ နာကျင်မှုစသည့် အာရုံများကို သယ်ဆောင်လာကြလေသည်။ ခံစားရသည့် အာရုံများကို သယ်ဆောင်သွားကြသောနာဗ်ကြောများကို ထွက်နာဗ်ကြောများဟု ခေါ် သည်။ ထိုနာဗ်ကြောများသည် ခန္ဓာကိုယ်၏ လှုပ်ရှားမှုအမျိုးမျိုးနှင့် သက်ဆိုင်လေသည်။ ထွက်နာဗ်ကြောများအနက် အချို့သည် မိုတာ နာဗ်ကြောများဖြစ်၍ ယင်းတို့က ကြွက်သားများကို ကျုံ့စေကာ၊ ကြွက်သားများကပ်လျက်ရှိသည့် အရိုးများကို လှုပ်ရှားစေသည်။ အချို့နာဗ်ကြောများသည် ဂလင်းများမှ စစ်ထွက်ရည်များကို စစ်ထွက်စေကြသဖြင့်၊ ယင်းတို့သည် စစ်ထွက်ရည်နှင့် ဆိုင်သော နာဗ်ကြောများ ဖြစ်ကြလေသည်။

ကျောရိုးနာဗ်ကြိုး၌ အခြေခံနှစ်ခု အဖြစ် ကွဲထွက်လာသောအခြေခံတခုတွင် ထွက်နာဗ်မျှင်များပါရှိသည်။ ယင်း

တို့သည် ကျောရိုးနာဗ်ကြိုး၏ ရှေ့ဖက်တွင် အဆုံးသတ်ကြလေသည်။ ကျန် အခြေခံတွင် ဝင်နာဗ်မျှင်များ ပါရှိသည်။ ယင်းတို့သည် ကျောရိုးနာဗ်ကြိုး၏ နောက်ဖက်တွင် အဆုံးသတ်ကြလေသည်။

ထိုဝင်နာဗ်မျှင်များနှင့် ထွက်နာဗ်မျှင်များသည် ကြိုးအတွင်းရှိ နာဗ်ဆဲများ၏ စုဆောင်း ထားမှုများနှင့် ဆက်သွယ်လျက် ရှိကြလေသည်။ ထိုစုဆောင်းထားမှုများတွင် မွဲပြာရောင် ဒြဗ်ပါရှိသည်ဟု သိရသည်။ ထိုစုဆောင်းထားမှုများသည် အာရုံများကို လက်ခံသည့်ပြင် စတင်၍လည်း ဖြစ်ပေါ်စေသေးသည်။ ယင်းတို့သည် ဦးနှောက်ရှိ အဓိကအစိတ်အပိုင်းနှင့်ပါ ဆက်သွယ်လျက်ရှိကြလေသည်။ နှလုံး၏လှုပ်ရှားမှု၊ စစ်ထွက်ရည် ဖြစ်မှု၊ အစာအိမ်နှင့် အူတို့၏ လှုပ်ရှားမှုများကဲ့သို့သော အလိုမလိုက်သည့် အမှုကိစ္စ များကိုသာ ဆောင်ရွက်သော ထွက်နာဗ်ကြောများကို ထောက်ပံ့နာဗ်ကြောများဟု ခေါ်သည်။ သို့သော လှုပ်ရှားမှုများနှင့် စပ်လျဉ်းသော နာဗ်ကြောများကမူ အလိုအတိုင်းသာ ပြုမူချက်များကို ပြုလုပ်စေကြသည်။ ထိုနာဗ်ကြောများကို ဆဲရီဗရိုစပိုင်နယ် နာဗ်ကြောများဟု ခေါ်သည်။ ယင်းတို့သည် ကျောရိုးနာဗ်ကြိုးနှင့်ဆက်သွယ်လျက်ရှိကြလေသည်။ ထောက်ပံ့နာဗ်ကြောအဖွဲ့တွင် ကိုယ်ပိုင် ဆက်သွယ်ပေးသည့် နာဗ်မျှင်များရှိသည်။ ယင်းတို့သည် ကျောရိုးဆစ်များ၏ အပြင်တွင် ရှိ၍ ယင်းတို့၌ ဗဟို သုံးခုရှိသည်။ ထိုသုံးခုမှာ ကာဒီအက်၊ ဆိုလာနှင့် ဟိုက်ပို ဂက်စတြစ် ပလက်ဆပ်များ ဖြစ်သည်။

လူ၏ခန္ဓာကိုယ်တွင် ဦးနှောက်နှင့် ဆက်သွယ်လျက်ရှိသော နာဗ်ကြော ဆယ့်နှစ်စုံရှိသည်။ ထိုနာဗ်ကြောများကို ဦးနှောက်နာဗ်ကြောများဟု ခေါ်သည်။ ကျောရိုး နာဗ်ကြိုးနှင့် ဆက်သွယ်လျက်ရှိသော နာဗ်ကြော အစုံပေါင်းကား သုံးဆယ့်တစ်စုံရှိသည်။ ယင်းတို့ကိုကျောရိုးနာဗ်ကြောများဟုခေါ်သည်။

နာဗ်ကြောများသည် ကြီးထွားရာ၌ အာရုံသွားမည့်ဖက်သို့ကြီးထွားသွားခြင်းသည် စိတ်ဝင်စားဖွယ် ကောင်းလေသည်။ ပုံပမာ - အမြင်နှင့်ဆိုင်သော နာဗ်ကြော (ဝင်လာသည့်အာရုံကို သယ်ဆောင်လာသော နာဗ်ကြော) သည် မြင်လွှာ (ရက်တီးနား) တွင် စတင် ကြီးထွားပြီးလျှင် ဦးနှောက်ဖက်သို့ ဆက်လက် ကြီးထွားသွားလေသည်။ မိုတာ နာဗ်ကြောများ (ထွက်သွားမည့် အာရုံများကို သယ်ဆောင်သွားသည့် နာဗ်ကြောများ) ကမူ နာဗ်ကြော၏ ဗဟိုများတွင် စတင် ကြီးထွားကြပြီးလျှင် ခန္ဓာကိုယ်၏အပြင်ဖက်ဆီသို့ ဆက်လက် ကြီးထွားသွားကြလေသည်။

ဒဏ်ရာကြောင့် နာဗ်ကြောတခုပြတ်သွားလျှင်၊ အချို့ နာဗ်ဆဲများသည် အသစ် ဖြစ်ပွား လာနိုင်ကြလေသည်။ ထိုနာဗ်ဆဲများသည် ဆရာဝန်က နာဗ်ကြော၏အစွန်းနှစ်ဖက်ကို ချုပ်၍မပေးသော်လည်း အမှုကိစ္စလုပ်ဖော် နာဗ်ဆဲများနှင့်ဆက်မိစေရန် ခုန်၍ပင် ကူးနိုင်ကြလေသည်။ သို့သော် အချို့နာဗ်ဆဲများသည် ပျက်စီးသွားလျှင်၊ အသစ် မဖြစ်ပွားနိုင်တော့သဖြင့် သွက်ချာပါဒ (လေဖြတ်ရောဂါ) ဖြစ်ရလေသည်။

**နိဗ္ဗာန်။** ။ဤနိဗ္ဗာန် ဟူသော မြန်မာ ဝေါဟာရ သည် နိဗ္ဗာနဟူသော ပါဠိမှ ဖြစ်လာ၏။ ထိုနိဗ္ဗာနဟူသော ပါဠိပုဒ်မှာ ကင်းဆိတ်ခြင်း အနက်ရှိသော နိဟူသော ပုဒ်နှင့် တဏှာဟူသော အနက်ရှိသော ဝါနဟူသောပုဒ်ကို ဆက်စပ်ထားသော ပုဒ်တခုဖြစ်သဖြင့် ဝါနဟု ဆိုအပ်သော တဏှာမှ ကင်းလွတ် တတ်သော ကြောင့် နိဗ္ဗာန (ဝါ) နိဗ္ဗာန်ဟု အမိပ္ပါယ်ရလေသည်။

ထိုကြောင့် တဏှာနှင့် မရောယှက်ဘဲ ကျွတ်လွတ်၍တည်သော အေးချမ်းခြင်း၊ ငြိမ်းချမ်းခြင်း၊ သိတိ သန္တိ သဘော တရားကို နိဗ္ဗာန်ဆိုသည်ဟု မှတ်ယူရမည်။

သိတိ သန္တိ သဘောအားဖြင့် တပါးတည်းသာဖြစ်သော ထိုနိဗ္ဗာန်သည် အကြောင်းပရိယာယ်အားဖြင့် သဉပါဒိသေသနိဗ္ဗာန်၊ အနုပါဒိသေသနိဗ္ဗာန် ဟူ၍ နှစ်ပါးအပြားရှိ၏။

သောတာပန် ဖြစ်သည်မှစ၍ ရဟန္တာ ဖြစ်သည်တိုင်အောင် ရအပ် ရောက်အပ်သော နိဗ္ဗာန်ကို သဉပါဒိသေသ နိဗ္ဗာန်ဟု ခေါ်၏။ (စိတ် — ရှု။) ဥပါဒိသေသမည်သော ခန္ဓာများ ရှိစဉ် ရအပ် ရောက်အပ်သော နိဗ္ဗာန်ဟု ဆိုလိုသည်။ ရဟန္တာပုဂ္ဂိုလ်တို့၏စုတိစိတ်ချုပ်ပြီးသည်မှ နောက်၌ ရအပ်ရောက်အပ်သော နိဗ္ဗာန်ကို အနုပါဒိသေသ နိဗ္ဗာန်ဟု ခေါ်၏။ ဥပါဒိသေသမည်သော ခန္ဓာများမရှိမှ ရအပ်ရောက်အပ်သောနိဗ္ဗာန်ဟု ဆိုလိုသည်။

တနည်း၊ သုညတ နိဗ္ဗာန်၊ အနိမိတ္တ နိဗ္ဗာန်၊ အပ္ပဏိဟိတ နိဗ္ဗာန်ဟူ၍ သုံးပါး အပြားရှိ၏။

ဤနိဗ္ဗာန် တခုတည်းကိုပင်လျှင် ကိလေသာတရား၊ ဒုက္ခတရားတို့မှ ကင်းဆိတ်ခြင်းကြောင့် သုညတနိဗ္ဗာန်ဟူ၍ရင်း၊ ဖြစ်ခြင်းပျက်ခြင်း သဘောရှိသော သင်္ခါရနိမိတ်တို့မှ ကင်းဆိတ်ခြင်းကြောင့် အနိမိတ္တနိဗ္ဗာန်ဟူ၍ရင်း၊ တောင့်တခြင်း တဏှာပဏိဓိမှ ကင်းဆိတ်ခြင်းကြောင့် အပ္ပဏိဟိတ နိဗ္ဗာန်ဟူ၍ရင်း ခေါ် ဆိုခြင်း ဖြစ်လေသည်။

ဤနိဗ္ဗာန်တရားဟူသည် ယုန်ချို၊ လိပ်မွေး၊ ဗဇ္ဈန်သွေးတို့ကဲ့သို့ စင်စစ် မရှိသော အဘာဝပညတ်မဟုတ်ချေ။မဂ်ဉာဏ်ဖိုလ်ဉာဏ်တို့ဖြင့် ကေန် တွေ့အပ် ရအပ်သော စင်စစ်ရှိသည့် ပရမတ္ထတရားတခု ဖြစ်ပေသည်။

နိဗ္ဗာန်သည် ပရမတ္ထအားဖြင့် ထင်ရှားရှိသော တရားပင်ဖြစ်သော်လည်း၊ စိတ် စေတသိက် ရုပ် တရားများကဲ့သို့

ဥပါဒ်အားဖြင့် ဖြစ်ပေါ်လာသော တရားမျိုး မဟုတ်ပေ။ ထိုကြောင့် ထိုနိဗ္ဗာန်ကို အဇာတ၊ အဘူတ၊ အကတ၊ အသင်္ခတ တရားဟူ၍ ဥဒါန်းပါဠိတော် ဣတိဝုတ်ပါဠိတော်တို့၌ ဟောပြတော်မူ၏။ အဇာတ ဟူသည်မှာ အကြောင်းတရားတို့ကြောင့် ဖြစ်လာသော တရားမျိုး မဟုတ်ဟု ဆိုလိုသည်။ အဘူတ ဟူသည်မှာ မိမိဖာသာ ပေါ်လာသော တရားမျိုးလည်း မဟုတ်ဟု ဆိုလိုသည်။ အကတ ဟူသည်မှာ တစုံတခုသော အကြောင်းသည် ပြုအပ်သော တရားမျိုးလည်း မဟုတ်ဟု ဆိုလိုသည်။ အသင်္ခတ ဟူသည်မှာ ဇာတ၊ ဘူတ၊ ကတ သဘောတို့ဖြင့် ပြုပြင် စီမံအပ်သော တရားမျိုးလည်း မဟုတ်ဟု ဆိုလိုသည်။

မဂ်စိတ်ဖိုလ်စိတ်တို့သည် သံလိုက်ကို အပ် တွယ်ဘိသကဲ့သို့ ထိုအဇာတ၊ အဘူတ၊ အကတ၊ အသင်္ခတ ဖြစ်သော နိဗ္ဗာန်တရားမြတ်ကို အာရုံပြုလျက်၊ မှီတွယ်လျက်၊ စူးစိုက်လျက်၊ တွေ့ထိလျက်ဖြစ်ပေါ်လာကြရသည်။ ယင်းသို့ ဖြစ်ပေါ်လာမှုကိုပင် နိဗ္ဗာန်ရသည်ဟုဆိုရသည်။ နိဗ္ဗာန်ရသော ပုဂ္ဂိုလ်သည် ထိုအေးချမ်းခြင်း၊ ငြိမ်းချမ်းခြင်း သီတိ သန္တိ သဘောသို့ သက်ရောက်၍၊ တဏှာဝါနမှ ကျွတ်လွတ်လေသည်။

သောတာပန်ပုဂ္ဂိုလ်သည် သောတာပန်ဖြစ်ရုံမျှနှင့်နိဗ္ဗာန်ကို အလုံးစုံ ရသည်ရောက်သည် မဟုတ်သေး၊ မိမိသန္တာန်၌ ကိလေသာမီး အပူဒုက္ခတို့ ကင်းချုပ်သမျှ အတွက်လောက်သာ အေးငြိမ်းမှု နိဗ္ဗာန်ကိုလည်း ရသေး ရောက်သေးသည်။ သကဒါဂါမိနှင့် အနာဂါမိ ပုဂ္ဂိုလ်များလည်း ထိုနည်းအတူပင်။ ရဟန္တာပုဂ္ဂိုလ်မှာလည်း ကိလေသာမီးအပူနှင့် အနာဂတ်ဘဝခန္ဓာတို့ အကြွင်းအကျန်မရှိ ချုပ်ဆုံးမှု အတွက်သာ နိဗ္ဗာန်ကို ရသေးရောက်သေးသည်။ ပစ္စုပ္ပန်ခန္ဓာဝန် ဒုက္ခကား ရှိသေးသည်သာတည်း။ ထိုရဟန္တာပုဂ္ဂိုလ် စုတေသေဆုံးသောအခါ၌မူ ပစ္စုပ္ပန် ခန္ဓာဝန်ဒုက္ခမှလည်း ကျွတ်လွတ်၍၊ တအေးတည်းအေး၊ တငြိမ်းတည်း ငြိမ်း၊ တချမ်းသာတည်း ချမ်းသာရလေသတည်း။ ဆရာဥာဏ်

**နမ့်ဆန်မြို့။** ။ရှမ်းပြည် မြောက်ပိုင်း တောင်ပိုင်နယ်၏ မြို့တော်ဖြစ်သော နမ့်ဆန်မြို့သည် ကျောက်မဲမြို့၏မြောက်ဖက် နမ္မတူမြို့၏ အနောက်တောင်ဖက်တွင် တည်ရှိသည်။ ပင်လယ်ရေမျက်နှာပြင် အထက် ပေပေါင်း ၅,၃၃၂ ပေ မြင့်သော တောင်ကြားတွင်တည်ရှိသဖြင့် ရာသီဥတုမှာ အထူးပင် သာယာ အေးမြ၍ ဆောင်းရာသီတွင် အချမ်းပိုသော မြို့ဖြစ်သည်။

နမ့်ဆန်ဟူသည်မှာ ရှမ်းစကား နမ့်နှင့်ဆန်ကို ပေါင်းထားခြင်းဖြစ်သည်။ နမ့်မှာရေဖြစ်၍ ဆန်မှာ တုန်လှုပ်သည်ဟူသောအဓိပ္ပါယ်ရသည်။ နမ့်ဆန်မြို့တည်ရာမြေသည် ရွှေ့ကရေစိမ့်နေသောမြေဖြစ်ခြင်းကြောင့် မြေကိုနင်းမိလျှင် ရေများ တုန်လှုပ်လေသည့်ပြင်၊ မြန်မာ သက္ကရာဇ် ၁၂၂၀ ခုနတ်တော် လပြည့်ကျော် ၁၄ ရက်နေ့တွင် မြို့တည်သောအခါ လျှောင် ကြီးစွာတုန်လှုပ်သည်ကိုအစွဲပြု၍ နမ့်ဆန် ဟုခေါ်တွင်သမုတ်လေသည်။

နမ့်ဆန်မြို့သည် လက်ဖက်စို လက်ဖက်ခြောက်တို့ ထွက်သဖြင့် ကျော်ကြားသည်။ မြန်မာနိုင်ငံထွက် လက်ဖက်စို လက်ဖက်ခြောက်များအနက် နမ့်ဆန်မြို့နှင့်ယင်းမြို့တဝိုက်မှ ထွက်သည်က များသည်။ နှစ်စဉ်လိုပင် လက်ဖက်စို လက်ဖက်ခြောက် တန်ပေါင်း သိန်းနှင့်ချီ၍ တင်ပို့နိုင်သည်။ နာမည်ကျော်အတွင်းတောင် လက်ဖက်နှင့် ဇယန်းလက်ဖက်တို့သည် နမ့်ဆန်မြို့တဝိုက်မှထွက်သည်။ ဇယန်းတောင်တန်းကြီးသည် နမ့်ဆန်မြို့ထက် မြင့်သည်။ လက်ဖက်ပင်တို့၏ သဘာဝသည် အထက်သို့ မြင့်လေလေ အမျိုးအစား ပို၍ ကောင်းလေလေ ဖြစ်ရာ ဇယန်းလက်ဖက်သည် မျိုးကောင်းလေတော့သည်။ စစ်မဖြစ်မီက လက်ဖက်ခြောက်လုပ်ငန်းများကို ဘုံဘေဘားမားထရိတ်ဒင် ကုမ္ပဏီက အကြီးအကျယ် ချုပ်၍ လုပ်ကိုင်သည်။ ယခုတိုင်လည်း နမ့်ဆန်မြို့၌ အချိုသောက်လက်ဖက်ခြောက်စက်ရုံတရုံ တည်ထားသည်။ ပလောင်မတ်ဆိပ် လက်ဖက်ခြောက်သည် ယင်းစက်ရုံထွက် ဖြစ်သည်။ စစ်ပြီးနောက်ပိုင်းတွင်မူ အချိုသောက်၊ အဖန်သောက် လက်ဖက်ခြောက်များကို အိမ်တွင်းလုပ်ငန်းအဖြစ် အကြီးအကျယ် လုပ်ကိုင်လျက်ရှိကြသည်။ တပေါင်းတန်ခူးလများတွင် လက်ဖက်ပင်များ ရွက်နုတက်ချိန် ဖြစ်သဖြင့် လက်ဖက်ခူးရန် နမ်းခမ်း၊ မူဆယ်စသော အနီးအနား ရှမ်းမြို့များမှ ယာသမားများ အမြောက်အမြားလာ၍ အလုပ်လုပ်ကြရာ အထူးပင် စည်ကားသည်။ နမ့်ဆန်မြို့သည် လက်ဖက်စို၊ လက်ဖက်ခြောက်တို့၌သာမက မုန်ညင်းချဉ်ကောင်း ထွက်သဖြင့်လည်း ရပ်ဝေးရပ်နီးကပင် မှာယူကြရသည်။

နမ့်ဆန်မြို့သည် ကျောက်မဲမြို့နှင့်ကားလမ်းဖြင့်ဆက်သွယ်ထားရာ ၇၆ မိုင်ဝေးသည်။ ဒဂ္ဂဝတီခေါ် မြစ်ငယ်–နမ္မတူမြစ်ကို ကူးတို့ နှစ်တန်ကူး၍ သီပေါမြို့သို့ ၄၉ မိုင်ဝေးသောလမ်းတလမ်းနှင့် ကူးတို့တတန်ကူး၍ နမ္မတူမြို့သို့ ၅၅ မိုင်၊ လားရှိုး မြို့သို့ ၇၁ မိုင်ဝေးသော မော်တော်ကားလမ်းများရှိ၏။ ယင်းလမ်းများဖြင့်ပင် လက်ဖက်ကုန်များကို တင်ပို့ရသည်။ ကျောက်မဲမြို့မှ မော်တော်ကားနှင့် လာသည့်အခါ မိုင်းငေါ့ မြို့ကလေးမှ ဇယန်းတောင်ပေါ်အရောက် တောင်တက်လမ်းခရီးသာရှုံရာ အထူးပင် ရှုခင်းသာသည်။

နမ့်ဆန်မြို့မှာ တောင်စောင်း တောင်ခါးပန်းများကို ဖြို့ညှိကာ တည်ထားရကား၊ မြို့လယ်ခေါင်၌ လမ်းမကြီး တလမ်းတည်းသာ ရှိ၏။ တဖက်တွင် ချောက်ကမ္ဘားရုံကြီးနှင့် တဖက်တွင် တောင်ကုန်းများ ဖြစ်ရာ၊ ချောက်ကမ္ဘားဖက်မှ အိမ်များမှာ လမ်းမနှင့်ညီစေရန် ခြေတန်ရှည် ဆောက်ရ၍



နမ့်ဆန်မြို့၏ တခုတည်းသော လမ်းမကြီး

တောင်ကမ္ဘားရံ ဖက်က အိမ်များမှာမူ တောင်ကို ဖြိုကာ မြေညှိ၍ ဆောက်လုပ်ကြရသဖြင့် ၃ မိုင်ခန့်ရှည်လျားသော မြို့တန်းရှည်ကြီးဖြစ်နေသည်။ အိမ်များသည် အများအားဖြင့် ဆင်တူဖြစ်သည်။ စော်ဘွားဟော်နန်းမှာ မြို့လမ်းရှိ တောင်ထိပ်ကို မြေညှိလျက် ဆောက်လုပ်ထား၍ ပြာသာဒ် ၃ ဆောင် စမုတ်ဆောင်နှင့် ရာဇပလ္လင်ရှိရာ ညီလာခံခန်းမကြီးမှာ အထူးပင် ခမ်းနားလှပေသည်။ ဟော်အနီးရှိ စော်ဘွား ဆရာတော် ကျောင်းကြီးမှာလည်း ခမ်းနား လှသည်။ ရေအားဖြင့် လျှပ်စစ်ဓာတ်မီးပေးသဖြင့် အိမ်တိုင်း ထွန်းနိုင်အောင် ပေါများလှသည်။ မြို့၏အရှေ့တောင်ဖက် ၁၀ မိုင်ကွာဝေးသော ပေ ၆,၅၀၀ ကျော်မြင့်သည့် လွယ်ဆိုင်တောင်၌ သီရိမမွှာသောကမင်းကြီး တည်ထားတော်မူခဲ့သည့် ရှေးဟောင်း စေတီတော်တဆူနှင့် ထိုစေတီတော်၏ အရှေ့ဖက်ခံ တန်ဆောင်းတွင် ပုဂံပြည်ရှင် အလောင်းစည်သူမင်း ပေးသနားတော် မူခဲ့သည့် သရက္ခန် နံ့သာဆင်းတုတော် တဆူရှိသည်။ ထိုပြင် ဤလွယ်ဆိုင် တောင်ထိပ်၌ အလောင်းစည်သူ ပေးသနားတော် မူခဲ့သည့် ပဌမဆုံး လက်ဖက်ပင်မှ လေးဆက်မြောက် လက်ဖက်ပင်ရှိလေသည်။

နမ့်ဆန်မြို့မှ အရှေ့တောင်ထောင့် ခပ်ယွန်းယွန်း ၁ မိုင် ၅ ဖါလုံခန့် ကွာဝေးသည့် ပေ ၅,၇၀၀ ကျော်မြင့်သော တောင်ထိပ်ပေါ်၌ ပဉ္စလောဟာဖြင့် သွန်းလုပ်သည့် မဟာမြတ်မုနိ ရုပ်ပွားတော်နှင့် ထိုရုပ်ပွားတော် ကိန်းဝပ်တော်မူရာ ဂန္ဓာကုဋိတိုက်တော်ရှိသည်။

နမ့်ဆန်မြို့တွင် အိမ်ခြေ ၇၁၉၊ လူဦးရေ ၃,၇၅၃ ယောက်ရှိသည့်အနက် အများအားဖြင့် ဗုဒ္ဓအယူဝါဒီ ပလောင် လူမျိုးများဖြစ်သည်။ သို့ရာတွင် ယခုအခါ ပလောင် လူမျိုးတို့သည် လက်ဖက်ခြံများရှိရာ၌ သွားရောက်နေထိုင်သဖြင့် မြို့ထဲတွင် ရှမ်း၊ တရုပ်၊ ကုလားများ အနေများသည်။ မြို့ထဲတွင် ဈေးသီးသန့်မရှိချေ။ အိမ်ခန်းဆိုင်များသာ ရှိသည်။ စစ်ပြီးခေတ်တွင် နမ့်ဆန်မြို့သည် အလွန်တိုးတက်နေ၏။

**နမ္မတူမြို့။** ။နမ္မတူမြို့သည် ရှမ်းပြည်မြောက်ပိုင်း တောင်ပိုင် နယ်တွင် တည်ရှိသည်။ နမ့်ဆန်မြို့မှ အရှေ့ တောင်ထောင့် ၅၅ မိုင်အကွာ၊ လားရှိုးမြို့၏ အနောက်မြောက် ယွန်းယွန်း ၄၄ မိုင် အကွာတွင်ရှိပြီးလျှင် ဘော်တွင်းလုပ်ငန်းကြောင့်ထင်ရှားလာရသော မြို့ကလေးတမြို့ဖြစ်သည်။ သိန္နီမြို့၏အရှေ့ဖက် ၂၅ မိုင်အကွာမှ စတင်မြစ်ဖျားခံ၍ သိန္နီမြို့ကိုဖြတ်စီးကာ တောင်ပိုင် နယ်တွင်းသို့ ဖြတ်စီးပြီးနောက် သီပေါမြို့ဖက်သို့ စီးဆင်း၍ ဧရာဝတီ မြစ်အတွင်းသို့ မန္တလေးမြို့နှင့် အင်းဝမြို့ကြားမှ စီးဆင်းသော နမ္မတူမြစ်ပေါ်တွင် တည်ရှိသည်။ ယင်းမြစ်ကိုအစွဲပြု၍ နမ္မတူမြို့ဟုတွင်သည်။ ထိုမြစ်ကိုရှမ်းပြည်၌ နမ္မတူမြစ်ဟု ခေါ်၍ သီပေါမြို့အနီးတွင် ဒုဋ္ဌဝတီမြစ်ဟု ခေါ်ပြီးလျှင်၊ ရွှေစာရံမုန်တိုင်းမှ ဧရာဝတီမြစ်မကြီးနှင့်ပေါင်းဆုံရာ နေရာအထိကို မြစ်ငယ်မြစ်ဟု ခေါ်ကြသည်။ နမ္မတူဟူသော စကားသည် ရှမ်းစကား နမ့်နှင့် တူ ပေါင်းထားခြင်းဖြစ်ရာ ဆိုးသောရေဟု အဓိပ္ပါယ်ရသည်။

နမ္မတူမြို့သည် တောင်များ ပတ်ရံထားသည့် မြေလပ်တခုတွင် တည်ထားသဖြင့် ဒယ်အိုးသဏ္ဍာန် ရှိသည်။ မြို့၏ အကျယ်အဝန်းသည် ဧက ၁၂,၀၀၀ ဖြစ်၏။ နမ္မတူမြစ်သည် မြို့အလယ်မှ ဖြတ်စီးသဖြင့် မြို့သည် ၂ ပိုင်းကွဲလျက် ရှိသည်။ မြစ်၏ တောင်ဖက်ပိုင်း၌ သတ္တုချက် စက်ရုံကြီးများ၊ လျှပ်စစ်အလုပ်ရုံနှင့် သစ်စက်များ၊ အလုပ်သမားအိမ်များ၊ ရဲဌာနများ၊ တရားရုံးနှင့် ဆေးရုံတို့ရှိ၍ မြောက်ဖက်ပိုင်းတွင် မူလတန်းကျောင်းနှင့် လူနေ သာမန် အဆောက်အအုံများနှင့် အရောင်းအဝယ်ဌာနများသာရှိသည်။ထို့ကြောင့် မြို့တဖက်သည် အဆောက်အအုံကြီးများနှင့် ထယ်ဝါသလောက် တဖက်သည် သေးနုတ်နေသဖြင့် အစစခြားနားနေသည်။

နမ္မတူမြို့၏အရှေ့မြောက်ဖက် ၁၂ မိုင်ခန့်တွင် ဘော်တွင်းရှိသည်။ ယင်းဘော်တွင်းမှ တူးဖော်ရရှိသော သတ္တုများကို နမ္မတူစက်ရုံကြီးများတွင် ကျိုချက်ယူသည်။ နမ္မတူမြို့သည် ထိုသတ္တုတွင်းလုပ်ငန်းကို အမှီပြုပြီးလျှင်၊ လွန်ခဲ့သည့် နှစ်ပေါင်း တရာကျော်က တည်ဆောက်ခဲ့သည် ဟု ဆိုလေသည်။ (ဘော်တွင်း — ရှု။)

ခရီးလမ်းများမှာ နမ္မတူမှ လားရှိုးသို့ သွားသည့် မော်တော်ကားလမ်း တလမ်း၊ သီပေါနှင့် ကျောက်မဲမြို့များကို ဖြတ်၍ မန္တလေးသို့ သွားသည့် မော်တော်ကားလမ်း တလမ်းနှင့် နမ္မတူမှ နမ့်ဆန်သို့သွားသော မော်တော်ကားလမ်း တလမ်းရှိသည်။ ဘားမားကော်ပိုရေးရှင်း(ဗ၁)လီမိတက်ပိုင် နမ္မတူမှ နမ့်ယော်သို့သွားသည့် မီးရထားလမ်း တလမ်းနှင့် နမ္မတူမှဘော်တွင်းသို့သွားသည့် မီးရထားလမ်းတလမ်းရှိ၏။ ထိုကုမ္ပဏီပိုင် လေယာဉ်ပျံတစင်းသည် လားရှိုးနှင့် ရန်ကုန်မြို့များကို အင်္ဂါနေ့နှင့် သောကြာနေ့တိုင်း ဆက်သွယ်ပျံသန်းသည်။

မြို့နယ်အတွင်းရှိ ထင်ရှားသော အဆောက် အအုံများမှာ ဘားမားကော်ပိုရေးရှင်း(ဗ၁)လီမိတက်ပိုင် စမယ်တာ (သတ္တုချက်)စက်ရုံကြီးများနှင့် သတ္တုလုပ်ငန်း အဝဝကို ကြီးကိုင်စီမံအုပ်ချုပ်သည့် ရုံးသစ်ကြီးများ ဖြစ်၏။ နမ္မတူမြို့နယ်တွင် ပေ ၁၅၀ ကျော်မြင့်သည့် တောင်ကုန်းပေါ်၌ ရွှေရန်အောင် စေတီတော်တဆူ ရှိသည်။

နမ္မတူမြို့ကား ကုလားတရုပ်စသော နိုင်ငံခြားသားများ အပြင်၊ ရှမ်း၊ မြန်မာ၊ ပလောင်၊ ရှမ်းတရုပ်၊ ကချင်စသော တိုင်းရင်းသားပေါင်းစုံ စုဝေးရာဖြစ်သည်။ နမ္မတူမြို့၌ လူ



မြန်မာနိုင်ငံတွင် တခုတည်းသော ငွေသတ္တု တူးဖော်ရာဒေသ ဖြစ်သည့် နမ္မတူမြို့ရှိ ငွေချက်စက်ရုံကြီး

ဦး‌ရေ ၇,၂၉၃ ယောက်ရှိသည်။ အများအားဖြင့် သတ္တုတွင်းအလုပ်သမားများသာဖြစ်သည်။ ဈေးရှိရာ ပန်ဟိုက် ရပ်ကွက်သည် အထူးစည်ကားသည်။ နမ္မတူနှင့် မိုင် ၂၀ ကျော်ဝေးသည့် မန်စံဖေခေါ် မန်စံရေကျဥ်ကြီးကျယ်ခမ်းနားစွာ ဆောက်လုပ်ထားသည့် လျှပ်စစ်ဓာတ်အားပေးစက်ရုံကြီးမှ ၂၄ နာရီပတ်လုံး လျှပ်စစ်ဓာတ်အား ရရှိလေသည်။

**နံရံကပ်စက္ကူ။** ။နံရံကပ်စက္ကူဆိုသည်မှာ ပန်းပုံအမျိုးမျိုးကို ဆေးရောင်အမျိုးမျိုးဖြင့် ရိုက်နှိပ် ထားသော ပန်းရိုက် စက္ကူကိုဆိုလိုသည်။ ထိုစက္ကူကို အိမ်များတွင် သပ်ရပ်တင့်တယ် ကြည့်မြင်ဖွယ် ကောင်းစေရန်အတွက် နံရံ၌ကပ်ထားတတ်ကြသည်။

နံရံကပ်စက္ကူကို အရှေ့တိုင်းနိုင်ငံများ၌ စတင်အသုံးပြုခဲ့သည်။ ထိုနောက်မှ ဥရောပတိုက်က လိုက်၍ အသုံးပြုလေသည်။ တရုပ်နိုင်ငံသည် နံရံကပ်စက္ကူကို ရှေးဦးစွာ အသုံးပြုသောတိုင်းပြည်ဖြစ်၏။ တရုပ်နိုင်ငံတွင် ပန်းရိုက်စက္ကူကို နံရံတွင် မကပ်ဘဲ ချိတ်ဆွဲ၍ အခန်းကို တန်ဆာ ဆင်လေ့ရှိသည်။ နံရံတွင် ပန်းရိုက်စက္ကူကပ်၍ တန်ဆာဆင်မှုကို ဥရောပတိုက်၌ ၁၆ ရာစု နှစ်လောက်က စတင်ခဲ့၍၊ အင်္ဂလန်ပြည်တွင် ၁၇ ရာစုနှစ်ကျမှ စတင် အသုံးပြုကြသည်။ ၁၉ ရာစုနှစ်အတွင်းတွင် နံရံကပ်စက္ကူ အမြောက်အမြားကို စက်ဖြင့် အလိပ်များပြု၍ ထုတ်လုပ်နိုင်ခဲ့သည်။ စက်ဖြင့် နံရံကပ်စက္ကူကို မထုတ်လုပ်နိုင်မီအချိန်အတွင်းကမူ၊ လက်ရိုက်ပန်းစက္ကူများသာရှိသဖြင့်၊ ငွေကြေး အကုန်အကျခံနိုင်သူများသာလျှင်၊ အသုံးပြုနိုင်ခဲ့ကြလေသည်။ အချို့တိုင်းပြည်များတွင် လက်ရိုက်ပန်းစက္ကူများကို ယခုထက်တိုင် အသုံးပြုလျက်ရှိသည်။

စက္ကူတွင် ပန်းရိုက်သော စက်မှာ ဂွမ်းထည် သရက်ထည်များတွင် ပန်းရိုက်သော စက်များကဲ့သို့ လိုမ့်တုံး စက်မျိုးပင်ဖြစ်သည်။ ထိုစက်တွင် ကြေးနီ လိုမ့်တုံးများရှိ၍၊ လိုမ့်တုံးတခုစီတွင် ပန်းကွက်များ ဖော်ထားပြီးလျှင် အရောင်တမျိုးစီအတွက် အသုံးပြုသည်။ စက်လည်သောအခါ စည်ကြီးကိုပတ်လည်ကျလာသော စက္ကူသည် လိုမ့်တုံး အသီးအသီးဆီသို့ရောက်လာသည်။ ထိုအခါ ပန်းပုံဖော်၍ အရောင်ခြယ်ပြီးဖြစ်သော လိုမ့်တုံး အသီးအသီးက စက္ကူပေါ်သို့ ပန်းပုံစံကို နှိပ်ပေးကြ၏။ နောက်ခံ ဆေးရိုက်စက်မှ ထွက်လာသောစက္ကူသည် ပန်းပုံစံများကို အရောင်တောက်အောင် ပြုလုပ်ပေးသော အရောင်တင် စက်ဆီသို့ တဖန် ရောက်သွားရပြန်၏။ ထိုနောက်မှ ပန်းပုံ ထင်ရှား ပေါ်လွင်လာအောင် ပြုလုပ်ပေးသော ပန်းဖော်စက်ဆီသို့ ရောက်ရပြန်၏။ ထိုသို့ စက်တမျိုးမှ တမျိုးသို့ အစဥ်လိုက်သွားရာတွင် ပန်းရိုက်ပြီး စက္ကူမှ ဆေးခြောက်စေရန်အတွက် အပူပေး အိမ်များက သင့်တော်သော အပူရှိန်ကိုပေးရ၏။ ပန်းရိုက်ခြင်း၊ အရောင်တင်ခြင်း၊ ပန်းဖော်ခြင်းတို့ကို ပြုလုပ်ပြီးသောအခါ၌ ထိုပန်းစက္ကူလိပ်များကို အခြားစက်တခုက တန်းများတွင် ပန်းကုံး ပန်းဆိုင်းများသဖွယ် ချိတ်၍ လှမ်းထားရသည်။ ဆေးများခြောက်သွားသောအခါမှ ထိုပန်းစက္ကူလိပ်များကို ကြိုက်သလောက် အရှည်အတိုတိုင်း၍ အပိုင်းများ ဖြတ်ယူရ၏။ ထိုနောက် သေတ္တာများတွင်ထည့်၍၊ နိုင်ငံခြားသို့ တင်ပို့ကြလေသည်။

**နာမ်။** ။နာမ်ဟူသောစကားသည် ပါဠိ'နာမ'မှ ပျက်လာ၍၊ အနက်ကား အမည်ဖြစ်သည်။ အမည်ပေးစကားလုံးဟူသဒ္ဒေကို နာမ်ဟု သဒ္ဒါနည်းအရ ခေါ်သည်။

နာမ်တွင် နှစ်မျိုးနှစ်စားရှိသည်။ တဦးတည်းပိုင်နာမ်နှင့် အများပိုင်နာမ်တို့ဖြစ်သည်။ ဥဒါဟရုဏ်၊ 'ဦးစံ'၊ 'မခင်ညို'၊ 'ချင်းတွင်း'၊ 'မန္တလေး'၊ 'ရှိုးမ'၊ 'စာပေဗိမာန်' အစရှိသည်တို့သည် တဦးတည်းပိုင်နာမ်များ ဖြစ်ကြသည်။ 'ဆင်'၊ 'မြင်း'၊ 'တော'၊'တောင်'၊ 'စာအုပ်' အစရှိသည်တို့သည် အများပိုင်နာမ်များဖြစ်ကြလေသည်။

နာမ်တို့ ဖြစ်လာပုံမှာ အောက်ပါအတိုင်း ဖြစ်သည်။

(၁) မူလနာမ်။ ။အသံတချက်ထွက်သော မူလစကားလုံးများ။ ပုံစံအားဖြင့် နေ၊ လ၊ တော၊ တောင်၊ ရေ၊ မြေ အစရှိသော စကားလုံးများ။

(၂) ကြိယာနာမ်။ ။ကြိယာ အသီးအသီးရှေ့တွင် 'အ' ထည့်ခြင်းဖြင့် ဖြစ်လာသည့် ကြိယာနာမ်များ။ပုံစံအားဖြင့်၊ အသွားအပြန်၊ အနေအထိုင်၊ အလှုပ်အရှား၊ အစားအသောက်စသော စကားလုံးများ။

ကြိယာ အသီးအသီးနောက်တွင် 'ခြင်း' ထည့်၍ ကြိယာမှ နာမ် ဖြစ်လာသော ကြိယာနာမ်များ။ ပုံစံအားဖြင့်၊ အိုခြင်း၊ နာခြင်း၊ ကခုန်ခြင်းစသော စကားလုံးများ။

ကြိယာ အသီးအသီးနောက်တွင် 'ဖွယ်'၊ 'ရာ'၊ 'စရာ' တို့ထည့်၍ ကြိယာမှ နာမ်ဖြစ်လာသော ကြိယာနာမ်များ။ ပုံစံအားဖြင့်၊ စားဖွယ်သောက်ဖွယ်၊ နေရာ၊ အိပ်ရာ၊ သွားစရာ၊ လာစရာ အစရှိသော စကားလုံးများ။

ကြိယာ အသီးအသီးနောက်တွင် 'မှု'၊ 'ချိန်'၊ 'ချက်'၊ 'ပုံ' 'ဟန်'၊ 'နည်း'တို့ကို တွဲပေးခြင်းဖြင့် နာမ်ဖြစ်လာသော ကြိယာနာမ်များ။ ပုံစံအားဖြင့် ချက်မှု၊ ပြုတ်မှု၊ နားချိန်၊ စားချိန်၊ ပြောဆိုချက်၊ တောင်းဆိုချက်၊ ကပုံ၊ ဆိုပုံ၊ မေးဟန်၊ ဖြေဟန်၊ ထိုးနည်း၊ သတ်နည်း အစရှိသော စကားလုံးများ။

အချို့နာမ်များသည် ကြိယာနာမ် ဖြစ်သော်လည်း၊ 'အ'၊ 'ခြင်း' မပါသည်ကို တွေ့ရသည်။ ယင်းသို့ တွေ့ရသည်မှာ 'အ'၊'ခြင်း' ကျေသော ကြိယာနာမ်များ ဖြစ်သောကြောင့်တည်း။ ပုံစံအားဖြင့်၊'ချစ်ညိုကား ဆင်စီး မြင်းစီး ပြွမ်းတီး

၏။' ဟူသည့်၌ ဆင်စီး မြင်းစီးသည် ကြိယာနာမ်ပင်ဖြစ်၏။ ဆိုလိုရင်းမှာ ချေစ်ညိုသည် ဆင်အစီး မြင်းအစီး ပြွမ်းတီး၏။ (ဝါ) ချေစ်ညိုသည် ဆင်စီးခြင်း၊ မြင်းစီးခြင်း ပြွမ်းတီး၏။ ဟူ၍ ဖြစ်လေသည်။

ကြိယာနာမ်တို့သည် ကြိယာဆောင်ရွက်ရာ၌ အမူအရာကိုသော်ရင်း၊ အခြေအနေကိုသော်ရင်း ဖော်ပြကြသည်။

ပြယုဂ်၊ 'အသွားအပြန်' သည် သွားသော အမူအရာ၊ ပြန်သောအမူအရာကိုပြသည်။ 'ကျွန်အဖြစ်' သည် ကျွန်၏ အခြေအနေကိုပြသည်။ 'သွားလာခြင်း' သည် သွားသော အမူအရာ လာသောအမူအရာကို ပြသည်။'ခစားခြင်း'သည် ခစားသောအခြေအနေကိုပြသည်။ သို့ဖြစ်သော်လည်း အချို့ဝါကျများ၌ 'အ' ထည့်သော ကြိယာနာမ်သည် ယင်း၏ အစိတ်အပိုင်းဖြစ်သော ကြိယာက ရည်ညွှန်းအပ်သော ပုဂ္ဂိုလ်အရာဝတ္ထုပင်ဖြစ်သည်ဟု ကောက်ယူနိုင်သည်။ ပုံစံအားဖြင့်၊ 'ဤအိမ်၌ အစောင့်မရှိ' ဆိုရာ၌၊ အစောင့်သည် အိမ်ကို စောင့်သောသူကို ဆိုပေသည်။

(၃) စကားပေါင်း။ ။နာမ်ကို နာမ်နှင့်ရင်း နာမ်ကို ကြိယာနှင့်ရင်း အစရှိသဖြင့် ပေါင်း၍ဖြစ်လာသော စကားပေါင်းများ—

(က) နာမ်ကို နာမ်နှင့်ပေါင်းသော်၊ ရှေ့နာမ်သည် နာမဝိသေသနသဖွယ် နောက်နာမ်ကို ထူးခြားစေခြင်း။ ပုံစံအားဖြင့်၊

ထမင်းအိုး = ထမင်းချက်သောအိုး

ဟင်းပန်းကန် = ဟင်းထည့်သော ပန်းကန်

မြန်မာစာအုပ် = မြန်မာ ဘာသာဖြင့် ရေးထားသော စာအုပ်

မြေပိုင်ရှင် = မြေကိုပိုင်ဆိုင်သူ

(ခ) နာမ်ကိုနာမ်နှင့်ပေါင်းသော်၊ နောက်နာမ်သည် နာမဝိသေသနသဖွယ်ရှေ့နာမ်ကိုထူးခြားစေခြင်း။ပုံစံအားဖြင့်၊

ကြက်ဆင် = ဆင်နှင့်တူသောကြက်

ရှားစောင်းလက်ဝါး=လက်ဝါးနှင့်တူသောရှားစောင်းပင်

မုံ့ပိန္နဲစေ့ = ပိန္နဲစေ့နှင့် တူသော မုံ့

(ဂ) နာမ်ကို နာမ်နှင့် ပေါင်းရာ၊ အကြားတွင်ရှိမြဲဖြစ်သော 'နှင့်' ကျေသော စကားပေါင်းများ။ ပုံစံအားဖြင့်၊

ဆရာမိဖ = ဆရာနှင့်မိဖ

မောင်နှမ = မောင်နှင့်နှမ

သားအမိ = သားနှင့်အမိ

(ဃ) နာမ်နှစ်ခုကို ပေါင်းရာ၊ နောက်နာမ်သည် ရှေ့နာမ်နှင့်ဆိုင်သော လုပ်ကိုင်သူကိုပြခြင်း။ ပုံစံအားဖြင့်၊

လှည်းသမား = လှည်းကို မောင်းနှင်သူ

စက်ဆရာ = စက်ကိုမောင်းနိုင်သောသူ

ကုန်သည် (ကုန်အသည်) = ကုန်ရောင်း ကုန်ဝယ်ပြုသူ

(င) နာမ်ကို ကြိယာနှင့် ပေါင်းရာ၊ နာမ်သည် ကံ၊ အသုံးခံ၊ နေရာအစရှိသည့် အနက်တို့၌ ကြိယာနှင့် စပ်ခြင်း။ ပုံစံအားဖြင့်၊

မြင်းထိန်း = မြင်းကို ထိန်းသူ

ထမင်းချက် = ထမင်းကိုချက်သူ

ခြေနင်း = ခြေဖြင့် နင်းအပ်သည့်ဖိနပ်

လူကြုံ = အခန့်သင့်တွေ့ကြုံအပ်သောသူ

ခေါင်းပေါင်း = ခေါင်းတွင် ပေါင်းအပ်သည့် ပုဝါ

(စ) နာမ်နှင့် နာမဝိသေသန ပေါင်းခြင်း။ နာမ်နှင့် ဂုဏ်ရည်ပြ နာမဝိသေသနကို ပေါင်း၍ဖြစ်သော စကားပေါင်း။ ပုံစံအားဖြင့်၊

ရေအေး = အေးသောရေ

လူဆိုး = ဆိုးသောလူ

ပန်းနီ = နီသောပန်း

(ဆ) ကြိယာနှင့် နာမ်ကိုရင်း၊ နာမ်နှင့်ကြိယာကိုရင်း ပေါင်းရာ၊ ကြိယာသည် နာမဝိသေသနသဖွယ် နာမ်ကိုထူးခြားစေခြင်း။ ပုံစံအားဖြင့်၊

မေးသူ = မေးသောသူ

ရယ်သံ = ရယ်ရာတွင်မြည်သောအသံ

ဆေးလိပ် = ဆေးရွက်ကို လိပ်ထားသောအရာ

(ဇ) ကြိယာနှင့် နာမ်ကို ပေါင်းသောအခါ၊ ကြိယာ ညွှန်ရာ၌ နာမ်ကို အသုံးချခြင်း။ ပုံစံအားဖြင့်၊

ကစားရုံ = ကစားရာ၌အသုံးချသောရုံ

ခပ်တက် = လှေခပ်ရာ၌ သုံးသောတက်

ပြိုင်မြင်း = အပြေးပြိုင်ပွဲ၌ သုံးသောမြင်း

(ဈ) နေရာ၏အပိုင်း-နေရာ၏အပိုင်းကိုပြသော စကားပေါင်း။ စကားနှစ်လုံးအကြားတွင် ရှိမြဲဖြစ်သော '၏'ကျေ၏။ ပုံစံအားဖြင့်၊

အိမ်တွင်း = အိမ်၏အတွင်း

မြို့ပြင် = မြို့၏ အပြင်

မြို့နား = မြို့၏အနား

(ည) နာမ်နောက်က 'ကလေး' သို့မဟုတ် 'မ' ကိုတွဲ၍ ဖြစ်သောစကားစု၊ 'ကလေး' သည် ငယ်သည်ကိုပြသည်။ 'မ'(အမ) သည် အကြီးကိုပြသည်။ ပုံစံအားဖြင့်၊

လူကလေး = ငယ်သောလူ

ရွာမ = အကြီးဖြစ်သောရွာ

(ဋ) 'အ'ဖြင့် ၂ ခါထပ်နာမ်များ။ ပုံစံအားဖြင့်၊

အမြို့မြို့

အနိုင်နိုင်ငံ

အထွေထွေ

(ဌ) ၄ လုံး၊ ၄ လုံးမကစပ်သော စကားပေါင်းများလည်း ရှိသေးသည်။ ပုံစံအားဖြင့်၊

အဖိုးအခ၊ စကားဖို စကားမ၊

နို့စို့ကလေး = နို့(နာမ်)၊ စို့(ကြိယာ)၊ ကလေး(နာမ်)၊

တက္ကသိုလ်စာမေးပွဲ = တက္ကသိုလ် (နာမ်)၊ စာ(နာမ်)၊ မေး (ကြိယာ)၊ ပွဲ (နာမ်)၊

တခါတရံ မည်သည့် စကားမျိုးကိုမဆို နာမ်အဖြစ် သုံးတတ်၏။ ယင်းတို့မှာ အများအားဖြင့် အက္ခရာများ၊ ဂဏန်းများ၊ အမှတ်အသား လက္ခဏာများဖြစ်သည်။

ဥဒါဟရဏ်။ 'က' သည်ဗျည်း ၃၃ လုံးတွင် အဦးဆုံးအက္ခရာဖြစ်သည်။ ဤဝါကျ၌ 'က'ကို နာမ်အဖြစ် သုံးထားသည်။

'၉'သည် သုံးကို သုံးနှင့် မြှောက်၍ရသော ဂဏန်းဖြစ်၏။ တခါတရံ ဝါကျစိတ် တခုလုံးကိုလည်း နာမ်အဖြစ် သုံးတတ်သေးသည်။

ထိုပြင် ပါဠိ၊ သက္ကဋ၊ မွန်ဘာသာ၊ ရှမ်းဘာသာ၊ အိန္ဒိယဘာသာ၊ အင်္ဂလိပ်ဘာသာ၊ အာရဗ်ဘာသာ၊ ပသျှူးဘာသာ၊ ရခိုင် ဒေသန္တရစကား၊ ထားဝယ် ဒေသန္တရစကား၊ ပေါရာဏ၊ ဗန်းစကား၊ ကပြားစကားတို့မှ အသွင်မပြောင်းဘဲရင်း၊ (ပုံစံအားဖြင့်၊ ပါဠိစကားလုံး ကရုဏာ၊ မေတ္တာစသည်)အသွင်အနည်းငယ် ပြောင်း၍ ဆင်းသက်ဆက်နွယ်လာသော ဝေါဟာရများကိုရင်း၊(ပုံစံအားဖြင့်၊ ကွန်ရှပ်၊ ကတ္တီပါ၊ စော်ဘွား) နာမ်အဖြစ် သုံးစွဲထားခြင်းများလည်း ရှိပေသေးသည်။

နာမ်၏ နောက်ဆက်တွဲများမှာ လိင်၊ ကိန်း၊ ကာရကတို့ဖြစ်သည်။ လိင်မှာကား လိင်ဖို၊ လိင်မဟူ၍ရှိသည်။ လူနှင့်ဆိုင်သောလိင်ကို ခွဲခြားပြနည်း ၇ မျိုးရှိ၏။

(၁) သီးခြားသော စကားလုံးများကိုသုံးနည်း။ ပုံစံအားဖြင့်၊

| လိင်ဖို | လိင်မ |
|---|---|
| ဦးလေး | ထွေးတော် |
| မောင် | နှမ |
| ယောကျ်ား | မိန်းမ |

(၂) စကားလုံး ရှေ့ပိုင်းကို ပြောင်းနည်း။ ပုံစံအားဖြင့်၊

| လိင်ဖို | လိင်မ |
|---|---|
| အဖိုးကြီး | အမယ်ကြီး |
| ခမည်းတော် | မယ်တော် |

(၃) စကားလုံး နောက်ပိုင်းကို ပြောင်းနည်း။ ပုံစံအားဖြင့်၊

| လိင်ဖို | လိင်မ |
|---|---|
| အချုပ်သမား | အချုပ်သမ |
| အဖေ | အမေ |

(၄) 'ယောကျ်ား'၊ 'မိန်းမ' ကို ဆိုင်ရာစကားလုံး ရှေ့ကဖြစ်စေ၊ နောက်ကဖြစ်စေ တွဲနည်း။ ပုံစံအားဖြင့်၊

| လိင်ဖို | လိင်မ |
|---|---|
| မြေးယောကျ်ား | မြေးမိန်းမ |
| ယောကျ်ားအစေခံ | မိန်းမအစေခံ |

(၅) လိင်ဖိုဖြစ်သော စကားလုံးနောက်က 'မ' တွဲလျှင်၊ လိင်မဖြစ်နည်း။ ပုံစံအားဖြင့်၊

| လိင်ဖို | လိင်မ |
|---|---|
| အရှင် | အရှင်မ |
| ဆရာဝန် | ဆရာဝန်မ |

(၆) 'သား'၊'သူ' ကို ဆိုင်ရာစကားလုံးနောက်က တွဲနည်း။ ပုံစံအားဖြင့်၊

| လိင်ဖို | လိင်မ |
|---|---|
| အညာသား | အညာသူ |
| အိမ်သား | အိမ်သူ |

(၇) လိင်ဖိုပြသော စကားလုံး နောက်ပိုင်းသည် လိင်မပြသော စကားလုံးရှေ့ပိုင်းနှင့် တူခြင်း။ ပုံစံအားဖြင့်၊

| လိင်ဖို | လိင်မ |
|---|---|
| ဘကြီး | ကြီးတော် |
| ဦးကြီး | ကြီးတော် |

တိရစ္ဆာန်များ၏ လိင်ကိုပြရန် ထီး၊ ဖ၊ ဖို နှင့် မ တို့ကို သုံးသည်။ ပုံစံအားဖြင့်၊

| လိင်ဖို | လိင်မ |
|---|---|
| ကြက်ဖ | ကြက်မ |
| ခွေးထီး | ခွေးမ |
| ငန်းဖို | ငန်းမ |

ကိန်းမှာ ဧကဝုစ်ကိန်းနှင့် ဗဟုဝုစ်ကိန်းဟူ၍ နှစ်မျိုးရှိ၏။ ဧကဝုစ်ကိန်းမှာ တခုကို ရည်ညွှန်း၍၊ ဗဟုဝုစ်ကိန်းမှာ အများကို ရည်ညွှန်းသည်။ အများပြ နာမ် ပစ္စည်းများမှာ၊ များ၊ တို့၊ အများတို့၊ များတို့၊ တွေ ဟူ၍ ဖြစ်လေသည်။ ပုံစံကား—

နိုင်ငံခြားမင်းများသို့ ပေးရန် ရာဇသံ အထူးမပါ။

မင်းတို့သည် ရင်မှ ဖြစ်ကုန်၏။

ဤသတ္တဝါ အများတို့သည် ငါ၏အပါး၌ မပျက်ပြားစေသတည်း။

ယင်ရဲများတို့သည် ငါ့အား မခဲနိုင်သတည်း။

အကျိုးကို ညီညာစွာ (ငါ) တို့တတွေ ထမ်းဆောင်ပါစို့လေ။

ကာရကများမှာ ဝါကျပြုလုပ်ရာ၌ နာမ်တခုသို့ လိုရာဝိဘတ်ပစ္စည်းများနှင့် ဆက်သွယ်ခြင်းဖြစ်၏။ ပုံစံအားဖြင့်၊ နာမ်ပုဒ် တခုကို သာမိကာရက ပြုလိုလျှင်၊ ယင်း ကာရက၏ ပစ္စည်းဖြစ်သော '၏' ကို နာမ်ပုဒ်နှင့် ပေါင်းစပ်ရ၏။ 'အိမ်၏'၊ 'လူကလေး၏'၊ 'ကျွန်ုပ်၏' စသည်တို့မှာ သာမိကာရကများဖြစ်ကြ၏။ ဤကဲ့သို့ပင် သမ္ပဒါန ကာရက၊ ကမ္မ

ကာရက၊ အပါဒါန ကာရက စသည်ဖြင့် နာမ်ပုဒ်၏ ကာရက များ ပေါင်း ရှစ်ခုရှိလေသည်။

**နာမ်စား။** ။ပြောဆိုရေးသားရာ၌ နာမ်ကို ထပ်ခါထပ်ခါ မသုံးရစေရန်၊ နာမ်အစားသုံးသော စကားလုံးများကို သဒ္ဒါနည်းအရ နာမ်စားဟု ခေါ်သည်။ ဦးဝ အမည်ရှိသော လူတယောက်၏ အကြောင်းပြောရာတွင် 'ဦးဝ'၊ 'ဦးဝ'ဟူ၍ အမည်ကို ထပ်ခါထပ်ခါ အသုံးမပြုဘဲ၊ 'သူ' ဟူသော နာမ်စားဖြင့် အစားသွင်း သုံးစွဲကြသည်။

(က) နာမ်စား အမျိုးမျိုးအစားစား ခွဲခြားထားသည်။

(၁) ပြောသူနာမ်စား။ မိမိကိုယ်ကိုညွှန်၍ ပြောဆိုရေးသားသော နာမ်စားများ ဖြစ်သည်။ ဥဒါဟရုဏ်၊

ငါ မပေးလို။

ပြောသူနာမ်စား နာမ်စားတုများလည်း ရှိသေးသည်။ 'ကျွန်' ဟူသော နာမ်ကို အသုံးပြု၍၊ မိမိကိုယ်ကို နှိမ့်ချ ပြောဆိုရာ၌သုံးသည်။

ပြယုဂ်။ ကျွန်တော်၊ ကျွန်တော်မ၊ ကျွန်မ၊ ကျွန်တော်မျိုး၊ ကျွန်တော်မျိုးမ၊ ကျွန်ုပ်၊ အကျွန်ုပ်။

(၂) နာသူနာမ်စား၊ ပြောသူက နာသူကို ညွှန်သော နာမ်စားမျိုးဖြစ်သည်။ ဥဒါဟရုဏ်၊

သင် မထွက်ခွါပါလေနှင့်ဦး။

နင့်ကို ပေးဖို့ မဟုတ်။

နာသူနာမ်စား နာမ်စားတုများလည်း ရှိသေးရာ၊ ယင်းတို့မှာ၊ (အ)မောင်၊ မောင်မင်း၊ မယ်မင်း၊ ခင်ဗျား၊ ရှင်၊ ကိုရင်၊ မောင်ရင်၊ ညည်း၊ ညဲတို့ ဖြစ်ကြသည်။

(၃) အပြောခံနာမ်စား။ ပြောသူနှင့် နာသူတို့၏ပြောရာပြောကြောင်းဖြစ်သည့် အပြောခံ ပုဂ္ဂိုလ်ကို ညွှန်သော နာမ်စားမျိုးဖြစ်သည်။ ဥဒါဟရုဏ်၊

'မောင်လှတို့ ဘယ်မှာ နေကြတယ်လို့ ကြားသလဲ။ သူတို့ ကျန်းကျန်းမာမာ ရှိကြရဲ့လား' ဟုဆိုရာ၌ 'သူတို့' သည် မောင်လှတို့ အိမ်သားကို ညွှန်ပြသော အပြောခံ နာမ်စားဖြစ်သည်။

သူ၊ သူတို့ဟူသော အပြောခံနာမ်စားအပြင်၊ သင်း၊ ချင်း၊ အချင်း၊ အချင်းချင်း၊ မိမိစသည့် အပြောခံနာမ်စား နာမ်စားတုများလည်း ရှိသေးသည်။

(၁) အတုံ့နာမ်စား

ပြုလုပ်သည့် အမှုသည် ပြုလုပ်သူအပေါ်သို့ ကျုံ့ပြန်သော သဘောကိုပြလိုလျှင်၊ ၂ ခါထပ်နာမ်စား အကြားတွင် 'ကိုယ်ကို' ဟူသော ကံပုဒ်ဖြင့် ပြနိုင်သည်။ ပဌမနာမ်စား၌ ပိုင်ဆိုင်ခြင်းကိုပြသော အောက်မြစ်သံပါသည်။ ဥဒါဟရုဏ်၊

သူ့ကိုယ်ကို သူ အလွန်ချစ်သည်။

တုံ့ပြန်သည်ကိုပြသော 'ကိုယ်ကို' အစား၊တပါးနာမ်ပုဒ်ကို သုံးသော အလားတူ အစပ်မျိုးလည်း ရှိပေသေးသည်။ ပြုလုပ်သူနှင့် စပ်ဆိုင်သော ယင်းနာမ်ပုဒ် အပေါ်သို့ ပြုလုပ်သည့် အမှုကျရောက်သည်။ ဥဒါဟရုဏ်၊

သူ့အလုပ် သူလုပ်ပါစေ။

ရှင့်ဘာသာ ရှင်သွားပါလား။

(ဂ) အညွှန်းနာမ်စားများ

ဖော်ပြပြီးသည့် ပုဂ္ဂိုလ်၊ အရာဝတ္ထု၊ အကြောင်းအရာတို့ကိုညွှန်ပြသော အညွှန်း နာမ်စားများကား ဤ၊ ထို၊ ၎င်း၊ ယင်းတို့ ဖြစ်ကြသည်။

'ထို' နှင့် 'ဤ' ကိုတွဲ၍ သုံးနိုင်သည်။ ဥဒါဟရုဏ်၊ "ထိုမှ ဤမှ လူးလာ တုံ့ပြန်၍နေသည်"။ "ထိုမှာသောင်ကမ်းမှ ဤမှာသောင်ကမ်းသို့ ကူးသည်"

'ထိုထိုဤဤ'၊'ထိုမျှ'၊'ဤမျှ'၊တို့သည်လည်းညွှန်အပ်သော ပမာဏကိုပြသည်။

'ထိုမျှ'၊ 'ဤမျှ' နောက်တွင် ပမာဏကိုပြသော 'လောက်' ကို ထည့်နိုင်သည်။ ဥဒါဟရုဏ်၊ "ဤမျှလောက်သာ ပေးပါလော့"။

သို့သော် 'ဤမျှလောက် ပြောဆိုသော်လည်း၊ ထိုသူနားမဝင်'၊ ဆိုရာ၌၊ ကြိယာနှင့် စပ်သဖြင့်၊ ကြိယာဝိသေသနသဘော သက်ရောက်သွားလေသည်။

(ဃ) မေးခွန်းနာမ်စားများ

မေးခွန်း ထုတ်ရာ၌ အသုံးပြုသော နာမ်စားများဖြစ်သည်။ ဥဒါဟရုဏ်၊

'သင်(အ)ဘယ်မှာ ရှိလေမည်နည်း' ဆိုရာ၌ မေးခွန်းသည် သက်မဲ့တခုခုဟူသောအဖြေကို မျှော်သည်။ထိုကြောင့် 'အဘယ်' သည် သက်မဲ့နှင့် ဆိုင်သော မေးခွန်း နာမ်စားဖြစ်သည်။

'အရာသာ ချိုဆိမ့်ခြင်း၌ (အ) ဘယ်သင်းက ကောင်းပေသနည်း။'ဆိုရာ၌ (အ) 'ဘယ်'နှင့် 'သင်း' ပေါင်း၍ ရသော (အ) ဘယ်သင်းသည် ရွေးချယ်သောအနက်၌ အရာဝတ္ထု တိရစ္ဆာန်တို့ကို ညွှန်သည်။

'မည်သူနည်း'၊ 'အဘယ်သူ၏သားနည်း' ဟူသောမေးခွန်းတို့သည် လူတယောက်ဟူသော အဖြေကို မျှော်သည်။ ထိုကြောင့် 'အဘယ်သူ'၊ 'မည်သူ' တို့သည် လူနှင့် စပ်ဆိုင်သော မေးခွန်းနာမ်စားဖြစ်သည်။

'အတိ'၊ 'အဘယ်'၊ 'မည်သည်' တို့ကို 'မျှ' နှင့်တွဲလျှင်၊ ပမာဏကိုမေးသည်။ကြိယာဝိသေသနသဘော သက်ရောက်သည်ဟု ယူဆနိုင်လေသည်။

'မည်သူ'၊ 'အဘယ်သူ' တို့ကို 'မဆို' နှင့်တွဲ၍ သုံးလျှင် မည်သူ မည်ဝါ ဟူ၍ သေချာစွာ မဆိုဘဲ၊ အလိုရှိသူတိုင်းကို ဆိုလိုသည်။

**နုံလူမျိုး။** ။နုံလူမျိုး (ရဝမ်လူမျိုး) တို့သည် တိဗက်မြန်မာအနွယ်ဝင်ဖြစ်၍၊ လိုလိုမှုဆို အုပ်စုတွင် ပါဝင်၏။ မြန်မာနိုင်ငံအထက်ပိုင်း၊ ပူတာအိုနယ်တဝိုက်၊ တိဆန်၊ တမိုင်၊ တရုန်၊ အင်မိုင်ခ မြစ်ဝှမ်းတလျှောက်နှင့် အကျန် မြစ်ဝှမ်း အောက်ပိုင်းတို့တွင် နေထိုင်ကြသည်။

နုံလူမျိုးတို့ကို ကချင်နှင့် ရှမ်းတို့က နုံ၊ သို့မဟုတ် ခနုံဟူ၍ ခေါ်လေသည်။ ခနုံမှာ ရှမ်းဘာသာဖြင့် တပါးသူစွန့်ထားသော အဝတ်ကို ဝတ်သူ ဟူသော အနက်ရ၏။ နုံတို့ကဤအမည်ကို မနှစ်သက်ချေ။ ရဝမ်ဟူ၍သာ ခေါ်တွင် စေလို၏။ ရဝမ်ဟူသည်မှာ ဖြူစင်သော အဝတ်ကို ဝတ်သည့် လူမျိုးဟူ၍ အဓိပ္ပါယ်ရသည်။ မရူ လူမျိုးတို့က ယင်းတို့ကို နိုင်ဗောင်းဟု ခေါ်၏။ တရုပ်တို့ကမူ ကျူးဇီဟု ခေါ်လေသည်။ ကျူးဇီမှာ ရေဝတီ မြစ်ကမ်း၌ နေသူများဟုအနက်ရ၏။


နုံ (ရဝမ်) အကြီးအကဲ

နုံလူမျိုးတို့သည် ကိုယ်ကာယ ကြံ့ခိုင်၍၊ အသားလတ်၏။ မေးရိုးကြီး၏။ နှာတံပေါ်၏။ ယောကျ်ားရောမိန်းမပါ အဝတ်ဖြူဝတ်ကြသည်။ နုံလူမျိုးအကြီးအကဲများသည် ကြိမ်ဖြင့်ရက်၍၊ ဝက်စွယ်ဖြင့် တန်ဆာ ဆင်ထားသော ဦးထုပ်များကို ဆောင်းလေ့ရှိ၏။ လုံရှည်ကြီးများနှင့် ဓားလွယ်များကို ကိုင်ဆောင်ကြသည်။

နုံလူမျိုးများသည် အလုပ်နှင့်လက် ပြတ်သည်ဟူ၍မရှိ


နုံ (ရဝမ်) အမျိုးသား

အောင် ဝီရိယကောင်း၏။ တောင်ယာခုတ်၊ စပါးထောင်း၊ ရက်ကန်းရက်နှင့် တနေကုန် အလုပ်လုပ်လေ့ရှိသည်။ အဝတ်အစားအတွက် အဇီးအီးခေါ် ဂုံလျှော်ပင်တမျိုးမှ ခြည်မျှင်ထုတ်၍ ရက်လုပ်ယူကြ၏။ စားသုံးရန် အတွက် တောင်ယာတွင် စပါးစိုက်ပျိုးရုံသာ မက၊ တောင်စောင်းတွင် လှေကားထစ်သဖွယ် အဆင့်ဆင့် မြေကိုထွင်၍၊ အာလူး၊ မြေပဲ၊ မုန်ညင်း၊ နှမ်း စသည်တို့ကို စိုက်ပျိုးလေ့ရှိကြသည်။

ရှေးအခါက နုံလူမျိုးတို့သည် သံလွင်မြစ်ဝှမ်းတွင် နေထိုင်ခဲ့ကြ၏။ မူလကပင် ထိုဒေသ၌ အိုးအိမ်အခြေစိုက်၍၊ အတည်အမြဲနေထိုင်ရန် ရည်သန်ရင်း ရှိဟန်တူသည်။ သို့ရာတွင် လီဆူးလူမျိုးတို့ကြောင့် တဖြည်းဖြည်း အနောက်ဖက်သို့ ရွှေ့လာရာမှ၊ ယခုနေထိုင်သော နေရာတို့သို့ ရောက်ရှိလာခြင်းဖြစ်သည်ဟု ယူဆရန်ရှိလေသည်။ ယခု အခါ၌မူ လီဆူးတို့နှင့်ပင် ရောနှော နေထိုင်လျက် ရှိလေသည်။ အောက်ပိုင်းနမ့်တမိုင်၊ မတ်ဝမ်နှင့် အကျန်မြစ်ဝှမ်းတို့၌ နုံလူမျိုးနှင့် လီဆူးတို့၏ ရွာပေါင်း ၁၇၅ ရွာခန့်ရှိ၍၊ နုံ အိမ်ခြေပေါင်း ၂,၀၀၀ ခန့်နှင့် လီဆူး အိမ်ခြေပေါင်း ၆၀၀ ခန့် ရှိလေသည်။ စုစုပေါင်း လူဦးရေမှာ ၁၅,၀၀၀ ခန့်ဟု ခန့်မှန်းရသည်။

နုံလူမျိုးတို့တွင် အမျိုးအနွယ်ပေါင်း ၇၀ ခန့်ရှိသည်။ ရှေးအခါက တစုနှင့်တစု သီးသန့်နေလေ့ရှိလေရာ၊ နေထိုင်ရာဒေသ၏ လမ်းပန်းအခြေအနေ မပြေပြစ်မှုကြောင့်၊ တမျိုးနှင့်တမျိုး ပြောဆိုသောစကားတွင် အနည်းငယ် ကွဲလွဲမှုများရှိလေသည်။ များသော အားဖြင့် နုံ စကားသည် ဂျင်းဖောစကားနှင့် တူသည်။ သို့သော် စကားအစီအစဉ်မှာ မြန်မာ စကားကဲ့သို့ပင် ဖြစ်၏။

နုံလူမျိုးတို့သည် ကချင်တို့နှင့် စကားတွင်သာမက၊ ယဉ်



နံ့ (ရဝမ်) အမျိုးသမီး

ကျေးမှုနှင့်လူမှုရေးရာတို့၌လည်းတူညီပေသည်။ ကချင်များ မနောပွဲကသကဲ့သို့ နံ့မနောပွဲကိုလည်း ကျင်းပလေ့ရှိ၏။ ကကြိုးကပုံသာလျှင် အနည်းငယ် ကွဲလွဲသည်။ ကျင်းပပုံမှာ အတူဘူပင်တည်း။ (ကချင်လူမျိုး — လည်းရှု။)

**နျူတန်, ဆာအိုင်ဇပ်** (ခရစ် ၁၆၄၂–၁၇၂၇)။ ။ဆာ အိုင်ဇပ် နျူတန်သည် အင်္ဂလန်ပြည် လင်းကွန်းရှိုင်ယာရှိ ဝူးစသော့ရွာ၌၊ ၁၆၄၂ ခုနှစ် ဒီဇင်ဘာလ ၂၅ ရက်နေ့တွင် ဖွားမြင်သည်။ ဖခင်သည် လယ်သမားဖြစ်၍၊ နျူတန်မမွေးမီ သုံးလ အလိုကပင် သေဆုံးသွားလေသည်။ နျူတန်သည် ဂရင်းသမ်မြို့ သဒ္ဒါသင်ကျောင်း၌ ရှေးဦးစွာ စာသင်ကြားနေစဉ်က၊ စာတွင် စိတ်မဝင်စား၍ အတန်းထဲ၌ အညံ့ဆုံးဖြစ်ခဲ့ရ၏။ သို့ရာတွင် တနေ့သော် မိမိအား အမြဲလိုလို အနိုင်ကျင့်နေသော အတန်းသားတယောက်ကို အညံ့မခံလိုသည့်အတွက်ကြောင့်၊ ထိုကျောင်းသားကို လက်သီးဖြင့် ပြန်ထိုး၍ ၎င်း၊ ထိုကျောင်းသားထက် တော်အောင် အတန်းစာကို စိတ်ရှိလက်ရှိ ကြိုးစား၍၎င်း နောက်ဆုံး၌ တတန်းလုံးတွင် အတော်ဆုံး ဖြစ်လာလေတော့သည်။ နျူတန်သည် ငယ်စဉ်ကပင် သင်္ချာနှင့် စက်ကရိယာများတွင် စိတ်ဝင်စားခဲ့သူဖြစ်သည့်အတိုင်း၊ ကျောင်းအားလပ်ချိန်များတွင် ရေနာရီ၊ လေရဟတ်စက်နှင့် အခြား ကစားစရာ စက်ရုပ်ကလေးများကို ပြုလုပ်ယင်းဖြင့်သာ အချိန်ဖြုန်းလေ့ရှိသည်။

နျူတန်သည် မိမိ၏မိခင်မုဆိုးမကို အလွန်ခင်မင်တွယ်တာသည်။ မိခင်ကိုကူညီလိုသဖြင့်၊ ယာခင်းတွင် အလုပ်ဝင်လုပ်ပေးသည်။ သို့ရာတွင် လယ်ယာအလုပ်တွင် စိတ်မပါ၊ စာဖက်တွင်သာ စိတ်ဝင်စားလျက်ရှိသောကြောင့်၊ နောက်ဆုံး၌ မိခင်လည်း နျူတန်ကို ပညာဆက်လက် ဆည်းပူးစေရန်၊ ကိမ်းဗရစ်တက္ကသိုလ်သို့ ပို့ရလေသည်။ ကိမ်းဗရစ်တက္ကသိုလ်သို့ရောက်၍မကြာမီပင် နျူတန်၏ အစွမ်းအစထွက်ပေါ်လာပြီးနောက်၊ နျူတန်အသက် ၂၇ နှစ်အရွယ်ရောက်သောအခါ၊ သူ့အား ဖက်ပြိုင်နိုင်သူမရှိလောက်အောင် ထူးချွန်ထင်ရှားလာလေသည်။

ကိမ်းဗရစ် တက္ကသိုလ်တွင် ပညာဆည်းပူးနေစဉ်၊ နျူတန်သည် သင်္ချာကို အထူးဂရုစိုက်၍ အားထုတ်သည်။ တခါ၌ ကျောင်းပိတ်ရက်အတွင်း ဥယျာဉ်တခုထဲ၌ ထိုင်နေခိုက် ပန်းသီးတလုံး ကြွေကျသည်။ ပန်းသီးသည် အခြားအရပ် မျက်နှာသို့ လွင့်ထွက်မသွားဘဲ၊ မည်သည့်အတွက် မြေကြီးပေါ် သို့သာကျရပုံကို နျူတန် တွေးတောကြံဆကြည့်သည်။ ထိုသို့ တွေးတောကြံဆရာမှ ဒြပ်ဝတ္ထုတို့၏ ဆွဲငင်ခြင်း သတ္တိကို တစတစ သိမြင်လာသည်ဟု ဆိုလေသည်။

နျူတန်သည် အရာဝတ္ထုအချင်းချင်း ဆွဲငင်သောအားအကြောင်းကို စဉ်းစားတွေးဆပြီးနောက်၊ ဆွဲငင်ခြင်းသတ္တိ နိယမကို ပြဋ္ဌာန်းခဲ့သည်။ (အာကာစုနသတ္တိ — ရှု။) ထိုနိယမအရ အာကာသလဟာပြင်တွင်ရှိရှိသမျှဒြပ်ဝတ္ထုတို့သည် တခုကိုတခု ဆွဲငင်လျက်ရှိ၍၊ အရာဝတ္ထုနှစ်ခုတို့၏ ဆွဲအားသည် ထိုဝတ္ထုတို့၏ အကွာအဝေး၏ နှစ်ထပ်ကိန်းနှင့် ပြောင်းပြန် အချိုးအစားဖြစ်သည်ဟု ဆိုသည်။ ထိုသဘာဝစည်းအရ



ပန်းသီး မြေပေါ်သို့ ကျပုံကို တွေးတော ကြံဆရာမှ ဒြပ်ဝတ္ထုတို့၏ ဆွဲငင်ခြင်း သတ္တိနိယမကို နျူတန် တွေ့ရှိခဲ့သည်။



**နျူတန်သည် အဖြူရောင်ရှိသော နေရောင်ခြည်၌ သက်တံ့ရောင်များ ပါဝင်ပုံကို ဤသို့ လက်တွေ့ စမ်းသပ် တွေ့ရှိခဲ့သည်။**

လသည် ကမ္ဘာကို လှည့်ပတ်ရာတွင် ကမ္ဘာဆွဲအားကြောင့် စက်ဝန်းပုံ လမ်းကြောင်းအတိုင်း လှည့်ပတ်သွား၍၊ ဤသို့ လှည့်ပတ်သွားစဉ် ကမ္ဘာနှင့်လတို့ အကြားရှိ ဆွဲအားသည် ကမ္ဘာ့ဗဟိုချက်နှင့် လဗဟိုချက်အကွာအဝေး၏ နှစ်ထပ်ကိန်း နှင့်ပြောင်းပြန်အချိုးအစားဖြစ်သည်ဟု ရှင်းပြခဲ့လေသည်။ ခရစ် ၁၆၆၉ ခုနှစ်တွင် နျူတန်သည် ကိမ်းဗရစ်တက္ကသိုလ်၌ သင်္ချာပါမောက္ခ အဖြစ် ခန့်အပ်ခြင်းခံရသည်။ ထိုအချိန် တွင် သူသည် မှန်ဘီလူးနှင့် လက်တွေ့လုပ်ငန်း အမျိုးမျိုးကို စမ်းသပ် ပြုလုပ်ပြီး၍၊ အလင်းရောင် အကြောင်းကိုလည်း လေ့လာကြည့်ပြီး ဖြစ်သည်။ ဖန်ပရစ်ဇင်တုံးမှ ထွက်လာ သော နေရောင်ခြည်အကြောင်းကို လေ့လာပြီးနောက်၊ အဖြူရောင်ရှိသော နေရောင်ခြည်၌ သက်တံ့ရောင် ခုနစ်မျိုး ပါဝင်ပုံကိုလည်း ရေးသားခဲ့သည်။ ထို့ပြင် အလင်းရောင်၌ အလွန်သေးငယ်သော အလင်းမြူများ ပါဝင်ကြောင်း၊ ထိုအလင်းမြူများသည် တစက္ကန့်လျှင် မိုင်ပေါင်း ၁၈၆,၀၀၀ ခန့် ပြေးနိုင်ကြောင်းတို့ကိုလည်း ဖော်ပြရေးသားခဲ့သည်။ (အလင်း — လည်းရှု။)

နျူတန်သည် နေ၏ အလေးချိန်ကို တွက်ချက် ကြံဆ၍ ဂျူပီတာဂြိုဟ် (ကြာသပတေးဂြိုဟ်) ၏ သိပ်သည်းခြင်းကို လည်း တွက်ကြည့် ခဲ့လေသည်။ သို့သော် ဤမျှ ထူးချွန် သော ပုဂ္ဂိုလ်ကြီးသည် သတိ အလွန်လစ်တတ်သည်။ အ တွေးဖြင့်သာ ပျော်မွေ့နေသည့်အတွက် ပတ်ဝန်းကျင်၌ ဖြစ် သော သာမန် ကိစ္စကလေးများကို သတိ မေ့နေတတ်၏။ စာတွင် အာရုံ စူးစိုက် နေခိုက်ဆိုလျှင် အစာ စားဖို့ပင် သတိ မရချေ။ တခါတရံ စာသင်ခန်းသို့ သွားရန် မိမိအခန်းမှ ထွက်လာစဉ်၊ ဘာကြောင့် ထွက်လာခဲ့မှန်းကို သတိမေ့သွား ပြီးလျှင် အခြား တနေရာသို့ လမ်းချော် ထွက်သွားသည့် အခါမျိုး ရှိဘူး၏။ တခါတွင်လည်း မြင်းစီးသွားယင်း စိတ်ကူး ကောင်းသွားသည့် အတွက် မြင်းပေါ်က ဆင်းကာ၊ မြင်း ဇက်ကြိုးကိုင်လျက် ဆွဲသွားစဉ် မြင်းသည် ကြိုးမှ သူ့ဖာသာ သူလျှိုထွက်သွား၍ မြက်ကို စားနေတော့သည်။ အတွေး လွန်နေသော ဆရာကြီးမှာ လက်ထဲတွင် မြင်းဇက်ကြိုးချည်း သာ ကိုင်လျက် လမ်းပေါ်၌ တယောက်ထည်း လျှောက် သွားနေလေသည်။

နျူတန်သည် နာမည်သတင်း ကျော်ကြားမှုကို ကြောက် ရွံ့သည်။ သူ၏ ယူဆချက်များနှင့် စပ်လျဉ်း၍ အငြင်းပွား ရမည့် ကိစ္စများ ပေါ်ပေါက် လာမည်ကိုလည်း စက်ဆုပ် သည်။ ထို့ကြောင့် သူ၏ သိမှုတွေ့မှုများကို လျှို့ဝှက်ထား လေ့ ရှိသည်။ ခရစ် ၁၆၉၆ ခု နှစ်မှ စ၍ အသက်ထက်ဆုံး သူသည် ဒင်္ဂါးသွန်းစက်ရုံတွင် ကြီးကြပ်သူ အရာရှိ အဖြစ် ဖြင့် လုပ်ကိုင်ခဲ့သည်။ ၁၇၀၃ ခုနှစ်မှ စ၍ တော်ဝင်အသင်း ကြီးတွင် သူကွယ်လွန်သည့် နှစ်တိုင်အောင် နှစ်တိုင်း ဥက္ကဋ္ဌ အဖြစ် ရွေးကောက် တင်မြှောက်ခြင်းကို ခံရသည်။ ခရစ် ၁၆၇၉ ခုနှစ်တွင် တကြိမ်၊ ၁၇၀၁ ခုနှစ်တွင် တကြိမ် ပါလီမန် အမတ် အဖြစ်ဖြင့် ရွေးချယ်ခြင်းခံရသေးသည်။ ၁၇၀၅ ခုနှစ် တွင် အန်ဘုရင်မက ဆာဘွဲ့ဖြင့် ချီးမြှင့်ခြင်းကို ခံရသည်။ ဆာအိုင်ဇက်နျူတန်သည် ၁၇၂၇ ခုနှစ် မတ်လ ၂၀ ရက်နေ့ တွင် ကွယ်လွန်၍၊ သူ့ကို ဝက်စမင်စတာအက်ဗေးအတွင်း ၌ မြှုပ်နှံ သင်္ဂြိုဟ်ကြလေသည်။

**နျူမက်တစ်ကရိယာ။** ။နျူမက်တစ်ကရိယာ ဆိုသည် မှာ လေဖိအားကို အသုံးပြုသော ဖြတ်စက်၊ ဖောက်စက် စသည့် ကရိယာတို့ကို ဆိုလိုသည်။ နျူမက်တစ်ကရိယာ စီမံ ထားပုံသဘောမှာ ပြွန်တခုအတွင်းသို့ အံကိုက် ဝင်နိုင်သော ပြွန်ကျပ်တခုကို တပ်သွင်း၍၊ တဖက်မှ လေအားဖြင့်တွန်း ပေးရာတွင် ပြွန်ကျပ်သည် အခြားတဖက်သို့ ရွေ့သွားသည့် သဘောဖြစ်၏။ ပြွန်ကျပ်တွင် ပစ္စည်းတခုခုကို ဖြစ်စေ၊ ဘီး တပ်ယာဉ် ရထား တခုခုကို ဖြစ်စေ ဆွဲချိတ် ပေးထား ပါက ပစ္စည်းသည်ရှင်း၊ ရထားသည်ရှင်း ပြွန်ကျပ်နှင့် အတူ လိုက်ပါသွားနိုင်သည်။ ဤနည်းကို ၁၈၅၀ ပြည့်နှစ် လောက် တွင် အင်္ဂလန်ပြည်၌ လက်တွေ့ စတင် အသုံးချခဲ့ပြီးလျှင် ထိုအချိန်မှ စ၍ အင်္ဂလန်၊ အမေရိကန်နှင့် တကမ္ဘာ နိုင်ငံကြီး

အသီးအသီးတွင် ဤနည်းဖြင့် စီမံထားသော ကုန်ပို့ယာဉ်အမျိုးမျိုး ပေါ်ပေါက်ခဲ့လေသည်။

အင်္ဂလန်နှင့် အမေရိကန် နိုင်ငံများတွင် ကြေးနန်းနှင့်စာပို့ ဌာနများ၌ တမြို့မှ တမြို့သို့ရင်း၊ တနေရာမှ တနေရာသို့ရင်း ကြေးနန်းစာ၊ ချောစာနှင့် ပါဆယ်များ ပို့ရန်အတွက် အဆိုပါ ယာဉ်မျိုးကို အသုံးပြုခဲ့ကြသည်။ ကြီးကျယ်သော ကုန်တိုက်ကြီးများတွင် အရောင်းသမားနှင့် ငွေကိုင် တာဝန်ခံတို့၏ စပ်ကြား၌ သွင်းငွေနှင့် အမ်းငွေများကို အသွားအပြန် သယ်ဆောင်ပေးသည့် အလားတူ ခွက်ကလေးများကို တပ်ဆင်ထားလေ့ ရှိကြသည်။ သတင်းစာတိုက်ကြီးများသည် မြို့တွင်းရှိ သတင်းစာတိုက်ခွဲများသို့ ဤနည်းအတိုင်း စီမံထားသော လေဖိအား ပြွန်များဖြင့်ပင် သတင်းစာထုပ်များ ပို့ပေးတတ်သည်ကို တွေ့ရ၏။ အထူးသဖြင့် ရေနွေးငွေ့နှင့် ဖြစ်စေ၊ လျှပ်စစ်ဓာတ်နှင့် ဖြစ်စေ ခုတ်မောင်းသော ကုန်တင် ရထားများကို အသုံးပြုရန် စိတ် မချရသည့် သတ္တုတွင်း လက်နက်ရုံ စသည့်ဌာနမျိုးတွင် လေဖိအားဖြင့် ခုတ်မောင်းရသော ကုန်တင် ရထားများသည် အလွန်ပင် အသုံးဝင် အရာရောက်ကြပေသည်။

သင်္ဘောများမှ ဆန်စပါး ကဲ့သို့သော ကုန်များကို ပြွန်များဖြင့် သယ်ယူရာ၌လည်း လေဖိအားကိုအသုံးပြုနိုင်သည်။ ဤနည်းဖြင့် သယ်ယူရာတွင် ရိုးရိုး စက်များဖြင့် သယ်ယူသည်ထက် စက်အားကို ပို၍ အသုံးပြုရ၏။ သို့သော် ကုန်များကို လိုရာသို့ အလွယ်တကူ ရွှေ့ပြောင်း သယ်ယူနိုင်ခြင်း၊ ကျန်းမာရေးနှင့် ညီညွတ်ခြင်းတို့ကြောင့် အပိုကုန်ကျစရိတ်ကို တနည်းအားဖြင့် ကာမိစေလေသည်။

လေဖိအားဖြင့် စီမံထားသော လေဖိအား တန်ဆာပလာများကား အမြောက်အမြားပင် ရှိ၏။ အဆိုပါ တန်ဆာပလာများသည် များသောအားဖြင့် ပေါ့ပါးသေးငယ်ကြသောကြောင့် တနေရာမှ တနေရာသို့ လွယ်ကူစွာ ရွှေ့ပြောင်း သယ်ယူနိုင်သည်။ ဤတန်ဆာပလာများ ပေါ်ပေါက်လာသည့်အတွက် သတ္တုတွင်း၊ ကျောက်ကျင်း တူးခြင်း၊ လမ်း၊ ဥမင်နှင့် တူးမြောင်းဖောက်ခြင်း၊ အဆောက်အအုံ တည်ဆောက်ခြင်း၊ ဖြိုခွဲခြင်းစသော ကိစ္စများတွင် ရှေးကထက် အဆပေါင်း များစွာ အလုပ်တွင်ကျယ် သက်သာလာရပေသည်။ ဤတန်ဆာပလာများတွင် ပြွန်အတွင်း၌ ပြွန်ကျပ်၏ တဖက်တချက်မှ လေကို လျင်မြန်စွာ သွင်းချည် ပိတ်ချည် ပြုလုပ်ပေးခြင်းဖြင့် ပြွန်ကျပ်ကို လျင်မြန်စွာ ရှေ့တိုးနောက်ငင် ရွေ့ရှား ထုရိုက်ပေးအောင် စီမံထားသော စက်မျိုးလည်း ရှိ၍ ဝင်ရိုးတံကို ပတ်ချာလည်အောင် စီမံထားသော စက်မျိုးလည်း ရှိလေသည်။

ထုရိုက်ပေးသည့် စက်မျိုးတွင် ရဇစ်ရိုက်စက်၊ တာရပတ်ရိုက်စက်၊ ဆောက်ထိုးစက်၊ မြေဆောင့်စက်၊ တွင်းဖောက်စက်၊ တူစက်၊ လွှစက်၊ အရည်ဖျန်းစက် စသည်တို့ ပါဝင်၍ ယင်းတို့အနက်၊ အချို့သော စက်များသည် တမိနစ်လျှင် အကြိမ်ပေါင်း ၂,၀၀၀ ခန့်အထိပင် ထုရိုက် ပေးနိုင်သည်။ ဝင်ရိုးတံ လည်သော စက်မျိုးတွင်မူ၊ လွန်စက်၊ ကြိတ်စက်၊ ဝန်ချီစက် စသည်တို့ပါဝင်ကြ၍ ကြိတ်စက်သည် တမိနစ်လျှင် အပတ်ပေါင်း ၃,၀၀၀ မှ ၆,၀၀၀ အထိ လည်နိုင်ပြီးလျှင် ဝန်ချီစက်သည် ပေါင်ချိန် ၅၀၀ မှ ၂၀,၀၀၀ အထိ ချီပင့်နိုင်လေသည်။ လေဖိအားဖြင့် စီမံထားသော ဖုံစုတ်စက်၊ ဖုံခါစက်များလည်း ရှိကြသေး၏။

အထက်တွင် ဖော်ပြခဲ့သော လေဖိအား ကရိယာ များသည် အသုံးကို လိုက်၍ အရွယ်အမျိုးမျိုးရှိကြသည်။ တနေရာမှ တနေရာသို့ ရွှေ့ပြောင်း အသုံးချရသော စက်များ အတွက်၊ လေထိုးဘီးတပ်ထား၍ လိုသည့်နေရာသို့ ခုတ်မောင်းသွားလာနိုင်သော မော်တော်ကားအရွယ် လေပန်းစက်ကိုပါ တပါတည်း လွယ်ကူစွာသယ်ဆောင်သွားနိုင်သည်။ ဆောက်ထိုးစက်၊ တွင်းဖောက်စက်ကဲ့သို့သော စက်မျိုး အလုပ်လုပ်နေချိန်၌ ထွက်ပေါ်လာသည့် အသံကား စက်သေနတ်သံတမျှ ပြင်းထန် ဆူညံလှ၏။ သို့သော် ဤစက်များသာ မပေါ်ပေါက်သေးပါက ယခု ခေတ် တည်ဆောက်ရေး လုပ်ငန်းအဝဝသည် ယခုလောက်ခရီးရောက်နိုင်မည် မဟုတ်ချေ။

**ချုံးဖောင်းလန်း။** ။ချုံး ဖောင်းလန်း သည် ကနေဒါနိုင်ငံတွင် ပါဝင်သော ပြည်နယ် တခု ဖြစ်သည်။ ထိုပြည်နယ်တွင် ကနေဒါ နိုင်ငံ၏ အရှေ့မြောက်ဖက်၊ စိန်လောရင့် ပင်လယ်ကွေ့အဝ၌ ကန့်လန့်ဖြတ်တည်နေသော တရိဂံပုံသဏ္ဍာန်ရှိ ချုံးဖောင်းလန်း ကျွန်းနှင့် ထိုကျွန်း၏ မြောက်ဖက်၊ မြောက်အမေရိကတိုက် ကုန်းမကြီးပေါ်တွင် တည်ရှိသော လားဗရာဒေါ နယ်တို့ ပါဝင်လေသည်။ (လားဗရာဒေါ — ရှု။)ထိုကျွန်းနှင့် လားဗရာဒေါ နယ်အကြားတွင် ဗဲလအိုင် ရေလက်ကြားရှိ၏။

ချုံးဖောင်းလန်းကျွန်းသည် မြောက်မှ တောင်သို့ မိုင်ပေါင်း ၃၃၀ ခန့်ရှည်လျား၍၊ အရှေ့မှအနောက်သို့ အကျယ်ဆုံးနေရာတွင် ၃၁၆ မိုင်ခန့် ရှည်လျားသည်။ အကျယ်အဝန်းမှာ စတုရန်းမိုင် ၄၂,၇၃၄ မိုင်ဖြစ်၏။ချုံးဖောင်းလန်းကျွန်း၏ ကမ်းရိုးတန်းသည် လွန်စွာ အကွေ့ အကောက်များ၍ ရှည်လျားကျဉ်းမြောင်းသော ပင်လယ်အော်များ ပြည့်နှက်လျက် ရှိသည်။

ချုံးဖောင်းလန်းကျွန်း၏မြေမျက်နှာပြင်သည် ကျောက်ထူထပ်သော ကုန်းပြင်မြင့်ကြီး ဖြစ်၍ နိမ့်သော တောင်တန်းများသည် ထိုကုန်းပြင်မြင့်ကို အရှေ့မြောက်ဖက်ဆီမှ အနောက်တောင်ဖက်ဆီသို့ ဖြတ်သန်းကာ တည်ရှိ၏။ ချုံးဖောင်းလန်း ကျွန်းတွင် ထင်ရှားသည့် မြစ်များ ဖြစ်သော



ချူးဖေါင်းလန်းကျွန်း လားဗရာဒေါနယ်ရှိ တိုရွဂန်တောင်တန်း

အိတ်စပလွိုက်မြစ်၊ ဟမ်းဗားမြစ်နှင့် ဂန်ဒါမြစ်တို့သည် ယင်းသည့် တောင်တန်းများ အကြားမှ ဖြတ်သန်း စီးဆင်း လေသည်။ ချိုင့်ဝှမ်းများတွင် မြက်ခင်းများနှင့် ရွှံ့နွံ ထူထပ်သောဒေသများရှိ၏။ ထိုပြင် ပိုင်းထင်းရှူးပင်၊ ဘုဇပတ်ပင်၊ ဂျူနီပါပင်၊ မေပယ်ပင်၊ စပရုထင်းရှူးပင်၊ ဖားထင်းရှူးပင် စသည်တို့ ပေါက်ရောက်သည့် သစ်တောကြီးများ အကြားတွင် ရေအိုင် အများအပြား ရှိလေသည်။ ဂရင်းအိုင်နှင့် ရက်အင်ဒီးယန်းအိုင်တို့သည် ချူးဖေါင်းလန်းတွင် အကြီးဆုံးသော ရေအိုင်များဖြစ်ကြ၏။

ချူးဖေါင်းလန်းကျွန်း၏ ရာသီဥတုသည် နွေရာသီတွင် ကနေဒါ ကုန်းမကြီးထက် ပိုအေးပြီးလျှင် ဆောင်းရာသီတွင်ကား စိုစွတ်၍ ပိုမိုနွေးလေသည်။ မိုးသည် တနှစ်ပတ်လုံး ရွာသွန်းတတ်သော်လည်း နွေရာသီတွင် အရွာများ၏။ ချူးဖေါင်းလန်းကျွန်း၏ အရှေ့တောင်ဖက်၌ အေးမြသော လားဗရာဒေါ ရေစီးကြောင်းနှင့် ပူနွေးသော မက္ကဆီကို ပင်လယ်ကွေ့ရေစီးကြောင်းတို့ တွေ့ဆုံကြသည်။ ထိုသို့တွေ့ဆုံရာ အရပ်၌ ရေမှုန်များထနေသောကြောင့် မြူခိုးဆိုင်း၍ နေတတ်သည်။ ဆောင်းရာသီတွင် မုန်တိုင်းများ မကြာခဏ ကျရောက်တတ်သည်။

ချူးဖေါင်းလန်းကျွန်း၏ လူဦးရေသည် ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေအရ ၄၁၆,၂၁၀ ယောက် ဖြစ်၏။ ထိုလူဦးရေ၏ ၉၉ ရာခိုင်နှုန်းသည် ထိုကျွန်းတွင် မွေးဖွား ကြီးပြင်းလာကြသူများ ဖြစ်သည်။ လူဦးရေအများစုမှာ ၁၇ ရာစု နှစ်များအတွင်းက လာရောက် အခြေစိုက် နေထိုင်ခဲ့ကြသည့် အင်္ဂလိပ်၊ အိုင်းရစ်နှင့် စကော့လူမျိုး တံငါသည်များမှ ဆင်းသက်ပေါက်ဖွားလာသူများ ဖြစ်၏။ ထိုကျွန်းရှိ လူဦးရေ၏ ထက်ဝက်နီးပါးခန့်သည် ကျွန်း၏အရှေ့တောင် ကမ်းခြေရှိ အာဗလုန်းကျွန်းဆွယ်ပေါ် တွင် နေထိုင်ကြသည်။ ထိုကျွန်းဆွယ်၌ ချူး ဖေါင်းလန်း ပြည်နယ်၏ မြို့တော် ဖြစ်သော စိန်ဂျွန်းမြို့တည်ရှိသည်။ ထိုမြို့သည် အကြီးဆုံး မြို့ဖြစ်၍ လူဦးရေ ၅၂,၇၇၃ ယောက်ရှိသည်။

ချူးဖေါင်းလန်းကျွန်းသား အလုပ်သမား ၅ ဦးလျှင် တဦးသည် တံငါအလုပ်ကို လုပ်သည်။ တံငါ လုပ်ငန်းကား အရေး အပါဆုံး ဖြစ်၏။ ချူးဖေါင်းလန်း ကျွန်း၏ အရှေ့ဖက်မိုင် ၁၀၀ ခန့်အကွာရှိ ဂရင်းဗင့် ဒေသတဝိုက်သည် ကမ္ဘာပေါ်၌ ရှိသော ကော့ဒငါး ဖမ်းရာဒေသများတွင် အကြီးကျယ်ဆုံး ဒေသဖြစ်သည်။ ဖမ်းဆီး ရမိသော ငါးတို့တွင် အဖိုးအတန်ဆုံးမှာကော့ဒငါး ဖြစ်၍ ဗုဇွန်တုပ်ကြီးများ၊ ဟဲရင်းငါးနှင့် ဆယ်မန်ငါးများကို အများအပြားဖမ်းဆီးရမိသည်။ သစ်လုပ်ငန်းသည် ဒုတိယအရေးပါသောလုပ်ငန်း ဖြစ်

၏။ကျွန်းပေါ်တွင်ပေါက်ရောက်လျက်ရှိသောသစ်တောများမှ စပရုထင်းရှူးပင်များကို ခုတ်လှဲပြီးလျှင် သစ်ပျော့ဖတ်နှင့် စက္ကူများ ထုတ်လုပ်သည်။ ဂရင်းဖောမြို့နှင့် ကော်နာဗရွက်မြို့များ အနီးအနားတဝိုက်တွင် စက္ကူစက်ကြီးများရှိ၏။ သတ္တုတူးဖော်ရေး လုပ်ငန်းသည် တဖြည်းဖြည်း တိုးတက်ကြီးပွားလျက် ရှိသော လုပ်ငန်း ဖြစ်သည်။ သံနှင့် ကြေးနီတို့ကို တူးဖော် လုပ်ကိုင်လျက် ရှိသည်။ စိုက်ပျိုးရေးကို အဓိကအားဖြင့် ဥယျာဉ် စိုက်ပျိုးခြင်း မျိုးဖြင့်သာ လုပ်ကိုင်ဆောင်ရွက်၏။ အဓိက အသီးအနှံများမှာ အာလူး၊ ဂေါ်ဘီထုပ်နှင့် ခါးဥဖြူတို့ ဖြစ်သည်။ ဂျုံ၊ သခွါး၊ ခရမ်းချဉ်၊ ပဲတောင့်နှင့် ပဲလုံးတို့ကိုလည်း အတော်အသင့် စိုက်ပျိုးသည်။

နျူးဖောင်းလန်း ကျွန်းတွင် မီးရထားလမ်း မိုင်ပေါင်း ၇၀၀ ကျော်ရှိ၏။ ကနေဒါ၊ အမေရိကန် ပြည်ထောင်စုနိုင်ငံ၊ ဂရိတ်ဗြိတိန်နိုင်ငံတို့နှင့်လည်း သင်္ဘောလမ်းအဆက်အသွယ်ရှိသည်။ စစ်ပြီးခေတ်တွင် အတ္တလန္တိတ် သမုဒ္ဒရာကို ဖြတ်သန်းကာ၊ လေယာဉ်ပျံဖြင့် ခရီးသည်များ သယ်ယူပို့ဆောင်ရေးအတွက် အခြေခံ စခန်းအဖြစ်၊ ရေယာဉ်ပျံ စခန်း အပါအဝင် နျူးဖောင်းလန်း လေဆိပ်ကို ဒုတိယ ကမ္ဘာစစ်ကြီးအတွင်းက တည်ဆောက်ခဲ့၏။ ဂုစဗေးနှင့် တော်ဗေးတို့တွင်လည်း လေဆိပ်များ ရှိသည်။

နျူးဖောင်းလန်း ကျွန်း၏ ထွက်ကုန်များမှာ ကော့ဒငါး၊ သစ်ပျော့ဖတ်နှင့် စက္ကူ၊ သံရိုင်း၊ စည်သွတ် ဗူဗွန်တုပ်၊ ပင်လယ်ဖျံရေ၊ ဟဲရင်းငါး၊ ဆယ်မန်ငါးနှင့် ပင်လယ်ဖျံ၊ ဝေလငါးနှင့် ကော့ဒငါးတို့မှ ထုတ်ယူရရှိသော အဆီများ ဖြစ်၏။ ဝင်ကုန်များမှာ အစား အစာ၊ အဝတ် အထည်၊ ကျောက်မီးသွေး၊ စက်ကရိယာ စသည်တို့ ဖြစ်လေသည်။

နျူးဖောင်းလန်း ကျွန်းတွင် ခရစ်ယန် အယူဝါဒဂိုဏ်းအသီးအသီးဆိုင်ရာ သီးသန့် စာသင်ကျောင်းများ ရှိသကဲ့သို့၊ ဂိုဏ်းဂဏ ခွဲခြားထားခြင်း မရှိသော စာသင်ကျောင်းများလည်းရှိ၏။အသက် ၇ နှစ်နှင့် ၁၅ နှစ်အကြားရှိ ကလေးသူငယ်များသည် စာသင်ကျောင်းများတွင် မသင်မနေရ တက်ရောက် သင်ကြားရသည်။ စိန့်ဂျွန်းမြို့တွင် မင်မိုရီးယဲ တက္ကသိုလ်နှင့် ဘုရင်မ ကျမ်းစာသင်ကျောင်းတို့ ရှိသည်။

၁၄၉၇ ခုနှစ်တွင် နျူးဖောင်းလန်းကို ဂျွန်ကဲဗော့ တွေ့ရှိခဲ့သည်။ ၁၅၈၃ ခုနှစ်တွင် ဆာ ဟမ်ဖရီဂီးလဗတ်သည် ထိုကျွန်းကို အင်္ဂလန်ပြည့်ရှင် ပဌမ အယ်လစ်ဇဗက် ဘုရင်မ၏ ပိုင်နက် အဖြစ် သိမ်းယူခဲ့သည်။ သို့သော်လည်း ၁၇၁၃ ခုနှစ်တွင် ချုပ်ဆိုခဲ့သော ယူးထရက် စာချုပ်အရ၊ ထိုကျွန်းကို အင်္ဂလိပ်တို့အား ပေးအပ်လိုက်သည့် အချိန်အထိ၊ ပြင်သစ်နိုင်ငံက ယင်းပိုင်နယ် ဖြစ်ကြောင်း ပြောဆိုခဲ့လေသည်။ အင်္ဂလန်ပြည်သည် ထိုကျွန်းကို လိုချင်သည်မှာ အဓိကအားဖြင့် အင်းများကြောင့်သာ ဖြစ်လေရာ၊ ၁၇၅၀ ပြည့်နှစ်မတိုင်မီက လူအများ အတည်တကျ အခြေစိုက်ရန် အလို့ငှါ အားပေးခြင်း မပြုခဲ့ပေ။ ထို ၁၇၅၀ ပြည့်နှစ်မှ လွန်လာသော အခါမှာမူ၊ လူအများ လာရောက်နေထိုင်ကြသဖြင့်၊ နျူးဖောင်းလန်းကျွန်း၏ လူဦးရေသည် လျှင်မြန်စွာ တိုးတက်လာခဲ့၏။ ၁၈၅၅ ခုနှစ်တွင် နျူးဖောင်းလန်း ကျွန်းသည် လားဗရာဒေါနယ်နှင့် ပူးပေါင်းလျက်၊ နျူးဖောင်းလန်း ဒိုမီနီယန်နယ် ဖြစ်လာလေသည်။ ၁၉၃၄ ခုနှစ် အထိ၊ နျူးဖောင်းလန်း ဒိုမီနီယန်နယ်ကို ဘုရင်ခံ၊ အမှုဆောင်အဖွဲ့နှင့် ဥပဒေပြု လွှတ်တော်တို့ အုပ်ချုပ်ခဲ့၏။ သို့သော် ၁၉၂၈ ခုနှစ်တွင် လန်ဒန်မြို့၌ အင်ပီးရီးယဲ ကွန်ဖရင့် ကျင်းပပြီး နောက်၌ကား၊ ဘုရင်ခံသည် အကြံပေးမျှသာ ဖြစ်သွားပြီးလျှင်၊ ဝန်ကြီးချုပ်သည် အုပ်ချုပ်ရေးတွင် အကြီးအမှူး ဖြစ်လာလေသည်။ ဥပဒေပြု လွှတ်တော်မှာလည်း အထက်အောက် လွှတ်တော်နှစ်ရပ် ပါဝင်၏။ ၁၉၃၄ ခုနှစ်တွင် ဆိုးရွားလှသော ဘဏ္ဍာရေး အခြေအနေကြောင့်၊ ဒိုမီနီယန် အုပ်ချုပ်ရေးကို ပြန်အပ်ကာ၊ ကိုလိုနီနယ် အဖြစ်သို့ ပြန်ဆင်းခဲ့လေသည်။ ထိုအခါ ဂရိတ် ဗြိတိန် နိုင်ငံက နျူးဖောင်းလန်း၏ အကြွေးများကို ပေးဆပ်ရန် တာဝန် ယူခဲ့ရလေသည်။

ဒုတိယ ကမ္ဘာစစ်ကြီး အတွင်းက ဂရိတ်ဗြိတိန် နိုင်ငံ၏ စီစဉ်ချက်အရ၊ ကျွန်းပေါ်တွင် အမေရိကန် ကြည်းတပ်နှင့် ရေတပ် ဆိုင်ရာ စခန်းများ ထားရှိခွင့် ပေးခဲ့ရသည်။ နျူးဖောင်းလန်း ကျွန်းမှလည်း ဗြိတိသျှ တပ်ဖွဲ့များအတွက် လူပေါင်း ၇,၆၀၀ မျှ ဖြည့်စွမ်း ပေးခဲ့ရ၏။ ဒုတိယ ကမ္ဘာစစ်ကြီးအပြီးတွင်၊အခြေအနေများ အလျဉ်းသင့်လျှင် သင့်ခြင်း ကိုယ်ပိုင် အုပ်ချုပ်ရေး ပြန်လည်ပေးအပ်ရန် တောင်းဆိုခဲ့၏။ သို့သော်လည်း ၁၉၄၈ ခုနှစ်တွင် နယ်သူ နယ်သားများက ကနေဒါ နိုင်ငံနှင့် ပူးပေါင်းရန် ဆုံးဖြတ်ခဲ့သည်။ ၁၉၄၉ ခုနှစ် မတ်လ ၃၁ ရက် နေ့တွင် နျူးဖောင်းလန်းသည် ကနေဒါနိုင်ငံ၏ ဒသမမြောက် ပြည်နယ် ဖြစ်လာလေသည်။ ထိုနောက် တွင်ကား၊ နျူးဖောင်းလန်းသည် စက်မှုလက်မှု လုပ်ငန်းများတွင် အကြီးအကျယ် တိုးတက် ထွန်းကားလျက် ရှိလေသည်။

**နွား။** ။မည်သည့် ခေတ်အခါက စ၍၊ နွားကို ယဉ်ပါးလာအောင် လူတို့ မွေးမြူ ခဲ့ကြသည်ဟု အတိအကျ မပြောပြနိုင်သော်လည်း၊ ဥရောပတိုက်၊ အာရှတိုက်နှင့် အာဖရိကတိုက်တို့၌ လှည့်လည် ကျက်စားသော နွားရိုင်း၊ ကျွဲရိုင်းများကိုမူ၊ ရှေးခေတ်လူတို့သည် လိုက်လံ ပစ်ခတ် ဖမ်းဆီး၍၊ အစာအလို့ငှါ သတ်ဖြတ်ခဲ့ကြသည်ကို သက်သေ အထောက် အထားဖြင့် ပြနိုင်ပေသည်။ သို့ရာတွင် လူ့သမိုင်းစဉ်ကို စာမတင်မီခေတ်ကပင်၊ လူတို့သည် ကျွဲရိုင်း၊ နွားရိုင်းများကို



**ကိုယ်နေ သပ်ယပ် ကျော့ရှင်း၍ အသွေးအမွေး ကတ္တီပါကဲ့သို့ တောက်ပပြီးလျှင် ခိုင်းနွား၏ကြန်အင်ဖြင့် ပြည့်စုံသည့် မြန်မာနွားများ။**

ယဉ်ပါးအောင် မွေးမြူ၍ ခိုင်းစေခဲ့ကြသည့် အပြင်၊ အစာပြတ်လပ်သည့်အခါများ၌လည်း၊ ထို တိရစ္ဆာန်များကို သတ်ဖြတ်စားသောက် ခဲ့ကြသည်။ တရွေ့ရွေ့နှင့် လူတို့၏ယဉ်ကျေးမှု အဆင့်အတန်း တိုးတက်လာသည့် အလျောက်၊ ကျွဲများ နွားများ၏ အသုံးဝင်ပုံကို ပို၍နားလည်လာကြသည်။ ကျွဲ များ၊နွားများကို အသားစားရမှု အတွက်သာ မဟုတ်ဘဲ နို့ အတွက်လည်း မွေးမြူလာကြသည်။ ထိုမှတဆင့် ကျွဲများ၊ နွားများကို ဝန်တင်ရန် လှည်းဆွဲရန် အတွက် အသုံးချကြသည်။ စိုက်ပျိုးရေး ထွန်းကားလာသည့် အခါတွင်၊ လယ်မြေတို့ကို ထွန်ယက် ပြုပြင်ရာ၌၊ ကျွဲနွားများကိုပင် အသုံး ပြုကြရလေသည်။ သို့ရာတွင် အနောက် နိုင်ငံများ၌ နွားကို အများအားဖြင့်၊ အသားနှင့် နို့ရရန် အတွက်သာ မွေးမြူ ကြသည်။ ထို့ကြောင့် နွားများမှ အသားပို၍ ထွက်လာအောင်နှင့် နို့ပို၍ ရရှိအောင် မျိုးစပ်ခြင်း၊ အစာကောင်းများ ကျွေးခြင်း စသည့် စံနစ်တို့ကို ရှာဖွေ စူးစမ်း၍ လိုက်နာခဲ့ကြ၏။ လွန်ခဲ့သည့် နှစ်ပေါင်း နှစ်ရာလောက်ကစ၍၊ နွားများကို စံနစ် တကျ မျိုးစပ်ပေးသည့် အလေ့အထ ပေါ်လာခဲ့သည်။ နွားတမျိုးနှင့် တမျိုး အသားထွက်ချင်း မတူကြချေ။ အစ ပဌမတွင် နွားများကို အသားထွက်ပိုလာအောင် မျိုးစပ် ပေးခဲ့ကြသည်။ မကြာသေးမီကမှ နို့ထွက် ပိုသော မျိုးသန့် နွားမများ ရရှိစေရန် မျိုးစပ်ပေးခဲ့သည်။ ထို့ကြောင့် နို့စား နွားမများ မွေးမြူရေး လုပ်ငန်းသည် ယခုခေတ်တွင် လူတို့၏ ရိက္ခာအတွက် အလွန်အထောက်အပံ့ ရသည်ဖြစ်ရာ၊ ထိုလုပ်ငန်းကို အနောက်နိုင်ငံများတွင် တိုးချဲ့နိုင်သမျှ တိုးချဲ့လျက် ရှိကြသည်။ (နွားနို့လုပ်ငန်း — ရှု။) ယခုအချိန်အထိ ဆိုလျှင်၊ နွားမျိုးသန့်သန့်ပေါင်း ၃၀ မျှရှိ၏။ အသားထွက် များသော အင်္ဂလန်ပြည်ရှိ နွားမျိုးမှာ ရှော့ဟွန်းမျိုး၊ဟဲရီးဖို့မျိုး၊ဒက်ဗွန်မျိုးနှင့်ဦးချိုမဲ့ နွားသုံးမျိုး ဖြစ်သည့် အဗာဒင်းအန်းဂပ်မျိုး၊ ဂဲလိုးဝေးမျိုး နှင့် ရက်ဒပိုး မျိုးများဖြစ်သည်။

နို့စားနွားနှင့် အသားစားနွားတို့၏ ပုံပန်း သဏ္ဍာန်ချင်းမှာ သိသိသာသာ ကွာခြားသည်။ အသား အတွက် သက်သက် မွေးမြူထားသော နွားများသည် ကိုယ်ခန္ဓာ လုံးဝိုင်း၍၊ အသားပြည့်တင်းသည်။ နို့စား နွားများမှာမူ၊ ကြုံလှီ၍ ထောင့်ကျကျ ကိုယ်များ ရှိသည်။ နို့စားရန် အတွက် မွေးမြူ ထားသော နွားမျိုးတို့ကို တနှစ်လုံးလိုပင် နို့ညှစ်ယူနိုင်သည်။ ရှော့ဟွန်းခေါ် ချိုတို နွားမျိုးကို အသားအတွက် မွေးမြူကြသည် ဟု ဆိုရသော်လည်း၊ ရှော့ဟွန်း နွားမများမှ နို့ကို ရယူနိုင်သေးသည်။

နွားကို အမျိုးကောင်းသည်ထက် ပို၍ ကောင်းလာစေရန် ပြုပြင်ပေးရာ၌၊ မျိုးသန့်နွားမျိုးများ လိုသည်။ မျိုးချင်းစပ်ပေးပြီးနောက် အသင့်တော်ဆုံး အစားအစာကို ကျွေးမွေး၍၊ အမြဲတစေ ဂရုစိုက် စောင့်ရှောက်ရသည်။ အသားအထွက် ပိုရန်ဖြစ်စေ၊ နွားနို့အထွက် များရန် ဖြစ်စေ နွားများကို မွေးမြူရာ၌၊ နွားများအတွက် နေရာထိုင်ခင်းကောင်းများ ဆောက်လုပ်ပေးခြင်း၊ ခွါနာ၊ လျှာနာ ရောဂါများ




ခိုင်းရုံမျှမက အသားလည်းစား နို့ရည်ကိုလည်း မှီဝဲခံရသည့် နွားတို့အား ဤသို့ ကျေးဇူးတင် ဂုဏ်ပြုအပ်ပေသည်။

မဖြစ်ရအောင် ကာကွယ် စောင့်ရှောက်ပေးခြင်း၊ အချုပ်အားဖြင့် ဆိုရလျှင်၊ နွားများ၏ ကျန်းမာရေးကို အမြဲ ကြည့်ရှု စစ်ဆေးခြင်းနှင့် ခွန်အားဖြစ်စေမည့် အစားအစာများကို အလုံအလောက် ကျွေးမွေးခြင်းအားဖြင့်သာလျှင်၊ လိုအပ်သော နွားမျိုးကောင်းများကို ရရှိနိုင်ပေသည်။

နွားတွင် စားလိုက်သည့် အစာကို ကြေကျက်စေသည့် စံနစ်ထူးတခု ရှိသဖြင့်၊ အစာကြမ်းကို စားနိုင်စွမ်း ရှိသည်။ ယင်းစံနစ်တွင် နွားသည် မြင်း၊ သိုး၊ ဆိတ်တို့နှင့် မတူချေ။ နွား၏ အစာအိမ်၌ အခန်း လေးခန်း ရှိသည်။ စားလိုက်သော အစာများသည် အခန်း (၁) ထဲသို့ ပဌမ ရောက်သွားသည်။ ထိုအခန်းတွင် အစာများ နူးပျော့လာမှ အခန်း (၂) သို့ တဆင့် ကူးပြောင်းသွားသည်။ ထို့နောက် အခန်း (၂) မှ အစာများသည် ပါးစပ်ထဲသို့ ပြန်ရောက်သွားရာ၊ နွားများ စားမြုံ့ပြန်သည်ဟု ဆိုသည်မှာ ထိုအစာကို ပြန်လည်၍ ဝါးကြိတ်နေခြင်းပင် ဖြစ်သည်။ (စားမြုံ့ပြန်ကောင် — ရှု။) ပြန်လည် ဝါးကြိတ်ပြီးသော အစာသည် တဖန် အစာအိမ် အတွင်းသို့ ကျဆင်းလျက်၊ အခန်း (၃) နှင့် အခန်း (၄) ထဲသို့ အဆင့်ဆင့် ကူးပြောင်းသွားသည်။ နွားစားကျက်တွင် နွားများ မြက်စားနေသည့်အခါ၊ မြက်ပင်များကို သွားဖြင့် ဖြတ်စားကြသည်မဟုတ်၊ မြက်ပင်ကို ဆွဲယူခြင်းမျှသာ ဖြစ်သည်။ နွားတို့တွင် အပေါ် သွားတန်း၌ အံဆုံးများ မရှိသဖြင့်၊ ရှေ့သွားများဖြင့်သာ မြက်ကို ဆွဲစားလေ့ ရှိသည်။

ဥရောပတိုက်တွင် မွေးမြူကြသော နို့စားနွားမမျိုးများ အနက်၊ ဟိုလစတိုင်ဖရီးရှန်းမျိုးသည် နို့ထွက် အများဆုံး ဖြစ်သည်။ ဟော်လန် နိုင်ငံ မြောက်ပိုင်းမှ စတင် ပေါ်ပေါက်လာသော နွားမျိုးများ ဖြစ်သည်။ အရွယ်အစားမှာ ကြီးထွားသည့်အပြင်၊ ကိုယ်တွင် အနက်နှင့် အဖြူကွက်များ ရှိသည်။ ဥရောပ တိုက် အနောက်ပိုင်းရှိ မြေနိမ့်ပိုင်းများတွင် ဤနွားမျိုးကို နွားနို့အတွက် မွေးမြူကြသည်။ သို့ရာတွင် ဤနွားမျိုးမှရသော နွားနို့၌ ထောပတ် ပြုလုပ်နိုင်သော ဆီ အချိုးအစားမှာ နည်းသည်။ ဥရောပတိုက် အနောက်

ပိုင်း၊ အင်္ဂလန်ပြည်နှင့် အမေရိကန် ပြည်ထောင်စုတို့အပြင်၊ ကနေဒါ နိုင်ငံ၊ ဩစတြေးလီးယားတိုက်၊ အမေရိကတိုက်နှင့် အာဖရိကတိုက် အနောက်ပိုင်းများ၌ ဤနို့စား နွားမျိုးကို မွေးမြူကြသည်။

နို့စား နွားမများထဲတွင် အရွယ် အငယ်ဆုံးဖြစ်သော နွားမျိုးမှာ အင်္ဂလိပ် ရေလက်ကြားကြီးတွင် ရှိသော ဂျာစီ ကျွန်းမှ နွားမျိုး ဖြစ်သည်။ ဤနွားမျိုးကို ဂျာစီကျွန်းကို အစွဲပြု၍၊ ဂျာစီမျိုးဟု ခေါ်သည်။ အခြား နို့စား နွားမတို့ထက်၊ ဂျာစီမျိုးမှ ရသော နွားနို့တွင် ထောပတ် ပြုလုပ်နိုင်သော ဆီ ပို၍ ပါရှိသဖြင့်၊ တိုင်းရင်း နွားများနှင့် မျိုးစပ်ရန်၊ ထိုဂျာစီ နွားမျိုးကို အတိုင်းတိုင်း အပြည်ပြည်မှ ဝယ်ယူ မွေးမြူကြသည်။ ဂျာစီနွားများတွင် အများအားဖြင့် စာဥကွက်ရောင်၊ သို့မဟုတ် ကြက်ဥနှစ်ရောင်များ ရှိသည်။ သို့သော် အရောင်ရင့်ရင့်ရှိသော နွားများကိုလည်း တွေ့နိုင်သည်။

အင်္ဂလိပ် ရေလက်ကြားကြီးရှိ ဂန်ဇီခေါ် အခြား ကျွန်းတကျွန်းမှ ရသော နို့စား နွားမျိုးကို ဂန်ဇီမျိုးဟု ခေါ်သည်။ ဂျာစီ နို့စား နွားမတို့ထက်၊ ကိုယ်လုံး ကိုယ်ထည် ပို၍ ကြီးမားလျက်၊ စာဥကွက်ရောင်တွင် ကိုယ်နှင့် ခြေလက်တို့၌ အဖြူကွက်များ ရှိတတ်သည်။ ဂျာစီမျိုးထက် နို့ပိုထွက်သော်လည်း၊ ထောပတ် ပြုလုပ်နိုင်သော ဆီအချိုးအစားမှာ နည်းသည်။

၁၈ ရာစုနှစ် နှောင်းပိုင်းတွင် စကော့တလန်ပြည် အနောက် တောင်ပိုင်း၊ အဲယားရှိုင်ယာနယ်မှ ပေါက်ပွားလာသော နို့စားနွားမမျိုးကို အဲယားရှိုင်ယာမျိုးဟု ခေါ်သည်။ ထိုနွားမျိုးထဲတွင် အချို့မှာ ကိုယ်လုံး ဆွတ်ဆွတ်ဖြူမတတ်ရှိ၍၊ အချို့မှာ ချယ်ရီသီးရောင် အနီသွေးများ ရှိသည်။ အခြား နွားမျိုးများနှင့် ကွဲပြား ခြားနားချက် တရပ်မှာ အဲယားရှိုင်ယာ နွားမျိုးတွင် ဦးချိုမှာ ခပ်ကော့ကော့နှင့် အထက်သို့ လန်နေသည်။ အဲယားရှိုင်ယာ နွားတမျိုးတည်းသာလျှင်၊ ဗြိတိသျှကျွန်းစု၌ ပေါက်ပွားသော နို့စားနွားမျိုး ဖြစ်သည်။ အသားအတွက် ဖြစ်စေ၊ နို့အတွက်ဖြစ်စေ အသုံးဝင်သော နွားမျိုးမှာ ဆွစ်ဇာလန် နိုင်ငံမှ နွားညိုမျိုး ဖြစ်သည်။ အမေရိကန် ပြည်ထောင်စုတွင် ဤနွားမျိုးကို နို့စားအတွက်သာ မွေးမြူကြသည်။ အရောင်မှာ ညိုမှိုင်းမှိုင်းမှ ညိုဖျော့ဖျော့အထိ အသွေး အမျိုးမျိုး ကွဲပြီးလျှင် နှာခေါင်း မည်းနက်သည်။

ကိုယ်လုံး အနက်တွင် ခါးလယ်၌ အဖြူပတ်ကြီး ပါရှိသော နွားမျိုးမှာ ဒပ်ချနွားမျိုး ဖြစ်သည်။ ဤနွားမျိုးမှ နွားနို့ထွက် စံချိန်မှာ အလယ် အလတ်တန်းစားဖြစ်သည်။ အခြား



အသားအတွက် မွေးမြူသော ရှော့ဟွန်း နွားမျိုး

ထင်ရှားလှသော နို့စားနွားမမျိုးနှစ်မျိုးမှာ ကနေဒါနိုင်ငံ ကွိဗက်ပြည်နယ်မှ ပြင်သစ်ကနေဒီယန် နွားမျိုးနှင့် အိုင်ယာလန်ပြည်မှ ကဲရီး နွားနက်မျိုး ဖြစ်သည်။ ဤနွားနှစ်မျိုး စလုံးမှာ အရွယ်အားဖြင့် အလွန် ငယ်သော်လည်း၊ နို့ထွက် အလွန် ကောင်းသည်။

အသားစား နွားမျိုးတို့တွင် အောက်တွင် ဖော်ပြထားသော နွားမျိုးများမှာ ထင်ရှားသည်။ အင်္ဂလန်ပြည် ဟဲရီးဖို့ရှိုင်ယာနယ်မှ ဟဲရီးဖို့ နွားမျိုးကို မူလ အစက လယ်ထွန်နွားအဖြစ် မျိုးစပ်ယူခဲ့သဖြင့်၊ ဤနွားမျိုးသည် ခွန်အားနှင့် ပြည့်စုံသော နွားမျိုးဖြစ်သည်။ အမွေးထူသည်။ခြောက်သွေ့သော အရပ်များ၌ ဟဲရီးဖို့ နွားများကို မွေးမြူနိုင်သည်။ ဗြိတိသျှ ကျွန်းစုတွင် ဤနွားမျိုးကို အနှံ့အပြား မွေးမြူကြသည်။ ထို့ပြင် ဩစတြေးလီးယား၊ နယူးဇီလန်၊ အာဂျင်တီးနား၊ အူရူဂွေးနှင့် ဗရာဇီးတောင်ပိုင်းတို့၌ ဟဲရီးဖို့ နွားမျိုးကို မွေးမြူကြသည်။ ရှော့ဟွန်း နွားမျိုးကို ဗြိတိသျှကျွန်းစုအပြင်၊ မြောက်အမေရိကတိုက်၌လည်း အမြောက်အမြား မွေးမြူကြသည်။ တောင်အမေရိကတိုက်တွင် အထူးသဖြင့် အာဂျင်တီးနား နိုင်ငံ၌ ဤနွားမျိုးကို မွေးမြူကြသည်။ ဩစတြေးလီးယားတိုက်နှင့် အာဖရိက တောင်ပိုင်းတို့၌လည်း ရှော့ဟွန်းနွားမျိုးကို တွေ့မြင်နိုင်သည်။ ဤနွားမျိုးတွင် ပြောက်ပြောက်ကျားကျား နွားများ ပေါများသည်။ သို့သော် ထိပ်နှင့် ဝမ်းပိုက်တို့တွင် အဖြူကွက်များပါသော နွားများလည်း ရှိသေးသည်။ အချို့မှာ တကိုယ်လုံး ဖြူနေသည်။ ဦးခေါင်းတို့၍၊ ကိုယ်ခန္ဓာ ပုကွကွရှိသော အဗာဒင်းအန်းဂပ် နွားမျိုးသည် နွားနက်မျိုး ဖြစ်၍၊ အသားထွက်ကောင်းသည်။စကော့တလန်ပြည်တွင် ပေါက်ပွားသော ဂဲလိုဝေးမျိုးတွင် ကောက်ကွေးနေသော အမွေးနက်များရှိသည်။ဤနွားမျိုးသည် အေးသောရာသီ၏ဒဏ်ကို ခံနိုင်ရည် ရှိသည်။ အင်္ဂလန်ပြည် နော့ဖို့နှင့် ဆပ်ဖတ်နယ်များမှနွားမျိုးနှင့် ဒက်ဗွန်ရှိုင်ယာနယ်မှ နွားမျိုးတို့သည် အသားစားအတွက် ဖြစ်စေ၊ နို့စားအတွက်ဖြစ်စေ မွေးမြူနိုင်သော နွားမျိုးများဖြစ်သည်။

ဤသို့ ယခုအခါ ဒေသအလိုက် "နွား" ၏ အမျိုးအစားကို ခွဲခြားကြသကဲ့သို့၊ ရှေးအခါကလည်း ဒေသကိုလိုက်၍ အမျိုးအစားခြားနားကြသည်။ သို့သော် အကြမ်းအားဖြင့် ခွဲလျှင် တောနွားရိုင်းအကြီးစားတမျိုးနှင့် အငယ်စားတမျိုး ရရှိလေသည်။ တောနွားရိုင်း အကြီးစားများသည် အမွေးအမှင်စုတ်ဖွားနှင့် ဖြစ်ပြီးလျှင်၊ ကုပ်ရိုးမှာ မြေမှ ၆ ပေမှ ၇ ပေအထိ မြင့်မား၏။ ဦးချိုမှာလည်း ရှည်လျားလျားနေသည်။ ထိုနွားမျိုးတို့သည် အာရှတိုက် အနောက်ပိုင်း၊ အာဖရိကမြောက်ပိုင်းနှင့်ဥရောပတိုက်တွင်နေထိုင်ကြသည်။ တောနွားရိုင်း အငယ်စားများမှာ ခန္ဓာကိုယ် တိုတုတ်၍၊



အမဲစည်သွတ် လုပ်ငန်းအတွက် နွားများကို ဤသို့ အကြီးအကျယ် မွေးမြူကြသည်။



အိန္ဒိယနွားသည် ဦးချိုရှည်၍ နားရွက်နှင့် ပါးပျဉ်း တွဲလျားကျနေသည်။

အိန္ဒိယနိုင်ငံတွင် နွားများကို ဘေးမဲ့လွှတ်၍ မြို့တွင်း လွတ်လပ်စွာ နေခွင့်ပြုထားကြပေသည်။




ဦးချို တို၏။ အာရှတိုက် အရှေ့ပိုင်းတွင် ကျက်စားကြလေသည်။ အချို့တွင် လပို့ ပါရှိကြ၏။

မြန်မာနွားမျိုးများသည် ဤရှေး "နွား" နှစ်မျိုးအနက်၊ ဒုတိယနွားမျိုးဖြစ်သော တောနွားရိုင်း အငယ်စားမျိုးမှ ဆင်းသက်လာဟန်ရှိသည်။ မြန်မာနွားစစ်စစ်သည် ကိုယ်နေသပ်ယပ်ကျော့ရှင်း၏။ အသွေးအမွေးကတ္တီပါကဲ့သို့တောက်ပသည်။ အမွေး တို၏။ နားရွက် မဘဲ့ချေ။ မျက်စိ ကြည်လင်သည်။ ပါးရိုး မေးရိုး ခိုင်ခံ့ကျယ်ပြန့်သည်။ ပါးစပ်စေ့သည်။ နဖူးမတိုမရှည်ရှိသည်။ လည်ပင်းမှာ တုတ်လျက်၊ ကုပ်ဆက်ကျယ်သည်။ ပါးပျဉ်းထူသော်လည်း၊တွဲလျားမကျလှချေ။ လပို့ထွားကြိုင်း၍၊ လက်ပြင်ရိုး အပေါ်တည့်တည့်တွင်ရှိသည်။ နောက်သို့ လန်မနေချေ။ ရှေ့လက်ပြင်ကျယ်ပြန့်၍၊ ကျယ်သောရင်အုပ်နှင့် ညီသည်။ မောင်းရိုးခြေထောက်ရိုးတောင့်တင်း၏။ မောင်းဆစ်ဒူးဆစ်ခိုင်၏။ကျောနှင့်ခါး ရှည်သည်။ ခါးရိုးအဆစ်များ ကြံ့ခိုင်သည်။ ဝမ်းပိုက် ရှပ်၏။ သို့နှင့်သို့ပိုက်မကြီး မတွဲ ကျစ်လျစ်သည်။ အမြီးမှာ အရင်းတုတ်၍ ရှည်လျားသည်။

ယင်းသို့သော အသွေးအရောင်ကိုယ်ဟန်ရှိသော မြန်မာနွားစစ်စစ်များကို အထူးအခြား အမျိုးခွဲခြားသည်ကို မတွေ့ရပေ။ နွားများပုံသဏ္ဌာန်နှင့် အသုံးဝင်ခြင်းတို့ကိုလိုက်၍ (၁) ခိုင်းနွား (၂) နို့စားနွား (၃) အသားစားနွားဟူ၍ သုံးမျိုးသုံးစား ခွဲခြားထားရာတွင်၊ မြန်မာနွားများသည် ခိုင်းနွားတို့၏ လိုအပ်သော အင်္ဂါရပ်များနှင့် ပြည့်စုံပေသည်။ မြန်မာနွား စစ်စစ်ဖြစ်ကြသော နွားရှေ့နီ၊ နွားရှေ့ဝါ၊ နွားပြာစသည်များတွင်၊ နွားရှေ့နီနှင့် နွားရှေ့ဝါတို့သည် ခိုင်းရန် အကောင်းဆုံးဖြစ်၏။ နွားပြာမှာ ဒိုးခံနိုင်၍၊ ထန်းသီးမွေးရောင်နှင့် နွားကျားမှာ အညံ့ဆုံး အသုံးမကျဆုံးဟူ၍ အဆိုရှိသည်။ "မြို့မသိ ဗာရာဏသီ၊ မင်းမသိ ဗြဟ္မဒတ်၊ နွားမသိ နွားပြာနီ" ဟူသော ဆိုရိုးစကားအရ၊ နွားပြာနီကို လူသိများဟန်တူသည်။ နွားပြာနီ အရောင်တွင် အမဲရောင်အနည်းငယ် သန်းနေလျှင်၊ "နွားပြာနီမင်းကုပ်" ဟု ခေါ်ကြသည်။ "နွားပြာနီ မင်းကုပ် အတက်မတိုနှင့်" စသည့်တားမြစ်ချက်ရှိ၏။ ထိုတားမြစ်ချက်မှာ နွားပြာနီ မင်းကုပ်တို့သည် စိတ်ဆတ်၍ ဖျတ်လတ်သဖြင့်၊ ချောင်းမြောင်း စသည်တို့ကို ဖြတ်ကျော်တက်သည့်အခါတွင် ကြိမ်နှင့်ပင်မတို့ကြရန် တားမြစ်ထားခြင်းဖြစ်သည်။ ယင်းတားမြစ်ချက်ကို ထောက်၍၊ နွား၏ စိတ်သဘောထား အစွမ်းသတ္တိကို အမွေးအရောင်လိုက်လျက် ဆုံးဖြတ်နိုင်ပေသည်။ ဤသို့ ဆုံးဖြတ်နိုင်ခြင်းကြောင့်ပင် မြန်မာတို့သည် နွား၏အမျိုးအစားကို ခွဲခြားရွေးချယ်ခြင်းထက်၊ နွား၏ အင်္ဂါရပ် အသွေးအမွေးတို့ကို ပို၍အလေးမူဟန်ရှိပေသည်။ ရှေးသူဟောင်းမြန်မာတောင်သူကြီးတို့သည် မျိုးအတွက် နွားသိုးတို့ကို ရွေးချယ်ရာတွင်

"စေ" လေးလုံးကို အရင်းခံ ပဓာနထား၍ ရွေးချယ်လေ့ရှိကြ၏။ ယင်း "စေ" လေးလုံးကား —

(၁) နှာတံ ခုံးစေ
(၂) ခွါ လုံးစေ
(၃) မျက်စိ ပြူးစေ
(၄) နှာ ရှူးစေတို့ပင် ဖြစ်သည်။

ယင်းသို့ ရွေးချယ်ခြင်းမှာ နှာတံခုံး နဖူးကျယ်မှ ကျန်းမာတောင့်တင်းခြင်း လက္ခဏာဟု ယူဆကြ၏။ ခွါလုံးစေ ဆိုသည်မှာ ရေဖလားကို မှောက်ထားသကဲ့သို့ ရှိစေရမည်ဆိုလိုပေသည်။ နှာရှူးခြင်း မျက်စိပြူးခြင်းတို့သည် ဖျတ်လတ်သည့် လက္ခဏာများဟု ယူဆကြလေသည်။

မြန်မာနိုင်ငံသည် လယ်ယာစိုက်ပျိုးသောနိုင်ငံဖြစ်သည့်အလျောက်၊ ခိုင်းနွားများကိုသာ အရေးထားကြသဖြင့်၊ နို့စားနွားနှင့် အသားစားနွားများ မထွန်းကားပေ။ ခိုင်းနွားများပင် တစတစမျိုးခြားနွားများနှင့် စပ်လာသဖြင့်၊ ယခုအခါ တကယ်မျိုးစစ်သော မြန်မာနွားမျိုးကို အတွေ့ရနည်းလေသည်။ နွားသည် ပါဏဗေဒအရ 'ဗိုးဗီဒီ' မျိုးရင်းတွင်ပါဝင်၍ ထိုမျိုးရင်းတွင် သိုးနှင့် ဆိတ်တို့လည်း ပါဝင်၏။

**နွားကတိုး။** ။နွားကတိုးသည် နွားမျိုးစုတွင်မပါဝင်သော်လည်း၊ သိုးနှင့်နွား စပ်ထားသကဲ့သို့ သဏ္ဌာန်ရှိသည်။ အရွယ်ပုံသဏ္ဌာန်အားဖြင့် နွားနှင့်တူသော်လည်း၊ အမူအကျင့်တို့မှာ သိုးနှင့်ပို၍နီးစပ်၏။ အလွန့်ပေါ့ပါးလျင်မြန်၍၊ ခြေမြဲသော သတ္တဝါဖြစ်သည်။ ယခင်က ဥရောပတိုက်တွင် တွေ့ရဘူးသော်လည်း၊ ယခုအခါ အမေရိကတိုက် အာတိတ်ဒေသ၌သာ ရှိတော့သည်ဟု ဆိုသည်။ နွားကတိုး၏ ပါဏဗေဒအမည်မှာ 'အိုဗီဗော့မော့စကတပ်' ဖြစ်သည်။

နွားကတိုး၏ ရှည်လျားသော အမွေးတို့သည် ပခုံး၌ရှုပ်ထွေးလျက်ရှိ၏။ ခြေထောက်သည် ဖြောင့်၍ တိုရ်၏။ ဦးခေါင်းကြီးမား၏။ အမြီးတို၏။ နဖူးအလယ်တွင် ဦးချိုနှစ်ချောင်းသည် အရင်းချင်းထိသျက်၊ ဘေးနှင့် အောက်ဖက်သို့ ကားထွက်သွားပြီးလျှင်၊ ချိုဖျားသည် အပေါ်သို့ ထောင်နေ၏။ အချို့ အမွေးများမှာ တပေခန့်လောက်ပင်ရှည်၍၊ နွေအခါတွင် ကျွတ်ထွက်ကုန်သည်။ နွားကတိုးအထီးကြီးတကောင်သည် ပိဿာ ၁၀၀ ကျော်ပင်လေး၏။ ကိုယ်မှ ကတိုးနံ့ထွက်သည်။ အုပ်လိုက်နေတတ်၍၊ မြက်၊ ရေညှိ၊ ထင်းရှူး အစို့အတက်တို့ကို စားသည်။

အက်စကီးမိုးတို့သည် နွားကတိုးများကို မွေးမြူထား၍၊ ယင်းတို့မှ နို့၊ အသား၊ သားမွေးများကို ရသည်။နွားကတိုးတို့သည် အလွန်ရေခဲထူထပ်သော ဒေသများတွင် နေသောကြောင့်၊ အစာရှာရာ၌ အခက်အခဲ တွေ့ရသည်။ ဝံပုလွေတို့က တခါတရံ ရန်မူသော်လည်း၊ နွားကတိုးတို့က ကြီးမားသော ဦးချိုများဖြင့် ခုခံကာကွယ်ကြသည်။



နွားထိုးကြီးမြို့ အရှေ့ဖက်ရှိ ရှင်ပင်သာဒွန်းဦး စေတီ



ရေခဲ ထူထပ်သော ဒေသ၌သာ ကျက်စားသည့် နွားကတိုး

**နွားထိုးကြီးမြို့။** ။မြင်းခြံခရိုင် နွားထိုးကြီးမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ မြင်းခြံ ပလိပ် မီးရထားလမ်းပေါ် တွင်တည်ရှိ၍၊ မြင်းခြံမှ ၁၉ မိုင်ကွာဝေးသည်။ မြင်းခြံမြို့နှင့်ကားလမ်းအဆက်အသွယ်ရှိသည့် အပြင်၊ မြင်းခြံ မန္တလေးသွား မော်တော်ယာဉ်များ ရပ်နားရာ စခန်းမြို့လည်း ဖြစ်သည်။

နွားထိုးကြီးမြို့နယ်သည် မြင်းခြံခရိုင် အတွင်း၌ ဝါဂွမ်းအထွက်ဆုံး မြို့နယ်ဖြစ်ရာ၊ ဝါဂွမ်း အရောင်းအဝယ်ကြောင့် နွားထိုးကြီးမြို့၏ ငါးရက်ဈေးသည် များစွာ စည်ပင်လေသည်။ နွားထိုးကြီးမြို့နယ်မှထွက်သောဝါဂွမ်းများကို ဒုတိယကမ္ဘာစစ် မဖြစ်မီက၊ တရုပ်နိုင်ငံသို့ တင်ပို့ရောင်းချခဲ့သည်။

၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ နွားထိုးကြီးမြို့၏ လူဦးရေမှာ ၄,၀၀၆ ယောက်ဖြစ်သည်။

# အာဟာရဓာတ် အပြည့်စုံဆုံး အစားအစာ

ကျန်းမာသန်စွမ်းသော ကိုယ်ခန္ဓာဖြစ်ထွန်းရန်အတွက် လိုအပ်သော အာဟာရအခြေခံကို နို့ရည်မှသာ ရရှိနိုင်သည်။ နွားနို့သည် အရွယ်သုံးပါးမရွေး မှီဝဲအပ်သော အစာ းအစာဖြစ်သည်။ နို့ရည်ဘွင် မည်သည့်အာဟာရဓာတ်များပါဝင်၍၊ လူတို့၏ ကျန်းမာရေးကို မည်သို့ တိုးတက်စေပုံအကြောင်းစုံကို ဤအကြောင်းရပ်တွင် ဖော်ပြထားသည်။



အစားအစာတို့အနက် ကိုယ်ခန္ဓာ ထွားကျိုင်းသန်စွမ်းရန် အာဟာရဓာတ်အခြေခံကို နို့ရည်မှသာ အပြည့်စုံဆုံးရနိုင်သည်။ ခွန်အားကို ဖြစ်စေသော နို့ရည်ကို လူတိုင်း နေ့စဉ်မှီဝဲအပ်ပေသည်။

နွားနို့။ ။အစားအစာတို့ အနက် နို့ရည်တွင် အာဟာရဓာတ်အပြည့်အစုံဆုံး ပါဝင်သည်ဟု သိပ္ပံပညာရှင်တို့က ယူဆကြသည်။ ကျန်းမာသန်စွမ်းသော ကိုယ်ခန္ဓာ ဖြစ်ထွန်းမှုအတွက် လိုအပ်သော အာဟာရအခြေခံကို နို့ရည်မှသာရရှိနိုင်သည်။ နို့စို့အရွယ် ကလေးငယ်တို့အတွက် နို့ရည်သည် အစားထိုး၍ မရနိုင်သော အစာဖြစ်သည်။ သို့ရာတွင် လူတို့ အဖို့မှာမူ၊ တခါတရံအမိနို့ရည်သည် သားငယ်နှင့် မသင့်သောအခါ၊ နွားနို့ကို အစားထိုး၍ သုံးစွဲနိုင်သည်။ နွားနို့သည် နို့စို့ကလေး အတွက်သာမက၊ အရွယ်တက်ဆဲဖြစ်သောလူငယ်နှင့် အရွယ်ကျစဖြစ်သော လူကြီးအတွက်လည်း အာဟာရဖြစ်ပေသည်။ စင်စစ်၊ နွားနို့ကို လူကြီး လူငယ် မရွေး အားလုံး သုံးဆောင်လေ့ ရှိကြသည်။ နွားနို့ကို မရနိုင်သော ဒေသတို့၌ ဒေသအလိုက် ထွန်းကားသော တိရစ္ဆာန်တို့၏ နို့ရည်ကို မှီဝဲကြသည်။ မြန်မာ နိုင်ငံတွင် ကျွဲ ပေါများသော အရပ်၌ နွားနို့အစား ကျွဲနို့ကိုသုံးစွဲကြသည်။ ဆိတ်နို့နှင့် သိုးနို့ကို အိန္ဒိယနိုင်ငံ စသော အာရှတိုက် တောင်ပိုင်းနိုင်ငံတို့တွင် မှီဝဲလေ့ရှိသည်။ အိန္ဒိယနိုင်ငံ၏ ခေါင်းဆောင်ကြီး မဟတ္တမဂန္ဒီသည် ဆိတ်နို့ကို အာဟာရ အဖြစ်ဖြင့် အမြဲမှီဝဲသည်။ (ဂန္ဒီ၊ မဟတ္တမ — ရှု။) အမေရိကန် တောင်ပိုင်းနှင့် အလယ်ပိုင်းတို့တွင် ဆိတ်နို့သုံးစွဲသောနိုင်ငံများရှိသည်။ ချီလီနိုင်ငံတွင် လာမာ ကုလားအုပ်၏ နို့ရည်ကို လူတို့မှီဝဲကြသည်။ အာရှနှင့် အာဖရိကတိုက်ရှိ သဲကန္တာရ ထူထပ်သောဒေသတို့တွင် ကုလားအုပ်နို့ရည်ကို မှီဝဲကြသည်။ တိဗက်နှင့် မွန်ဂိုးလီးယားနိုင်ငံတို့တွင် နေထိုင်သူတို့မူကား ယက်ခေါ် သားကောင်၏ နို့ရည်အပြင် မြင်းနို့ရည်၊ မြည်းနို့ရည်တို့ကိုလည်း မှီဝဲသည်။ လက်ပလန်တွင် တန်းဒြာသမင်နို့ရည်ကို မှီဝဲကြရသည်။

## နွားနို့၌ပါသော အာဟာရ

နို့ရည်၌ ပရိုတင်းဓာတ်၊ အဆီ၊ ကာဗိုဟိုက်ဒရိတ်၊ ဓာတ်ဆားနှင့် ရေတို့ အချိုးကျ ပါဝင်ကြသည်။ ထိုဓာတ်တို့မှာ ခန္ဓာကိုယ် ကြီးထွားရေးအတွက် အဓိကဖြစ်သည်။ နို့ရည်၌ ရေ ၈၇ ရာခိုင်နှုန်း၊အဆီ ၄ ရာခိုင်နှုန်း၊ပရိုတင်း ၃.၃၅ ရာခိုင်နှုန်း၊ ကာဗိုဟိုက်ဒရိတ် ၄.၉၀ ရာခိုင်နှုန်း၊ ဓာတ်ဆား ၀.၇၅ရာခိုင်နှုန်း ပါဝင်သည်။ ဤကား ယေဘုယျနှုန်းဖြစ်သည်။ နွားအမျိုးကိုလိုက်၍၊နွားနို့၌ အောက်ပါရာခိုင်နှုန်းအရ အာဟာရဓာတ်တို့ပါဝင်သည်။ (နွားနို့လုပ်ငန်း — ရှု။)

| နွားမျိုး | ရေ | အဆီ | ပရိုတင်း | ကာဗိုဟိုက်ဒရိတ် | ဓာတ်ဆား |
|---|---|---|---|---|---|
| အဲယားရှိုင်ယာ | ၈၆.၉၇ % | ၄.၀၃ % | ၃.၅၁ % | ၄.၈၁ % | ၀.၆၈ % |
| ဂန်ဇီ | ၈၅.၃၅ % | ၅.၀၃ % | ၃.၉၀ % | ၄.၉၇ % | ၀.၇၅ % |
| ဟိုလစတိုင် | ၈၇.၇၃ % | ၃.၄၀ % | ၃.၃၀ % | ၄.၈၉ % | ၀.၆၈ % |
| ဂျာစီ | ၈၅.၄၆ % | ၅.၀၅ % | ၃.၇၅ % | ၅.၀၀ % | ၀.၇၄ % |

## နွားနို့

နို့ရည်၌ ပါသော အဆီသည် ကလေးသူငယ်တို့အတွက် အစာချေရန် အလွန်လွယ်ကူသဖြင့်၊ များစွာ အဖိုးတန်သည်။ ထိုအဆီမှာ အလွန်တရာ သေးငယ်သော အဆီဥကလေးများ ပါဝင်သော အဆီဖြစ်သည်။ နွားနို့မှ ရသော အဆီဥကလေးများကို တခုစီတခုစီ တလက်မ အရှည်ရှိသော နေရာ၌ စီတန်းလိုက်လျှင်၊ အဆီဥပေါင်း ၂,၀၀၀ မှသည် ၂၀,၀၁၀ အထိ စီဘန်းနိုင်သည်။ နို့၏ အဆီ၌ ဗီတာမင် အေ နှင့် ဒီတို့ ပါဝင်သည်။

နို့ရည်မှ ရအပ်သော ပရိုတင်း၌လည်း အာဟာရဓာတ်များစွာ ပါဝင်သည်။ ထိုပရိုတင်းတို့မှာ အပင်မှ ရသော ပရိုတင်းထက် ကောင်းသည်။ အာဟာရအတွက် အရေးကြီးသော အမိနိုအက်ဆစ် အားလုံး ပါရှိ၍၊ အစာကြေလွယ်သည်။ အမိနိုအက်ဆစ်၏ သဘောမှာ ခန္ဓာကိုယ်၏ အသွေးအသားတို့ ဖြစ်ထွန်းစေသော သဘောရှိသည်။ ပရိုတင်းတွင် ကေဆီအင်းဓာတ် ၇၀ ရာခိုင်နှုန်း၊ လက်တယ်လဗျူမင် ၂၀ ရာခိုင်နှုန်းနှင့်လက်တိုဂလိုဗျူလင် ၂ ရာခိုင်နှုန်း ပါဝင်သည်။ နွားနို့ဖြူသည်မှာ အဖြူရောင်ရှိသော ကေဆီအင်းကြောင့် ဖြစ်သည်။ နို့ထဲသို့ အချဉ်ဓာတ်ကိုဖြစ်စေ၊ အင်ဇိုင်းခေါ် အချဉ်ဓာတ်ပါသော ဓာတုဗေဒဆေးကိုဖြစ်စေ ထည့်လိုက်လျှင်၊ ကေဆီအင်းသည် ခဲသွားပြီးလျှင်၊ ဒိန်ချဉ်ဖြစ်လာသည်။ ထိုဒိန်ချဉ်မှ ဒိန်ခဲကို ပြုလုပ်ရသည်။ (ဒိန်ခဲ — ရှု။) ကေဆီအင်းမှ ဆင်စွယ်တု၊ အရိုးတု၊ ကော်ပလင်စတစ်ပစ္စည်း၊ အိမ်သုတ်ဆေး စသည်တို့ကိုလည်း ပြုလုပ်နိုင်သည်။



တိုးတက်သော နိုင်ငံများ၌ နို့ရည်ကို စက်ပြွန်တို့ဖြင့် ဤသို့ သန့်ရှင်းစင်ကြယ်စွာ ညှစ်ယူကြသည်။

လက်တယ်လဗျူမင်နှင့် လက်တိုဂလိုဗျူလင်တို့မှာ လူ၏ သွေး၌ပါသော အယ်လဗျူမင်နှင့် ဂလိုဗျူလင်ဓာတ်ဘို့နှင့် အတူတူပင် ဖြစ်ရာ၊ ခန္ဓာကိုယ်၏ အသွေးအသား ဖြစ်ထွန်းရေးအတွက် အထောက်အပံ့ ပြုပေသည်။

နို့ရည်တွင် ပါရှိသော ဓာတ်ဆားတို့မှာ ပိုတက်ဆီယမ်၊ ကယ်လဆီယမ်၊ ဖော့စဖောရပ်၊ ဆိုဒီယမ်၊ ကန့်ဆာလဖာ၊ အိုင်အိုဒင်း၊ သံ၊ ကြေး၊ မန်ဂနိ၊ သွပ်၊ အလျူမီနီယမ်နှင့် အခြားသတ္တုတို့၏ ဓာတ်ဆားများ ဖြစ်ကြသည်။ ထိုဓာတ်ဆားတို့သည် သွားနှင့်အရိုးများကို ခိုင်မာအောင် ပြုလုပ်ပေးသည်။



ကျန်းမာသန်စွမ်းသော ကိုယ်ခန္ဓာဖြစ်ထွန်းရန် အာဟာရဓာတ်များ ပါဝင်သော နို့ရည်ကို ဤသို့ကျန်းမာသော နွားမများမှ ရရှိသည်




























**နွားနို့ တကွတ်ကို မှီဝဲလျှင် ဤအစားအစာများ၌ရှိသော စွမ်းအင် အသီးအသီးတို့နှင့် ညီမျှစွာ ခံစားရမည်။**

နို့ရည်၌ ပါရှိသော ကာဗိုဟိုက်ဒရိတ်ကို လက်တို့ဟု ခေါ်သည်။ ယင်းမှာ နို့သကြားဖြစ်၏။ ထိုသကြားမျိုးမှာ များစွာ မချိုလှချေ။ ရိုးရိုးသကြားကဲ့သို့ အရည်ပျော်လွယ်သည်မဟုတ်။ သို့သော် အစာကြေလွယ်၏။ ခွန်အားကို ဖြစ်စေတတ်၏။ လက်တို့ကို ဇက်တီးရီးယားပိုးများက မှီဝဲလာသည့်အခါ၊လက်တစ်အက်ဆစ် ဖြစ်ပေါ်လာ၍၊ နို့သည် ချဉ်သွားတတ်သည်။ ဤသဘောတရားသည် နို့မှ ဒိန်နှင့် ထောပတ် ထုတ်လုပ်ခြင်းလုပ်ငန်းတွင် များစွာ အထောက်အပံ့ပြုပေသည်။ လက်တို့သည် နို့ရည်၌ ပါသော ဓာတ်ဆားတို့ကို သွားနှင့် အရိုးများ ခိုင်မာအောင် ပြုလုပ်ပေးသည့် ဓာတ်ဆားများအဖြစ်သို့ပြောင်းလဲစေရန် ဖန်တီးပေးသည်။

အထက်ပါ ဓာတ်များအပြင်၊ နို့ရည်ထဲ၌ ဗီတာမင်များလည်း ပါဝင်သည်။ နို့တွင်ပါရှိသော ဗီတာမင်တို့မှာ အေ၊ ဘီ၊ စီ၊ ဒီ၊ အီနှင့်ကေတို့ဖြစ်ကြသည်။သို့ရာတွင်ထိုဗီတာမင်တို့မှာ ကလေးသူငယ်များအဖို့ လုံလောက်သည် မဟုတ်သေး။ ထို့ကြောင့် ယင်းတို့အား ရံဖန်ရံခါ ဗီတာမင်အေ၊ စီနှင့် ဒီကို သတ်သတ်တိုက်ကျွေးပေးရသည်။ မြက်စိမ်းကို စားရသော နွားမများသည် မြက်ခြောက်ကိုစားရသော နွားမများထက် ဗီတာမင်ဒီကို ပို၍ ပေးနိုင်စွမ်းရှိသည်။ နွားနို့ကို ကြာကြာလေသလပ်ထားလျှင်၊ ဗီတာမင်စီ ကုန်ခန်းသွားတတ်သည်။ နို့၌ ဗီတာမင်ဘီသည် အတော်များများ ပါဝင်သည်။ နို့ရည်မှရသော အဆီနှင့် မလိုင်တို့တွင် ဗီတာမင်အေ၊ ဒီနှင့် အီပါဝင်သည်။ (ဗီတာမင် — ရှု။)

လူတို့၏ အစားအစာသည် သွေးသားဖြစ်စေရုံမျှသာမက၊ ကိုယ်ခန္ဓာ၏ အပူဓာတ်ကိုလည်း ပေးသည်။ ထိုအပူဓာတ်ကို ဖြစ်စေသော စွမ်းအင်ကို ပေးသည့်အရာတွင် နို့သည် အလွန်တာသွားသည်။ ပမာအားဖြင့် ကွတ်ပုလင်း တလုံးခန့် ရှိသော နွားနို့၏ အပူဓာတ်ပေးသော စွမ်းအင်သည် အမဲသား၄/၅ပေါင်၊ ကြက်သား၁၁/၄ပေါင်၊ ဝက်သားပေါင်ဝက်၊ ငါး ၂၁/၃ပေါင်၊ ကြက်ဥ ၈ လုံး၊ ပဲသီး ၁၃/၇ပေါင်၊ ပဲစေ့ ၂၂/၃ ပေါင်၊ ခရမ်းချဉ်သီး ၆၂/၃ပေါင်တို့၌ရှိသော စွမ်းအင် အသီးအသီးတို့နှင့် ညီမျှသည်။ (ရုပ်ပုံကို ကြည့်လေ။)

# အနောက်နိုင်ငံများ၌ တွင်ကျယ်သောလုပ်ငန်း

နွားနို့လုပ်ငန်းတွင် နွားနို့ထုတ်လုပ်ရေးလုပ်ငန်း၊ ထောပတ်၊ နို့ဆီ၊ နို့စိမ်း၊ နို့မှုန့်၊ ဒိန်ခဲစသော နွားနို့မှထွက်သော ပစ္စည်းတို့ကို ထုတ်လုပ်ရေးလုပ်ငန်းများပါဝင်လေသည်။ ထို့ပြင် နွားနို့လုပ်ငန်း၌ နို့ထွက်ကောင်းသော နို့စားနွားမ မွေးမြူရေးမှာ အရေးကြီးသည်။ ဟိုလစတိုင်နွားမမျိုး၊ ဂျာစီနွားမမျိုး၊ ဂန်ဇီနွားမမျိုး၊ အဲယားရှိုင်ယာနွားမမျိုး၊ ရှော့ဟွန်း နွားမမျိုးတို့သည် ထင်ရှားသော နို့စားနွားမမျိုးတို့ ဖြစ်လေသည်။ နို့စားနွားမ မွေးမြူခြင်း၌သော်၎င်း၊ နွားနို့ထုတ်လုပ်ခြင်း၌သော်၎င်း ခေတ်မီနည်းစံနစ်များကို တွင်ကျယ်စွာ အသုံးပြုလျက် ရှိကြလေသည်။

**နွားနို့လုပ်ငန်း။** ။နွားနို့ လုပ်ငန်းသည် နွားနို့၊ ထောပတ်၊ နို့ဆီ၊ ဒိန်ခဲစသည့် နို့မှထွက်သော ပစ္စည်းတို့ကို ထုတ်လုပ်သောလုပ်ငန်းဖြစ်၍၊ လယ်ယာစိုက်ပျိုးရေး လုပ်ငန်း၌ အကျုံးဝင်သည်။ နို့စားနွားမ မွေးမြူရေးသည် နွားနို့ လုပ်ငန်း၌ အဓိက အရေးကြီးသော ကိစ္စ ဖြစ်သည်။ အနောက်နိုင်ငံများတွင် ဤလုပ်ငန်းသည် အလွန်ထွန်းကားသည်။ (နွားနို့ — ရှု။)

### နို့စားနွားမမျိုး

ထင်ရှားသော နို့စား နွားမမျိုး ငါးမျိုးရှိသည်။ ယင်းတို့တွင် ဟိုလစတိုင်နွားမမျိုးမှာ ရှေးနှစ်ပေါင်း ၂၀၀၀ ခန့်ကပင်လျှင်၊ ရိုင်းမြစ်ဝှမ်းတလျှောက်၌ ထင်ရှားကျော်စောခဲ့သော နွားမျိုးဖြစ်၏။ ထိုနွားမမျိုးမှာ မူလက ဟော်လန်နိုင်ငံ၌သာ ထွန်းကားခဲ့သည်။ သို့သော် နောင်အခါ၌ အင်္ဂလန်နှင့် အမေရိကန်နိုင်ငံတို့တွင် ထိုနွားမမျိုးသည် ပြန့်ပွားလာခဲ့သည်။ ထိုနွားမမျိုးသည် နို့များများ ထွက်သည်။ သို့ရာတွင် အဆီနည်းပါး၍၊ ထောပတ်ချက်လုပ်ရာ၌ တွက်ခြေမကိုက်ချေ။

ဂျာစီနှင့် ဂန်ဇီခေါ် အင်္ဂလိပ် နွားမမျိုးသည် အဆီရာခိုင်နှုန်းများသော နို့ရည် ထွက်သည်။ အဆီများသောကြောင့် နို့၏ အရောင်မှာ ဝါကြန့်ကြန့် ရှိသည်။

အဲယားရှိုင်ယာခေါ် စကော့တလန် နွားမမျိုးသည်လည်း နို့ထွက်ကောင်း၍ ကျော်စော၏။ မူလက ထိုနွားမမျိုးမှာ အမေရိကန်နှင့် ကနေဒါစသော အေးသည့် နိုင်ငံတို့၌သာ ပေါက်ပွားသော်လည်း၊ ယခုအခါ မက္ကဆီကိုနှင့် ဩစတြေးလီးယားကဲ့သို့သော နိုင်ငံတို့တွင် မွေးမြူ၍ ရနေသည်။

ရှော့ဟွန်းခေါ်သော နွားမမျိုးသည် အင်္ဂလန်ပြည်မှ ထွက်သော နွားမမျိုးပင်ဖြစ်၏။ ထိုနွားမျိုးသည် မည်သည့်ရာသီဥတု၌မဆို ပေါက်ပွားနိုင်၏။ ထိုနွားမမျိုးတွင် မျိုးစပ်အမျိုးမျိုးရှိ၍၊ နို့ထွက် အမျိုးမျိုးရှိသည်။ ယခုအခါ ထိုနွားမမျိုးကို အမေရိကန်နိုင်ငံတွင် များစွာ မွေးမြူလျက်ရှိကြသည်။

နွားမမျိုးတို့တွင် ဟော်လန်နိုင်ငံနှင့် ဆွစ်ဇာလန်နိုင်ငံမှ နွားမမျိုးတို့သည်လည်း နို့ထွက်ကောင်းသဖြင့် ကျော်စော၏။

### နို့စားနွားမမွေးမြူရေး

နို့ရ တိရစ္ဆာန်များကို စံနစ်တကျ အစာရေစာကျွေး၍ မွေးမြူပါလျှင်၊ နို့ရည် ပိုမို ကောင်းလာပြီးလျှင်၊ နို့ရည်အထွက်လည်း အလွန်များလာတတ်သည်။ စံနစ်တကျ မွေးမြူခြင်းကြောင့်၊ လွန်ခဲ့သော နှစ်ပေါင်းငါးဆယ်လောက်မှ စ၍ ယနေ့တိုင် နို့စားနွားမများသည် အံ့ဩလောက်အောင် နို့ရည် ပိုမိုထွက်လာသည်ကိုတွေ့ရလေသည်။ ယခုအခါ နွားမတကောင်သည် ပျမ်းမျှခြင်းအားဖြင့် တနှစ်လျှင် နို့ပေါင်ပေါင်း ၄,၅၀၀ ကို ပေးနိုင်နေလေပြီ။ အချို့ နွားမများသည် တနှစ်အတွင်း နို့ပေါင်ပေါင်း ၁၀,၀၀၀ အထိပင် ပေးနိုင်စွမ်းရှိသည်။ အချို့ကား တနှစ်လျှင် နို့ပေါင်ပေါင်း ၄၀,၀၀၀ နီးပါးမျှ ထွက်သည်။ နွားအမျိုးအစားကိုလိုက်၍၊ နွားနို့ အများအနည်း ထွက်သည်။ စံနစ်တကျ ကျွေးမွေးသုတ်သင်ထားသည့် ယခုခေတ် နွားမ တကောင်မှ တလအတွင်း ထွက်သော နို့သည် ရှေးနွားရိုင်းမ တကောင်မှ တနှစ် အတွင်း ထွက်သောနို့အတိုင်းအဆနှင့် အတူတူပင်ဖြစ်၏။

နို့အထွက်များအောင် လုပ်ဖို့ရုံသာမက၊ နို့ထဲ၌ ဩဇာဓာတ်များများပါအောင်လုပ်ဖို့လည်း အရေးကြီးလေသည်။ ဆုရသည့် နို့စားနွားမတကောင်သည် တနှစ်လျှင် နို့ပေါင်ပေါင်း ၃,၃၄၆၅ ပေါင်(၉,၂၉၂ ပိဿာ)မျှထွက်၍၊ ထိုနို့တွင် ထောပတ်ဆီပေါင်ပေါင်း ၁,၃၄၉ ပေါင်ပါရှိသည်။ အခြားအလားတူ မွေးမြူထားသော နွားမတကောင်သည် တနှစ်အတွင်း နို့ပေါင်ပေါင်း ၃၇,၃၈၁ ပေါင်(၁၀,၃၇၉ ပိဿာ)မျှ ပေးနိုင်သော်လည်း၊ ထိုနို့တွင် ထောပတ်ဆီ ပေါင်ပေါင်း ၁,၁၅၉ မျှသာပါရှိသည်။ ထောပတ်ချက်ရန်ရောင်းချသော နို့များသည် ဩဇာဓာတ် များမှသာလျှင် ဈေးများများရနိုင်လေသည်။ ဟိုလစတိုင်နွားမျိုးမှ နို့အများအပြားရရှိသည်။ ဂျာစီနွားမျိုးမှရသော နို့တွင် ဩဇာဓာတ် များပြားစွာ ပါရှိသည်။ ဆုရသည့် ဂျာစီ နို့စား နွားမတကောင်သည် တနှစ်အတွင်း၌ နို့ပေါင်ပေါင်း ၁၆,၄၂၅ ပေါင်ထွက်၍ ထိုနို့တွင် ထောပတ်ဆီပေါင်ပေါင်း ၁,၁၄၁ ပေါင်ပါရှိလေသည်။ အမေရိကန် ပြည်ထောင်စုတွင် ဟိုလစတိုင် နို့စားနွားမတကောင်သည် တနှစ်အတွင်းထောပတ်ဆီပေါင်ပေါင်း







နို့ချက်ရုံသို့ ရောက်လာသော နို့များ၏ အပူချိန် ဒီဂရီ၊ ပါဝင်သော အဆီ ရာခိုင်နှုန်းတို့ကို စံမှီ မမှီ စစ်ဆေးပြီးနောက်၊ (ပေါ်-ဝဲ) ရေနွေးငွေ့ဖြင့် ပေါင်းခံကာ ကြိုတင်ဆေးကြော ထားသော နို့လှောင်ကန်ထဲသို့ ထည့်ပြီးလျှင် (ပေါ်-ယာ) အပူပေးစက်များဖြင့် စံချိန်မှီအောင် ချက်ယူရသည် (လယ်-ဝဲ)။ ကျန်းမာရေးနှင့် ညီညွတ်ပြီး အင်အားပြည့်ဖြိုးစေမည့် နို့များကို စားသုံးသူများထံသို့ ပို့ရန် ပုလင်းထဲသို့ ထည့်ရာ၌ရင်း၊ ဖူးဆို့ ပိတ်ရာ၌ရင်း စင်ကြယ်စွာ ဆောင်ရွက်၍ (လယ်-ယာ)၊ ဗက်တီးရီးယားပိုးများကင်းအောင် ပေါင်းခံပြီးမှ (အောက်-ဝဲ)၊ တင်ပို့ ရောင်းချရသည် (အောက်-ယာ)။







၁,၅၀၀ ရနိုင်သော နို့ရည်ကို ပေးနိုင်လေသည်။ ပေါင် ၂,၂၄၀ သည် ၆၂၆ ပိသာခန့်နှင့် ညီမျှသည်။

နို့ကောင်းကောင်း ရရန်အတွက် နွားမကို အာဟာရ ပြည့်ဝသော အစားအစာကျွေးရန် လိုသည်ကို ပြဆိုခဲ့ပြီ။ ပေါင်ချိန် ၁၀၀၀ စီးသော နို့စားနွားမတကောင်သည် တနှစ်လျှင် ပေါင်ချိန် ၇,၅၀၀ မျှသောနို့ကို ပေးနိုင်သည်။ သို့သော် ဤသို့ နို့ထွက်စေရန်၊ အနောက်နိုင်ငံ၌ မွေးမြူသော နို့စားနွားမသည် နွေနှင့်မိုးဥတု ငါးလမျှသောကာလ၌ မြေနှစ်ကေမှထွက်သော မြက်တို့ကို စားပေးရမည်ဖြစ်သည်။ ဆောင်းဥတု၌မူ မြက်ခြောက်ပေါင်ချိန် ၆၃၀၀ နှင့် မြက်စိုပေါင်ချိန် ၂၇၀၀ ကို စားစမြဲဖြစ်သည်။ တနှစ်လုံးအတွက် သီးနှံ ပဲ ပြောင်း ပေါင်ချိန် ၂၀၀၀ ကိုလည်း စားသုံးမြဲဖြစ်သည်။ ရေကိုမူ တနှစ်လုံး တန်ချိန် ၁၁ တန်ခွဲ သောက်လေ့ရှိသည်။

နွားနို့မှာ ဗက်တီးရီးယား ပိုးများ အလွန် ကြိုက်နှစ်သက်သော အစာဖြစ်သည်။ ထို့ကြောင့် နွားမတို့ကို ရောဂါဘယကင်းရှင်းအောင် မွေးမြူဖို့လိုပေသည်။ တျူဗာကယ်ပိုးစွဲနာတို့ဖြစ်ရခြင်းအကြောင်းကိုရှာသော်၊ နွားနို့မှတဆင့် လူသို့ ကူးစက်တတ်သည့် အကြောင်းကို တွေ့ရသည်။ ထို့ကြောင့် နို့စားနွားမ မွေးမြူရာ၌ ထိုတျူဗာကယ် ပိုးစွဲနာကဲ့သို့သော ကူးစက်တတ်သော ရောဂါမှ ကင်းစင်အောင် ဂရုစိုက် မွေးမြူသင့်သည်။ တဖန် နွားနို့က မည်မျှပင်သန့်သန့်၊ နွားနို့ကို ညှစ်သူနှင့် ကိုင်တွယ်သူတို့၌ ကူးစက်တတ်သော ရောဂါ ရှိပြန်လျှင်၊ နွားနို့မှတဆင့် စားသုံးသူတို့သို့ ရောဂါ ပျံ့နှံ့လာနိုင်သည်။ ထိုပြင်လည်း နွားမွေးမြူရာဌာနနှင့် ပဘ်ဝန်းကျင်တို့တွင်ကျန်းမာရေးနှင့် မညီသောကြောင့် နွားနို့ကို မှီဝဲသူတို့၌ ရောဂါကျရောက်နိုင်လေသည်။ ထို့ကြောင့် နို့စားနွားမ မွေးမြူသော နိုင်ငံတို့တွင် နွားမများကို စစ်ဆေးသော တိရစ္ဆာန် ဆရာဝန်များ ထားရှိရသည်။ နွားမမွေးမြူရာဌာန၊ နို့ညှစ်ရာဌာန၊ နို့မှထွက်သောအစားအစာပြုလုပ်ရာ ဌာနတို့တွင် ပြည်သူ့ ကျန်းမာရေး ဝန်ထမ်းများက ကြည့်ရှုစစ်ဆေးပေးရသည်။

နွားနို့ကို ညှစ်ပြီးလျှင် ပြီးခြင်း၊ ဖာရင်ဟိုက် ဒီဂရီ ၆၀ ရောက်အောင် အအေးခံရသည်။ သို့မှသာလျှင် နို့အေးထဲတွင် ရောဂါပိုးများ မပေါက်ပွားနိုင်ရှိချေမည်။

## နွားနို့ထုတ်လုပ်ခြင်း

နွားနို့ ထုတ်လုပ် ဖြန့်ချိရေးလုပ်ငန်းသည် အရေးပါသော လုပ်ငန်းတရပ် ဖြစ်သည်။ နွားမမှ နို့သည်များ ညှစ်ယူရောင်းချသော နို့စိမ်းသည် အလွန်တရာ သန့်သန့်ရှင်းရှင်း လုပ်ဆောင်ခြင်းမရှိခဲ့ပါလျှင်၊ ကျန်းမာရေးအတွက် စိတ်မချရချေ။ ထိုနို့စိမ်း၌ ရောဂါပိုးများ မပါမရှိပါဟု အာမခံရန် ခဲယဉ်းသည်။ သို့ရာတွင် အစိုးရခန့်အပ်သောတိရစ္ဆာန်ဆရာဝန်နှင့် ပြည်သူ့ ကျန်းမာရေး အမှုထမ်းတို့က ကြီးကြပ်၍၊ နို့စားနွားမမွေးမြူကာ၊ ကျန်းမာရေးစည်းကမ်းဖြင့် နို့စိမ်း ထုတ်လုပ်သည် ဖြစ်ပါမူကား၊ ကျန်းမာရေး အတွက် စိတ်ချနိုင်ပေသည်။ ယခုခေတ် စက်မှု လက်မှု ထွန်းကားသော နိုင်ငံတို့၌ကား နွားနို့ကို လက်ဖြင့် မညှစ်ဘဲ၊ စက်ဖြင့်ညှစ်သည်။ နွားနို့ညှစ်သောရုံ၌ နို့ညှစ်စက်ကရိယာနှင့် နို့စားနွားမများကို အထူးသန့်ရှင်းစင်ကြယ်စွာ ထားရသည်။

သို့ရာတွင် အထက်ပါ နို့စိမ်းရိုးရိုးတို့ထက် ပါးစတားဏ်နည်းအရ ရောဂါပိုးသတ်ပြီး နို့စိမ်းသည် ပို၍ စိတ်ချရသည်။ ပါးစတားဏ်နည်းမှာ နွားနို့စိမ်းကို ဖာရင်ဟိုက် ၁၄၃ ဒီဂရီ မှ ၁၄၅ ဒီဂရီအထိ နာရီဝက်ခန့် ကျို၍၊ ရုတ်တရက်အေးအောင် ပြုသောနည်း၊ ၁၅ စက္ကန့်အတွင်း ဖာရင်ဟိုက် ၁၆၀ ဒီဂရီရှိအောင် မီးပြင်းတိုက်၍၊ ရုတ်တရက်အေးအောင်ပြုသောနည်းဟူ၍ နှစ်နည်းရှိသည်။ ထိုနည်းနှစ်နည်းစလုံးပင် နွားနို့စိမ်းတွင် ပါသော ဗက်တီးရီးယား ပိုးတို့ကို ပျက်စီးစေသည်။ ဤနည်းဖြင့် လုပ်ခြင်းကြောင့်၊ နို့သည် အချဉ်မပေါက်နိုင်ချေ။ထိုနည်းကို ပါးစတားရိုက်ဇေးရှင်းဟုခေါ်သည်။ (ပါးစတားရိုက်ဇေးရှင်း — ရှု။)

နို့စိမ်းကို ပြုပြင်သော အခြားတနည်းမှာ ဟိုမိုဂျင်နိုက်ဇေးရှင်းခေါ် အဆီကို သမအောင်လုပ်သော နည်းဖြစ်သည်။ နို့ရည်တွင် အဆီဥကလေးများ ပါဝင်သည်ကို ပြဆိုခဲ့ပြီ။ နွားနို့ကို အစိမ်းအတိုင်း ခပ်ကြာကြာထားပါက၊ ထိုအဆီဥတို့သည် နို့ရည် မျက်နှာပြင်ပေါ် သို့တက်လာပြီးလျှင်၊ မလိုင်နှစ် ဖြစ်လာတတ်သည်။ ထိုအဆီဥတို့ကို နို့ရည်တွင်



လူတို့ ကျန်းမာဖွံ့ဖြိုးမှုအတွက် စားသုံးရန် နွားနို့မှ ထွက်ကုန်တခု ဖြစ်သော ဒိန်ခဲများ

သမအောင်ပြုလုပ်ပေးရသည်။ ထိုသို့ပြုလုပ်ရန်အတွက်နို့ရည်ကိုစတုရန်းတလက်မလျှင် ပေါင် ၂၀၀၀ မှ ၃၀၀၀အထိရှိသော ဖိအားဖြင့်ဖိ၍၊ အဆိုရှင်ပါသော ပြွန်ထဲသို့ မှုတ်သွင်းရသည်။ ထိုအခါအဆီဥတို့သည် အလွန်တရာ သေးငယ်သောဆီကြည်ဥများ ဖြစ်သွားပြီးလျှင်၊ နို့ရည်ထဲတွင် သမလျက်တည်ရှိလာကြသည်။ ပါးစတားနည်းအရ ပိုးသတ်ပြီး နို့စိမ်းကိုသာလျှင် ထိုကဲ့သို့ အဆီဥ သမအောင် ပြုပြင်ပေးလေ့ရှိသည်။

အခြား ပြုပြင်နည်း တနည်းမှာ နို့ရေထဲတွင် ဗီတာမင်ဒီဓာတ် သွင်းပေးသောနည်းဖြစ်၏။ နွားနို့တွင် ဗီတာမင် ဒီကြွယ်ဝအောင်ပြုလုပ်နည်းတို့မှာ (၁) ဗီတာမင်ဒီဓာတ်ကြွယ်ဝသော တဆေးကို နို့စားနွားမအား ကျွေးခြင်း၊ (၂) နွားနို့ထဲသို့ ဗီတာမင်ဒီကို တိုက်ရိုက်ထည့်ပေးခြင်း၊ (၃) နွားနို့ကို ခရမ်းဘေးရောင်ခြည်ဖြင့် ပြခြင်းဟူ၍ နည်းသုံးမျိုးရှိသည်။ ခရမ်းဘေးရောင်ခြည်ဖြင့် ဗီတာမင် ဒီဓာတ် သွင်းပေးသောနည်းကို အိရာဒီယေးရှင်းဟု ခေါ်သည်။

### နို့ဆီလုပ်ငန်း

နွားနို့ကို နို့ဆီဖြစ်အောင် လုပ်သည်ဆိုသည်မှာ နွားနို့တွင်ပါသောရေကို ထုတ်ဖယ်ရန် ကျိုချက်ခြင်းပင် ဖြစ်၏။ ဤသို့ရေခန်းအောင် နို့ကိုကျိုရာ၌ နို့နှင့်ရေတို့ ပါဝင်သောနှုန်းကိုလိုက်၍၊ နို့ဆီအမျိုးမျိုး ရှိလေသည်။ သာမန် အရပ်ခေါ် နို့စိမ်းဗူးဟူသည်မှာ နွားနို့ တပုလင်းကို ပုလင်းဝက်ခန့် ကျန်ရှိအောင် ကျိုချက်၍၊ လေလုံသော သံစည်ဗူးတွင်ထည့်သွင်းထားသော နို့ဖြစ်လေသည်။ ထိုနို့စိမ်းဗူး နို့များတွင် အဆီ ၇.၈ ရာခိုင်နှုန်း ပါဝင်ရ၍၊ အခြားနို့နှင့် ဆိုင်သောအစိုင်အခဲတို့မှာ ၂၅.၅ ရာခိုင်နှုန်း ပါဝင်ရသည်။

နို့ဆီမှာ သကြားနှင့် နွားနို့ကိုရော၍၊ နို့စိမ်းဗူးမှရသော နို့ထက်ပို၍ ရေခန်းအောင်ကျိုချက်ထားသော နို့ဖြစ်သည်။ သကြားမှာ ကြံမှရသော သကြားဖြစ်သည်။ နို့ဆီထဲ၌ သကြားသည် ၄၀-၄၂ ရာခိုင်နှုန်းမျှပါဝင်သည်။ နို့ဆီထဲတွင် အဆီ ၈ ရာခိုင်နှုန်းနှင့် နို့နှင့်ဆိုင်ရာ အစိုင်အခဲ ၂၈ ရာခိုင်နှုန်းပါဝင်ရသည်။ သကြား မပါဘဲ ကျိုချက်သော နို့ဆီဟူ၍လည်း ရှိသေးသည်။

နို့မှုန့်မှာ နွားနို့တွင်ပါဝင်နေသော ရေကို အကုန်အစင် ခန်းခြောက်အောင် ကျိုချက်ထားသော နို့အခြောက်ဖြစ်သည်။ နို့မှုန့်၌ အဆီ ၂၆ ရာခိုင်နှုန်းပါ၍၊အစိုဓာတ်မှာ ၅ ရာခိုင်နှုန်းမျှသာ ရှိသည်။ နွားနို့ကို မုယောပင်ပေါက် အမှုန့်ရော၍ နို့မှုန့်ပြုလုပ်သည်လည်း ရှိသည်။

### အစိုးရစီမံကိန်း

မြန်မာ နိုင်ငံတော် အစိုးရ၏ ပြည်တော်သာ စီမံကိန်းတွင် အပါအဝင်ဖြစ်သော လယ်ယာလုပ်ငန်း တိုးတက်ရေး၊ ကျေးလက်ကြီးပွားရေးကော်ပိုရေးရှင်းသည်နို့စားနွားမမွေးမြူရေး စီမံကိန်းတရပ်ကို လုပ်ဆောင်လျက်ရှိရာ၊ ယခုအခါ ကောင်းစွာ တမြောက် အောင်မြင်လျက်ရှိသည်။ ပါကစ္စတန်မှ နွားသိုး ၂၂ ကောင်နှင့် နို့စားနွားမ ၁၀၀ ကို အစိုးရက ဝယ်ယူပြီးလျှင်၊ ၁၉၅၂-၅၃ ခုနှစ်တွင် ရန်ကုန်ပြည်လမ်း ၉ မိုင်၊ နို့စားနွားမခြံကို တည်ထောင်ခဲ့သည်။ ၁၉၅၃-၅၄ ခုနှစ်တွင် ဒုတိယအကြိမ် ပါကစ္စတန်မှ နို့စားနွားမကောင်ရေ ၁၅၀ ကို ထပ်မံဝယ်ယူပြီးလျှင်၊ လှော်ကားတွင် နွားမခြံတခုကို တိုးချဲ့တည်ထောင်ခဲ့သည်။ ထိုနွားမခြံနှစ်ခြံမှ ရသော နွားနို့ထွက်အင်အားမှာ ၁၉၅၆-၅၇ ခုနှစ် အခြေအနေအရ တလလျှင် ပေါင်ချိန် ၆၀,၀၀၀ ကျော်မျှ ရှိသည်။ ၉ မိုင်တွင် နို့ချက်စက်ရုံတခု ဆောက်လုပ်ပြီး ဖြစ်၍၊ မလိုင် အပြည့်ပါသော ပိုးသတ်ပြီးနွားနို့ကို ရန်ကုန်မြို့တွင်း၌ တပုလင်းလျှင် ပြား ၅၀ ကျဖြင့် ရောင်းချလျက်ရှိသည်။ ထိုနို့ချက် စက်ရုံ၏ ထုတ်လုပ်မှု အင်အားမှာ တနေ့လျှင် ပုလင်းပေါင်း ၃၀,၀၀၀ ဖြစ်သည်။

**နွယ်ချို။** ။နွယ်ချိုပင်သည် နှစ်ကြာခံပင်မျိုးဖြစ်၍၊ ရုက္ခဗေဒ အလိုအားဖြင့် 'ဖာဗေးစီအီး'မျိုးရင်းတွင် ပါဝင်သည်။ နွယ်ချိုပင် မျိုးပေါင်း ၁၂ မျိုးခန့် ရှိသည့်အနက်၊ ရုက္ခဗေဒအလိုအားဖြင့် 'ဂလစ်စီရိုင်ဇာဂလက်ဗရား' ဟု ခေါ်သော နွယ်ချိုပင် တမျိုးသည် လူသုံးအများဆုံး ဖြစ်လေသည်။ မြန်မာတို့က ထိုနွယ်ချိုမျိုးကို သဘော်နွယ်ချိုဟူ၍ ခေါ်သည်။ 'ဂလစ်စီရိုင်ဇာလပီဒိုးတာ' ဟုခေါ်သော နွယ်ချိုရိုင်း တမျိုးလည်း ရှိသေးသည်။

နွယ်ချိုပင်များသည် ဥရောပတိုက် တောင်ပိုင်းနှင့် အာရှတိုက် အနောက်ပိုင်း ဒေသတို့တွင် မူလ ပေါက်ရောက်ကြသည်။နွယ်ချိုပင်သည် သစ်နုပင်မျိုးဖြစ်၍၊ ရှည်လျားသော အမြစ်များ ရှိသည်။ ယင်းတို့ကို စပိန်နိုင်ငံ၊ ဣတလီနိုင်ငံ၊ ရုရှနိုင်ငံနှင့် အခြား ကမ္ဘာဟောင်း တိုင်းပြည် အများတွင် စိုက်ပျိုးကြသည်။ ထိုအပင်များကို စိုက်ပျိုးရာ၌ အမြစ်ကို ဖြတ်ယူကာ၊တပင်နှင့်တပင် ၃ ပေခန့်ခွာ၍စိုက်ပျိုးကြသည်။ စိုက်ပျိုးပြီးနောက် ၃-၄ နှစ်ကြာမှ၊ အမြစ်ကို တူးဖော်ယူလေ့ ရှိကြသည်။ နွယ်ချိုကို သိမ်းယူရာ၌ အပင်များကို ထယ်ဖြင့် ထိုးပြီးမှ အမြစ်ကို နုတ်ယူကြသည်။ နုတ်ပြီးသော အမြစ်ကို ထပ်စိုက်ပျိုးရန် မလိုပေ။ အဘယ်ကြောင့် ဆိုသော် မြေကြီးထဲတွင် ပြတ်ကျန်ရစ်ခဲ့သော အမြစ်မှ အပင်ထပ်ပေါက်လာနိုင်သောကြောင့် ဖြစ်သည်။

နွယ်ချိုမြစ်များကို ဖြတ်တောက် နေလှန်း၍၊ ထိုအတိုင်းလည်း ရောင်းချကြသည်။ သို့မဟုတ် အမြစ်များကို ထုထောင်း၍ ရေနှင့် ပြုတ်ပစ်ပြီးလျှင်၊ အနှစ်ကို ထုတ်ယူ၍လည်း ရောင်းချကြသည်။ အမြစ်ကို ပြုတ်ပစ်လိုက်သော

အခါ၊ နွယ်ချိုရည် ထွက်လာသည်။ ထိုအရည်ကို အငွေ့ ပျံ့စေ၍၊ နွယ်ချိုနှစ်ကို ထုတ်ယူသည်။ နွယ်ချိုနှစ်သည် အေးသောအခါ ခဲသွား၍၊ အရောင်မည်းနက်လာသည်။ နွယ်ချိုမြစ်များကို ထိုအတိုင်းလည်း စားနိုင်ပေသည်။

မြန်မာဆေးဝါးများ ဖော်စပ်ရာတွင် နွယ်ချိုကို အမှုန့်ထောင်း၍ အသုံးပြုကြသည်။ ထိုပြင် နွယ်ချိုကို ကွမ်းယာနှင့်လည်း ရော၍ စားတတ်ကြသည်။ အထူးအားဖြင့် နွယ်ချိုကို အနံ့ဆိုးသော ဆေးဝါးများနှင့် သကြားလုံး၊ အဖျော်ယမကာများကို အနံ့ အရသာ ကောင်းစေရန်အတွက် အသုံးပြုလေ့ ရှိကြသည်။

နှလုံး။ ။နှလုံးသည် ကိုယ်ခန္ဓာ အနှံ့ အပြားရှိ အင်္ဂါအစိတ်အပိုင်း အရပ်ရပ်သို့ သွေးများ ပျံ့နှံ့ စေရန် ပန်းထုတ်ပေးသော အင်္ဂါတခုဖြစ်၏။ အရွယ်အားဖြင့် လူတို့၏ လက်သီးဆုပ်ခန့် ရှိ၏။ အပေါ်ပိုင်း ကြီး၍ အဖျားချွန်းယောင်ယောင်ရှိ၏။ အဖျား ကောက်ယောင်ယောင်လည်း ရှိ၏။ ပုံသဏ္ဌာန်မှာ သစ်သော့သီးပုံသဏ္ဌာန် ဖြစ်၏။ အောက်ပိုင်းလက်ဝဲဖက်ဖျားတွင် ချွန်းနေပြီးလျှင်၊ လက်ဝဲဖက်သို့အနည်းငယ် စောင်းနေသည်။ ယင်းသို့ ချွန်း၍နေသော နှလုံးပိုင်းသည် ရင်ခေါင်း၏ လက်ဝဲဖက်သို့ စွန်းထွက် နေရကား၊ နှလုံးခုန်သည်ကို ရင်၏ လက်ဝဲဖက်နေရာ၌ စမ်းသပ်၍ တွေ့ရှိနိုင်သည်။ ထိုကြောင့် အချို့လူများက ရင်ပတ်၏ လက်ဝဲဖက်တွင် နှလုံးရှိသည်ဟု ထင်မှတ် မှားကြလေသည်။ အမှန်အားဖြင့် နှလုံး၏ ၃ ပုံ ၂ ပုံသာ လက်ဝဲဖက်တွင် ရှိပြီးလျှင်၊ ကျန်တပုံကား လက်ျာဖက်တွင် တည်ရှိ၏။ နှလုံး၏ အညွှာသည် ရင်ပတ်အလယ်တည့်တည့်တွင် ရှိလေသည်။ ပမာဏအားဖြင့် သာမန်ယောကျ်ား သို့မဟုတ် မိန်းမတယောက်၏ နှလုံးသည် အရှည် ၅ လက်မ၊ အကျယ် ၃ လက်မခွဲနှင့် ရှေ့မှနောက်အထု နှစ်လက်မခွဲရှိ၏။ အလေးချိန်မှာ ၁၅ ကျပ်သားမှ ၁၉ ကျပ်သား (၉ အောင်စမှ ၁၁ အောင်စ) အထိ ရှိသည်။ နှလုံး၏ကြွက်သားများ ရှုံ့ ချည် ကားချည် ပြုလုပ်ခြင်းဖြင့်၊ နှလုံးမှသွေးများ ပန်းထွက်လာသည်။ ထိုကြောင့် နှလုံးတခုလုံးတွင် ကြွက်သားသည် အရေးအကြီးဆုံး ဖြစ်၏။ (ကြွက်သား — လည်းရှု။)

ကျွန်ုပ်တို့၏ ရင်ပတ်ကို စမ်းသပ်ကြည့်က နှလုံး အမြဲခုန်နေသည်ကို တွေ့ရမည်။ စင်စစ် နှလုံးသည် ရှုံ့ ခြင်း ပွခြင်း အလုပ် နှစ်ခုကို မပြတ်လုပ်သည် မဟုတ်၊ နှလုံးကို ရှုံ့ ခြင်းသာလျှင် သူ၏ မူလ အလုပ်ဖြစ်သည်။ ရှုံ့ ပြီးနောက် ပြန်၍ ပွလာခြင်းမှာ အလိုအလျောက် ဖြစ်လာသော နောက်ဆက်တွဲ အလုပ် ဖြစ်၏။ နောက်တကြိမ် မရှုံ့ မီ၊ နှလုံးသည် အချိန်အနည်းငယ်ခန့် အနား ယူ၏။ ယင်းသို့ အနား ယူပြီးမှ နှလုံးသား ကား၍ပွလာသည်။ ယင်းသို့ နားခွင့်ရသော အချိန်မှာ တနေ့လျှင် ၁၅ နာရီခန့်ရှိ၏။ ထိုကြောင့် တနေ့လုံးအဖို့ နှလုံး၏ စုစုပေါင်း အလုပ် လုပ်ချိန်မှာ ၉ နာရီသာ ရှိလေသည်။ နှလုံးသည် တနေ့လျှင် နာရီပေါင်း များစွာ အနားယူပုံမှာ အထူးပင် အံ့ဩဖွယ် ဖြစ်၏။

နှလုံးမှ ပန်းထုတ်လိုက်သော သွေးသည် တကြိမ်လျှင် အချိန် ၁၀ ကျပ်သားခန့်ရှိ၍ တနေ့လုံး အတွက် အကြိမ်ပေါင်း တသိန်းကျော်ခန့် ပန်းထုတ်ရာ၌ သွေး၏ အလေးချိန်မှာ ပိဿာတသောင်းခန့် ရှိလေသည်။ နှလုံးမှ ယင်းကဲ့သို့ ပန်းထုတ် လိုက်သော သွေးသည် ကိုယ်ခန္ဓာ အနှံ့အပြား လှည့်ပတ်သွားလာ၍ တကိုယ်လုံးသို့ အောက်ဆီဂျင်ကို ဖြန့်ဖြူးပေး၏။ ထိုနောက် မကောင်းသော အညစ် အကြေးတို့ကို ပြန်ယူလာပြီးလျှင် သွေးပြန်ကြောမှ တဆင့် နှလုံးတွင်းသို့ ရောက်၏။ ဤသွေးသည် နှလုံးမှ အဆုတ်သို့ သွေးလွှတ်ကြောမကြီး တလျှောက် စီးသွားပြီးလျှင်၊ ရှူသွင်းလိုက်သော လေမှ အောက်ဆီဂျင်နှင့် ပေါင်းစပ်သည်။ ထိုအခါ သွေးသစ်သွေးကောင်း ပြန်ဖြစ်လာ၍၊ နှလုံးသို့ ပြန်ဝင်လာသည်။ နှလုံးမှ တဖန် သွေးသည် ကိုယ်ခန္ဓာ အနှံ့ အပြားသို့ လှည့်ပတ်သွားပြန်သည်။ နှလုံးမှ ကိုယ်ခန္ဓာ အရပ်ရပ်တို့သို့ သွေးပျံ့နှံ့ပြီးသော်၊ နှလုံးသို့ပင် ပြန်ဝင်လာသော အချိန်သည် တမိနစ်မျှသာ ကြာလေသည်။ (သွေး — ရှု။)

နှလုံးသားသည် အထပ် သုံးထပ် ဖြင့် ပြီး၏။ အပြင်မှ အထပ်တထပ်၊ အလယ်မှ အလွန်သန်မာသော ကြွက်သားမျှင် တထပ်နှင့် အတွင်းဆုံးမှ အလွန် ပါးလွှာ နူးညံ့သော အထပ်တထပ် ဟူ၍ သုံးထပ်ရှိ၏။ အလယ်ထပ်သည် အလွန်သန်မာ၍ နှလုံးတခုလုံးကို အုပ်ထိန်းသော အထပ်ဖြစ်လေသည်။ ကိုယ်ခန္ဓာ တခုလုံးရှိ ကြွက်သားများထဲတွင် အလုပ်လုပ်ဆုံးသော ကြွက်သားထပ် ဖြစ်၏။ ခန္ဓာနှင့် အသက်တည်စ အချိန်မှ အစ ပြု၍၊ ခန္ဓာပျက်သည့် အချိန်အထိ၊ အလုပ် လုပ်နေရ၏။ အတွင်းဆုံး အထပ်ကား နှလုံး၏ အတွင်းထပ်သဖွယ်ရင်း၊ နှလုံးတွင်းရှိ အခန်းများ၏ တံခါးပေါက်သဖွယ်ရင်း တည်၏။ နှလုံးသွေးကြောမျှင်များသည် အလွန်သေးငယ်သော အပ်ကလေးဖြင့် ခွဲဖယ်၍ မရနိုင်လောက်အောင်ပင် ကွန်ရက်သဏ္ဌာန် ယှက်သန်း ပူးကပ်၍နေကြ၏။

နှလုံးတွင် အလယ်မှ အကာအရံတခုသည် အထက်အောက်တန်းနေ၍၊ လက်ဝဲခန်းနှင့် လက်ျာခန်းဟူ၍ နှစ်ခန်းကွဲလျက် ရှိသည်။ တဖန် ဤအခန်းများကို ကန့်လန့် ဖြတ်အကာတခု အထက်အောက် အခန်းများခွဲ၍ ထားသေးသည်။ အထက်ဖက်ရှိ လက်ျာနှင့် လက်ဝဲအခန်း နှစ်ခန်းကို ဩရစ်ကယ်ဟု ခေါ်၍၊ ကျန်အောက်ခန်း နှစ်ခန်းကိုမူကား ဗင်တြစ်ကယ်ဟုခေါ်သည်။ ဗင်တြစ်ကယ်သည် သွေးများကို ကိုယ်ခန္ဓာ အနှံ့အပြား ပန်းထုတ်ရသဖြင့် အလုပ်ပို၍ လုပ်ရ၏။ အကာများတွင် အခင်များ ရှိ၏။ လက်ျာဖက်ရှိ

အထက်ခန်းမှ အောက်ခန်းသို့ သွေးများ စီးဝင်ရာအခင်တွင် အထပ်သုံးထပ် ရှိသဖြင့်၊ ယင်းကို ထရိုင်ကပ်စပစ် အခင်ဟု ခေါ်၏။ လက်ဝဲဘက် အထက်နှင့် အောက်ခန်းကြားရှိ အခင်တွင် အထပ်နှစ်ထပ်ရှိသဖြင့်၊ ယင်းကို မိုင်ထရယ် အခင်ဟု ခေါ်သည်။ ထရိုင်ကပ်စပစ် အခင်သည် ဩရစ်ကယ်မှသွေးကို ဗင်တြစ်ကယ်ထဲသို့ စီးဝင်နိုင်အောင် ပြုလုပ်ပေးသည်။ သို့သော် ဗင်တြစ်ကယ်တွင် ပြည့်သွားသော အခါ၊ အခင်မှာ အလိုအလျောက် ပိတ်သွား၍၊ သွေးမှာ ဩရစ်ကယ်ထဲသို့ နောက်ပြန်စီးမဝင်နိုင်တော့ပေ။ ဗင်တြစ်ကယ် အခန်း နှစ်ခန်းမှ သွေးလွှတ်ကြောသို့ ဝင်သည့် အခင်တွင်လည်း၊ အထပ်သုံးထပ်ရှိ၍၊ ထိုအခင်ကို လခြမ်းပုံ အခင်ဟုခေါ်သည်။ ထိုအခင်များသည် သူ့အလိုအလျောက် ဖွင့်ချည်ပိတ်ချည် ဖြစ်နေတတ်ပြီးလျှင်၊ သွေးသည်လည်း ထိုအခင်များကိုဖြတ်သန်းသွားလျက် ရှိသည်။ ယင်းသို့ အခင်များ ပိတ်လိုက်ဖွင့်လိုက် ဖြစ်၍ သွေးတိုးနေပုံကို နားကျပ်ဖြင့် နားထောင်က သိနိုင်၏။

တကိုယ်လုံးနှင့် ဆိုင်သော သွေးကြောများတွင် သွေးကောင်း သွေးသန့်စီးသည့် အကြောကို သွေးလွှတ်ကြောဟု ခေါ်၍၊ သွေးညစ် သွေးဟောင်း သွားသော အကြောကို သွေးပြန်ကြောဟု ခေါ်သည်။ သို့ရာတွင် နှလုံးမှ အဆုတ်သို့ စီးထွက်သော အကြောနှင့် နှလုံးတွင်းသို့ အဆုတ်မှ စီးဝင်သောအကြောတို့တွင်မူကား၊ သွေးညစ်သွေးဟောင်းသည် သွေးလွှတ်ကြောဖြင့် သွား၍ သွေးသန့် သွေးကောင်းသည် သွေးပြန်ကြောဖြင့် သွားလေသည်။

အဆုတ်မှ သက်ဆင်းလာသော သွေးပြန်ကြောကြီးသည် သွေးသန့် သွေးကောင်းများကို ယူဆောင်လာပြီးနောက်၊ လက်ဝဲဖက် ဩရစ်ကယ်ထဲသို့ ဝင်သွား၏။ ထိုမှတဖန် လက်ဝဲဖက် အောက်နှလုံးခန်း ဖြစ်သည့် ဗင်တြစ်ကယ်သို့ အခန်းနှစ်ခုကြားရှိ မိုင်ထရယ်အခင်ဖြင့် ဝင်သည်။ ထိုဗင်တြစ်ကယ်မှ တဖန် လခြမ်းပုံ အခင်ဖြင့် ဧဩတခေါ် သွေးကြောမထဲသို့ ထွက်သွား၏။ ထိုသွေးကြောမမှ ဖြာထွက်နေသော သွေးကြောများဖြင့် ခန္ဓာကိုယ် အနှံ့ အပြားသို့ သွေးများ ရောက်သွားလေသည်။ လက်ဝဲဖက် ဗင်တြစ်ကယ်သည် သွေးသန့် သွေးကောင်းများကို ခန္ဓာကိုယ်ရှိ အလွန်ဝေးကွာသော အစိတ်အပိုင်း များအထိ ရောက်အောင် ပန်းထုတ်ရသောကြောင့် ဗင်တြစ်ကယ် အခန်း၏ နံရံများ ဖြစ်သော ကြွက်သားသည် ခတ်ပြင်းပြင်း ပန်းထုတ်နိုင်လောက်သည့်အား ရှိကြသည်။ လက်ဝဲဖက် ဗင်တြစ်ကယ်၏ နံရံကြွက်သားသည် လက်ျာဖက် ဗင်တြစ်ကယ်၏ နံရံ ကြွက်သားထက် ၃ ဆမျှ ထူထဲတောင့်တင်း၍ ဩရစ်ကယ် နံရံတို့ထက်အား ထိုထက်ပင် ပို၍ ထူထဲသေးသည်။

သွေးလွှတ်ကြောမထဲသို့ ပန်းထုတ်လိုက်သော သွေးများသည် သွေးလွှတ်ကြောငယ်များမှ တဆင့် သွေးကြောမျှင်များအားဖြင့် ကိုယ်ခန္ဓာအနှံ့ အပြားသို့ ရောက်ရှိသွား၍၊ အောက်ဆီဂျင်ဓာတ်ကို ဖြန့်ဖြူး ပေးလေသည်။ ဤသို့ဖြန့်ဖြူးပေးရာတွင် သွေးသည် ကိုယ်ခန္ဓာ အနှံ့ အပြားမှ အညစ် အကြေးတို့ကိုဆောင်ယူ၍ သွေးပြန်ကြောကြီးအားဖြင့်၊ နှလုံး၏လက်ျာဖက်အထက်အခန်းဖြစ်သော ဩရစ်ကယ်ထဲသို့ ဝင်သည်။ ဩရစ်ကယ်မှ အထပ်သုံးထပ်ရှိသော ထရိုင်ကပ်စပစ် အခင်ဖြင့် လက်ျာဖက် အောက်ပိုင်း သွေးခန်း ဖြစ်သော ဗင်တြစ်ကယ်အတွင်းသို့ဝင်သည်။ ထိုနောက်လခြမ်းပုံအခင်ဖြင့် သွေးညစ်သွေးဟောင်းများသည် သွေးလွှတ်ကြောမကြီးထဲသို့ ရောက်သွားသည်။ ထိုသွေးလွှတ်ကြောမကြီးသည် သွေးများကို အဆုတ်သို့ ယူဆောင်သွား၏။ အဆုတ်အတွင်းသို့ ရောက်သောအခါ ရှူရှိုက်၍ သွင်းလိုက်သော အောက်ဆီဂျင်နှင့် သွားရောက် တွေ့ဆုံသဖြင့်၊ သွေးညစ်သွေးဟောင်းများသည် သန့်ရှင်းစင်ကြယ်ကာ သွေးသစ် သွေးကောင်းများအဖြစ် ပြောင်းလဲ သွား၏။ ယင်းသို့ သန့်ရှင်းသော သွေးအဖြစ်သို့ ရောက်မှ ပါလမိုနရီ သွေးပြန်ကြောမကြီးက နှလုံး၏ လက်ဝဲဖက် ဩရစ်ကယ်သို့ ယူဆောင် သွားလေသည်။ ဤနည်းအတိုင်း သွေးသည် နှလုံးမှတဆင့်ကိုယ်ခန္ဓာ အစိတ် အပိုင်း အရပ်ရပ်တို့သို့ လှည့်ပတ်၍ သွားလာနေလေသည်။

နှလုံး လှုပ်ရှားခြင်းကို ဆင်ပါသက်တစ်နဗ်နှင့် ဗေးဂပ်နဗ်ခေါ် နာဗ်ကြောကြီး နှစ်ကြောက ထိန်းထား၏။ ပဌမ နာဗ်ကြောကြီးက နှလုံးကို မြန်မြန်ခုန်စေ၍၊ ဒုတိယ နာဗ်ကြောက နှေးနှေးခုန်စေ၏။ ယင်းသို့ တဖက်တပြန် ထိန်းထားမှုကြောင့်၊ နှလုံးခုန်ခြင်းမှာ အနေတော်ဖြစ်၍ နေလေသည်။

သာမန်ကလေးများ၏ နှလုံးသည် တမိနစ်လျှင် အကြိမ် ၁၂၀ မျှ ခုန်၍၊ လူကြီးများ၏ နှလုံးမှာမူကား၊ တမိနစ်လျှင် ၇၂ ကြိမ်မျှ ခုန်သည်။ ယုန်ကဲ့သို့ သေးငယ်သော တိရစ္ဆာန်တို့၏ နှလုံးသည် ကလေး၏ နှလုံးကဲ့သို့ လျှင်မြန်စွာ ခုန်၏။ အလွန် သေးငယ်လွန်းသော အချို့ တိရစ္ဆာန်များမှ အပ၊ ကျန် သတ္တဝါတို့၌ နှလုံးရှိသည်ချည်း ဖြစ်၏။ တီကောင်၌ ပင်လျှင်ကြွက်သားနံရံနှင့် ပြွန်တံကဲ့သို့ သေးငယ်သောနှလုံး ရှိ၏။ ငါးများ၌ အခန်း ၂ ခန်းရှိသော နှလုံး ရှိပြီးလျှင် ကြီးမားသော တိရစ္ဆာန်နှင့် လူတို့၌ အခန်း ၄ ခန်းရှိသော နှလုံး ရှိလေသည်။

ကျွန်ုပ်တို့ အိပ်စက်လဲလျောင်းနေစဉ် နှလုံးသည် အလွန်ညင်သာစွာ ခုန်၏။ မတ်ရပ် ထသည့် အခါ၌ ထိုင်နေသည့် အခါထက် ပို၍ လျှင်မြန်စွာ ခုန်လေသည်။ အိပ်နေစဉ်တွင် နှလုံးသွေးကြောတို့သည် အနားရကြ၏။ အိပ်ရာမှရုတ်ခြည်း ထသည့်အခါ၊ သွေးကြောတို့သည် ရုတ်တရက် ထကြွနိုး

ကြားလာရ၍ ဦးနှောက်သို့ သွေးချက်ခြင်း မရောက်နိုင် သဖြင့် ဦးခေါင်းလေးခြင်း ဖြစ်ကြရ၏။ အလုပ်ကို ဖြစ်စေ၊ ကျန်းမာရေး လေ့ကျင့်ခန်းကို ဖြစ်စေ ပြင်းထန်စွာ ပြုလုပ်ခြင်း၊သို့မဟုတ် ကြာရှည်စွာ ပြုလုပ်ခြင်းသည် နှလုံးကို အလွန်အကျူး အလုပ် လုပ်စေရာရောက်သဖြင့် နှလုံးရောဂါ ဖြစ်စေတတ်သည်။

**နှဲ့နှင့်ပြွေ။** ။တူရိယာ၌ နှစ်မျိုး နှစ်စား ရှိလေသည်။ ပဌမအမျိုးအစား၌ အတီးတူရိယာမျိုးနှင့် အမှုတ် တူရိယာမျိုးဟူ၍ နှစ်မျိုး ရှိသည်။ အတီးတူရိယာ ဆိုသည်မှာ လက်ဖြင့် ဖြစ်စေ၊ လက်ခတ် ကရိယာဖြင့် ဖြစ်စေ ရိုက်ပုတ်တီးခတ်ရသော တူရိယာမျိုးဖြစ်သည်။ အမှုတ်တူရိယာဆိုသည်မှာ ပါးစပ်၌တပ်၍ လေဖြင့် မှုတ်ရသော တူရိယာမျိုး ဖြစ်သည်။ ထိုကြောင့် တူရိယာပညာကို အတီးအမှုတ်ပညာဟူ၍လည်း ခေါ်ဆိုကြသည်။ ဒုတိယအမျိုးအစား၌ သံစုံတူရိယာနှင့် သံမစုံသော "ဒုန်း" ဟုခေါ်သည့် ဖြည့်စွက်တီးမှုတ်ရသော တူရိယာဟူ၍ နှစ်မျိုးပင် ရှိသည်။ သံစုံတူရိယာ ဆိုသည်မှာ စီကုံး ရေးသား၍ သီဆိုသော တေးသီချင်း၏ တေးသွားအလိုက် အတိုင်း တီးမှုတ်နိုင်သော တူရိယာမျိုးကို ဆိုသည်။ ပုံစံအားဖြင့် စောင်းကောက်၊ ပတ်ဝိုင်း၊ ကြေးဝိုင်း၊ မောင်းဆိုင်း၊ ပတ္တလား စသည်တို့သည် သံစုံအတီးတူရိယာများဖြစ်ကြ၍၊ နှဲ၊ ပြွေတို့သည် သံစုံအမှုတ်တူရိယာများ ဖြစ်ကြသည်။ သံမစုံ ဒုန်းတူရိယာဆိုသည်မှာ သီဆိုသော တေးသီချင်းအလိုက်အတိုင်းဖြစ်အောင် မတီးမမှုတ်နိုင်သော တူရိယာမျိုးကိုဆိုသည်။ ပုံစံအားဖြင့် စည်တော်၊ စည်တို၊ ပတ်မ၊ လင်းကွင်း၊ မောင်း စသည်တို့သည် သံမစုံဒုန်းအတီးတူရိယာများ ဖြစ်၍ တံပိုး၊ ခရာ၊ ခရုသင်း စသည်တို့သည် သံမစုံဒုန်းအမှုတ်တူရိယာများဖြစ်ကြသည်။ ဒုန်းတူရိယာတို့သည် တေးသီချင်း အလိုက်အတိုင်း ဖြစ်အောင် တီးမှုတ်နိုင်စွမ်း မရှိကြသော်လည်း သံစုံတူရိယာများကို ဖြည့်စွက်၍ တီးမှုတ်လိုက်သောအခါ "သာယာ လေးနက်၊ ဂုဏ်ဆယ်ချက်က၊ ဘာဝ ငါးမျိုး၊ ရသာ ကိုးဖြင့်" ဟု ဆိုသကဲ့သို့ အလိုရှိအပ်သော အရသာ၊သဘာဝ၊ ဂုဏ်တို့နှင့် ပြည့်စုံလေတော့သည်။ ဖော်ပြခဲ့သည့်အတိုင်း နှဲ့နှင့် ပြွေတို့သည် သံစုံအမှုတ်တူရိယာများ ဖြစ်ကြသည်။

နှဲ့သည် နှဲ့ကြီးနှင့် နှဲ့ကလေး ဟူ၍ ရှိ၏။ နှဲ့ကြီးများတွင် လက်နှိပ်ရန် ဖောက်လုပ်ထားသော အပေါက်ငယ် ခုနစ်ခုမှ ဖြစ်ပေါ်လာသောအသံ ခုနစ်ပါးကို မူတည်သံဟုခေါ်သည်။ ယင်းတို့မှာ တပေါက်သံ၊ နှစ်ပေါက်သံမှ စ၍ အစဉ် အတိုင်း ခုနစ်သံရှိ၏။ "ပေါင်းရုံးညှိုးညံ၊ ခုနစ်သံတွင်၊ အသံခုနစ်မျိုး၊ လေးဆယ့်ကိုး" ဟု ဆိုသကဲ့သို့ မူတည်သံ တပါးလျှင်၊ အသံခုနစ်မျိုးစီ ရှိပြန်သေး၏။ "အသံသာယာ၊ တူရိယာမှာ၊ ဦးစွာ



နှဲ့ဆရာကြီး ဦးဒီလုံး

ညှင်းလုံး၊ တနှုန်းအောက်ပြန်၊ တဖန် ပုလဲ၊ မြင်စိုင်းကွဲမူ၊ ဒူရကဒွေး၊ ခေါ်ရေးထို့နောက်၊ ခြောက်သွယ်အညွန့်၊ ကွန့်မြူးတဖန်၊ ပြည်တော်ပြန်ဟု၊ မှတ်ရန်အခြား၊ အသံ ခုနစ်ပါးကို၊ သိပြားလွယ်ကူစေသတည်း" ဟုဆို၏။ ထိုခုနစ်သံတို့သည် အထက်ဖော်ပြပါ မူတည်သံ ခုနစ်ပါးကဲ့သို့ သံစဉ်အတိုင်း မဟုတ်သေးချေ။ သံစဉ် အတိုင်း သိမှတ် လိုသော်၊ မူတည်သံ ခုနစ်ပါးကို စက်ဝိုင်း သဏ္ဌာန်ပြုလုပ်၍ နှစ်သက်ရာမည်သည့် အသံတပါးကို မဆို၊ ညှင်းလုံးဟု ရှေးဦးစွာ သတ်မှတ်ရသည်။ ယင်းကို သံမှန်ခေါ်၏။ ထိုနောက် လက်ျာဖက်သို့ ညှင်းလုံးမှစ၍ လေးခု ရေတွက်ပြီးလျှင်၊ စတုတ္ထအသံကို အောက်ပြန်ဟု ခေါ်၏။ ထိုနည်းအတိုင်း အောက်ပြန်မှ လက်ျာဖက်သို့ ဆက်၍ ရေတွက်ပြန်သော်၊ စတုတ္ထသံကို ပုလဲဟုခေါ်သည်။ထိုနည်းအတိုင်းရောက်ရာအသံမှ လေးလုံးစီတွဲ၍၊ စတုတ္ထသံတို့ကို သတ်မှတ်ရာ၊ မြင်စိုင်း၊ ဒူရကဒွေး၊ ခြောက်သွယ်ညွန့်၊ ပြည်တော်ပြန်ဟု သိမှတ်ရသည်။ နောက်ဆုံးပြည်တော်ပြန်မှ လေးခု ရေတွက်ပြန်သော်၊ ဦးစွာ အစဖြစ်သော ညှင်းလုံးသို့ပြန်၍ ဆက်မိလိမ့်မည်။အတီးတူရိယာများ၏ အသံတို့သည် အနိမ့်အမြင့် လျှော်ခါးထစ်ကဲ့သို့ အသံပြတ်အသံတိုများ ဖြစ်ကြ၏။ နှဲ့နှင့် ပြွေဘို့သည် ပတ်တလုံး နှဲ့တပေါက်အသံပြတ် မှုတ်နိုင်သည့်ပြင်၊ နိမ့်၍ ဖြစ်စေ၊ မြင့်၍ ဖြစ်စေ အသံမစဲဘဲ၊ ရှည်လျားစွာ တရွေ့ရွေ့ လင်းမြွေမြိုးကဲ့သို့၊ ကြားသံများပါ၊ အသံတခုမှ အခြား အသံတခုသို့ ကူးဆက် သွားအောင် မှုတ်နိုင်စွမ်းရှိ၏။ ပုံပမာ တရောထိုးသောအခါ၊ ကြိုးပေါ်မှလက်နှိပ်သော လက်ချောင်း ကလေးသည် တရွေ့ရွေ့ပွတ်ကာ၊ တသံမှ အခြား တသံသို့ ရောက်အောင်၊ အထစ် အငေါ့မရှိ အသံချောအောင် ပြုနိုင်သကဲ့

သို့ နှဲသည်လည်း ထိုအတူ မှတ်နိုင်၏။ ထိုကြောင့် "နှဲချော လျှင် တရေ" ဟု ဆိုကြ၏။ သံစုံ တူရိယာတို့တွင် နှဲ၊ ပြွေ၊ တရေတို့သည် အသံ အပြည့်အစုံဆုံး ဖြစ်ကြ၏။

မူတည်သံ ခုနစ်ပါးတို့ကို သတ်မှတ်ပုံမှာ၊ နှဲကြီးမှ ဖြစ်ပေါ်လာ၏။ နှဲပြွေတို့တွင် သံစဉ်အတွက် အပေါက်ငယ်ခုနစ်ပေါက်နှင့် အောက်ဖက်တွင် လက်မဖြင့် နှိပ်ရသော "သရ" ပေါက်ခေါ် အပေါက် တပေါက်ရှိ၏။ ထိုအပေါက် ရှစ်ပေါက်စလုံးကို ပိတ်၍ မှုတ်သဖြင့် မြည်သောအသံကို တပေါက်သံခေါ်သည်။ ထို့နောက် အောက်ဆုံးတပေါက် ဖွင့်လိုက်လျှင် ခုနစ်ပေါက်သံခေါ်သည်။ နှစ်ပေါက်ဖွင့်လျှင် ခြောက်ပေါက်သံ၊ သုံးပေါက် ဖွင့်လျှင် ငါးပေါက်သံ၊ လေးပေါက် ဖွင့်လျှင် လေးပေါက်သံ၊ ငါးပေါက်ဖွင့်လျှင် သုံးပေါက်သံ၊ ခြောက်ပေါက်ဖွင့်လျှင် နှစ်ပေါက်သံ၊ ခုနစ်ပေါက်ဖွင့်လျှင် တပေါက်သံဟု အသီးအသီး ခေါ်ဆိုနိုင်သည်။ ခုနစ်ပေါက်လုံး ဖွင့်သော အသံနှင့် အားလုံး ပိတ်သော အသံ၊ တပေါက် သံ အထက်အောက် အသံတူ နှစ်ခု ဖြစ်သည်။ တပေါက်သံဟု ခေါ်ခြင်းမှာ ခုနစ်ပေါက် ဖွင့်ထားသော်လည်း အောက်က သရပေါက်တပေါက်ကို ပိတ်ထားသဖြင့် တပေါက်သံခေါ်သည်။ အထက်က ခုနစ်ပေါက်အနက်၊ တပေါက်ကို ပိတ် (ခြောက်ပေါက်ဖွင့်) သော်၊ သရပေါက်ပါ နှစ်ပေါက် ပိတ်ထားသဖြင့် နှစ်ပေါက်သံခေါ်သည်။ ဤနည်းအတိုင်း ဆက်၍ တွက်ယူနိုင်သည်။ နှဲကြီး နှဲကလေး နှစ်မျိုးရှိကြရာ၊ အရွယ်အစား မတူကြသဖြင့် လက်ပေါက်သံချင်း မတူနိုင်ကြချေ။ ရှေးမြန်မာမင်းများ လက်ထက်မှ စ၍ ပဌမ ကမ္ဘာစစ်လောက်တိုင် နှဲကြီး၏ အားလုံးပိတ်သော တပေါက်သံမှန်သည် နှဲကလေး၏ သုံးပေါက် ပိတ်သံနှင့် တူညီခဲ့၏။ ရွှေတော်ပြေး အမျိုးသမီး အိုးစည်ဝိုင်းများ၌ အမျိုးသမီး နှဲသမားများပင် နှဲကလေး သုံးပေါက်ပိတ် သံမှန်ကို သုံးခဲ့ကြဘူးသည်။ ထို့နောက် သုံးပေါက်မှ လေးပေါက်သို့ ပြောင်းခဲ့သည်မှာ ယခုတိုင် ဖြစ်လေသည်။ သုံးပေါက်ပိတ်ခေတ်ကို နှဲကြီးဆရာဦးဇေယျာခေတ်ဟုခေါ်၍ လေးပေါက်ပိတ် ခေတ်ကို နှဲဆရာဦးဒီလုံးခေတ်ဟု ခေါ်သည်။

နှဲ၊ ပြွေတို့၏ပညာသည် လွန်စွာကျယ်ဝန်းလှ၏။ နှဲကြီး၊ နှဲကလေး၊ ပြွေကြီး၊ ပြွေကလေး တို့သည် တသဘောတည်းဟု ဆိုနိုင်၏။ ညွှစ်၍ မှုတ်သော်၊ အထက်သံ ခုနစ်မျိုး ထပ်မံတိုး၍ ရနိုင်သေးသည်။ မှုတ်သော လေ၏ အပြင်းအပျော့ကို လိုက်၍ငင်း၊ လက်ပေါက် သရပေါက်ကို ပြုပြင်ခြင်းဖြင့်ငင်း လိုရာအသံကို ဖြစ်စေနိုင်သော အသံရှည် တူရိယာမျိုးဖြစ်သည့် အလျောက်၊ အတီးတူရိယာတို့၏ တီးကွက်များကို ပိုမိုသာယာအောင် ဖန်တီး၍ ပေးရ၏။ အဆိုပညာရှင်တို့ မည်သည့် ရေးသားစီကုံးထားသော စာ၏အရသာ ပေါ်လွင်စေခြင်းငှါ စာကို ပီသအောင် ဆိုရသည့် အပြင်၊ အတီးတူရိယာ၏ တီးကွက်နှင့် အဝင်အထွက်မှန်၍ စည်းဒုန်းကိုက်အောင် ဆိုရသည်။ ထိုသို့ သီဆိုရာတွင် သံတို၊ သံရှည်၊ သံနိမ့်၊ သံမြင့်များ၌ နှဲပြွေတို့က အထက်သို့ ကြူသံ၊ အောက်မြေကျဟဲသံ၊ ဝဲသံနှင့် အတွဲ အနွဲ့အမဲ့ အလူး အလိမ့် အမြှု့ သံတို့ဖြင့် ဝေဆာအောင်လိမ်းကျံ၍ အဆိုပညာရှင်များကို ဖန်တီးကာ ပေးရသေး၏။ ရှေးအခါက နာမည်ကျော် နှဲဆရာကြီးအချို့တို့သည် သိအပ်သော နှဲသဘာဝပရိကံနှင့် ပြည့်စုံစေခြင်းငှါ အတီးအဆို ပညာများကို အနည်းနှင့်အများ လေ့လာကြရ၏။ ပတ္တလားအတီးနှင့် အဆိုကို သင်လေ့ ရှိကြ၏။ ဤသို့လျှင် အဆို အတီးနှင့် အမှုတ်တို့၏ ကွဲပြားခြားနားသော သဘာဝတို့ကို သဘောပေါက်၍ လေ့လာဖန် များခြင်းဖြင့်၊ နာမည်ကျော် နှဲဆရာကြီးများ ဖြစ်လာကြလေသည်။ ယိုးဒယား သီချင်းကြီးများ၌ ကြေးသွား နှဲသွားဟု ခွဲခြား၍၊ ရှေးပညာရှင်တို့ စီကုံး ရေးသားခဲ့ကြသည်ကို ထောက်ရှုရာ၏။

မြန်မာ မင်းများ လက်ထက်က ဆီးသား နှဲများသည် အန္တရာယ်ကင်း၍ အာခံတွင်းနှင့် အထူးသင့်လျော်သည်ဟု ပညာရှိတို့ မှတ်စွဲကာ အသုံး ပြုခဲ့ကြောင်း စာအကိုးအကားများရှိ၏။ ယခု အခါ၌မူ၊ ရှားသားများကို နှဲတံ ပြုလုပ်ကြသည်။ နှဲကြီး၏ အရှည်မှာ ၁၆ လက်မနှင့် စမတ် ရှိသည်။ နှဲလုံး အဝအကျယ်မှာ ၁ လက်မမှူးတင်းရှိ၍၊ နှဲလုံးထိပ်အကျယ်မှာ တမတ်ရှိသည်။ နှဲခုနစ်ပေါက်၏ ထိပ်ဆုံးအပေါက်နှင့် နှဲထိပ် ၄ လက်မကွာသည်။ လက်ပေါက်တခုနှင့် တခု တ



နေမျိုးဗလဟာသခေါင် ဘွဲ့ကို ပါတော်မူ သီပေါမင်းတရားက ခြီးမြှင့်ခြင်းခံရသော နှဲဆရာကြီး ဦးသာကြင်

လက်မနှင့် ၃ မူးကွာသည်။ အောက်ဆုံး အပေါက်နှင့် နဲ့အဖျားမှာ ၄ လက်မ ကွာသည်။ အောက်လက်မ (သရ) ပေါက်နှင့်နဲ့လုံးထိပ်အကွာမှာ ၄ လက်မခွဲ ရှိသည်။ နဲ့ကလေး၏ အရှည်မှာ ၁၁ လက်မ မူးတင်းရှိ၏။ နဲ့လုံး အဝအကျယ်မှာ ၆ မူး ရှိ၍၊ နဲ့လုံးထိပ်ဖျား အကျယ်မှာ ၃ ပဲ ရှိ၏။ လက်ပေါက် ခုနစ်ပေါက်၏ ထိပ်ဆုံး လက်ပေါက်မှ နဲ့ထိပ်သို့ ၂ လက်မနှင့် ၆ မူး ကွာသည်။ လက်ပေါက် တခုနှင့် တခု ၁ လက်မ ပဲတင်း ကွာ၏။ အောက်ဆုံး အပေါက်နှင့် နဲ့အဖျား ၂ လက်မ ၆ မူးပင် ရှိသည်။ အောက်လက်မ (သရ)ပေါက်နှင့် နဲ့လုံးထိပ် အကွာမှာ ၃ လက်မ တမူး ရှိလေသည်။ နဲ့တံ၏ ထိပ်၌ ဖောင်းရစ် ၂ ခု ရှိ၏။ နဲ့၏ ကရိယာများမှာ (၁) တပွတ်နှင့် အခင် (၂) ခားနှောခေါ် ပါးကွယ် (၃) တံကျင်ခေါ် ဆံဆိုးနှင့်(၄)နဲ့ခြေခေါ် ဂေါ်လန်တို့ ဖြစ်သည်။ သတ္တုဖြင့် လုပ်သော ပြွန်တံချောင်းကို တပွတ်ဟု ခေါ်သည်။ နဲ့ခင် လုပ်နည်းမှာ ထန်းဖူးထိပ်၏ အရွက်ငယ်များ ထန်းလက် မဖြစ်မီ၊ အနုမှ အရင့်သို့ ပြောင်းချိန်၊ ပြန့်ကား ခံ့စကာလကို ကျီးတောင်စိမ်းဟု ခေါ်သည်။ ယင်းကို ဖြတ်၍၊ ချဉ်ရေ ပြုတ်ကာ ကြပ်ခိုး တင်ပြီးလျှင်၊ နဲ့ခင် လုပ်ရသည်။ ထိုနောက် အရွယ်အစား ညီမျှစွာ ဖြတ်လှီးထားသော နဲ့ခင်များကို တဖက်သုံးလွှာစီ တပ်၍ တပွတ်တွင် မျက်နှာချင်းဆိုင်ချည်ရသည်။ တပွတ်ကို နဲ့တံ၏ထိပ်၌ တပ်၍ မှုတ်ရသည်။ ယင်းကို နဲ့တံတွင်းသို့ များစွာ သွင်းသော်၊ အသံသေး၍ မြင့်လာသည်။ အနည်းငယ်သွင်းသော်၊ အသံကြီး၍ နိမ့်လာသည်။ ခားနှောမှာ သစ်သား၊ သတ္တု၊ ဆင်စွယ် တမျိုးမျိုးဖြင့် အပြားဝိုင်း ပြုလုပ်၍၊ အလယ်ဗဟိုတွင် အပေါက်ငယ်တခု ဖောက်ထားသည်။ အသုံးပြုလိုသော်၊ နဲ့ထိပ်ပေါက်နှင့် ခားနှောပေါက် ထပ်၍၊ တပွတ်တပ်ကာ သုံးနိုင်ကြသည်။ ထိုခားနှောခေါ် ပါးကွယ်ကို ရှေးအခါကသာ သုံးခဲ့ကြသည်။ တံကျင်မှာ နဲ့ခင်များကို ပြုပြင်ရန် ဖြစ်သည်။ နဲ့ခြေမှာ သတ္တုနှင့် ပြုလုပ်၍ နဲ့တံ၏ အဝတွင် အသံကျယ်ရန် စွပ်ထားရသည်။ နဲ့ခြေ၊ တံကျင်နှင့် ခားနှောတို့ကို ထိန်းထားသော ကြိုးစများကို ဖောင်းရစ် ၂ ခုကြား၌ ချည်နှောင်ရသည်။ ရှေးအခါက ဝါးဆစ်ပါသော ပြွေများကို သုံးကြသည်။ ယခုအခါ ဝါးဆစ်အစား ဖယောင်းကို သုံးကြသည်။ ဝါးဆစ်ပြွေကို ခင်ပြွေဟု ခေါ်သည်။ ဖယောင်းတားပြွေကဲ့သို့ အသံစူးစူးဝါးဝါး မရှိချေ။

နဲ့ဆရာတို့သည် အောက်ပါ အင်္ဂါများနှင့် ပြည့်စုံရ၏။ နှုတ်ခမ်း၊ လျှာ၊ သွား၊ အာ၊ လည်ချောင်းနှင့် သက်လုံတို့ကောင်းရခြင်း၊ လက်ချောင်းကလေးများ ပေါ့ပါး သွက်လက်၍၊ နှာနှင့် နားတို့ ကောင်းရခြင်းတို့ ဖြစ်ကြသည်။ နဲ့အတတ်ပညာ၌ ကျွမ်းကျင်လိမ်မာသော ပညာရှင်တို့ များစွာ ရှိကြသည်။ ထင်ရှား ကျော်ကြားသော ပုဂ္ဂိုလ်တို့မှာ



နဲ့အရာတွင် တံခွန်စိုက်သူ မြန်မာညွန့် ဦးချစ်မောင်

ဦးဇေယျာ၊ ဦးဒီလုံး၊ဦးသာကြင်၊ဦးချစ်ဖေ၊ဦးသာကျောက်၊ ဦးချစ်မောင်နှင့် ဦးထိအောင်တို့ ဖြစ်ကြသည်။ ဦးဇေယျာသည် နဲ့ပညာရပ်တွင်သာမက၊ ဆိုင်းပညာကိုပါ တတ်ကျွမ်းသော ပုဂ္ဂိုလ်ဖြစ်သည်။ စစ်ကိုင်းသားဖြစ်သူ ဦးသာကြင်သည် ဦးဇေယျာ၏ တပည့်ဖြစ်သည်။ အိန္ဒိယနိုင်ငံ၊ ရတနာဂိရိမြို့၊ သီပေါမင်းတရား ရွှေတော်တွင် ဆိုင်းဆရာ စိန်ဗေဒါနှင့် အသုံးတော်ခံခဲ့စဉ်က၊ နေမျိုးဗလ ဟာသခေါင်တံ့ ခြီးမြှင့်ခြင်း ခံရသူ ဖြစ်သည်။ မြန်အောင်မြို့သား ငယ်မည်ကိုဖန်ခေါ် ဦးဒီလုံးသည် ဦးထွန်းဦး၏ တပည့် ဖြစ်သည်။ ၁၂၄၀ ပြည့်သားဖြစ်၍၊ ၁၂၈၆ ခုနှစ်၌ ကွယ်လွန်လေသည်။ ဦးဇေယျာကဲ့သို့ ကျော်ကြားသူ ဖြစ်သည်။ ပန်းတနော်သား ဦးချစ်ဖေသည် ဦးဒီလုံး၏ တပည့်ဖြစ်သည်။ အင်္ဂလန်ပြည်သို့ ၁၉၂၄ ခုနှစ်၌ ဆရာညို၏ ဆိုင်းအဖွဲ့နှင့်အတူ သွားရောက် အသုံးတော်ခံခဲ့ရသူ ဖြစ်သည်။ အင်္ဂပူမြို့သား ဦးသာကျောက်သည် ဆိုင်းဆရာ ဆရာစိမ့်နှင့် တွဲခဲ့သည်။ သက်လုံကောင်းသဖြင့် အချိန်ကြာစွာ နဲ့သံမစဲ၊ သက်ပြန်မှုတ်ခြင်း၌ ကျော်ကြားသည်။ ပခုက္ကူမြို့သား ဦးချစ်မောင်သည် စိန်ဗေဒါနှင့် ရှစ်နှစ် တွဲခဲ့သည်။ နဲ့ခြေကို မတပ်ဘဲ၊ ပဝါပါးအုပ်၍ စန္ဒယားနှင့် တွဲသော တရောသံကဲ့သို့၊ ညက်ညောစွာ မှုတ်နိုင်၏။ မြန်မာညွန့် ဦးချစ်မောင်ဟု ကျော်ကြား၏။ ၁၂၅၄ ခုနှစ်သား ဖြစ်သည်။ ရန်ကုန်မြို့ ပန်တျာကျောင်း၌ ပတ္တလား နည်းပြဆရာကြီးအဖြစ်ဖြင့် အမှုထမ်းနေစဉ် ၁၃၂၀ ပြည့်နှစ်တွင် ကွယ်လွန်လေသည်။ ပြည်မြို့သား ဦးထိအောင်သည် ဟွန်းဟု ခေါ်သော နဲ့ခြေ အသေတပ်၍၊ အပီမှုတ် ဝါသနာပါသူ ဖြစ်၏။ စိန်ဗေဒါ၊ ဦးဟံပတို့နှင့်တွဲခဲ့လေသည်။

**ဦးဂုဏ်ဘဏ်**

**နှင်း။** ။နှင်းသည် လေထု အထက်ပိုင်းရှိ ရေငွေ့မှ ဖြစ်ပေါ်သည်။ လေထု အောက်ပိုင်းသို့ ဆင်းသက်လာစဉ်၊ နှင်းသည် နွေးသော လေနှင့် တွေ့ထိလျှင်၊ အရည်ပျော်သွားသည်။ ကမ္ဘာပေါ်၌ နှင်းဖြစ်သော ဒေသတို့ကို ကြည့်သော်၊ အီကွေတာမှ လတ္တီတွဒ် ၃၀ မှ လတ္တီတွဒ် ၄၀ လောက်အတွင်းရှိ ဒေသတို့၌ ဆောင်းအခါတွင် နှင်း မကြာခဏ ဖြစ်ပေါ်သည်။လတ္တီတွဒ် ၄၀ လောက်မှ လတ္တီတွဒ် ၇၅ အတွင်းရှိ ဒေသတို့၌ ဆောင်းအခါတွင် အချိန်ကြာကြာသော်၎င်း၊ အချိန်တိုတိုသော်၎င်း နှင်းဖြစ်ပေါ်တတ်သည်။ လတ္တီတွဒ် ၇၅ အထက်ရှိ ဒေသတို့တွင်ကား ကုန်းမြေရှိသော နေရာတိုင်း၌ပင် တနှစ်ပတ်လုံး နှင်းကျလျက် ရှိသည်။

အီကွေတာ၌ ပင်လယ်ပြင်အထက် ပေ ၁၇၀၀၀ လောက်မှစ၍ အထက်တွင် နှင်းသည် အရည် မပျော်တော့ပေ။ ထိုအမြင့်ကို ပထဝီဝင်တွင် နှင်းမျဉ်း ဟူ၍ ခေါ်သည်။ နှင်းမျဉ်း နေရာမှ စ၍ အထက်တွင် နှင်းကို ထာဝစဉ် တွေ့နေရသည်။ နှင်းမျဉ်းသည် လတ္တီတွဒ် ၃၀ ၌ အမြင့်ပေ ၁၃၅၀၀ လောက်တွင် ရှိ၍၊ လတ္တီတွဒ် ၇၀ ၌အမြင့်ပေ ၁၀၀၀ တွင် ရှိသည်။ နှင်း အစဉ်ဖြစ်ပေါ်နေသော ဒေသများ၌ နှင်းသည် ဆင့်ကဲဆင့်ကဲ ကျလျက် နေသည်။ ထို့ကြောင့် စောက်နက်သော တောင်စောင်းတွင် အပေါ်ကဖိသော နှင်း၏ အလေးကြောင့် အောက်က နှင်းတို့သည် လျှောကျကုန်သည်။ယင်းသို့လျှောကျသော နှင်းခဲတို့ကို နှင်းခဲလျှောဟူ၍ ခေါ်သည်။ အတန်စောက်တိမ်သော တောင်စောင်းတွင်မူ နှင်းပြင်၏ အောက်ခြေ၌ နှင်းသည် ရေခဲမြစ် အဖြစ်သို့ ပြောင်းသွားသည်။ (နှင်းခဲလျှော။ ရေခဲမြစ် —— ရှု။)

နှင်းပွင့်ဖတ်ကို မိုက္ကရိုစကုပ် အောက်တွင် ကြည့်ရှုလျှင် ယင်း၏ ဖွဲ့စည်းပုံမှာ အံ့ဩ စဖွယ် ရှုပ်ထွေး လှသည်ကို တွေ့ရပေမည်။ နှင်း၌ လှပသော သဏ္ဌာန်များ ရှိသည်။ အချို့ သဏ္ဌာန်မှာ အပွင့် သဏ္ဌာန်ရှိ၍၊ အချို့သဏ္ဌာန်မှာကား ဆန်စေ့ သဏ္ဌာန် ရှိသည်။ အပွင့် သဏ္ဌာန် ရှိသော နှင်းကို နှင်းပွင့်ဟု ခေါ်၍ ဆန်စေ့သဏ္ဌာန်ရှိသော နှင်းကို ဆီးနှင်းဟုခေါ်သည်။ နှင်းပွင့်သည် လေထဲ၌ ရှိသော ရေငွေ့၏ အက်တမ်နှင့် မော်လီကျူးတို့မှ တိုက်ရိုက်ဖြစ်ပေါ်လာသည်။

ဆီးနှင်းသည် နှင်းပွင့်များ စုပေါင်းလျက် တိမ်ဖြစ်နေသော ရေစက် ရေပေါက်ကလေးများ ပေါ်တွင် ခဲသွားသော အခါ၌ ဖြစ်ပေါ်တတ်သည်။ ရေ၏ မော်လီကျူးတွင် အက်တမ် ၃ ခု ဖွဲ့စည်းလျက်ရှိရာ၊ ယင်းတို့မှာ ဟိုက်ဒရိုဂျင် အက်တမ် ၂ ခုနှင့် အောက်ဆီဂျင် အက်တမ် ၁ ခုတို့ဖြစ်ကြသည်။ ထို့ကြောင့် ဆီးနှင်းမှ နှင်းပွင့် ဖြစ်သောအခါ၊ သုံးထောင့်ပုံ သဏ္ဌာန်သော်၎င်း၊ ခြောက်ထောင့် ပုံသဏ္ဌာန် သော်၎င်း ရှိကြသည်။ လူအများပင် ထိုနှင်းပွင့်တို့တွင် စိတ်ဝင်စားကြသဖြင့် ဓာတ်ပုံ ရိုက်ယူကြသည်။ ပုံတူ ရေးဆွဲသူများလည်း ရှိသည်။ ပုံသဏ္ဌာန်အားဖြင့် တူသော နှင်းပွင့် နှစ်ခု ဟူ၍ အလွန်တွေ့ရခဲသည်။

လေထုတွင် အောက်ပိုင်းကျ၍ နွေးသော တိမ်ထဲ၌ ဖြစ်သော နှင်းပွင့်တို့သည် များသောအားဖြင့် ကြီးသည်။ ထိုနှင်းပွင့် မျိုးသည် အချင်း တလက်မခွဲခန့်ပင် ရှိတတ်၏။ ထိုနှင်းပွင့် မျိုးသည် အပူချိန် ၃၂ ဒီဂရီ ဖာရင်ဟိုက်၌လည်း ဖြစ်ပေါ်တတ်သည်။ ထိုနှင်းပွင့်တို့တွင် လှပသောကြယ်ပွင့်များ ပုံသဏ္ဌာန် ရှိကြသည်။ အချို့ နှင်းပွင့်တို့ အတွင်းတွင် ဆန်းကြယ်သော ဒီဇိုင်းပုံ အမျိုးမျိုးကို တွေ့ရပေသည်။ ထိုဒီဇိုင်းပုံတို့သည် သေးငယ်သော လေပြွန်ကလေးများကြောင့် ဖြစ်ပေါ်ကြသည်။ ထိုလေပြွန်ကလေး များသည် နှင်းပွင့်ထဲတွင် အစက် အပေါက် ကလေးများ သဏ္ဌာန်၎င်း၊ အချောင်း ကလေးများ သဏ္ဌာန်၎င်း၊ ကွေးကွေးကောက်ကောက် မျဉ်းကြောင်း ကလေးများ သဏ္ဌာန်၎င်း ပါရှိကြသည်။ အလွန်အေးသော ဒေသတို့၌ ပြောင်းလုံးပုံ သဏ္ဌာန်ရှိသော နှင်းပွင့်မျိုးများကို တွေ့ရသည်။ ထောင့်လေးထောင့်ရှိ၍၊ ပြားနေသော နှင်းပွင့်မျိုးလည်း ရှိသေး၏။ အထူးဆန်း ဆုံးသော နှင်းပွင့်မျိုးသည် ပြောင်းလုံးပုံသဏ္ဌာန်ရှိ၍ အဖျားနှစ်ဖက်တွင် ကြယ်ပွင့်သဏ္ဌာန် နှင်းပွင့်ဖတ်များ ကပ်လျက် ပါရှိကြသည်။



နှင်းကျပြီးနောက် ကြည်နူးဖွယ် တောစပ်ရှုခင်း

**နှင်းခဲလျှော။** ။နှင်းများ အထပ်ထပ် စုပုံနေတတ်သည့် တောင် ထူထပ်သော ဒေသများတွင် ရေခဲနှင့် နှင်းများ သည် ထုထယ် ကြီးမားသည့် အစိုင်အခဲကြီးများ ဖြစ်လျက် တောင်စောင်း တလျှောက် လျှောကျလာကာ၊ ယင်းတို့ ကျ ဆင်းလာရာ လမ်း တလျှောက်ရှိ၊ သက်ရှိသက်မဲ့ မည်သည့် အရာဝတ္ထုကိုမဆို ဖျက်ဆီးချေမှုန်းပစ်တတ်လေသည်။ ယင်း တို့ကို နှင်းခဲလျှောဟု ခေါ်သည်။

နှင်းခဲလျှောများသည် အချိန်အခါ မရွေး ကျလာတတ် သော်လည်း၊ နေရောင်ခြည်ကြောင့် နှင်းများ အရည်ပျော် စ ပြုသည့် နွေကူး ရာသီ အစလောက်တွင်၊ မကြာခဏ ကျ တတ်လေသည်။ သို့သော် ယင်းသို့ ကျတတ်သည့် နှင်းခဲ လျှောများသည် ဆောင်းရာသီတွင် ကျတတ်သည့် နှင်းခဲ လျှောများလောက် အန္တရာယ် မပေးလှပေ။အဘယ်ကြောင့် ဆိုသော် ယင်းတို့ ကျရောက်လာမည်ကို ကြိုတင်မြော်လင့် ထားနိုင်ပြီးလျှင်၊ ကာကွယ်ရေးအစီအမံများ ကြိုတင်ပြုလုပ် ထားနိုင်သောကြောင့် ဖြစ်၏။ ဆောင်းရာသီ တွင်ကား တောင်စောင်းများတလျှောက်တွင်၊နှင်းများသည် သိပ်သိပ် သည်းသည်း မရှိလှဘဲ အထပ်ထပ် ကျနေတတ်ရာ၊ လေပြင်း တချက် တိုက်ရုံမျှဖြင့် တောင်ခြေ ချိုင့်ဝှမ်းဆီသို့ နှင်းထု ကြီးများ လျှောကျ လာနိုင်လေသည်။

နှင်းခဲလျှောများသည် သစ်ပင်များ၊ ကျောက်ဆောင် ကျောက်စွန်းများနှင့် အိမ်များမှ အစ၊ ယင်းတို့ ကျဆင်း လာရာ လမ်းတလျှောက်ရှိ အရာဝတ္ထု အားလုံးကို အရှိန် ဖြင့် သယ်ယူသွားလေသည်။တောင်စောင်းများတလျှောက် တွင် သစ်တောကြီးများ စိုက်ပျိုး ထားခြင်းဖြင့်၊ ယင်းတို့ ကို ဟန့်တား နိုင်ကောင်း ဟန့်တား နိုင်ပေလိမ့်မည်။ တခါ တရံ အကာအကွယ် အဖြစ် ထူထဲ ခိုင်ခံ့သော တံတိုင်းကြီး များကို ဆောက်လုပ် ထားတတ်လေသည်။

**နှင်းဆီ။** ။နှင်းဆီ၏ ရုက္ခဗေဒ အမည်မှာ“ရိုဆာ”ဖြစ်၍၊ “ရိုဇေးစီအီး”မျိုးရင်းတွင် ပါဝင်သည်။ ရှေးခေတ်က စ၍ ယခုတိုင်အောင် နှင်းဆီပန်းသည် လူအများကြိုက်ပန်း ဖြစ် သည်။ နှင်းဆီမျိုးပေါင်း တထောင်ကျော်မျှ ရှိသည်။ ထို ပန်းပင်မျိုးသည် မြောက်ဖက် ကမ္ဘာခြမ်းဒေသများတွင် အ များအပြား ပေါက်ရောက်သည်။ သို့သော် အချို့ အပူပိုင်း ဒေသများတွင်လည်း ပေါက်ရောက်သေးသည်။

နှင်းဆီပင်များသည် တခါတရံ အခြား အပင် တပင်ပေါ် သို့ နွယ်ပတ် ပေါက်ရောက်တတ်သည်။ နှင်းဆီ ပင်စည်နှင့် အကိုင်းအခက်များ အားလုံးတွင် ဆူးများ ရှိသည်။ အချို့ ဥယျာဉ်နှင်းဆီမျိုးတွင် အမွေးကလေးများ ရှိသည်။ ရွက် လွှာ အနားသားများတွင် အထစ်ကလေးများ ဖြစ်၍ နေ သည်။ ရွက်ဘဲတခုတွင် ရွက်ပွားအရေအတွက်မှာ အမှန်မရှိ ဘဲ၊ ၁ ရွက်မှ ၁၁ ရွက်အထိ ရှိ၍၊ တခါတရံ ၁၅ ရွက်အထိ ရှိတတ်သည်။ နှင်းဆီပန်း အရောင်မှာ အဖြူ၊ ပန်းရောင်၊ အနီရောင် ဖြစ်သည်။

နှင်းဆီပွင့်၏ ထူးခြားချက်တရပ်မှာ ပွင့်ဖတ် အမြောက် အမြားရှိခြင်းပင် ဖြစ်သည်။ သို့ရာတွင် ဥယျာဉ်စိုက် နှင်းဆီ မျိုး၌သာ၊ ဤကဲ့သို့ ပွင့်ဖတ် အများအပြားရှိခြင်း ဖြစ် သည်။ နှင်းဆီရိုင်းများတွင်ကား ပွင့်ဖတ် ၅ ဖတ်သာရှိ၍၊ ရိုးရိုးနှင်းဆီကဲ့သို့ ပွင့်ဖတ်များ တခုနှင့်တခု ထပ်၍ မနေဘဲ ကပ်၍ ပေါက်ကြသည်။ ဝတ်ဆံဖိုနှင့် ဝတ်ဆံမများကား နှစ်မျိုးစလုံး၌ပင် အမြောက်အမြား ရှိသည်။ ပွင့်ဖတ်များ သော ဥယျာဉ်ပန်းမျိုးတွင် ဝတ်ဆံဖိုများသည် ပွင့်ဖတ် အဖြစ်သို့ ပြောင်းလဲ သွားကြသည်။

နှင်းဆီပင်တွင် အနီ သို့မဟုတ် အဝါရင့်ရောင် အသီးက လေးများ သီးသည်။ ရှေးခေတ် ရောမလူမျိုးများသည် နှင်း ဆီ ပွင့်ချပ်များကို နန်းတော်တွင်း၌ ညောင်စောင်းများ သလွန်များပေါ် တွင် ဖြန့်ကြဲ၍ ထားလေ့ ရှိကြသည်။ ယခု ခေတ်တွင် နှင်းဆီပန်းကို ပေါင်း၍ ရေမွှေးများ ပြုလုပ်ဖော် စပ်ကြသည်။ ရေမွှေးတအောင်စ ရရှိရန်အတွက် နှင်းဆီပန်း ပွင့်ပေါင်း ၄၀၀၀၀ ခန့် လိုသည်။ ပြင်သစ်နိုင်ငံ တောင်ပိုင်း ဒေသများတွင်၎င်း၊ ဗူလဂေးရီယား နိုင်ငံ၌၎င်း ကေပေါင်း မြောက်မြားစွာသော မြေကွက်လပ်များတွင် နှင်းဆီပင် ကောင်းများကို ရေမွှေး လုပ်ငန်းအတွက် စိုက်ပျိုးကြသည်။

မြန်မာနိုင်ငံတွင် နှင်းဆီပန်းပင်သည် ကမ်းရိုးတလျှောက် ၌ အရိုင်းပေါက်သည်။ ဥယျာဉ်များ၌ စိုက်ပျိုးသော နှင်း ဆီပန်းမျိုးလည်း အများအပြားရှိသည်။နှင်းဆီပန်းပင်များ ကို အလှသက်သက် စိုက်ပျိုးကြသည်။

**နှင်းပေါက်။** ။နံနက်စောစောတွင် ပန်းပင်၊ သစ်ပင်နှင့် မြက်ခင်းများပေါ်၌ စိန်ကျောက်ကလေးများပမာ အရောင် တလက်လက်ဖြင့် စီရရီသီးနေသော နှင်းပေါက်ကလေးများ ကို တွေ့မြင်ဘူးကြပေလိမ့်မည်။နှင်းပေါက်ကလေးများသည် နေဝင်ရီတရောနှင့် ညဖက်အချိန်များတွင်လည်း ဖြစ်ပေါ် တတ်ကြသည်။ အဆိုပါ နှင်းပေါက် ကလေးများ ဖြစ်ပေါ် လာပုံကား ဤသို့တည်း။

နွေခင်းဖက် တချိန်လုံးတွင် အင်းအိုင် ချောင်းမြောင်း နှင့်တကွ သစ်ပင်ဝါးပင်တို့တွင်ရှိသော ရေသည် နေ၏အပူ ရှိန်ကြောင့် ရေဘဝမှ ရေငွေ့ဘဝသို့ ပြောင်းပြီးလျှင် ပျံ့ လွင့်နေကြသည်။ ထိုရေငွေ့များကို ပတ်ဝန်းကျင်ရှိ လေက လက်ခံ ထိန်းသိမ်းထား၍ လေသည် နွေးလေလေ ရေငွေ့ များကို အမြောက်အမြား ထိန်းထားနိုင်လေလေဖြစ်သည်။ သို့ရာတွင် နေလုံးပျောက်၍ညဖက်သို့ရောက်လာသောအခါ၊ မြေကြီးရော မြေမျက်နှာပြင်နှင့် ကပ်လျက် ရှိသည့် လေပါ



မွှေးရနံ့ကြိုင်သင်းသည့် နှင်းဆီပန်း

အပူရှိန်လျော့လာပြီးလျှင် လေထဲ၌ မိမိထိန်းထားနိုင်သမျှ ထက်ပိုနေသော ရေငွေ့တို့ကို စွန့်ပစ်လေတော့သည်။ ထိုအခါ တဖြည်းဖြည်း အေးလာသော လေမှ စွန့်ပစ်ခြင်း ခံရသော ရေငွေ့တို့သည် သစ်ပင် ပန်းပင်နှင့် မြက်ပင်စသော မျက်နှာပြင်အေးနေသည့် အရာဝတ္ထုများပေါ်တွင် ရေစက် ရေလုံး ကလေးများအဖြစ်သို့ ကူးပြောင်း သွားကြလေသည်။ ကျွန်ုပ်တို့ တွေ့မြင်ရသော နှင်းပေါက် ကလေးများသည် ဤသေးငယ်သော ရေလုံးကလေးများပင် ဖြစ်၍ ဤသို့ နှင်းပေါက်ကလေးများ ဖြစ်ပေါ်သည့် အပူချိန် ဒီဂရီကို သိပ္ပံပညာတွင် "နှင်းဖြစ်အမှတ်" သို့မဟုတ် "ပြည့်ဝ အမှတ်" ဟု ခေါ်လေသည်။

တိမ်ထူထပ်ပေါများသော ညဥ့်နှင့် လေတိုက်ခတ်လျက် ရှိသော ညဥ့်များတွင် မြေမှ အပူရှိန်သည် လဟာပြင်ထဲသို့ မပျံ့လွင့်နိုင်အောင် တိမ်တိုက်က တားဆီး ထားခြင်းကြောင့် ၎င်း၊ တိုက်ခတ်နေသော လေက မြေမျက်နှာပြင်အနီး၌ လေနွေးနှင့်လေအေးတို့ကို ရောနှောပေးခြင်းကြောင့်၎င်း၊ လေ၏ အပူဒီဂရီသည် "နှင်းဖြစ်အမှတ်" သို့ ရောက်အောင် မအေးသည့် အတွက် နှင်းပေါက်များသည် လွယ်လင့်တကူ ဖြစ်ပေါ်နိုင်ခြင်း မရှိပေ။

နှင်းပေါက်များသည် ရိုးရိုး မြေပြင်မှာထက် ရေငွေ့ပေါများသော သစ်ပင်ဝါးပင် ထူထပ်သည့် နေရာနှင့် ချိုင့်ဝှမ်းများတွင် ပို၍ ဖြစ်ပေါ်လွယ်တတ်သည်။ ကမ္ဘာပေါ်ရှိ အချို့သော ကုန်းမြင့် ဒေသများတွင် ရေငွေ့ထုတ်ပေးစရာ သစ်ပင်နှင့် ချောင်းမြောင်းများ မရှိပါဘဲလျက်၊ နှင်းပေါက်များမှ ရေကြောင့် ဖြစ်ထွန်းလာသော "နှင်းအိုင်" များကို တွေ့ရတတ်သည်။ ထိုနှင်းအိုင်များ ဖြစ်ထွန်းလာပုံကို ယခုထက်တိုင် ကျေနပ်လောက်အောင် အဖြေရှာမရသေးပေ။

နှင်းပေါက်ဖြစ်ပေါ်ပုံကို လက်တွေ့ စမ်းသပ် ကြည့်လိုပါက ခွက်တခုတွင် ရေခဲကို ထည့်ကြည့်ပါ။ တခဏမျှ ကြာသောအခါ ခွက်ထဲမှ စိမ့်ထွက်လာသည့် အလား၊ ခွက်၏ အပြင်ဘက် မျက်နှာပြင်ပေါ်၌ ရေစက်ကလေးများ သီးလာသည်ကို တွေ့ရလိမ့်မည်။ ထိုရေစက်ကလေးများသည် နှင်းပေါက်ပင် ဖြစ်၍ လေထဲတွင်ရှိသော ရေငွေ့နှင့် အေးနေသော ခွက်၏ မျက်နှာပြင်တို့ ထိတွေ့ရာမှ ဖြစ်ပေါ် လာသော ရေစက်ကလေးများပင်တည်း။

**နှင်းပေါက်ခဲ။** ။ဆောင်းရာသီအခါ ရေခဲတတ်သည့် တိုင်းပြည်များ၌ ကောက်ပဲသီးနှံပင်များ အဖူးအညွန့်ထွက်ချိန်၊ အသီးအနှံများ မှည့်ချိန်တွင် မိုးလေဝသဌာနတို့သည် နှင်းပေါက်ခဲများ ကျရောက်မည်ကို သတိ ပြုနေကြသည်။ နှင်း



တိမ်မြူကင်းစင်သည့် ညဥ့်အခါများ၌သာ ကျရောက်လေ့ရှိသည့် နှင်းပေါက်ခဲ

ပေါက်ခဲများ ကျရောက်သိမ့်မည်ဟု ခန့်မှန်းရသော အခါ၌ ကောက်ပဲသီးနှံ စိုက်ပျိုးကြသော တောင်သူ လယ်သမားတို့အား ကြိုတင် သတိပေးကြရလေသည်။ ဤသို့သော အခါမျိုးမှာ ကောင်းကင်၌ တိမ်မြူများ ကင်းစင်သည့် ညဥ့်အချိန်မျိုး ဖြစ်သည်။ တိမ်များ အုံ့ဆိုင်း နေသည့် ညဥ့်အခါမျိုးတွင် နှင်းပေါက်ခဲများ မကျရောက် တတ်ချေ။ အဘယ်ကြောင့်ဆိုသော် တိမ်တိုက်တို့သည် နေ့ခင်းကတည်းက ပူထားသည့် နေ၏ အပူရှိန်ကို မြေပြင်မှ အထက်သို့ လွင့်ပျောက် မသွားရအောင် ဖုံးကာထားသောကြောင့် ဖြစ်လေသည်။

တိမ်ကင်းစင်သော ညဥ့်အခါတွင်၊ မြေပြင် အထက်ရှိလေထုသည် ငြိမ်သက် နေ၍ ရေခိုး ရေငွေ့တို့ဖြင့် ပြည့်ဝ၍ နေသည်။ ထိုအခြေ၌ အပူချိန်သည် ရေခဲမှတ် (ဖာရင်ဟိုက် ၃၂ ဒီဂရီ) အောက်သို့ ကျရောက် သွားလျှင် နှင်းပေါက်ခဲများ ကျရောက် လာတတ်သည်။ နှင်းပေါက်ခဲများသည် အပင်များပေါ်တွင် ထူပိန်း နေအောင် ကျရောက်လျက်ရှိလျှင်၊ ယင်းတို့ကို နှင်းပေါက်ပျဉ်ဟု ခေါ်သည်။

နှင်းပေါက်ခဲ ကျရောက်ရာ၌ ကောက်ပဲသီးနှံများ ပျက်စီးတတ် သဖြင့်၊ ယင်းတို့ မကျရောက်မီကပင် တောင်သူလယ်သမားတို့နှင့် ဥယျာဉ် စိုက်ပျိုးသူတို့သည် အပင်များကို ကြိုတင်၍ ကာကွယ် ထားကြလေသည်။ ကာကွယ်ရန် နည်းမှာ မြေပြင်မှ အပူရှိန်အထက်သို့ မပျံ့လွင့်အောင် ပြုလုပ်ရန်ပင် ဖြစ်သည်။ ဥယျာဉ် ယာခင်းတို့၏ အထက်တွင် ပါးလွှာ ပေါ့ပါးသော ပိတ် အဝတ်ကြီးများဖြင့် ဖုံးလွှမ်းထားတတ်ကြသည်။ ထို့ပြင် ဥယျာဉ် ယာခင်းတို့ အတွင်း မီးများ ပုံရှို့၍ မီးခိုးများများ ထွက်အောင်လည်း ပြုလုပ်တတ်ကြသည်။

တောင်စောင်း ပေါ်နှင့် တောင်ကြားထဲ၌ စိုက်ပျိုးသော ယာခင်းများတွင် တောင်စောင်း ပေါ်မှ အပင်တို့သည် တောင်ကြား ထဲမှ အပင်တို့လောက် နှင်းပေါက်ခဲ၏ ဖျက်ဆီးခြင်း ဒဏ်ကို မခံကြရပေ။ အချို့က လေအေးသည် တောင်အောက်သို့ ဆင်းသွားခြင်းကြောင့်၊ တောင်ကြားထဲမှ အပင်တို့သည် နှင်းပေါက်ခဲ၏ ဒဏ်ကို ခံရသည်ဟု ထင်မှတ် မှားကြ၏။ အမှန်မှာ လေသည် ညဥ့်အခါ၌ အေးလာသဖြင့် သိပ်သည်း၍ လေးလံလာ၏။ တောင်ကြားထဲတွင် လေသည် အောက်အကျဆုံး နေရာ၌ မရွေ့ရှားဘဲ အေးသည်ထက်သာ အေးလာသည်။ တောင်စောင်း ပေါ်မှ လေမှာမူ လေးလံလာသည့် အလျောက် အောက်သို့ ကျဆင်းသွားရာ၊ အထက်မှပိုမို နွေးသော လေသည် အစားထိုးဝင်ရောက် လာသည်။ ထို့ကြောင့် တောင်စောင်း ပေါ်၌ အပူချိန်သည် တောင်ကြားထဲ၌ အပူချိန်ထက် ပို၍ မြင့်ခြင်း ဖြစ်သည်။

နှင်းပေါက်ခဲများကို မှန်ဘီလူးဖြင့် ကြည့်လျှင် အလွန်လှပသော အပွင့်ငယ်ကလေးများ အဖြစ် တွေ့မြင် နိုင်ပေသည်။ အခန်းအတွင်း၌ လေသည် ခြောက်သွေ့ နေလျှင်မည်မျှပင် အေးနေစေကာမူ၊ နှင်းပေါက်ခဲများကို ပြတင်းပေါက် မှန်များ၌ မမြင်ရပေ။ သို့ရာတွင် ထိုအခန်းထဲ၌ ရေနွေးအိုးကို ကျိုက်ကျိုက်ဆူအောင် တည်လိုက်လျှင်၊ သို့မဟုတ် လူအများ ဝင်ရောက်ကာ အသက် ရှူထုတ်ကြလျှင် အခန်းတွင်းရှိ လေသည် စိုထိုင်း၍ လာလိမ့်မည်။ ယင်းသို့ လေသည် စိုထိုင်း၍ နေကာ၊ အပူချိန်လည်း နိမ့်ကျလျက်ရှိလျှင် ပြတင်းပေါက် မှန်ပေါ်၌ ငှက်မွေးသဏ္ဌာန် အလွန်လှပသည့် နှင်းပေါက်ခဲများ ဖြစ်ပေါ်လာတတ်သည်။ နှင်းပေါက်ခဲများ ဖြစ်နေစဉ် လေ ငြိမ်သက်နေရန်မှာ အထူးအရေးကြီးပေသည်။

တခါတရံ လေခြောက်သွေ့ နေသော အခါ၌ငှင်း၊ လေ တိုက်ခတ် နေသော အခါ၌ငှင်း အပူချိန်သည် ရေခဲမှတ်အောက်သို့ ရောက်သွားတတ်သည်။ ထိုအခြေ၌ နှင်းပေါက်ခဲများသည် အဖြူရောင် မဟုတ်ဘဲ၊ အမည်းရောင် ရှိသည်ကို တွေ့ရသည်။ နှင်းပေါက်ခဲ အမည်းမှာ အဖြူထက် များစွာ ပိုမိုအေးမြလေသည်။

**နှစ်ကျိပ်ရှစ်ဆူ။** ။လေးသင်္ချေနှင့် ကမ္ဘာတသိန်းထက်၌ ပွင့်တော်မူသော တဏှင်္ကရ ဘုရားရှင်မှ ဤဘဒ္ဒကမ္ဘာတွင် နောက်ဆုံးပွင့်တော်မူသော ဂေါတမမြတ်စွာဘုရားရှင် အထိ ဘုရားရှင်ပေါင်း နှစ်ကျိပ်ရှစ်ဆူရှိ၏။ ထိုနှစ်ကျိပ် ရှစ်ဆူသော ဘုရားရှင်တို့မှာ (၁) တဏှင်္ကရ ဘုရား၊ (၂) မေဓင်္ကရ ဘုရား၊ (၃) သရဏင်္ကရဘုရား၊ (၄) ဒီပင်္ကရဘုရား၊ (၅) ကောဏ္ဍညဘုရား၊ (၆) မင်္ဂလဘုရား၊ (၇) သုမနဘုရား၊ (၈) ရေဝတဘုရား၊ (၉) သောဘိတဘုရား၊ (၁၀) အနောမဒဿီဘုရား၊ (၁၁) ပဒုမဘုရား၊ (၁၂) နာရဒ ဘုရား၊ (၁၃) ပဒုမုတ္တရဘုရား၊ (၁၄) သုမေဓဘုရား၊ (၁၅) သုဇာတ ဘုရား၊ (၁၆) ပိယဒဿီဘုရား၊ (၁၇) အတ္ထဒဿီ ဘုရား၊ (၁၈) ဓမ္မဒဿီဘုရား၊ (၁၉) သိဒ္ဓတ္ထဘုရား၊ (၂၀) တိဿဘုရား၊ (၂၁) ဖုဿဘုရား၊ (၂၂) ဝိပဿီဘုရား၊ (၂၃) သိခီဘုရား၊ (၂၄) ဝေဿဘူဘုရား၊ (၂၅) ကကုသန္ဓဘုရား၊ (၂၆) ကောဏာဂမနဘုရား၊ (၂၇) ကဿပဘုရား၊ (၂၈) ဂေါတမဘုရားဟူ၍ ဖြစ်သည်။

ဗုဒ္ဓဝင် ကျမ်းတွင် ဂေါတမမြတ်စွာ ဘုရားသည် ဒီပင်္ကရ ဘုရားရှင် လက်ထက်မှစ၍ ဗျာဒိတ်ခံသောကြောင့် ဒီပင်္ကရ ဗုဒ္ဓဝင်မှစ၍ ဖော်ပြကြသည်။ တဏှင်္ကရဘုရားသည် သာရမဏ္ဍ ကမ္ဘာတွင် ပဌမ ပွင့်တော်မူသည်။ ပွင့်တော်မူရာ ဗောဓိပင်မှာ စရည်းပင် ဖြစ်သည်။ မေဓင်္ကရဘုရားသည် လေးသင်္ချေနှင့် ကမ္ဘာတသိန်း ထက်၌ သာရမဏ္ဍကမ္ဘာတွင်




နှစ်ကျိပ်ရှစ်ဆူဘုရား ပူဇော်ရန် ပြင်ဆင်ထားစဉ်

ဒုတိယ ပွင့်တော်မူသည်။ ပွင့်တော်မူရာ ဗောဓိပင်မှာ ပေါက်ပင် ဖြစ်သည်။ သရဏင်္ကရာဘုရားသည် လေးသင်္ချေနှင့် ကမ္ဘာတသိန်းထက်၌ သာရမဏ္ဍကမ္ဘာဝယ် တတိယ ပွင့်တော်မူသည်။ ပွင့်တော်မူရာဗောဓိပင်မှာ ညောင်ချဉ်ပင် ဖြစ်သည်။

ဒီပင်္ကရာ ဘုရားရှင်သည် လွန်လေပြီးသော လေးသင်္ချေနှင့် ကမ္ဘာတသိန်းထက်၌ ပွင့်တော်မူ၍၊ သာရမဏ္ဍကမ္ဘာတွင် ၄ ဆူမြောက်ဖြစ်သည်။ သက်တော် တသိန်းရှည်တော်မူ၍၊ ဥာဏ်တော် အတောင် ရှစ်ဆယ် မြင့်တော် မူသည်။ ညောင်ကြွတ် ဗောဓိပင်မှာ ပွင့်တော်မူရာ ဖြစ်သည်။

ကောဏ္ဍည ဘုရားရှင်သည် လွန်လေပြီးသော သုံးသင်္ချေနှင့် ကမ္ဘာတသိန်းထက်၊ သာရကမ္ဘာတွင် တဆူတည်း ပွင့်တော်မူသည်။ သက်တော် တသိန်း ရှည်တော်မူ၍၊ ဥာဏ်တော်ရှစ်ဆယ့်ရှစ်တောင် မြင့်တော်မူသည်။ သာလကလျာဏီ ဗောဓိပင်၌ ပွင့်တော်မူသည်။

မင်္ဂလ ဘုရားရှင်သည် လွန်လေပြီးသော နှစ်သင်္ချေနှင့် ကမ္ဘာတသိန်းထက်၌ သာရမဏ္ဍကမ္ဘာတွင် ရှေးဦးဆုံး ပွင့်တော်မူသည်။ သက်တော် ကိုးသောင်းရှည်တော်မူ၍၊ ဥာဏ်တော်ရှစ်ဆယ့်ရှစ်တောင် မြင့်တော်မူသည်။ ကံ့ကော်ဗောဓိပင်၌ ပွင့်တော်မူသည်။

သုမန ဘုရားရှင်သည် လွန်လေပြီးသော နှစ်သင်္ချေနှင့် ကမ္ဘာ တသိန်းထက်၌ သာရမဏ္ဍကမ္ဘာတွင် ဒုတိယ ပွင့်တော်မူသည်။ သက်တော် ကိုးသောင်းရှည်တော်မူ၍ ဥာဏ်တော် အတောင် ကိုးဆယ် မြင့်တော်မူသည်။ ကံ့ကော် ဗောဓိပင်၌ ပွင့်တော်မူသည်။

ရေဝတ ဘုရားရှင်သည် လွန်လေပြီးသော နှစ်သင်္ချေနှင့် ကမ္ဘာတသိန်းထက်၌ သာရမဏ္ဍကမ္ဘာတွင် တတိယပွင့်တော်မူသည်။ သက်တော် ခြောက်သောင်း ရှည်တော်မူ၍ ဥာဏ်တော် အတောင်ရှစ်ဆယ်မြင့်သည်။ ကံ့ကော် ဗောဓိပင်၌ ပွင့်တော်မူသည်။

သောဘိတ ဘုရားရှင်သည် လွန်လေပြီးသော နှစ်သင်္ချေနှင့် ကမ္ဘာတသိန်းထက်၌ သာရမဏ္ဍကမ္ဘာတွင် နောက်ဆုံး ပွင့်တော်မူသည်။ သက်တော် ကိုးသောင်း ရှည်တော်မူ၍၊ ဥာဏ်တော် ငါးဆယ့်ရှစ်တောင် မြင့်တော်မူသည်။ ကံ့ကော် ဗောဓိပင်၌ ပွင့်တော်မူသည်။

အနောမဒဿီဘုရားရှင်သည် လွန်လေပြီးသော တသင်္ချေနှင့် ကမ္ဘာတသိန်းထက်၌ ဝရ ကမ္ဘာတွင် ပဌမ ပွင့်တော်မူသည်။ သက်တော် တသိန်း ရှည်တော်မူ၍ ဥာဏ်တော် ငါးဆယ့်ရှစ်တောင် မြင့်တော်မူသည်။ ဖောက်ကြွံဗောဓိပင်၌ ပွင့်တော်မူသည်။

ပဒုမ ဘုရားရှင်သည် လွန်လေ ပြီးသော တသင်္ချေနှင့် ကမ္ဘာတသိန်းထက်၌ ဝရ ကမ္ဘာတွင် ဒုတိယ ပွင့်တော်မူသည်။ သက်တော် တသိန်း ရှည်တော်မူ၍ ဥာဏ်တော် ငါးဆယ့်ရှစ်တောင် မြင့်တော်မူသည်။ ကြောင်လျှာကြီးဗောဓိပင်၌ ပွင့်တော်မူသည်။

နာရဒ ဘုရားရှင်သည် လွန်လေပြီးသော တသင်္ချေနှင့်ကမ္ဘာ တသိန်းထက်၌ ဝရ ကမ္ဘာတွင် တတိယ ပွင့်တော်မူသည်။ သက်တော် ကိုးသောင်း ရှည်တော်မူ၍ ဥာဏ်တော် ရှစ်ဆယ့် ရှစ်တောင် မြင့်တော်မူသည်။ ကြောင်လျှာငယ် ဗောဓိပင်၌ ပွင့်တော်မူသည်။

ပဒုမုတ္တရဘုရားရှင်သည် လွန်လေပြီးသော ကမ္ဘာတသိန်းထက်၌ သာရ ကမ္ဘာတွင် ပွင့်တော်မူသည်။ သက်တော် တသိန်း ရှည်တော်မူ၍ ဥာဏ်တော် ရှစ်ဆယ့်ရှစ်တောင် မြင့်တော်မူသည်။ ထင်ရှူးဗောဓိပင်၌ ပွင့်တော်မူသည်။

သုမေဓ ဘုရား ရှင်သည် လွန်လေပြီးသော ကမ္ဘာ သုံးသောင်းထက်၌ မဏ္ဍ ကမ္ဘာတွင် ပွင့်တော်မူသည်။ သက်တော်ကိုးသောင်း ရှည်တော်မူ၍ ဥာဏ်တော် ရှစ်ဆယ့် ရှစ်တောင်မြင့်သည်။ တမာ ဗောဓိပင်၌ ပွင့်တော်မူသည်။

သုဇာတ ဘုရားရှင်သည် လွန်လေပြီးသော ကမ္ဘာ သုံးသောင်းထက်၌ မဏ္ဍ ကမ္ဘာတွင် ဒုတိယ ပွင့်တော်မူသည်။ သက်တော် ကိုးသောင်းရှည်တော်မူ၍ ဥာဏ်တော်အတောင် ငါးဆယ် မြင့်တော်မူသည်။ ကြခတ် ဗောဓိပင်၌ ပွင့်တော်မူသည်။

ပိယဒဿီ ဘုရားရှင်သည် လွန်လေပြီးသော ကမ္ဘာပေါင်း တထောင့် ရှစ်ရာထက်၌ ဝရ ကမ္ဘာတွင် ပွင့်တော်မူသည်။ သက်တော် အနှစ် ကိုးသောင်း ရှည်တော်မူ၍၊ ဥာဏ်တော် အတောင်ရှစ်ဆယ် မြင့်တော်မူသည်။ သျှိသျှား ဗောဓိပင်၌ ပွင့်တော်မူသည်။

အတ္ထဒဿီ ဘုရားရှင်သည် လွန်လေပြီးသော ကမ္ဘာပေါင်း တထောင့် ရှစ်ရာထက်၌ ဝရ ကမ္ဘာတွင် ဒုတိယ ပွင့်တော်မူသည်။ သက်တော် အနှစ် တသိန်း ရှည်တော်မူ၍၊ ဥာဏ်တော် အတောင်ရှစ်ဆယ် မြင့်တော်မူသည်။ စကားဗောဓိပင်၌ ပွင့်တော်မူသည်။

ဓမ္မဒဿီ ဘုရားရှင်သည် လွန်လေပြီးသော ကမ္ဘာပေါင်း တထောင့် ရှစ်ရာထက်၌ ဝရ ကမ္ဘာတွင် တတိယ ပွင့်တော်မူသည်။ သက်တော် အနှစ် တသိန်း ရှည်တော်မူ၍၊ ဥာဏ်တော် အတောင် ရှစ်ဆယ် မြင့်တော်မူသည်။ ရေခံတက် ဗောဓိပင်၌ ပွင့်တော်မူသည်။ (အချို့စာများတွင် မျက်နှာပန်းပင် ဟူ၍၎င်း၊ ကြက်မောက်ကြီးပင် ဟူ၍၎င်း၊ သံသတ်ပင်ဟူ၍၎င်း ဖော်ပြထားသည်။)

သိဒ္ဓတ္ထ ဘုရားရှင်သည် လွန်လေပြီးသော ကမ္ဘာပေါင်း ကိုးဆယ့်လေး ကမ္ဘာထက်၌ သာရ ကမ္ဘာတွင် ပွင့်တော်မူသည်။ သက်တော် အနှစ်တသိန်း ရှည်တော်မူ၍၊ ဥာဏ်တော် အတောင် ခြောက်ဆယ် မြင့်တော်မူသည်။ စကားဗောဓိပင်၌ ပွင့်တော်မူသည်။

တိဿ ဘုရားရှင်သည် လွန်လေပြီးသော ကိုးဆယ့်နှစ်ကမ္ဘာထက်၌ မဏ္ဍကမ္ဘာတွင် ပဌမ ပွင့်တော်မူသည်။ သက်တော် အနှစ်တသိန်း ရှည်တော်မူ၍၊ ဥာဏ်တော် အတောင် ခြောက်ဆယ် မြင့်တော်မူသည်။ ပိတောက် ဗောဓိပင်၌ ပွင့်တော်မူသည်။

ဖုဿ ဘုရားရှင်သည် လွန်လေပြီးသော ကိုးဆယ့်နှစ်ကမ္ဘာထက်၌ မဏ္ဍကမ္ဘာတွင် ဒုတိယပွင့်တော်မူသည်။ သက်တော် အနှစ်ကိုးသောင်း ရှည်တော်မူ၍၊ ဥာဏ်တော် ငါးဆယ့်ရှစ်တောင် မြင့်တော်မူသည်။ သျှိသျှား ဗောဓိပင်၌ ပွင့်တော်မူသည်။

ဝိပဿီ ဘုရားရှင်သည် လွန်လေပြီးသော ကိုးဆယ့်တစ်ကမ္ဘာထက်၌ သာရ ကမ္ဘာတွင် ပွင့်တော်မူသည်။ သက်တော် အနှစ်ရှစ်သောင်း ရှည်တော်မူ၍၊ ဥာဏ်တော် အတောင် ရှစ်ဆယ် မြင့်တော်မူသည်။ သခွတ် ဗောဓိပင်၌ ပွင့်တော်မူသည်။

သိခီ ဘုရားရှင်သည် လွန်လေပြီးသော သုံးဆယ့်တစ်ကမ္ဘာထက်၌ မဏ္ဍ ကမ္ဘာတွင် ပဌမ ပွင့်တော်မူသည်။ သက်တော် အနှစ်ခုနစ်သောင်း ရှည်တော်မူ၍၊ ဥာဏ်တော် အတောင် ခုနစ်ဆယ် မြင့်တော်မူသည်။ သရက်ဖြူ ဗောဓိပင်၌ ပွင့်တော်မူသည်။

ဝေဿဘူ ဘုရားရှင်သည် လွန်လေပြီးသော သုံးဆယ့်တစ်ကမ္ဘာထက်၌ မဏ္ဍ ကမ္ဘာတွင် ဒုတိယ ပွင့်တော်မူသည်။ သက်တော်ခြောက်သောင်း ရှည်တော်မူ၍၊ ဥာဏ်တော် အတောင်ခြောက်ဆယ် မြင့်တော်မူသည်။ အင်ကြင်း ဗောဓိပင်၌ ပွင့်တော်မူသည်။

ကကုသန္ဓ ဘုရားရှင်သည် ဤဘဒ္ဒကမ္ဘာတွင် ပဌမ ပွင့်တော်မူသည်။ သက်တော် အနှစ်လေးသောင်း ရှည်တော်မူ၍၊ ဥာဏ်တော် အတောင် လေးဆယ် မြင့်တော်မူသည်။ ကုက္ကို ဗောဓိပင်၌ ပွင့်တော်မူသည်။

ကောဏာဂမန ဘုရားရှင်သည် ဤဘဒ္ဒကမ္ဘာတွင် ဒုတိယ ပွင့်တော်မူသည်။ သက်တော် အနှစ် သုံးသောင်း ရှည်တော်မူ၍၊ ဥာဏ်တော် အတောင် သုံးဆယ် မြင့်တော်မူသည်။ ရေသဖန်း ဗောဓိပင်၌ ပွင့်တော်မူသည်။

ကဿပ ဘုရားရှင်သည် ဤဘဒ္ဒကမ္ဘာတွင် တတိယ ပွင့်တော်မူသည်။ သက်တော် အနှစ် နှစ်သောင်း ရှည်တော်မူ၍၊ ဥာဏ်တော် အတောင်နှစ်ဆယ် မြင့်တော်မူသည်။ ပညောင် ဗောဓိပင်၌ ပွင့်တော်မူသည်။

ဂေါတမဘုရားရှင်သည် ဤဘဒ္ဒကမ္ဘာတွင် စတုတ္ထ ပွင့်တော်မူသည်။ သက်တော် အနှစ်ရှစ်ဆယ် ရှည်တော်မူ၍ ဥာဏ်တော် တဆယ့်ရှစ်တောင် မြင့်တော်မူသည်။ ညောင် ဗောဓိပင်၌ ပွင့်တော်မူသည်။

နှစ်ကျိပ်ရှစ်ဆူကုန်သော ဘုရားရှင်တို့၏ နောက်တွင် အရိမေတ္တေယျ ဘုရားရှင်သည် ကံ့ကော် ဗောဓိပင်၌ ပွင့်တော်မူမည်။ ဘဒ္ဒကမ္ဘာတွင် ဘုရားငါးဆူ ပွင့်မြဲ ဖြစ်ပေသည်။

# နှစ်ဟောင်းလွန်၍ နှစ်သစ်ဆန်းသော်

**နှစ်ဟောင်းလွန်၍ နှစ်သစ်ဆန်းစ ပဌမနေ့ကို မင်္ဂလာရှိသော နေ့ထူးနေ့မြတ်အဖြစ် ကမ္ဘာနှင့်အဝှန်း အသိအမှတ်ပြုကြသည်။ ထိုမင်္ဂလာရှိသော နှစ်ဆန်းတရက်နေ့ကို ကမ္ဘာပေါ်ရှိ လူမျိုးအသီးအသီးတို့ မိမိတို့၏ ရိုးရာဓလေ့ထုံးစံအလိုက် မည်သို့ သတ်မှတ်ပုံ၊ ကြိုဆိုပုံ၊ ကျင်းပပုံတို့ကို စိတ်ဝင်စားဖွယ်ရာ ဖတ်ရှုရပေလိမ့်မည်။**

**နှစ်ဆန်းတရက်နေ့။** ။နှစ်ဟောင်း လွန်၍ နှစ်သစ်ဆန်းစ ပဌမနေ့ကို နှစ်ဆန်း တရက်နေ့ဟု ခေါ်ကြသည်။ အချို့ကလည်း နှစ်ဟောင်းမှ နှစ်သစ်သို့ကူးပြောင်းသည့်နေ့ ဖြစ်သဖြင့် နှစ်သစ်ကူးနေ့ဟု ခေါ်ကြသည်။ ယင်းနေ့ကို မင်္ဂလာရှိသော နေ့ထူး နေ့မြတ်အဖြစ် နိုင်ငံတိုင်း၌ ကိုယ့်ဓလေ့နှင့်ကိုယ် ကျင်းပကြကာ အလုပ်ပိတ်ရက်အဖြစ် သတ်မှတ်၍ပင် ထားကြသည်။

ကမ္ဘာပေါ်တွင် လူမျိုးအလိုက် ဘာသာအလိုက် ကိုယ့်စရိုက် ကိုယ့်ဘာသာနှင့် နှစ်များကို ရေတွက်သည့် အစဉ်အလာသည် လူယဉ်ကျေးမှု ထွန်းကားသည့် အချိန်မှ စ၍ ရှိလာခဲ့သည်။ နှစ်ဟူသည့် အပိုင်းအခြားကို သတ်မှတ်သည့် အစဉ်အလာ ရှိချိန်မှ စ၍ နှစ်ဆန်းတရက်နေ့ဟူသော ဝေါဟာရပေါ်လာသည်ဟု ယေဘုယျအားဖြင့် ယူဆရန်ရှိသော်လည်း မည်သည့် ခုနှစ်သက္ကရာဇ်မှ စ၍ နှစ်ဆန်းတရက်နေ့ကို နေ့ထူးနေ့မြတ် အဖြစ် သတ်မှတ် ကျင်းပခဲ့သည်ကိုမူ တတ်အပ်မဆိုနိုင်ချေ။

အဟောင်းမှ အသစ်သို့ ပြောင်းခြင်းကား နှစ်လိုဖွယ်ရာဖြစ်သည်။ ထို့ကြောင့် နှစ်သစ်ကူးပြောင်းခြင်းကို မင်္ဂလာဟု အများက လက်ခံကြသည်။ ယင်းသို့ မင်္ဂလာရှိသော နေ့ကို သတ်မှတ်ပုံ၊ ကြိုဆိုပုံ၊ ကျင်းပပုံချင်းကား လူတမျိုးနှင့်တမျိုး မတူကြချေ။ အချို့က ဧပြီလထဲတွင် နှစ်ဆန်း၍ အချို့က ဇန္နဝါရီလတွင် နှစ်ဆန်းသည်။ ကြိုဆိုကျင်းပနည်းလည်း ရိုးရာဓလေ့ ထုံးစံအလိုက် ကွဲပြားကြသည်။ အချို့သူတို့၏ နှစ်ဆန်းပွဲတွင် ရေကစား၍ အချို့က မီးထွန်းကြသည်။ အချို့က ကခုန်ကြ၍ အချို့က ဘုရားရှိခိုး ဆုတောင်းပွဲ ပြုကြသည်။ အချို့ကမူ မီးအိုး မီးပန်းများ ပစ်ဖောက်ကြသည်။ မည်သို့ပင် ဖြစ်စေ နှစ်ဆန်းသည့် အချိန်တွင် နှစ်ဟောင်းမှ အညစ်အကြေးတို့ကို ဆေးကြော ပယ်ဖျက်လိုခြင်း၊ နှစ်သစ်ကို ဝမ်းပန်းတသာ ခင်းကျင်းကြိုဆိုခြင်း၊ တနှစ်ကုန်၍ အသက်ဝါ စသည် ကြီးရင့်လာသည်ကို အသိအမှတ် ပြုထားသည့် လက္ခဏာဖြင့် သက်ကြီးဝါကြီး မိဖ ဘိုးဘွားတို့အား ပူဇော်ဂါရဝပြုခြင်း၊ ဘာသာဓလေ့များ အရ စိတ်ကောင်း




နှစ်ဆန်းတရက်နေ့ (နှစ်သစ်ကူးနေ့) ကို အင်္ဂလန်ပြည် ဗွန်းမောက်မြို့တွင် ပျော်ရွှင်စွာ ကျင်းပနေကြစဉ်

မွေး၍ ကောင်းမှု ကုသိုလ်များ ပြုလုပ်ခြင်းတို့၌ကား တသဘောတည်း နှင်နှင် ဖြစ်ကြသည်။

လွန်ခဲ့သည့်နှစ် ထောင်ပေါင်း များစွာက အီဂျစ် လူမျိုးတို့၏ နှစ်ဆန်းတရက်နေ့သည် နိုင်းမြစ်ရေလျှံသည့် ဇွန်လလယ်မှ နေ့တနေ့ဖြစ်သည်။ ရှေးရောမလူမျိုးတို့ကမူ မတ်လ ၁ ရက်နေ့ကို နှစ်ဆန်း တရက်နေ့ဟု သတ်မှတ်ခဲ့ကြသော်လည်း ဂျူးလယပ် ဆီဇာက တံခါးပေါက်များနှင့် အစနှင့် အဆုံးကို အစိုးရသော ဂျေးနပ် နတ်မင်းအား ဂုဏ်ပြုသောအားဖြင့် ယင်းကို အစွဲပြု မှည့်ထားသော ဇန္နဝါရီလ ၁ ရက်နေ့ကို နှစ်ဆန်း တရက်နေ့အဖြစ် သတ်မှတ် လိုက်လေသည်။ အင်္ဂလန်ပြည်ဘွင်မူ ရောမတို့ ဝင်ရောက် မသိမ်းပိုက်မီက ဒီဇင်ဘာလ ၂၅ ရက်နေ့ကို နှစ်ဆန်း တရက်နေ့အဖြစ် သတ်မှတ်ခဲ့ကြသည်။ ရောမတို့ အင်္ဂလန်ပြည်ကို ဝင်ရောက် သိမ်းပိုက်ပြီးနောက်မှ ရောမတို့ နည်းတူ ဇန္နဝါရီလ ၁ ရက်နေ့ကို နှစ်ဆန်းတရက်နေ့အဖြစ် ပြောင်းလဲ သတ်မှတ် လိုက်လေသည်။ အလယ်ခေတ်လောက်က ခရစ်ယန် အယူဝါဒီတို့၏ နှစ်ဆန်း တရက်နေ့သည် မတ်လ ၂၅ ရက်နေ့ ဖြစ်သည်။ ၁၅၈၂ ခု နှစ်တွင် ဂရက်ဂရီယန် ပြက္ခဒိန်ကို ရောမ ကက်သလစ်ဂိုဏ်းဝင်တို့ လက်ခံ အသုံးပြုလိုက်သည့် အချိန်မှစ၍ ဇန္နဝါရီလ ၁ ရက်နေ့ကို နှစ်ဆန်းတရက်နေ့အဖြစ် သတ်မှတ်လိုက်ကြသည်။ ယခုအခါ၌မူ ဇန္နဝါရီလ ၁ ရက်နေ့သည် ကမ္ဘာ့နှစ်ဆန်း တရက်နေ့ သဖွယ် ဖြစ်နေလေပြီ။

ထိုင်းနိုင်ငံ၌မူ နှစ်ဆန်း တရက်နေ့ကို အမျိုးမျိုး တွက်ကြသည်။ ယင်းသို့ ကွဲပြားချက်များ အနက် ယိုးဒယားနှစ်၏ လေးလနှင့် ငါးလတို့၏အကူးတွင် ကျင်းပသော ပွဲကား လူထု၏ နှစ်ကူးပွဲပင် ဖြစ်သည်။ ယင်းလ အတွင်းရှိ လကွယ်နေ့၊ လဆန်း ၁ ရက်နေ့၊ လဆန်း ၂ ရက်နေ့တို့တွင် မည်သည့်နေ့ရက်၌ နှစ်သစ်ကူးရန် အခါတော် ကျရောက်သည်ကို ပုဏ္ဏားဟူးရားတို့က တွက်၍ နှစ်ဆန်းတရက်နေ့ကို သတ်မှတ်ပေးသည်။ ယင်းသို့ တွက်ချက်သတ်မှတ်ပေးသည့် အစဉ်အလာသည် အိန္ဒိယ နိုင်ငံမှ ရရှိခဲ့ဟန် တူသည်။ အိန္ဒိယနိုင်ငံ၌မူ သက်ဝင်ယုံကြည်သော အယူဝါဒအလိုက်နှင့် နေထိုင်သော ဒေသအလိုက် နှစ်ဆန်းချိန် ကွဲပြားသည်။ ဗင်္ဂလားနှင့် အာသံပြည်နယ်တို့တွင် ဧပြီလ၌ နှစ်သစ်ဆန်းသည်။ ပါရစီလူမျိုးတို့၏ နှစ်ကူးချိန်သည် စက်တင်ဘာလ ၅ ရက်နေ့ဖြစ်၍ ဟိန္ဒူအယူဝါဒီအချို့၏ နှစ်ကူးချိန်သည် နိုဝင်ဘာလတွင် ကျရောက်၍ ဒေဝါလီ မီးထွန်းပွဲဟု ခေါ်ကြသည်။ အချို့ဟိန္ဒူတို့မှုကား ဟိန္ဒူ ပြက္ခဒိန်၏ ဆယ့်တလမြောက်ဖြစ်သော ဖာဂွန်းလတွင် ကျင်းပလေ့ရှိသည်။ ယင်းကို ဟူလီပွဲတော်ဟု ခေါ်သည်။ တရုပ်တို့၏ နှစ်ကူးပွဲသည် ဖေဖော်ဝါရီလအတွင်း၌ ဖြစ်၍ မြန်မာတို့၏ နှစ်ဆန်း တရက်နေ့သည် ဧပြီလ ၁၆ ရက်၊ သို့မဟုတ် ၁၇ ရက်နေ့ခန့်တွင် ကျရောက်တတ်သည်။ ပြက္ခဒိန်တော်ဆက်အဖွဲ့က မည်သည့်နေ့ မည်သည့် အချိန်တွင် နှစ်သစ်ဆန်းမည်ကို တွက်ချက် သတ်မှတ်ရသည်။ အိန္ဒိယ နိုင်ငံမှ အစဉ်အလာကဲ့သို့ပင် ဖြစ်သည်။

နှစ်ဆန်းချိန် လူတမျိုးနှင့်တမျိုး မတူကြသကဲ့သို့ပင် နှစ်ဆန်းပွဲတော် ကျင်းပပုံချင်းလည်း မတူကြချေ။ မြန်မာလူမျိုးတို့၏ နှစ်ကူးပွဲကို သင်္ကြန်ဟု ခေါ်သည်။ နှစ်ဟောင်းမှ နှစ်သစ်သို့ ကူးပြောင်းသည် ဟူသော အနက်အဓိပ္ပါယ်ရသည်။ နှစ်သစ်ကို ကြိုဆိုသည့် သဘောဖြင့် မြန်မာလူမျိုးတို့သည် ရေပက်ကစားကြသည်။ လာမည့် နှစ်သစ်တွင် အညစ်အကြေး ဘေးဘယများ ကင်းစင်၍ ကြည်လင်အေးမြစေရန် ရည်သန်သည့် သဘောဖြစ်သည်။ လူကြီး မိဖ ဆရာသမားတို့အား ပူဇော်ကန်တော့ခြင်း၊ အိမ်တွင်း အိမ်ပြင်ရှိ အညစ်အကြေး အမှိုက် သရိုက်များကို ရှင်းလင်းခြင်း၊ ဦးခေါင်းဆေးလျှော်ခြင်း၊ စေတီ ပုထိုး ကျောင်းကန်များသို့ ထွက်၍ ဥပုသ်သီတင်း ဆောက်တည်ကာ ဒါန ပြုခြင်း၊ ဘုရားပုထိုး ရုပ်ပွားတော်များကို ရေသပ္ပါယ်ခြင်းများ ပြုလုပ် ကြသည်။ နှစ်ဆန်းတရက်နေ့တွင်ရရှိသောငွေကြေးကို အမှတ်တရသိမ်းခြင်း၊ ငွေကုန်ကြေးကျ မများအောင် ထိန်းသိမ်းခြင်းများပြုသည့်ဓလေ့မြန်မာတို့၌ရှိသည်။ (သင်္ကြန် — ရှု။)

မြန်မာ နိုင်ငံတွင် မြန်မာတို့၏ နှစ်ကူးသဘင် ဖြစ်သည့် သင်္ကြန်အခါတော်သာ ရှိသည်မဟုတ်၊ ကရင် နှစ်ကူးပွဲ၊ ချင်းနှစ်ကူးပွဲ၊ ကယား နှစ်ကူးပွဲ စသည်ဖြင့် တိုင်းရင်းသား လူမျိုးအလိုက် နှစ်ကူးသဘင်များလည်း အသီးအသီး ရှိကြသည်။ ကရင်လူမျိုးတို့၏ နှစ်ဆန်း တရက်နေ့သည် ပြာသို လဆန်း ၁ ရက်နေ့တွင် ကျရောက်သည်။ ထိုနေ့၌ ကရင် လူမျိုးတို့သည် တောင်ယာ ပဲခင်း လယ်ထွက်ပစ္စည်းများကိုယူဆောင်ကာ သက်ကြီး ရွယ်ကြီးများအား ကန်တော့ကြသည်။ ဆွေမျိုး မိတ်သင်္ဂဟများနှင့် စုရုံး စားသောက်ကြသည်။ ထိုနေ့တွင်ပင် ဝမ်းစာ စပါး သိုလှောင်ခြင်း၊ နှစ်ဟောင်းမှ ကွယ်လွန်သူများ၏ သင်္ဂြိုဟ်ပြီး ပြာများကို လေထဲတွင် ကြဲလွှင့်ဖျောက်ဖျက်ခြင်းများပြုကြသည်။ (ကရင်လူမျိုး — ရှု။)

ကယား လူမျိုးတို့၏ နှစ်ဆန်းတရက်နေ့အဖြစ် ၁၉၅၁ ခုနှစ်မှ စ၍ ဧပြီလ ၂၆ ရက်နေ့ကို သတ်မှတ်ကြသည်။ ယခင်ကမူ နှစ်စဉ် ကျင်းပမြဲ ဖြစ်သော်လည်း ရက်ကို ကန့်သတ်ပြဋ္ဌာန်းခြင်း မရှိရကား၊ ပြည်နယ်အတွင်း၌ပင် တမြို့နှင့်တမြို့ ပွဲတော်ကျင်းပရက်ချင်း မတူကြချေ။ ကယားလူမျိုးတို့၏ နှစ်ကူးပွဲကို ကလူမင်္ဂလာပွဲတော်ဟု ခေါ်သည်။ ရိုးရာယဉ်ကျေးမှု ထုံးစံအတိုင်း ဖားစည်တီး၍ ကခုန်ခြင်း၊ အိမ်သစ တက်ခြင်းများပြုကြသည်။ (ကလူမင်္ဂလာပွဲတော် —— ရှု။)

ချင်းလူမျိုးတို့၏ နှစ်ဆန်း တရက်နေ့ကား အောက်တိုဘာလကုန်ခန့်တွင် ကျင်းပလေ့ရှိကြသည်။ ယင်းပွဲတော်ကို ခွမ်သာပွဲဟု ခေါ်ကြသည်။

တရုပ်တို့သည် နှစ်မကူးမီကပင် မြန်မာများ နည်းတူ အမိုက်သရိုက် အညစ်အကြေးများ ရှင်းလင်း ဆေးကြော ခြင်းပြုသည့်အပြင် နှစ်ဟောင်းမှ ရှိသမျှသော ကြွေးမြီများ ကို ကုန်စင်အောင် ပေးဆပ် ရှင်းလင်းတတ်ကြသည်။ သို့ရာ တွင် နှစ်ဆန်း တရက်နေ့တွင် တံမြက်လှဲခြင်း၊ အဝတ်လျှော် ခြင်း မပြုချေ။ လာဘ်တိတ်သည်ဟု အယူရှိခြင်းကြောင့် ဖြစ်သည်။ မီးအိုး မီးပန်း ပစ်ဖောက်ခြင်း၊ အစား အ သောက်များ ကျွေးမွေးခြင်း၊ နှစ်ဟောင်း လွန်၍ နှစ်သစ် ၏ ပဌမနေ့အရောက်တွင် အဆိုအတီးများဖြင့် ကြိုဆိုခြင်း၊ နဂါးအကဖြင့် လှည့်လည်ခြင်းတို့ကို ပြုသည်။

ဂျပန်လူမျိုးတို့၏ နှစ်ကူးပွဲတော်နေ့တွင် အိမ် ဝင်းတံခါး ပေါက်များ၌ ထင်းရှူးခက်များ၊ ဝါးရွက်များဖြင့် တန်ဆာ ဆင်ကာ အိမ်တံခါးမကြီးများ၌ ဗုဇ္ဈန်ထုပ်များ၊ ကနန်း ကောင်ကြီးများ၊ကြက်သွေးရောင်ရှိသော သစ်သီး ခိုင်များ ကို ချိတ်ဆွဲထားလေ့ရှိသည်။ နှစ်များနှင့်ဆိုင်သော နတ်မင်း ကြီးအား လာမည့်နှစ်တွင် မ စ စောင့်ရှောက်ရန် ပူဇော်ပသ မှု ပြုသော ပွဲတော်ကြီးလည်း ဖြစ်သည်။ နှစ်ဟောင်း၏ နောက်ဆုံးသော ထိုညဉ့်တွင် ၁၂ နာရီထိုးသည်အထိ စကား တပြောပြောနှင့် ထိုင်ကြသည်။ နှစ်ကူးချိန်ကျလျှင် ဘုရား ရှိခိုးကျောင်းမှ ခေါင်းလောင်း ၁၀၀ ကြိမ်ထိုး၍ ၁၀၀ မျိုး သော မကောင်းဆိုးဝါးများ လွင့်စင်စေရန် ဆုတောင်း သည်။မော်ချီခေါ်ကောက်ညှင်းမုန့်များလုပ်၍ ဝေကြသည်။

ရောမလူမျိုးတို့သည် နှစ်ကူးသည့် နံနက်တွင် ကြက်ဦး တွန်သည်နှင့် တပြိုင်နက် ပြင်ဆင်ထားပြီး ဖြစ်သော မိမိတို့ ၏ အိမ်တံခါးများကို ဖွင့်ကာ ရှေးဦးဆုံး မင်္ဂလာ နှုတ်ခွန်း ဆက် စကား ပြောသည်။ သူတို့၏ နှစ်ကူးမင်္ဂလာပွဲကို ခုနစ် ရက်တိုင်တိုင် ကျင်းပကြသည်။ ရောမခေတ်ကောင်းစဉ်ကမူ ကေရာဇ်ဘုရင်အား လက်ဆောင်ပဏ္ဏာများ ဆက်ကြသည်။ ပဌမသော် ခင်မင် လေးစားသည့် အနေဖြင့် အုန်းရွက် ထန်းရွက်များကို ဆက်သသည်သာ ဖြစ်၏။ နောင်တွင် အခွင့်အရေး ရလိုသူတို့က အဖိုးထိုက်အဖိုးတန် ပစ္စည်းများ ကို ဆက်သခဲ့ကြ၏။ ဤရောမသားတို့၏ နှစ်သစ်ကူးနေ့တွင် လက်ဆောင်ပဏ္ဏာ ပေးကမ်းသည့် ဓလေ့ကို ရောမသား ကုန်သည်တို့က ယူဆောင်လာသဖြင့် ပါးရှား နိုင်ငံတွင်လည်း ပျံ့နှံ့ခဲ့ရပေသည်။

အင်္ဂလန်ပြည်ကို ရောမတို့ သိမ်းပိုက်ဘူးသဖြင့် အင်္ဂလိပ် နှစ်သစ်ကူးပွဲ ဓလေ့တွင် ရောမ နှစ်သစ်ကူးပွဲ ထုံးတမ်းများ ရောစွက် လာခဲ့ရပေသည်။ ကေရာဇ် မင်းအား နှစ်သစ်ကူး တွင် လက်ဆောင်ပဏ္ဏာ ဆက်သသည့် ရောမဓလေ့သည် အင်္ဂလန်ပြည်သို့ ရောက်ခဲ့သဖြင့် အင်္ဂလိပ် လူမျိုးများသည် ဘုရင်မင်းမြတ်၊ သို့မဟုတ် ဘုရင်မအား နှစ်သစ်လက်ဆောင် အဖြစ် စိန်ရွှေရတနာ မွမ်းမံ ခြယ်လှယ်ထားသော လက် အိတ်ကို ဆက်သသည့် အလေ့ ဖြစ်လာသည်။ နှစ်သစ်ကူး ဆုတောင်းပွဲများ ပြုလုပ်၍ အချင်းချင်း လက်ဆောင် ပေး ခြင်း၊ နှစ်ဦး ဆုမွန်ကတ်ပြား ပို့ခြင်းများ ပြုကြသည်။

နှစ်သစ်ကူးနေ့တွင် အင်္ဂလိပ် လူမျိုး လင်ယောကျ်ားဖြစ် သူက အိမ်ရှင်မအား တနှစ်လုံးအတွက် တွယ်အပ်များ လုံလောက်စွာ ဝယ်ယူထားရန်ငွေထုတ်ပေးသော ဓလေ့တခု သည် ရှေးအခါက ရှိခဲ့သည်။ ထိုသို့ ထုတ်ပေးသော ငွေကို တွယ်အပ်ငွေဟု ခေါ်သည်။ သို့သော် ထိုဓလေ့သည် ၁၈၀၀ ပြည့်နှစ်လောက်တွင် ကွယ်ပျောက် သွားခဲ့၏။ အဘယ် ကြောင့် ဆိုသော် အင်္ဂလန်ပြည်သည် ၁၈၀၀ ပြည့်လွန်နှစ် များတွင် စက်မှုထွန်းကားသည့် တိုင်းပြည် ဖြစ်လာခဲ့သဖြင့် တွယ်အပ် ရှားပါးမှု မရှိတော့သောကြောင့် ဖြစ်ပေသည်။ သို့ရာတွင် ယခုထက်တိုင် အသေးသုံး ငွေကို တွယ်အပ်ငွေဟု ခေါ်ဝေါ်လျက် ရှိပေသေးသည်။ အင်္ဂလိပ် လူမျိုးများ၏ အခြား နှစ်သစ်ကူး ထုံးတမ်း ဓလေ့တခုကား တနှစ်လုံး ပြုခဲ့သမျှမကောင်းမှုများကို ပယ်ဖျက်ပစ်သည့် သဘောဖြင့် ကျောက်သင်ပုန်းများကို ဆေးကြောခြင်းပင် ဖြစ်၏။ ရှေး အခါကမူ မီးဖိုခေါင်းတိုင်များကို ဆေးကြောကြသည်။ နှစ် ကူးလက်ဆောင် အဖြစ် ဝက်သစ်ချပင်မှ ရသော ကျည်း ပေါင်းသား အဆောင်၊ သို့မဟုတ် လက်ဖွဲ့များ ပေးသည့် အလေ့လည်း ရှိကြသည်။

ဥရောပတိုက် အလယ်ပိုင်းတွင် နေထိုင်ကြသော ဆလဗ် လူမျိုးတို့၏ နှစ်ကူးဓလေ့ကား တမျိုးဖြစ်သည်။ယင်းတို့တွင် ရှေးအခါက ပြက္ခဒိန်နှစ်ဟူ၍ မရှိချေ။ သီးနှံ စိုက်ပျိုးရသော အချိန်ကာလ တပတ်လည်သောအခါတွင် နှစ်ကူးချိန်တချိန် ရောက်သည်ဟု သဘောထားကြသည်။ သီးနှံ ဖွံ့ဖြိုးရေး သည် ယင်းလူမျိုးတို့၏ နှစ်ဆန်းချိန် ဆုတောင်းဖြစ်သည်။

ဆလဗ် အနွယ်ဝင် ရုရှလူမျိုးတို့သည် နှစ်မဆန်းမီညဉ့်တွင် 'နှစ်သစ်၌ ပျော်ရွှင်ဖွယ်သစ်များနှင့်' ဟုဆိုကာ တဦးနှင့် တဦး နှုတ်ဆက်ကြသည်။ ဇာဘုရင်များ လက်ထက်က ရုရှ နိုင်ငံ၌ စက်တင်ဘာလ ၁ ရက်နေ့တွင် ဘုရင်နှင့် မှူးမတ်များ သည် ကရင်မလင်နန်းတော်၏ ဥယျာဉ်သို့ ထွက်ကာ နှစ်သစ် ကို ကြိုဆိုကြသည်။ ထိုအချိန်က ရုရှနိုင်ငံတွင် အယူဝါဒရေး အားဖြင့် နှစ်ဆန်း တရက်နေ့သည် မတ်လ ၁ ရက်နေ့ဖြစ် သဖြင့် ခရစ်နှစ် ၁၅၀၅ ခုနှစ်တွင် စက်တင်ဘာလ ၁ ရက် နေ့ကိုပင် တခုတည်းသော နှစ်ဆန်း တရက်နေ့အဖြစ် သတ် မှတ်လိုက်လေသည်။သို့ရာတွင် ၁၆၉၉ ခုနှစ် ပီတာဘုရင်ကြီး လက်ထက်တွင် ဇန္နဝါရီလ ၁ ရက်နေ့ကို နှစ်ဆန်း တရက်နေ့ အဖြစ် သတ်မှတ်လိုက်သည်။

ရုရှ၊ ပိုလန်စသော လူမျိုးတို့သည် ရှေးအခါက ခရစ်ယန် အယူဝါဒကို မကိုးကွယ်မီ နတ်ဘုရားများကို ယုံကြည်သည့် အလျောက် သေဆုံးသွားသူများသည် နှစ်ဆန်း တရက်နေ့

တွင် လောကကြီးသို့ ပြန်ရောက်လာကြသည်ဟု ယုံကြည်ကြသည်။မြန်မာတို့သည် သင်္ကြန်ချိန်၌ နတ်ပြည်မှ သိကြားမင်း လူ့ပြည်သို့ ခေတ္တဆင်းသက်လာသည်ဟု ယုံကြည်ကြသကဲ့သို့ သူတို့တွင်လည်း နှစ်ကူး ကာလတွင် ဘုရားသခင်နှင့် သူတော်စင် များသည် မိုးကောင်းကင်မှ ကမ္ဘာကြီးသို့ ဆင်းသက်ပြီး လူများ နေထိုင် ကျင့်ကြံပုံကို လာရောက်ကြည့်သည်ဟု အယူ ရှိကြလေသည်။

နှစ်ကူးပွဲများသည် တကျောင်း တဂါထာ တရွာ တပုဒ် ဆန်းပင် ဖြစ်ကြသော်လည်း ယေဘုယျအားဖြင့်မူ လူတိုင်းသည် နှစ်သစ်ကို မင်္ဂလာအပေါင်းနှင့် ပြည့်စုံလိုသော ဆန္ဒဖြင့် ကြိုဆိုကြသည်ချည်း ဖြစ်လေသည်။

**နှစ်တရာစစ်ပွဲ** ( ခရစ် ၁၃၃၇–၁၄၅၃ )။ ။အင်္ဂလိပ် နှင့် ပြင်သစ်တို့သည် ခရစ် ၁၃၃၇ ခုနှစ်မှ ၁၄၅၃ ခုနှစ်အထိ၊ အင်္ဂလိပ်မင်း ၅ ဆက်၊ ပြင်သစ်မင်း ၅ ဆက် ကာလအတွင်း နှစ်ပေါင်းတရာကျော်မျှ စစ်ဖြစ်ခဲ့ကြသည်။ ထိုစစ်ပွဲကို ဥရောပသမိုင်းတွင် နှစ်တရာ စစ်ပွဲဟုခေါ် သည်။ ထိုသို့ ခေါ် ဝေါ်ကြသော်လည်း ထိုစစ်ပွဲသည် နှစ်ပေါင်း တရာကျော် အဆက်မပြတ်တိုက်ခိုက်သည့် စစ်ပွဲမျိုး မဟုတ်ချေ။ နှစ်ဦး နှစ်ဖက်စစ်ပန်းသောအခါ စစ်ပြေငြိမ်း၍၊ အင်အား ပြန်ပြည့်သောအခါ ဆက်လက် တိုက်ခိုက်သော စစ်ပွဲဖြစ်သည်။

စစ်ဖြစ်ရသည့် အကြောင်းသည် အမျိုးမျိုး ဖြစ်သည်။ ခရစ် ၁၀၆၆ ခုနှစ်တွင် နော်မန်ဒီ နယ်စား ဝီလျံသည် အင်္ဂလန်ပြည်ကို အောင်နိုင်၍၊ ဝီလျံ-သ-ကွန်ကရာ အမည်နှင့် စိုးမိုး အုပ်ချုပ်ခဲ့သည်။ ထိုကြောင့် အင်္ဂလန်ပြည် အနေဖြင့် နော်မန်ဒီနယ်ကို အင်္ဂလန်ဘုရင်တို့ ပိုင်သော ဒေသဟု မှတ်ယူခဲ့ကြသည်။ ထိုသို့ မှတ်ယူခဲ့သည့် အတိုင်း ဝီလျံ-သ-ကွန်ကရာ ပိုင်ဆိုင်ဘူးသော နော်မန်ဒီရှိ နယ်ပယ်အချို့ကို အင်္ဂလိပ်တို့က သူပိုင်ထိုက်သည်ဟု ဆိုသဖြင့် ပြင်သစ်တို့နှင့် အချင်းများခဲ့ရသည်။ ထိုပြင် အင်္ဂလိပ် ရေလက်ကြားကြီးကို မှီခိုကြရသော အင်္ဂလိပ်နှင့် ပြင်သစ် တံငါလုပ်ငန်းရှင်တို့သည်လည်း ထိုရေလက်ကြားကြီး၌ ငါးဖမ်းသည့် အခွင့် အရေးကို မှီ၍ အငြင်းပွားကြသည်။ တဖန် စကော့ လူမျိုးတို့က အင်္ဂလန်ပြည်ကို ပုန်ကန်သောအခါ၊ ပြင်သစ်တို့က စကော့လူမျိုးတို့ကို ကူညီသဖြင့် အချင်း များကြပြန်သည်။ ထိုမျှ မကသေး ဖလန်းဒါး ပြည်နယ်နှင့် အင်္ဂလန်ပြည် နှစ်ပြည် သိုးမွေးကုန်ကူးသန်းရေး၌ ပြင်သစ် ဘုရင်တို့က နှောင့်ယှက်၍ ဝိဝါဒကွဲပြားကြသည်။ ဤကဲ့သို့သော အကြောင်း များ ပေါ်




နှစ်တရာစစ်ပွဲကြီးဖြစ်စဉ် အင်္ဂလိပ်တို့ အောင်ပွဲ ရလိုက်သည့် ကရေဆီးတိုက်ပွဲ



**ပြင်သစ်နိုင်ငံကို အင်္ဂလိပ်တို့ဘေးရန်မှ ကယ်တင်လိုက်သော ပြင်သစ်အမျိုးသမီး သူရဲကောင်း ဂျုန်း**

ပေါက်ခဲ့ပြီးနောက် အင်္ဂလန်ပြည့်ရှင် တတိယ အက်ဒွပ်ဘုရင်က ၁၃၃၇ ခုနှစ်တွင် ပြင်သစ်ထီးနန်းကို ပိုင်ဆိုင် ထိုက်သည်ဟု တောင်းဆို လိုက်သောအခါ အင်္ဂလိပ်နှင့် ပြင်သစ်တို့သည် အပြိုင်အဆိုင် စစ်ခင်းကြလေသည်။ (နော်မန်ဒီနယ်။ ဝီလျံ-သ-ကွန်ကရာ — ရှု။)

၁၃၃၈ ခုနှစ်တွင် နှစ်တရာ စစ်ပွဲ စတင် ဖြစ်ပွားသည်။ သို့ရာတွင် ထိုစစ်ကို တဆက်တည်း မတိုက်ခိုက် နိုင်ကြချေ။ ပြင်သစ်ပြည်တွင် တောင်သူ လယ်သမား ပုန်ကန်မှုနှင့် ပြည်တွင်းစစ်ဖြစ်ပွားသောအခါ၌ရင်း၊ အင်္ဂလန်ပြည်တွင် ပလိပ်ကပ်ရောဂါ ကျရောက်ပြီးနောက် တောင်သူ လယ်သမား ပုန်ကန်မှု ဖြစ်ပွားသောအခါ၌ရင်း နှစ်တရာ စစ်ပွဲသည် ခေတ္တမျှ တန့်ရပ်သွားသည်။ ထိုနောက်၌ကား ၁၄၅၃ ခုနှစ်အထိ အင်္ဂလိပ်နှင့် ပြင်သစ်တို့သည် စစ်ကို ဆက်လက် တိုက်ခိုက်ကြသည်။ ၁၃၄၆ ခုနှစ်တွင် အင်္ဂလိပ်တို့သည် ကရေဆီး တိုက်ပွဲ၌ ပြင်သစ်တို့ကို အကြီးအကျယ် အောင်နိုင်လိုက်သည်။ (ကရေဆီးတိုက်ပွဲ — ရှု။) ၁၃၅၆ ခုနှစ်တွင် တဖန် ပွားတျေး တိုက်ပွဲတွင် အင်္ဂလိပ်တို့သည် ယခင်ကကဲ့သို့ပင် အောင်နိုင် လိုက်ပြန်သည်။ ၁၃၆၀ ပြည့်နှစ်တွင် ခေတ္တ စစ်ပြေငြိမ်းခဲ့သော်လည်း အင်္ဂလန်ပြည့်ရှင် ပဉ္စမ ဟင်နရီဘုရင် လက်ထက်တွင် ဆက်လက်၍ စစ်ဖြစ်ပွားပြန်ရာ ၁၄၁၅ ခုနှစ်တွင် အင်္ဂလိပ်တို့ပင်လျှင် အဇန်းကူး (အဂျင်းကုတ်) တိုက်ပွဲကို အောင်နိုင်ပြန်သည်။ ၅ နှစ်မျှကြာသော်၊ ထရွားမြို့ စစ်ပြေငြိမ်းရေး စာချုပ်အရ ပဉ္စမ ဟင်နရီသည် ပြင်သစ် ထီးနန်းကို ရလေသည်။ ၁၄၂၂ ခုနှစ်တွင် ထိုဘုရင် ကွယ်လွန်လေသော် ပြင်သစ် ထီးနန်း ဆက်ခံရေးနှင့် စပ်လျဉ်း၍ ဝိဝါဒ ဖြစ်လာပြီးလျှင်၊ အင်္ဂလိပ်နှင့် ပြင်သစ်တို့ စစ် ဖြစ်ကြပြန်သည်။ ၁၄၂၈ ခုနှစ်၌ကား အင်္ဂလိပ်တို့သည် ပြင်သစ်ပြည်ကို ချင်းနင်း ဝင်ရောက်ကာ၊ အော်လီယန်းမြို့ကိုပင် သိမ်းယူအံ့ဆဲဆဲအခြေသို့ဆိုက်ရောက်ခဲ့၏။ ၁၄၂၉ ခုနှစ်တွင် ပြင်သစ်နိုင်ငံသမိုင်းတွင် ထင်ရှားသော ဂျုန်းအောဝ့်အတ်သည် အော်လီယန်းတိုက်ပွဲတွင် ပြင်သစ်တပ်ကို ဦးစီး၍၊ အင်္ဂလိပ်တို့ကို ကောင်းစွာ တွန်းလှန်နိုင်ခဲ့၏။ သို့ရာတွင် ဂျုန်းအောဝ့်အတ်သည် အင်္ဂလိပ် လက်တွင်းသို့ ကျရောက်၍၊ မီးတင်ရှို့ခြင်း ခံရလေသည်။ ၁၄၅၃ ခုနှစ်သို့ ရောက်မှပင် ထိုနှစ်ရှည် စစ်ပွဲကြီးသည် ပြီးဆုံးခြင်းသို့ ရောက်လေသည်။ စစ်ပွဲကြီး ပြီးသောအခါ အင်္ဂလိပ်တို့သည် ပြင်သစ်ပြည်မှ ကဲလေးမြို့ တခုတည်းကိုသာ ရလိုက်လေသည်။ (ဂျုန်းအောဝ့်အတ် — ရှု။)

**နှစ်သစ်ကူးနေ့။** ။ (နှစ်ဆန်းတရက်နေ့ — ရှု။)



နှစ်သုံးဆယ် စစ်ပွဲအတွင်း ရော့ကရွားတိုက်ပွဲ (၁၆၄၃ ခုနှစ် မေလ ၁၉ ရက်နေ့) ၌ စပိန်တို့အပေါ် ပြင်သစ်တို့ အနိုင်ရလိုက်စဉ်

**နှစ်သုံးဆယ် စစ်ပွဲ** (ခရစ် ၁၆၁၈--၁၆၄၈)။ ။နှစ်သုံးဆယ်စစ်ပွဲသည် ခရစ် ၁၆၁၈ ခုနှစ်မှ ၁၆၄၈ ခုနှစ်အထိ ဥရောပတိုက်တွင်ဖြစ်ပွားခဲ့သော ကိုးကွယ်ရာအယူဝါဒရေးစစ်ပွဲကို ဆိုလိုသည်။ ထိုစစ်ပွဲသည် ဂျာမနီပြည်နယ်များရှိ ပရိုတက်စတန့်ဂိုဏ်းနှင့် ရောမ ကက်သလစ် (ဗရင်ဂျီ) ဂိုဏ်းနှစ်ဂိုဏ်းတို့ မသင့်မတင့် ဖြစ်ကာ၊ ပြည်တွင်းစစ် ဖြစ်ရာမှ စတင် ဖြစ်ပွားခဲ့သည်။ ထိုပြည်နယ်များမှတဆင့် ထိုစစ်သည် ဥရောပတိုက်ရှိ တိုင်းပြည်အများသို့ ပျံ့နှံ့သွားသည်။ ထိုစစ်ကြောင့် ဂျာမနီပြည်၏ လူဦးရေတဝက်သည်ရှင်း၊ ဗိုဟီးမီးယားပြည်၏လူဦးရေ ၃ ပုံ ၂ ပုံသည်ရှင်း သေဆုံး၍၊ မြို့ရွာပေါင်း ၁၅၀၀၀ မျှ ပျက်စီးရလေသည်။ (ခရစ်ယန် သာသနာ့ အရေးပုံ — လည်းရှု။)

စစ်ဖြစ်ရသည့်အကြောင်းကား ဤသို့တည်း။ ၁၅၅၅ ခုနှစ်တွင် ဂျာမနီပြည်၌ ပေါ်ပေါက်သော ကိုးကွယ်ရာ အယူဝါဒဆိုင်ရာပြဿနာတို့ကို အောက်စဗူမြို့စာချုပ်ဖြင့် ဖြေရှင်းခဲ့သော်လည်း ကြေနပ်မှု မရှိခဲ့ချေ။ ပရိုတက်စတန့်ဂိုဏ်းနှင့် ကက်သလစ်ဂိုဏ်း နှစ်ဂိုဏ်းစလုံးပင် စာချုပ်ကို ချိုးဖောက်ခဲ့လေသည်။ ၁၆၀၈ ခုနှစ်တွင် ပရိုတက်စတန့်တို့က တသင်း၊ ကက်သလစ်တို့ကတသင်းဟူ၍ သင်းဖွဲ့ကြ၏။ ထိုအခါ ပရာဟာမြို့ဂိုဏ်းချုပ်ကြီးသည် ပရိုတက်စတန့် ဂိုဏ်းသားတို့၏ ဘုရားရှိခိုးကျောင်းတကျောင်းကို မီးတိုက် ဖျက်ဆီးလေသည်။ ထိုသို့ ဖျက်ဆီးသည်ကို ကန့်ကွက်သောအားဖြင့်၊ ပြည်သူတို့က ဧကရာဇ်ဘုရင် မားတီယတ်ကို လျှောက်ထားကြ၏။ သို့သော် ဘုရင်သည် အရေးမယူလေ။ ဤတွင် ပရိုတက်စတန့်တို့ ပုန်ကန်ထကြွလေသည်။ ပရိုတက်စတန့်တို့သည် ဘုရင်၏ ဝန်ကြီး ၂ ဦးကို ဖမ်းဆီး၍၊ နန်းတော်ပြတင်းပေါက်မှ ပစ်ချကာ အဆုံးစီရင်လိုက်လေသည်။ ဤတွင် ဗိုဟီးမီးယားပြည်၌ ပြည်တွင်းစစ် ဖြစ်ပွားလေသည်။ ဗိုဟီးမီးယားပြည်ရှိ ပရိုတက်စတန့် ဂိုဏ်းသားတို့သည် ကက်သလစ်ဂိုဏ်းဝင်ဖြစ်သူ ဖာဒီနန်ဘုရင်ကို နန်းချ၍ ပရိုတက်စတန့်ဂိုဏ်းဝင်ဖြစ်သူ ဖရက်ဒရစ်ကို နန်းတင်လေ၏။ သို့ရာတွင် ၁၆၂၀ ပြည့်နှစ်၌ ဖရက်ဒရစ်သည် စစ်ရေးနိမ့်သဖြင့်၊ ကက်သလစ် အယူဝါဒသည် ဗိုဟီးမီးယားပြည် တပြည်လုံးကို လွှမ်းမိုးသွားလေသည်။

ဗိုဟီးမီးယား၌ ပရိုတက်စတန့် ဂိုဏ်းသားတို့ အရေးနိမ့်သည်ကို တွေ့ရလေသော်၊ အခြား ပရိုတက်စတန့် ဂိုဏ်းဝင်တိုင်းပြည်တို့သည် တုန်လှုပ်ချောက်ချား လာလေ၏။ ထိုကြောင့် ၁၆၂၅ ခုနှစ်မှ ၁၆၂၉ ခုနှစ်အထိ ဒိန်းမတ်ပြည့်ရှင် စတုတ္ထ ခရစ္စတီယန်ဘုရင်သည် ဖာဒီနန်ဘုရင်ကို ဆန့်ကျင်၍ စစ်ခင်းလေသည်။ သို့ရာတွင် စတုတ္ထ ခရစ္စတီယန် ဘုရင်သာ

လျှင် အရေးနိမ့်ရလေသောကြောင့် ၁၆၂၉ ခုနှစ်တွင် စစ်ပြေငြိမ်းစာချုပ်ကို လက်မှတ် ထိုးရလေသည်။ ထိုစာချုပ်အရ ပရိုတက်စတန့်တို့ ပိုင်ဆိုင်သော ဘုရား ရှိခိုးကျောင်းများကို ကက်သလစ် ဂိုဏ်းအား ပေးအပ် ရလေသည်။ ဤကား နောက်ထပ် စစ်ပွဲတခု ဖြစ်ပွားစေအောင် ဖန်တီးလိုက်သော အချက် ဖြစ်လေသည်။

၁၆၃၀ ပြည့်နှစ်မှစ၍ ၁၆၃၂ ခုနှစ် အထိ ဆွီဒင်ပြည့်ရှင် ဂပ်စတားဗပ်အဒေါဖပ်သည် ကက်သလစ်ဂိုဏ်းဝင် ဖာဒီနန် ဘုရင်နှင့် စစ်ဖြစ်ရပြန်လေသည်။ စစ်ဖြစ်ရခြင်းအကြောင်းမှာ နှစ်ချက်ရှိသည်။ ပဌမအချက်၌ အဒေါဖပ်သည် ပရိုတက်စတန့်ဝါဒကို ကောင်းစွာ ယုံကြည်သူ ဖြစ်သည်။ ဒုတိယ အချက်၌ ဖာဒီနန် တန်ခိုးကြီးလာလျှင်၊ ဆွီဒင်ပြည် အတွက် စိုးရိမ်စရာဖြစ်လာလေမည်။ ထိုကြောင့် ဆွီဒင်ပြည်သည် စစ်ထဲဝင်လာရလေရာ၊ ထိုသည်မှစ၍ မူလက အယူဝါဒရေးရာ၌ အခြေခံသော စစ်ပွဲသည် ဆွီဒင်ပြည် ဝင်လာသောအခါ နိုင်ငံရေးရာ စစ်ပွဲသဘောသို့ သက်ဝင်လာလေသည်။ ထိုစစ်ပွဲတွင် ဆွီဒင်ပြည်သည် ၁၆၃၁ ခုနှစ်၌ တကြိမ်၊ ၁၆၃၂ ခုနှစ်၌ တကြိမ် ပေါင်း ၂ ကြိမ် အနိုင်ရရှိခဲ့သည်။ သို့သော် ဒုတိယအကြိမ် စစ်အောင်ပွဲတွင် ဘုရင်အဒေါဖပ်သည် စစ်မြေပြင်၌ ကျဆုံးလေသည်။ ၁၆၃၄ ခုနှစ် စစ်ပွဲ၌ကား ဆွီဒင်စစ်တပ်သည် မရှုမလှ အရေး နိမ့်ရလေသည်။

ဤသို့လျှင် မူလက ဗိုဟီးမီးယားပြည်ကိုသာ အစိုးရသော ဖာဒီနန်ဘုရင်သည် ယခုအခါ ဩစတြီးယားနယ် အပါအဝင် ဂျာမနီပြည်ကြီးကို ဖွဲ့စည်းတည်ထောင်နိုင်ပြီ ဖြစ်သည်။ ဖာဒီနန်သည် ဟက်စဗတ်အနွယ် ဖြစ်လေရာ၊ ဟက်စဗတ်တို့သည် ဥရောပတွင် တန်ခိုးကြီးလာလေသည်။ ထိုအချက်ကို ပြင်သစ်ပြည်ရှိ ဗူးဗွန်း အနွယ်တို့က သည်းမခံနိုင်ချေ။ ပြင်သစ်ပြည်ကို ဟက်စဗတ်တို့ လွှမ်းမိုးမည်ကို စိုးရိမ်သည်။ ပြင်သစ်ပြည် ဗူးဗွန်းတို့ကို ခေါင်းဆောင်သူကား ပြင်သစ် နိုင်ငံသမိုင်းတွင် ထင်ရှားသော ကာဒင်နယ်ရစ်ရှလျူး ဖြစ်သည်။ (ရစ်ရှလျူး, ကာဒင်နယ်—ရှု။) ရစ်ရှလျူးသည် အထက် ဖော်ပြပါ စိုးရိမ်ချက်ကြောင့်၊ ပရိုတက်စတန့်တို့ကို စစ်ကူပေးလေသည်။ ၁၆၃၅ ခုနှစ်တွင် ပြင်သစ်စစ်တပ်သည် ဂျာမနီပြည်ကို ဝင်ရောက်၍၊ ပရိုတက်စတန့် ဂိုဏ်းသားတို့နှင့်အတူ၊ ဖာဒီနန်၏ စစ်တပ်တို့ကို တိုက်ခိုက်ရာ၊ ထိုသည်မှစ၍ မူလက ကိုးကွယ်ရာ အယူဝါဒရေးရာစစ်ပွဲ၏ သဘာဝတို့ လုံးဝပျောက်ကွယ်ပြီးလျှင်၊ နိုင်ငံရေး စစ်ပွဲ သဘာဝတို့ ပေါ်ထွန်း လာလေသည်။ ထိုစစ်ကြောင့် ဂျာမနီပြည်သည် အတိဒုက္ခ ရောက်ခဲ့၏။ ထိုကြောင့် ၁၆၄၄ ခုနှစ်တွင် စစ်ပြေငြိမ်းရန် ဥပရောပတိုက်ရှိ တိုင်းပြည်များမှ ကိုယ်စားလှယ် အသီးအသီးတို့သည် စေ့စပ်ကြရလေသည်။ စေ့စပ်ရေးသည် ၄ နှစ်ကြာခဲ့၍၊ ၁၆၄၈ ခုနှစ်သို့ ရောက်မှသာ ဝက်စဖေးလီးယားမြို့တွင် စစ်ပြေငြိမ်းရေး စာချုပ်ကို ချုပ်ဆို နိုင်ကြလေသည်။

နှစ်သုံးဆယ် စစ်ပွဲကြောင့် ဂျာမနီပြည်သည် လူဦးရေ တဝက်ကျော်မျှ ကုန်ခန်းခဲ့ရပြီးလျှင်၊ ပြည်သူအိုးအိမ်ပစ္စည်းလည်း ၃ ပုံ ၂ ပုံမျှ ပျက်စီးခဲ့ရသည်။ အနုပညာ၊ သိပ္ပံပညာ၊ ကုန်သွယ်ရေး၊ စက်မှု လက်မှု လုပ်ငန်း စသည်တို့ အားလုံး လိုလိုပင် ပျက်စီးလေရကား၊ ဥရောပတိုင်းပြည် (အထူးသဖြင့် ဂျာမနီပြည်) တို့၌ နေထိုင်ကြသူတို့သည် စိတ်အကြီးအကျယ် ပျက်၍ အမေရိကတိုက်သို့ ပြောင်းရွှေ့ သွားကြသည်။ စစ်ပြီး၍ ဂျာမနီပြည်ကို ပြန်လည်ထူထောင်သောအခါ၊ နှစ်ပေါင်း နှစ်ရာကြာမျှ ထူထောင်ရလေသည်။

**နှုတ်သီးတို။** ။နှုတ်သီးတိုငှက်ကိုတလိုင်းကောင်ဟုလည်း ခေါ်ကြသည်။ ထိုငှက်၏ ပါဏဗေဒ အမည်မှာ 'ပလူဗီအေးလစ် ဒိုမင်နိကဖုလာဗာ'ဖြစ်သည်။အင်္ဂလိပ်အခေါ် ပလိုဗာ ငှက်မျိုးတွင် ပါဝင်သည်။

နှုတ်သီးတိုငှက်၏ အလျားသည် ၁၀ လက်မရှိသည်။ ပျံသန်းသည့် အခါတွင် တင်ပါးနှင့် အမြီးတို့သည် မည်းနက်နေသည်ဟု ထင်ရသည်။ သားပေါက်ချိန်တွင် ယင်းငှက်၏ အသွေးအရောင်သည် တမျိုးပြောင်း၏။ ကိုယ်အောက်ပိုင်းသည် မည်း၍ ကျောပေါ် တွင် ရွှေရောင် အစက် အပြောက်များကို ထင်ရှားစွာမြင်ရသည်။ ယင်းငှက်၏ အော်သံသည် အနည်းငယ် စူးရှသော်လည်း နားထောင်၍ ကောင်းသော နှစ်ဆင့် လေချွန်သံမျိုး ဖြစ်သည်။

နှုတ်သီးတိုငှက်သည် နွားစားကျက်နှင့် ကမ်းခြေရှိ ရွှံ့နွံများတွင် ကျက်စားသည်။ ထွန်ယက်ပြီးစ လယ်ကွက်နှင့် စိုစွတ်သော မြက်ခင်းများကို အထူးနှစ်သက်သည်။ ပျံသန်းရာတွင် အလွန်လျင်မြန်၍၊ စုစု ရုံးရုံး စည်းကမ်းသေဝပ်စွာ ပျံသန်းတတ်သည်။ ယင်း၏ အစာမှာ ပိုးမွှား၊ သစ်သီးနှင့် အစိုအညှောက်များဖြစ်သည်။ပင်လယ် အနီးအပါး၌ ကျက်စားသည့် အခါများတွင် ခရုနှင့်ပင်လယ်ပိုးမွှားများကို စားလေသည်။

နှုတ်သီးတို ငှက်များသည် ဆိုက်ဗီးရီးယား မြောက်ပိုင်းတွင် သားပေါက်ကြ၍၊ ဆောင်းရာသီ၌ အိန္ဒိယ နိုင်ငံ၊ မြန်မာနိုင်ငံ၊ မလ္လာယုနှင့် ဩစတြေးလီးယားတိုက်သို့ ရောက်လာလေ့ ရှိသည်။

**နှုတ်သီးပြားငှက်။** ။ပါဏဗေဒ အလိုအားဖြင့် နှုတ်သီးပြားငှက်များကို 'ပလက်တေးလီးယား လျူကို ရိုဒီးယား' ဟုခေါ်သည်။ ထိုငှက်တို့သည် ခရုစုတ် ငှက်များနှင့် အတူ 'သရက်စကီအိုနီသီဒီး' မျိုးရင်းတွင်ပါဝင်သည်။ ထိုငှက်တို့၏ နှုတ်သီးမှာ ဇွန်းကဲ့သို့ ပြားသည်။ ထိုအချက်ကို အစွဲပြု၍



ဇွန်းကဲ့သို့ နှုတ်သီးပြား၍ ကိုယ်ထည်ဖြူပြီး ခြေတံမည်းသည့် နှုတ်သီးပြားငှက်

အင်္ဂလိပ်ဘာသာဖြင့် 'စပွန်းဗီ' ဟု ခေါ်သည်။ လည်တိုင်နှင့် ခြေတံတို့ ရှည်သည်။ ကိုယ်ထည်အမွေးရောင်ဖြူဆွတ်၍၊ ခြေတံ မည်းသည်။ နှုတ်သီးမှာ အမည်းရောင်နှင့် အဝါရောင် ရှိသည်။ သားပေါက်ချိန်၌ လည်ကုပ်တွင် ရှည်လျားသော အမောက်များ ရှိသည်။ ငှက်ဖိုနှင့် ငှက်မ ခွဲခြား၍မရပေ။ ထိုငှက်တို့သည် ရွှံ့နှံ့ ထူထပ်သော ရေစပ်တွင် ကျက်စားလေ့ ရှိကြသည်။

နှုတ်သီးပြား ငှက်တို့ကို မြစ်ချောင်း အင်းအိုင်များတွင် တွေ့ရသည်။ ၁၀ ကောင်မှ အကောင် ၂၀ အထိ အုပ်ဖွဲ့၍ နေတတ်ကြသည်။ ခရုစုတ်၊ ငှက်ကြီးဒုံးစပ်၊ ငှက်ကုလား၊ ခြည်ခင်စွတ်ငှက် စသော ငှက်များနှင့်အတူ ရော၍ ရေစပ်တွင် ကျက်စားလေ့ ရှိကြသည်။ နေ့အချိန်တွင် နားနေ၍ ညနေစောင်းအချိန်တွင် အစာရှာ ထွက်ကြသည်။ ပျံသန်းပုံမှာ ခြေတံနှင့် လည်တိုင်ကို ဆန့်ထုတ်ပြီးလျှင် အတောင်ကို မှန်မှန် ခတ်၍ နှေးကွေးစွာ ပျံသန်းသည်။ ယင်းတို့၏ အစာမှာ ခရု၊ ငါးနှင့် ပိုးမွှားများ ဖြစ်သည်။ အသီးအနှံကိုလည်း စားလေ့ ရှိကြသည်။ ညဉ့်အချိန်၌ အစာရှာစားတတ်သော အကျင့်ရှိသည်။ အစာရှာပုံမှာ ရေစပ်တွင် လျှောက်သွားယင်း နှုတ်သီးကို ရေထဲသို့ နှစ်သည်။ ထိုနောက် နှုတ်သီးကို ဗယ်ပြန် ညာပြန်ခတ်၍ အစာကို ဖမ်းယူသည်။ ညည်းသံကဲ့သို့သော အသံကို ပြုလုပ်တတ်၍၊ ထိုအသံကို အနီးကပ်လာမှ ကြားရသည်။

သားပေါက်ချိန်သည် အရပ်ဒေသနှင့် မိုးဥတု အချိန်ကို လိုက်၍ ပြောင်းလဲသည်။ သို့သော် ဩဂုတ်လနှင့် နိုဝင်ဘာလကြားတွင် အထူးအားဖြင့် သားပေါက်လေ့ ရှိကြသည်။ အသိုက် လုပ်သောအခါ များသောအားဖြင့် ထိုငှက်တို့ချည်း အုပ်ဖွဲ့၍ လုပ်တတ်ကြသည်။ သို့သော် ဗျိုင်း၊ ခရုစုတ်ငှက်တို့နှင့် အတူရောရော၍လည်း တခါတရံ အသိုက်လုပ်သည်ကို တွေ့ရတတ်သည်။ အသိုက်ကို သစ်ပင်၊ ချုံပင်များပေါ်တွင် သစ်ကိုင်းများနှင့် ပြုလုပ် တတ်ကြသည်။ အသိုက်ဟောင်းကို တနှစ်ပြီးလျှင် တနှစ် ပြုပြင်၍ ပြန်လည် အသုံးပြုသည်။ တမြုံလျှင် ဥ ၄ လုံးခန့် ရှိသည်။ ဥအရောင်မှာ ဖြူ၍၊ နီညိုရောင် အပြောက်များ ပါရှိသည်။ ပေါက်ခါစ ငှက်ကလေးများ၏ နှုတ်သီးမှာ မပြားသေးဘဲ၊ နှုတ်သီးရိုးရိုးကဲ့သို့ပင် ရှိသည်။ အရောင်မှာ ပန်းနုရောင် ဖြစ်သည်။ အမွေးအတောင် မစုံမီပင် နှုတ်သီးသည် ဇွန်းကဲ့သို့ ပြားသွားသည်။

နှုတ်သီးပြားငှက်များကို ဥရောပတိုက်၊ အာဖရိကတိုက်၊ အာရှတိုက်၊ အမေရိက တိုက်တို့တွင် အနှံ့ အပြား တွေ့ရသည်။ မြန်မာနိုင်ငံ၌ ထိုငှက်များကို တွေ့ရခဲသည်။ မင်းဘူးခရိုင်နှင့် ရခိုင်ပြည်နယ်တွင် ထိုငှက်မျိုးကို တွေ့ရဘူးသည်ဟု ဆိုသည်။

**နံ့ကောင်။** ။ နံ့ကောင် အမျိုးပေါင်း များစွာ ရှိသည်။ နံ့ကောင်၊ ပုရစ်နှင့် မြေခွေးခေါ် ပုရစ်တမျိုးတို့သည် လူ၏ ရန်သူများ ဖြစ်ကြသည်။ မြေခွေးသည် ပွေးကောင်နှင့် အလွန်တူသဖြင့် ယင်းကို ပွေးပုရစ်ဟူ၍လည်း ခေါ်ကြသည်။ အအုပ် အစုကြီးများနှင့် တွေ့မြင်ရသည့် နံ့ကောင်မျိုးကို ကျိုင်းကောင်ဟူ၍ ခေါ်သည်။ နံ့ကောင်များကို တောထဲ၌ဖြစ်စေ၊ မြက်ပင်များ၌ဖြစ်စေ၊ ကောက်ပဲသီးနှံ စိုက်ခင်းများထဲ၌ ဖြစ်စေ တွေ့မြင်ရသည်။ အကြီး အငယ် အရွယ်အစားစား ရှိကြသည့် နည်းတူ၊ အရောင်မှာလည်း အစိမ်းရောင်၊ အနက်နှင့် အဖြူ၊ အညို စသည်ဖြင့် ကွဲပြားလျက် ရှိသည်။ အချို့မှာ ရှေ့သို့ ကိုင်းနေသော ဦးမှင်တိုများ ရှိကြသဖြင့်၊ ဦးချိုတို နံ့ကောင်ဟု ခေါ်ကြသည်။ ပါဏဗေဒ အမည်မှာ အက်ကရီဒိုင်အိဒီး ဖြစ်သည်။ အချို့မှာမူ ကျောပေါ် သို့



တောင်ပံချင်း ပွတ်က၇ ညံ့ညံ့စီစီ အသံမြည်တတ်သည့် နံ့ကောင်

ကွေးနေသော ဦးမှင်ရှည်များရှိရာ ဤနံ့ကောင်မျိုးကို ဦးချိုရှည်နံ့ကောင်ဟု ခေါ်သည်။ ပါဏဗေဒ အမည်မှာ တက်တီဂိုနိုင်အီဒီး ဖြစ်သည်။

နံ့ကောင်တို့၏ နောက်ခြေများသည် အလွန် ရှည်၍ သန်မာသဖြင့်၊ အရှယ်နှင့်မမျှအောင် ခုန်လွှား သွားနိုင်ကြသည်။ နံ့ကောင်တွင် အတောင် နှစ်စုံရှိရာ၊ နားနေသည့်အခါ နူးညံ့ပါးလွှာသော နောက်ပိုင်း အတောင်စုံကို ထူထဲသော အရှေ့အတောင်စုံက ဖုံးအုပ်ထားသည်။ ပျံသန်းသည့်အခါမှသာ နံ့ကောင်တို့သည် နောက်ပိုင်း အတောင်စုံကို သုံးသည်။ ခုန်လွှားသွားနေစဉ်၊ အတောင်များကို ဖွင့်ကာ အားယူလေ့ ရှိကြသဖြင့်၊ အလျား ကျယ်ကျယ် ခုန်နိုင် လွှားနိုင်ကြသည်။ သို့သော် အတောင်များ မရှိသော နံ့ကောင်မျိုးများလည်း ရှိနေသေး၏။ ဤနံ့ကောင်တို့သည် မပျံနိုင်သဖြင့် ခြေထောက်ကိုသာ အားကိုး၍၊ ခုန်လွှားကာ နေတတ်ကြသည်။ ဥမှ ပေါက်လာခါစ နံ့ကောင်ကလေးတို့တွင်လည်း အတောင်များ ရှည်လျားစွာ ထွက်ပေါ်၍ မလာသေးသဖြင့် ခုန်လွှားကာမျှသာ သွားလာနိုင်ကြလေသည်။

နံ့ကောင်၊ ကျိုင်းကောင်နှင့် ပုရစ်တို့သည် အလွန် ဆူညံစွာ မြည်နေတတ်သော ပိုးကောင်များ ဖြစ်သည်။ ဤပိုးကောင်များ၏ မြည်သံကို ညနေချမ်းနှင့် ညဥ့်အခါများ၌ ပို၍ ကြားရသည်။ ပိုးကောင်တို့သည် ပါးစပ်ဖြင့် အသံမြည်အောင် မပြုလုပ်နိုင်ကြပေ။ နံ့ကောင် စသည်တို့ထံမှ ကြားရသော အသံသည် စင်စစ်အားဖြင့် အတောင်ချင်း ပွတ်သော အသံမျှသာ ဖြစ်၏။ ထို့ကြောင့် နံ့ကောင်ကို လက်ထဲ၌ ကိုင်ထားလျှင် အတောင်ချင်း မပွတ်နိုင်သဖြင့် အသံမမြည်ချေ။

နံ့ကောင်တမျိုး ဖြစ်သော ကျိုင်းကောင်တွင် အသံကြားနိုင်သော နားမှာ ကျောပေါ်၌ရှိသည်။ သာမန် ဦးချိုရှည်နံ့ကောင်နှင့် ပုရစ်တို့၏ နားမှာ ရှေ့ခြေထောက်စုံ၏ ပဌမအဆစ်အောက်ဖက်တွင် ရှိကြသည်။

နံ့ကောင်တို့တွင် အလွန် သန်မာသော ပါးရိုးများရှိရာ၊ သစ်ရွက်စိမ်းနှင့် သစ်ပင် ငယ်တို့၏ ပင်စည်များကို ကိုက်ဖြတ်၍ စားသောက် တတ်ကြသည်။ လယ်ကွက်ထဲ၌ နံ့ကောင်များ ကျလာလျှင် စိုက်ပျိုးထားသော ကောက်ပဲသီးနှံပင်များ ပျက်စီး ဆုံးပါးတတ်လေသည်။

လူတို့၏ စိုက်ပျိုးထားသော သီးနှံ ပင်များကို ရစရာ မရှိအောင် ကိုက်ဖြတ် ဖျက်ဆီးပစ်တတ်သော နံ့ကောင်မျိုးမှာ ဦးချိုတိုမျိုးဖြစ်၍၊ ''ကျိုင်းကောင်'' ဟု ခေါ်သည်။ (ကျိုင်းကောင် — ရှု။) အာရှတိုက်နှင့်အာဖရိကတိုက်ရှိ တောင်သူလယ်သမားတို့သည် စိုက်ခင်းထဲသို့ ကျိုင်းကောင်များ ကျရောက်မည့်ဘေးကို အထူးတလည်စိုးရိမ်ရသည်။ မှေ့ဟောင်းခေတ်က အီဂျစ်ပြည်တွင် ကျရောက်သော ဒဏ်ဆယ်ပါးထဲတွင် ကျိုင်းကောင်များ ကျသဖြင့် သီးနှံပင်များ ပျက်စီးဆုံးပါးရခြင်းသည်လည်း အပါအဝင် ဖြစ်လေသည်။ ထိုသီးနှံဖျက် ပိုးကောင်တို့၏ ရန်ကို ကာကွယ်ဆီးတားရန် မအောင်မြင်ကြသေးသဖြင့် ယနေ့ထက်တိုင် တောင်သူလယ်သမားတို့သည် ကျိုင်းကောင်၏ ဘေးရန်ကို စိုးရိမ်မကင်း ရှိနေကြရသေးသည်။

အအုပ်အစုကြီးများနှင့် ပျံသန်းချီတက်လာသော ကျိုင်းကောင်များသည် လူတို့ စိုက်ပျိုးထားသော လယ်ကွင်းထဲသို့ ကျရောက်လာလျှင် အသီးအနှံကို မဆိုထားဘိ၊ အရွက် ပင်စည် ဟူ၍ တခုတလေမျှ မကျန်ရစ်အောင် ကိုက်ဖြတ်ဖျက်ဆီးပစ်တတ်ကြသဖြင့်၊ ထိုဒေသ တဝိုက်၌ နေထိုင်ကြသော လူများတွင် အစာခေါင်းပါးခြင်းကပ် ဆိုက်ရောက်ရလေသည်။ ယင်းကဲ့သို့ ကျိုင်းကောင်အုပ်ကြီးများ ပျံသန်းချီတက်လာသည့်အခါ၊ အကောင်ရေ မည်မျှ ပါမည်ဟု ခန့်မှန်း၍ပင် မရနိုင်လောက်အောင် များပြားကြသည်။ ပဌမဦးစွာ မိုးကုတ်စက်ဝိုင်း၌ လေမုန်တိုင်းဆင်မည်ကဲ့သို့ မည်းနက် ညိုမှောင်နေသည့် တိမ်တိုက်သဖွယ် ကျိုင်းကောင်အုပ်ကြီးကို တွေ့မြင်ရ၏။ နေမဝင်မီ ထိုအုပ်ထဲမှ ကျိုင်းကောင်တို့သည် မိုးကောင်းကင်တခွင်လုံး၌ ဖြန့်ကာ ပျံသန်းနေကြ၍၊ နေလုံးပျောက်ကာ အမှောင် ရောက်သည်နှင့် တပြိုင်နက် မြေပြင် တခုလုံးကို စောင်ဖြင့် လွှမ်းချုံလိုက်သည့်အလား၊ အောက်သို့ သက်ဆင်း ကြလေသည်။ ထို့နောက် ကျိုင်းကောင်တပ်ကြီးသည် စိမ်းလန်းစိုပြည်နေသည့် မြက်ခင်းနှင့် လယ်ကွင်းများသို့ ရွေ့ရှားကာ၊ တရွေ့ရွေ့ ချီတက်လာကြလေသည်။ ဤကဲ့သို့ ကျိုင်းကောင်အုပ်ကြီး ဖြတ်ကျော်ရာ လမ်းတလျှောက်တွင် ရှိသမျှသော အပင်တို့ကို အောက်ခြေသိမ်း စားသောက် ဖျက်ဆီးပစ်ကြရာ အရိုးအရွက် အစအနကလေးမျှ မကျန် ပြုန်းတီးကုန်ရလေ၏။ အကယ်၍ ရှေ့တွင် မြစ်ကြီး ကာဆီးနေစေကာမူ၊ ရှေ့တန်းမှ ကျိုင်းကောင်တို့သည် တကောင်နှင့် တကောင် တွဲယှက်ကာ တန်တားခင်းပေး၍ နောက်တန်းမှ လိုက်ပါလာသော ကျိုင်းကောင်တို့သည် ထိုတန်တားဖြင့် မြစ်ကို ကျော် ဖြတ်ချီတက် သွားကြလေသည်။

ကျိုင်းကောင် အုပ်ကြီးများနှင့် စပ်လျဉ်း၍ လူတို့မသိနားမလည်နိုင်သော အချက်အလက်များစွာ ရှိသေးသည်ဟု ဆိုရသော်လည်း၊ တစတစနှင့် ထိုသီးနှံဖျက် ပိုးကောင်တို့၏ အလေ့အထများကို သိရှိလာကြပြီး ဖြစ်၏။ ကျိုင်းကောင်တို့သည် နှစ်စဉ်မလာတတ်ကြသည့်အပြင်၊ တနေရာတည်းကိုလည်း အစဉ်သဖြင့် တိုက်ခိုက် ဖျက်ဆီးလေ့ မရှိ။ သို့ရာတွင် ကမ္ဘာပေါ်တွင် ကျိုင်းကောင်များ ပေါက်ပွားသောအရပ်များရှိကြောင်းသိရှိရလေသည်။ ထိုကဲ့သို့သော အရပ်များတွင် အမြဲတမ်းနေသော ကျိုင်းကောင်များရှိ၍

အကောင်ငယ်များ ပေါက်ပွား များပြားလာသည့် အခါ တဖက်ဖက်သို့ တစုတဝေးတည်း ခုန်ကာခုန်ကာ ခရီး ထွက်ကြလေသည်။ ဤအတောအတွင်း အကောင်ရေ တိုးပွားလာသည့် အပြင်၊ အကောင်များလည်း ကြီးထွားလာကြသည်။ ထိုအခါကျလျှင် ကျိုင်းကောင်တအုပ်လုံး ထပျံကြ၍၊ အတောင်ညောင်းခါမှ မြေပြင်ပေါ် သို့ သက်ဆင်းလျက် အပင်စိမ်းဟူသရွေ့ တို့ကို ကိုက်ဖြတ် ဖျက်ဆီးပစ်တတ်ကြလေသည်။

နှံကောင်တို့သည် မြေကြီး၌ တွင်းဖောက်၍ ဥများကို အုချကြသည်။ ဥမှ ပေါက်ထွက်လာသည့် အကောင်ငယ်သည် ပိုးတုံးလုံး၊ ခူ၊ ပေါက်ဖတ်တို့ကဲ့သို့ မဟုတ်ဘဲ၊နှံကောင်ငယ်ပင်ဖြစ်၏။ ရှေးဦး ပဌမတွင် အကောင်ငယ်၌ အတောင်များ မပေါ် ထွက်သေးချေ။ ကိုယ်၏ အရောင်မှာ စိမ်းနေသည်။ နှံကောင်ငယ်တို့သည် တွားရှဲသော်၎င်း၊ ခုန်၍သော်၎င်း သွားကြ၍ မြက်နုများကို စားကြသည်။ နှံကောင်များသည် အစားကောင်းသော ပိုးကောင်များ ဖြစ်ကြသည့် အလျောက်၊ လျှင်မြန်စွာ ကြီးထွား လာကြရာ၊ အရေများ ကျပ်တည်း၍ လာလျှင် ချက်ခြင်းလဲလှယ်ပစ်ကြလေသည်။ နှံကောင်တို့သည်အရေခွံကို ၅ ကြိမ်မျှလဲပစ်လေ့ရှိကြသည်။ နောက်ဆုံးအကြိမ် အရေလဲပြီးနောက် အတောင်စုံလင်စွာ ထွက်လာပြီ ဖြစ်ရာ၊ နှံကောင်ကြီးများ နည်းတူ လှုပ်လှည့်လည်ပျံသန်းကာ နေကြလေသည်။ ပုရစ်တို့သည် နှံကောင်များနှင့် အလွန် တူကြသည်။ ပိုးဟပ်ကောင်များလည်း အရေခွံ လဲလေ့ ရှိသော ပိုးများ ဖြစ်သဖြင့် နှံကောင်နှင့် တမျိုးတစားတည်း ဖြစ်ကြသည်။

**နှံစားပြောင်း။** ။ကမ္ဘာပေါ်ရှိလူဦးရေ ၃ ပုံ ၁ ပုံခန့်သည် နှံစားပြောင်းကို မှီဝဲစားသုံးလျက် ရှိသည်ဟု ခန့်မှန်း ရလေသည်။ သမိုင်းမတင်မီ ခေတ်ကာလ အချိန်ကတည်းက လူတို့သည် နှံစားပြောင်းကို စိုက်ပျိုး လုပ်ကိုင်ခဲ့ကြသည်။ အာရှတိုက်ရှိ လူနေထူထပ်သော တိုင်းနိုင်ငံများနှင့် အာဖရိကတိုက်တွင် လူတို့ စားသုံးရန်အတွက် နှံစားပြောင်းကို အမြောက်အမြား စိုက်ပျိုးကြသည်။ အမေရိကန်ပြည်ထောင်စုနှင့် အင်္ဂလန်ပြည်၌ နှံစားပြောင်းကို အများအားဖြင့် တိရစ္ဆာန်အစာအတွက်၎င်း၊ ကြက်ငှက် အစာ အတွက်၎င်း၊ မြေသြဇာပြုပြင်ရန်အတွက်၎င်း စိုက်ပျိုးလုပ်ကိုင်ကြသည်။ နှံစားပြောင်းပင်တို့သည် အမြင့် ၃ ပေမျှသာရှိ၍ အချို့မှာ ၁၆ ပေ အထိ မြင့်လေသည်။ တဖန် အချို့မှာ အမြစ်များမှ နှစ်စဉ် အပင်သစ်များ ထွက်သည်။ အချို့ကိုမူ အခြားကောက်ပင်များနည်းတူ အစေ့မှ စိုက်ပျိုးရသည်။ အရည်ချိုသော နှံစားပြောင်းပင်မျိုးလည်း ရှိပေသေးရာ အမေရိကတိုက်တွင် ထိုကောက်ပင်မျိုးမှ သကာရည် ပြုလုပ်ကြသည်။ ပြင်သစ် နိုင်ငံ၌မူ နှံစားပြောင်းအချို့မျိုးကို အရက်ချက်လုပ်ရန် စိုက်ပျိုးကြသည်။

နှံစားပြောင်းသည် မိုးခေါင်ခြင်း ဒဏ်ကို အထူးခံနိုင်ရည်ရှိခြင်းကြောင့်၊ မြန်မာနိုင်ငံ မိုးခေါင် ရေရှား ရပ်ဝန်းတွင် အထူး ထင်ရှား၍၊ အရေးကြီးသော သီးနှံတခု ဖြစ်သည်။ ထိုကြောင့် ဤပြောင်းမျိုးကို လူများစားသုံးရန် အသီးအနှံအဖြစ်ဖြင့်၎င်း၊ ကျွဲ နွားများ အစားအစာအဖြစ်ဖြင့်၎င်း ခြောက်သွေ့သော ဒေသတို့တွင် အရေးတယူ စိုက်ပျိုးလုပ်ကိုင်ကြသည်။ မြင်းခြံကဲ့သို့သော အထူးခြောက်သွေ့သည့် ဒေသတို့တွင် နှံစားပြောင်းရိုးမှအပ၊ ထွန်နွား၊ ခိုင်းနွားများအတွက် အခြား အစာ အစာ မရှိသလောက်ပင် ဖြစ်သည်။ မြန်မာနိုင်ငံတွင် ဆန်ပြောင်းနှင့် ခွံပြောင်းဟူ၍ ထင်ရှားသော နှံစားပြောင်းပင် နှစ်မျိုးရှိသည်။ ဆန်ပြောင်းပင်၏ ပင်စည် ရိုးတံသည် စိမ်းလဲ့လဲ့ အရောင် ရှိပြီးလျှင် အသားမာသည်။ ဆန်ပြောင်းစေ့များသည် ဖြူ၍အမျိုးအစားကောင်းမွန်သည့် အလျောက် လူများ စားသုံး နိုင်သည်။ စပါးမစိုက်သော ဆန်ရှားသည့် အရပ်ဒေသတို့တွင် ဆန်ပြောင်းကို စားသုံးကြရသည်။ ဆန်ပြောင်းသည် အစေ့ကို လိုက်၍ ၃ မျိုး ခန့်ကွဲပြားသည်။ ယင်းအမျိုးတို့မှာ (၁) မွဲပြာသော အခွံရှိသည့် အစေ့ဖြူအကြီးစားမျိုး၊ (၂) ညိုသော အခွံရှိသည့် အစေ့ဝါမျိုး၊ (၃) မည်းသော အခွံရှိသည့် အစေ့ဖြူမျိုးများ ဖြစ်ကြ၏။ ခွံပြောင်းပင်၏ ပင်စည် ရိုးတံမှာ နီကြန့်ကြန့် အရောင် ရှိလျက်၊ အသားပျော့ညံ့သည်။ အစေ့မှာ အညိုရင့်ရောင်၊ သို့မဟုတ် အမည်းရောင် ဖြစ်သည်။ လူများ စား



မြန်မာနိုင်ငံ အလယ်ပိုင်း၏ သီးနှံဖြစ်သည့် နှံစားပြောင်း



မိုးပါးရေရှား ရပ်ဝန်းဖြစ်သည့် ဆူဒန်နယ်၌လည်း နှံစားပြောင်းကို ဤသို့ အရေးတယူ စိုက်ပျိုးလုပ်ကိုင်ကြသည်။

သုံးရန် ညံ့လွန်းသည်။ သို့ရာတွင် အရိုးတံများမှာ ကျွဲ နွား တိရစ္ဆာန်များ ကျွေးရန်အတွက် အထူး အသုံးဝင်သည်။

နှံစားပြောင်းများကို ယာထွက် အခြား အသီးအနှံများ ကဲ့သို့ပင် ပြုပြင် စိုက်ပျိုးကြသည်။ ဤပြောင်းမျိုးကို သဲမြေ ပွတွင်သာ အများအားဖြင့် စိုက်ပျိုးကြသဖြင့် မြေကို ထွန် ယက်ရန် အလို့ငှါ ထယ်ကို သုံးရန် မလိုချေ။ ဆန်ပြောင်း နှင့် ခွံပြောင်းသည် အထွက်မတူကြချေ။ ဆန်ပြောင်းသည် တကေလျှင် ၂၅ တင်းခန့်ထွက်၍ ခွံပြောင်းသည် တကေလျှင် ၁၀ တင်းမှ ၁၈ တင်းအထိ ထွက်လေသည်။ တကေလျှင် အပင်ရိုး ၅၀ စီ ပါသော အစည်း ၂၀၀ မှ ၄၀၀ အထိ အပင်ရိုး များကို ရတတ်သည်။

နှံစားပြောင်းမျိုးထဲတွင် အဝင်အပါ ဖြစ်လျက် မိုးခေါင် ရေရှား ရပ်ဝန်းတွင် သုံးလေ့ သုံးထရှိသော အသီးအနှံ နှစ် မျိုးမှာ လူးနှင့်ဆပ်ဖြစ်သည်။ ထိုအပင်များကို ညံ့ဖျင်းသော ယာမြေများ ဖြစ်သည့် သဲမြေများတွင် စိုက်ပျိုးကြသည်။

**နှံပြည်စုတ်**။ ။ပါဏဗေဒ အလိုအားဖြင့် နှံပြည်စုတ် ငှက် သည် ဆီလဖိုင်အီဒီး မျိုးရင်းတွင် ပါဝင်၍ ဩသိုတိုမပ်ဆူတိုး ရီးယပ်ဟု ခေါ်တွင်သည်။ အရွယ်အားဖြင့် စာကလေး လောက် မကြီးဘဲ နှုတ်သီးရှည်၍ ဖြောင့်သည်။ အမြီးလည်း ဖြောင့်သည်။ ဉယျာဉ်နှင့် ပေါင်းပင်တောတို့တွင် ကျက် စားတတ်သော ငှက်ဖြစ်၏။ အရွယ်ငယ်သဖြင့် ငှက်ကို ရုတ် တရက် မမြင်နိုင်ဘဲ အသံကိုသာ ကြားကြရတတ်သည်။ ကိုယ်အောက်ပိုင်းသည် အဖြူရောင်သန်း၍ စိမ်းဖျော့ဖျော့ ဖြစ်သည်။ ငှက်၏ အမြီးသည် နောက်သို့ ကော့လန်၍ နေ သည်။ ထိုငှက်မျိုးသည် တကောင်တည်းဖြစ်စေ စုံတွဲဖြစ်စေ နေတတ်သည်။

နှံပြည်စုတ်သည် တစက္ကန့်လျှင် ၅ ကြိမ်မျှ ချီ ချီ ဟုအော် လေ့ရှိသည်။ တခါတရံ ချစ် ချစ်ဟူ၍လည်း အသံပေးတတ် သေး၏။ အသံကား အလွန် ကျယ်၏။ မိုးရာသီတွင် ထိုငှက် ၏ ကျယ်လောင်သော ချိုတေးသံသည် ညို မှိုင်းလျက်ရှိ သော ကျွန်းတောများကို တနည်းအားဖြင့် သာယာ စိုပြည် စေသည်။ ယင်းငှက်သည် အကြောက်ကင်း၍ အလွန်ဖျတ် လတ်၏။ နွယ်ပင်နှင့် အပင်ငယ်တို့ ကြားတွင် ခုန်ဆွ ခုန်ဆွ နှင့် အင်းဆက်ပိုးများကို ရှာဖွေ စားသောက်လေ့ ရှိသည်။

နှံပြည်စုတ်သည် ဧပြီလတွင် သားပေါက်၏။ အသိုက်ကို မြေမှ ၆ ပေကွာရှိ ချုံနိမ့်နိမ့်တွင် ဖြစ်စေ၊ သစ်ပင်မှ အကိုင်း တွင် ဖြစ်စေ လုပ်လေ့ ရှိသည်။ အသိုက် ပြုလုပ်သော ပစ္စည်း များမှာ ကျယ်ပြန့်၍ ခိုင်မာသော အရွက်ကြီး ဖြစ်သည်။ တခါတရံ အရွက် နှစ်ရွက် သုံးရွက်ခန့်ကို အသုံး ပြုသည်။ အသိုက်၏ ပုံသဏ္ဌာန်မှာ စောက်နက်သော ခွက်နှင့် တူ သည်။ မြက်နုများနှင့် မွေးနုများကို အသိုက်အတွင်းတွင် ခံထားတတ်သည်။ သစ်ရွက် နှစ်ရွက် သုံးရွက်ကို တဲစပ်ထိုး ကာ ပြုလုပ်လေ့ရှိသည်။ သစ်ရွက်များကို သီသော ပစ္စည်း မှာ ပင့်ကူမျှင်သော်၎င်း၊ ပိုးမျှင်သော်၎င်း၊ သိုးမွေးမျှင် သော်၎င်း၊ ခြည်မျှင်သော်၎င်း ဖြစ်သည်။ သစ်ရွက်ကိုနှုတ် သီးထက်ထက်ဖြင့် ထိုးဖောက်ကာ၊ အပေါက်မှ အမျှင်ကို ဆွဲယူလေသည်။ အမျှင်စွန်းသည် အပေါက်တွင်းသို့ ဖြတ် သွား ရသောအခါ အမျှင်ပွ၍ ထုံးနေတတ်သည်။ အရွက် များကို သီရာ၌ တချက်စီ သီသည်။ ယင်းသို့ အသိုက်ကို သီ တတ် ချုပ်တတ်ခြင်းကြောင့် အင်္ဂလိပ် ဘာသာဖြင့် နှံပြည် စုတ်ကို "အပ်ချုပ်သည်" ဟု အမည် မှည့်သည်။

အသိုက် တမြုလျှင် ၃ ဥမှ ၄ ဥထိ ရှိတတ်သည်။ ၅ ဥမှ ၆ ဥထိရှိခဲသည်။ ဥသည် အလွန်ရှည်ပြီးလျှင် ချွန်၏။ ဥများ ၏ အရောင်မှာလည်း အမျိုးမျိုး ဖြစ်သည်။ အဖြူရောင်၊ မလိုင်နှစ်ရောင်၊ ပန်းနုနု အရောင်၊ အပြာနုရောင် သို့မဟုတ် စိမ်းပြာရောင် ဖြစ်ပြီးလျှင် နီညို၊ အညို၊ အမည်းနှင့် ခရမ်း ရောင်၊ အမည်းပြောက်များ ပါသည်။ များသောအားဖြင့် အပြောက်များသည် ဉကိုယ်ထည်ပေါ်တွင် နည်းပြီးလျှင် ဥ၏ အရင်းပိုင်းတွင်သာ များလေ့ ရှိသည်။

နှံပြည်စုတ် ငှက်ကို အရှေ့တိုင်း နိုင်ငံများတွင် အနှံ့ အပြား တွေ့ရ၏။ မြန်မာ နိုင်ငံတွင် လွင်ပြင်များ၌၎င်း၊ တောင်ခြေများ၌၎င်း အနေများသည်။ ထိုမှ သည်မှ ကူး လူး ပျံသန်းကာ၊ ပေ ၄၀၀၀ အမြင့်ထိ ကျက်စားသည်။ ရန်ကုန်မြို့တွင် ဉယျာဉ်များ၌ ကျက်စားလေ့ ရှိသည်။

**နှမ်းချပ်လျှော်**။ ။ဘီသွာလျှော် — ရှု။

**နှမ်းဖတ်ကျောက်။** ။နှမ်းဖတ်ကျောက် ဆိုသည်မှာ အင်္ဂလိပ်လို ဂရင်းနိုက်ကျောက်ကို ဆိုလိုသည်။ ဂရင်းနိုက် ဟူသော စကားမှာ ကောက်သီးဟု အဓိပ္ပါယ်ရသည်။ ဤကျောက်ကို ဂရင်းနိုက်ဟု မှည့်ခေါ်ရခြင်းမှာ ကောက်သီးကဲ့သို့ တည်ဖွဲ့သောကြောင့် ဖြစ်သည်။ မြန်မာတို့ကမူ နှမ်းဖတ်ကျောက်ဟု ခေါ်သည်။ နှမ်းဖတ်ကျောက်သည် မီးသင့်ကျောက်မျိုးဖြစ်၍ အတွင်း၌ ခရစ္စတယ်ပုံဖွဲ့စည်းပါရှိသည်။ ကြေအောင်ချေ၍ စစ်ဆေးကြည့်လျှင် ကျောက်သလင်း၊ လချေးနှင့် ဖဲလစပါးတို့ အဓိက ပါရှိသည်ကို တွေ့ရသည်။ တခါတရံ လချေးကို မတွေ့ရဘဲ ဟွန်းဗလင်းခေါ် ဆီလီကိတ်တမျိုးကို တွေ့ရသည်။ ဤသို့ဖြစ်ရခြင်းမှာ မူလ နှမ်းဖတ်ကျောက်တွင် လချေး မပါ၍ မဟုတ်ချေ။ ဟွန်းဗလင်းသည် လချေးကို ဖယ်ရှား၍၊ ကျောက်နှင့် ပေါင်းစပ် သွားသောကြောင့် ဖြစ်သည်။ ဇာကွန်နှင့် အက်ပါတိုက်ဘို့ကိုလည်း နှမ်းဖတ်ကျောက်တွင် အမြဲတမ်းလိုပင် တွေ့ကြရသည်။

နှမ်းဖတ်ကျောက်သည် အများအားဖြင့် မဲ့ပြာရောင်အဆင်း ရှိ၏။ အကယ်၍ ကျောက်အတွင်း၌ မည်းစေသော ပစ္စည်းနည်းလျှင် အရောင်မှာနု၍၊ များလျှင် အချိုးအစားအတိုင်း အရောင်ရင့်လာသည်။ ကျောက်တွင်ပါရှိသည့် ဖဲလစပါးအမျိုးမျိုးတို့ကြောင့် အစိမ်းရောင်၊ ပန်းရောင်နှင့် အနီရောင်ရှိသော ကျောက်များကို မကြာခဏ တွေ့ရတတ်သည်။ အရောင်တွင် ကွာခြားမှု ရှိသည်နှင့်အမျှ ကျောက်အတွင်း၌ ပေါင်းစပ်ပါရှိသည့် ပစ္စည်းတို့၏ အချိုးအစားမှာလည်း ကွာခြားကြလေသည်။

နှမ်းဖတ်ကျောက်ကို အထူးသဖြင့် တောင်တန်းတို့၏ အလယ်နားတွင် အတွေ့ရများသည်။ ဤကျောက်ကို ကမ္ဘာပေါ်တွင် အနှံ့အပြား တွေ့ကြရသော်လည်း အများအပြားတွေ့ရှိရသော အရပ်ဒေသများမှာ ကနေဒါ၊ နယူးအင်္ဂလန်၊ နယူးယော့၊ အက်ပလက်ချီယန်၊ မင်နီဆိုတာ၊ ဒကိုးတား တောင်ပိုင်း၊ မိဇူးရီ၊ အိုကလဟိုးမား၊ ရော့ကီး တောင်တန်းနှင့် အမေရိကန်ပြည်ထောင်စု ပစိဖိတ် ကမ်းခြေရှိ ပြည်နယ်များဖြစ်သည်။

နှမ်းဖတ်ကျောက်သည် ခေတ်တခေတ်တည်း၌ ဖြစ်ပေါ်လာသော ကျောက်မျိုး မဟုတ်ချေ။ ယခု အချိန်၌ပင်လျှင် ကမ္ဘာမြေကြီး၏ အတွင်းပိုင်း အလွန် နက်ရှိုင်းသော အရပ်ဒေသ၌ ချော်ရည်သည် ခဲလာပြီးသော် နှမ်းဖတ်ကျောက်အဖြစ်သို့ ပြောင်းလဲလျက် ရှိလေသည်။ ဤသို့ ပြောင်းလဲရာ၌ အပူကို အလွန် နှေးကွေးစွာ စွန့်ထုတ် ပစ်ကြသဖြင့် ခရစ္စတယ်များ ဖြစ်လာကြသည်။

ဤကျောက်ကို အဆောက် အအုံ ဆောက်လုပ်ရာ၌ အမြောက်အမြား အသုံးပြုကြသည်။ သို့သော် အလွန်မာကျော၍ ညီညီ ညာညာ ရရှိအောင် ခက်ခဲစွာ ထုယူရသောကြောင့် အလွန် စရိတ် ကြီးလေးသည်။ လမ်းခင်းရာ၌ နှမ်းဖဘ်ကျောက်ကို အမြောက်အမြားအသုံးပြုသည်။



ခိုင်ခံ့သော အဆောက်အအုံများ၊ လမ်းများ ဆောက်လုပ်ရန် နှမ်းဖတ်ကျောက်ကို ဤသို့ အကြီးအကျယ် တူးဖော်ယူရသည်။



မြန်မာဗျည်း ၃၃ လုံးတွင် ပ သည် ၂၁ ခုမြောက် အက္ခရာဖြစ်သည်။ ပ၊ဖ၊ဗ၊ဘ၊မ ဟူသော ပ ဝဂ်တွင် ပါဝင်၍ ပ အသံ၏ ဖြစ်ရာဌာနမှာ ဩဋ္ဌဌာန် နှုတ်ခမ်းအရပ်ဖြစ်သည်။ အက္ခရာ၏ ပုံသဏ္ဌာန်ကို လိုက်၍ ပ စောက် ဟု အမည်တွင်သည်။ ပ အရေးအသား၏ မူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီးနောက် ကျောက်စာများတွင် နှင့် ပေစာများတွင် ဟု ရေးသားသည်ကို တွေ့ရသည်။ ဗြာဟ္မီအရေးအသား တွင် ရှည်မတ်စွာ ထောင်နေသော လက်ဝဲဖက် မျဉ်းကြောင်းကို ဖြတ်တောက်၍ ၂ ဖက်ထိပ်ညီညီ ရေးဖန်များသော် မြန်မာအက္ခရာ ပ ဖြစ်ပေါ် လာလေသည်။ ပ အက္ခရာ၏ အဆင့်ဆင့် ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ ပြထားသည်။

**ပကု။** ။ပကု လူမျိုးတို့သည် စကောကရင်နှင့် ပြောဆိုသော ဘာသာစကားတွင် နီးစပ်၍ အနွယ်တူသော တောင်ပေါ်ကရင်တမျိုး ဖြစ်သည်။ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၇,၅၀၀ ကျော်ရှိ၍၊ တောင်ငူနယ် တောင်ပေါ်ဒေသနှင့် ရှမ်းပြည် တောင်ပိုင်းတွင် အနှံ့အပြားနေထိုင်ကြသည်။ (ကရင်လူမျိုး — ရှု။)

**ဦးဘရှင်**

**ပခုက္ကူခရိုင်။** ။ပခုက္ကူခရိုင်သည် အထက်မြန်မာနိုင်ငံ မကွေးတိုင်း၌ ပါဝင်သည်။ ၅၁၅၆ စတုရန်းမိုင် ကျယ်ဝန်း၍ ၁၉၅၆ ခုနှစ် ခန့်မှန်းချက် သန်ကောင်စာရင်းအရ လူဦးရေ ၆၅၂,၉၇၇ ယောက်ရှိသည်။ ခရိုင်အတွင်း၌ နယ်သုံးနယ် ပါဝင်သည်။ ယင်းတို့မှာ ပခုက္ကူမြို့နယ်၊ ရေစကြိုမြို့နယ်နှင့် မြိုင်မြို့နယ်တို့ ပါဝင်သော ပခုက္ကူနယ်၊ ပေါက်မြို့နယ်၊ ဆောမြို့နယ်နှင့် ဆိပ်ဖြူမြို့နယ်တို့ပါဝင်သော ပေါက်နယ်နှင့် ဂန့်ဂေါမြို့နယ်၊ ထီးလင်းမြို့နယ်တို့ ပါဝင်သော ဂန့်ဂေါနယ်တို့ ဖြစ်သည်။

ပခုက္ကူခရိုင်၏ မြောက်ဖက်တွင် အထက်ချင်းတွင်းနှင့် အောက်ချင်းတွင်းခရိုင်တို့ရှိသည်။ အရှေ့ဖက်တွင် ဧရာဝတီမြစ်နှင့် ချင်းတွင်းမြစ်တို့သည် ပခုက္ကူခရိုင်ကို စစ်ကိုင်းခရိုင်နှင့်မြင်းခြံခရိုင်တို့မှ ပိုင်းခြားထားသည်။ တောင်ဖက်တွင် မင်းဘူးခရိုင် ရှိ၍ အနောက်ဖက်တွင်မူ ချင်းတောင်တန်းများရှိလေသည်။

ခရိုင်၏ မြေမျက်နှာပြင်သည် တောင်ရိုးတောင်တန်းများရှိသဖြင့် ညီညာပြန့်ပြူးခြင်းမရှိပေ။ ပုံတောင်နှင့် တန့်ကြည့်တောင်တို့၏ တောင်ရိုး တောင်စွယ်တို့သည် ခရိုင်ကို အကြမ်းဖျင်းအားဖြင့် အရှေ့နှင့်အနောက် ပိုင်းခြားထားသကဲ့သို့ရှိသည်။ ပုံတောင်၏ အရှေ့ဖက် ခြောက်သွေ့သော ဒေသတို့သည် ကျန်းမာရေးနှင့် ညီညွတ်သော်လည်း မိုးနည်းပါး၍ပူပြင်းသည်။ ပုံတောင်၏ အနောက်ဖက် ဒေသတို့သည် မိုးပို၍ များပြီးလျှင် အပူအနည်းငယ် လျော့သော်လည်း၊ ကျန်းမာရေးနှင့် မညီညွတ်ပေ။ ယောငှက်ဟု ခေါ်ကြသော ငှက်ဖျားတမျိုး စွဲကပ်တတ်သည်။ တခရိုင်လုံးအတွက် နှစ်စဉ် ပျမ်းမျှ မိုးရေချိန်မှာ ၂၅ လက်မမှ လက်မ ၄၀ ခန့်မျှသာ ဖြစ်လေသည်။

ခရိုင်အတွင်း စီးဆင်းသော မြစ်ချောင်းတို့မှာ မြောက်ဖက်ပိုင်း၌ ချင်းတောင်တန်းများတွင် မြစ်ဖျားခံ၍ အနောက်ဖက်မှ စီးဝင်လာပြီးနောက် မြောက်ဖက်သို့စီးဆင်းသွားသော မြစ်သားချောင်း၊ ထိုချောင်း၏ တောင်ဖက်ချောင်းလက်တက်ဖြစ်သော မောချောင်းတို့ ဖြစ်သည်။ တောင်ဖက်ပိုင်းတွင် ယောချောင်းနှင့် ယင်း၏မြောက်မြားလှစွာသော ချောင်းလက်တက်များ စီးဆင်းကြသည်။ယောချောင်းသည် ခရိုင်တွင်းသို့ အနောက်ဖက်မှ စီးဝင်လာပြီးလျှင် ခရိုင်၏အလယ်ခန့်တွင် တောင်ဖက်သို့ ကွေ့ဆင်းသွားသည်။ တောင်ဖက်သို့ ကွေ့မဆင်းမီကလေးတွင် (ပေါက်မြို့အနီး၌) ကျောချောင်း ပေါင်းဆုံ စီးဝင်သည်။ ယောချောင်းသည် ထိုမှ တောင်ဖက်သို့ စီးဆင်းလာပြီးနောက် ဧရာဝတီမြစ်အတွင်းသို့ စီးဝင်လေသည်။

ခရိုင်၏ အရှေ့ဖက်ပိုင်း ဧရာဝတီနှင့် ချင်းတွင်းမြစ်ကမ်းပါးများတလျှောက်ရှိ နုံးတင်မြေနုများတွင်ရင်း၊ ထိုမြစ်များအတွင်း၌ ပေါ်ထွန်းလာတတ်သည့် သောင်ကျွန်းများတွင်ရင်း စိုက်ပျိုးဖြစ်ထွန်းသဖြင့် ကိုင်းများလုပ်ကိုင်ကြသည်။

ယောချောင်းနှင့် ကျောချောင်းအကြားရှိ မြေများတွင်လည်းစိုက်ပျိုးလုပ်ကိုင်ကြသည်။ လူး၊ ဆပ်၊ နှမ်း၊ ပြောင်း၊ ပဲအမျိုးမျိုး၊ ငရုတ်၊ ဆေးရွက်စသည်တို့မှာ ပခုက္ကူခရိုင်၏ သီးနှံထွက်ကုန်များဖြစ်ကြသည်။ ဆန်စပါးကိုလည်း မြစ်သား ချောင်းကမ်းပါး တလျှောက် အချို့နေရာများတွင် ရေသွင်း စိုက်ပျိုးလုပ်ကိုင်ကြလေသည်။

ချင်းတောင်၊ ပုံညာတောင်တို့၏ တောင်စောင်း သစ်တောများနှင့် ဂန့်ဂေါမြို့နယ် သစ်တောများမှ ကျွန်း၊ ပိတောက်၊ ပျဉ်းကတိုးစသော အဖိုးတန်သစ်များထွက်သည်။

ပခုက္ကူခရိုင်အတွင်း ဧရာဝတီမြစ်၏ လက်ျာဖက်ကမ်းရှိ ရေနံကျပ်တွင် ရေနံ အတော်အသင့် ထွက်သည်။ ပိုးထည်လုပ်ငန်းသည်လည်း အသင့်အတင့်ထွန်းကား၍ ပခုက္ကူခရိုင်ထွက် ယောလုံချည်များသည် နာမည်ကျော်သည်။ ပခုက္ကူမြို့နယ်တွင် နှမ်းဆီစက်၊ မြေပဲဆီစက်၊ သစ်စက်များရှိသည်။

ယောနယ်နှင့် ချင်းတွင်း မြစ်ဝှမ်းအတွက် ထွက်ကုန်ဝင်ကုန်တို့သည် ပခုက္ကူခရိုင်၏ ရုံးစိုက်မြို့ဖြစ်သော ပခုက္ကူမြို့ကို ဖြတ်သန်း သွားကြရသည်။ ခရိုင်၏ အဓိက ထွက်ကုန်များမှာ သစ်၊ သားရေ၊ ရေနံ၊ ရှားစေး၊ ယောဖက်၊ ထန်းလျက်၊ ငရုတ်၊ နှမ်းဆီ၊ ပဲဆီစသည်တို့ ဖြစ်သည်။

ခရိုင်အတွင်း၌ မော်တော်ကားလမ်းများဖြင့်၎င်း၊ ရေကြောင်းလမ်းများဖြင့်၎င်း ကူးသန်း သွားလာကြရသည်။ ပခုက္ကူမြို့နှင့် ပေါက်၊ ထီးလင်း၊ ဂန့်ဂေါ၊ မြိုင်၊ ရေစကြို စသောခရိုင်တွင်းမြို့များသည် မော်တော်ကားလမ်းဖြင့် ဆက်သွယ်ကြရသည်။ ဆိပ်ဖြူမြို့မှ ဆောမြို့၊ လောင်းရှည်မြို့သို့လည်း မော်တော်ကားဖြင့် သွားလာရသည်။ ပေါက်မြို့မှ ရေရှင်သို့ မော်တော်ကားဖြင့် သွားရောက်နိုင်၍ ယင်းမှ တဆင့် ချင်းဝိသေသတိုင်း မင်းတပ်မြို့သို့ လားဝန်တင်ဖြင့် သွားရောက်နိုင်သည်။ ထို့ပြင် ဆောမြို့မှလည်း ချင်းဝိသေသတိုင်း ကန်ပက်လက်မြို့သို့ လားဝန်တင်ဖြင့် သွားရောက်နိုင်လေသည်။

ပခုက္ကူမြို့သည် ရန်ကုန်မန္တလေး အညာဆန် သင်္ဘောကြီးများဆိုက်ကပ်ရာ ဆိပ်ကမ်းမြို့ကြီးဖြစ်သည်။ ပခုက္ကူနှင့် ဧရာဝတီ မြစ်ကြောင်း ဆိပ်ကမ်းမြို့များကို ဧရာဝတီမြစ်ကြောင်းမှ သင်္ဘောများဖြင့် သွားလာဆက်သွယ်နိုင်သည်။ ပခုက္ကူမြို့နှင့် မုံရွာမြို့ စသော ချင်းတွင်းမြစ်ကြောင်းမှ မြို့များကိုလည်း သင်္ဘောများဖြင့် ဆက်သွယ်ရသည်။

ရန်ကုန်နှင့် ပခုက္ကူ လေကြောင်းခရီးရှိ၍၊ ပခုက္ကူမှတဆင့် ခရိုင်တွင်းရှိ ပေါက်မြို့သို့၎င်း၊ ကျောက်ထုသို့၎င်း၊ ဂန့်ဂေါမြို့သို့၎င်း လေကြောင်းခရီးအဆက်အသွယ်ရှိသည်။

ပခုက္ကူခရိုင် အတွင်း၌ ရှေးဟောင်း စေတီပုထိုးများရှိသည်။ ပခုက္ကူမြို့တွင်းရှိ ရွှေဂူဘုရား၊ သိန်းဆိုင်ရှင်ဘုရား၊ ပုဂံမြို့တဖက်ကမ်းရှိ တန့်ကြည့်စွယ်တော်စေတီနှင့် ကွမ်းရွာနှင့် ရှင်မတောင် စေတီပုထိုးများသည် ရှေးဟောင်းစေတီပုထိုးများ ဖြစ်ကြသည်။ ပေါက်မြို့နယ် အတွင်း၌လည်း ရွှေမုဋ္ဌောစေတီနှင့် ရွှေပေါင်လောင်တို့ ရှိလေသည်။

မြန်မာမင်းများ လက်ထက်အခါက ယခု ပခုက္ကူခရိုင်သည် ထိစဉ်ကပခန်းကြီးခရိုင်ဖြစ်သည်။ ထိုစဉ်ကပခန်းကြီးခရိုင်ကို ပခန်းကြီးမြို့ဝန်၊ ယော လေးမြို့ဝန်နှင့် ဗန်ကျီတိုက် မြို့ဝန်တို့က ခန့်ခွဲ အုပ်ချုပ်သည်။ ဗြိတိသျှတို့က မြန်မာနိုင်ငံအား သိမ်းပိုက်သော အချိန်တွင် ပခုက္ကူခရိုင်ဒေသသည် ပုဂံခရိုင်နှင့် မြင်းခြံခရိုင်တို့၏ တစိတ်တဒေသဖြစ်နေခဲ့သည်။ ဗြိတိသျှ အစိုးရတို့က မြန်မာနိုင်ငံအား သိမ်းပိုက်ပြီးနောက်တွင် ယခု ပခုက္ကူခရိုင်ဒေသနှင့် ယောနယ်တို့သည် များစွာ ဆူပူ လှုပ်ရှားနေခဲ့သည်။ ပခုက္ကူနယ်တွင် ရွှေဂျိုးဖြူ မင်းသားက ခေါင်းဆောင်၍ ဗြိတိသျှတပ်များအား တွန်းလှန်ခဲ့သေးသည်။ ဗြိတိသျှတပ်များသည် ဆူပူထကြွမှုများကို နှိမ်နင်းပြီးနောက် ပုဂံခရိုင်ကို ဖျက်သိမ်းကာ ၁၈၈၈ ခုနှစ်တွင် ပခုက္ကူမြို့ကို ရုံးစိုက်မြို့ ပြုပြီးလျှင် ပခုက္ကူခရိုင်ကို စတင် ဖွဲ့စည်းခဲ့လေသည်။

**ပခုက္ကူမြို့။** ။ပခုက္ကူမြို့သည်မကွေးတိုင်း၊ပခုက္ကူခရိုင်၏ ရုံးစိုက်ရာမြို့ဖြစ်သည်။ ဧရာဝတီမြစ်အနောက်ဖက်ကမ်းတွင် မန္တလေးမြို့မှ အနောက်တောင်ထောင့်ယွန်းယွန်း ၇၅ မိုင်ကွာ၌ တည်ရှိသည်။ ဗြိတိသျှတို့ မသိမ်းပိုက်မီက ပခုက္ကူသည် တံငါရွာကလေးတရွာမျှသာ ဖြစ်၍၊ ပုဂံမြို့ဝန်၏ အုပ်ချုပ်စီရင်မှုလက်အောက်တွင်ရှိသည်။ မူလက ပခုက္ကူသည် ယခုကဲ့သို့ မြစ်ကမ်းပေါ်၌ တည်ရှိသည်မဟုတ်။ ပခုက္ကူရွာနှင့် ဧရာဝတီမြစ်အကြားတွင် ကျယ်ပြန့်သောသဲသောင်ကြီး တခုရှိသည်။ ၁၈၈၅ ခုနှစ်တွင် ထိုသဲသောင်ပြင်ကြီးပျောက်ကွယ်သွား၍၊ မြစ်ကြောင်းသည် ပခုက္ကူရွာအနီးမှ စီးဆင်းသဖြင့်၊ ပခုက္ကူရွာသည် ဆိပ်ကမ်းဖြစ်လာကာ၊ တစတစနှင့် တိုးတက်စည်ကားသော မြို့ကြီးဖြစ်လာလေသည်။ ပခုက္ကူမြို့သည် ယခုခေတ်တွင် မန္တလေးမြို့မှလွဲ၍၊ မြန်မာနိုင်ငံအထက်ပိုင်းတွင် အကြီးဆုံးမြို့ဖြစ်သည်။ ဗုဒ္ဓသာသနာ စာသင်တိုက်ကြီးများလည်း ရှိ၍၊ သာသနာ့ဝန်ထမ်း ရဟန်းတော်များလည်း ပေါများ၏။ ပခုက္ကူမြို့ရှိ ထင်ရှားသော ဘုရားများမှာ သိန်းဆိုင်ရှင် (သီဟိုဠ်ရှင်) နှင့် ရွှေကူစေတီတို့ဖြစ်သည်။ သိန်းဆိုင်ရှင် ဘုရားပွဲတော်ကို နှစ်စဉ် နယုန်လတွင် ကျင်းပလေသည်။ မြို့၏လူဦးရေသည် ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၃၀,၉၄၃ ယောက် ဖြစ်လေသည်။

မြန်မာနိုင်ငံ အထက်ပိုင်းတွင် လှေအကြီးအကျယ်လုပ်သော မြို့သည် ပခုက္ကူမြို့ဖြစ်၏။ လုပ်ကိုင်သည့် လှေအမျိုးအစားမှာ ဧရာဝတီမြစ်ကြောင်းသွားလှေကြီးများ၊လောင်းငိုကြီးများဖြစ်၏။ ပခုက္ကူမြို့၏ အခြားလုပ်ငန်းများကား



ဧရာဝတီမြစ်ကမ်းဖက်မှ ရှုမြင်ရသည့် ပခုက္ကူမြို့၏ရှုခင်းတရပ်

ပိုးထည်ရက်လုပ်ခြင်း၊ ပန်းပုထုခြင်း၊ ထန်းလျက်ချက်ခြင်း၊ ဆီကြိတ်ခြင်း စသည်တို့ဖြစ်၏။

ပခုက္ကူမြို့သည် ပခုက္ကူခရိုင်၏ ထွက်ပေါက် ဝင်ပေါက် တံခါးမကြီးဖြစ်၏။ ယောချောင်းနှင့် ချင်းတွင်းမြစ်တို့မှ လာသောကုန်စည်များနှင့်ဧရာဝတီမြစ်ကြောင်းမှလာသော ကုန်စည်များ ဖလှယ်ရာ၊ ရောင်းဝယ်ဖောက်ကားရာ အချက်အခြာဒေသလည်း ဖြစ်၏။

ပခုက္ကူမြို့သည် သင်္ဘောဆိပ်မြို့ဖြစ်၍၊ မြစ်လမ်းအတိုင်း သွားသော်၊ ရန်ကုန်မှ ၄၉၄ မိုင်၊ မန္တလေးမှ ၁၀၃ မိုင်ဝေးသည်။ ပခုက္ကူမှ အထက်ချင်းတွင်းမော်လိုက်၊ ဟုမ္မလင်းမြို့များသို့လည်း သင်္ဘောလမ်းရှိသည်။ ထို့ပြင် ပခုက္ကူမှ ၉၇ မိုင်ဝေးသော ထီးလင်းမြို့သို့ရင်း၊ ၄၉ မိုင်ဝေးသော ကျွဲတက်ရွာသို့ရင်း မော်တော်ကားဖြင့် ခရီးသွားနိုင်သည်။ ရန်ကုန်မြို့နှင့် အပတ်စဉ် လေကြောင်းအဆက်အသွယ်ရှိ၍၊ ပခုက္ကူမှတဆင့် ခရိုင်တွင်းဒေသများဖြစ်သော ပေါက်မြို့၊ ကျောက်ထုနှင့် ဂန့်ဂေါမြို့များသို့ လေကြောင်းဖြင့် သွားလာနိုင်သည်။ ပခုက္ကူနှင့် မန္တလေးကို တပတ်လျှင် တကြိမ်ကျ လေကြောင်းခရီးဖြင့် ဆက်သွယ်ထားသည်။

ပကိုးဒေါင်း။ ။ဥဒေါင်း — ရှု။

# ကမ္ဘာပေါ်တွင်အကျယ်ဆုံးနှင့် ရေအနက်ဆုံးသမုဒ္ဒရာ

**ပစိဖိတ်သမုဒ္ဒရာသည် ကမ္ဘာပေါ်တွင် အကျယ်ဆုံးနှင့် ရေအနက်ဆုံး သမုဒ္ဒရာဖြစ်သည်။ ရေပြင်သည် တိုက်ကြီး ၄ တိုက်တို့၏ ကမ်းခြေများတိုင်အောင် ရောက်၏။ ထိုသမုဒ္ဒရာအတွင်း ကျွန်းပေါင်းများစွာ တည်ရှိကြသည်။ ဤအကြောင်းရပ်တွင် ပစိဖိတ်သမုဒ္ဒရာ၏ ဆန်းကျယ်ပုံနှင့်တကွ၊ ကျွန်းသူကျွန်းသားတို့ အကြောင်းကို စိတ်ဝင်စားဖွယ်ရာ ဖော်ပြထားသည်။**

**ပစိဖိတ်သမုဒ္ဒရာ။** ။ပစိဖိတ်သမုဒ္ဒရာသည် ကမ္ဘာပေါ်ရှိ သမုဒ္ဒရာတို့တွင် အကျယ်ဆုံးဖြစ်၏။ ရေလည်း အနက်ဆုံးဖြစ်၍၊ ဆားအပေါ့ဆုံးလည်းဖြစ်၏။ အကျယ်အဝန်းမှာ အာရှတိုက်၊ ဩစတြေးလီးယားတိုက်၊ တောင်အမေရိကတိုက်၊ မြောက်အမေရိကတိုက်တို့၏ ကမ်းခြေသို့ ရောက်အောင် ကမ္ဘာ၏ ၃ ပုံ ၁ ပုံခန့် ကျယ်ဝန်းသည်။ ပစိဖိတ်သမုဒ္ဒရာ၏ရေပြင်သည် ကမ္ဘာပေါ်ရှိ ရေပြင်အားလုံးပေါင်းတို့၏ ရာနှုန်း ၄၀ ခန့်ရှိ၏။ (သမုဒ္ဒရာ — လည်းရှု။)

သမုဒ္ဒရာခရီးလမ်းကို ဖြတ်သန်း၍ နယ်သစ်ရှာဖွေကြသူများအနက်၊ ခရစ် ၁၅၁၂ ခုနှစ်တွင် ပေါ်တူဂီ လူမျိုးတို့သည် အနောက်ဖက်လမ်းဖြင့်၊ ပစိဖိတ်သမုဒ္ဒရာ၏ နယ်နိမိတ်အတွင်းသို့ ရောက်ရှိလာခဲ့ကြ၏။ ယင်းသို့ ရောက်လာခဲ့သူတို့အနက်၊ ၁၅၁၃ ခုနှစ်တွင်၊ တောင်အမေရိကတိုက်နှင့် မြောက်အမေရိကတိုက်တို့ကို ဆက်လျက်ရှိသည့် ပနားမားကျွန်းဆက်ရှိ တောင်ကုန်းငယ်တခု အပေါ်မှနေ၍၊ ဗတ်ရှ ကူး နူးညေး သာ ဗဲလဗိုးအာ ဆိုသူသည် ပစိဖိတ် သမုဒ္ဒရာကြီးကို ပဌမဦးစွာ မျက်ဝါးထင်ထင် တွေ့မြင်ရသူဖြစ်သည်။ ထို့နောက် ၁၅၂၀ ခုနှစ်၌ ဖာဒီနန် မဂျဲလင် ဆိုသူသည် တောင် အမေရိကတိုက်ကို ကွေ့၍၊ သမုဒ္ဒရာအတွင်းဖက်သို့ သင်္ဘောဖြင့် ရွက်ဖွင့် တိုက်လွှင့်ခဲ့ပြီးလျှင်၊ သူဖြတ်သန်းခဲ့သော သမုဒ္ဒရာကို ပစိဖိတ်သမုဒ္ဒရာဟု အမည်မှည့်ခဲ့လေသည်။ (မဂျဲလင် — ရှု။) ပစိဖိတ် ဟူသည်မှာ ငြိမ်သက်ခြင်းအဓိပ္ပါယ်ကိုဆောင်သည်။

နှစ်ပေါင်း ၁၀၀ ကျော်ခန့်မျှ ကြာသောအခါ၊ ဒပ်ချလူ

မျိုး တပ်စမန်ဆိုသူသည် ဤသမုဒ္ဒရာကြီးကို စွန့်စားဖြတ်သန်းကာ၊ နယူးဇီလန်ကျွန်း၊ တွန်ဂါကျွန်း၊ တူအာမိုးတူးကျွန်းစု၊ ဗစ်ဇမတ်ကျွန်းစု၊ ဖီးဂျီးကျွန်းစုတို့ကို တွေ့ရှိပြန်လေသည်။ ၁၈ ရာစုနှစ်သို့ ရောက်သောအခါ၊ အင်္ဂလန်နှင့်ပြင်သစ်နိုင်ငံသားတို့သည် ဆက်ကာဆက်ကာ ကျွန်းများစွာကို ရှာဖွေကြ၏။ ယင်းတို့အနက် ထင်ရှားသော ဗြိတိသျှ ရေကြောင်းခရီးသည် ကက်ပတိန် ဂျိမ်းကွတ်သည် ခရစ် ၁၇၇၂ ခုနှစ်မှစ၍ ၉ နှစ်အတွင်း ခရီးရှည်ထွက်ကာ ရှာဖွေလေရာ၊ များစွာသောကျွန်းစုကြီးများကိုတွေ့ရှိပြီးနောက်၊ ဟာဝိုင်းယန်းကျွန်းသို့ အရောက်တွင်၊ ၁၇၇၉ ခုနှစ်၌ အသတ်ခံရလေသည်။ (ကွတ်, ကက်ပတိန် — ရှု။) ထိုနောက် သိပ္ပံပညာရပ်များ တနေ့တခြား ထွန်းကားလာရာ၊ စွန့်စားရှာဖွေသူများသည်လည်း အဆက်မပြတ် ထွက်ပေါ်လာကြ၍၊ ပစိဖိတ် သမုဒ္ဒရာအတွင်းတွင် နှံ့နှံ့ စပ်စပ် ရှာဖွေပေါက်ရောက်ခဲ့ကြလေသည်။ ခရစ် ၁၈၅၀ ပြည့် နှစ်ခန့်တွင်၊ သိပ္ပံပညာ ပါရဂူကြီးများ ဖြစ်သော ချားဒါဝင်နှင့် အဲလဖရက်၊ ရပ်ဆဲ၊ ဝေါလေ့စ်တို့သည် ပစိဖိတ်သမုဒ္ဒရာကြီးအတွင်းတွင် စံနစ်တကျ ရှာဖွေကြပြန်သဖြင့်၊အခြားသူများမတွေ့သေးသော ကျွန်းပေါင်း များစွာကို တွေ့ရှိကြပြန်သည်။သူတို့နောက်တွင် ကုန်သည်များသည် နောက်ယောင်ခံကာ၊ အုန်းသီး၊ ဆန်၊ ပုလဲ၊ လိပ်ခွံ၊ စန္ဒကူး သစ်များကို ရောင်းဝယ်ခြင်းဖြင့် စီးပွားရှာကြသည်။ထို့ပြင် တံငါများကလည်း၊ ပစိဖိတ်သမုဒ္ဒရာထဲတွင် ဝေလငါးနှင့် လင်းပိုင်စသည့် ငါးကြီးများကို ရှာဖွေ ဖမ်းဆီးကြပြန်၏။

ကမ္ဘာမြေကြီး အလယ်ဗဟိုအတွင်းရှိ အပူဓာတ်သည် ကမ္ဘာဦးက အပြင်သို့ ရုန်းကန်တိုးထွက်လာရာ၊ ရေမျက်နှာပြင်ပေါ်သို့ ကျွန်းကြီးကျွန်းငယ်များ၊ တောင်ကြီးများ၊ မီးတောင်များကို ဖြစ်စေသည်။ ထို့အပြင် အလွန်သေးငယ်သော သန္တာကောင်တို့သည် နှစ်ပေါင်း ထောင်သောင်းမကမရေမတွက်နိုင်သောကာလတွင် သေကြေပျက်စီးကြသောအခါ ပင်လယ်အတွင်းရှိ ထုံးဓာတ်ပါရှိသော ရေညှိပင်များနှင့် ထိတွေ့ပြီးနောက် စေးကပ်ငြိတွယ်သော သဘောကြောင့် ထုထယ်အစိုင်အခဲ ဖြစ်၍ လုပသော သန္တာကျွန်း၊ သန္တာကျောက်တန်းများ ဖြစ်လာသည်။ သို့ဖြင့် ဤသမုဒ္ဒရာကြီးအတွင်းတွင် သဃ်ဇာတဖြစ်ပေါ်လာသော အထက်ပါကျွန်းကြီး၊ ကျွန်းငယ်နှင့် သန္တာကျောက်တန်းတို့သည် နေရာအနှံ့တွင် ပြန့်ကျဲ၍တည်နေကြသည်။ ကျွန်းသူကျွန်းသားလူရိုင်းတို့သည် ကမ္ဘာ့ယဉ်ကျေးမှုနှင့် လုံးဝအဆက်အသွယ်မရှိဘဲ၊ ပင်လယ်ကမ်းစပ်တွင် ရနိုင်သော လိပ်၊ ငါးနှင့်ဗုဇွန်တို့ကိုသာ အာဟာရအလို့ငှါ မှီဝဲကြရသည်။ အုန်းသီးနှင့်တကွ အခြား သစ်သီး သစ်ဥ သစ်ဖုတို့လည်း ပေါများ၏။ အမိုးအကာ၊ တဲအိုးကန္နား လုပ်ရန် သစ်ပင် ဝါးပင်တို့လည်း ရှိ၏။ ဤသို့လျှင် ရှေးခေတ်စဉ်လာ စရိုက်ဖြင့် အေးချမ်းစွာနေကြသည်။သို့သော် တခါတရံ သင်္ဘောသားများမျက်စိလည်လမ်းမှား၍ ဆိုက်ကပ်လာသောအခါ ယင်းတို့သည် ရွှေ၊ ငွေစသော သတ္တုများ၊ ဆင်စွယ်များ၊ လိပ်ခွံများနှင့် အခြားအသုံးကျသောပစ္စည်းများကို ကျွန်းသားတို့ထံမှ ယူသွား၍ သင်္ဘောပေါ်တွင်ပါလာသော ရောဂါဆိုး၊ အနာဆိုး မျိုးစေ့များကိုမူ ထိုကျွန်းသားတို့အား ပေးအပ်ခဲ့တတ်ကြ၏။ ထို့ကြောင့် ရောဂါမျိုးစေ့သည် အပြစ်မဲ့သော ကျွန်းသူ ကျွန်းသားတို့ကို စွဲငြိစေ၏။ ထိုအခါ ဆေးဝါးမရှိ၊ ကုသရန်လည်း မသိသော ကျွန်းသူကျွန်းသား အမြောက်အမြားတို့သည် သေကြေ ပျက်စီးကြရကုန်၏။ တခါတရံ ကျွန်းလုံးပြုတ်မျှ သေကြေ ပျက်စီးကာ၊ လူမျိုးတမျိုးလုံး ပျောက်ပျက်သွားတတ်ဟန်တူသော လက္ခဏာများကို တွေ့ကြရသည်။

ဤအပြောကျယ်လှစွာသော သမုဒ္ဒရာအတွင်းရှိ ကျွန်းများစွာပေါ်တွင်၊ သင်းချိုင်းဂူများ၊ အဆောက်အအုံပျက်များ၊ ယဇ်ပလ္လင်များ၊ ကျောက်ကို ထုလုပ်ထားသည့် အဆမတန် ကြီးမားလှသော လူရုပ်ကြီးများ၊ တိရစ္ဆာန်ရုပ်ကြီးများ၊အဓိပ္ပါယ်မပေါ်လွင်သော အမှတ်အသားများကို တွေ့ရခြင်းအားဖြင့်၊ ထိုကျွန်းများ၌ တခါက နေထိုင်ခဲ့ကြသော ရှေးဦးလူများ၏ လက်ရာများကို ကောင်းစွာ ခန့်မှန်းနိုင်၏။ ပုံစံအားဖြင့်၊ ဤသမုဒ္ဒရာကြီး အရှေ့တောင်ဖျား အစွန်ဆုံး၌ မီးတောင် ပေါများသော အီစတာခေါ် ကျွန်းကလေးတကျွန်းရှိရာ၊ ထိုကျွန်းပေါ်တွင် ရုပ်တုတင်သည့် ကျောက်တိုင်ကြီးများ၊ ရုပ်တုအကျိုးအပဲ့များ၊ ကျောက်ကိုတူးဖော်ထားဟန်ရှိသည့် ကျောက်တွင်းများ၊ အပြီးမသတ်ဘဲ ထုလုပ်ထားသော ကျောက်ရုပ်ကြီးများ၊ စက်ဝိုင်းပုံ၊ သုံးထောင့်ပုံ စသော ဂျီဩမေတြီပုံများကို တွေ့ရသဖြင့် ဤသည်တို့ကို ပြုလုပ်ခဲ့သည့် ကျွန်းသူ ကျွန်းသားများသည် ယခုအခါ မည်သည့်အရပ်သို့ရောက်၍၊ မည်သို့ တိမ်ကောသွားကြသည်ကို မည်သူမျှ အတပ်မပြောနိုင်ချေ။ သိပ္ပံပညာရှင်ကြီးများ၏ အယူအဆ၌ ထိုသူတို့သည် လွန်ခဲ့သော နှစ်ပေါင်း ၃,၀၀၀ ကျော်က အာရှတိုက်မှ ထွက်ခွာသွားကာ၊ မလ္လာယုကျွန်းတို့ကိုကျော်၍ လှေငယ်ကလေးများဖြင့် ပစိဖိတ်ကျွန်းစုများပေါ်သို့ ရောက်လာကြသည်ဟုယူဆကြ၏။ သမိုင်းမတင်မီခေတ်က ထိုသို့လာရောက်ကြသူများသည် ယခုအခါ တိမ်ကော ကွယ်ပျောက်သွားသည်မှာ တခြားသို့ ရွှေ့ပြောင်း သွားခြင်းကြောင့်သော်၎င်း၊ အမျိုးပြုတ်အောင် ရောဂါဆိုး ကျရောက်ခြင်းကြောင့်သော်၎င်း၊ အချင်းချင်း တိုက်ခိုက် သေပျောက် ကုန်ကြခြင်းကြောင့်သော်၎င်း ဖြစ်ရသည်ဟု ယူဆရန် အကြောင်းရှိ၏။

ပစိဖိတ်သမုဒ္ဒရာကြီး၏ ကမ်းခြေဖြစ်သော အာရှတိုက်ဖက်ရှိ ပင်လယ်ကမ်းရိုးတန်းသည် အကွေ့အကောက်များ

သည်။ ကျွန်းငယ်တို့နှင့်တကွ ပင်လယ်အော်၊ ပင်လယ်ကွေ့ကြီးများ၊ ကျွန်းဆွယ်ကြီးများ၊ အင်ဒိုများသည် ထိုကမ်းခြေ၌ တည်ရှိသည်။ ဖော်နီယိုကျွန်း၊ မလ္လာယုကျွန်းဆွယ်၊ အင်ဒိုချိုင်းနားကျွန်းဆွယ်ကြီးများဖြင့် ပိုင်းခြားထားသည့် တရုပ်ပင်လယ်သည် သမုဒ္ဒရာ၏ တောင်ပိုင်းတွင်ရှိ၏။ ပင်လယ်ဝါသည်ကား ကိုရီးယား ကျွန်းဆွယ် ခြားလျက်ရှိ၏။ ဂျပန်ပင်လယ်သည် ဂျပန်ကျွန်းများ အတွင်းဖက်၌ရှိ၍၊ ကမ်ချက်ကားကျွန်းဆွယ်၏ တဖက်တွင် အိုကော့ ပင်လယ်ရှိသည်။ တောင် အမေရိကတိုက်နှင့် မြောက် အမေရိကတိုက်တို့၏ ကမ်းခြေအနီးတွင် ကျွန်းအနည်းငယ်မျှသာရှိသည်။ ကာလီဖိုးနီးယား ပင်လယ်ကွေ့နှင့် အလာစကာ ပြည်နယ်အနီးတွင် မီးတောင် ပေါ်များသော အလျှူးရှင်း ကျွန်းစုများ စီတန်းလျက်ရှိ၏။ မလေးကျွန်းစုသည် ဩစတြေးလီးယားတိုက်နှင့် အာရှတိုက် အကြားတွင် ရှိ၏။ အခြား ကျွန်းစုများမှာ၊ ဂျားဗားကျွန်း၊ ဆူမတြားကျွန်း၊ စဲလဗီးကျွန်းများဖြစ်၏။ နယူးဇီလန်ကျွန်းသည် အကြီးဆုံးဖြစ်သော်လည်း၊ ယင်းကို ပစိဖိတ်ကျွန်းများထဲ၌ ထည့်သွင်းရေတွက်ခြင်းမပြုကြချေ။

ပစိဖိတ် သမုဒ္ဒရာတွင် အနောက်ဖက်မှ အရှေ့ဖက်သို့ ကောင်းကင်၌ ရှိသော နဂါးငွေ့ခေါ် ကြယ်တာရာလမ်းကြောင်းကြီးသဖွယ် စီတန်း၍ ကျွန်းကလေးပေါင်းများစွာတို့သည် အစုလိုက် အပြုံလိုက်ရှိနေကြရာ၊ အနောက်ဖက်ဆုံးအစုကို မယ်လာနီးရှား အုပ်စုဟူ၍၎င်း၊ အလယ်အစုကို မိုက္ကရိုနီးရှား အုပ်စုဟူ၍၎င်း၊ အီစတာကျွန်းအထိ အရှေ့ဖက်ဆုံးအုပ်စုကို ပေါ်လီနီးရှား အုပ်စုဟူ၍၎င်း ခေါ်ဆိုကြလေသည်။

## ပေါ်လီနီးရှား အုပ်စု

ဤအုပ်စု၌ အပါအဝင်ဖြစ်သော၊ ဟာဝိုင်းယန်းကျွန်းစုတွင် မီးမငြိမ်းသေးသော မီးတောင်များအနက် အကြီးဆုံးမီးတောင်ရှိ၏။ ဤအုပ်စုတွင် သန္တာကျွန်းဖြစ်သော အယ်လစ်ကျွန်းစုနှင့် တိုကလော ကျွန်းစုတို့လည်း ပါဝင်ကြ၏။ ထို တိုကလောကျွန်းစုမှ ကျွန်းသူ ကျွန်းသားများသည် မိကျောင်းကဲ့သို့ ရေကူးခြင်းတွင် ပြိုင်ဖက် ကင်းလောက်အောင် ကျင်လျင်ကြ၍၊ အခြား လက်နက်အကြီးအကျယ် တစုံတရာမပါဘဲ ဓားရှည်တချောင်းဖြင့် လူသားစား ငမန်းကြီးများကိုပင် ဖမ်းဆီး သတ်ဖြတ်နိုင်ကြသည်။ ထိုပြင် တွန်ဂါကျွန်းစု၊ ကွတ်ကျွန်းစု၊ ဆိုဆိုင်းယတီကျွန်းစု၊ ဩစထရယ်ကျွန်းစု၊ မားကေးဆတ်ကျွန်းစု၊ တူအာမိုးတိုး ကျွန်းစုများလည်းရှိသည်။

အထက်ပါ ပေါ်လီနီးရှား အုပ်စုအပါအဝင် ကျွန်းစုတို့တွင် နေထိုင်ကြသော လူမျိုးများသည် အရပ်အမောင်းလွန်စွာမြင့်မား၍၊ ယောကျ်ားများမှာ ပျမ်းမျှခြင်းအားဖြင့် ၆ ပေခန့် မြင့်ကြ၏။ မိန်းမများမှာ အလွန်လှပ၍ အသားမှာ ညိုဝါဝါရှိပြီးလျှင်၊ ဆံပင်မှာလည်းကပ္ပလီမများကဲ့သို့ကောက်ကွေးခြင်းမရှိ၊ သွယ်တန်း ဖြောင့်စင်း၍ နက်မှောင်သော အရောင်ရှိ၏။ ယင်းလူမျိုးတို့သည် ကျောက်ခေတ်သစ်၌ ကမ္ဘာပေါ်တွင် ရုပ်ရည်အချောမောဆုံးသော အမျိုးအနွယ်ဟုခေါ်ကြသည့် ကော့ကေးရှန်း အဆက်အနွယ်မှ ဆင်းသက်လာသည်ဟု သိပ္ပံပညာရှင်များ ယူဆကြ၏။ ထိုသူတို့သည် ရုပ်ရည်လှပသည်မက၊ ပညာဉာဏ်လည်း ထက်မြက်၍ ယဉ်ကျေးဖော်ရွေကြ၏။ ဆိုဆိုင်းယတီ ကျွန်းစုအပါအဝင် တဟီးတီးကျွန်းရှိ လူမျိုးတို့သည် သီချင်းကဗျာသီဆိုခြင်းအတွက် ကျော်စောထင်ရှား၏။ ကျွန်းသူကျွန်းသားများမှာ အပူအပင်မရှိ၊ ပကတိ အေးချမ်းသာယာစွာနေထိုင်လိုကြ၏။ ထို့ကြောင့်လည်း တတ်ကျွမ်းပြီး လက်မှုပညာများပင်လျှင် တစတစ ကွယ်ပျောက်တိမ်ကောလာသည်ကို တွေ့ရ၏။ သို့သော် ပစိဖိတ်သမုဒ္ဒရာအတွင်းရှိ အခြားကျွန်းသူကျွန်းသားများနှင့် နှိုင်းစာသော် နိုင်ငံရေး၌၎င်း၊ ပေါင်းသင်းဆက်ဆံမှု၌၎င်း၊ ယဉ်ကျေးဖော်ရွေမှု၌၎င်း ထိုကျွန်းသူကျွန်းသားတို့က သာလွန်၏။

## မိုက္ကရိုနီးရှားအုပ်စု

ဤအုပ်စုတွင် တကျွန်းနှင့် တကျွန်း အလွန်နီးကပ်စွာရှိနေသော ကျွန်းငယ်ပေါင်း မြောက်မြားစွာ ပါဝင်ရာ ထို့ကြောင့်လည်း မိုက္ကရိုနီးရှားဟု အမည် တွင်သည်။ အဓိပ္ပါယ်မှာ သေးငယ်ခြင်းဖြစ်သည်။ ကယ်ရိုလိုင်း ကျွန်းစုရှိ အချို့ကျွန်းတို့တွင် သမိုင်းမတင်မီခေတ်က ဆောက်တည်ခဲ့ဟန်တူသော အဆောက်အအုံ အပျက်အစီးများကို တွေ့ရ၏။ ထိုပြင်မာရှယ်ကျွန်းစု၊ ဂီးလဗတ်ကျွန်းစု၊ မြောက်ဖက်ရှိ မယ်ရီယန္နားကျွန်းစုများလည်း ရှိသေး၏။ ထိုမယ်ရီယန္နားကျွန်းစုတွင် ရှေးအခါက အလွန်ရက်စက်ကြမ်းကြုတ်သော ကျွန်းသားများ နေထိုင်ခဲ့ဘူး၏။

ထိုမိုက္ကရိုနီးရှားအုပ်စုရှိ ကျွန်းများ၌ ကျွန်းသူကျွန်းသားများသည် ဗီဇအားဖြင့် မူလတွင် တရုပ် သို့မဟုတ်မလေး၊ လူမျိုးသွေး ပါဟန်ရှိ၏။ အချို့အသား ဝါ၏။ အချို့ ညို၏။ အချို့ မည်း၏။

## မယ်လာနီးရှားအုပ်စု

ထိုအုပ်စုတွင် နယူးဗြိတိန်နှင့် နယူးအိုင်ယာလန်တို့ ပါဝင်သော ဗစ်ဇမတ်ကျွန်းစု၊ ဆော်လမွန်ကျွန်းစု၊ ဆန်တာကရုကျွန်းစု၊ နယူးဟက်ဗရိဒီးကျွန်းစု၊ နယူးကယ်လီဒိုးနီးယားကျွန်းစုနှင့် လွိုင်ယယ်လတီ ကျွန်းစုများ ပါဝင်လေသည်။

ဆန်တာကရုကျွန်း၌ ရှေးကနေထိုင်ကြသူများသည် အလွန်အယူ သည်း၍၊ ခရစ်ယန် သာသနာပြု ဆရာများကို

သတ်ဖြတ်ခဲ့ဘူး၏။ ဆော်လမွန်ကျွန်းတွင် အလွန်ရက်စက်ကြမ်းကြုတ်သော လူသားစားလူရိုင်းများ ရှိခဲ့ဘူး၏။ နယူးကယ်လီဒိုးနီးယားကျွန်းမှာ ပြင်သစ်ပိုင်ဖြစ်၍ တောင်ပိုင်းအကျဆုံးနေရာ၌ တည်ရှိပြီးလျှင် အကျဉ်းသားများအားတသက်တကျွန်းပို့ရာ ဒေသဖြစ်၏။

ထိုအုပ်စုရှိ ကျွန်းအားလုံး၌ နေထိုင်သူများသည် နီးဂရိုးခေါ် ကပ္ပလီလူမျိုးများနှင့် အလွန်တူသည်။ ဆံပင်ကောက်၏။ နှုတ်ခမ်း ထူ၍ တွဲ၏။ အသားမည်းနက်၏။ မိုက္ကရိုနီးရှားအုပ်စုမှ လူများလောက် ရုပ်ရည်သန့်ပြန့်ခြင်းနှင့် ဉာဏ်ထက်မြက်ခြင်း မရှိချေ။

## ကျွန်းများအကြောင်းသိကောင်းစရာ

ဤသမုဒ္ဒရာကြီးထဲတွင် ကျွန်းတိုင်း၌ အုန်းပင် အမြောက်အမြားပေါက်ရောက်၍ အုန်းပင်ကို ကျွန်းသူကျွန်းသားတို့မှီခိုအားထားရသည်။ အုန်းသီးကို စား၍ အုန်းရည်ကိုသောက်ရ၏။ အုန်းပင်မှ တိုင်များ၊ ထုပ်၊ လျှောက်၊ ဒိုင်း၊ မြားများပြုလုပ်ရ၏။ အရွက်ကို အိမ်မိုးရန်သက်ငယ်သဖွယ်အသုံးပြုပြီးလျှင်၊ အုန်းဆံကိုကြိုးနှင့်ငါးဖမ်းပိုက်များ ပြုလုပ်ကြ၏။တခါတရံ တိုင်းရင်းသားများသည် အုန်းသီး အဆန်ကို ပိုက်ဆံကြေးငွေသဖွယ် လဲလှယ်သုံးစွဲကြသေး၏။

ကျွန်းများမှာ သန္တာကြောင့် ဖြစ်ပေါ်လာသော ကျွန်းများနှင့် မီးတောင်ကြောင့် ဖြစ်ပေါ်လာသော ကျွန်းများဟူ၍ နှစ်မျိုးရှိလေသည်။ မီးတောင်ကျွန်းများ၌ တောင်တို့သည် မြင့်မားမတ်စောက်၍ တောင်ကမ်းပါး၊ တောင်ဝှမ်းများတွင် စိမ်းလန်းသော သစ်ပင်တို့ ဝေဆာစွာပေါက်ကြသည်။ မိုးကောင်းသဖြင့် သစ်ပင်အမျိုးမျိုး ပေါက်သည်။ ငှက်ပျောပင်၊ မြောက်ဥ၊ သာကူပင်၊ ပေါင်သီးပင်တို့ကို တွေ့နိုင်သည်။ အခေါက်လျှော်ကို ပြန့်အောင်ထုနှက်၍ လေ့ရွက်နှင့်အဝတ်လုပ်ရသော ပိုးစာပင်တမျိုးလည်း ရှိသေး၏။

ထိုပြင် ကျွန်းတို့၌ အရောင်အမျိုးမျိုးရှိသောငှက်များနှင့် တောဝက်များရှိသည်။ ငှက်နှင့်တောဝက်တို့မှာ ကျွန်းပေါ်သို့ ရှေးဦးစွာရောက်လာသူများထံမှ လွတ်၍ ကျန်ရစ်ခဲ့သော တိရစ္ဆာန်တို့၏ အဆက်အနွယ်များ ဖြစ်ဟန်တူ၏။ ပင်လယ်ကမ်းခြေတွင် တရုပ်လူမျိုးများ အလွန်နှစ်သက်သည့် ပင်လယ်ပက်ကျိတမျိုးကိုလည်း အမြောက်အမြား ဖမ်းယူရရှိနိုင်၏။ မြေဩဇာအတွက် အသုံးပြုရသည့် ဖော့စဖိတ်ကို ကျွန်းများ၌ မကြာမီက တွေ့ရှိရသောကြောင့် ယင်းကို ယခုအခါ အမြောက်အမြား တူးဖော်လုပ်ကိုင်လျက်ရှိကြ၏။ ကျွန်းကြီးများတွင်လည်း သတ္တုအမျိုးမျိုးထွက်ရာ နယူးကယ်လီဒိုးနီးယားကျွန်းကြီးသည် ကမ္ဘာပေါ်တွင် ဒန်သတ္တုအများဆုံးထွက်ရာ ဒေသတခုဖြစ်လေသည်။

သန္တာကျွန်းများပေါ်၌ကား အုန်းပင်များသာမက၊ ပန်ဒေးနပ်ခေါ် သစ်ပင်တမျိုး ပေါက်ရောက်၍ ထိုအပင်မှအသီးကိုစားကြ၏။ အရွက်ကို အိမ်မိုးသက်ငယ်အဖြစ်ဖြင့်၎င်း၊ အသားကို တိုင်အဖြစ်ဖြင့်၎င်း၊ ဆိုးဆေးအဖြစ်ဖြင့်၎င်း သုံးရ၏။ ထိုကျွန်းများတွင် သားကောင်ဟူ၍ မတွေ့ရဘဲ၊ ဗုဇွန်နှင့် ကြွက်များ ပေါများလှ၏။

ပစိဖိတ်သမုဒ္ဒရာအတွင်းရှိ ကျွန်းများသည် တည်နေရာသဘာဝကျသဖြင့်၊ မျှတသော ရာသီဥတုရှိ၏။ သို့ရာတွင် အနောက်ဖက်မှ တိုက်လေ့ရှိသော လေပြင်းမုန်တိုင်းများ မကြာခဏ ကျရောက်တတ်သောကြောင့် များစွာပျက်စီးတတ်၏။ တခါတရံလည်း ရေအောက်ရှိ မီးတောင်များ၏ အရှိန်ကြောင့် မကြာခဏ ငလျင်လှုပ်တတ်သည်။ ပင်လယ်ကမ်းခြေကိုလည်း လှိုင်းကြမ်းများ ပုတ်ခတ်တတ်သည်။ ထိုကြောင့် ကမ်းခြေဒေသရှိ လူနေရပ်ကွက်တို့မှာ မကြာခဏ ပျက်စီးတတ်၏။ အများအားဖြင့် အပူပိုင်းဇုန်တွင် ရှိနေသော်လည်း ပင်လယ်လေ တိုက်ခတ်မှုကြောင့် ပူသင့်သလောက်မပူဘဲ မျှတသော ရာသီဥတုကို ရရှိကြလေသည်။

ပစိဖိတ်ကျွန်းများကို နိုင်ငံကြီး လေးနိုင်ငံက ခွဲဝေစိုးပိုင်ကြ၏။ ပဌမကမ္ဘာစစ်ကြီး မဖြစ်မီက ဂျာမနီနိုင်ငံသည် အထက်ပါ ကျွန်းများစွာကို ပိုင်ဆိုင်ခဲ့သော်လည်း၊ စစ်အပြီးတွင် ထိုဂျာမန်ပိုင် ကျွန်းများသည် ဂျပန်၊ ဩစတြေးလီးယားနှင့် နယူးဇီလန်အစိုးရတို့၏လက်အောက်သို့ ကျရောက်သွားသည်။ ဆော်လမွန်ကျွန်းစု၊ ဂီးလဗတ်ကျွန်းစု၊အယ်လစ်ကျွန်းစု၊ ဖီးနစ်ကျွန်းစု၊ ဖီးဂျီးကျွန်းစု၊ တွန်ဂါကျွန်းစုများကို ဂရိတ်ဗြိတိန်က တိုက်ရိုက်အုပ်ချုပ်၏။ ဗစ်ဇမတ်ကျွန်းစုနှင့် ဆော်လမွန်ကျွန်းစု၌ ပါဝင်သော ကျွန်းအချို့တို့ကို ဩစတြေးလီးယားနိုင်ငံက အုပ်ချုပ်၏။ အနောက် ဆမိုးဝါးကျွန်း၊ ကွတ်ကျွန်း၊ အော့ကလန်ကျွန်း၊ ချတ်သမ်ကျွန်း၊ ကာမဒက်ကျွန်းနှင့်ယူနီယန်ကျွန်းစုတို့ကို နယူးဇီလန်နိုင်ငံက အုပ်ချုပ်၏။ဂွမ်ကျွန်း၊ ဟာဝိုင်းယန်းကျွန်းစု၊ဆမိုးဝါးကျွန်း၊ မယ်ရီယန္နားကျွန်းစု၊ မာရှယ်ကျွန်းစု၊ ကယ်ရိုလိုင်းကျွန်းစု၊ ပလောကျွန်းစု ဟူသည်တို့ကို အမေရိကန် ပြည်ထောင်စုက အုပ်ချုပ်၏။ နယူးကယ်လီဒိုးနီးယားကျွန်း၊ လွိုင်ယယ်လတီကျွန်း၊ ဝေါလစ်ကျွန်း၊ ဆိုဆိုင်းယတီကျွန်း၊ တူအာမိုးတူးကျွန်း၊ မာကေးဆတ်ကျွန်းစသည်တို့ကို ပြင်သစ်က အုပ်ချုပ်၏။ ဒုတိယကမ္ဘာစစ်ကြီးတွင် ဂျပန်သည် အကြွင်းမဲ့ လက်နက်ချ အရှုံးပေးလိုက်ရသောကြောင့် ယင်းပိုင် ကျွန်းအားလုံးကိုအမေရိကန်ပြည်ထောင်စုက ယခုအခါ အုပ်ချုပ်လျက်ရှိလေသည်။

၁၉၁၃ ခုနှစ်တွင် ပနားမားတူးမြောင်းကို ဖောက်ခဲ့သည့်အချိန်မှစ၍၊ ပစိဖိတ်သမုဒ္ဒရာကြီးကို ဖြတ်သန်းသော ကုန်စည်ကူးသန်းရောင်းဝယ်ရေး အခြေအနေနှင့် ရေကြောင်းစစ်ဆင်ရေးပရိယာယ်တို့သည် ပြောင်းလဲသွားခဲ့လေသည်။

သို့ဖြစ်ရာ ပစိဖိတ်သမုဒ္ဒရာကြီး၏ အနောက်ဖက်ကမ်းခြေရှိ တန်ခိုးအာဏာနှင့်ပြည့်စုံသော နိုင်ငံကြီးများအချင်းချင်း ကုန်စည် ကူးသန်းရောင်းဝယ်ရေး၌ အပြိုင်အဆိုင်ဖြစ်လာလေ၊ ထိုသမုဒ္ဒရာအတွင်းရှိ အကွက်ကောင်းသော နေရာကို ပိုင်ဆိုင်ရေးသည် အရေးကြီးလာလေဖြစ်သည်။ အမေရိကန်၊ ဂရိတ်ဗြိတိန်၊ ရုရှ၊ ပြင်သစ်နှင့် အခြားဥရောပနိုင်ငံတို့သည် ဤသမုဒ္ဒရာကိုဖြတ်သန်း၍ ကူးသန်းရောင်းဝယ်ခြင်းကို အလွန်အရေးကြီးသည်ဟု သဘောထားကြ၏။ ထိုကြောင့် ပစိဖိတ်ကာကွယ်ရေးသည် အလွန်အရေးကြီးပေသည်။

**ပဆစ်ပစ်ခြင်း။** ။ပဆစ်ပစ်ခြင်းသို့မဟုတ်ကြွေပစ်ကစားခြင်းသည် မြန်မာနိုင်ငံ၌ ရှေးပဝေဏီကပင် ခေတ်စားခဲ့သော မြန်မာအိမ်တွင်း ကစားနည်း တမျိုးဖြစ်သည်ဟု ယူဆရ၏။ သို့သော် မင်းတုန်းဘုရင်လက်ထက် (၁၈၅၃–၇၈) မတိုင်မီက စာပေများတွင် ပဆစ်ကစားနည်းနှင့် စပ်လျဉ်းသောအသုံးအနှုန်း၊ အချက်အလက်များ ဖော်ပြထားသည်ကို မတွေ့ရပေ။ ထိုပြင် ယင်းသည့်ကစားနည်းသည် အိန္ဒိယမှရောက်လာသော ကစားနည်း ဖြစ်ဟန်တူသည်။ အိန္ဒိယလူမျိုးများသည် ကြွေခုနစ်လုံးဖြင့် 'ပစိသိ' ဟူသောကစားနည်းတမျိုးကို ကစားလေ့ရှိသည်။ သီဟိုဠ်နိုင်ငံတွင် အလားတူကစားနည်းမျိုးကို 'ပါစုဝီစိ' ဟုခေါ်လေသည်။ ပစိသိဆိုသည်မှာ ဟိန္ဒီဘာသာတွင် ၂၅ ဟုဆိုလိုသည်။ ပစိသိမှ ပဆစ်ဟူ၍ ရွေ့လျားလာခြင်း ဖြစ်ဟန်တူသည်။ ပဆစ် ကစားနည်းတွင် ကြွေခြောက်လုံးကို ပစ်ထည့်လိုက်ပြီးနောက် ငါးလုံးလန်ကာ တလုံးမှောက်နေလျှင် တစိတ်ဟုခေါ်ပြီးသော်၊ အကွက် ၂၅ ကွက် ရွှေ့နိုင်သည်။ အကွက်အများဆုံးရွှေ့နိုင်သော ကြွေလက်ဖြစ်သည်။



ယင်းသည့် ပဆစ်ပစ်ကစားနည်း မျိုးသည် လွန်ခဲ့သော နှစ်ပေါင်း ၂၀–၂၅–ခန့်တိုင်အောင် ခေတ်စားခဲ့သော်လည်း ယခုအခါတွင် နိုင်ငံခြား ဖဲကစားနည်း၊ မာဂျောင်းကစားနည်းစသည်တို့ ဝင်ရောက်လာသဖြင့် တိမ်ကောပပျောက်လုနီးပါးဖြစ်နေလေပြီ။ ပဆစ်ပစ်ကစားနည်းကို ယောကျ်ားများထက် မိန်းမများ ပို၍ ကစားလေ့ ရှိကြသည်။

ကြွေခုံကို ပုံတွင် ဖော်ပြသည့်အတိုင်း ရောင်စုံ အဝတ်စများကို အကွက်ဖော် ချုပ်လုပ်၍ဖြစ်စေ၊ ဂျပ်စက္ကူပေါ်တွင် အကွက်ချရေး၍ဖြစ်စေ၊ ပျဉ်ချပ်ပေါ်တွင် အကွက်ဖော်၍ ဖြစ်စေ ပြုလုပ်ရသည်။ စလေဦးပုညသည် ရေသည်ပြဇာတ်၌ ဆင်းရဲလှသောရေသည်မ၏ ထဘီကို အစုတ်အပြတ် အဖာအထေး အစပ်တွေများလှသဖြင့် –

'စုတ်ပေတောင့်ထမိန်၊ အစပ်ကတရာ၊ အဖာက ဘရပြစ်၊ မှောင်ကျအောင်ညစ်ပါတဲ့၊ ပဆစ်အိမ်ကို'ဟူ၍ နှိုင်းရှည့်စပ်ဆိုခဲ့လေသည်။



ကြွေပစ်ရာတွင် နောင်အခါ ကြွေစေ့ခြောက်စေ့ကို ပန်းကန်လုံးနှုတ်ခမ်းပက်ပက်ထဲသို့ ပစ်ထည့်ကစားလေ့ ရှိသော်လည်း ရှေးကမူ ဂရို့တွင်းသို့ ကြွေစေ့များ ပစ်ထည့်ကစားကြသည်။ ဂရို့ဆိုသည်မှာ ပွပြင်ထားသော ဝါးကျည်ထောက်တခုဖြစ်သည်။ ဝါးလုံးတခုကို အဆစ်လွတ်တပေမျှဖြတ်ရသည်။ ထို့နောက် အတွင်းဖက်တွင် ဝါးတံကလေးခြောက်ခုကို တခုအောက်တခု တလက်မစီမျှခွါ၍ လျှိသွင်းရသည်။ အစွန်းမထွက်ရန် ညှိပေးရသည်။ ထို့နောက် ဝါးကျည်ထောက်ကို ထောင်လျက်တည်စေရန်၊ သစ်သားတုံးတခုတွင် ကပ်ရိုက်ရသည်။ ယင်းကို ဂရို့ဟုခေါ်သည်။ ကြွေပစ်မကျွမ်းကျင်သူတို့အဖို့ ကြွေစေ့ခြောက်စေ့စလုံးကို ဂရို့

တွင်းသို့ ဝင်အောင် မပစ်နိုင်ကြချေ။ နောက်အခါ ဂရို့အစား ပန်းကန်လုံးကို အလွယ်တကူသုံးစွဲလာကြသည်။

ပဆစ်ကစားရာတွင် ကြွေခုံ သို့မဟုတ် ပဆစ်အိမ်၌ အိမ်လေးအိမ် လေးဖက် လက်တံထွက်နေသည်။ နှစ်အိမ်တဖက်စီထား၍၊ (၁၊ ၂၊ ၃၊ ၄၊ အစဉ်လိုက်ထားလျှင် ၁ နှင့် ၂၊ ၃ နှင့် ၄) နှစ်ဖက်မျက်နှာချင်းဆိုင် ယှဉ်ပြိုင်ကစားကြရသည်။ တဖက်လျှင် တယောက်မှသုံးယောက်၊ လေးယောက်အထိ ကစားနိုင်သည်။ 'ပို' ရှစ်လုံးစီဖြင့် ကစားကြရသည်။ ပိုဆိုသည်မှာ ကြွေလက်အလိုက် အကွက်များပေါ်တွင် ရွှေ့ကစားရသောပစ္စည်းများဖြစ်သည်။စကစားရာတွင် မည်သူကစ၍ ကြွေများပစ်ထိုက်သည်ကို ယှဉ်ပြိုင်ကစားသည့် တဖက်စီမှ လူတယောက်စီက ကြွေများကို တလှည့်စီပစ်ကြရသည်။ အပွင့်သာသည့် လူဖက်မှ စတင်၍ ကြွေပစ်ကစားရလေသည်။

ကြွေခြောက်စေ့ကိုဆုပ်ကိုင်၍ ပန်းကန်ထဲ သို့မဟုတ် ဂရို့ထဲသို့ ပစ်ထည့်ရသည်။ ပန်းကန်နှင့်ကစား၍ ကြွေစေ့ပြန်ထွက်လာလျှင် အန်သည်ဟုဆိုသည်။ 'အန်' သောသူသည် ပိုကိုမရွှေ့ရတော့ချေ။ ကြွေပစ်လှည့်ကိုလည်း နောက်လူ သို့မဟုတ် တဖက်လူသို့ပေးရသည်။ တခါတရံကြွေစေ့တစေ့သည် အခြားကြွေစေ့များကို ကပ်မှီလျက် ထောင်နေလျှင် တဖက်လူက ပန်းကန်ကို အသာခေါက်ပေးရသည်။ ယင်းသို့ခေါက်ပေး၍ မှောက်သည်၊ လန်သည်အတိုင်း အဆုံးအဖြတ်ဖြစ်သည်။

ကြွေပစ်လိုက်၍ ကြွေတစေ့လန်ပြီးလျှင် ငါးစေ့မှောက်နေခဲ့သော် 'တဆယ်' ဟုခေါ်သည်။ ပိုကို ဆယ်ကွက်ရွှေ့ရသည်။ နှစ်စေ့လန်၍၊ လေးစေ့မှောက်နေခဲ့သော် 'ပါ' ဟုခေါ်သည်။ နှစ်ကွက်ရွှေ့ရသည်။ သုံးစေ့လန်၍ သုံးစေ့မှောက်နေခဲ့သော် သုံးလုံး၊ သို့မဟုတ် 'သုံးချွန်း' ခေါ်သည်။ သုံးကွက်ရွှေ့ရသည်။ လေးစေ့လန်၍၊ နှစ်စေ့ မှောက်နေခဲ့သော် လေးလုံးဟု ခေါ်သည်။ လေးကွက် ရွှေ့ရသည်။ ငါးစေ့လန်၍၊ တစေ့ မှောက်နေခဲ့သော် တစိတ်ဟု ခေါ်သည်။ နှစ်ဆယ့်ငါးကွက် ရွှေ့ရသည်။ ခြောက်စေ့လန်နေခဲ့လျှင် 'တဗာရ'ဟု ခေါ်သည်။ ဆယ့်နှစ်ကွက်ရွှေ့ရသည်။ ( ပါဠိအလိုအားဖြင့် ဆယ့်နှစ်ကို ဗာရသ၊ ဟင်ဒီစကားဖြင့်လည်း ဆယ့်နှစ်ကို ဗာရဟု ခေါ်သည်။) ခြောက်စေ့စလုံး မှောက်နေခဲ့လျှင် 'တခြောက်' ဟုခေါ်သည်။ ခြောက်ကွက်ရွှေ့ရသည်။

အထက်ပါ စည်းကမ်းအတိုင်း ရွှေ့ရသော်လည်း၊ 'ပိုနိုး' ပြီးမှ ရွှေ့ရသည်။ 'ပိုနိုး' သည် ဆိုသည်မှာ တဆယ်သော်၎င်း၊ တစိတ်သော်၎င်း ကြွေလက်ကျမှ 'ပိုနိုး' သည်ဟုခေါ်သည်။ပို မနိုးမချင်း မိမိပိုကို ပဆစ်အိမ်သို့မတင်ရသေးချေ။ ပိုတခါနိုးမှ ပိုတပိုတင်ရသည်။ 'တစိတ်' သို့မဟုတ်'တဆယ်' သို့မဟုတ်'တဗာရ'သို့မဟုတ်'တခြောက်'တို့ကိုရလျှင်၊ထပ်၍ ပစ်ခွင့်ရသည်။ သို့သော်'တစိတ်'သော်၎င်း၊'တဆယ်' သော်၎င်း တလှည့်စီဖြစ်စေ၊တမျိုးတည်းဖြစ်စေ သုံးကြိမ်ဆက်ကျလျှင်ကား ထိုလူ 'သေ'တော့သည်။ ထိုအခါ နောက်လူ သို့မဟုတ် တဖက်လူ၏အလှည့် ရောက်သွားသည်။ ယင်းသို့ ဆက်တိုက် ကျနိုင်ရန်မှာ အလွန်ခဲယဉ်းသည်။ 'တစိတ်'သို့မဟုတ်'တဆယ်'ဆက်တိုက်နှစ်လက်ဆက်ကျပြီး၍၊'တဗာရ' 'တခြောက်'ခြားပြန်လျှင် ထပ်ပစ်နိုင်ပြန်သည်။

ပိုဟုခေါ်သော ပစ္စည်းများသည် သစ်သားတုံးကလေးများသော်၎င်း၊အပ်ချည်လုံး နှစ်ပိုင်းဖြတ်များသော်၎င်းဖြစ်ကြ၍၊တဖက်နှင့်တဖက် ခွဲခြားနိုင်အောင် အရောင်ကွဲဆေးခြယ်ထားသည်။ 'ပိုစိမ်း'နှင့်'ပိုနီ' ဟူ၍ နှစ်ဖက် ခွဲခြားထားသည်ဆိုပါစို့။ ပိုနီဖက်မှစ၍ပိုနိုးလျှင် နိုးသည့်ပိုကိုပဆစ်အိမ် အကွက်တန်း သုံးခုရှိရာ အလယ်ကွက် (က)အမှတ် ပြထားသော အကွက်မှစ၍ ထွက်ရသည်။ (က) အမှတ်ပြထားသော အကွက်တန်းသည် ပိုနီဖက်မှ အိမ်ဖြစ်သည်။ မျက်နှာချင်းဆိုင်အိမ်(က၁)အမှတ်ပြအိမ်သည် အကွက်တန်းများတွင် ပိုစိမ်း၏ အိမ်ဖြစ်သည်။ ကြက်ခြေ ပြထားသော အကွက်များသည် 'အထိုင်' သို့မဟုတ် 'ထိုင်ကွက်'များဖြစ်ကြသည်။ 'အထိုင်'ရထားသော ပိုကို တဖက်ပိုက မသတ်နိုင်ချေ။

တယောက်ချင်းမဟုတ်ဘဲ၊ တဖက်တဖက်တွင်တယောက်ထက်ပို၍ နှစ်ယောက် သုံးယောက် စသည်ဖြင့် ကစားကြလျှင် ပိုနိုးပြီးသူ၏ ကြွေလက်အတွက်သာ ပိုကိုအကွက်ရွှေ့ရသည်။ ပိုမနိုးသေးသူအတွက် ပိုအကွက် မရွှေ့ရချေ။

ပဌမပိုနိုး၍ (က) အမှတ်ပြအကွက်တွင် ပိုတခုတင်ပြီးလျှင်၊နိုးရာပိုအလိုက်၊မိမိအိမ်မှစ၍ထွက်ကာဆယ်ကွက်၊ဆယ့်နှစ်ကွက်စသည်ဖြင့် ကြွေလက်အတိုင်း အကွက်ရွှေ့ရသည်။ ပုံစံအားဖြင့် ကြွေလက်တွင် 'တဆယ်' ကျ၍ ပိုနိုးသူသည် နောက်ထပ် ပစ်ခွင့်ရသေးသဖြင့် ဒုတိယအကြိမ်ထပ်ပစ်ရာ၊ 'ပါ' ကျသည်ဆိုပါစို့။ ထိုသူ၏ ကြွေလက်များအတွင်း ပိုကို 'တဆယ်' အတွက်ဆယ်ကွက်၊ 'ပါ' အတွက်နှစ်ကွက်၊ ပေါင်းဆယ့်နှစ်ကွက်ရွှေ့ရသည်။ အိမ်မှထွက်စ ပိုကို 'ပိုနု' ဟု ခေါ်သည်။တဖက်ကပိုကိုသတ်၍၊ ပဆစ်အိမ်တပတ်လှည့်ပြီးလျှင် မိမိအိမ် ပြန်ဝင်သောပိုကို 'ပိုရင့်'ဟု ခေါ်သည်။

ပဌမအကြိမ် ပိုနိုးပြီး၍၊ နောက်ထပ် ပိုနိုးခဲ့သော် (က) အမှတ်တွင်ပင် ပိုတင်ရသည်။ အကွက်ရွှေ့ရာ၌ ပဌမတင်ပြီး ပိုကိုလည်း ရွှေ့နိုင်သည်။ သို့မဟုတ် ဒုတိယတင်သောပိုကို လည်းရွှေ့နိုင်သည်။ ပိုရွှေ့ရာ၌ တဖက်ပို၏ အသွားအလာ လမ်းကြောင်း အနေအထားကိုကြည့်၍ တဖက်ပို၏ 'သတ်ကွင်း'မှ လွတ်နိုင်သမျှ လွတ်အောင် ရွှေ့ရသည်။ ပိုရှစ်လုံး စလုံး အကုန် နိုးပြီးနောက် တစိတ် တဆယ် စသည်ဖြင့်

ကြွေကျပြန်သော်၊ ပိုနောက်ထပ် တင်စရာမရှိသဖြင့် ကြိုက်ရာပိုကို တကွက်တိုးရွှေ့နိုင်သည်။ 'တပိုတိုး' ဟုခေါ်၍ ရွှေ့ရသည်။ 'အိမ်'ဟုခေါ်သော အလယ်ကွက်တန်းသည်(က)အမှတ်မှ(ဆ)အမှတ်အထိ ဖြစ်သည်။ (က)မှ(ဆ) အထိကို'အိမ်ကွက်များ'ဟုခေါ်သည်။ 'အိမ်ကွက်များ'၌ ပိုချင်းထပ်ထားနိုင်သည်။ အိမ်ကွက်နှင့်ထိုင်ကွက်များမှတပါး၊ အခြားအကွက်များတွင် ပိုချင်းထပ်မထားနိုင်ချေ။ မိမိပစ်၍ကျသောကြွေသည် မိမိပိုအား ထိုင်ကွက်သို့ ရောက်စေနိုင်သော်လည်း၊ ထိုထိုင်ကွက်တွင် တဖက်ပိုရှိနေလျှင် မိမိပိုကို မရွှေ့နိုင်ချေ။ မိမိ၏ အခြား အကွက်မှပိုကို ရွှေ့ရသည်။ ရွှေ့စရာ အခြားပိုမရှိလျှင် ယင်းကြွေလက်ကို လျှော်လိုက်ရတော့သည်။

တဖက်မှပိုသည် အခြားအကွက်တကွက်တွင် ရှိနေသော အခြားတဖက်မှပိုကို ထပ်မိသည်အထိ ကွက်တိရောက်အောင် ပစ်နိုင်လျှင်'ပိုသတ်'သည်ဟု ခေါ်သည်။ ပိုသတ်ခြင်းခံရလျှင် အသတ်ခံရသောဖက်မှ တင်ထားသော ပိုများအားလုံးကို ပြန်ချရသည်။ 'အထိုင်' ကွက်တွင်ရှိနေသောပို၊ ပိုနု၊ ပိုရင့်မရွေး အကုန်ပြန်ချရသည်။ အသတ်ခံရသည့်ဖက်က ကြွေပစ်လှည့် ရောက်၍ ပိုနိုးမှ ပြန်တင်ရလေသည်။

ပိုသည် မိမိအိမ်မှ ထွက်ခဲ့ပြီးလျှင်၊ ပဆစ်အိမ်ကို တပတ်လှည့်ခဲ့ရာ၊ လမ်းတွင်တဖက်မှပိုကို သတ်ခဲ့ပြီးမှ မိမိအိမ်သို့ပြန်ဝင်ရသည်။ တဖက်ပိုကို မသတ်ရသေးလျှင် မိမိအိမ်တွင်းသို့ မဝင်နိုင်သေးချေ။ မိမိအိမ်ပေါက် ရောက်ပြီးမှ ပဆစ်အိမ်ကို ရှေးနည်းအတိုင်းတပတ်လှည့်ရပြန်သည်။(အချို့အရပ်ဒေသတွင်မူ ပိုမသတ်ရသေးသော်လည်း မိမိအိမ်ပေါက်ပြန်ရောက်လျှင် ဝင်နိုင်သောနည်းဖြင့် ကစားကြသည်။) ယှဉ်ပြိုင်ကစားသည့်နှစ်ဖက်သည် တဖက်လျှင် နှစ်အိမ်ပိုင်ကြောင်းဆိုခဲ့သည်။ပိုတို့သည် မူလ စထွက်သည့် အိမ်ကိုသာ ပြန်ဝင်ရလေ့ ရှိသော်လည်း၊ အိမ်တွင်းသို့ဝင်သောပို (ပိုရင့်) ကို အထွက်ပို (ပိုနု)နှင့် ကွဲလွဲစေရန်၊အဆိုပါ ဒုတိယအိမ်ကွက်များတွင် ရွှေ့ထားရသည်။

ပိုသည် အိမ်တွင်းသို့ ဝင်ခဲ့ရာ၊ အလယ် အကွက်ကြီးသို့ ရောက်အောင်ဝင်နိုင်ပါမှ'ပိုပြီး'သည်ဟုဆိုသည်။ ပြီးရန် သုံးကွက်လိုလျှင် လေးလုံးကျပါမှ အကွက်ကြီး အတွင်းသို့ ရောက်နိုင်သည်။ တခါတရံ ကွက်တိမကျဘဲ လေးလုံးကျမှ ပြီးမည့် ပိုအတွက် သုံးလုံး၊ သို့မဟုတ် သုံးချွန်း ကျလျှင် 'ပိုကန်း' တော့သည်။ ယင်းသည့်အခါ နောက်တလှည့်တွင် တဆယ်၊ သို့မဟုတ် တစိတ် ကျပါမှ အတွင်းဝင်နိုင်၍ ပိုပြီးတော့သည်။

စလေဆရာကြီး ဦးပုညသည် ဝိဇယပြဇာတ်၌ ဘဒ္ဒကဥ္စနာမင်းသမီးက ယက္ခ ဒီပ ကျွန်းတွင် ဖောင်တော်ဆိုက်သည့် အခါ ဘီလူးအား ပြောသော အခန်း၌—

"ဖြစ်ရလေမယ့်ကံငယ်၊ လောကဓံ လှူတိုင်းမှာ အရှိုင်းကသာကြော၊ သုံးစားမှာ ပါကျလို့၊ ဇာတာ့နှယ် ကောလေတယ်"ဟု 'သုံးလုံး'ကျပါက ပိုပြီးနိုင်ပါလျက် 'ပါ' ကျသဖြင့် ခံရာခက်ဆစ်ဖြစ်ရပုံကိုဖော်ပြသော ပဆစ်သုံးစကားကိုယူ၍ စပ်ဆိုထားလေသည်။ အကယ်၍ ပိုကန်းနေစဉ် မိမိအိမ်နှင့်ကပ်လျက်(ဝ)အမှတ်ပြအကွက်၌ တဖက်ပိုရှိနေပြီးလျှင် တဖက်မှပိုနိုးခဲ့သော်၊ ထိုပိုကန်းကို တဖက်ပိုကသတ်၍၊ နိုးသည့်ကြွေလက်အတိုင်း (တစိတ်၊ တဆယ် စသည်) အကွက်ရွှေ့၍သွားနိုင်လေသည်။ သို့သော် တဖက်က ပိုစုံမှသာ (ပိုများအားလုံးနိုးပြီးသား ဖြစ်မှသာ) ယင်းသို့ သတ်နိုင်ခွင့်ရှိလေသည်။ (အချို့အရပ်တွင် ပိုကန်းသတ်နည်းကို မသုံးကြချေ။)

ကစားပွဲ အရှုံးအနိုင်မှာ ပိုအားလုံး အလျင်ပြီးသူက အနိုင်ရလေသည်။

**ပဆွတ်ပနီ**။ ။ပဆွတ်ပနီကို ပျားတူဟူ၍လည်း ခေါ်ကြသည်။ ပဆွတ်ပနီသည် ပုံပန်းအားဖြင့်ရင်း၊ အနေအထိုင်အားဖြင့်ရင်း နကျယ်နှင့် တူသည်။ နှစ်ကောင် စလုံးပင်ဗက်စပီဒီး မျိုးရင်းတွင် ပါဝင်ကြသည်။ ပဆွတ်ပနီ၏ ပါဏဗေဒအမည်မှာ ဗက်စပါကရာဗရို ဖြစ်သည်။ပဆွတ်ပနီသည်သူတို့ကို အနှောင့်အရှက်မပြုလျှင် မည်သူ့ကိုမျှ ရန်မပြုတတ်ကြပေ။ သို့သော် သူတို့၏ အသိုက်အအုံကို ထိခိုက်လာလျှင် တဝီဝီအော်မြည်ကာ လိုက်တုပ်တတ်ကြသည်။

ပဆွတ်ပနီကို နကျယ်ကောင်နှင့် မကြာခဏ မှားယွင်းတတ်ကြ၏။ နကျယ်မှာ ကိုယ်ပေါ်တွင် အဝါနှင့် အနက်စင်းများ ရောစပ်ပါရှိသဖြင့်၊ အဝါနှင့် အညိုစင်း ရောနေသော ပဆွတ်ပနီနှင့် ထင်မှတ်မှားတတ်ကြသည်။ အကယ်စင်စစ် ပဆွတ်ပနီသည် နကျယ်ကောင်ထက် သိသိသာသာ ကြီးထွား၏။ ပဆွတ်ပနီအထီးသည် တလက်မခန့်ရှိ၍၊ ပဆွတ်ပနီဘုရင်မသည် ထိုထက်ပင် ကြီးမားသေးသည်။

ပဆွတ်ပနီသည် အဆိပ်ပြင်း၏။ အခြားအဆိပ်ရှိသည့် ပိုးမွှားတို့ကို သုတ်သင်ရှင်းလင်းပေးတတ်သည်။ အသိုက်အအုံပြုလုပ်ရာတွင် ပဆွတ်ပနီသည် နေရာရွေးချယ်လေ့မရှိပေ။ သစ်ပင်၏ အခေါင်းထဲတွင်ရင်း၊ တခါတရံ အိမ်ထောင်ပစ္စည်းတခုခုပေါ်တွင်ရင်း အသိုက်အအုံပြုလုပ်တတ်သည်။ (နကျယ်ကောင် — လည်းရှု။)

**ပညာစွယ်စုံကျမ်း**။ ။စွယ်စုံကျမ်း — ရှု။

**ပညာတံခွန်ကျောင်း**။ ။အကယ်ဒမီ — ရှု။

**ပညာတံခွန်အသင်း**။ ။အကယ်ဒမီ — ရှု။

ပညာရေး။ ။"ပညာရေး" ဆိုသည်မှာ လူတို့၏ အသိဉာဏ် တိုးတက်အောင် အဆင့်ဆင့် ပြုလုပ်သမျှတို့ကို ဆိုလိုသည်။ လူတို့သည် အက္ခရာ စာလုံးများကို မတီထွင်တတ်မီကပင် နောင်လာနောင်သားတို့အား မိမိတို့က အရေးကြီးသည်ဟုထင်သော အတတ်ပညာတို့ကို သင်ကြား ပေးခဲ့ကြ၏။ မိမိတို့က အမြတ်တနိုး ထားသော အရာတို့ကိုလည်း မြတ်နိုးတတ် လာစေအောင် သွန်သင်ခဲ့ကြ၏။ ရှေးခေတ်အခါမှစ၍ လူတို့သည် အစုအသင်း ဖွဲ့၍ နေထိုင်လေ့ ရှိခဲ့ကြရာ၊ သက်ကြီးသူတို့က မိမိတို့ အသင်း အဖွဲ့၏ ဓလေ့ထုံးစံ၊ အသိပညာ၊ ကျွမ်းကျင်မှုတို့ကို သက်ငယ်သူတို့အား တဆင့် သင်ကြား ပေးခဲ့ကြလေသည်။ ထိုသို့ အသိပညာရှိပြီးသူတို့က အသိပညာ မရှိသေးသူတို့အား ပညာပေးခြင်းမှာ ပညာရေး၏ အခြေခံဖြစ်သည်ဟု ဆိုနိုင်ပေသည်။

တဖန် ပညာရေးဟူသည်မှာစာသင်ကျောင်းတွင် အသက်ငယ်စဉ်က သင်ကြားခဲ့ရသော ပညာ သက်သက်ကိုချည်း မဆိုလိုချေ။ ပမာအားဖြင့် တစုံတယောက်သည် မူလတန်းပညာမှအစ တက္ကသိုလ်ပညာအထိ တတ်မြောက်ခဲ့ပြီး ဖြစ်သည်ဟု ဆိုနိုင် စေကာမူ၊ ထိုသူအဖို့ ပညာစုံပြီ ဟူ၍ကား မဆိုသာချေ။ အဘယ်ကြောင့် ဆိုသော်၊ ကျောင်းမှထွက်ပြီးနောက် စာအုပ်များကို ဖတ်ခြင်းအားဖြင့် သော်၎င်း၊ သဘာဝကို လေ့လာခြင်းအားဖြင့် သော်၎င်း၊ အချင်းချင်း ပေါင်းသင်း ဆက်ဆံခြင်းအားဖြင့် သော်၎င်း ပညာကို ဆက်သက် ဆည်းပူး နေကြရသောကြောင့် ဖြစ်သည်။ သို့ရာတွင် စာသင်ကျောင်း၌ ရရှိခဲ့သော ပညာကို အခြေခံပြု၍သာလျှင် နောင် ကြီးပြင်းလာသောအခါ ရရှိသော အသိပညာသည် တိုးပွားစုံလင်လာရလေသည်။

အက္ခရာများကို တီထွင်ခြင်းဖြင့် အရေးအသားဟူ၍ ပေါ်ပေါက် လာချိန်တွင် လူတို့သည် စာသင်ကျောင်း ဟူ၍ တည်ထောင် ခဲ့ကြသည်ဟု ဆိုနိုင်လေသည်။ စာသင်ကျောင်း ပေါ် လာချိန်တွင် ကျောင်းဆရာလူတန်းစားဟူ၍လည်း ပေါ် လာမည်ဟု ဆိုနိုင်လေသည်။ ရှေးနှစ်ပေါင်း ၅၀၀၀၊ ၆၀၀၀ ကျော်ကတည်းက အာရှတိုက်နှင့် အာဖရိကတိုက်ရှိ အီဂျစ်နိုင်ငံတို့တွင် စာသင်ကျောင်းများ ရှိခဲ့လေသည်။ ထိုရှေး ခေတ် စာသင်ကျောင်း များသည် လူအားလုံးတို့အတွက် မဟုတ်ချေ။ လူတန်းစား ခွဲခြား၍ သင်ကြား ပေးသော ကျောင်းများ ဖြစ်သည့် အပြင် အယူဝါဒရေး ဆိုင်ရာ ပုဂ္ဂိုလ်တို့က အုပ်ချုပ် စီမံခဲ့ကြလေသည်။ အိန္ဒိယ နိုင်ငံတွင် လူအတန်း အစား အမျိုးမျိုးရှိခဲ့ရာ၌၊ ဗြာဟ္မဏတို့သည် ထိပ်ဆုံး အတန်း အစားတွင် ရှိကြ၍၊ အခြားလူတန်းစားတို့ အတွက် ပညာရေးကို ခွဲခန့် သတ်မှတ်ပေးရသူများ ဖြစ်လေသည်။ တရုပ် နိုင်ငံ၌လည်း ခရစ်နှစ် မတိုင်မီ နှစ်ပေါင်း ၅၀၀ ခန့်မှ အေဒီ ၁၉ ရာစု နှစ်ကုန်အထိ ကွန်ဖြူးစီးနှင့် ယင်း၏ တပည့်တို့ ရေးသားထားခဲ့သော ကိုယ်ကျင့်တရားနှင့် စပ်ဆိုင်သည့် စာပေတို့ကို စာသင်ကျောင်း၌ သင်ကြား လေ့လာစေခဲ့ကြသည်။ တပည့် ခံသူတို့သည် ထိုစာကြီး ပေကြီးတို့ကို နှုတ်တိုက်ကျက်ကြရသည်။ ရေးသားဟန်ကို အတုခိုး မှတ်သားကြရသည်။ ကိုယ်ပိုင် ဉာဏ်ဖြင့် တီထွင် နိုင်ခွင့်ကား မရှိကြချေ။ (ကွန်ဖြူးစီး — ရှု။)

အီဂျစ်နိုင်ငံ၌ တည်ထောင်ခဲ့သော ရှေးခေတ် စာသင်ကျောင်းများကိုလည်း ဘုရင့်သားတော်များ၊ သူကောင်းမျိုး၊ သဌေးမျိုးတို့၏ သားများ အတွက် တည်ထောင်ခဲ့ကြလေသည်။ သို့ရာတွင် အိန္ဒိယနိုင်ငံ၊ တရုပ်နိုင်ငံတို့ရှိ ကျောင်းသားများထက် အခြေအနေ သာလေသည်။ စာဖတ်အတတ်၊ ကိုယ်ကျင့် တရားနှင့် စာရိတ္တ ကောင်းမွန်ရေး၊ ကိုယ်လက် လှုပ်ရှား ကစားမှု အတတ်၊ ရေကူးအတတ်နှင့် နောင်အခါ၌ အုပ်ချုပ်ရေး အတတ်တို့ကိုပါ သင်ကြားရလေသည်။

ဂရိတို့၏ ရှေးခေတ် ပညာရေးသည် လူငယ်တို့အား နိုင်ငံသား အဖြစ်သို့ ရောက်အောင် ရည်ရွယ်သော ပညာရေး ဖြစ်သည်။ ဂရိ ပညာရေးသည်လည်း လူကုံထံတို့ အတွက်ပင် ဖြစ်သည်ဟု ဆိုသော်လည်း၊ အယူဝါဒ ဆိုင်ရာ ဩဇာနှင့် ကင်းသော ပညာရေး ဖြစ်လာသောကြောင့် အများအကျိုးကို ငဲ့သည်ဟု ဆိုနိုင်လေသည်။ ဂရိ ပညာရေးတွင် စပါးတား နိုင်ငံမှ ပညာရေးနှင့် အက်သင်းနိုင်ငံမှ ပညာရေး တို့သည် မူချင်း ခြားနားသော ပညာရေး စနစ် နှစ်မျိုးဖြစ်လေသည်။ စပါးတားနိုင်ငံသည် စစ်မက်ရေးရာ၌ အာရုံစိုက်သော နိုင်ငံဖြစ်သောကြောင့် နိုင်ငံသားတိုင်း စစ်သားဖြစ်ရသည်။ စပါးတား နိုင်ငံသားယောကျ်ားတို့သည် အသက် ၇ နှစ် အရွယ်မှ အသက် ၃၀ အရွယ်အထိ စစ်သားကဲ့သို့ နေထိုင်၍၊ စစ်တိုက်ခိုက်ရေး၊ ကိုယ်လက် ကြံ့ခိုင်ရေး၊ မျိုးချစ်စိတ် မွေးမြူရေးတို့ကို သင်ကြားရသည်။ စည်းကမ်းသေဝပ်မှုကို အဓိကထားသည်။ စပါးတား နိုင်ငံသား တယောက်သည် မျိုးချစ်စိတ် ရှိရမည်။ တရား ဥပဒေနှင့် အကြီးအကဲတို့ကို ရိုသေ လေးစားရမည်။ စစ်သွေး စစ်မာန် တက်ကြွရမည်။ စာရေး စာဖတ် အတတ်ကိုမူ နောင်အခါကျမှ အလွတ်ပညာသင် ဆရာဖြင့် သင်ကြား ယူရသည်။ စပါးတားနိုင်ငံမှ ပညာရေးသည် စစ်မက် ရေးရာ သက်သက်အတွက် ပြင်ဆင်ပေးသော ပညာရေး ဖြစ်လေသည်။

အက်သင်း နိုင်ငံမှာမူကား ငြိမ်းချမ်းရေးကို မြတ်နိုးသော နိုင်ငံဖြစ်၍၊ ပညာရေးတွင် စပါးတားထက် အမြင်ကျယ်လေသည်။ အက်သင်းနိုင်ငံသားတို့သည် မိမိတို့၏ သားများကို စာသင်ကျောင်းသို့ ပို့၍ ဂီတ ပညာ၊ ကိုယ်လက် ကြံ့ခိုင်ရေး ပညာ၊ စာရေး၊ စာဖတ်နှင့် ဂဏန်း သင်္ချာတို့ကို သင်ကြားစေလေသည်။ ဂရိစာဆို ဟိုးမား၏ ကဗျာနှင့် နိုင်ငံသမိုင်း

ပညာတို့ကို ဂီတပညာနှင့် တွဲဖက်၍ သင်ကြားရလေသည်။ စည်းကမ်း သေဝပ်မှုကို တင်းကျပ်စွာ စောင့်ထိန်း ရသည်။ အက်သင်းနိုင်ငံမှ ပညာရေးသည် အကျင့် စာရိတ္တ ကောင်းသော နိုင်ငံသား ဖြစ်မြောက်ရေးကို ရည်ရွယ် ထားလေသည်။ ဂရိတို့၏ ပညာရေးမှ အနုပညာ၊ သိပ္ပံပညာ၊ စာပေပညာ၊ ယထာဘူတပညာများသည် နောင်လာ နောင်သားတို့အတွက် ကျန်ရစ်ခဲ့လေသည်။

ရောမ ပညာရေးသည် ဂရိပညာရေးစံနစ်ကို အတုယူသော ပညာရေးဟု ဆိုနိုင်လေသည်။ သို့ရာတွင် ရောမတို့သည် မိမိတို့နှင့် ဆီလျော်အောင် ပြုပြင်၍ သင်ခန်းစာတို့ကို လက်တင် ဘာသာဖြင့် သင်ကြားကြလေသည်။ ဂရိ ဘာသာကို မူ ဘာသာ စကား တရပ် အနေဖြင့် စာသင်ကျောင်းတွင် သင်ကြားကြရသည်။ ရောမတို့၏ ကလေးများသည် အသက် ၇ နှစ် အရွယ်တွင် စာကို စ သင်ကြရသည်။ စာရေး၊ စာဖတ်ကို အောက်တန်း ကျောင်းတွင် သင်ကြားပြီးနောက်၊ သဒ္ဒါကျောင်း၌ စာပေပညာကို ဆက်လက်သင်ကြားရလေသည်။ စကားပြောနည်း၊ တရားဥပဒေ၊နိုင်ငံသမိုင်းတို့ကိုလည်း သင်ကြားရလေသည်။ ဂီတပညာနှင့် ကိုယ်လက် ကြံ့ခိုင်ရေး ပညာတို့ကိုမူ အလေးဂရုပြု၍ သင်ကြားခြင်း မရှိချေ။ ရောမတို့၏ ပညာရေးသည် မင်းမှုထမ်း တယောက် ဖြစ်မြောက်ရေးကို အဓိက ရည်ရွယ်၍ သင်ကြားသော ပညာရေး ဖြစ်လေသည်။

အေ ဒီ ၅၀၀ ပြည့်နှစ်မှ အေ ဒီ ၁၅၀၀ ပြည့်နှစ် အထိ ဖြစ်သောအလယ်ခေတ်တွင် ပညာရေးသည် ခရစ်ယန် အယူဝါဒရေး ဆိုင်ရာ ဘုန်းကြီးကျောင်းနှင့် ဘုရား ရှိခိုးကျောင်းများ၌ အခြေပြု၍ပြန့်ပွားလာရလေသည်။ စာသင်ကျောင်းများတွင် လက်တင် ဘာသာဖြင့် သင်ကြားပို့ချကြသည်။ သင်ရိုး ပညာရပ်စုတွင် လက်တင်သဒ္ဒါ၊ လက်တင် ဘာသာ အပြောနှင့် အရေး အသား၊ တက္က ဗေဒ၊ ဂဏန်း သင်္ချာ၊ ဂျီဩမေတြီ၊ နက္ခတ္တဗေဒနှင့် ဂီတပညာတို့ ပါဝင်လေသည်။ အလယ်ခေတ် နောက်ပိုင်းတွင် လူတန်းစား အသီးအသီးတို့၌ ပညာ သင်ကြားလိုသည့်ဆန္ဒ ပြန့်ပွား လာလေသည်။ ၁၁၀၀ ပြည့်နှစ်များ အတွင်းက အထက်တန်းပညာကို လိုလားကြသဖြင့် တက္ကသိုလ် ကျောင်းများကို တည်ထောင်ကြသည်။ ၁၃၀၀ ပြည့်နှစ်များတွင် ဣတလီ နိုင်ငံ၌ ရီနေဆွန်းခေတ် ခေါ် ဉာဏ်သစ် အရေးပုံ စတင် ပေါ်ပေါက်လာသည်တွင် ဥရောပတိုက်ရှိ တိုင်းပြည် အသီးအသီးတို့ကလည်း စာပေ၊ အနုပညာ၊ ယဉ်ကျေးမှု၊ အတွေး အခေါ်၊ အယူဝါဒ စသည်တို့ကို အသစ်တဖန် ပြန်လည် ထွန်းကားအောင် ဆောင်ရွက်လာကြလေသည်။ (ဉာဏ်သစ်အရေးပုံ—လည်းရှု။) တဖန် ၁၄၅၀ ပြည့်နှစ်တွင် စာပုံနှိပ်စက် ပေါ်လာသဖြင့် ပညာသင်ကြားရေးသည် လူအများလက်လှမ်းမှီသော အခြေသို့ရောက်အောင် ကျယ်ပြန့် လာလေသည်။ အထူးသဖြင့် သမ္မာကျမ်းစာကို လူအများ ဖတ်ရှု လေ့လာနိုင်ကြလေသည်။ ထို့ကြောင့် ၁၅၀၀ ပြည့်နှစ်များတွင် ခရစ်ယန် သာသနာအရေးပုံ ဟူ၍ ပေါ်ပေါက် လာပြန်သည်။ ထိုအခါ ဗရင်ဂျီဂိုဏ်းမှ ခွဲထွက်လာသော ပရိုတက်စတန့်ဂိုဏ်းဝင် အသင်းတော်တို့သည် စာသင်ကျောင်းများကိုဖွင့်က၊ ယောကျ်ား ကလေး မိန်းမကလေးတို့အား စာရေး စာဖတ်၊ ဂဏန်းသင်္ချာနှင့် အယူဝါဒတို့ကို သင်ကြားပေးလေသည်။ အစိုးရကလည်း ထိုစာသင်ကျောင်းများကို ကူညီထောက်ပံ့သဖြင့် ပြည်သူလူထု အတွက် ပညာရေးစံနစ်ဟူ၍ စတင်ပေါ်ပေါက်လာလေသည်။ ဗရင်ဂျီဂိုဏ်းဝင် နိုင်ငံများ၌လည်း ဆင်းရဲနွမ်းပါးသော ကလေးတို့အတွက် စာသင်ကျောင်းများကို ဖွင့်လှစ်တည်ထောင်ကြ လေသည်။ (ခရစ်ယန် သာသနာအရေးပုံ — လည်းရှု။)

၁၈ ရာစုနှစ်တွင် ပြင်သစ် အရေးတော်ပုံ ပေါ်ပေါက်ခဲ့လေသည်။ ထိုအရေးတော်ပုံ ဖြစ်ပေါ်ရခြင်းမှာ လူတို့၏ ရသင့် ရထိုက်သော အခွင့်အရေးကို တောင်းဆိုလိုက်ခြင်း ဖြစ်သည်ဟု ဆိုနိုင်လေသည်။ တနည်း ဆိုသော်၊ ကလေးတိုင်းတွင် ပညာသင်ကြားနိုင်သော အခွင့်အရေး ရှိရမည် ဖြစ်သည်။ ၁၉ ရာစုနှစ် အတွင်းက နိုင်ငံ အသီးအသီးတို့တွင် ထိုအချက်ကို အခြေပြု၍၊ အမျိုးသား ပညာရေး စံနစ်ကို တီထွင် ခဲ့ကြလေသည်။ ပြင်သစ် နိုင်ငံနှင့် အင်္ဂလန် နိုင်ငံတို့တွင် နှစ်ပေါင်း အတော်ကြာအောင် အယူဝါဒ ဆိုင်ရာ အသင်းတော်တို့က စာသင်ကျောင်းများကို စီမံအုပ်ချုပ်ခဲ့လေသည်။ နောက်ဆုံး၌ ဥရောပတိုက် အနောက်ပိုင်းနှင့် အမေရိကတိုက်တို့တွင် နိုင်ငံ အစိုးရက ပညာရေးကို တာဝန် ယူခဲ့လေသည်။ အထူးသဖြင့် အမေရိကတိုက်တွင် မိန်းကလေးတို့သည် ပညာရေး၌ ယောကျ်ား ကလေးတို့နှင့် တန်းတူ အခွင့်အရေးကို ရရှိကြလေသည်။ ထို့ကြောင့် ၁၉ ရာစုနှစ်တွင် လူတိုင်းသည် အယူဝါဒရေး ဆိုင်ရာ အချုပ်အချယ်မှ လွတ်ကင်းလျက် ပညာ ဆည်းပူးခွင့်ကို ရရှိကြလေသည်။

ပညာသင်ကြားရေး နည်းများသည်လည်း သိသိသာသာ ပြောင်းလဲလာလေသည်။ ကလေးတို့နှင့် ဆိုင်သော စိတ်ပညာကို လေ့လာ၍ သင်ကြားနည်းအသစ်များကို တီထွင်ခဲ့ကြသည်။ ပက်စတာလိုဇီ (၁၇၄၆–၁၈၂၇) နှင့် ဖရားဗယ် (၁၇၈၂–၁၈၅၂)တို့ကဲ့သို့သော ပညာရေး ဆိုင်ရာ ပြုပြင် ပြောင်းလဲရေးသမားများ ပေါ်ထွက်လာလေသည်။ (ကင်ဒါဂါတင်၊ ဖရားဗယ် — လည်းရှု။)

ပညာ သင်ကြားရေး နည်းများ ပြောင်းလဲလာသည်နှင့် အမှု အရည်အချင်း ပြည့်စုံသော ဆရာ၊ ဆရာမများ ထွက်ပေါ်လာရေးကိုလည်း စီမံ ကြရလေသည်။ ယခုအခါ ပညာရေးကို သိပ္ပံပညာ တရပ် အနေအဖြစ် ယူဆကြပြီးလျှင်၊ သု

တောသန လုပ်ခြင်း၊ စုံစမ်း စစ်ဆေးခြင်းအားဖြင့် ပညာရေးကို ခေတ်နှင့် ဆီလျော်အောင် ကြိုးပမ်းလျက် ရှိကြလေသည်။ ဒုတိယ ကမ္ဘာစစ်အပြီးတွင် နိုင်ငံအချင်းချင်း ရင်းနှီးစွာ ဆက်ဆံနိုင်ရေး၌ စိတ်ဝင်စားလာကြသဖြင့် တနိုင်ငံနှင့် တနိုင်ငံ ဆရာချင်း၊ ကျောင်းသားချင်း လဲလှယ်လျက်ရှိကြလေသည်။ ထိုပြင် ကုလသမဂ္ဂ၌ ယူနက်စကိုဟု အတိုကောက်ခေါ်သော နိုင်ငံပေါင်းစုံပညာ၊ သိပ္ပံနှင့် ယဉ်ကျေးမှုအဖွဲ့ ဟူ၍ အထူး အဖွဲ့ကို ဖွဲ့စည်းပြီးလျှင် ပညာရေး၌ အကူညီလိုသော နိုင်ငံများကို ကူညီထောက်ပံ့လျက်ရှိလေသည်။ (မြန်မာနိုင်ငံ ပညာရေးသမိုင်း၊ တက္ကသိုလ် — လည်းရှု။)

# ပရိယတ္တိသာသနာထွန်းကားစေသည့် စာတော်ပြန်ပွဲ

**ပဋ္ဌမပြန် စာမေးပွဲများကို ရှေးမြန်မာမင်းများ လက်ထက်တော်ကပင် ကျင်းပခဲ့ကြသည်။ မည်သည့်မင်း လက်ထက်တော်က စတင် ကျင်းပခဲ့သည်၊ မည်သည့်ရည်ရွယ်ချက်ဖြင့် ပဋ္ဌမပြန် စာမေးပွဲများ ကျင်းပရသည်၊ မည်သို့ အဆင့်ဆင့် ပြောင်းလဲလာခဲ့သည် စသည့် အချက်အလက် အကြောင်းစုံတို့ကို ဤအကြောင်းရပ်တွင် ဖတ်ရှုရပေမည်။**

**ပဋ္ဌမပြန်စာမေးပွဲ။** ။ပဋ္ဌမပြန် စာမေးပွဲကို အင်းဝမြို့ ညောင်ရမ်းမင်း ဆယ်ဆက်တွင်၊ သုံးဆက်မြောက် သာလွန်မင်းတရားကြီးလက်ထက် သက္ကရာဇ် ၁၀၀၀ (တထောင်) ပြည့်နှစ်တွင် စတင် ကျင်းပခဲ့ကြောင်း၊ မြန်မာရာဇဝင်အရ သိရှိရသည်။

သက္ကရာဇ် ၁၀၉၅ ခုနှစ်နန်းတက်သော ဟံသာဝတီပါမင်းလက်ထက် 'အင်းဝမြို့တော်၌ကျောင်းဆောက်ပြီးလျှင် ပုခန်းကြီးမြို့ကျေး ပိုက်သင်ပဋ္ဌမကျော်ရှင်ဥာဏဝရကို တင်လှူ၍ ကျော်အောင်စံထားဟု တွင်၏။' ဟူ၍ မှန်းနန်း မဟာရာဇဝင်တော် တတိယတွဲ၌ လာရှိသောစကား၊ 'ပုခန်းကြီးမြို့မြောက်လက် ပိုက်သင်ရွာဇာတိ၊ ငယ်မည် မောင်ပန်းအောင်၊ ရှင်မည်ရဟန်းမည် ရှင်ဥာဏဝရ၊ တံဆိပ်အမည် ဇိနစက္ကာဘိရာမ၊ ဌာနအမည် ပဋ္ဌမကျော် အောင်စံထား ဆရာတော်ပြုသည်' ဟူ၍ ပိဋကတ်သမိုင်းစာတမ်း၌ လာရှိသောစကား၊ အမရပူရ ပဋ္ဌမမြို့တည်နန်းတည် ဘိုးတော်မင်းတရားကြီးလက်ထက် ပဋ္ဌမပြန် စာမေးပွဲအကြောင်းနှင့် စပ်လျဉ်း၍ 'ရှေးမင်းတို့လက်ထက် ပြန်ဆိုသည့်နည်း ပြန်ဆိုစေသော် သင့်မသင့် မေးတော်မူကြောင်း'နှင့် ပဋ္ဌမ မောင်းထောင် သာသနာပိုင်၏ ပုစ္ဆာပကိဏ္ဏကအဖြေ၌ လာရှိသောစကားတို့ကို ထောက်ထားလျှင် နှောက်မင်းတို့လည်း ပဋ္ဌမပြန်စာမေးပွဲကို ကျင်းပခဲ့ကြောင်း ထင်ရှားသည်။

ပဋ္ဌမပြန် စာမေးပွဲ ကျင်းပ ရခြင်းမှာလည်း ဗုဒ္ဓသာသနာတော်၏ အခြေအမြစ်ဖြစ်သော ပရိယတ္တိ သာသနာတော် ကြီးပွား ထွန်းကားရေးကို အဓိကထား၍၊ ပဋ္ဌမရှင်လောင်းတော်နှင့် ပဋ္ဌမ ပဉ္စင်းလောင်းတော်တို့ကို ရွေးချယ်ခြင်း ဖြစ်သည်။ ပဋ္ဌမပြန်စာမေးပွဲ၌ ပြဋ္ဌာန်းသော ကျမ်းစာများမှာလည်း ပါဠိပိဋကတ်တော် ကျမ်းကျင်တတ်မြောက်နိုင်ရန် အခြေခံဖြစ်သော သဒ္ဒါ၊ သင်္ဂြိုဟ်၊ ဆန်း၊ အလင်္ကာ၊ အဘိဓာန်၊ သဒ္ဒတ္ထဘေဒစိန္တာ၊ ကစ္စာယနသာရ၊ ဝါစ္စဝါစက၊ ဝိဘတျတ္ထ၊ ဒေ့မာတိကာ၊ မာတိကာ၊ ဓာတုကထာ၊ ယမိုက်၊ ပဋ္ဌာန်းကျမ်းများ ဖြစ်သည်။

ပြန်ဆိုမေးဖြေပုံမှာလည်း (၁) ပါဠိကိုနှုတ်တက်အာဂုံပြန်ဆိုစေခြင်း၊ (၂) အနက် အဓိပ္ပါယ်ကို သင့်လျော်သလောက် နှုတ်ဖြင့်မေး၍ နှုတ်ဖြင့်ဖြေဆိုစေခြင်း နှစ်မျိုးသာ ပြုလုပ်ခဲ့ဟန်တူသည်။

သီပေါမင်းတရားကြီးလက်ထက် သက္ကရာဇ် ၁၂၄၅ ခုနှစ်မှစ၍၊ ပဋ္ဌမပြန်ပွဲဆိုင်ရာ ဥပဒေစည်းကမ်း နည်းလမ်းများကို ပြုလုပ်လျက် ကျနစွာ ကျင်းပသည်ကို တွေ့ရသည်။

ပြန်ဆိုမေးဖြေပုံမှာလည်း (၁) ပါဠိကို နှုတ်တက်အာဂုံပြန်ဆိုစေခြင်း၊ (၂) အနက်အဓိပ္ပါယ်ကို နှုတ်ဖြင့်မေး၍ နှုတ်ဖြင့် ဖြေဆိုစေခြင်း၊ (၃) အနက်အဓိပ္ပါယ်ကို မေးခွန်းပုစ္ဆာတမျိုးသာထုတ်၍ စာရွက်ဖြင့်မေး စာရွက်ဖြင့်ရေး၍ ဖြေစေခြင်း၊ သုံးမျိုးပြုလုပ်၍ ကျင်းပသည်ကို တွေ့ရသည်။

ထိုစဉ်က ပဋ္ဌမပြန်စာမေးပွဲတွင် ပြဋ္ဌာန်းထားသောကျမ်းစာတိုင်းအတွက် မေးခွန်းတမျိုးတစားတည်းထားကာ မေးမြန်း၍၊ ဖြေဆို အောင်မြင်သူတို့ကိုမူကား အမှတ်အများအနည်း လိုက်လျက်၊ ပဋ္ဌမကြီး၊ ပဋ္ဌမလတ်၊ ပဋ္ဌမငယ်ဟု သုံးမျိုးခွဲလေသည်။ ပဋ္ဌမကြီးအောင်သူတို့အနက် အမှတ်အများဆုံးရသော ပုဂ္ဂိုလ်သည် ပဋ္ဌမကျော်ဟူသော ဘွဲ့ကို ရသည်။

ပဋ္ဌမပြန်စာမေးပွဲကို နယုန်လ၌ ကျင်းပလေ့ရှိသည်။ ဝါဆိုလရောက်သောအခါ ဘုရင်မင်းမြတ်ကိုယ်တိုင် စီစဉ်၍ ပဋ္ဌမပြန်စာမေးပွဲအောင် ပဋ္ဌမ ရှင်လောင်း၊ ပဋ္ဌမ ပဉ္စင်းလောင်းများကို သာသနာတော်သို့ ရှင်အဖြစ်၊ ပဉ္စင်းအဖြစ် သွတ်သွင်း ချီးမြှင့်တော်မူသည်။

ကျင်းပရာဌာနမှာလည်း နိုင်ငံတော်တွင် နေရာအနှံ့အပြား ကျင်းပလေ့မရှိ၊ ဘုရင်မင်းမြတ်၏ နေပြည်တော်တဌာနတွင်သာ ကျင်းပလေ့ရှိသည်။

မြန်မာဘုရင်များ မရှိသည့်နောက်၊ အင်္ဂလိပ်မင်းတို့လက်ထက် သက္ကရာဇ် ၁၂၅၇ ခုနှစ် နယုန်လကစ၍ ပဋ္ဌမပြန်စာမေးပွဲကို နှစ်စဉ်ကျင်းပသည်။ ပဋ္ဌမပြန်ကော်မတီတခု ခန့်ထား၍ စီမံအုပ်ချုပ်သည်။

ပြဋ္ဌာန်းသော ကျမ်းစာများမှာလည်း သဒ္ဒါ၊ သင်္ဂဟ၊ ဒွေမာတိကာ၊ အဘိဓာန၊ ဆန္ဒ၊ အလင်္ကာရ၊ မာတိကာ၊ ဓာတုကထာ၊ ယမက၊ ပဋ္ဌာန၊ ဘာသာပြန်တို့ ဖြစ်သည်။

အတန်းမှာလည်း (၁) ပဋ္ဌမငယ် (၂) ပဋ္ဌမလတ်(၃) ပဋ္ဌမကြီး (၄) ပဋ္ဌမကျော်ဟူ၍ လေးတန်းထားပြီး၊တတန်းလျှင် မေးခွန်းပုစ္ဆာ တမျိုးစီထုတ်ကာ လေးတန်းအတွက် ပုစ္ဆာလေးမျိုးထုတ်၍၊ စာရွက်ဖြင့်မေး စာရွက်ဖြင့် ဖြေရသည်။ နှုတ်တက်အာဂုံ ပြန်ဆိုခြင်း၊ နှုတ်ဖြင့်မေးဖြေခြင်း မရှိ။ ၁၂၆၀ ပြည့်နှစ်မှစ၍ ပဋ္ဌမကျော် စာမေးပွဲကို ရပ်စဲလိုက်သည်။သို့သော်လည်းပဋ္ဌမကျော်ကို မြန်မာဘုရင်များလက်ထက်ကအတိုင်း ပဋ္ဌမကြီးအောင်မြင်သူများထဲမှ အမှတ်အများဆုံးကို ရွေးချယ်၍ အအောင်ပေးသည်။

ရှေးဦးစွာ ပဋ္ဌမကျော် အောင်မြင်သူမှာ မော်လမြိုင်မြို့ ဘုံပျံကျောင်း ပရိယတ္တိ ဝိသာရဒ အဂ္ဂမဟာပဏ္ဍိတ ဘုံပျံဆရာတော် ဦးကေတု ဖြစ်သည်။

စာမေးပွဲ ကျင်းပရာ ဌာနလည်း တနေရာတည်းတွင်သာမဟုတ်၊ မြန်မာနိုင်ငံတော်အတွင်း နေရာ အနှံ့အပြား တချိန်တည်း ကျင်းပခဲ့သည်။

သက္ကရာဇ် ၁၂၉၉ ခုနှစ်တွင် ပဋ္ဌမပြန်စုံစမ်းရေးကော်မတီ တခုဖွဲ့စည်းကာ စုံစမ်းအစီရင်ခံစေပြီးလျှင်၊ ယင်းကော်မတီ၏ အစီရင်ခံစာအရ နာယကဆရာတော်များ ပါဝင်သည့် ပဋ္ဌမပြန် ကော်မတီတခု ဖွဲ့စည်းကာ၊ ပဋ္ဌမပြန်စာမေးပွဲကို စီမံအုပ်ချုပ်ခဲ့သည်။ အတန်းထားရာ၌လည်း စာချတန်း တတန်းတိုးကာ၊ လေးတန်းထား၍ ကျင်းပခဲ့သည်။ ယင်းစာချတန်း၌ ပြဋ္ဌာန်းသောကျမ်းစာများမှာလည်း (၁)ပါရာဇိကဏ် အဋ္ဌကထာ (၂) သုတ်သီလက္ခန် အဋ္ဌကထာ (၃) အဋ္ဌသာလိနီ အဋ္ဌကထာဟူ၍ ကျမ်းရင်း သုံးကျမ်းနှင့် ဂုဏ်ထူးဆောင် နိကာယ်အဋ္ဌကထာခြောက်ကျမ်းတို့ ဖြစ်သည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်း ၁၃၀၄ ခုနှစ်မှစ၍၊ ၁၃၀၇ ခုနှစ်တိုင်အောင် လေးနှစ်တိတိ ပဋ္ဌမပြန်စာမေးပွဲမကျင်းပနိုင်ပေ။စစ်အပြီး ၁၃၀၈ ခုနှစ်မှစ၍ ဆက်လက်ကျင်းပခဲ့သည်။

သက္ကရာဇ် ၁၃၁၂ ခုနှစ်တွင် ပါဠိတက္ကသိုလ်နှင့် ဓမ္မာစရိယ အက်ဥပဒေပြဋ္ဌာန်း၍၊ယင်းဥပဒေအရ ပါဠိတက္ကသိုလ် တည်ထောင်ကာ၊ ပါဠိတက္ကသိုလ်ဝင်ကျောင်းများမှ ဆရာတော်သံဃာတော်များ ပါဠိတက္ကသိုလ် ဗဟိုအဖွဲ့ ဖွဲ့စည်း၍၊ စာချတန်း စာမေးပွဲကို စီမံအုပ်ချုပ်လျက်၊ပဋ္ဌမပြန်စာမေးပွဲနှင့်အတူ မကျင်းပတော့ဘဲ၊ တသီးတခြားခွဲ၍ စာချတန်း စာမေးပွဲကို ကျင်းပလာခဲ့သည်။

သက္ကရာဇ် ၁၃၁၃ ခုနှစ်တွင်ပါဠိပညာရေးအဖွဲ့အက်ဥပဒေ ပြဋ္ဌာန်း၍၊ ယင်းဥပဒေအရ ဆရာတော်သံဃာတော်များ ပါဝင်သော ပါဠိပညာရေးအဖွဲ့ကိုဖွဲ့စည်းကာ စီမံအုပ်ချုပ်လျက်၊ ပဋ္ဌမပြန်စာမေးပွဲ ဆက်လက်ကျင်းပလာခဲ့သည်။

ရှေးအခါ မြန်မာဘုရင်များလက်ထက်က ပဋ္ဌမပြန်စာမေးပွဲတခုသာရှိသည်။ ယင်းစာမေးပွဲကိုလည်း ဘုရင်များသာ စီမံအုပ်ချုပ်၍ ကျင်းပလာခဲ့သည်။ အင်္ဂလိပ်မင်းများလက်ထက်နှင့် လွတ်လပ်သော ပြည်ထောင်စု အစိုးရလက်ထက်များတွင်လည်း အစိုးရကသာ ကျင်းပလာခဲ့သည်။

မြန်မာဘုရင်များ လက်ထက်က၊ ပဋ္ဌမပြန်စာမေးပွဲတခုသာ ရှိသော်လည်း၊ ၁၂၆၅ ခုနှစ်မှစ၍၊ ပဋ္ဌမပြန် စာမေးပွဲကို အတုယူကာ၊ နိုင်ငံတော်အတွင်းရှိ ထိုထိုမြို့ရွာတို့၌ နိုင်ငံသူ နိုင်ငံသားတို့သည် အသင်းအဖွဲ့ အသီးအသီး ဖွဲ့စည်းတည်ထောင်ကြလျက်၊ ပါဠိဘာသာ ပရိယတ္တိသာသနာ ကြီးပွားထွန်းကားရန် အဓိက ရည်ရွယ်ချက်ဖြင့် စာမေးပွဲများကို ကျင်းပကြသည်။

မန္တလေးမြို့ပရိယတ္တိသာသနဟိတအသင်းကို ၁၂၆၀ ပြည့်နှစ်တွင် တည်ထောင်ပြီးလျှင်၊ ၁၂၆၅ ခုနှစ်မှစ၍ နှစ်စဉ် ပရိယတ္တိသာသနဟိတအသင်း စာမေးပွဲကို ကျင်းပခဲ့သည်။

ရန်ကုန်မြို့ စေတိယင်္ဂဏ ပရိယတ္တိ ဓမ္မာနုဂ္ဂဟ အသင်းကို ၁၂၆၇ ခုနှစ်တွင် တည်ထောင်ကာ၊ ၁၂၇၀ ပြည့်နှစ်မှစ၍ နှစ်စဉ် စေတိယင်္ဂဏ ပရိယတ္တိ ဓမ္မာနုဂ္ဂဟ အသင်းစာမေးပွဲကို ကျင်းပခဲ့သည်။

ညောင်တုန်းမြို့ သုဓမ္မာ ပရိယတ္တိ ပဋ္ဌမပြန် စာမေးပွဲ အသင်းကို ၁၂၈၂ ခုနှစ်တွင် တည်ထောင်လျက်၊ ထိုနှစ်မှစ၍ နှစ်စဉ် သုဓမ္မာပရိယတ္တိပဋ္ဌမပြန်စာမေးပွဲကို ကျင်းပခဲ့သည်။

သထုံမြို့ သုဝဏ္ဏဘူမိ ပရိယတ္တိသာသနဟိတ အသင်းကို ၁၂၈၄ ခုနှစ်တွင် တည်ထောင်ကာ၊ ထိုနှစ်မှစ၍ နှစ်စဉ် သုဝဏ္ဏဘူမိ ပရိယတ္တိ သာသနဟိတအသင်း စာမေးပွဲကို ကျင်းပခဲ့သည်။

မော်လမြိုင်မြို့ ပရိယတ္တိ သဒ္ဓမ္မပါလ အသင်းကို ၁၂၉၂ ခုနှစ်တွင် တည်ထောင်လျက်၊ ထိုနှစ်မှစ၍ နှစ်စဉ် ပရိယတ္တိ သဒ္ဓမ္မပါလအသင်း စာမေးပွဲကို ကျင်းပခဲ့သည်။

အထက်ပါအသင်း စာမေးပွဲများတွင် သထုံမြို့သုဝဏ္ဏဘူမိ ပရိယတ္တိ သာသနဟိတ အသင်း စာမေးပွဲမှာ ပါဠိပိဋကတ်တော် အခြေခံ ကျမ်းစာများနှင့် နိကာယ်ငါးရပ် ပိဋကတ်သုံးပုံကို အဆင့်အတန်း ခုနှစ်တန်းထား၍ ကျင်းပသည်။မန္တလေးမြို့ ပရိယတ္တိသာသနဟိတအသင်း စာမေးပွဲနှင့် ရန်ကုန်မြို့ စေတိယင်္ဂဏ ပရိယတ္တိဓမ္မာနုဂ္ဂဟအသင်း စာမေးပွဲတို့မှာ ပိဋကတ်တော် အခြေခံကျမ်းစာများနှင့် ကျမ်းရင်း အဋ္ဌကထာကြီး သုံးကျမ်းတို့ကို စာသင်တန်း၊ စာချတန်းဟု နှစ်တန်းထား၍ ကျင်းပသည်။ ညောင်တုန်းမြို့ သုဓမ္မာပရိယတ္တိ

ပဌမပြန် စာမေးပွဲမှာ ပဌမပြန်စာမေးပွဲကဲ့သို့ ပဌမငယ်၊ပဌမလတ်၊ ပဌမကြီး၊ စာချတန်းဟု လေးတန်းထား၍ ကျင်းပသည်။ မော်လမြိုင်မြို့ ပရိယတ္တိ သဒ္ဓမ္မပါလ အသင်း စာမေးပွဲမှာ ပိဋကတ်တော် အခြေခံကျမ်းစာများတွင် သက္ကဋဘာသာ ကျမ်းစာများထည့်သွင်းကာ ခုနစ်တန်းထား၍ ကျင်းပလေသည်။

တိပိဋကဓရရွေးချယ်ပွဲကို ၁၃၁၀ ပြည့်နှစ်မှစ၍၊ ဆာဦးသွင်ကြီးမှူးသော ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့က နှစ်စဉ်ကျင်းပလာခဲ့၏။ ၁၃၁၂ ခုနှစ်တွင်ဗုဒ္ဓသာသနအက်ဥပဒေပြဋ္ဌာန်း၍၊ နိုင်ငံတော်ဗုဒ္ဓသာသနအဖွဲ့ကို ဖွဲ့စည်းသည်။ ယင်းအဖွဲ့၏ တိပိဋကဓရရွေးချယ်ရေးအဖွဲ့ခွဲက တိပိဋကဓရ ရွေးချယ်ပွဲကို ဆက်လက် ကျင်းပခဲ့သည်။ ရည်ရွယ်ချက်မှာ ပိဋကတ်သုံးပုံဆောင် အာဇာနည်ပုဂ္ဂိုလ်ထူး ပေါ် ထွက်ရေးပင် ဖြစ်သည်။

ပြဋ္ဌာန်းသော ကျမ်းစာများမှာကား နိကာယ်ငါးရပ် ပိဋကတ်သုံးပုံ ပါဠိတော် ကျမ်းပေါင်း ၅၄ ကျမ်း၊စာအုပ်ရေ ၃၇ အုပ်တို့ဖြစ်သည်။ ထိုကျမ်းစာများကို (၁) ဝိနည်း ငါးကျမ်း (၂) ဒီဃနိကာယ် သုံးကျမ်း(၃)အဘိဓမ္မာ ခုနစ်ကျမ်း (၄) မဇ္ဈိမနိကာယ် သုံးကျမ်း (၅) သံယုတ္တနိကာယ် ငါးကျမ်း (၆) အင်္ဂုတ္တရနိကာယ် ဆဲ့တကျမ်း(၇) ကျန် ခုဒ္ဒကနိကာယ် နှစ်ဆယ်ကျမ်းဟူ၍ အဆင့်အတန်း ခုနစ်တန်း သတ်မှတ်ထားသည်။ အဘိဓမ္မာခုနစ်ကျမ်းတွင် ရှေ့ငါးကျမ်းကို(က) ပိုင်း၊ နောက်နှစ်ကျမ်းကို (ခ) ပိုင်းဟု နှစ်ပိုင်းထား၍ကျင်းပသည်။

မေးမြန်းပုံမှာ အဆင့်အတန်း ခုနစ်တန်းရှိရာ၊ အတန်းတိုင်း၌ (၁) အာဂုံ ပြန်ဆိုပွဲ (၂) သဘော ရေးဖြေပွဲဟူ၍ နှစ်မျိုးထားကာ မေးမြန်းသည်။ နှစ်မျိုးလုံးအောင်မြင်မှ အရွေးအချယ် ခံရသည်။ အထူးအားဖြင့် ပြဋ္ဌာန်းသော နိကာယ်ငါးရပ် ပိဋကတ်သုံးပုံတွင် သင်ရိုးပိဋကတ်တော်ဖြစ်သော (၁) ဝိနည်းငါးကျမ်း (၂) ဒီဃနိကာယ်သုံးကျမ်း (၃) အဘိဓမ္မာခုနစ်ကျမ်းတို့ကို အောင်မြင်လျှင် (တိပိဋကဓရ ဓမ္မ ဘဏ္ဍာဂါရိက) ဘွဲ့တံဆိပ်၊ သင်္ကြံယနာတင် မထေရ်၊ ဓမ္မကထိက မထေရ်တို့ အသုံးအဆောင် ဆင်စွယ်ယပ်နှင့် သွားလာသောအခါ ယာဉ်၌ တပ်ဆင်ရန် ထီးဖြူတော် သုံးလက် အမှတ်တံဆိပ် ပါရှိသော အလံတော်တို့ကို အဆောင်အယောင်အဖြစ် လှူဒါန်းသည်။

တိပိဋကဓရ ရွေးချယ်ပွဲမှာ အလွန်အဆင့်အတန်းမြင့်၍ ခက်ခဲနက်နဲသော ရွေးချယ်ပွဲ ဖြစ်ရကား၊ ၁၃၁၆ ခုနှစ်အထိ ခြောက်နှစ်အတွင်း အရှင် ဝိစိတ္တသာရာဘိဝံသ တပါးသာ ‘တိပိဋကဓရဓမ္မဘဏ္ဍာဂါရိက’ အဖြစ် အရွေးချယ်ခံရသည်။

ဤသို့လျှင် အထက်တွင် ပြဆိုအပ်သော စာမေးပွဲများမှာ ယခုအခါဝင်သူများ၍ အောင်မြင်သူလည်း တနှစ်ထက်တနှစ် များပြားတိုးတက်လာရကား၊ ပါဠိဘာသာ ပရိယတ္တိသာသနာတော် တနေ့တခြား ကြီးပွားထွန်းကားလာသည့်အတွက် အဓိက ရည်ရွယ်ချက် အောင်မြင်သဖြင့် ဝမ်းမြောက်ဖွယ် ဖြစ်ပေသည်။

ဦးကြီးမေ

**ပဋ္ဌာစာရီထေရီ။** ။ဂေါတမမြတ်စွာဘုရား လက်ထက်တော်တွင် သာဝတ္ထိပြည်၌ ကုဋေလေးဆယ် ကြွယ်ဝသော သဌေးကြီးတဦးဝယ် အဆင်းသဏ္ဌာန်ကြန်အင်လက္ခဏာနှင့် ပြည့်စုံသည့် ပဋ္ဌာစာရီအမည်ရှိသော သတို့သမီးငယ် တယောက်ရှိ၏။ ယင်း သတို့သမီးငယ်အား အရွယ်ရောက်သောအခါ၌ ဘုံခုနစ်ဆင့်ရှိသောပြာသာဒ်ထက်တွင် အစောင့်အရှောက်များဖြင့် ထားစေကာမူ၊ မိမိ၏ အခိုင်းအစေဖြစ်သော လုလင်တယောက်နှင့်ပင် ချစ်ကြိုက်မိကြ၍၊ အမိအဖတို့၏ နေအိမ်မှ တိတ်တဆိတ် ထွက်ပြေးခဲ့ပြီးသော်၊ အရပ်တပါးသို့ သွားရောက်ကာ၊ ဆင်းရဲပင်ပန်းစွာ လုပ်ကိုင်ရှာဖွေ စားသောက်နေခဲ့ကြ၏။ ထိုနောက် ပဋ္ဌာစာရီတွင် ပဋိသန္ဓေတည်ရှိသဖြင့် မွေးဖွားရန် အချိန်နီးလာသောအခါ၌ မိဖရပ်ထံပြန်၍ မီးဖွားရန် ခင်ပွန်းဖြစ်သူထံတွင် ခွင့်တောင်းသော်လည်း သွားခွင့်မရသဖြင့် ခင်ပွန်းသည် တောသို့ထွက်သွားခိုက်ဝယ် တကိုယ်တည်း ထွက်လာခဲ့၏။ ခင်ပွန်းဖြစ်သူသည် တောမှပြန်လာသောအခါ၌ အကြောင်းကို သိရလျှင် နောက်မှလိုက်၍ ခေါ်သော်လည်း၊ မီးဖွားချိန် စေ့ရောက်နေသောကြောင့် လမ်းခရီးဖြစ်သော တောအုပ်တခုအတွင်း၌ပင် ငြိုငြင်ပင်ပန်းစွာ သားငယ်ကို မွေးဖွားရ၏။ သားဖွားခြင်း ကိစ္စပြီးလျှင် ခင်ပွန်းလင်နှင့်အတူ မိမိတို့နေရာသို့ ပြန်လာခဲ့လေသည်။တဖန် ဒုတိယအကြိမ် ကိုယ်ဝန်တည်ပြန်လေရာ ကိုယ်ဝန်ရင့်မာလာလျှင် ရှေးနည်းတူ ခင်ပွန်းဖြစ်သူအား တောင်းပန်ပြောဆိုပါသော်လည်း ခွင့်မရသဖြင့် သားငယ်ကိုပိုက်ကာ ထွက်လာခဲ့ပြန်၏။ခင်ပွန်းသည်လည်း အစဉ်တစိုက် လိုက်လံ၍ ခေါ်ငင်ပြန်၏။ ထိုအချိန်၌ အခါမဲ့သော မိုးကြီးသည် သည်းထန်စွာ ရွာသွန်းလျက် လေပြင်းမုန်တိုင်းလည်း ကြမ်းတမ်းစွာ တိုက်ခတ်ကာ မိုးမှောင်ကျလာလေသည်။ ထိုအခိုက်အတန့်၌ပင် ပဋ္ဌာစာရီမှာလည်း မီးဖွားချိန်ရောက်ပြန်သဖြင့် ခင်ပွန်းဖြစ်သူသည် မိုးလွတ်မည့်အရပ်ကို လှည့်လည်ရှာဖွေရာ တောင်ပို့တခု၏ ထိပ်၌ ပေါက်ရောက်နေသော ချုံပိတ်ပေါင်းကိုတွေ့၍ ရှင်းမည်အပြုတွင် အဆိပ်ပြင်းသောမြွေသည် တောင်ပို့မှထွက်၍ ကိုက်လိုက်သဖြင့် ထိုအရပ်၌ သေလေ၏။ ပဋ္ဌာစာရီသည်လည်း အချိန်စေ့ရောက်ကာ နောက်သားငယ်ကို မွေးဖွားပြီးသော်၊ မိမိခင်ပွန်းဖြစ်သူ ပြန်မလာနိုင်သဖြင့် သားကြီးကို လက်ဆွဲ၍ သားငယ်ကို ရင်ဝယ်ပိုက်လျက် လိုက်ရှာသောအခါမှ ခင်ပွန်း၏ အလောင်းကိုသာ တွေ့ရလေသည်။ ထိုကြောင့် ပူဆွေးငိုကြွေးလျက် သားငယ်နှစ်ယောက်နှင့်အတူ၊

မိဖရပ်ထံသို့ ခရီးဆက်ခဲ့ရပြန်၏။ လမ်းခရီးတွင် အစီရဝတီမြစ်ကို ကူးဖြတ်ရမည်ရှိသည့်အခါ၊ သားနှစ်ယောက်နှင့် ရေကိုဖြတ်ကူးခြင်းငှါ မစွမ်းနိုင်ရကား၊ သားကြီးကို ဤမှာဖက်ကမ်း၌ ထားခဲ့၍၊ သားငယ်ကို ထိုမှာဖက်ကမ်းသို့ ကူး၍ပို့ပြီးလျှင် သစ်ရွက်သစ်ခက် အခင်းထက်၌ အိပ်နေစေပြီးမှ သားအကြီးကိုခေါ်ရန် ပြန်လှည့်လာ၏။ သို့သော်သားငယ်ကလေးကို စိတ်မချနိုင်ဘဲ၊ အဖန်တလဲလဲလှည့်ကြည့်လျက်သာ မြစ်ကို ကူးဖြတ်နေရာမှ မြစ်လယ်သို့ ရောက်သောအခါ၌ သိန်းစွန်တကောင်သည် နုနယ်နီထွေးသော ကလေးကိုမြင်လျှင် သားတစ် ထင်မှတ်ကာ ထိုးသုတ်သွား၏။ ပဋာစာရီသည် လက်နှစ်ဖက်ကို မြှောက်ကြွရိုက်တီးကာ ကျယ်လောင်စွာ ဟစ်အော်ကြွေးကြော်၍ ခြောက်လှန့်သော်လည်း သိန်းစွန်မှာ ဝေးလံသောကြောင့် မကြားဘဲ ကောင်းကင်သို့ ပျံတက်သွား၏။ ဤမှာ ဖက်ကမ်းတွင်ရှိသော သားအကြီးသည် မြစ်၏ အလယ်မှ မိခင်၏ ကြွေးကြော်သံကို ကြားရလျှင် မိမိကိုခေါ်ငင်သည် ထင်မှတ်ကာ ရေသို့သက်ဆင်းခဲ့ရာ ကြီးစွာသောရေအဟုန် တိုက်ခတ်သည်ဖြစ်၍ ရေ၌ ကျရောက် မျောပါလေ၏။ ဤသို့ဖြင့် ပဋာစာရီသည် လင်သေသားဆုံး၊ ယူကြုံးမရ အလွန်ပူဆွေးသောက ရောက်လျက် သူ၏ ဖြစ်အင်ကို ငိုယိုမြည်တမ်းပြောဆိုယင်း ခရီးအစဉ်အတိုင်းသွားသည်ရှိသော် သာဝတ္ထိပြည်မှ ရှေးရှုလာသော ယောကျ်ားတယောက်ကို တွေ့မြင်၍၊ မိမိ၏ဖခင်သဌေးကြီး၏ အကြောင်းကို မေးမြန်းကြည့်သည်တွင် ယမန်နေ့ကပြင်းထန်စွာ ကျရောက်ခဲ့သော လေမိုးဒဏ်ကြောင့် သဌေးကြီး၏အိမ် ပြိုကျသဖြင့် သဌေးကြီး လင်မယားနှင့် သူတို့၏သားပါ သုံးယောက်လုံး တပြိုင်နက် သေလွန်ကြ၍၊ ယခုပင် သုံးဦးလုံးအား မီးသင်္ဂြိုဟ်နေပြီ ဖြစ်ကြောင်းကို ပြောပြလေသည်။ ထိုခဏ၌ပင် ပဋာစာရီသည် သတိလွတ်ကင်းသွားကာ ရူးသွပ်သောအဖြစ်သို့ရောက်၍၊ ငိုကြွေးမြည်တမ်းလျက် အဝတ်မကပ်ဘဲ အရပ်ရပ်သို့ လှည့်ပတ် ပြေးသွားလေ၏။ ထိုသူရူးမကို လူအပေါင်းတို့ မြင်လေလျှင် ခဲအုတ်ကျောက်တို့ဖြင့်ပစ်ခတ်ကြကုန်၏။ ပဋာစာရီသည် ထိုသို့ အရပ်ရပ်သို့ လှည့်ပတ် ပြေးသွားယင်း ဇေတဝန်ကျောင်းတော်ကြီး၌ လေးပါးသော ပရိသတ်တို့၏ အလယ်တွင် တရားတော်ကို ဟောကြားတော်မူလျက်ရှိသော မြတ်စွာဘုရားထံတော်သို့ ရှေးရှု ရောက်ရှိသွားလေသည်။ ပရိသတ်တို့သည် မြတ်စွာဘုရားသခင်၏ အထံသို့ ရှေးရှုလာနေသောထိုသူရူးမကိုမြင်လျှင် ဝင်ရောက်ခွင့်မပြုကြဘဲ တားမြစ်ကုန်၏။ မြတ်စွာဘုရားက မဟန့်တား၊ မကန့်ကွက်ကြကုန်လင့်ဟု မိန့်တော်မူသည့်ခဏ၌ပင်၊ ပဋာစာရီလည်း ဘုရား၏ တန်ခိုးတော်ကြောင့် သတိပြန်လည်ရလာ၏။ မိမိ၏ အဝတ်ကင်းကွာနေသည့် အဖြစ်ကို ရှက်ကြောက်လျက် ကြုံ့ကြုံ့ ထိုင်နေစဉ်၊ တယောက်သောယောကျ်ားသည် မိမိ၏ အပေါ်ရုံပုဆိုးကို ပစ်၍ ပေးလိုက်သဖြင့် ထိုပုဆိုးကို ကောက်ယူဝတ်ရုံလျက် မြတ်စွာဘုရားသခင်ထံ ချဉ်းကပ်ပြီးလျှင် ဘုရား၏ခြေတော်အစုံကို ငါးပါးသောထိခြင်းဖြင့် ရှိခိုးပြီးနောက်၊ မိမိ၏ဖြစ်အင်ကိုလျှောက်ထားလေသည်။ မြတ်စွာဘုရားသခင်လည်း အစမထင်ကျင်လည်ပြေးသွားရာ သံသရာဝဋ်ဒုက္ခတို့၏အကြောင်းကို မိန့်တော်မူလျက်၊ နိဗ္ဗာန်ရောက်ကြောင်းဖြစ်သော ကုသိုလ်လမ်းကြောင်း ခရီးကောင်းကိုသာ ပြုစုပြင်ဆင်သုတ်သင်ရန် ဆုံးမ ဟောကြားတော်မူသောခဏ၌ပင်၊ ပဋာစာရီသဌေးသမီးလည်း သောတာပတ္တိဖိုလ်၌တည်လေ၏။ သောတာပန်ဖြစ်ပြီးနောက်၊ မြတ်စွာဘုရားထံ ရဟန်းပြုလိုကြောင်း ခွင့်တောင်းပြီးလျှင် ရဟန်းပြုရာ ပဋာစာရီဘိက္ခုနီမအဖြစ်သို့ရောက်၏။ ထိုနောက် မကြာမီ ပဋာစာရီဘိက္ခုနီမသည် ပဋိသမ္ဘိဒါတို့နှင့်တကွ အရဟတ္တဖိုလ်သို့ရောက်လေသည်။နောင်အခါ၌ မြတ်စွာဘုရားသခင်သည် ထိုပဋာစာရီထေရီအားဝိနည်းအရာ၌ ဧတဒဂ် ထားတော်မူ၏။

**ပတူငှက်**။ ။ပတူငှက်ကို ပါဏဗေဒအလိုအားဖြင့် 'နှစ်တီယောနှစ်အက်သာတိုတီ'ဟု ခေါ်သည်။ ထိုငှက်သည် ပုစဉ်းထိုးငှက်များနှင့်အတူ 'မီရော့ပိဒီး' မျိုးရင်းတွင် ပါဝင်သည်။ အလျား ၁၄ လက်မရှိသည်။ အခြားပုစဉ်းထိုးငှက်များထက် ပို၍ကြီးသဖြင့် လွယ်ကူစွာ ခွဲခြားနိုင်ပေသည်။ ပတူငှက်အရောင်မှာ အစိမ်းဖြစ်ပြီးလျှင် ဦးထိပ်ပြာသည်။ ထိုပြင် မေးအောက်မှ ရင်အုပ်ထိ အပြာနုရောင်အစင်းကြောင်းတခုပါရှိသေးသည်။ ကျန်ခန္ဓာကိုယ်၏ အောက်ပိုင်းအရောင်မှာ နီဝါရောင်ရေယှက်၍ မွဲခြောက်ခြောက်ဖြစ်သည်။ နှုတ်သီးသည် ရှည်ပြီးလျှင်၊ အရောင်မည်းသည့်ပြင် ကောက်လျက်ရှိသည်။

အသံမှာ ကွဲအက်ပြီးလျှင် နှစ်ဆင့်ဖြစ်သည်။ ပဌမ အသံကိုအော်ရာ၌ ဦးခေါင်းကို နှိမ့်ထား၍ ရှည်လျားသော လည်မွေးများကို ဖွထုတ်လိုက်သည်။ နောက် အသံကိုဆင့်၍အော်စဉ်၊ ဦးခေါင်းကို တဖြည်းဖြည်းမြှင့်ပေးသည်။နောက်ဆုံးအသံကိုအော်ရာ၌ ဦးခေါင်းကို အပေါ်သို့ တည့်မတ်စွာထောင်ထားသည်။ ထိုပြင် လေထဲ၌ ပျံဝဲနေချိန်၌ ဖြစ်စေ၊ အောက်သို့ ထိုးဆင်းလာသော အချိန်၌ဖြစ်စေ အော်တတ်သေးသည်။

ပတူငှက်သည် တောပျော်ငှက်သက်သက်ဖြစ်သည်။ သစ်ရွက်၊ ပန်းပွင့်များကြားရှိ ပိုးကောင်များကို လိုက်လံ၍ ရှာဖွေစားသည်။ ပျံသန်းပုံသည် အားကောင်းသော်လည်း၊ ပုစဉ်းထိုးငှက်များကဲ့သို့ ကြည့်၍မကောင်းချေ။လက်ပံပွင့်ချိန်များ၌ ပတူငှက်များ ရောက်လာတတ်သည်။

မြစ်ကြီးနားနယ်တွင် မတ်လမှစ၍ ဥများကိုအုသည်ဟု ဆိုသည်။ အသိုက်များကို မြေကြီးထဲတွင် အနက် ၂ ပေခန့် တွင်းတူး၍ပြုလုပ်ကြသည်။ ထိုပြင် သဲထူသော ချောင်းကမ်းပါးများတွင်လည်း အသိုက်များပြုလုပ်တတ်သည်။ အသိုက်များကို ဆောက်လုပ်ရာ၌ ပိုးတောင်မာများ၏ အတောင်များကို အသုံးပြုတတ်သည်။

ပတူငှက်ကို မြန်မာ၊ အိန္ဒိယနှင့် ယိုးဒယားနိုင်ငံများတွင် တွေ့ရသည်။ မြန်မာနိုင်ငံရှိ သစ်တောများတွင်လည်း တွေ့ရသည်။ မိုးဦးကျချိန်တွင် ရှမ်းပြည်နယ်၌ တွေ့ရသည်။

**ပတဲကောပင်။** ။ပတဲကောပင်သည် ပတဲကောကြီး၊ ပတဲကောကလေးဟူ၍ရှိသည်။ ဇင်ဂျီဗာရေးစီး မျိုးရင်းဝင်ဖြစ်၍ အယ်ပီးနီးယား မျိုးစိတ်များဖြစ်သည်။ အယ်ပီးနီးယား အော့ဖီစီနေရမ်ဟု ရုက္ခဗေဒအမည်ဖြင့်ခေါ်သော ပတဲကောကလေးပင်၏ အမြစ်ဖုသည် ဆေးဖက်ဝင်သည်။ ချင်းနှင့် ဖြတ်ကောင်းစပ်ထားသော စပ်ရှားရှား ပူရှိန်းရှိန်းအရသာမျိုးရှိ၍အနံ့ခပ်ပြင်းပြင်းမွှေးသည်။ ပတဲကောကြီး သို့မဟုတ် ဂျာဗားပတဲကောဟုလည်းခေါ်သော ပတဲကောမျိုးသည် ပို၍ ကြမ်းပြီးလျှင် အနံ့လည်း မပြင်းလှပေ။

ပတဲကောပင်သည် မြန်မာ၊ အိန္ဒိယ၊ တရုပ်စသော အရှေ့တိုင်းနိုင်ငံများ၌ ပေါက်သည်။ အမြစ်ဖုခြောက်များသည် ဆေးဖက်ဝင်သဖြင့် နိုင်ငံခြားသို့ တင်ပို့ ရောင်းချရသည်။ ပတဲကောပင်၏ ပင်စည်သည် လေးပေခန့်မြင့်၍ အရွက်တို့သည် သေးသွယ်ပြီးလျှင်၊ လုံ့စွပ်ပုံရှိသည်။ အရွက်၏ အရောင်သည် အစိမ်းနုရောင်ဖြစ်၍ စူးရှသောအနံ့ရှိသည်။ အဖြူရောင်တွင် အနီရောင် သွေးကြောကလေးပေါ်နေသော အပွင့်မျိုးပွင့်သည်။ အမြစ်ဖုများ တစုတခဲကြီး ရှိတတ်၍ တခါတရံ အချင်းတပေခန့်ပင် ရှိတတ်လေသည်။

# ကမ္ဘာ့မျက်နှာပြင်အကြောင်းသိကောင်းစရာ

**ပထဝီဝင်သည် ကမ္ဘာ့မျက်နှာပြင်အကြောင်း အထူးလေ့လာသော သိပ္ပံပညာဖြစ်သည်။ ဤအကြောင်းရပ်တွင် ကမ္ဘာ့မျက်နှာပြင်ပေါ်တွင် ရပ်တည်လျက် ရှိကြကုန်သော တောတောင်ရေမြေတို့နှင့်တကွ နိုင်ငံအသီးအသီး လူအမျိုးမျိုး စသည့် သက်ရှိသက်မဲ့တို့ တခုနှင့်တခု အမှီပြုလျက် ဆက်သွယ်ကာ တည်ရှိနေကြပုံ အကြောင်းစုံတို့ကို ဖတ်ရှုရပေလိမ့်မည်။**

**ပထဝီဝင်။** ။ပထဝီဝင်ဟူသည်မှာ ကမ္ဘာ့မျက်နှာပြင် အကြောင်းကို အထူးဂရုပြု၍ လေ့လာသော သိပ္ပံပညာဖြစ်သည်။ ကမ္ဘာ့မျက်နှာပြင်အကြောင်းကို လေ့လာရာ၌ ပထဝီ ပညာရှင်သည် ကမ္ဘာပေါ်ရှိ အရပ်ဒေသ တခုနှင့်တခု ကွဲပြားခြားနားပုံများကို စူးစမ်းရှာဖွေ၍၊ အကျိုး အကြောင်းနှင့် ရှင်းလင်းဖော်ပြသည်။ ကမ္ဘာ့မျက်နှာပြင်ကို ကြည့်ရှုရာ၌ မြေပြင်တခုတည်းကိုသာမက၊ ယင်းအပေါ်တွင် တည်ရှိနေသော ပါးလွှာသောလေထုနှင့် ယင်းအောက်တွင် တည်ရှိနေသော ရေထုတို့ကိုပါ ထည့်သွင်း၍ ကြည့်ရှုသည်။ ယင်းသည့်လေထု၊ မြေထု၊ ရေထုတို့တွေ့ဆုံရာ ရပ်ဝန်း အတွင်း၌သာ သက်ရှိသက်မဲ့တို့ 'ကျွန်းကိုင်းမှီ ကိုင်းကျွန်းမှီ' ဆိုသကဲ့သို့၊ တခုနှင့်တခု အမှီပြုလျက် ဆက်သွယ်ကာတည်ရှိနေကြသည်။ ဤကဲ့သို့ ပုံစံအမျိုးမျိုးဖြင့် ပေါင်းစပ်တည်ရှိနေကြခြင်းကြောင့်လည်း ကမ္ဘာ့မျက်နှာပြင်တွင် မြေပြင်လက္ခဏာ အမျိုးမျိုး ဖြစ်ပေါ်လာကြခြင်း ဖြစ်သည်။ ခေတ်သစ် ပထဝီဝင်၏ အဓိက ရည်ရွယ်ချက်မှာ ကမ္ဘာ့မျက်နှာပြင် တစိတ်တဒေသတွင်သော်ငြား၊ သို့မဟုတ် တခုလုံးတွင်သော်ငြား ဖြစ်ပေါ်တည်ရှိနေသော အကြောင်းခြင်းရာအမျိုးမျိုးတို့ကို စုပေါင်းလေ့လာရန်ဖြစ်သည်။ ထိုကြောင့် ပထဝီဝင်သည် ကမ္ဘာပေါ်ရှိ အရပ်ဒေသ အသီးအသီးတွင် မည်ကဲ့သို့ အသွင်အပြင်ရှိသည်၊ အရပ်ဒေသ တခုနှင့်တခု မည်ကဲ့သို့ ခြားနားသည်၊ သို့မဟုတ် ဆင်တူသည်၊ အဘယ်ကြောင့် ဤကဲ့သို့ဖြစ်ကြရသည် အစရှိသည်တို့ကို လေ့လာပေသည်။

ကမ္ဘာပေါ်၌ သက်ရှိသက်မဲ့တို့သည် တခုနှင့်တခု ဆက်သွယ်လျက် တည်ရှိနေကြ၏။ ပုံစံပြရသော် ငါးသည်သက်ရှိသတ္တဝါဖြစ်သော်လည်း၊ အသက်မရှိသော ရေ၌သာ တည်နေနိုင်သည်။ ထို့အတူ အသက်ရှိသောသစ်ပင်သည် အသက်မရှိသော မြေဆီလွှာ၌သာ ကြီးပွားရှင်သန်နိုင်သည်။ ငါးကို ရေမှထုတ်ယူလိုက်လျှင်သော်ငြား၊ သစ်ပင်ကို မြေမှ ထုတ်ယူလိုက်လျှင်သော်ငြား မကြာမီ သေကျေပျက်စီးသွားလိမ့်မည်။ ဤအကြောင်းကို ထောက်ရှုခြင်းဖြင့် သက်မဲ့တို့သည် သက်ရှိတို့အတွက် များစွာအရေးကြီးကြောင်းကို သိရှိရသည်။ သဘာဝ ပထဝီသည် လူနှင့်သက်ရှိသတ္တဝါတို့၏ နေထိုင်စားသောက်ရေးကို များစွာ ပုံပြင် ဖန်တီးပေးနိုင်သည်။ လူနှင့် သက်ရှိသတ္တဝါတို့ကလည်း မိမိတို့ကိုယ်ကို သဘာဝ ပတ်ဝန်းကျင်အခြေအနေများနှင့် ကိုက်ညီအောင် ပြုပြင်၍ နေထိုင် လုပ်ကိုင်စားသောက်လာကြသည်။ ထို့ကြောင့် ပထဝီဝင်ကိုလေ့လာရာ၌ သဘာဝပထဝီနှင့် သက်ရှိတို့၏အကြောင်းကိုသာမက၊ ယင်းတို့ တခုနှင့်တခု အပြန်



လူတို့ဌာနေ ကမ္ဘာ့မြေအလုံးကို မျက်စိတဆုံး မြင်နိုင်စွမ်းမည်ဆိုလျှင် အထက်ပါ ကမ္ဘာ့မြေပြင်ပြပုံအတိုင်း တွေ့ရမည်။

အလှန်ဆက်စပ်နေပုံကိုလည်း လေ့လာရသည်။ သက်ရှိတို့သည် သဘာဝပတ်ဝန်းကျင်အခြေအနေ၏ ပြုပြင်ဖန်တီးမှုကြောင့် ပြောင်းလဲလာကြရသည်။ ထိုနည်းအတူ သဘာဝပတ်ဝန်းကျင် အခြေအနေတို့သည်လည်း လူ၊တိရစ္ဆာန်၊သစ်ပင်တို့၏ ပြုပြင်မှုကြောင့် ပြောင်းလဲလာကြသည်။

ရှေးအခါက သက်ရှိတို့သည် သဘာဝပထဝီ၏ ပြုပြင်မှုအတိုင်း လိုက်နာခဲ့ကြရသည်။ ပုံစံအားဖြင့် ရေခဲခေတ် အတွင်း၌ ဝင်ရိုးစွန်းအရပ်မှ ဆင်းသက်လာသော ရေခဲပြင်ကြီးများ၏ဒဏ်ကြောင့် နေရာအများအပြား၌ သက်ရှိပေါင်းများစွာ ကွယ်ပျောက်ကုန်ကြသည်သာမက၊ လူနှင့်တိရစ္ဆာန်များစွာတို့သည် ပူနွေးသော အီကွေတာဖက်ရှိ အရပ်တို့သို့ စုရုံး ခိုလှုံခဲ့ကြရလေသည်။ ထိုပြင် ရာသီဥတု ပြောင်းလဲမှုကြောင့်လည်း သက်ရှိများ သေကျေပျက်စီးကြရလေသည်။ ပုံစံအားဖြင့် ရာသီဥတုခြောက်သွေ့လာခြင်းကြောင့် မြောက်အာဖရိကတိုက်ရှိ သက်ရှိများ အများအပြားပျက်စီးခဲ့ကြရသည်။ နိုင်းမြစ်ဝှမ်းနှင့် အိုအေးစစ်အရပ်ကဲ့သို့ ရေကိုအလွယ်တကူ ရရှိနိုင်သောနေရာများသို့ ပြောင်းရွှေ့နေနိုင်သော လူနှင့် တိရစ္ဆာန်များလောက်သာ အသက်ဘေးမှ လွတ်မြောက်ခဲ့ကြသည်။ မပြောင်းရွှေ့နိုင်သော သစ်ပင်များနှင့် လျင်မြန်စွာမပြေးလွှားနိုင်သော သတ္တဝါများသည် ကမ္ဘာ့အခြေအနေလျင်မြန်စွာပြောင်းလဲတိုင်း ပျက်စီးကြရသည်။

အသိပညာတိုးပွား၍ ယဉ်ကျေးလာသော အခါများ၌ပင်လျှင် လူတို့သည် သဘာဝ၏ ပြုပြင်စီမံမှုကို များစွာခံနေကြရသေးသည်။ သဘာဝအကြောင်းကို အနည်းငယ်သိနားလည်၍ ထိန်းကြပ်လာနိုင်သောအခါကျမှသာလျှင် လူသည် မိမိတို့ကိုယ်ကို ပတ်ဝန်းကျင်အခြေအနေများနှင့် ဆီလျော်အောင် ပြုပြင်၍ နေထိုင်လာတတ်ကြသည်။ အီဂျစ်လူမျိုးတို့သည် ခြောက်သွေ့သော လယ်ယာများတွင် စိုက်ပျိုးလုပ်ကိုင်နိုင်ရန်အတွက် နိုင်းမြစ်မှရေကို ရေမြောင်းများဖြင့် သွယ်ယူ၍ အသုံးပြုခဲ့ကြသည်။ ဤသို့လျှင် လူတို့သည် မိမိတို့ကိုယ်ကို သဘာဝပတ်ဝန်းကျင်နှင့်ဆီလျော်အောင် ပြုပြင်၍ နေထိုင်ကြရသောကြောင့် ကျွန်ုပ်တို့သည် သဘာဝပထဝီအကြောင်းကို မသိရှိပါက၊ လူတို့၏နေထိုင် လုပ်ကိုင်စားသောက်ကြပုံ၊ တနေရာမှတနေရာသို့ ပြောင်းရွှေ့ကြပုံ၊ တဦးနှင့်တဦးစစ်ဖြစ်ကြပုံ၊ မိတ်ဖွဲ့ကြပုံမှအစ ယင်းတို့၏ ယဉ်ကျေးမှုနှင့် လက်မှုစက်မှုလုပ်ငန်းများ တိုးတက်ဖြစ်ထွန်းလာကြပုံများကို သိနားလည်ရန် ခဲယဉ်းပေလိမ့်မည်။

ကျွန်ုပ်တို့သည် ပထဝီဝင်ကိုသိပါက တခုသောဒေသ၌ တခုသောကာလအပိုင်းအခြားအတွင်း လူတို့ မည်ကဲ့သို့ နေထိုင် လုပ်ကိုင်စားသောက်ကြသည်၊ စီမံအုပ်ချုပ်ကြသည် စသည်တို့ကို ခန့်မှန်းကြည့်နိုင်ကြပေသည်။ ပုံစံအားဖြင့် နိုင်းမြစ်ဝှမ်းကဲ့သို့ ကျယ်ပြန့်သော လွင်ပြင်၌ သူပုန်များ ခိုအောင်းရန် နေရာမရှိခြင်းကြောင့် လျင်မြန်စွာ ရွှေ့ပြောင်းသွားလာနိုင်သော စစ်တပ်အနည်းငယ်ဖြင့်ပင် အလွယ်တကူ ထိန်းသိမ်းစောင့်ရှောက်ထားနိုင်မည်ဖြစ်ရာ ထိုဒေသမျိုးတွင် အာဏာရှင်စနစ်ဖြင့် အုပ်ချုပ်သော အစိုးရမျိုး ပေါ်ပေါက်ထွန်းကားနိုင်ကြောင်း ခန့်မှန်းကြည့်နိုင်ပေသည်။ ထိုနည်းတူစွာပင် တောတောင် ထူထပ်သော ဂရိနိုင်ငံ၊ စကော့တလန်ပြည်၊ အာဖဂနိစတန်နိုင်ငံ စသည်တို့၌ နေထိုင်ကြသည့် ရှေးကျသော တောင်ပေါ်သားများအဖို့ လွတ်လပ်စွာနေထိုင်လိုသော စိတ်ဓာတ်များ တဖွားဖွား ပေါ်ပေါက်ပွားများလာရန် အခွင့်ကောင်း ရရှိခဲ့ကြမည်ကိုလည်း ခန့်မှန်းကြည့်နိုင်ပေသည်။

ဤအကြောင်းများကို ထောက်ပြီးလျှင် ပထဝီဝင်သည် လူတို့၏စိတ်ဓာတ်ကို ပြုပြင်ပေးသည်ဟုကား တထစ်ကျ မယူဆထိုက်ပေ။ အကြောင်းမူကား၊ မည်သည့်နေရာ၌မဆို အာဏာရှင်စနစ်ကို မုန်းတီးသောစိတ်ဓာတ်များပေါ်ပေါက်လာနိုင်သောကြောင့် ဖြစ်ပေသည်။ သို့ရာတွင် ရှေးနှစ်ပေါင်းများစွာကမူ တောင်တန်းများသည် တောင်ပေါ်သားတို့အား လွတ်လပ်စွာနှင့် ဖျတ်လတ်စွာ နေထိုင်နိုင်အောင် ဖန်တီးပေးခဲ့ကြလေသည်။

ယခုအခါ၌မူကား သဘာဝပတ်ဝန်းကျင် အခြေအနေတို့သည် လူတို့၏ နေထိုင်လုပ်ကိုင်မှုကို ရှေးအခါကလောက် ပြုပြင်မပေးနိုင်ကြတော့ချေ။ အစဉ်အလာအားဖြင့် သဘာဝအခြေအနေတို့သည် ဆိပ်ကမ်းတည်နေရာများကို သတ်

မှတ်ပေးလေသည်။ သို့ရာတွင် ယခုခေတ်၌ လူတို့သည် လေယာဉ်ဆိပ်များကို မိမိတို့ အလိုရှိသော နေရာများ၌ ဆောက်လုပ်နိုင်ခဲ့ကြပြီ။ ခြောက်သွေ့သော သဲကန္တာရ အရပ်များ၌ပင်လျှင် ရေသွင်းယူ၍ စိုက်ပျိုးလုပ်ကိုင်နိုင်ခဲ့ကြပြီ။ ရာသီဥတုကောင်းမွန်သောဒေသများ၌ အကယ်၍ မြေဆီလွှာမကောင်းပါက ကောင်းအောင် ပြုပြင်ပေးတတ်ကြပြီ။ သဘာဝပတ်ဝန်းကျင်နှင့် လူတို့၏ နေထိုင်လုပ်ကိုင်စားသောက်မှုတို့သည် ယခင်ကကဲ့သို့ပင် တခုနှင့်တခု ဆက်လက်၍ ဆက်စပ်တည်ရှိနေကြသော်ငြားလည်း၊တကြိမ်တခါက သဘာဝတရား၏ ပြုပြင်မှုကို တသွေမတိမ်းလိုက်နာခဲ့ကြရသောလူတို့သည် အသိပညာ တိုးပွားလာသည်နှင့် အမျှ၊ သဘာဝပတ်ဝန်းကျင်ကို တဖြည်းဖြည်းစိုးမိုးပြုပြင်၍ နေထိုင်လာနိုင်ခဲ့ကြလေသည်။

ဤကဲ့သို့လူတို့က သဘာဝပတ်ဝန်းကျင်ကို များစွာပြုပြင်ပြောင်းလဲလာနိုင်ခဲ့ခြင်းကြောင့်လည်း၊ ပထဝီဝင်သည် လူတို့အဖို့ ယခင်ကလောက် အရေးမကြီးတော့ဟု ထင်မြင်လာကြလေသည်။ သဘာဝတရားကိုပြုပြင်နိုင်သော လူတို့၏ စွမ်းရည်ကို ချီးကျူးထိုက်သည်မှန်ပါ၏။ သို့ရာတွင် လျေင်လှုပ်ခြင်း၊ မီးတောင်ပေါက်ကွဲခြင်းစသည်တို့သည် နှစ်ပေါင်းများစွာက တည်ဆောက်လာခဲ့သော အိုးအိမ်တိုက်တာများ၊ လုပ်ငန်း ဆောင်တာများနှင့်တကွ လူ့ အသက်ပေါင်းအများအပြားကိုပင်လျှင် တခဏခြင်း ပျက်စီးစေနိုင်ပေသည်။ ထို့ပြင် ခြောက်သွေ့သော ကန္တာရအရပ်၊ အလွန်အေးသော တန်ဒြာအရပ်၊ ပူအိုက် စိုစွတ်သော အီကွေတာ သစ်တော အရပ်တို့တွင် လူတို့သည် သဘာဝ အခြေအနေကို ပြုပြင်၍ နေထိုင်နိုင်ကြသည်ဟု ဆိုသော်လည်း၊ လေမရှိသော လဗိမာန်တွင်မူကား ကြာရှည်စွာ နေနိုင်မည် မဟုတ်ချေ။ ထို့ကြောင့် ပတ်ဝန်းကျင် အခြေအနေများကို လူတို့သည် မည်မျှလောက်ပင် ပြုပြင် ပြောင်းလဲနိုင်ကြသည် ဆိုစေကာမူ၊ ပထဝီဝင်သည် လူ့လုပ်ငန်း ဆောင်တာများကို အစဉ် ထာဝရ သတ်မှတ်ပေးနေပေလိမ့်ဦးမည် ဖြစ်ပေသည်။

## ပထဝီဝင် ဗဟုသုတ တိုးပွားလာပုံ

လူတို့ အရပ်တပါးသို့ စတင် ခရီးထွက်သည့် အချိန်မှစ၍၊ ပထဝီဝင် ဗဟုသုတ တိုးပွားလာခဲ့သည်။ ကမ်းခြေအနီးတွင် နေထိုင်သော လူရိုင်းတို့သည် တောင်ပေါ်အရပ်သို့ သွားရောက်၍၊ တောင်ပေါ် မုဆိုးများထံမှ သားရေများကို ယင်းတို့ ယူဆောင်သွားသော ဆားများဖြင့် လဲလှယ်ခဲ့ကြသည်။ ဤကဲ့သို့ သွားရောက် လည်ပတ်ခြင်းဖြင့်၊ မိမိတို့နှင့် နေပုံထိုင်ပုံ စရိုက် သဘာဝချင်း မတူသောသူများ၏ အကြောင်းကို သိရှိလာကြသည်။ ဤနည်းဖြင့် လူတို့၏ ပထဝီဝင် ဗဟုသုတ တဖြည်းဖြည်း တိုးပွားလာခဲ့လေသည်။

ဂရိလူမျိုးတို့သည် ပထဝီဝင်ကို ပဌမဆုံး စတင် လေ့လာသူများ ဖြစ်ကြသည်။ မိမိတို့ နေထိုင်သော တိုင်းပြည်အနီးရှိ ပင်လယ်ကမ်းရိုးတန်းများကို သိရှိ၍၊ မြေပုံများဖြင့် မှတ်သားခဲ့ကြသည်။ မြေထဲပင်လယ်ကို ရွက်လှေကြီးများဖြင့် ဖြတ်သန်း၍၊ အာဖရိကတိုက် အတွင်းသို့ ကုန်းကြောင်းခရီးဖြင့် ဝင်ရောက်ခဲ့ကြသည်။ ဂရိ ပထဝီပညာရှင် အာရတိုးစသနီး ဆိုသူက ကမ္ဘာသည် အဝန်းမိုင် ၂၅,၀၀၀ ရှိသည်ဟု ဘီစီ ၂၀၀ လောက်ကပင် တွက်ချက်တင်ပြခဲ့သည်။ ထိုဂရိလူမျိုးတို့သည် အယ်လက်ဇန္ဒာဘုရင်ကြီး လက်ထက်၌ အိန္ဒိယမြောက်ပိုင်း အိန္ဒုလွင်ပြင်သို့ပင် ရောက်ရှိခဲ့ကြလေသည်။ အီဂျစ် လူမျိုးနှင့် ဖီနီရှန်လူမျိုးတို့သည် ဂရိလူမျိုးတို့ထက် အလျှင် ကုန်းလမ်း၊ ရေလမ်းခရီးဖြင့် နယ်ချဲ့ခဲ့ကြသည် မှန်၏။ သို့ရာတွင် ဂရိလူမျိုးတို့ကသာ လူအများ၏ နေထိုင် လုပ်ကိုင် စားသောက်မှု ကွဲပြား ခြားနားပုံကို သိလိုကြသောကြောင့်၊ မိမိတို့ တွေ့မြင်သမျှကို ရေးယူ မှတ်သားခဲ့ကြသည်။ ဤအချက်ကြောင့်ပင် ထိုဂရိလူမျိုးတို့ကို ပဌမဆုံး ပထဝီ ပညာရှင်များဟု ကျွန်ုပ်တို့ ခေါ်ဝေါ်ကြခြင်း ဖြစ်သည်။ ရောမလူမျိုးတို့သည် မြေပုံကို အများဆုံး စတင် အသုံးပြုကြသူများ ဖြစ်သည်။ ယင်းတို့သည် ပင်လယ်နှင့် မြို့များ၏ အကွာအဝေးကို တိုင်းတာပြီးလျှင် မြေပုံတွင် တိကျ မှန်ကန်စွာ ထည့်သွင်းပေးခဲ့ကြလေသည်။

ဂရိလူမျိုး ပထဝီ ပညာရှင် စတြေးဗိုး (၆၄ ဘီစီ–၂၀ အေဒီ) ရေးသားခဲ့သော စာမူ အားလုံးသည် ထိုအချိန်အခါက သိရှိခဲ့သော ကမ္ဘာ အကြောင်းကို ဖော်ပြထားခြင်းကြောင့် အစိုးရ အရာရှိများ၊ စစ်သေနာပတိများအတွက် များစွာ အသုံးဝင်လေသည်။ တော်လမီ (၁၂၇–၁၅၁ အေဒီ) သည် ဂရိ ပထဝီဝင် ပညာရှင်များ ရှာဖွေစုဆောင်းခဲ့သော ပထဝီဝင်များကို စုပေါင်း ရေးသားခဲ့သည်။ မြေပုံများကိုလည်း လတ္တီတွဒ်၊ လောင်ဂျီတွဒ် မျဉ်းများဖြင့် ရေးဆွဲနိုင်ရန် အားထုတ်ခဲ့သည်။ ပထဝီဝင်ကို လေ့လာရာ၌ တကမ္ဘာလုံးကိုသော်၎င်း၊ တစိတ်တဒေသကိုသော်၎င်း၊ ဒေသတခုခုကိုသော်၎င်း ခွဲခြား၍ လေ့လာနိုင်ကြောင်းကို တော်လမီက စတင် ဖော်ပြခဲ့သည်။ (တော်လမီ — ရှု။)

ဤကဲ့သို့ ဂရိနှင့် ရောမ လူမျိုးတို့ စတင် ရှာဖွေစုဆောင်းခဲ့သော ပထဝီဝင် ဗဟုသုတများသည် အလယ် ခေတ်ဦးပိုင်းလောက်တွင် များစွာ ပျောက်ကွယ် ဆုံးရှုံးခဲ့ကြသည်။ ထိုအချိန်အခါ၌ အာရေဗျနှင့် အာဖရိက မြောက်ပိုင်းရှိ အာရပ် လူမျိုးတို့ကသာလျှင် ပထဝီဝင်ကို အတော်အတန်

လေ့လာခဲ့ကြသည်။ အာရပ် လူမျိုးတို့သည် အိန္ဒိယနိုင်ငံ၊ တရုပ်နိုင်ငံ၊ အာဖရိက အရှေ့ ကမ်းခြေ အရပ်များသို့ ရောက်အောင် ကူးသန်း ရောင်းဝယ်ခဲ့ကြသောကြောင့် ၁၀ ရာစုနှစ် မတိုင်မီကပင် အိန္ဒိယ သမုဒ္ဒရာနှင့် အာဖရိက အတွင်းပိုင်း အကြောင်းများကို အတော်အတန် သိရှိခဲ့ကြသည်။ ကမ္ဘာလုံးသည့် အကြောင်းကို ဂရိ လူမျိုးတို့ နည်းတူ သိရှိခဲ့ကြသည်။

အာရပ် ပထဝီ ပညာရှင်တို့သည် ဂရိနှင့် ရောမ လူမျိုးများ ရေးသားခဲ့သော ပထဝီဝင်ကို ဆက်လက် လေ့လာပြီးလျှင်၊ မိမိတို့ ရရှိထားနှင့်သော ဗဟုသုတများနှင့် ပေါင်းစပ် လေ့လာကြလေသည်။ သဘာဝ ပထဝီဝင်နှင့် သမိုင်း ပထဝီဝင်ကို အထူး ဂရုပြု၍ လေ့လာသော်လည်း မြေပုံဆွဲ အတတ်ကိုမူ မကျွမ်းကျင်ကြပေ။

ထိုအချိန်အခါမှစ၍ ဥရောပ အနောက်ပိုင်းသားများ တဖြည်းဖြည်း ခရီးထွက်ခဲ့ကြသည်။ အချို့သည် ခရစ်တော် ဖွားမြင်ရာ ပယ်လက်စတိုင်းပြည်သို့ သွားရောက်ပြီးလျှင် မိမိတို့၏ ခရီးစဉ်ကို မြေပုံများဖြင့် မှတ်သားထားခဲ့ကြသည်။ ၁၂၇၁ ခုနှစ်တွင် မာကိုပိုလိုသည် ကသေးခေါ် တရုပ်ပြည်သို့ ကုန်းကြောင်း ခရီးဖြင့် ရောက်ရှိခဲ့သည်။ မာကိုပိုလို အကြောင်း ရေးသားထားသော စာအုပ်တွင် မာကိုပိုလို၏ မှတ်သားလောက်သော စွန့်စားခန်းများကို အကျဉ်းသား မိတ်ဆွေ တဦးက ရေးသား ဖော်ပြထားလေသည်။ ဤစာအုပ်တွင် ပါရှိသော အကြောင်းအရာ အများအပြားသည် ပထဝီဝင် အကြောင်းများ ဖြစ်ခြင်းကြောင့်၊ ယင်းကို ပထဝီဝင် စာအုပ်ဟု ခေါ်ဆိုထိုက်သည်။ (ပိုလို၊ မာကို — ရှု။)

၁၄ ရာစုနှစ်သို့ ရောက်သည့်တိုင်အောင်ပင် ဥရောပ တိုက်သားတို့၏ ပထဝီဝင် ဗဟုသုတသည် အလွန်နည်းသေးသည်။ ထိုအချိန်အခါအထိ ကမ္ဘာ့ ရေမျက်နှာပြင်၏ ၇ ရာခိုင်နှုန်းလောက်ကိုသာ သိရှိကြသေးသည်။ ၁၄ ရာစုနှစ်နှင့် ၁၅ ရာစုနှစ်လောက်တွင် ပေါ်တူဂီနှင့် စပိန် လူမျိုးတို့သည် သမုဒ္ဒရာကြီးများကို စတင်၍ ဖြတ်သန်း လှည့်လည်ခဲ့ကြသည်။ ဗက်စကိုဒါဂါးမသည် ၁၄၉၈ ခုနှစ်တွင် အာဖရိကတိုက်ကို ပတ်၍ အိန္ဒိယပြည်သို့ ရောက်ရှိခဲ့သည်။ (ဗက်စကိုဒါဂါးမ — ရှု။) ကိုလံဗပ်သည် အမေရိကတိုက်ကို ၁၄၉၂ ခုနှစ်တွင် စတင်တွေ့ရှိလေသည်။ (ကိုလံဗပ်၊ စီ — ရှု။) ထိုသူတို့ နောက်တွင် အင်္ဂလိပ်၊ ဒပ်ချနှင့် ပြင်သစ် လူမျိုးတို့သည် ပင်လယ် ခရီးဖြင့် စတင် နယ်ချဲ့လာခဲ့ကြသည်။ ပေါ်တူဂီ လူမျိုး မဂျဲလင် ဆိုသူသည် ကမ္ဘာကို ရေလမ်း ခရီးဖြင့် လှည့်ပတ်ရန် ဦးဆောင် ထွက်ခဲ့သော်လည်း လမ်းခရီးတွင် အသတ်ခံရသည်။ (မဂျဲလင် — ရှု။) များမကြာမီ အင်္ဂလိပ် လူမျိုး ဆာ ဖရန်းစစ်ဒရိတ်သည်



ခရစ်မပေါ်မီနှစ်ပေါင်းငါးရာအတွင်းက ဗက်ဗီလုံး နီးယားနိုင်ငံတွင် ရေးသားဖော်ပြထားသော ကမ္ဘာ့မြေပုံ

ကမ္ဘာကို ရေလမ်းခရီးဖြင့် လှည့်လည်ခဲ့လေသည်။ (ဒရိတ်၊ ဆာဖရန်းစစ် — ရှု။) နှစ်ပေါင်း ၁၀၀ အတွင်း၌ပင် ဥရောပ တိုက်သားတို့သည် ကျန်ရှိနေသော ကမ္ဘာ့ ရေမျက်နှာပြင် ၉၃ ရာခိုင်နှုန်းကို သိရှိလာကြလေသည်။ ဥရောပတိုက်သားတို့သည် အာရှေဗျပြည်ကို ၁၉၀၀ ပြည့်နှစ်ကျော်မှ လုံးလုံးလျားလျား သိရှိလာပြီးလျှင်၊ အာဖရိက အလယ်ပိုင်းကိုမူကား မကြာမီကမှ ကောင်းစွာသိရှိခဲ့ကြလေသည်။ အန္တာတိကတိုက်ကြီး၏ ပထဝီဝင်ကို ၁၉၄၀ ပြည့်နှစ်ကျော်မှ သိရှိခဲ့ကြသည်။ ဒုတိယကမ္ဘာစစ်အတွင်း၌ လူသူအရောက်အပေါက်နည်းသော နေရာများ၏ ပထဝီဝင် ဗဟုသုတကို ပိုမိုသိရှိခဲ့ကြသည်။ ယခုအခါ၌မူ တောင်ကြီးများအကြားတွင် ကွယ်ပျောက်နေသော ချိုင့်ဝှမ်းများ၊ လူသူများနှင့် တကွ အလွန်ဝေးလံသော တောင်ကြီးတောကြီးများကိုပင် လေယာဉ်ပျံဖြင့် ဓာတ်ပုံရိုက်ယူပြီးလျှင် မြေပုံများပေါ်၌ ထင်ရှားစွာ ပြသနိုင်ပြီဖြစ်ခြင်းကြောင့် ပထဝီပညာရှင်တို့သည် ကမ္ဘာ့မြေပုံသစ်ကိုပင် ထုတ်လုပ်နိုင်ခဲ့လေပြီ။

### ပထဝီဝင်၏ သဘောတရား

၁၈ ရာစုနှစ်နောက်ပိုင်းသို့ မရောက်မီ ပထဝီဝင်ကို နည်း ၂ နည်းဖြင့် လေ့လာခဲ့ကြသည်။ တနည်းမှာ တော်လမီ၊ မာ

မှတ်ပေးလေသည်။ သို့ရာတွင် ယခုခေတ်၌ လူတို့သည် လေယာဉ်ဆိပ်များကို မိမိတို့ အလိုရှိသော နေရာများ၌ ဆောက်လုပ်နိုင်ခဲ့ကြပြီ။ ခြောက်သွေ့သော သဲကန္တာရ အရပ်များ၌ပင်လျှင် ရေသွင်းယူ၍ စိုက်ပျိုးလုပ်ကိုင်နိုင်ခဲ့ကြပြီ။ ရာသီဥတုကောင်းမွန်သောဒေသများ၌ အကယ်၍ မြေဆီလွှာမကောင်းပါက ကောင်းအောင် ပြုပြင်ပေးတတ်ကြပြီ။ သဘာဝပတ်ဝန်းကျင်နှင့် လူတို့၏ နေထိုင်လုပ်ကိုင်စားသောက်မှုတို့သည် ယခင်ကကဲ့သို့ပင် တခုနှင့်တခု ဆက်လက်၍ ဆက်စပ်တည်ရှိနေကြသော်ငြားလည်း၊တကြိမ်တခါက သဘာဝတရား၏ ပြုပြင်မှုကို တသွေမတိမ်းလိုက်နာခဲ့ကြရသောလူတို့သည် အသိပညာ တိုးပွားလာသည်နှင့် အမျှ၊ သဘာဝပတ်ဝန်းကျင်ကို တဖြည်းဖြည်းစိုးမိုးပြုပြင်၍ နေထိုင်လာနိုင်ခဲ့ကြလေသည်။

ဤကဲ့သို့လူတို့က သဘာဝပတ်ဝန်းကျင်ကို များစွာပြုပြင်ပြောင်းလဲလာနိုင်ခဲ့ခြင်းကြောင့်လည်း၊ ပထဝီဝင်သည် လူတို့အဖို့ ယခင်ကလောက် အရေးမကြီးတော့ဟု ထင်မြင်လာကြလေသည်။ သဘာဝတရားကိုပြုပြင်နိုင်သော လူတို့၏ စွမ်းရည်ကို ခြီးကျူးထိုက်သည်မှန်ပါ၏။ သို့ရာတွင် လျှင်လှုပ်ခြင်း၊ မီးတောင်ပေါက်ကွဲခြင်းစသည်တို့သည် နှစ်ပေါင်းများစွာက တည်ဆောက်လာခဲ့သော အိုးအိမ်တိုက်တာများ၊ လုပ်ငန်း ဆောင်တာများနှင့်တကွ လူ့ အသက်ပေါင်းအများအပြားကိုပင်လျှင် တခဏခြင်း ပျက်စီးစေနိုင်ပေသည်။ ထိုပြင် ခြောက်သွေ့သော ကန္တာရအရပ်၊ အလွန်မြေသော တန်ဒြာအရပ်၊ ပူအိုက် စိုစွတ်သော အီကွေတာ သစ်တော အရပ်တို့တွင် လူတို့သည် သဘာဝ အခြေအနေကို ပြုပြင်၍ နေထိုင်နိုင်ကြသည်ဟု ဆိုသော်လည်း၊ လေမရှိသော လဗိမာန်တွင်မူကား ကြာရှည်စွာ နေနိုင်မည်မဟုတ်ချေ။ ထို့ကြောင့် ပတ်ဝန်းကျင် အခြေအနေများကို လူတို့သည် မည်မျှလောက်ပင် ပြုပြင် ပြောင်းလဲနိုင်ကြသည် ဆိုစေကာမူ၊ ပထဝီဝင်သည် လူ့လုပ်ငန်း ဆောင်တာများကို အစဉ် ထာဝရ သတ်မှတ်ပေးနေပေလိမ့်ဦးမည် ဖြစ်ပေသည်။

## ပထဝီဝင် ဗဟုသုတ တိုးပွားလာပုံ

လူတို့ အရပ်တပါးသို့ စတင် ခရီးထွက်သည့် အချိန်မှစ၍၊ ပထဝီဝင် ဗဟုသုတ တိုးပွားလာခဲ့သည်။ ကမ်းခြေအနီးတွင် နေထိုင်သော လူရိုင်းတို့သည် တောင်ပေါ် အရပ်သို့ သွားရောက်၍၊ တောင်ပေါ် မုဆိုးများထံမှ သားရေများကို ယင်းတို့ ယူဆောင်သွားသော ဆားများဖြင့် လဲလှယ်ခဲ့ကြသည်။ ဤကဲ့သို့ သွားရောက် လည်ပတ်ခြင်းဖြင့်၊ မိမိတို့နှင့် နေပုံထိုင်ပုံ စရိုက် သဘာဝချင်း မတူသောသူများ၏ အကြောင်းကို သိရှိလာကြသည်။ ဤနည်းဖြင့် လူတို့၏ ပထဝီဝင် ဗဟုသုတ တဖြည်းဖြည်း တိုးပွားလာခဲ့လေသည်။

ဂရိလူမျိုးတို့သည် ပထဝီဝင်ကို ပဌမဆုံး စတင် လေ့လာသူများ ဖြစ်ကြသည်။ မိမိတို့ နေထိုင်သော တိုင်းပြည်အနီးရှိ ပင်လယ်ကမ်းရိုးတန်းများကို သိရှိ၍၊ မြေပုံများဖြင့် မှတ်သားခဲ့ကြသည်။ မြေထဲပင်လယ်ကို ရွက်လှေကြီးများဖြင့် ဖြတ်သန်း၍၊ အာဖရိကတိုက် အတွင်းသို့ ကုန်းကြောင်းခရီးဖြင့် ဝင်ရောက်ခဲ့ကြသည်။ ဂရိ ပထဝီပညာရှင် အာရတိုးစသနီး ဆိုသူက ကမ္ဘာသည် အဝန်းမိုင် ၂၅,၀၀၀ ရှိသည်ဟု ဘီစီ ၂၀၀ လောက်ကပင် တွက်ချက်တင်ပြခဲ့သည်။ ထိုဂရိလူမျိုးတို့သည် အယ်လက်ဇန္ဒာဘုရင်ကြီး လက်ထက်၌ အိန္ဒိယမြောက်ပိုင်း အိန္ဒုလွင်ပြင်သို့ပင် ရောက်ရှိခဲ့ကြလေသည်။ အီဂျစ် လူမျိုးနှင့် ဖိနီရှန်လူမျိုးတို့သည် ဂရိလူမျိုးတို့ထက် အလျင် ကုန်းလမ်း၊ ရေလမ်း ခရီးဖြင့် နယ်ချဲ့ခဲ့ကြသည် မှန်၏။ သို့ရာတွင် ဂရိလူမျိုးတို့ကသာ လူအများ၏ နေထိုင် လုပ်ကိုင် စားသောက်မှုကွဲပြား ခြားနားပုံကို သိလိုကြသောကြောင့်၊ မိမိတို့ တွေ့မြင်သမျှကို ရေးယူ မှတ်သားခဲ့ကြသည်။ ဤအချက်ကြောင့်ပင် ထိုဂရိလူမျိုးတို့ကို ပဌမဆုံး ပထဝီ ပညာရှင်များဟု ကျွန်ုပ်တို့ ခေါ်ဝေါ်ကြခြင်း ဖြစ်သည်။ ရောမလူမျိုးတို့သည် မြေပုံကို အများဆုံး စတင် အသုံးပြုကြသူများ ဖြစ်သည်။ ယင်းတို့သည် ပင်လယ်နှင့် မြို့များ၏ အကွာအဝေးကို တိုင်းတာပြီးလျှင် မြေပုံတွင် တိကျ မှန်ကန်စွာ ထည့်သွင်းပေးခဲ့ကြလေသည်။

ဂရိလူမျိုး ပထဝီ ပညာရှင် စတြားဗိုး (၆၄ ဘီစီ—၂၀ အေဒီ) ရေးသားခဲ့သော စာမူ အားလုံးသည် ထိုအချိန်အခါက သိရှိခဲ့သော ကမ္ဘာ အကြောင်းကို ဖော်ပြထားခြင်းကြောင့် အစိုးရ အရာရှိများ၊ စစ်သေနာပတိများအတွက် များစွာ အသုံးဝင်လေသည်။ တော်လမီ (၁၂၇—၁၅၁ အေဒီ) သည် ဂရိ ပထဝီဝင် ပညာရှင်များ ရှာဖွေစုဆောင်းခဲ့သော ပထဝီဝင်များကို စုပေါင်း ရေးသားခဲ့သည်။ မြေပုံများကိုလည်း လတ္တီတွဒ်၊ လောင်ဂျီတွဒ် မျဉ်းများဖြင့် ရေးဆွဲနိုင်ရန် အားထုတ်ခဲ့သည်။ ပထဝီဝင်ကို လေ့လာရာ၌ တကမ္ဘာလုံးကိုသော်၎င်း၊ တစိတ်တဒေသကိုသော်၎င်း၊ ဒေသတခုခုကိုသော်၎င်း ခွဲခြား၍ လေ့လာနိုင်ကြောင်းကို တော်လမီက စတင် ဖော်ပြခဲ့သည်။ (တော်လမီ — ရှု။)

ဤကဲ့သို့ ဂရိနှင့် ရောမ လူမျိုးတို့ စတင် ရှာဖွေစုဆောင်းခဲ့သော ပထဝီဝင် ဗဟုသုတများသည် အလယ် ခေတ်ဦးပိုင်းလောက်တွင် များစွာ ပျောက်ကွယ် ဆုံးရှုံးခဲ့ကြသည်။ ထိုအချိန်အခါ၌ အာရေဗျနှင့် အာဖရိက မြောက်ပိုင်းရှိ အာရပ် လူမျိုးတို့ကသာလျှင် ပထဝီဝင်ကို အတော်အတန်

လေ့လာခဲ့ကြသည်။ အာရပ် လူမျိုးတို့သည် အိန္ဒိယနိုင်ငံ၊ တရုပ်နိုင်ငံ၊ အာဖရိက အရှေ့ ကမ်းခြေ အရပ်များသို့ ရောက်အောင် ကူးသန်း ရောင်းဝယ်ခဲ့ကြသောကြောင့် ၁၀ ရာစုနှစ် မတိုင်မီကပင် အိန္ဒိယ သမုဒ္ဒရာနှင့် အာဖရိက အတွင်းပိုင်း အကြောင်းများကို အတော်အတန် သိရှိခဲ့ကြသည်။ ကမ္ဘာလုံးသည့် အကြောင်းကို ဂရိ လူမျိုးတို့ နည်းတူ သိရှိခဲ့ကြသည်။

အာရပ် ပထဝီ ပညာရှင်တို့သည် ဂရိနှင့် ရောမ လူမျိုးများ ရေးသားခဲ့သော ပထဝီဝင်ကို ဆက်လက် လေ့လာပြီးလျှင်၊ မိမိတို့ ရရှိထားနှင့်သော ဗဟုသုတများနှင့် ပေါင်းစပ် လေ့လာကြလေသည်။ သဘာဝ ပထဝီဝင်နှင့် သမိုင်း ပထဝီဝင်ကို အထူး ဂရုပြု၍ လေ့လာသော်လည်း မြေပုံဆွဲ အတတ်ကိုမူ မကျွမ်းကျင်ကြပေ။

ထိုအချိန်အခါမှစ၍ ဥရောပ အနောက်ပိုင်းသားများ တဖြည်းဖြည်း ခရီးထွက်ခဲ့ကြသည်။ အချို့သည် ခရစ်တော် ဖွားမြင်ရာ ပယ်လက်စတိုင်းပြည်သို့ သွားရောက်ပြီးလျှင် မိမိတို့၏ ခရီးစဉ်ကို မြေပုံများဖြင့် မှတ်သားထားခဲ့ကြသည်။ ၁၂၇၁ ခုနှစ်တွင် မာကိုပိုလိုသည် ကသေးခေါ် တရုပ်ပြည်သို့ ကုန်းကြောင်း ခရီးဖြင့် ရောက်ရှိခဲ့သည်။ မာကိုပိုလို အကြောင်း ရေးသားထားသော စာအုပ်တွင် မာကိုပိုလို၏ မှတ်သားလောက်သော စွန့်စားခန်းများကို အကျဉ်းသား မိတ်ဆွေ တဦးက ရေးသား ဖော်ပြထားလေသည်။ ဤစာအုပ်တွင် ပါရှိသော အကြောင်းအရာ အများအပြားသည် ပထဝီဝင် အကြောင်းများ ဖြစ်ခြင်းကြောင့်၊ ယင်းကို ပထဝီဝင် စာအုပ်ဟု ခေါ်ဆိုထိုက်သည်။ (ပိုလို၊ မာကို — ရှု။)

၁၄ ရာစုနှစ်သို့ ရောက်သည့်တိုင်အောင်ပင် ဥရောပ တိုက်သားတို့၏ ပထဝီဝင် ဗဟုသုတသည် အလွန်နည်းသေးသည်။ ထိုအချိန်အခါအထိ ကမ္ဘာ့ ရေမျက်နှာပြင်၏ ၇ ရာခိုင်နှုန်းလောက်ကိုသာ သိရှိကြသေးသည်။ ၁၄ ရာစုနှစ်နှင့် ၁၅ ရာစုနှစ်လောက်တွင် ပေါ်တူဂီနှင့် စပိန် လူမျိုးတို့သည် သမုဒ္ဒရာကြီးများကို စတင်၍ ဖြတ်သန်း လှည့်လည်ခဲ့ကြသည်။ ဗက်စကိုဒါဂါးမသည် ၁၄၉၈ ခုနှစ်တွင် အာဖရိကတိုက်ကို ပတ်၍ အိန္ဒိယပြည်သို့ ရောက်ရှိခဲ့သည်။ (ဗက်စကိုဒါဂါးမ — ရှု။) ကိုလံဗပ်သည် အမေရိကတိုက်ကို ၁၄၉၂ ခုနှစ်တွင် စတင်တွေ့ရှိလေသည်။ (ကိုလံဗပ်၊ စီ — ရှု။) ထိုသူတို့ နောက်တွင် အင်္ဂလိပ်၊ ဒပ်ချနှင့် ပြင်သစ် လူမျိုးတို့သည် ပင်လယ် ခရီးဖြင့် စတင် နယ်ချဲ့လာခဲ့ကြသည်။ ပေါ်တူဂီ လူမျိုး မဂျဲလင် ဆိုသူသည် ကမ္ဘာကို ရေလမ်း ခရီးဖြင့် လှည့်ပတ်ရန် ဦးဆောင် ထွက်ခဲ့သော်လည်း လမ်းခရီးတွင် အသတ်ခံရသည်။ (မဂျဲလင် — ရှု။) များမကြာမီ အင်္ဂလိပ် လူမျိုး ဆာ ဖရန်းစစ်ဒရိတ်သည်



ခရစ်မပေါ်မီနှစ်ပေါင်းငါးရာအတွင်းက ဗက်ဗီလုံး နိုးယားနိုင်ငံတွင် ရေးသားဖော်ပြထားသော ကမ္ဘာ့မြေပုံ

ကမ္ဘာကို ရေလမ်းခရီးဖြင့် လှည့်လည်ခဲ့လေသည်။ (ဒရိတ်ဆာဖရန်းစစ် — ရှု။) နှစ်ပေါင်း ၁၀၀ အတွင်း၌ပင် ဥရောပတိုက်သားတို့သည် ကျန်ရှိနေသော ကမ္ဘာ့ ရေမျက်နှာပြင် ၉၃ ရာခိုင်နှုန်းကို သိရှိလာကြလေသည်။ ဥရောပတိုက်သားတို့သည် အာရေဗျပြည်ကို ၁၈၀၀ ပြည့်နှစ်ကျော်မှ လုံးလုံးလျားလျား သိရှိလာပြီးလျှင်၊ အာဖရိက အလယ်ပိုင်းကိုမူကား မကြာမီကမှ ကောင်းစွာသိရှိခဲ့ကြလေသည်။ အန္တာတိကတိုက်ကြီး၏ ပထဝီဝင်ကို ၁၈၄၀ ပြည့်နှစ်ကျော်မှ သိရှိခဲ့ကြသည်။ ဒုတိယကမ္ဘာစစ်အတွင်း၌ လူသူအရောက်အပေါက်နည်းသော နေရာများ၏ ပထဝီဝင် ဗဟုသုတကို ပိုမိုသိရှိခဲ့ကြသည်။ ယခုအခါ၌မူ တောင်ကြီးများအကြားတွင် ကွယ်ပျောက်နေသော ချိုင့်ဝှမ်းများ၊ လူသူများနှင့် တကွ အလွန်ဝေးလံသော တောင်ကြီးတောကြီးများကိုပင် လေယာဉ်ပျံဖြင့် ဓာတ်ပုံရိုက်ယူပြီးလျှင် မြေပုံများပေါ်၌ ထင်ရှားစွာ ပြသနိုင်ပြီဖြစ်ခြင်းကြောင့် ပထဝီပညာရှင်တို့သည် ကမ္ဘာ့မြေပုံသစ်ကိုပင် ထုတ်လုပ်နိုင်ခဲ့လေပြီ။

## ပထဝီဝင်၏ သဘောတရား

၁၈ ရာစုနှစ်နောက်ပိုင်းသို့ မရောက်မီ ပထဝီဝင်ကို နည်း ၂ နည်းဖြင့် လေ့လာခဲ့ကြသည်။ တနည်းမှာ တော်လမီ၊ မာ

ကေတောတို့ ပြုလုပ်သကဲ့သို့ ကမ္ဘာ၏ ပုံပန်းသဏ္ဌာန်နှင့် အရွယ်ပမာဏကို လေ့လာခြင်းဖြစ်၍၊ အခြားတနည်းမှာ စတြာဘိုး၊ မန်းစတာတို့ ပြုလုပ်သကဲ့သို့ တိုင်းပြည်နှင့်အရပ်ဒေသများ၏ မှတ်သားလောက်သော အကြောင်းအရာတို့ကို လေ့လာခြင်းဖြစ်သည်။ ပဌမလေ့လာနည်းကို မြေပုံဆွဲ အတတ်လေ့လာသူများက ဆက်လက်ကျင့်သုံးခဲ့ကြသည်။ဒုတိယ နည်းမှာမူကား ပထဝီဝင်၏ အဓိကလုပ်ငန်းအဖြစ်ဖြင့် ဆက်လက်တည်ရှိလာခဲ့လေသည်။

ဂျာမနီပြည်တွင် ၁၇ ရာစုနှစ်နောက်ပိုင်းလောက်၌ ပေါ်ပေါက်ခဲ့သော ဟမ်းဗိုးနှင့် ရစ်တာတို့ လက်ထက်မှစ၍ ပထဝီဝင် အခြေခံသဘောတရားမှာ လုံးဝ ပြောင်းလဲလာခဲ့လေသည်။ ထိုပညာရှင် ၂ ဦးလက်ထက်မှစ၍ ထွန်းကားခဲ့သော ပထဝီဝင်၏ အဓိကရည်ရွယ်ချက်မှာ သီးခြားတည်ရှိနေသော ဒေသများ၏ အခြင်းအရာများ တခုနှင့်တခု ဆက်စပ်တည်ရှိနေကြပုံ၊ စုပေါင်းဖြစ်ပေါ်ကြပုံ၊ ကမ္ဘာပေါ်ရှိဒေသများ တခုနှင့်တခုတူညီကြပုံ၊ ကွဲပြားခြားနားကြပုံ စသည်တို့ကို အကျိုးအကြောင်းနှင့် တကွ သိရှိနားလည်အောင် လေ့လာခြင်းဖြစ်သည်။ ထိုအချိန်အခါမှစ၍ ပထဝီဝင်သည် ကုလားထိုင်ပေါ်တွင်ထိုင်ကာ အထင်ဖြင့် ရော်ရမ်းမှန်းဆ၍ လေ့လာသောပညာ မဟုတ်တော့ဘဲ၊ ပြင်ပတွင် တကယ်ဖြစ်ပေါ်နေသော အခြင်းအရာတို့ကို ကိုယ်တွေ့မျက်မြင်ကြည့်ရှု လေ့လာသော ပညာတရပ် အဖြစ်ဖြင့် ထွန်းကားလာခဲ့လေသည်။ ယင်းကဲ့သို့ ကွင်းဆင်းလေ့လာချက်များကို မြေပုံတွင် မှတ်သားထည့်သွင်းခြင်းဖြင့် ပထဝီဝင်သည် ယခင်ကထက် တိကျ မှန်ကန်လာခဲ့သည်။ဟမ်းဗိုးသည် ပထဝီဝင်ကိုလေ့လာရာ၌ တွေ့ရှိရသော အခြင်းအရာများကို တခုစီခွဲခြား၍ စနစ်တကျ လေ့လာသည်။ ဤလေ့လာနည်းမျိုးကို အကြောင်းအရာအလိုက် လေ့လာနည်းဟု ခေါ်သည်။ရစ်တာကမူကား၊ ဒေသတခုတွင် ဖြစ်ပေါ်နေသောအခြင်းအရာများကို တသီးတခြားစီမလေ့လာဘဲ၊ ယင်းတို့အားလုံးကိုခြုံ၍ တခုနှင့်တခု အပြန်အလှန် ဆက်စပ်တည်ရှိနေပုံကို လေ့လာသည်။ဤကဲ့သို့သော လေ့လာနည်းမျိုးကို ဒေသအလိုက်လေ့လာနည်းဟု ခေါ်သည်။ စင်စစ်အားဖြင့် ထိုပညာရှင် နှစ်ဦးသည် နှစ်နည်းစလုံးဖြင့်ပင် လေ့လာခဲ့ကြပေ၏။ အထူး အလေးဂရုပြုပုံ၌သာ ကွာခြားကြသည်။ ခေတ်မှီပညာရှင်တို့ကလည်း ဤကဲ့သို့ အကြောင်းအရာအလိုက် လေ့လာနည်း၊ ဒေသအလိုက် လေ့လာနည်းဟူ၍ မခွဲခြားဘဲ၊ ထိုနည်း ၂ မျိုးကို ပေါင်းစပ်၍ လေ့လာရန် လိုအပ်သည်ဟု အသိအမှတ်ပြုကြသည်။

၁၉ ရာစုနှစ် အလယ်လောက်မှစ၍ကား၊ ပထဝီဝင်သည် အရပ်ဒေသများ၏ အကြောင်းကို ဗဟုသုတ အဖြစ်လောက်သာဖော်ပြသည့် ပညာတရပ် အနေဖြင့် မတည်ရှိတော့ဘဲ၊ ဆောင်ရွက်ရန် ရည်မှန်းထားသည့် ကိစ္စတခုခုနှင့် သက်ဆိုင်သော အကြောင်းအရာများကို စနစ်တကျ ဖွဲ့စည်းလေ့လာသော ပညာတရပ် အဖြစ်ဖြင့် ထွန်းကားလာခဲ့လေသည်။

ပထဝီဝင်ကို လူကြီးများသာမက ကလေးများပင် စိတ်ပါဝင်စားစွာဖြင့် လေ့လာနိုင်ကြသည်။ဤအကြောင်းကြောင့်ပင် ပထဝီဝင်ကို မူလတန်းကျောင်းများမှစ၍ တက္ကသိုလ်များအထိ ဘာသာတရပ်အဖြစ်ဖြင့် ဆက်လက်သင်ကြားလေ့လာကြခြင်း ဖြစ်သည်။

ပထဝီဝင် အမျိုးမျိုးရှိ၏။ မူလတန်းနှင့် မူလတန်းလွန်ကျောင်းများတွင် သင်ကြားရသော ပထဝီဝင်သည် အများအားဖြင့် ကမ္ဘာအရပ်ရပ်၌ မြေပြင်လက္ခဏာများ မည်ကဲ့သို့တည်ရှိကြပုံ၊ လူတို့ မည်ကဲ့သို့ နေထိုင်လုပ်ကိုင်စားသောက်ကြပုံ စသည်တို့ကို အကျိုးအကြောင်းနှင့် လေ့လာသည်။ ပိုမိုအဆင့်အတန်းမြင့်လာသောအခါ ပထဝီဝင်ကို သဘာဝပထဝီဝင်၊ မနုဿပထဝီဝင်၊ စီးပွားရေးပထဝီဝင်၊ ဒေသန္တရပထဝီဝင်စသည်ဖြင့်ခွဲခြား၍ အသေးစိတ်လေ့လာကြသည်။ သို့ရာတွင် ယင်းတို့အားလုံးသည် သဘာဝပထဝီနှင့် လူ၊ သစ်ပင်၊ တိရစ္ဆာန်တို့ ဆက်သွယ်တည်ရှိနေကြပုံ၊ တခုနှင့်တခု အားထားမှီခိုနေကြပုံ စသည်တို့ကို အဓိကထား၍ လေ့လာကြသည်ချည်း ဖြစ်သည်။

## ပထဝီဝင်၏ အစိတ်အပိုင်းများ

ပထဝီဝင်သည် ကျယ်ဝန်းသော ပညာတရပ် ဖြစ်၍၊ လွယ်ကူစိမ့်သောငှါ အထက်တွင် ဖော်ပြခဲ့သည့် အတိုင်း သဘာဝ ပထဝီဝင်၊ မနုဿပထဝီဝင် စသည်ဖြင့် အစိတ်အပိုင်းများပြုလုပ်၍ ခွဲခြားလေ့လာကြသည်။ ပုံစံအားဖြင့် သဘာဝပထဝီသည် သက်ရှိ သတ္တဝါတို့အပေါ် မည်ကဲ့သို့ ပြုပြင်နိုင်ကြောင်းကို အသေအချာ ကြည့်ရှုစစ်ဆေးခြင်းဖြင့် ပထဝီဝင်ကို လေ့လာကြသည်။ ဤကဲ့သို့ လေ့လာသော ပထဝီဝင်မျိုးကို သဘာဝပထဝီဝင်ဟုခေါ်၏။ တဖန်အပြန်အလှန်အားဖြင့် သက်ရှိသတ္တဝါများနှင့် ယင်းတို့၏ အပြုအမူများက သဘာဝပထဝီကို မည်ကဲ့သို့ ပြုပြင်နိုင်ကြောင်းကို စူးစမ်း လေ့လာခြင်းဖြင့်လည်း ပထဝီဝင်ကို လေ့လာကြသည်။ ဤပထဝီဝင်မျိုးကို ဇီဝပထဝီဝင်ဟုခေါ်၏။

## သဘာဝပထဝီဝင်

သဘာဝပထဝီဝင်ကို လေ့လာရာ၌ အချို့ပညာရှင်တို့သည် တောင်တန်းကြီး၊ ကုန်းပြင်မြင့်၊ လွင်ပြင် အစရှိသည့် ကုန်းမြေလက္ခဏာများကို ဂရုစိုက်၍ လေ့လာကြသည်။ အချို့ကမူ သမုဒ္ဒရာကြီးများ၊သို့မဟုတ် ရာသီဥတု၊မိုးလေဝသစသည်တို့ကို အသေးစိတ်၍ လေ့လာကြသည်။ အချို့ကလည်း ကမ္ဘာပေါ်ရှိနေရာများကို အတိအကျ မှတ်သားပြနိုင်ရန်

လေ့လာကြ၏။ ယင်းသည့် အစိတ်အပိုင်းတခုစီသည် သိပ္ပံပညာရပ်များအဖြစ်ဖြင့် သီးခြားတည်ရှိနေကြခြင်းကြောင့် ယင်းတို့တွင်လည်း သီးခြားအမည်များ ရှိကြ၏။

ဘူမိရုပ်သွင်ပညာသည် ကုန်းမြေသဏ္ဌာန်များကို လေ့လာသောပညာရပ် ဖြစ်သည်။ တနည်းအားဖြင့် ကမ္ဘာ့မျက်နှာပြင် အကြောင်းကို ဖော်ပြ၍၊ ယင်းတို့စတင်ဖြစ်ပေါ်လာကြပုံ၊ ပြောင်းလဲလာခဲ့ကြပုံ စသည်တို့ကို ရှင်းလင်းဖော်ပြသော ပညာရပ်ဖြစ်သည်။ ဤအကြောင်းများကို ပေါက်မြောက်စွာ လေ့လာနိုင်ရန်အတွက် ကမ္ဘာပေါ်ရှိကျောက်များ၏ အနေအထားနှင့် ဖွဲ့စည်းပုံကိုသာမက၊ မြေမျက်နှာပြင်ကို ပြုပြင်ပြောင်းလဲစေနိုင်သော ဥတုချေဖျက်ခြင်း၊ တိုက်စားခြင်း၊ အပေါ်ယံမြေလွှာလှုပ်ရှားခြင်း၊ မီးတောင်လှုပ်ရှားခြင်း စသည်တို့ကိုပါ သိနားလည်ထားရန်လိုအပ်လှပေသည်။ ဤအချက်ကြောင့်ပင် ဘူမိရုပ်သွင်ပညာသည် ဘူမိဗေဒနှင့် များစွာ ဆက်စပ်နေသည်။ ဤပညာသည် တောင်ကြီးများ မြင့်တက်လာခဲ့ကြပုံ၊ လေ၊ ရေစီး၊ရေခဲမြစ်စသည်တို့၏တိုက်စားခြင်းကြောင့်၊ထိုတောင်ကြီးများ တဖြည်းဖြည်း ယိုယွင်းပျက်စီးသွားကြရပုံများကို ဖော်ပြသည်။ ထို့ပြင် မြင့်မားသောတောင်များပေါ် မှ တိုက်စားချလိုက်သော မြေသားများ နိမ့်သောအရပ်များတွင် စုပုံခြင်းဖြင့် လွင်ပြင်များဖြစ်ပေါ်လာကြပုံ၊ပင်လယ်တွင်းသို့ စီးဝင်သောမြစ်များ ရေစီးနှေးလာပြီးလျှင် မြစ်ညာမှ ယူဆောင်လာခဲ့သော အနည်များကို မြစ်ဝ၌ စုပုံချထားခြင်းကြောင့် မြစ်ဝကျွန်းပေါ်များ ဖြစ်လာကြပုံ စသည်တို့ကိုလည်း ရှင်းလင်းဖော်ပြသည်။ ဤကဲ့သို့ကမ္ဘာ့မျက်နှာပြင်ကို ပြောင်းလဲ ဖြစ်ပေါ်စေသော ဖြစ်စဉ်များကို လေ့လာခြင်းသည် ဘူမိရုပ်သွင် ပညာရှင်တို့၏ အဓိကလုပ်ငန်းဖြစ်၏။

## သင်္ချာပထဝီဝင်

ကမ္ဘာပေါ်ရှိ တည်နေရာများကို အတိအကျ ဖော်ပြနိုင်ရန် ပထဝီပညာရှင်တို့သည် ကမ္ဘာ့မျက်နှာပြင်ကို မျဉ်းကြောင်းများဖြင့် သတ်မှတ်ထားကြသည်။ထိုမျဉ်းကြောင်းများကို လတ္တီတွဒ်နှင့် လောင်ဂျီတွဒ် မျဉ်းများဟု ခေါ်သည်။ လတ္တီတွဒ်မျဉ်းများသည် ကမ္ဘာ့မြေပုံပေါ်၌ အရှေ့နှင့် အနောက် မျဉ်းပြိုင် တည်ရှိကြလျက်၊ အီကွေတာ တောင်ဖက်နှင့် မြောက်ဖက်တွင် ရှိကြသော နေရာများ၏ အကွာအဝေးကို ပြသည်။ ထိုမျဉ်းများသည် တခုနှင့်တခုမျဉ်းပြိုင် တည်ရှိနေကြခြင်းကြောင့် ယင်းတို့ကို တခါတရံ မျဉ်းပြိုင်များဟုလည်း ခေါ်ကြသည်။ လောင်ဂျီတွဒ်မျဉ်းများသည် မြောက်ဝင်ရိုးစွန်းနှင့် တောင်ဝင်ရိုးစွန်းတို့ကို ဆက်စပ်ထားသော စက်ဝန်းခြမ်းများဖြစ်ကြ၏။ ယင်းတို့သည် ဂရင်းနစ် အရှေ့ဖက်၊ သို့မဟုတ် အနောက်ဖက်တွင် တည်ရှိကြသောနေရာများ၏အကွာအဝေးကို ဖော်ပြသည်။ လောင်ဂျီတွဒ်တကြောင်းတည်းပေါ်တွင် ရှိကြသော နေရာများသည် တချိန်တည်းတွင် မွန်းတည့်ကြသောကြောင့် ယင်းတို့ကို တခါတရံ မွန်းတည့်မျဉ်းများဟုလည်း ခေါ်ကြသည်။ ကမ္ဘာပေါ်ရှိ မြို့တမြို့၏ တည်နေရာကို လတ္တီတွဒ်၊ လောင်ဂျီတွဒ်များဖြင့်အတိအကျဖော်ပြနိုင်သည်။ ပုံစံအားဖြင့် လှိုင်မြစ်ပေါ်ရှိ ထန်းတပင်မြို့ကလေး၏တည်နေရာသည် လတ္တီတွဒ် ၁၇ ဒီဂရီ (မြောက်)၊ လောင်ဂျီတွဒ် ၉၆ ဒီဂရီ (အရှေ့)တွင် တည်ရှိသည်ဟုဖော်ပြပါက၊ ဤမြို့ကိုကျောင်းသုံး "ပြည်ထောင်စုမြန်မာနိုင်ငံနှင့် ကမ္ဘာ့မြေပုံ" စာအုပ် စာမျက်နှာ ၃၀ တွင် အလွယ်တကူ ရှာဖွေတွေ့ရှိနိုင်သည်။

ယေဘုယျအားဖြင့် သင်္ချာပထဝီဝင်သည် ကမ္ဘာ့ပုံသဏ္ဌာန်အကျယ်အဝန်း၊ အချိန်တို့ကိုသာမက ကမ္ဘာပေါ်ရှိ တည်နေရာများကိုလည်း အတိအကျဖော်ပြသော ပညာရပ်ဖြစ်၏။

ရာသီဥတုပညာ၊ မိုးလေဝသပညာ၊ အဏ္ဏဝဗေဒ (သမုဒ္ဒရာ အကြောင်းကို လေ့လာသောပညာ) တို့သည်လည်း သဘာဝ ပထဝီဝင်မှ ခွဲထွက်လာသော ပထဝီဝင်ပညာရပ်များ ဖြစ်ကြ၏။အဏ္ဏဝဗေဒသည် သမုဒ္ဒရာမျက်နှာပြင်ရှိ ရေစီးကြောင်း၊ ဒီရေအတက်အကျ၊ ပင်လယ်လှိုင်း၊သမုဒ္ဒရာ အနက်ပိုင်းတို့အကြောင်းကို လေ့လာသောပညာရပ်ဖြစ်သည်။

မိုးလေဝသပညာသည် မိုးလေဝသအခြေအနေ၊ လေထုအပူချိန်၊ လေထုဖိအား၊ တိုက်လေ၊ တိမ်၊ မိုး၊ ဆီးနှင်းအစရှိသည်တို့ကို လေ့လာသော ပညာရပ် ဖြစ်သည်။

ရာသီဥတုပညာမှာ ပျမ်းမျှမိုးလေဝသ အခြေအနေကို လေ့လာသောပညာ ဖြစ်သည်။

## ဇီဝပထဝီဝင်

ရုက္ခပထဝီဝင်။ ။သစ်ပင် တို့သည် နေရာအနှံ့အပြားတွင် ပေါက်ရောက်ကြ၏။ သို့ရာတွင် ဒေသအသီးအသီး၌ ရေမြေ၊ ရာသီဥတုတို့ကိုလိုက်၍ အမျိုးမျိုးပေါက်ရောက်ကြသည်။ ပုံစံအားဖြင့် မြန်မာနိုင်ငံ မြစ်ဝကျွန်းပေါ် ရေငန်ပိုင်းများ၌ ကနစိုနှင့် လမုပင်များ အများအပြားပေါက်ရောက်ကြသည်။မိုးနည်းသောမြန်မာနိုင်ငံအလယ်ပိုင်း၌ထနောင်း၊ ရှားစောင်းနှင့် ဆူးချုံပင်များ ပေါများသည်။ ပေ ၄,၀၀၀ ကျော်မြင့်သော ရှမ်းကုန်းပြင်မြင့်နှင့် တောင်ပေါ်အရပ်များ၌ ထင်းရှူးသစ်တောများ ပေါက်ရောက်ကြသည်။ မြန်မာနိုင်ငံ မြေနုမြစ်ဝကျွန်းပေါ် အရပ်များ၌ ဆန်စပါးကောင်းစွာဖြစ်ထွန်းသည်။ မြန်မာနိုင်ငံ အလယ်ပိုင်းအရပ်များတွင်မူကား ရေတိ၊ ကြက်သွန်၊ နှမ်း၊ မြေပဲ၊ ဝါ စသည်တို့ကောင်းစွာ ပေါက်ရောက်ကြသည်။ ဤကဲ့သို့ သစ်ပင်နှင့်သီးနှံပင်များ ဒေသအလိုက် ခြားနားစွာပေါက်ရောက်ကြ

## ပထဝီဝင်ပညာကို လူတို့အသုံးချပုံ။





သင်္ချာ ပထဝီဝင်

ရေကြောင်း၊ လေကြောင်း သွားလာခြင်းအတွက် မြေပုံများနှင့် ဇယားပုံများ။






မြေမျက်နှာပြင် ပထဝီဝင်၊

ကုန်းမြေသဏ္ဌာန်များ၏ မြေပုံများနှင့် ဇယားပုံများ။






အဏ္ဏဝဗေဒ

သမုဒ္ဒရာအနက်၊ ရေစီးကြောင်းနှင့် ဒီရေတို့၏ မြေပုံများနှင့် ဇယားပုံများ။






မိုးလေဝသပညာ

မိုးလေဝသ၊ လေနှင့် အပူချိန်တို့၏ မြေပုံနှင့် ဇယားပုံများ။






ရာသီဥတုပညာ

ပျမ်းမျှ မိုးလေဝသ အခြေအနေပြ မြေပုံများနှင့် ဇယားပုံများ။

ခြင်းသည် ရာသီဥတု ကွဲပြားခြားနားမှု တခုတည်းကြောင့်သာမဟုတ်၊ မြေဆီလွှာမတူခြင်းကြောင့်လည်း ဖြစ်သည်။ ရာသီဥတုနှင့် ရေမြေကိုလိုက်၍၊ သစ်ပင်၊ သီးနှံပင်များ ဖြစ်ထွန်းခြင်းကို စံနစ်တကျ လေ့လာခြင်းသည် ရုက္ခပထဝီဝင်ပညာရှင်တို့၏ အဓိကလုပ်ငန်း ဖြစ်သည်။ ကမ္ဘာပေါ်ရှိ လူနှင့် တိရစ္ဆာန်အားလုံးတို့သည် သစ်ပင်နှင့် သီးနှံများအပေါ်တွင် တိုက်ရိုက်သော်၎င်း၊သွယ်ဝိုက်သောနည်းဖြင့်သော်၎င်း မှီခိုအားထားနေကြရသောကြောင့် ရုက္ခပထဝီဝင်၏ အရေးကြီးပုံမှာ အထင်အရှားပင် ဖြစ်တော့သည်။

တိရစ္ဆာနပထဝီဝင်။ ။တိရစ္ဆာန်တို့သည်ကား သစ်ပင်များလောက် ရာသီဥတုအပေါ်တွင် လုံးလုံးလျားလျား အမှီပြု၍ မနေကြချေ။ ပတ်ဝန်းကျင်အခြေအနေ ဆိုးရွားလာလျှင်၊ သင့်တော်ရာ အရပ်သို့ ပြောင်းရွှေ့နေနိုင်ကြသည်။ သစ်ပင်နှင့် တိရစ္ဆာန်တို့အတွက် ထင်ရှားစွာဖြစ်ပေါ်နေသော ရာသီဥတုရပ်ဝန်းကြီးများရှိကြသည်။အလွန်အေးသောအာတိတ်ဒေသရှိ တိရစ္ဆာန်များ၊ အပင်များသည် အပူပိုင်းဒေသတိရစ္ဆာန်များ၊ အပင်များနှင့် များစွာကွာခြားကြသည်။ တိရစ္ဆာန်ရုံများ၌ ဆင်၊ ခြင်္သေ့၊ မျောက်၊ ဝက်ဝံဖြူ (ပိုလာဝက်ဝံ)၊ အာတိတ်မြေခွေးစသည်တို့ကို လှောင်အိမ်များအတွင်း၌ နီးကပ်စွာတွေ့ရသော်လည်း၊ယင်းတို့နေထိုင်ကျက်စားသော မူလသဘာဝရပ်ကွက်တို့တွင်မူကား ထိုကဲ့သို့ နီးကပ်စွာ မတွေ့ရပေ။ ရှေးအခါက တိရစ္ဆာန် အမျိုးမျိုးကို ယခုအခါထက် ပိုမိုကျယ်ပြန့်သော နေရာများ၌တွေ့ရသည်။

ရာသီဥတုပြောင်းလဲမှုကြောင့်၊သင့်တော်ရာအရပ်သို့အကြိမ်ကြိမ်ပြောင်းရွှေ့နေထိုင်ခဲ့ရသဖြင့်၊ တိရစ္ဆာန်များ ယခုကဲ့သို့ ပျံ့နှံ့လာခဲ့ပုံရသည်။ သို့ရာတွင် ရာသီဥတုအကြောင်း တခုတည်းကြောင့် ဤကဲ့သို့ ပျံ့နှံ့နေသည်ဟုကား မဆိုနိုင်ချေ။ ပုံစံအားဖြင့် တောင်အမေရိကတိုက်နှင့်အာဖရိကတိုက်သည် သမုဒ္ဒရာကြီး ခြားလျက် တည်ရှိသော်လည်း၊ ယင်းသည့်တိုက်နှစ်တိုက်တွင်ရှိကြသော တိရစ္ဆာန်မျိုးနွယ်အချို့မှာ တမျိုးနှင့်တမျိုး ဆင်တူယိုးမှားဖြစ်ကြသည်။ အာဖရိကတိုက်နှင့် တောင်အမေရိကတိုက်တို့ရှိ မျောက်များ၊ မိကျောင်းနှင့် မိကျောင်းခေါင်းတိုများ၊ ဒရယ်များ၊ ကျားသစ်များသည် များစွာ မခြားနားလှပေ။ တောင်အမေရိကတိုက်ရှိ လာမာကုလားအုပ်များသည် အာဖရိကတိုက်ရှိကုလားအုပ်များနှင့် ဆင်သည်။ ထိုနည်းအတူပင် မြောက်အမေရိကတိုက်နှင့် ဥရောပတိုက်ရှိ အချို့သစ်ပင်နှင့် တိရစ္ဆာန်တို့သည်လည်း အမျိုးအစားအားဖြင့် တူကြသည်။

တိရစ္ဆာနပထဝီဝင်၏ စိတ်ဝင်စားဖွယ်ကောင်းသော အခြင်းအရာတရပ်မှာ ငှက်နှင့် တိရစ္ဆာန်များ ရာသီအလိုက် ဒေသကူးပြောင်းကာ ကျက်စားနေထိုင်ခြင်းကို လေ့လာခြင်းပင်ဖြစ်သည်။

မနုဿပထဝီဝင်။ ။မည်သည့် ကျောင်းသူကျောင်းသားမဆို၊ သဘာဝအကြောင်းအရာများထက် လူ့အကြောင်းကို ပိုမိုစိတ်ဝင်စားစွာ လေ့လာလိုကြသည်။ ပထဝီပညာရှင်တို့သည် တောင်ထူထပ်သောနေရာများ၊ ကျယ်ပြန့်သောမြစ်ဝှမ်းများ၊ ရွှံ့ညွန်ပေါများသော ကမ်းခြေများကို တွေ့ရှိရသောအခါ ယင်းတို့၏ အကြောင်းသက်သက်ကို လေ့လာရုံမျှမက၊ လူတို့၏ နေထိုင်လုပ်ကိုင်မှုနှင့် ယင်းတို့ မည်ကဲ့သို့ ဆက်စပ်တည်ရှိနေပုံကိုပါ လေ့လာကြသည်။ တောင်တန်းဒေသများသည် လူများသွားရောက်နေထိုင်လုပ်ကိုင် စားသောက်ရန် မကောင်းလှသော်လည်း၊ အဖိုးတန်ရွှေ၊ ငွေအစရှိသော သတ္တုများရှိခြင်းကြောင့်၊ လူအများ လာရောက်နေထိုင်အောင် ဆွဲဆောင်နိုင်ကြသည်။ထို့ကြောင့်တိုင်းပြည်တပြည်၏ ရာဇဝင်တွင် တောင်တန်းများသည် များစွာအရေးပါအရာရောက်ကြောင်းကို သိမြင်နိုင်သည်။ ကျယ်ပြန့်သော မြစ်ဝှမ်းများနှင့် မြစ်ဝကျွန်းပေါ်ဒေသများသည် ဆန်စပါး အစရှိသည့် ကောက်ပဲသီးနှံများကို အမြောက်အမြားစိုက်ပျိုးနိုင်သော နေရာများ ဖြစ်ခြင်းကြောင့် တိုင်းပြည်တွင် လူနေအများဆုံးသော ဒေသများဖြစ်လာ၏။

ယခုအခါ၌ ပထဝီဝင်ကို လေ့လာသူတို့သည် အများအားဖြင့် လူနှင့် သက်ဆိုင်သော အကြောင်းအရာ များကို အထူးဂရုပြု၍ လေ့လာကြသည်။ လူတို့၏ဝတ်ပုံ၊စားပုံ၊ ထုံးစံဓလေ့၊ အလုပ်အကိုင်မှစ၍ လူနေမှုအဆင့်အတန်းကိုပါ ထည့်သွင်း လေ့လာကြသည်။တနည်းအားဖြင့် မနုဿပထဝီဝင်၏ အခြားသော အစိတ်အပိုင်းများသည် လူနှင့်ပတ်ဝန်းကျင်အခြေအနေများ မည်ကဲ့သို့ဆက်စပ်တည်ရှိကြောင်းကို လေ့လာသောပညာရပ်များဖြစ်၍ မနုဿပထဝီဝင်ကို လူမှုရေးရာပထဝီဝင်ဟုပင် ခေါ်ကြသည်။ သို့ရာတွင် လူမှုရေးရာ ပထဝီဝင်ကို လေ့လာသူတို့သည် အထူးသဖြင့် လူဦးရေပျံ့နှံ့တည်ရှိပုံ၊ ပြောင်းရွှေ့နေထိုင်ကြပုံ၊ ပြောင်းလဲလာပုံတို့ကို လေ့လာကြသည်။ ထို့ပြင် ကျေးလက်တောရွာနှင့် မြို့တို့၏ အနေအထား၊ အဆောက်အအုံတို့၏ ပုံသဏ္ဍာန်စသည်တို့သည် ပတ်ဝန်းကျင်ရှုမြော်ခင်းနှင့် မည်ကဲ့သို့ ဆက်စပ်တည်နေကြသည်ကိုလည်း လေ့လာကြ၏။ ကမ္ဘာပေါ်ရှိသဘာဝလမ်းကြောင်းကြီးများ၊ သမုဒ္ဒရာရေစီးကြောင်းများ၊ လေကြောင်းများ၊ တောင်ကြားလမ်းများကို သိရှိနားလည်ထားခြင်းဖြင့် လူများပြောင်းရွှေ့နေထိုင်ကြပုံ၊ ယင်းတို့၏ ယဉ်ကျေးမှု သို့မဟုတ် အယူအဆများပျံ့နှံ့ လာပုံစသည်တို့ကို လေ့လာရာ၌ များစွာအထောက်အပံ့ ရရှိနိုင်သည်။

သက်ရှိသတ္တဝါတို့တွင် လူသည် သဘာဝပတ်ဝန်းကျင်နှင့် သင့်လျော်အောင် အများဆုံးပြုပြင်နေထိုင်နိုင်သည်။ သစ်ပင်နှင့် တိရစ္ဆာန်တို့မူကား ယင်းတို့နှင့် သင့်လျော်သော နေရာများ၌သာ တည်ရှိနေထိုင်နိုင်ကြသည်။ ထို့ကြောင့် လူတို့ကို ကမ္ဘာပေါ်၌ အနှံ့အပြား တွေ့ရှိရခြင်းဖြစ်သည်။ ခြောက်သွေ့သော ကန္တာရအရပ်တွင် ရေသွယ်ယူခြင်းဖြင့်၎င်း၊ ရေဝပ်သော စိမ့်မြေအရပ်များ၌ ရေဖောက်ထုတ်ခြင်းဖြင့်၎င်း အသွားအလာမလွယ်ကူသော နေရာများ၌ လမ်းများဖောက်လုပ်ခြင်းဖြင့်၎င်း လူသည် သဘာဝပတ်ဝန်းကျင်ကို ပြုပြင်နိုင်သမျှ ပြုပြင်ပြောင်းလဲနေထိုင်ခဲ့ကြသည်။ ထို့ပြင် လူသည် အပူအအေး၊ သို့မဟုတ် စိုစွတ်ခြင်း၊ ခြောက်သွေ့ခြင်း စသည့်ဒဏ်ကို အတော်ခံနိုင်ရည်ရှိသည်။ သို့ရာတွင် နေရာအားလုံး၌ အညီအမျှအကျိုးဖြစ်ထွန်းအောင် မပြုလုပ်နိုင်သောကြောင့် ကမ္ဘာပေါ်၌ လူနေအစိတ်အကျဲမတူခြင်း ဖြစ်သည်။

ဝင်ရိုးစွန်းအရပ်များ၌ နေထိုင် လုပ်ကိုင်စားသောက်ရန် မလွယ်ကူသကဲ့သို့ ပူအိုက်စွတ်စိုသော အပူပိုင်းဒေသများ၌လည်း အင်အားကုန်ခန်းလွယ်သောကြောင့် လူများသည် တိုးတက်ကြီးပွားလိုသောစိတ်၊ ပင်ပန်းစွာ လုပ်ကိုင်လိုသော စိတ် မရှိကြချေ။ ထို့ကြောင့် နေထိုင်လုပ်ကိုင်စားသောက်ရန်ကောင်းသော အလယ်ပိုင်းလတ္တီတွဒ်ဒေသများ၌သာ လူများစုရုံးနေထိုင်ကြသည်ကို တွေ့ရသည်။ ကမ္ဘာ့ စက်မှုလုပ်ငန်းကြီးများ၊ ရောင်းဝယ်ရေး လုပ်ငန်းကြီးများသည် ဤဒေသရှိမြို့ကြီးများမှ စတင်ထွန်းကားလာခဲ့ကြသည်။

ကမ္ဘာပေါ်တွင် လူဖြူ၊ လူမည်း၊ လူညို၊ လူနီ၊ လူဝါအစရှိသည်ဖြင့် အသားအရောင်ကွဲပြားသောလူ အသီးအသီးရှိ

ကြသည်။ ဤကဲ့သို့ အသားအရောင်ကွဲပြားခြင်း၊ အနေအထိုင်ကွာခြားခြင်းတို့သည် အကြောင်းထူးရှိသောကြောင့် ဖြစ်ပါသလော။ ကော်ကေးရှန်း လူမျိုးတို့သည် မည်သည့် အကြောင်းကြောင့် အာဖရိကတိုက်တွင် စတင်မဖြစ်ပေါ်ခဲ့ သနည်း။ ထို့အတူ ကပ္ပလီလူမျိုးတို့သည် အဘယ်ကြောင့် ဥရောပတိုက်၌ စတင် မဖြစ်ပေါ်နိုင်သနည်း။ ဤမေးခွန်းများကို ပထဝီဝင်နည်းဖြင့် ဖြေရှင်းပေးခြင်းသည် စိတ်ဝင်စားဖွယ်ကောင်းပေသည်။

လူတို့၏ အလုပ်အကိုင်များကို လေ့လာခြင်းသည်လည်း ပထဝီပညာရှင်တို့နှင့် သက်ဆိုင်နေပေသည်။ လူတို့နေထိုင်ကြီးပြင်းကြရသော အခြေအနေများသည် လူတို့၏ အလုပ်အကိုင်ကို များစွာ ပြဋ္ဌာန်းပေးနိုင်ပေသည်။ တိုင်းပြည်တပြည်သည် သဘာဝအလျောက် တိုးတက်ကြီးပွားလာပါက၊ ထိုတိုင်းပြည်တွင် အလုပ်အကိုင်များသည် အောက်ပါ အစီအစဉ်အတိုင်း ဖြစ်ပေါ်လေ့ရှိသည်။ မြေယာပေါများ၍ လူဦးရေနည်းသောကာလ၌ တိရစ္ဆာန်မွေးမြူသော လုပ်ငန်းကို စတင်လုပ်ကိုင်တတ်ကြသည်။ အကြောင်းမူကား ထိုအချိန်အခါ၌ လူတိုင်းလိုပင် မိမိတို့မွေးမြူသော တိရစ္ဆာန်များအတွက် စားကျက်များ လုံလုံလောက်လောက်ရရှိနိုင်သောကြောင့် ဖြစ်သည်။ သို့ရာတွင် ထိုဒေသ၌ လူများပိုမိုဝင်ရောက် နေထိုင်လာကြပါက လူတယောက်အတွက်ရရှိသော မြေယာသည် နည်းလာ၏။ ထိုအခါ လူတို့သည် တိရစ္ဆာန်မွေးမြူသောလုပ်ငန်းကို စွန့်လွှတ်၍ စိုက်ပျိုးရေးလုပ်ငန်းကို ပြောင်းလဲလုပ်ကိုင်လာကြသည်။ လူဦးရေပိုမိုထူထပ်လာသောအခါ စိုက်ပျိုးရေးဖြင့် အသက်မွေးမှုရန် ကျပ်တည်း ကျဉ်းမြောင်း လာသောကြောင့် အချို့လူတို့သည် စက်မှုလက်မှုလုပ်ငန်းနှင့် ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းများကို ကူးပြောင်းလုပ်ကိုင်လာကြလေသည်။

လူတို့၏ အလုပ်အကိုင်များကို ရာသီဥတု၊ မြေမျက်နှာသွင်ပြင်၊ တွင်းထွက်ပစ္စည်းကြွယ်ဝမှုစသည့် အခြားသော ပထဝီဝင်အကြောင်းများကလည်း ပုံပြင်ပေးနိုင်သည်။မည်သည့်ဒေသမျိုးတွင် ဝါစိုက်ပျိုးရမည်ကို အပူချိန်နှင့် မိုးရေချိန်တို့က ပြဋ္ဌာန်းပေးသည်။ ထို့အတူ ကျောက်မီးသွေးနှင့် ရေအင်အားတို့က စက်မှုလုပ်ငန်း ပျံ့နှံ့ရေးကို များစွာ ပြဋ္ဌာန်းပေးခဲ့သည်။ လူတို့၏ စီးပွားရေး ဆက်သွယ်မှုကို သင်္ဘောဆိပ်ကမ်း ကောင်းများနှင့် အလွယ်တကူ ကူးသန်းပေါက်ရောက်နိုင်သော ခရီးလမ်းကြောင်းများက များစွာ စီမံဖန်တီးပေးခဲ့ကြသည်။

## စီးပွားရေး ပထဝီဝင်

စီးပွားရေးပထဝီဝင်သည် လူတို့၏ စီးပွားရေး လုပ်ငန်းများကို ပထဝီဝင်သဘောအရ လေ့လာသော ပညာရပ်ဖြစ်၏။ တနည်းဆိုသော် ကမ္ဘာ့ စီးပွားရေးလုပ်ငန်းများ တနေရာနှင့် တနေရာ မည်သို့ခြားနားကြောင်းကို လေ့လာသော ပညာရပ်ဖြစ်သည်။ စီးပွားရေးပထဝီဝင်ကို လေ့လာသူတို့သည် စိုက်ပျိုးရေး လုပ်ငန်း အကြောင်းကို လေ့လာရာ၌ ကမ္ဘာပေါ်ရှိ စိုက်ပျိုးရေး နည်းနာအမျိုးမျိုးကို လေ့လာပြီးလျှင်၊ တနေရာနှင့်တနေရာ လုပ်ကိုင်ပုံကွဲပြားခြားနားရခြင်း အကြောင်းများကို အထူးဂရုစိုက် လေ့လာကြ၏။ စက်မှုလက်မှု လုပ်ငန်းများအကြောင်းကို လေ့လာရာတွင်လည်း ကုန်ရိုင်း ပစ္စည်းများ ထွက်သော နေရာများကို လေ့လာ၍ ယင်းတို့ကိုကုန်ချောဖြစ်အောင် မည်သည့်နေရာ၌ မည်သည့် အတွက်ကြောင့် ပြုလုပ်ကြသည်ကိုလည်း စိစစ်လေ့လာသည်။ တွင်းထွက်ပစ္စည်း အားအကြောင်း လေ့လာရာတွင် အချို့နေရာ၌ မည်သည့်အတွက်တူးဖော်လုပ်ကိုင်နေ၍ အချို့နေရာတို့၌ မည်သည့်အတွက်မထုတ်လုပ်သေးသည်ကို အထူးဂရုစိုက်၍ လေ့လာသည်။ ကုန်သွယ်မှုလုပ်ငန်းများကို လေ့လာရာတွင်လည်း ကုန်သွယ်ရေး ခရီးလမ်းကြောင်းများနှင့် သယ်ယူပို့ဆောင်ရေး လုပ်ငန်းများ အရေးပါ အရာရောက်ပုံကို စူးစမ်းရှာဖွေလေ့လာသည်။

စီးပွားရေးပထဝီဝင်သည် မြို့တည်နေရာများကို သတ်မှတ်ပေးရာ၌ များစွာအရေးပါ အရာရောက်နိုင်သည်။ ရှေးအခါက ရန်သူများကို အလွယ်တကူ ခုခံတားဆီးနိုင်သောနေရာများ၌ မြို့များရွာများကို တည်တတ်ကြသည်။ အမေရိကန်ပြည်ထောင်စု၊ မက်ဆချူးဆက်ပြည်နယ်ရှိ မြို့များသည် ရေအင်အားကို အလွယ်တကူ ရနိုင်သော မြစ်ချောင်းများရှိ ရေတံခွန်များအနီးတွင် တည်ရှိကြသည်။ လန်ဒန်မြို့သည် ကမ္ဘာပေါ်ရှိ အရေးအကြီးဆုံးသော ကုန်သွယ်ခရီးလမ်းကြောင်းကို ချုပ်ထိန်းထားနိုင်ခြင်းကြောင့် ကမ္ဘာတွင် အကြီးဆုံးသောမြို့ ဖြစ်လာခဲ့လေသည်။ ဆူပီးရီးယား ရေအိုင်အစွန်းတွင်တည်ရှိသော ဒူလွတ်မြို့သည် အနီးအနားတွင် တူးဖော်ရရှိသောသံရိုင်းများကို ရေအိုင်ကြီးများ၏ရှေ့ဖက်ရှိ အရပ်များသို့ အလွယ်တကူတင်ပို့နိုင်ခြင်းကြောင့် တိုးတက်ဖွံ့ဖြိုးလာခဲ့လေသည်။ စီးပွားရေး ပထဝီပညာရှင်တို့သည် စီးပွားဖြစ် ကုန်ထုတ်လုပ်သော လုပ်ငန်းများကိုလေ့လာရာ၌ ကုန်ထုတ်လုပ်မှု တည်နေရာကို အဓိကထား၍ ရှင်းလင်း ဖော်ပြကြသည်။ တနည်းအားဖြင့်ဆိုသော် ကုန်ထုတ်လုပ်ခြင်းကို လေ့လာရာ၌ မည်သို့မည်ပုံ ထုတ်လုပ်သည်ကို စိတ်ဝင်စားသည်ထက် မည်သည့်နေရာ၌ မည်သည့်အတွက်ကြောင့် ထုတ်လုပ်သည်ကို ပို၍ စိတ်ဝင်စားကြသည်။

## နိုင်ငံရေးပထဝီဝင်

နိုင်ငံရေးပထဝီဝင်သည် မနုဿပထဝီဝင်၏ အစိတ်အပိုင်း တခုဖြစ်သည်။ ရာသီဥတု၊ မြေဆီလွှာ၊ တောင်ကုန်းပင်လယ်

စသည့် သဘာဝ အခြေအနေများသည် ပထဝီဝင်အားလုံးကို မပြဋ္ဌာန်းချေ။ အချို့ပထဝီဝင်သည် လူကြောင့် ဖြစ်လာရသည်။ ပုံစံအားဖြင့် အမေရိကန် ပြည်ထောင်စုနှင့် ကနေဒါနိုင်ငံတို့ကို မည်သည့်အတွက်ကြောင့် ယခုကဲ့သို့ခွဲခြားထားသနည်း။ စင်စစ်အားဖြင့် ထိုနိုင်ငံနှစ်နိုင်ငံအတွက် ပိုမိုသဘာဝကျသော နယ်နိမိတ်သည် ရော့ကီးတောင်များ ဖြစ်သင့်သည်။ မြောက်အမေရိကတိုက် အရှေ့ဖက်အရပ်များသို့ လူများလာရောက်နေထိုင်ကြပြီးနောက် အနောက်ဖက်တွင် ကာဆီးတည်ရှိနေသော ရော့ကီးတောင်တန်းကြီးကို ဖြတ်ကျော်ရန်အတွက် နှစ်ပေါင်းများစွာ ဆိုင်းငံ့နေခဲ့ကြရသည်။ ယခုကဲ့သို့ နယ်နိမိတ် ဖြစ်ပေါ် တည်ရှိနေခြင်းသည် ပထဝီဝင်အကြောင်းများကြောင့် မဟုတ်ချေ။ သမိုင်းဆိုင်ရာ အကြောင်း များကြောင့် ဖြစ်သည်။ နိုင်ငံရေးအကြောင်းများကြောင့် နယ်နိမိတ်ကို ယခုကဲ့သို့ သတ်မှတ်ခဲ့ကြခြင်း ဖြစ်သည်။ တိုင်းပြည်များ၏ နယ်နိမိတ်၊ အရွယ်ပမာဏ၊ မြို့များ၏ တည်နေရာ၊ လူမှုဆက်ဆံရေး လုပ်ငန်းများ၊ အစိုးရလုပ်ငန်းများ စသည်တို့နှင့် ဒေသမြေပြင်လက္ခဏာများ မည်ကဲ့သို့ ဆက်စပ်တည်ရှိကြပုံကို လေ့လာသော ပထဝီဝင်ကို နိုင်ငံရေး ပထဝီဝင်ဟု ခေါ် သည်။

တိုင်းပြည်နိုင်ငံများနှင့် ပထဝီဝင်အခြေအနေများ နီးစပ်စွာ ဆက်သွယ်နေကြသည်ကို မကြာခဏတွေ့ရသည်။ ပုံစံအားဖြင့် ဂရိတ်ဗြိတိန်သည့် ဥရောပတိုက်ကြီးနှင့် သဘာဝအလျောက် ကွဲကွာနေခြင်းကြောင့်လည်း သီးခြားနိုင်ငံ တနိုင်ငံအဖြစ် တည်ရှိနေခြင်းဖြစ်သည်။ဣတလီနှင့်စပိန်နိုင်ငံတို့ ဥရောပတိုက်၌ သီးခြားနိုင်ငံများ အဖြစ်ဖြင့် တည်ရှိနေခြင်းမှာလည်း သဘာဝကျသည်။ အကြောင်းမူကား ထိုနိုင်ငံတို့သည် ကျွန်းဆွယ်အဖြစ်ဖြင့် ထိုးထွက်တည်ရှိနေသည့်အပြင်၊ အလွန်မြင့်မားသော တောင်တန်းကြီးများက ယင်းတို့ကို ကျန် ဥရောပနိုင်ငံများနှင့် ပိုင်းခြားထားခြင်းကြောင့် ဖြစ်သည်။ သို့ရာတွင် ဥရောပအလယ်ပိုင်းနိုင်ငံများ၏ နယ်နိမိတ်များသည် အများအားဖြင့် တဖက်သတ် သဘောအတိုင်း ပြုလုပ်ထားသော နယ်နိမိတ်များဖြစ်ကြ၏။ ထိုကြောင့် ထိုနိုင်ငံများ၌ နယ်ချဲ့လိုသော စိတ်ဓာတ်ဖြင့် အိမ်နီးပါးချင်း နိုင်ငံများကို အစဉ်မပြတ် ရန်မူနေခြင်းသည် မထူးဆန်းလှပေ။ နိုင်ငံရေး ပထဝီဝင်ကို မကြာမီကမှ လူများ ပိုမိုစိတ်ဝင်စားလာကြသည်။ ပထဝီပညာရှင်များအဖို့မူ နိုင်ငံတနိုင်ငံသည် ကမ္ဘာ့မျက်နှာပြင် အစိတ်အပိုင်းအဖြစ်ဖြင့် ယင်းတို့နှင့် တိုက်ရိုက် သက်ဆိုင်နေသည်။ နိုင်ငံတနိုင်ငံသည် အရွယ်ပမာဏ၊ပုံသဏ္ဌာန်၊အနေအထား အတိအကျရှိသည်။ ထိုအချက်ကြောင့်ပင် ပထဝီဝင်ဒေသများအဖြစ်ဖြင့် နိုင်ငံများတွင် တူညီသော အရေးကြီးသည့် ပထဝီဝင်အချက်အလက်အချို့နှင့် အသွင်အပြင်များ ပါရှိနေသည်။ နိုင်ငံတခု၏ အနေအထားကို ထည့်သွင်း လေ့လာမှသာလျှင် ကျွန်ုပ်တို့ ယူဆထားသော အရပ်ဒေသများသည် လက်တွေ့လုပ်ငန်းအတွက် အသုံးဝင်ပေလိမ့်မည်။ထို့ပြင်ပြည်နယ်နိုင်ငံများ၌ ပြည်တွင်းဖြစ် ကုန်ပစ္စည်းများကို အားပေးကူညီရန်အတွက် နိုင်ငံခြားကုန်များအပေါ် တွင် အခွန်အကောက်နှုန်း တိုးမြှင့်ထားခြင်းသည် အမြင့်ဆုံး တောင်ကြီးများ၊ အကျယ်ဆုံး သမုဒ္ဒရာကြီးများထက်ပင်၊ ကုန်ထုတ်လုပ်ခြင်းနှင့် ကုန်သွယ်ခြင်းလုပ်ငန်းများကို ပိုမို၍အကျိုးသက်ရောက်စေနိုင်သည်။

## သမိုင်းပထဝီဝင်

သမိုင်းပထဝီဝင်သည် ဒေသတခု၏ လွန်ခဲ့သောအချိန်တချိန်၌ ဖြစ်ပေါ် ခဲ့သော ပထဝီဝင်ကို ပြန်လည်ဖော်ပြသော ပညာရပ်ဖြစ်သည်။ ကမ္ဘာပေါ် တွင် အဖြစ်အပျက်ဟူသမျှတို့သည် တခုသော အချိန်ကာလအတွင်း၌ သူ့နေရာနှင့်သူ ဖြစ်ပျက်ကြ၏။ ရာဇဝင်သမိုင်းဟူသည် အချိန်ကာလနှင့် စပ်ဆိုင်သကဲ့သို့၊ ပထဝီဝင်သည် နေရာအကျယ်အဝန်းနှင့် သက်ဆိုင်သည်။ အချိန်ကာလသည် ပထဝီဝင်အတွက် အရေးမကြီးဟုဆိုရသော်လည်း တခုသော အချိန်ကာလအတွင်း အရပ်ဒေသတခု၏ ပထဝီဝင်အကြောင်းကို ကောင်းစွာ သိရှိလိုပါက၊ ထိုဒေသ၌ ထိုအချိန်ကဖြစ်ပေါ် ခဲ့သော ပထဝီဝင်အကြောင်းကို သိရှိရန်လိုအပ်လှပေသည်။ ကမ္ဘာ့မျက်နှာပြင်၌ ဖြစ်ပေါ် နေသော ပုံစံများသည် အများအားဖြင့် အစဉ်ထာဝရ ပြောင်းလဲနေသောကြောင့် ယခုလက်ရှိ ပုံစံများသည် အဆင့်ဆင့် ပြောင်းလဲ ဖြစ်ပျက်နေသော ဖြစ်စဉ်တွင် အဆင့်တဆင့်မျှသာ ဖြစ်သည်ဟု ယူဆသင့်သည်။ ယခင်က လူနှင့်သဘာဝတရားတို့ ပြုပြင်ဖန်တီးပေးခဲ့သော ရှုခင်းအစအနများသည် ယနေ့ ဖြစ်ပေါ် နေသော ရှုခင်းများ၌ အထင်အရှား ပေါ် လွင်လျက်ရှိ၏။ ပထဝီဝင် အကြောင်းနှင့် သက်ဆိုင်သောသက်သေခံပစ္စည်းအထောက်အထားများကိုသာရရှိနိုင်ပါက မည်သည့်အချိန်၌မဆို ဒေသတခုတွင်ဖြစ်ပေါ် ခဲ့သော ပထဝီဝင်ကို ခွဲခြားသိမြင်နိုင်သည်။ အင်္ဂလန်ပြည်၌ ပထဝီပညာရှင်တို့သည် ဒွမ်းစဒေးမှတ်တမ်းစာအုပ်မှ အကြောင်းအရာများကို မှီငြမ်းပြု၍ အင်္ဂလန်ပြည်၌ အနှစ် ၉၀၀ ကျော်လောက်က ဖြစ်ပေါ် ခဲ့သော ပထဝီဝင်ကို ပြန်လည်တင်ပြနိုင်ကြသည်။ ထိုကြောင့် အင်္ဂလန်ပြည်၏ ဒွမ်းစဒေး မှတ်တမ်းသည် သမိုင်းပထဝီဝင်ကျမ်းပင် ဖြစ်သည်။ (ဒွမ်းစဒေး မှတ်တမ်း — ရှု။)

သမိုင်းပထဝီပညာရှင်သည် လွန်ခဲ့သော အချိန်တချိန်၌ ဖြစ်ပေါ် ခဲ့သော ဒေသတခု၏ လူမှုဆက်ဆံရေး၊ စီးပွားရေး၊ နိုင်ငံရေး ပထဝီဝင်အကြောင်းများကို အထူးဂရုပြု၍ လေ့လာသည်။ ဤကဲ့သို့ ယခင်က ဖြစ်ပေါ် ခဲ့သော ပထဝီဝင်

အကြောင်းများကို သိရှိရခြင်းဖြင့် ယခုလက်ရှိ ဖြစ်ပေါ်နေသောပထဝီဝင်အကြောင်းကို ကောင်းစွာသိမြင်နိုင်ရုံမျှမက၊ အဆင့်ဆင့် ပြောင်းလဲဖြစ်ပေါ်ခဲ့သော ပထဝီဝင် အခြေခံအကြောင်းအချို့ကိုပါ သိရှိနိုင်သည်။ မြေပုံပေါ်တွင် တည်ရှိနေသော မျဉ်းကြောင်းများသည် သမိုင်း၏ အမှတ်အသားများဖြစ်ကြသည်။ မြေပုံသည် ပထဝီပညာရှင်၏ အရေးကြီးသော လက်နက်တခုဖြစ်၏။

## ပထဝီဝင်နှင့်စီမံကိန်းများ

ပထဝီပညာရှင်တို့သည် ယခုလက်ရှိ အခြေအနေများကို သိရုံမျှဖြင့် ဒေသတခု၏ အနာဂတ် ဖွံ့ဖြိုးတိုးတက်မှုများကို အချိုနေရာများမှလွဲ၍ တင်ကူးခန့်မှန်းခြင်း မပြုနိုင်ကြပေ။ သို့ရာတွင် သဘာဝပတ်ဝန်းကျင်ကို ထိန်းကြပ်၍ ယင်းတို့နှင့် သင့်လျော်အောင် ပြုပြင်နေထိုင်ရန် ကြိုးပမ်းမှုများကြောင့် မကြာမီက လူတို့သည် မြေယာစီမံကိန်းများတွင် ပိုမိုစိတ်ပါဝင်စားလာကြသည်။ မြေပုံပေါ်ရှိ မတူညီသော အခြင်းအရာများကို စုပေါင်းလေ့လာနိုင်သော ပထဝီပညာရှင်သည် ဤကိစ္စတွင် များစွာအထောက်အပံ့ပေးနိုင်သည်။ အမေရိကန် ပြည်ထောင်စု၏ တင်နက်ဆီမြစ်ဝှမ်းစီမံကိန်း၊ ဩစတြေးလီးယား၏ စနိုးဝီးမြစ် စီမံကိန်း၊ ခေတ်မှီမြို့ပြစီမံကိန်း၊ မြေယာအသုံးချနည်း စီမံကိန်းစသည်တို့၌ ပထဝီပညာရှင်များ၏ အန္တအပြားပါဝင်ဆောင်ရွက်မှုကို တွေ့ရခြင်းဖြင့် ပထဝီဝင်သည် နိုင်ငံတနိုင်ငံ၏ ပြည်တော်သာ စီမံကိန်းများ၌ များစွာ အရေးကြီးကြောင်းကို သိရသည်။ (တင်နက်ဆီမြစ်ဝှမ်း အာဏာပိုင်အဖွဲ့ — ရှု။) ဆိုဗီယက် ဆိုရှယ်လစ်ပြည်ထောင်စု သမတနိုင်ငံ၏စီးပွားရေးစီမံကိန်းများတွင်မူ ပထဝီဝင်နှင့် ပထဝီပညာရှင်တို့၏ အရေးကြီးပုံမှာ ပို၍ထင်ရှားလှပေသည်။

## ဒေသန္တရပထဝီဝင်

ယခုအခါ၌ ပထဝီပညာရှင် အများအပြားက ဒေသန္တရပထဝီဝင်ကို ပထဝီဝင်၏ အဆီအနှစ်ဟု ယူဆကြသည်။ ဒေသန္တရပထဝီဝင်သည် ကွဲပြားခြားနားနေသော ရှုမြော်ခင်းအလိုက် ကမ္ဘာမျက်နှာပြင်ကို ဒေသအပိုင်းအခြားများ ပြုလုပ်၍ လေ့လာသောပညာရပ်ဖြစ်သည်။ စီးပွားရေးပထဝီဝင်၊ နိုင်ငံရေးပထဝီဝင် အစရှိသည့် စနစ်တကျလေ့လာသော သီးခြားပထဝီဝင်များတွင် ပထဝီဝင်အခြေခံအကြောင်းရင်း တခုနှစ်ခုလောက်ကိုသာ အမှီပြု၍ ခွဲခြားထားသော ဒေသများကို အသုံးပြုခြင်းဖြင့်လည်း ဒေသအလိုက် လေ့လာနိုင်သည်။ ပုံစံအားဖြင့် ပြင်သစ်နိုင်ငံကို နိုင်ငံရေးဒေသတခုအဖြစ်ဖြင့်သော်၎င်း၊ အမေရိကန်ပြည်ထောင်စုရှိ ပြောင်းစိုက်ပျိုးသော ရပ်ဝန်းကို စီးပွားဖြစ်စိုက်ပျိုးသော ရပ်ဝန်းတခုအဖြစ်ဖြင့်သော်၎င်း လေ့လာနိုင်သည်။ သို့ရာတွင်ပထဝီပညာရှင်အဖို့ကား ပထဝီဝင်အခြေခံအကြောင်း တခုနှစ်ခုကိုသာမက၊ ထူးခြားသော အခြားပထဝီဝင်လက္ခဏာများကိုပါ ထည့်သွင်းလျက်၊ ဒေသတခုနှင့်တခု မတူပုံကို ခွဲခြားပြသရန် လိုအပ်လှပေသည်။ ဤကဲ့သို့ လေ့လာရန်သည်ကား ခေတ်သစ်ပထဝီဝင်၏ အဓိကရည်ရွယ်ချက်ပေတည်း။

ပထဝီဝင်ဒေသ တခုတွင် ယင်းဒေသ၏ ပထဝီဝင်အကြောင်းများကို စုပေါင်း၍ တင်ပြသည်။ ပထဝီဝင်ဒေသတခုအတွင်းရှိ မြေမျက်နှာပြင်၊ ရာသီဥတု၊ သဘာဝပေါက်ပင်များသာမက လူတို့၏ နေထိုင်လုပ်ကိုင်စားသောက်ပုံတို့သည်လည်း အနည်းနှင့်အများ တူညီကြ၍ အခြားအရပ်များနှင့် ကွဲပြားခြားနားသည်။ ပထဝီဝင်ဘာသာသည် သီးခြားကင်းလွတ်စွာ တည်ရှိနေကြသော သိပ္ပံပညာရပ်များမှ ရရှိသည့် ဗဟုသုတများ တခုနှင့်တခု အပြန်အလှန်ဆက်စပ်နေကြပုံ၊ စုပေါင်းဖြစ်ပေါ်နေကြပုံ စသည်တို့ကို ဒေသန္တရပထဝီဝင်၌သာလျှင် ဒေသတခုအဖြစ်ဖြင့် လေ့လာနိုင်သည်။

ပထဝီဝင်သည် အခြားဘာသာရပ်များနှင့် များစွာဆက်စပ်လျက်ရှိသည်။ ပုံစံအားဖြင့် စီးပွားရေး ပထဝီဝင်သည် ဘောဂဗေဒနှင့် ဆက်စပ်လျက်ရှိသည်။ ထိုနည်းအတူ ဘူမိရုပ်သွင်ပညာ၊ ဇီဝပထဝီဝင်စသည်တို့သည် ဘူမိဗေဒ၊ ရုက္ခဗေဒ၊ ပါဏဗေဒ စသည်တို့နှင့် အသီးအသီး ဆက်စပ်လျက်ရှိနေသည်။ သို့ရာတွင် ဤကဲ့သို့ ပထဝီဝင်နှင့်သဘောချင်းဆက်စပ်လျက်ရှိသော ပညာရပ်များသည် စီးပွားရေး ပထဝီဝင်၊သဘာဝပထဝီဝင်ကဲ့သို့သောစနစ်တကျခွဲခြားထားသည့် ပထဝီဝင်ပညာရပ်များနှင့်ကား မတူကြချေ။ ပထဝီဝင်နှင့် ဆက်စပ်နေသော သိပ္ပံပညာရပ်များသည် ယင်းတို့နှင့် စပ်လျဉ်းသော အရာဝတ္ထုများ၏ တူညီသောအခြင်းအရာများကိုသာ လေ့လာသည်။ ပထဝီဝင်၏ စနစ်တကျခွဲခြားထားသော ပညာရပ်များမှာမူကား အခြား သိပ္ပံပညာရပ်များ တသီးတခြားစီ လေ့လာသော အရာများကို စုရုံးပေါင်းစည်း၍ လေ့လာသည်။ ထို့ပြင် ကမ္ဘာ့မျက်နှာပြင်ပေါ်ရှိ နေရာဒေသများ တခုနှင့်တခု ဆက်သွယ်ပုံ၊ ကွဲပြားခြားနားပုံကို ဦးစားပေး၍ လေ့လာသည်။ ယင်းသို့ လေ့လာရာ၌ ပထဝီပညာရှင်သည် မြေပုံကို အဓိက လက်နက်အဖြစ် အသုံးပြုလေသည်။

ဦးကျော်

**ပဒုမာကြာ**။ ။ကြာပင် — ရှု။

**ပဒေသရာဇာ**။ ။ညောင်ရမ်းခေတ် စာဆိုကျော်ဝန်ကြီးပဒေသရာဇာသည် ၁၀၃၄ ခုနှစ်တွင် နန်းတက်သော အင်းဝဘုရင် အင်္ဂမင်းလက်ထက် ရတနာပူရအင်းဝနေပြည်တော်၌ ဖွားသည်ဟု ညောင်ပင်သာ ဦးပုညက ဆိုသည်။ ရာဇဝင်

ကျမ်းပြုဆရာကြီး ဦးကုလားနှင့် တခေတ်တည်းကျော်စောသူဖြစ်သည်။ ကျေးကျွန်တို့ လွန်စွာရနိုင်ခဲလှသော ရာဇာတံဘွဲ့ကို ခြီးမြှင့်ခြင်းခံရသူ စာဆိုကျော်ကြီး ဖြစ်သည်။

ဝန်ကြီးပဒေသရာဇာသည် ညောင်ရမ်းမင်း ဆယ်ဆက်တို့အနက် ရှစ်ဆက်မြောက်ဖြစ်သော သက္ကရာဇ် ၁၀၆၀ ပြည့်နှစ်တွင် နန်းတက်တော်မူသည့် စနေမင်းလက်ထက်တွင် စုရေးစုကိုင်အဖြစ်ထမ်းရွက်ယင်း ကဗျာလင်္ကာများကို စပ်ဆိုလေ့လာသည်။ သက္ကရာဇ် ၁၀၇၆ ခုနှစ်တွင် နန်းတက်သော မှန်နန်းရှင်ခေါ် တနင်္ဂနွေမင်းတရားကြီးလက်ထက်တွင်လည်း ဆက်လက်အမှုထမ်းကာ ကဗျာသီချင်းများကို ရေးသားဆက်သွင်းရာ လကျာ်ရွှေတောင် ဘွဲ့နှင့် မန်ကျည်းတုံရွာကို စားရသည်။ ၁၀၉၅ ခုနှစ်တွင် နန်းတက်တော်မူသော ဟံသာဝတီပါ မင်းတရားလက်ထက် ဆက်လက်အမှုထမ်းပြန်ရာ ပညာအရည်အခြင်းနှင့် ပြည့်စုံသောကြောင့် မင်းရဲမင်းလှကျော်ထင်ဘွဲ့နှင့် အသည်ဝန်၊အတွင်းဝန်၊လွှတ်တော်ဝန်ကြီးစသည်ဖြင့် အသီးသီးခန့်ထားခြင်းခံရရုံမက ဇရွှံရွာကိုလည်း စားရန် သနားတော်မူခြင်း ခံရသည်။ ဟံသာဝတီပါ မင်းတရားကြီးကိုယ်တော်တိုင်က စာဆိုဖြစ်သည့်အလျောက် ဝန်ကြီး၏ အစီအကုံး အနှုန်းအဖွဲ့တို့ကို အလွန် နှစ်သက်တော်မူလှသဖြင့် ရတု ကဗျာ အရေးအသား၌ တံခွန်စိုက်ဖြစ်ခဲ့သူ တောင်ငူဘုရင်၏ ဘွဲ့နာမံတော်အတိုင်း "နတ်သျှင်နောင်" ဟူသောဘွဲ့ကို ခြီးမြှင့်တော်မူသည်။နောက်တဖန် ဘုရင်ငယ်တဆူဟု အဓိပ္ပါယ်ထွက်သော ပဒေသရာဇာဘွဲ့ကို ပေး၍ ဝန်ကတော် ၂ ဦးအားလည်း ဒေဝီဘွဲ့ဖြင့်ခြီးမြှင့်၍ မိဖုရားငယ်တို့၏ အဆောင်အယောင် ခွင့်ပြုတော်မူသည် အထိ မြောက်စားခံရသည်။ ယင်းပဒေသရာဇာ ဟူသောဘွဲ့ဖြင့်ပင် မြန်မာစာပေလောက၌ ကျော်ကြားရာ ငယ်မည်ကိုပင် မသိကြတော့ချေ။

၁၁၁၃ ခုနှစ်တွင် အင်းဝဘုရင် ညောင်ရမ်းဆယ်ဆက်မြောက် ဟံသာဝတီပါ မင်းတရားကြီးအား မွန်တို့ ခေါ်ဆောင်သွားသောအခါ ဝန်ကြီးပဒေသရာဇာသည် ဇနီးသားသမီးဆွေမျိုးတို့နှင့်အတူ အပါးတော်မှ အမြဲပါရသည်။ မင်းနှင့်တကွ ဝန်ကြီးအား သံလျင်မြို့သို့ခေါ် ဆောင်လာရာ ဝန်ကြီးသည် ရှင်ပင်ကျိုက်ခေါက်ဘုရား အနီးသို့ရောက်စဉ် မေ ပန်းသောလူကြီးရောဂါဖြင့်အသက် ၇၀ တွင်ကွယ်လွန်သည်။ ကျိုက်ခေါက် ဘုရားတည်ရာတောင်ကုန်း၏ မြောက်မျက်နှာတွင် ဝန်ကြီး၏ အရိုးဂူကို ယခုတိုင် တွေ့မြင်နိုင်လေသည်။

ဝန်ကြီးပဒေသရာဇာသည် သူဇာပျို့၊ ဆေနပြန်ပျို့၊မဏိကက်ပျို့၊ ကျေးဇူးတော်ပျို့၊ ကုမ္ဘာဘယပျို့၊ တောထွက်ခန်းပျို့၊ ယိုးဒယားသံရောက်ပျို့၊ မနော်ပျို့သစ်၊ ဒန္တာသီရိပျို့၊ နူအူပျို့၊ ကြာနတ်ကေသာပျို့၊ မဟာပတိပျို့၊ နမောလင်္ကာပျို့၊ သမုဒ္ဒဃောသပျို့ စသော ပျို့ကြီးများကို ပြုစုခဲ့ရာ ယင်းတို့အနက် ၁၁၀၃ ခုနှစ်တွင် ရေးပြီးသော သူဇာပျို့သည် အကောင်းဆုံး ဖြစ်သည်။ ဤပျို့သည် စာအနုအယဉ်တွင် ပဌမတန်းစားဖြစ်သဖြင့် ရှေးပညာရှင်များကပင်"သူဇာကိုလည်း မပစ်နှင့်၊စာနုကိုလည်း မချစ်နှင့်"ဟူ၍ ဆိုစမှတ်ပြုကြသည်။ ဖွဲ့နွဲ့ထားပုံသည် လူတို့၏ စိတ်ကို စွဲငြိစေသည်။ ဘုရားဟော ကျမ်းဂန်ကိုသာမှီး၍ အများအားဖြင့် ရေးသားသောခေတ်တွင် ပဒေသရာဇာသည် ယင်းသို့သော ထိုးဇာတ်များကိုထွင်၍ ရေးသားလေသည်။ ဤပျို့တွင် အခြားပျို့ထက် ထင်ရှားထူးခြားသော အချက်နှစ်ချက်ရှိသည်။ ပျို့တခုလုံးကို တဦးနှင့်တဦး အပြန်အလှန် တိုက်ရိုက်ပြောဆိုဟန် ဖွဲ့ဆိုထားသဖြင့် ပြဇာတ်သဘောပါသည့် ပျို့ဖြစ်ခြင်းနှင့် ပျို့ထဲတွင် ချေင်းအဖွဲ့များထည့်၍ စပ်ထားခြင်းတို့ဖြစ်လေသည်။

ဝန်ကြီးပဒေသရာဇာသည် သူဇာပျို့၊ ဆေနပြန်ပျို့စသည့် စာမျိုးကိုဖွဲ့ခြင်းကိုထောက်၍ ယဉ်ကျေးမှုအရာ၌ ဗုဒ္ဓစာပေကို အထွတ်အမြတ်ထားကာ လိုက်နာလေ့လာကြောင်း ထင်ရှားသလောက် စကုမင်းချေင်း၊ မဏိကက်ဇာတ်ချင်းစသော စာမျိုးကိုဖွဲ့သည်ကိုထောက်၍ နိုင်ငံရေး၊ စီးပွားရေး၊ လူမှုဆက်ဆံရေးတို့တွင် အုပ်ချုပ်သူ မင်း မှူးမတ်တစုကို အများနည်းတူ အရေးပေးကြောင်းလည်းထင်ရှားသည်။ သို့ရာတွင် ဝန်ကြီးသည် ပိန်းကောလှေသမားဖွဲ့၊ ထန်းတက်သမားဖွဲ့၊ လယ်သမားဖွဲ့၊ တောင်ပိုင်တက်သမားဖွဲ့၊ အညာ လှေကြီးသမားဖွဲ့တည်းဟူသော တျာချင်း ငါးပုဒ်ကိုလည်း ဖွဲ့ဆိုခဲ့သေးသည်။ ယင်းကိုထောက်လျှင် ဝန်ကြီးသည် နိုင်ငံရေး၊ စီးပွားရေး၊ လူမှုဆက်ဆံရေးတို့တွင် မင်းမှူးမတ် တစုကိုသာမက ကုန်သည် ဆင်းရဲသား လက်လုပ် လက်စား သမားများကိုလည်း အရေးပေးသူဖြစ်ကြောင်း ထင်ရှားသည်။ ဝန်ကြီး၏ ခေတ်အခါနှင့် စာကြည့်သော် ဝန်ကြီးသည် ဗုဒ္ဓစာပေကိုငှင်း၊ မင်းမှူးမတ်တို့ကိုငှင်း အရေးပေးဖွဲ့ဆိုသည်မှာ အံ့ဖွယ် မဟုတ်သော်လည်း၊ သက်ဦးဆံပိုင် စံနစ်အောက်ရှိ အာဏာမရှိ၊ မနုမရှိ၊ ကိုယ်စားဖို့ ကိုယ်စိုက်၊ ကိုယ်ဝတ်ဖို့ ကိုယ်ရက်၊ ကိုယ်နေဖို့ ကိုယ်ဆောက်၍ ရှားပါးရသည့်အထဲမှ ဆယ်နှစ်မူမင်းတိုင်းကို မင်းအတွက်ပေးနေရသော ကျေးတော်မျိုးကျွန်တော်မျိုးတို့အပေါ် စေတနာရောက်၍ ဖွဲ့ဆို ထားခြင်းသည်သာ ထူးသည်ဟု ဆိုအပ်ပေသည်။ ရဲဝံ့သည်၊ ဉာဏ်ခံကြီးပါပေသည်ဟုလည်း ဆိုထိုက်ပေသည်။ ဝန်ကြီး၏ စေတနာသည် အထက်အထက်က စာဆိုတို့ထက် ပိုလာသည်၊ သစ်လာသည်ဟု ဆိုရပေမည်။ ထိုစေတနာသစ်မှ ပေါက်ဖွား လာသော စာပေသည် ရှေးက မြန်မာစာပေသစ်ဟု ဆိုရန်သာရှိသည်။ အဖွဲ့အနွဲ့အရာတွင်လည်း အကြောင်းသင့် အရိုးခံ စကားတို့ကိုသာသုံးကာ ပြေပြစ်စွာ ဖွဲ့ဆိုထားလေသည်။

မိုးဦးကျသည့်အခါ လယ်သမားတို့ဘာဝ မမိသားမယား

နှင့်တကွ ပျော်ပျော်ပါးပါး နေထိုင် စားသောက်ကြပုံကို ‘ဝသန်ကာလ၊မိုးကျတည့်လျှင်၊ပျော်ပျော်ပါးပါး၊ မယားနှင့်ဆွေ့ငယ်လင်၊ လက်တွဲငင်ခြေငင်၊ ကိုယ်တွင်အဝတ်၊ ပုဆိုးအထိုက်စုတ်ပြဲပြီ၊ ချည်နီဗောင်းတွတ်တွတ်ကယ်နှင့်လေး’ အစချီသော လယ်သမားဖွဲ့ တျာချင်းဖြင့်၎င်း၊

ထန်းပင်တက်၍ ထန်းဦးရေကိုယူပုံ၊ ထန်းကိုအသုံးချပုံ၊ အိမ်တွင်မွေးထားသောခွေးနှင့် တောချောက်ကာ အမဲလိုက်ပုံ၊ ရသမျှ အမဲတို့ကို ချက်ပြုတ်ကင်လှော် ရေနှင့်ကြော်ပုံ၊ ဒေါင်းလန်းကြီးခင်းကာ သမီးသားမယားတစုတို့နှင့်တပျော်တပါးတို့ငွေ့ စားသောက်ကြပုံတို့ကို ‘နွေဦးကာလ၊ မှုထသော့ခါ၊ ရင်းထောင်ရင်းဆွဲ၊ ဆောင်မြဲအိုးလွယ်ကာ၊ ဓားနှီးထက်စွာ၊ ခါးမှာချပ်လျက်၊ ထန်းပွင့်ထန်းခိုင်၊ ရွှန်းမြိုင်မြိုင်၊ ကလိုင်သာလွယ်လို့ တက်သည်နှင့်လေး’ အစချီသော ထန်းတက်သမားဖွဲ့ တျာချင်းဖြင့်၎င်း သဘာဝကျကျ စပ်ဆိုခဲ့လေသည်။

လယ်သမားနှင့် ထန်းတက်သမားဖွဲ့တို့သည် ကုန်ထုတ်လုပ်သူတို့၏ ဘဝအကြောင်းဖြစ်၍ ပိန်းကောလှေသမားဖွဲ့သည် ကုန်ထုတ်လုပ်သူ၊ ကုန်သွယ်သူ၏ ဘဝအကြောင်းဖြစ်သည်။ အညာလှေကြီးသမားနှင့် နွားဝန်တင်သမားများ ဖွဲ့သည် ကုန်သွယ်သယ်ယူသူတို့၏ ဘဝအကြောင်းဖြစ်သည်။အချုပ်အချာအာဏာသည် သက်ဦးဆံပိုင်မင်းမှ ဆင်းသက်သည့် ထိုခေတ်တွင် ဝန်ကြီးသည် အထက်ပါပြည်သူပြည်သားလူတန်းစားမှ အချုပ်အချာ အာဏာသည် ဆင်းသက်လာနိုင်ရန် နိုင်ငံရေးအရ မဆောင်ရွက်နိုင်ခဲ့သော်လည်း ထိုသို့သက်ဆင်းစေနိုင်သော မျိုးစေ့ကို ချပေးခဲ့သည်ဟု ဆိုသော် မှားမည်မထင်ချေ။

ဝန်ကြီးသည် မြန်မာစာပေသမိုင်း၌ ပြည်သူ့ဗိမာန် တခန်းကို ဖွင့်ခဲ့သည်ဟု ဆိုရပေမည်။

**ပဒေသာပင်**။ ။ပဒေသာပင်ဟူသည်မှာ ပစ္စည်းအသုံး အဆောင်အမျိုးမျိုးရနိုင်သောအပင်ကို ခေါ်သည်။ တနည်းအားဖြင့်ဆိုလျှင် လူများ သုံးဆောင်လိုသမျှ အမျိုးစုံ သီးသော သစ်ပင်ကို ခေါ်သည်။ ပါဠိဘာသာအားဖြင့် ကပ္ပရုက္ခဖြစ်သည်။

ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးတို့၏ ကမ္ဘာဦးကျမ်းများအရ ကမ္ဘာတည်စ၊ မြင်းမိုရ်တောင်ကို ဝိုင်းရံလျက် ပေါ်ထွန်းခဲ့သော ကျွန်းကြီးလေးကျွန်းနှင့်တာဝတိံသာနတ်ပြည်၊ အသုရာပြည်၊ ဂဠုန်ပြည်တို့၌ ကမ္ဘာ့တန်ဆာအဓိပတိ သစ်ပင်ကြီးခုနစ်ပင် ပေါက်ခဲ့သည်။ မြင်းမိုရ်တောင်၏ မြောက်မျက်နှာဖြစ်သော ဥတ္တရကုရု (မြောက်)ကျွန်း၏ထိပ်တွင် ပေါက်သော အဓိပတိသစ်ပင်ကြီးမှာ ပဒေသာပင်ဖြစ်သည်။ ထိုပဒေသာပင်ကြီး၏လုံးပတ်ကား တဆယ့်ငါးယူဇနာ၊ မြေမှသည် ခက်မတိုင်အောင် ယူဇနာငါးဆယ်၊ အရှေ့အနောက်တောင်မြောက်နှင့် အလယ်ခက်မဟူသော ခက်မ ငါးဖြာတို့လည်း ယူဇနာငါးဆယ်ရှိကုန်သည်။ အချင်းအစောက်ကား ယူဇနာတရာရှိသည်ဟု ဆိုကုန်သည်။

မြောက်ကျွန်း၌ နေကြသောသူတို့သည် ငါးပါးသီလ မြဲသည်။ ခုနစ်ရက်တကြိမ်မှသာ အိမ်ရာထောင်ခြင်းကို ပြုကြသည်။ သူတို့၏ ဘုန်းကံအလျောက် ပန်းပင်သစ်ပင်များက အစားအသောက်အသုံးအဆောင်များ သီးသဖြင့် အလိုရှိရာဆွတ်ခူးသုံးဆောင်နိုင်သည်။ ထိုသို့ကျွန်းသူကျွန်းသားများ အလိုရှိရာ ဆွတ်ခူးသုံးဆောင်နိုင်သော အပင်များကို ပဒေသာပင်များဟု ခေါ်သည်။ မြောက်ကျွန်း၌ ပေါက်ရောက်သော ပဒေသာပင်များအနက် ကျွန်းထိပ်မှဆိုခဲ့သော ပဒေသာပင်ကြီးကား အဓိကရဖြစ်ပေသည်။

ယင်းသို့ကျမ်းဂန်များ၌လာရှိသည်ကိုအစွဲပြု၍မြန်မာမင်းအဆက်ဆက်တို့လက်ထက်မှစပြီးလျှင်ယခုခေတ်တိုင်အောင် ကထိန်၊ဆွမ်းကြီးလောင်း၊ရှင်ပြုစသောအလှူအတန်းများ၌ ရဟန်းသံဃာများအား ပစ္စည်းအသုံးအဆောင် အမျိုးမျိုးကို ပဒေသာပင်၌ သီးကာ လှူဒါန်းခြင်းကို ပြုကြသည်။ ယင်းသို့ဖြင့် ရဟန်းသံဃာများ အလိုရှိရာပစ္စည်း အသုံးအဆောင်များကို ရရှိစေသည်။ သစ်၊ ဝါးစသည်တို့ဖြင့် သစ်ပင်၏ အချင်းအစောက်အနေအထားကိုပြုလုပ်ကာ လှူဖွယ်ပစ္စည်း အသုံးအဆောင်များကိုကြည့်၍ လှအောင် ဆင်ယင်ချိတ်ဆွဲကြသည်။ အထူးသဖြင့် ဘုံကထိန်ပွဲ၊ ဆွမ်းကြီးလောင်းပွဲများတွင် လှူဖွယ်ပစ္စည်းပဒေသာပင်မှာ မပါမပြီးသလောက် ဖြစ်ပေသည်။ ယင်းသို့သော အလှူများတွင် အသင်းအဖွဲ့အနေနှင့်၎င်း၊ စေတနာရှင်တဦးချင်း အနေနှင့်၎င်း လာရောက်လှူဒါန်းသောပစ္စည်းများကို ပဒေသာပင်သီး၍ မဲဖောက်လှူဒါန်းခြင်းလည်း ပြုတတ်ကြသေးသည်။ တခါတရံ လှူဖွယ် ပစ္စည်း ပဒေသာပင်ကို စေတနာရှင်၊ အလှူရှင်တို့ သဒ္ဓါတရား ပွားများနိုင်ကြစေရန် ရပ်ရွာထဲ၌ အိုးစည်ဗုံမောင်းစသည်တို့ဖြင့် တီးမှုတ်ကခုန်လှည့်လည်ခြင်းကိုလည်း ပြုကြလေသည်။

**ပဒေါင်လူမျိုး**။ ။အမျိုးသမီး ဟူသည် လည်တိုင်ရှည်မှ လှပသည်ဟု ယုံကြည်သဖြင့်၊လည်တိုင်ရှည်အောင် လည်ပင်းတွင် ကြေးခွေများကို တခွေပြီးတခွေဆင့်၍ ရစ်ပတ်ဝတ်ဆင်သည့် အလေ့အထရှိသော ပဒေါင်တို့သည် ကရင်တမျိုးပင်ဖြစ်သည်။ ယခုအခါ ပဒေါင်အမျိုးသမီးများ လည်ပင်းတွင် ကြေးခွေစွပ်သောအလေ့အထ ပျောက်ကွယ်စပြုနေလေပြီ။ ပဒေါင်တို့သည် ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၁၄,၅၀၀ ကျော်မျှရှိ၍၊တောင်ငူအရှေ့ဖက် ကယားပြည်နယ်နှင့် ရှမ်းပြည်နယ်တောင်ပိုင်းဒေသတို့ အကြားတွင်



စိတ်ထားရိုးသားဖြောင့်မတ်သည့် ပဒေါင်အမျိုးသမီး

အနှံ့ အပြား နေထိုင်ကြသည်။ ရှမ်းပြည်နယ်တောင်ပိုင်းတွင် ပဒေါင် ၁၄,၀၀၀ မျှရှိ၍၊ ကယားပြည်နယ်တွင် ၂,၅၀၀ ကျော်ရှိသည်။ ပျဉ်းမနားအရှေ့ဖက်တွင်ရှိသော ကယား ပြည်နယ်ထဲ အပါအဝင် ပေါင်းလောင်းငယ် မြစ်ဝှမ်းရှိ စတုရန်းမိုင် ၁၅၀ မျှ ကျယ်သော မြေပြန့်၌လည်း နေထိုင်ကြသည်။

ပဒေါင်တို့သည် မိမိတို့ကိုယ်ကို ကေကောင်းဒုဟု ခေါ်ဝေါ်ကြသည်။ ပဒေါင်ယောကျ်ားတို့သည် တောင်သူလူမျိုးတို့ကဲ့သို့ပင် ဖော်ရွေသူများ ဖြစ်သည်။ ကိုယ်လက်ကြံ့ခိုင်မတောင့်တင်းသည်။ အလုပ်ကို အပင်ပန်းခံ၍ လုပ်နိုင်ကြသည်။ ပျော်ပျော်ရွှင်ရွှင်နေတတ်ကြသည်။ ပဒေါင်တို့သည် တောင်ယာကို လှေခါးထစ် စိုက်ပျိုးနည်းဖြင့် စိုက်ပျိုးရာ၌ တောင်စောင်းတွင် တဆင့်ပြီးတဆင့် ကန်သင်းခတ်၍ ရေသွင်းစိုက်ပျိုးကြသည်။ ထိုအလုပ်မှာ များစွာခက်ခဲပင်ပန်း၏။ သို့သော် မညည်းမညူလုပ်ကြသည်။ ကုန်ရောင်းကုန်ဝယ်အလုပ်၌လည်းကောင်းစွာလုပ်တတ်ကြသည်။ အမဲလိုက်လည်း ဝါသနာထုံ၏။ ပတ်ဝန်းကျင်ရှိ တောင်ပေါ်သားတို့တွင် ပဒေါင်တို့သည် အလုပ်အကိုင်၌အတော်ဆုံးအကောင်းဆုံးလူတမျိုးဖြစ်သည်ဟု ခြီးကျူးခံရသည်။ (ကရင်လူမျိုး—လည်းရှု။)

ဦးဘရှင်

# ကမ္ဘာပေါ်တွင်အကြီးကျယ်ဆုံးတူးမြောင်း

**ပနားမား တူးမြောင်းသည် ကမ္ဘာပေါ်တွင် လူတို့ တူးဖော်ခဲ့သည့် အကြီးကျယ်ဆုံး တူးမြောင်းဖြစ်၍၊ ကမ္ဘာ့တခြမ်း ရေကြောင်း ပို့ဆောင်ရေးလမ်းကို ပြောင်းလဲသွားစေခဲ့သည်။ ဤအကြောင်းရပ်တွင် ထိုတူးမြောင်းကို ဖောက်ရာ၌ ကြုံတွေ့ရသည့် အခက်အခဲများနှင့်တကွ၊ တူးမြောင်း၏ အသုံးဝင်ပုံ အကြောင်းတို့ကို စုံလင်စွာ ဖော်ပြထားသည်။**

**ပနားမားတူးမြောင်း။** ။၁၉၁၇ ခုနှစ် ဇန္နဝါရီလ ၇ ရက်နေ့တွင် အလက်လားဗဲလီ အမည်ရှိသော သင်္ဘောတစင်းသည် မြောက်အမေရိကတိုက် သို့မဟုတ် တောင်အမေရိကတိုက်တို့ကို လှည့်ပတ်ခြင်း မပြုရဘဲနှင့် အတ္တလန္တိတ် သမုဒ္ဒရာမှ ပစိဖိတ်သမုဒ္ဒရာဖက်သို့ ရောက်ရှိခဲ့လေသည်။ ယင်းသည့် သင်္ဘောသည် ပနားမား တူးမြောင်းကို ဖြတ်သန်း၍၊ ဤမှာဖက် သမုဒ္ဒရာမှ ထိုမှာဖက် သမုဒ္ဒရာသို့ ကူးပြောင်းခဲ့ခြင်းဖြစ်ရာ၊ အနှစ် ၄၀၀ ခန့်မှစ၍ လေထဲ တိုက်အိမ်ဆောက်ခဲ့သော စိတ်ကူးသည် အကောင်အထည် ပေါ်ခဲ့လေသည်။

ပနားမားတူးမြောင်းသည် ကမ္ဘာပေါ်တွင် လူတို့တူးဖော်လုပ်ကိုင်ခဲ့သည့် တူးမြောင်းများထဲတွင် အကြီးကျယ်ဆုံးဖြစ်၍၊ အင်ဂျင်နီယာလုပ်ငန်းဆိုင်ရာ အောင်မြင်မှုများထဲတွင်လည်း အကြီးကျယ်ဆုံး ဖြစ်သည်။ ယင်း တူးမြောင်းကို ဖောက်လုပ်လိုက်ခြင်းဖြင့် ကမ္ဘာတခြမ်းအတွက်ရေကြောင်းသယ်ယူပို့ဆောင်ရေးလမ်းကြောင်းသည် ပြောင်းလဲသွားခဲ့လေသည်။ ပနားမားတူးမြောင်းကို မြောက်အမေရိကတိုက်နှင့် တောင်အမေရိကတိုက်တို့အကြားရှိ ပနားမားကျွန်းဆက်ကိုဖြတ်၍၊ အတ္တလန္တိတ်သမုဒ္ဒရာကမ်းခြေပေါ်ရှိ ကိုလုံးမြို့နှင့် ပစိဖိတ်သမုဒ္ဒရာကမ်းခြေရှိ ဗဲလဗိုးအာမြို့တို့ကို ဆက်သွယ် ဖောက်လုပ်ထားရာ၊ ၅၀.၇၂ မိုင် ရှည်လျားသည်။ တူးမြောင်းသည် အနောက်မြောက်မှ အရှေ့တောင်သို့ သွယ်တန်းလျက်ရှိသည်။ အတ္တလန္တိတ် ကမ်းခြေဖက်တွင် တူးမြောင်းသည် ရှားဂရီး မြစ်ကြောင်းကို လိုက်၍၊ ပစိဖိတ်သမုဒ္ဒရာကမ်းခြေဖက်တွင် ရီးအိုဂရန်ဒီ မြစ်ကြောင်းအတိုင်း လိုက်သွားလေသည်။

အတ္တလန္တိတ် သမုဒ္ဒရာဖက်မှစ၍ ဝင်လာသော သင်္ဘောတစင်းသည် လီမွန်ပင်လယ်အော်ကမ်းခြေပေါ်တွင် တည်ရှိသော ကိုလုံးမြို့မှ စတင်၍ တူးမြောင်းထဲသို့ ဝင်ရသည်။ ထိုမှ

တဖန် ပေ ၅၀၀ ကျယ်သော တူးမြောင်းတလျှောက် ခရီးဆက်သော် ဂါတွန်းရေတံခါးသို့ရောက်သည်။ ယင်းရေတံခါးတွင် တူးမြောင်းသည် ပင်လယ်ရေပြင်ထက် ၈၅ ပေ မြင့်သည်။ယင်းအမြင့်သို့ သင်္ဘောရောက်ရှိလေအောင် ရေတံခါးသုံးဆင့်ဖြင့် အဆင့်ဆင့် တက်သွားရလေသည်။

ထိုမှတဆင့် ဂါတွန်းရေအိုင်ကို ဖြတ်၍သွားပြီးနောက် နာမည်ကြီးလှသော ဂေးလာဒ် (ကျူလီဗရာ) ကတ်သို့ ရောက်သည်။ ဂေးလာဒ်ကတ် နာမည်ကြီးရခြင်းမှာ ထိုနေရာ၌ တောင်ကိုဖြတ်ကာဖောက်လုပ်ခဲ့ရ၍ တူးမြောင်းဖောက်လုပ်စ စောစောပိုင်းတွင် မြေများ ပြိုပြိုကျသဖြင့် အခက်အခဲများစွာ တွေ့ရသောကြောင့် ဖြစ်သည်။ ထိုမှတဖန် မီဂယ်ရေတံခါးသို့ ရောက်သည်။ ထိုရေတံခါးသို့ ရောက်လျှင် သင်္ဘောအား မီရာဖလော်ရီးရေအိုင်ရေမျက်နှာပြင်သို့ရောက်အောင် အဆင့်ဆင့်လျှော့ချပေးသည်။ မီရာဖလော်ရီး ရေတံခါးသည် သင်္ဘောအား ပစိဖိတ်သမုဒ္ဒရာရေပြင်နှင့် တညီတည်းရှိလေအောင် လျှော့ချပေးလေသည်။သင်္ဘောတစင်းသည် တူးမြောင်းကို အစမှအဆုံးအထိ ဖြတ်သန်းရန် ခုနစ်နာရီမှ ရှစ်နာရီအထိမျှသာ ကြာလေသည်။

အံ့သြခြီးကျူးဖွယ်ရာဖြစ်ခဲ့သော ပနားမား တူးမြောင်း တူးဖော်အောင်မြင်မှုသည် အမေရိကန် ပြည်ထောင်စု၏ဂုဏ်ယူဖွယ်ကောင်းသော စွမ်းဆောင်အောင်မြင်မှုတရပ် ဖြစ်သည်။တိုက်ကြီးနှစ်တိုက်ကို ဆက်စပ်ထားသော ကျွန်းဆက်ကိုဖြတ်၍ ရေလမ်းတခုဖောက်လုပ်ရန်ကို နှစ်ပေါင်းများစွာကပင် စိတ်ကူး ကြံဆခဲ့ကြသော်လည်း အကောင်အထည်မပေါ်ခဲ့ချေ။ ၁၆ ရာစုနှစ်အတွင်းက စပိန်ပြည့်ရှင် ဖာဒီနန်သည် ပနားမားကျွန်းဆက်ကို ဖြတ်၍ တူးမြောင်းဖောက်ရန် ပဌမဆုံး စိတ်ကူးရခဲ့သူဖြစ်သည်။ ဖာဒီနန်၏ရိုက်ရာကို ဆက်ခံသူဖိလစ်သည် နစ်ကရားဂွကို ဖြတ်၍ တူးမြောင်းဖောက်ရန် စ၍စိတ်ကူးထုတ်ခဲ့လေသည်။ ၁၈၂၅ ခုနှစ်တွင် အမေရိကန်အစိုးရသည် ယင်းစိတ်ကူးကို စီမံကိန်းတခုရေးဆွဲ၍ စဉ်းစားခဲ့သည်။ သို့သော် အကောင်အထည်မပေါ်ခဲ့ပေ။ ထိုနောက် ဟော်လန်နိုင်ငံသည်၎င်း၊ ဂရိတ်ဗြိတိန်သည်၎င်း စဉ်းစားကြပြန်သည်။ သို့သော် မတတ်နိုင်၍ လက်လွှတ်ခဲ့ကြရလေသည်။ ကုမ္ပဏီတခုက စမ်းသပ်ဖောက်လုပ်ကြည့်သေးသော်လည်း ဒေါ်လာနှစ်သန်း ကုန်ပြီးနောက်တွင် လက်လျှော့ရပြန်လေသည်။

၁၈၆၉ ခုနှစ်တွင် ဆူးအက်တူးမြောင်းကို တူးဖော်ပြီးစီးအောင်မြင်ပြီးသည့်နောက်တွင် ပြင်သစ်တို့သည် ဆူးအက်တူးမြောင်းကိုကြီးကြပ်တူးဖော်ခဲ့သူ ပြင်သစ်အင်ဂျင်နီယာ ဖာဒီနန်ဒလက်ဆက်အား ဦးစီးစေ၍ ပနားမားတွင် တူးမြောင်းဖောက်ရန် စီစဉ်ခဲ့သည်။ ၁၈၈၈ ခုနှစ်တွင် လုပ်ငန်းစတင်ခဲ့သော်လည်း နောက်တနှစ်တွင်ပိတ်လိုက်ရလေသည်။



ပစိဖိတ်သမုဒ္ဒရာနှင့် အတ္တလန္တိတ် သမုဒ္ဒရာတို့ကို ဆက်သွယ်ပေးသော ပနားမား တူးမြောင်းအတွင်း ပင်လယ်ကူး သင်္ဘောတစင်း ဝင်လာစဉ်

လုပ်ငန်းရပ်ပစ်ရခြင်း၏ အကြောင်းရင်းများမှာ တူးမြောင်းတူးဖော်ရေးကို အားပေးသူများထဲမှပင် မရိုးဖြောင့်မှုကြောင့်ငွေကြေးပစ္စည်းအယိုအဖိတ်များ၍ ကုမ္ပဏီမှာ ကြွေးတင်နေခြင်း၊စရိတ်ကုန် လူပင်ပန်းဆင်းရဲသလောက် လုပ်ငန်းမတွင်ကျယ်ခြင်း၊ ထို့ပြင် ထိုဒေသသည် ရွှံ့ညွန်ချုံနွယ်ပိတ်ပေါင်းတို့ ထူထပ်၍ စိုစွတ်ထိုင်းမှိုင်းသဖြင့် အပူပိုင်းဇုန်တွင်ဖြစ်ပွားတတ်သည့် ကြောက်မက်ဖွယ်ကောင်းလှသော ငှက်ဖျားရောဂါ၊ အဝါဖျား ရောဂါတို့ကြောင့် နေ့ချင်းညချင်း ကြောက်ခမန်းလိလိ၊ တူးမြောင်းအလုပ်သမားများ ထောင်သောင်းချီ၍ သေကြေပျက်စီးခြင်းတို့ ဖြစ်လေသည်။

၁၈၉၈ ခုနှစ်တွင် စပိန်နှင့် ဖြစ်ပွားခဲ့ရသော စစ်ရေးကြောင့် အတ္တလန္တိတ်ကမ်းခြေမှ ပစိဖိတ်ကမ်းခြေသို့ ခရီးတိုတို၊ အချိန်နည်းနည်းနှင့် ကူးသန်းဆက်သွယ်နိုင်မည့် ရေကြောင်းခရီး လိုအပ်ကြောင်းကို အမေရိကန်အစိုးရသည် သဘောပေါက်လာခဲ့သည်။ထို့ကြောင့်ဒေဝါလီခံရ၍ အလုပ်ရပ်ထားရသော ပြင်သစ်ကုမ္ပဏီထံမှ တူးဖော်ရေးပစ္စည်းများကို အမေရိကန်ကဒေါ်လာသန်းလေးဆယ်ဖြင့် ဝယ်ယူလိုက်သည်။ ထို့ပြင် ၁၉၀၄ ခုနှစ်တွင် အတည်ပြုသောစာချုပ်အရ ပနားမား သမတနိုင်ငံမှ ဖောက်လုပ်ရန် ရည်ရွယ်ထားသည့် တူးမြောင်း၏ အလျားအတိုင်း အနံ ၁၀ မိုင် အကျယ်အဝန်းရှိသောဒေသကို အမေရိကန်အစိုးရက လွှဲပြောင်းယူသည်။ ယင်းသို့ လွှဲပြောင်း ယူသည့်အတွက် ပနားမား နိုင်ငံအား အမေရိကန်က ရွှေဒင်္ဂါး ၁၀ သန်းပေးရပြီးလျှင်၊ နှစ်စဉ်နှစ်တိုင်းလည်း မြေငှါးခသဘောဖြင့် ဒေါ်လာ ၂၅၀,၀၀၀ ပေးရလေသည်။ ၁၉၃၉ ခုနှစ်တွင် ဒေါ်လာဈေးကျသဖြင့် ဒေါ်လာ ၄၃၀,၀၀၀ ပေးရန် အမေရိကန်အစိုးရက စာချုပ် ပြင်ဆင် အတည်ပြုခဲ့သည်။ တူးမြောင်း ဖောက်ထားသောဒေသတဝိုက်ကို တူးမြောင်းဒေသဟု ခေါ်လေသည်။

အမေရိကန် အစိုးရသည် အင်ဂျင်နီယာကြီး ဗိုလ်ချုပ်ဂျီဒဗျူဂိုထေဝ်အား ကြီးကြပ်စေ၍ ပနားမားတူးမြောင်းကို တူးဖော်စေသည်။ အင်ဂျင်နီယာကြီး ဂိုထေဝ်သည် သဘာဝ အနှောင့်အရှက်များ ဖြစ်သော ရွှံ့ညွန်ဗွက်အိုင်များ၊ တောင်ကုန်း တောင်တန်းများ၊ မိုးများခြင်း စသည်တို့ကို အနိုင်အထက်ပြုကာ ကြိုးစားဆောင်ရွက်သည်။ သို့သော် ကြောက်စရာ ငှက်ဖျားရောဂါနှင့် အဝါဖျားရောဂါကို မနှိမ်နင်းနိုင်ခဲ့ပါလျှင် ပနားမားတူးမြောင်းကြီးသည် ထိုစဉ်က ပြီးမြောက်အောင်မြင်နိုင်ခဲ့မည် မဟုတ်ချေ။ ဝီလျံစီဂေါဂတ် အမည်ရှိသော ဆရာဝန်ကြီးတဦးက ဆိုခဲ့သော ရောဂါများဖြစ်ပွားစေတတ်သော အနိုဖလီး ခြင်ကောင်များကို အကြီးအကျယ် နှိမ်နင်းပြီးသော် တူးမြောင်းဇုန်ဒေသကို ကျန်းမာရေးနှင့် ညီညွတ်အောင် ပြုပြင်ပေးခဲ့သဖြင့် လူအသေအပျောက် အံ့သြဖွယ်ရာ လျော့နည်းသွားသည်။ထို့ကြောင့် တူးမြောင်းကြီး တူးဖော်ရေး အင်ဂျင်နီယာ လုပ်ငန်းအတွက် ဂိုထေဝ်အား ခြီးကျူး ဂုဏ်ပြုကြရသကဲ့သို့၊ တူးမြောင်းတူးဖော်ရာ၌ မရှိမဖြစ်သော အလုပ်သမားများ၏ ကျန်းမာရေး၊ ထိုဒေသတဝိုက် ကျန်းမာရေးကို ဆောင်ရွက်ခဲ့သော ဂေါဂတ်အားလည်းဂုဏ်ပြုချီးကျူးရမည်ဖြစ်သည်။ ၁၉၁၄ ခုနှစ်ထဲတွင် တူးမြောင်းကြီး ပြီးစီးခဲ့၍၊ တကယ့်တကယ် ဆောက်လုပ်ရချိန်မှာ ခုနစ်နှစ်ဖြစ်သည်။ ကုန်ကျသောစရိတ်ကြေးငွေမှာ ဒေါ်လာ ၃၇၅,၂၀၀,၀၀၀ ဖြစ်လေသည်။ သို့သော် သင်္ဘောဖြတ်သန်းကြေးများကို တနှစ်လျှင် ဒေါ်လာ သန်းပေါင်း ၂၀ ခန့်မှ ၃၅ သန်းကျော်အထိ ရရှိလေသည်။

၁၉၁၄ ခုနှစ်အတွင်းမှစ၍ တူးမြောင်းကြီးထဲတွင် သင်္ဘောများ သွားလာနိုင်ခဲ့သော်လည်း ၁၉၂၀ ပြည့်နှစ်ဇူလိုင် ၁၂ ရက်နေ့တွင်မှ အမေရိကန် သမတက အခမ်းအနားဖြင့် ဖွင့်လှစ်၍ အနိုင်နိုင်ငံမှ သင်္ဘောများကို သွားလာခွင့် ပြုခဲ့လေသည်။

တူးမြောင်းဒေသ၏ အုပ်ချုပ်ရေးကို ယခုအခါ ပနားမားတူးမြောင်းကုမ္ပဏီက စီမံဆောင်ရွက်လျက် ရှိသည်။ တူးမြောင်းတူးဖော်စဉ် အတွင်းက ဂိုထေဝ်သည် အင်ဂျင်နီယာလုပ်ငန်းသာမက ဇုန်နယ်အုပ်ချုပ်ရေးကိုပါတွဲကိုင်၍၊ဘုရင်ခံတဦးသဖွယ်ဆောင်ရွက်ခဲ့ရသည်။ သူနောက်ဆက်ခံသူများသည်လည်း အမေရိကန် ကြည်းတပ် အရာရှိကြီးများဖြစ်၍ အမေရိကန် သမတက လေးနှစ်တကြိမ် ပြောင်းလဲခန့်အပ်သည်။ ယင်းတို့သည် တူးမြောင်းဒေသ၏ ဘုရင်ခံရာထူးနှင့် တူးမြောင်းကုမ္ပဏီ ဥက္ကဋ္ဌရာထူး နှစ်ခုလုံးကို ပူးတွဲထမ်းဆောင်ရလေသည်။အုပ်ချုပ်ပုံစနစ်မှာ ပနားမားနိုင်ငံ အုပ်ချုပ်ရေးနှင့် ဆင်ဆင်တူအောင် စီစဉ်ထားလေသည်။

ပနားမားတူးမြောင်းသည် အမေရိကန်ပြည်ထောင်စု၏ ကာကွယ်ရေးအတွက် အရေးပါသည်မှန်သော်လည်း၊ ကမ္ဘာ့အရပ်ရပ်မှ သင်္ဘောများ ကူးသန်း သွားလာရေးအတွက် အထောက်အပံ့တခုအဖြစ် ပိုမိုအရေးပါလေသည်။ ၁၉၁၄ ခုနှစ်မှ ၁၉၅၁ ခုနှစ်အထိဖြစ်သော ၃၇ နှစ်မျှကာလအတွင်း ကုန် သင်္ဘော ပေါင်း ၁၅၀,၀၀၀ ကျော် ဖြတ်သန်း သွားခဲ့ရာ၊ ဖြတ်သန်းကြေးဒေါ်လာ ၆၁၇,၈၆၀,၀၀၀ ကျော်ရရှိခဲ့လေသည်။

**ပနားမားနိုင်ငံ။** ။ပနားမားနိုင်ငံသည် မြောက်အမေရိကတိုက်နှင့် တောင်အမေရိကတိုက်ကို ဆက်သွယ်ထားသော ပနားမားကျွန်းဆက် တခုလုံးပင် ဖြစ်၏။ မြောက်ဖက်၌ ကယ်ရစ်ဗျန်ပင်လယ်၊ တောင်ဖက်၌ ပစိဖိတ်သမုဒ္ဒရာ၊ အရှေ့ဖက်၌ ကိုလံဘီးယားနိုင်ငံနှင့်အနောက်ဖက်၌ ကော်စတာရီးကားနိုင်ငံတို့ရှိကြသည်။ ပနားမားနိုင်ငံကို ပနားမား တူး

ပနားမား သမတနိုင်ငံမြို့တော်ဖြစ်သော ပနားမားမြို့၏ရှုခင်းတရပ်

မြောင်းက နှစ်ပိုင်းခွဲခြားထား၍ တနိုင်ငံလုံး၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၂၈,၅၇၅ မိုင်ရှိလေသည်။

ပနားမားနိုင်ငံသည် တောင်အမေရိကတိုက်တွင် ရှေးအကျဆုံးနယ်တနယ်ဖြစ်ခဲ့၏။ ၁၅၀၃ ခုနှစ်တွင် ကိုလံဗပ်သည် ပနားမားသို့ ရောက်ခဲ့၏။ ပနားမားသည် စပိန်ပိုင်ကိုလိုနီနယ်တခုဖြစ်ခဲ့ရာမှ၊ ၁၈၂၁ ခုနှစ်တွင် လွတ်လပ်ရေးကြေညာ၍ အိမ်နီးချင်းနိုင်ငံဖြစ်သော ကိုလံဘီယား သမတ နိုင်ငံနှင့် ပူးပေါင်းခဲ့သည်။ သို့ရာတွင် ကိုလံဘီယားနှင့် ပနားမားတို့၏ ဆက်ဆံမှုသည် မပြေပြစ်ခဲ့ချေ။ ၁၉၀၃ ခုနှစ်တွင် ပြင်သစ်တူးမြောင်းကုမ္ပဏီ၏ အခွင့်အရေးများကို အမေရိကန် ပြည်ထောင်စုအားလွှဲပေးရန် ကိုလံဘီယား အထက်လွှတ်တော်က ငြင်းပယ်သောအခါ၊ ပနားမားနယ်သားများသည် ကိုလံဘီယားမှ ခွဲထွက်၍၊ ၁၉၀၃ ခုနှစ် နိုဝင်ဘာလ ၃ ရက်နေ့တွင် လွတ်လပ်ရေး ကြေညာလေသည်။ ဤသို့ကြေညာပြီးနောက် ဆယ်ရက်မြောက်သော နိုဝင်ဘာလ ၁၃ ရက်နေ့၌ ပနားမားမှ ကိုယ်စားလှယ်တဦးသည် ဝါရှင်တန်မြို့တော်သို့ လာရောက်ပြီးလျှင်၊ အမေရိကန် ပြည်ထောင်စုက ပနားမားနယ်ကို အသိအမှတ်ပြုရန် တောင်းဆိုခဲ့၏။ ထိုအချိန်မှစ၍ ပနားမားနယ်သည် သမတနိုင်ငံ အဖြစ်သို့ ရောက်ခဲ့လေသည်။




ပနားမားသမတနိုင်ငံ တည်နေရာပြမြေပုံ

သမတနိုင်ငံသစ်ဖြစ်သော ပနားမားသည် အမေရိကန်ပြည်ထောင်စုနှင့် ၁၉၀၃ ခုနှစ် နိုဝင်ဘာလ ၁၈ ရက်နေ့၌ စာချုပ်တရပ် ချုပ်ဆိုသည်။ ထိုစာချုပ်အရ၊ အမေရိကန်ပြည်ထောင်စုသည် တူးမြောင်းရပ်ဝန်းတဝိုက်ကို အသုံးပြု



ပနားမားသမတနိုင်ငံသူတို့၏ ဆင်ယင်ထုံးဖွဲ့မှုသည် စပိန်ယဉ်ကျေးမှုဖက် နွယ်လျက်ရှိသည်။

နိုင်ခွင့်ရလေသည်။ ထိုပြင် တူးမြောင်း၏ တဖက်တချက် ၅ မိုင်အတွင်းရှိ နယ်မြေတို့ကို အမေရိကန်ပြည်ထောင်စုက အုပ်ချုပ်ပိုင်ခွင့် ရှိလေသည်။

ပနားမားနိုင်ငံ၏ ရာသီဥတုသည် အပူပိုင်းဇုန် ရာသီဥတုမျိုးဖြစ်၏။ နေ့အခါတွင် အလွန်ပူ၍၊ ညဉ့်အခါတွင် အတန်မျှအေးသည်။ စိုစွတ်သောရာသီနှင့် ခြောက်သွေ့သောရာသီဟု ရာသီနှစ်မျိုးသာရှိ၍၊ ပြီလမှ ဒီဇင်ဘာလအထိ ရာသီမှာ စွတ်စိုသောရာသီဖြစ်လေသည်။

ပနားမားနိုင်ငံ၏ လူဦးရေသည် ၁၉၅၀ ပြည့်နှစ် သန်းကောင်စာရင်းအရ ၈၀၅,၂၈၅ ယောက် ဖြစ်၏။ ၁၉၅၅ ခုနှစ် ခန့်မှန်းခြေအရမှာ ၈၆၁,၉၀၀ ယောက်ဖြစ်သည်။ ထိုလူဦးရေတွင် များသောအားဖြင့် စပိန်လူမျိုးနှင့် ပနားမားနယ်ဇာတိသားဖြစ်သော တိုင်းရင်းသားတို့က လူများစုအဖြစ်ဖြင့် ပါဝင်ကြသည်။ သို့သော် နီးဂရိုးလူမျိုးနှင့် အာရှတိုက်သားများလည်း ရှိလေသည်။ ပနားမားနိုင်ငံ၏ မြို့တော်သည် ပနားမားမြို့ ဖြစ်၏။

ပနားမားနိုင်ငံသည် မြေဩဇာအလွန်ထက်သန်၍ ရာသီဥတုလည်း ကောင်းမွန်သောကြောင့် သစ်သီးဝလံအမျိုးမျိုးကို စိုက်ပျိုးနိုင်၏။ အရေးကြီးသော ထွက်ကုန်များမှာ ငှက်ပျောသီး၊ အုန်းသီး၊ ဆေး၊ ကိုကိုး၊ ကာဖီ၊ ကော်ဖတ်နှင့် သားရေများ ဖြစ်လေသည်။ အဖိုးတန်သစ်သားများနှင့် ကော်ဖတ်များလည်း ထွက်သည်။ ကျွဲနွား မွေးမြူရေးနှင့် ပုလဲငုပ်သော လုပ်ငန်းများလည်း ရှိလေသည်။



ပနားမားတူးမြောင်းကို အောင်မြင်စွာ ဖောက်လုပ်နိုင်ခဲ့သဖြင့် ပစိဖိတ်နှင့် အတ္တလန္တိတ် ပင်လယ်ရေကြောင်း သွားလာရေးတွင် ပနားမားသမတနိုင်ငံသည် အရေးပါသော နိုင်ငံတခု ဖြစ်၍လာသည်။


ရှေးခေတ်အီဂျစ်လူမျိုးတို့၏ ပပိုင်းရပ် ပေချပ်တခု

**ပပိုင်းရပ်ပင်။** ။ပပိုင်းရပ်ပင်သည် ကျူပင်နှင့် တူသော အပင်တမျိုးဖြစ်၍၊ ရုက္ခဗေဒအလိုအားဖြင့် 'ဆိုင်ပီယာရေး စီအီး' မျိုးရင်းတွင် ပါဝင်သည်။ ယင်း၏ ရုက္ခဗေဒအမည်မှာ 'ဆိုင်ပီးရပ်ပပိုင်းရပ်' ဖြစ်သည်။ ရှေးအခါက ပပိုင်းရပ်ပင်များကို အီဂျစ်နိုင်ငံ၊ နိုင်းမြစ်ဝှမ်းတလျှောက်၌ အများအပြား စိုက်ပျိုးခဲ့ကြသည်။ အီဂျစ်လူမျိုးတို့သည် ပပိုင်းရပ်ပင်မှရသော အမျှင်များကို အပြားအချပ်လုပ်၍၊ ထိုအပြားအချပ်တို့ အပေါ်၌ စာရေးသားကြသည်။ ရှေးခေတ် နိုင်ငံသမိုင်းများကို ရှာဖွေလေ့လာရာတွင် အီဂျစ်နိုင်ငံ၏အတိတ်အဖြစ်အပျက်များ မှတ်သားထားသည့် ပပိုင်းရပ်စာခွေအများအပြားကို တွေ့ရှိကြသည်။ ထိုပပိုင်းရပ် စာခွေများကို ပြုလုပ်နည်းမှာ ဤသို့ဖြစ်၏။ ပပိုင်းရပ်အတွင်းသားအူတိုင်များကို အထပ်ထပ်စီပြီးလျှင် အပေါ်မှ အလေးဖြင့်ဖိထားရသည်။ သို့ဖိထားသောအခါ အူတိုင်သားသည် ပြားကပ်သွားကာ စာရေးရန် လွယ်ကူလာသည်။ လတ်လတ်ဆတ်ဆတ်ဖြစ်ပါမူ ပပိုင်းရပ်ချပ်သည် ဖြူ၍နေသည်။ ကြာလျှင်သော်ကား ညိုရှိကြွပ်ဆတ်သွားတတ်သည်။

ယခုအခါ ပပိုင်းရပ်ပင်များကို နိုင်းမြစ်၏ အထက်ပိုင်း၌သာ တွေ့ရှိရတော့၏။ ပပိုင်းရပ်ပင်သည် ၃ ပေမှ ၁၂ ပေအထိမြင့်၏။ ရိုးတံမှာဖြောင့်၍၊ အရင်း၌ လက်မောင်းလုံးခန့်ရှိ၏။ အရွက်များကား ကြမ်း၍ရှ၏။ အပွင့်ကလေးများတွင်လည်း မွေးကြမ်းကလေးများဖုံးနေသည်။ ပပိုင်းရပ်ပင်၏ ရိုးတံများကို ငယ်လျှင် ခြင်းတောင်းများရက်လုပ်ရ၍၊ ကြီးလျှင် လှေစပ်၍ ရသည်။ အူတိုင်ကိုကား စာခွေပြုလုပ်ရသည့်အပြင်၊ အစာရေစာခေါင်းပါးသော ကာလ၌ယင်းကို စားသုံးနိုင်သည်။ အမြစ်ကို အခြောက်လှန်းပြီးသော် ထင်းအဖြစ်လည်း သုံးစွဲနိုင်သည်။ ရိုးတံမှ အမျှင်များကို ဖျာ၊ ရွက်ထည်၊ ဖိနပ်စသည်တို့ ပြုလုပ်ရ၏။အီဂျစ်လူမျိုးတို့သည် ထိုအပင်မှအပွင့်ကလေးများကို အီဂျစ်နတ်များအား တင်ဆက်လေ့ရှိကြလေသည်။

# ဆည်းပူးသင့်သည့်အခြေခံပညာ

**ပမာဏသင်္ချာသည် အရာဝတ္ထုတို့၏ အလျား၊ မျက်နှာပြင် အကျယ်အဝန်းနှင့် ထုထယ်တို့ကို တိုင်းတာသော အခြေခံ သင်္ချာပညာရပ်ဖြစ်၍ လူတိုင်း လေ့လာသင့်သည်။ ဤအကြောင်းရပ်တွင် ပုံသေတွက်နည်းများဖြင့် ဝေဝေဆာဆာ ဖော်ပြထားသည်။**

**ပမာဏသင်္ချာ။** ။(ဤပမာဏသင်္ချာအကြောင်းရပ်တွင် သုံးစွဲရသော အင်္ဂလိပ်နှင့် ဂရိသင်္ကေတ အမှတ်အသားများသည် ကမ္ဘာတဝှန်းလုံး၌ အများသုံး သင်္ကေတ အမှတ်အသားများဖြစ်သောကြောင့် ထိုသင်္ကေတတို့နှင့် စပ်လျဉ်းသမျှကို အင်္ဂလိပ်နှင့် ဂရိသုံး အက္ခရာများအတိုင်း ထားရှိပါသည်။) အလျား၊ ဧရိယာ၊ (ဝါ၊ အကျယ်အဝန်း) ထုထယ်စသည်တို့ကို တိုင်းသောသင်္ချာကို ပမာဏ သင်္ချာဟု ခေါ်သည်။ ဤသင်္ချာကို လေ့လာရာတွင် ပုံသေတွက်နည်းများကို အသုံးပြု၍ တွက်ချက်ကြရသည်။ ပုံသေတွက်နည်းများကို တွက်ချက်ယူသည့်နည်းနှင့် သက်သေပြသည့်နည်းများမှာမူကား အများအားဖြင့် ဂျီဩမေတြီ၊ တြိဂိုနိုမေတြီ၊ ကာကုလပ်စသည့် သင်္ချာရပ်များနှင့်သာ သက်ဆိုင်သည်။

ပေ၊ ယာဒ်၊ မီလီမီတာ၊ စင်တီမီတာ အစရှိသည့်အနက် တခုခုကို အလျားတိုင်းကေမူအဖြစ်ဖြင့် ရွေးချယ်၍ ဧရိယာကိုတွက်ယူသောအခါ ဧရိယာတိုင်း ကေမူသည် အလျားတိုင်းကေမူ၏ စတုရန်းဖြစ်သည်။ ပြယုဂ်အားဖြင့် အလျားတိုင်းကေမူသည် လက်မ ဖြစ်လျှင်၊ဧရိယာမှာစတုရန်းလက်မဖြစ်သည်။ ဤနည်းတူ အလျားသည် စင်တီမီတာဖြစ်လျှင်၊ ဧရိယာသည် စတုရန်းစင်တီမီတာ ဖြစ်သည်။ ထောင့်မှန်စတုဂံ၏ဧရိယာကို တွက်ယူလိုသောအခါ $A = L \times B$ တည်း

ဟူသော ပုံသေတွက်နည်းဖြင့် တွက်ယူရသည်။ ဤနေရာ၌ A မှာ ရေိယာ၊ L မှာ အလျား၊ B မှာ အနံဖြစ်သည်။

**ပုစ္ဆာ။** ။စားပွဲတခု၏ မျက်နှာပြင်သည် အလျား ၈ ပေ၊ အနံ ၆ ပေရှိလျှင်၊ ထိုစားပွဲ မျက်နှာပြင်၏ ရေိယာကိုရှာပါ။




ပုံ (က)

**တွက်နည်း။** ။ပုံသေတွက်နည်းအရ

$$A=L\times B$$

$$= ၈ \times ၆ = ၄၈ \text{ စတုရန်းပေ။}$$

ဤပုစ္ဆာကို အခြားတနည်းအားဖြင့်လည်း တွက်ယူနိုင်သည်။ ပုံ(က)တွင်ပြထားသည့်အတိုင်း၊ စားပွဲ၏ပုံကို ရေးဆွဲပြီးလျှင်၊ စားပွဲတွင် စတုရန်းတပေစီရှိသော အကွက်များကိုဖော်ပါ။ တပေပတ်လည် အကွက်ပေါင်း ၈ ကွက်ရှိသည့် အတန်း ၆ တန်းရှိသဖြင့် ရေိယာမှာ ၈ × ၆ = ၄၈ စတုရန်းပေရှိကြောင်း သိရ၏။

ရေိယာတွက်နည်းတွင် ရေိယာ၊ အလျား၊ အနံဟူ၍ သုံးမျိုးရှိလေရာ၊ အကယ်၍ ဤသုံးမျိုးအနက် နှစ်မျိုးကိုပေးထားလျှင်၊ ကျန်တမျိုးကို တွက်ချက်ရှာဖွေနိုင်သည်။ အထက်ပါပုစ္ဆာတွင် ရေိယာနှင့် စားပွဲ၏ အနားတဖက်ကိုပေးထားလျှင်၊ ရေိယာကို ပေးထားသည့်ဖက်နှင့်စားသော် ကျန်အနားတဖက်ကိုရသည်။

**ပုစ္ဆာ။** ။စားပွဲ၏ ရေိယာသည် စတုရန်း ၄၈ ပေဖြစ်၍ အနံသည် ၆ ပေဖြစ်လျှင် အလျားကိုရှာပါ။

**တွက်နည်း။** ။ $\text{အလျား} = \dfrac{\text{ရေိယာ}}{\text{အနံ}} = \dfrac{၄၈}{၆} = ၈ \text{ ပေ။}$

အနားပြိုင်စတုဂံ ဆိုသည်မှာ မျက်နှာချင်းဆိုင် အနားများ ပြိုင်လျက်ရှိသော စတုဂံဖြစ်သည်။ ယင်း၏ ရေိယာကို အောက်ပါနည်းအတိုင်း တွက်ချက်ရရှိနိုင်သည်။အနားပြိုင်စတုဂံတွင် အထက်နှင့်အောက်ရှိ အနားတဖက်တချက်စီကို အခြေဟုယူဆနိုင်သည်။ ဤအနားနှစ်ဖက်ကြားတွင်ရှိသော ထောင့်မတ်မျဉ်းမှာ အနားပြိုင်စတုဂံ၏ အမြင့်ဖြစ်သည်။




အနားပြိုင်စတုဂံ၏ ရေိယာ = အခြေ × အမြင့် (ဤပုံသေနည်း မည်သို့ဖြစ်ပေါ်လာသည်ကို သိလိုလျှင်၊ ဆိုင်ရာဂျီသြမေတြီအဆိုနှင့် သက်သေပြချက်ကို ကြည့်ပါ။)

တြိဂံတခု၏ ရေိယာကိုရှာလိုသောအခါ အခြေပေါ်သို့






မျက်နှာချင်းဆိုင်ထောင့်မှ ထောင့်မတ်မျဉ်းတကြောင်းကို ရေးဆွဲရသည်။ ထောင့်မတ်မျဉ်းသည် တြိဂံ၏အမြင့်ဖြစ်လေရာ တြိဂံ၏ ရေိယာကို

"ရေိယာ $=\frac{\text{အခြေ} \times \text{အမြင့်}}{\text{၂}}$" ဟူသော ပုံသေတွက်နည်းဖြင့် တွက်ယူနိုင်သည်။

(ဤသို့သော ပုံသေတွက်နည်းများ မှန်ကြောင်းပြသည့် ဆိုင်ရာ ဂျီဩမေတြီအဆိုနှင့် သာဓကပြချက်များ ရှိ၏။)

တြာပီးဇီယမ်ဆိုသည်မှာ အနားနှစ်ဖက်သာပြိုင်လျက်နေသော စတုဂံဖြစ်သည်။ ပုံတွင်ပြထားသည့် A B C D ခေါ်




တြာပီးဇီယမ်၏ ရေိယာသည် △ A B C နှင့် △ A C D တို့၏ ရေိယာနှစ်ခု ပေါင်းခြင်းနှင့် ညီမျှသည်။ ထိုကြောင့် A B C D ၏ ရေိယာသည် $\frac{AB \times DM}{\text{၂}} + \frac{CD \times AN}{\text{၂}}$ နှင့်ညီသည်။ သို့ရာတွင် ဂျီဩမေတြီ သာဓကအရ အမြင့် DM = အမြင့် AN

∴ တြာပီးဇီယမ်၏ ရေိယာ

$$= \frac{AB \times \text{အမြင့်}}{\text{၂}} + \frac{CD \times \text{အမြင့်}}{\text{၂}}$$

$$= \text{အမြင့်} \times \left(\frac{AB}{\text{၂}} + \frac{CD}{\text{၂}}\right)$$

$$= \text{အမြင့်} \times \left(\frac{AB+CD}{\text{၂}}\right)$$

$$= \text{အမြင့်} \times \frac{\text{အနားပြိုင်နှစ်ခု ပေါင်းခြင်း}}{\text{၂}}$$

### စက်ဝိုင်း

စက်ဝိုင်းတခုတွင် စက်ဝန်းသည် အချင်း၏ $\pi$ ဆနှင့်ညီသည်။ $\pi$ ၏ တန်ဖိုးမှာ ၃.၁၄၁၆ ဖြစ်သည်။ အကယ်၍ d သည် စက်ဝိုင်း၏အချင်းဖြစ်လျှင် စက်ဝန်းသည် $\pi d$ နှင့်ညီသည်။ ⊙ ၏စက်ဝန်း $= \pi d$

ပုစ္ဆာ။ ။ဘီးတဘီး၏ အချင်းဝက်သည် ၃ ပေရှိလျှင် ထိုဘီး၏စက်ဝန်းကိုရှာပါ။

တွက်နည်းကား။ ။အထက်ပါ ပုံသေနည်းအရ ဖြစ်သည်။ စက်ဝန်း = (၃ × ၂) ၃.၁၄၁၆ = ၁၈.၈၄၉၆ ပေ။

($\pi$ သည် သာမန်ကိစ္စများ အတွက်၊ ၃ $\frac{\text{၁}}{\text{၇}}$ သို့မဟုတ် $\frac{\text{၂၂}}{\text{၇}}$ နှင့် အတူတူပင် ဖြစ်သည်ဟု ယူဆနိုင်ပါသည်။)

စက်ဝိုင်း၏ရေိယာကို အကြမ်းဖျင်းအားဖြင့် အောက်ပါနည်းအတိုင်း ရှာယူနိုင်သည်။ စက်ဝိုင်း တခုကိုဆွဲပြီးလျှင် စက်ဝိုင်းကို ပုံတွင် ပြထားသည့်အတိုင်း အလွန် သေးငယ်သော စက်ဝိုင်းစိတ်များဖြစ်အောင် ပိုင်းဖြတ်ပါ။ ထိုနောက် ဤစက်ဝိုင်းစိတ်များကို စက္ကူမှဖြတ်ယူပြီးလျှင်အခြားစက္ကူတရွက်ပေါ်တွင် (စက်ဝိုင်းအောက်၌ ပြထားသည့်ပုံမျိုးရရှိအောင်) ကော်ကပ်ပါ။





စက်ဝိုင်းစိတ်များကို အလွန်သေးငယ်အောင် ပိုင်းဖြတ်ထားပါက၊ ဤသို့ ကပ်၍ရသော ပုံသည် အကြမ်းအားဖြင့် အနားပြိုင်စတုဂံနှင့် တူပေမည်။ ဤအနားပြိုင် စတုဂံ၏ အထက်နှင့် အောက် အနား အသီးသီးသည် စက်ဝန်း၏ တဝက် ($\frac{\pi d}{\text{၂}}$ သို့မဟုတ် $\pi r$) နှင့် ညီသည်။ စက်ဝိုင်းစိတ်များမှာ အလွန်သေးငယ်သဖြင့် အနားပြိုင်စတုဂံ၏ အမြင့်သည် စက်ဝိုင်း၏အချင်းဝက်ပင် ဖြစ်သည်ဟု ယူဆနိုင်ပေသည်။

ထိုကြောင့် စက်ဝိုင်း၏ ရေိယာ = အနားပြိုင် စတုဂံ၏ ရေိယာ $= \pi r \times r = \pi r^2$ (r သည် စက်ဝိုင်း၏ အချင်းဝက်ဖြစ်သည်။)

ဥဒါဟရုဏ်အားဖြင့် အချင်းဝက် လေးလက်မ ရှည်

သော စက်ဝိုင်း၏ ဧရိယာသည် $\pi$ ၄$^{၂}$ ဖြစ်သည်။ $\pi$၄$^{၂}$= ၃.၁၄၁၆×၁၆ စတုရန်းလက်မ။

## ထုထယ်တိုင်းတာနည်း

ထောင့်မှန်စတုဂံ၏ ဧရိယာမှာ (အလျား × အနံ) ဖြစ်ကြောင်းသိရပြီ။ ထောင့်မှန်စတုဂံပုံရှိသော အရာဝတ္ထုတို့၏ ထုထယ်ကိုရှာလိုလျှင်၊ အထက်ပါ ဧရိယာကို အမြင့်နှင့် မြှောက်ရသည်။ အဘယ်ကြောင့်ဆိုသော် ပုံတွင်ပြထားသည့်အတိုင်း AB ဟူသော ပျဉ်ပြားတွင် ကုဗလက်မ ၁၂ ခု ရှိ၍ ဤပျဉ်ပြားမျိုး ၅ ခုထပ်လျက်ရှိသောကြောင့်တည်း။



ထုထယ် = ၁၂ × ၅ = (ဧရိယာ × အမြင့်)။ အလျားကေမှုသည် လက်မဖြစ်လျှင် ထုထယ်သည် ကုဗလက်မ ဖြစ်သည်။ အလျားအနံတိုင်းရာ၌ ပေတံကို အသုံးပြုခဲ့လျှင်၊ ထုထယ်သည် ကုဗပေဖြစ်လာသည်။

ပုစ္ဆာ။ ။ရေတိုင်ကီတလုံးသည် အလျား ၆ ပေ အနံ ၄ ပေ အမြင့် ၃ ပေရှိလျှင်၊ ထိုရေတိုင်ကီ၏ ထုထယ်ကိုရှာပါ။

တွက်နည်း။ ။ရေတိုင်ကီ၏ ထုထယ် = အလျား × အနံ × အမြင့် = ၆ × ၄ × ၃ = ၇၂ ကုဗပေ။

ပုစ္ဆာ။ ။ထုထယ် ၁၁၅၂ ကုဗလက်မရှိသော ရေပုံးသည် အလျား ၁၆ လက်မ အနံ ၆ လက်မရှိလျှင် ထိုပုံးသည်မည်မျှ မြင့်သနည်း။

တွက်နည်း။ ။ထုထယ် = အလျား × အနံ × အမြင့်

$$\text{ထို့ကြောင့်အမြင့်} = \frac{\text{ထုထယ်}}{\text{အလျား} \times \text{အနံ}}$$

$$= \frac{၁၁၅၂}{၁၆ \times ၆} = ၁၂ \text{ လက်မ။}$$




ကျွန်ုပ်တို့သည် ABCD အမည်ရှိသော ထောင့်မှန်စတုဂံ၏အနား BC ကို ရွှေ့မသွားအောင် ဖိထားပြီးလျှင် အနား AD ကို စက်ဝိုင်းတပတ်ပြည့်အောင် လှည့်သော အခါ ဆလင်ဒါပုံကို ရရှိသည်။ ဆလင်ဒါ၏ထုထယ်ကိုတွက်လိုသောအခါ၊ ဆလင်ဒါ၏အခြေ ဧရိယာကို အမြင့်ဖြင့် မြှောက်ရသည်။ ဆလင်ဒါ မျက်နှာပြင်၏ ဧရိယာသည် ဆလင်ဒါအထက်နှင့်အောက်ရှိ စက်ဝိုင်းတို့၏ ဧရိယာနှင့် ဆလင်ဒါဘေးပတ်လည်ခုံးနေသော မျက်နှာပြင် ဧရိယာတို့၏ ပေါင်းရကိန်းနှင့် ညီသည်။ ဆလင်ဒါ ဘေးပတ်လည်ရှိ ခုံးနေသည့်မျက်နှာပြင်၏ ဧရိယာကို သိလိုလျှင်၊ ဦးစွာ နို့ဆီဗူးကဲ့သို့သော ဗူးတခုကို စိတ်ထဲတွင် ဘေး၌ရှိသော အဆက်ကြောင်းတလျှောက်ညီနေအောင် ဖြတ်၍ဖြန့်ပါ။ ထိုအခါ ထောင့်မှန်စတုဂံပုံပေါ် လာပေမည်။ ထိုနောက် ထိုစတုဂံ၏ အထက်နှင့်အောက်အနားသည် မူလဗူးတွင်ရှိသော စက်ဝန်းနှင့် တူညီသည်ကိုရင်း၊ အခြား အနားနှစ်ဖက်သည် ဗူး၏ အမြင့်နှင့် တူညီသည်ကိုရင်း တွေ့မြင်လာပေမည်။

ထို့ကြောင့်ဆလင်ဒါ မျက်နှာပြင်တခုလုံး၏ ဧရိယာ = ဆလင်ဒါထိပ်နှင့် အခြေတို့၏ ဧရိယာ + ဆလင်ဒါဘေးရှိ မျက်နှာပြင်ခုံး၏ ဧရိယာ = ၂$\pi r^{၂}$+ (၂$\pi r \times l$)

$$= ၂\pi r\ (r + l)$$

(r သည် အချင်းဝက်ဖြစ်၍ l သည် အမြင့်ဖြစ်သည်)။

ပုစ္ဆာ။ ။ဆလင်ဒါတခုတွင်အခြေ သို့မဟုတ် ထိပ်၏အချင်းဝက်သည် ၅ လက်မရှိ၍ ထိုဆလင်ဒါ၏ မျက်နှာပြင်သည် ၄၄၀ စတုရန်းလက်မရှိလျှင် အမြင့်ကိုရှာပါ။

တွက်နည်း။ ။ $2\pi r\ (r + l)$ =ဆလင်ဒါ၏မျက်နှာပြင်

$$၂ \times \frac{၂၂}{၇} \times ၅\ (၅ + l\ ) = ၄၄၀$$

$$၅ + l = \frac{၄၄၀ \times ၇}{၂ \times ၂၂ \times ၅} = ၁၄$$

$l = ၁၄ - ၅ = ၉$ လက်မဖြစ်သည်။

**ဆလင်ဒါထုထယ်။** ။ဆလင်ဒါ၏ထိပ် သို့မဟုတ် အခြေကို အမြင့်နှင့်မြှောက်လျှင် ထုထယ်ကိုရသည်။ အကယ်၍ ဆလင်ဒါ၏ အချင်းဝက်သည် r ဖြစ်၍ l သည် အမြင့်ဖြစ်လျှင် ဆလင်ဒါ၏ ထုထယ်သည် $\pi r^{၂} l$ နှင့် ညီမျှသည်။

**ပုစ္ဆာ။** ။အနက် ၂၈ ပေ အချင်းဝက် ၅ ပေရှိသော ရေတွင်း တတွင်းကိုတူးလျှင် မြေမည်မျှကို ထုတ်ပစ်ရမည်နည်း။

**တွက်နည်း။** ။ဆလင်ဒါ၏ ထုထယ် $= \pi r^{၂} l$

$$\pi r^{၂} l = \frac{၂၂}{၇} \times (၅ \times ၅) \times ၂၈$$

$$= ၂,၂၀၀ \text{ ကုဗပေပေါင်း။}$$

**ပရစ်ဇမ်။** ။ပရစ်ဇမ်ဆိုသည့် အရာဝတ္ထုတွင် ထိပ်နှစ်ဖက်ရှိ မျက်နှာချင်းဆိုင်အနားများသည် ညီ၍ တခုနှင့်တခု ပြိုင်





လျက်ရှိကြပြီးလျှင်၊ ဘေးမျက်နှာပြင်များသည် အနားပြိုင်စတုဂံများဖြစ်ကြသည်။ အကယ်၍ ပရစ်ဇမ်၏ ထိပ်နှစ်ဖက်သည် တြိဂံဖြစ်လျှင် ယင်းကို တြိဂံပရစ်ဇမ်ဟု ခေါ်၍ ဆဋ္ဌဂံဖြစ်လျှင် ဆဋ္ဌဂံပရစ်ဇမ်ဟု ခေါ်ဆိုလေ့ရှိသည်။

**ပရစ်ဇမ် မျက်နှာပြင်၏ ရေိယာကို ရှာနည်း**

ပရစ်ဇမ် မျက်နှာပြင်၏ ရေိယာ = ထိပ်နှစ်ဖက်၏ ရေိယာ + နံဘေးရှိ မျက်နှာပြင် အားလုံးပေါင်း၏ရေိယာ။

**ထုထယ်ကိုရှာနည်း။** ။ပရစ်ဇမ်၏ အခြေရေိယာနှင့် တူညီသော စက္ကူချပ်အမြောက်အမြားကို တခုပေါ်တခုထပ်၍ ထားလျှင် ထိုစက္ကူအပုံသည် ပရစ်ဇမ်ပုံသဏ္ဍာန်ရှိလာပေသည်။ ထို့ကြောင့်ပရစ်ဇမ်၏ ထုထယ် = အခြေ၏ရေိယာ × ပရစ်ဇမ်၏အမြင့်။

**မှတ်ချက်။** ။ပရစ်ဇမ် ထိုင်သောအခြေ၏ အနားများကို တိုသည်ထက်တိုအောင် ပြုလုပ်သွားလျှင်၊ နောက်ဆုံး၌ ထိုပရစ်ဇမ်သည် ဆလင်ဒါ ဖြစ်လာပေသည်။

**ပိရမစ်။** ။ပိရမစ် ခေါ်သော ခေါင်းပိတ်ဝတ္ထုတွင် ဗဟုဂံ အခြေရှိ၍၊ တြိဂံ ပုံသဏ္ဍာန်ရှိ ဘေးမျက်နှာပြင်များသည် အခြေနှင့် တပြင်တည်းမဟုတ်သော နေရာတွင် တွေ့ဆုံကြသည်။ ပိရမစ်၏ ဘေးမျက်နှာပြင်များ တွေ့ဆုံသော နေရာကို ထောင့်ထွတ်ဟု ခေါ်သည်။



ပုံတွင်ပြထားသည့်အတိုင်း အံစာတုံးတခုကို စိတ်ထဲ၌မှန်းဆ၍ ထိုအံစာတုံး၏ဗဟိုကို ထောင့်စွန်းများနှင့် ဆက်ကြည့်လျှင်၊ အရွယ်တူပိရမစ်ခြောက်ခုပေါ်လာပေမည်။ ထိုပိရမစ်တို့၏အမြင့်သည် အံစာတုံး၏အမြင့်တဝက်သာဖြစ်၍၊ ပိရမစ်အသီးသီး၏ ထုထယ်သည် အခြေရေိယာကို အမြင့်၏ သုံးပုံ

တပုံနှင့် မြှောက်၍ ရသော မြှောက်လဒ်နှင့် ညီမျှမည်။ အကြောင်းကို ဤသို့ရှင်းလင်းပါအံ့။

အံစာတုံး အမြင့် = ၂h လက်မဖြစ်လျှင်

ပိရမစ်၏ အမြင့် = h လက်မဖြစ်သည်။

အံစာတုံး ထုထယ် = ၂h × ၂h × ၂h

= ၂h × ( ၂h × ၂h )

= ၂h × အခြေ ဧရိယာ

သို့သော် အံစာတုံး = ပိရမစ် ၆ ခု

∴ ပိရမစ်တခု = $\frac{၂h \times \text{အခြေဧရိယာ}}{၆}$

= $\frac{၁}{၃}$ h × အခြေ ဧရိယာ

ပိရမစ်၏ ထုထယ် = $\frac{၁}{၃}$အမြင့်×အခြေဧရိယာ။

ပိရမစ်မျက်နှာပြင်၏ ဧရိယာသည် အခြေ ဧရိယာနှင့် ဘေးပတ်လည်ရှိ တြိဂံဧရိယာတို့၏ ပေါင်းရကိန်းနှင့်ညီသည်။




**အဝိုင်းထုချွန်။** ။အဝိုင်းထုချွန်ကို အင်္ဂလိပ်လို 'ကုန်း'ဟု ခေါ်သည်။ ပုံတွင်ပြထားသော A B C ခေါ် ထောင့်မှန်တြိဂံ၏ A B အနားကိုတည်မြဲအောင်ထား၍၊ A C ကို လှည့်လိုက်လျှင်အဝိုင်းထုချွန်ကိုရသည်။ အဝိုင်းထုချွန်၏ အခြေအနားကို အလွန်သေးငယ်၍ ညီမျှသော အစိတ်အပိုင်းငယ်များဖြစ်အောင်ခွဲစိတ်ပြီးလျှင်၊ထောင့်ထွတ်နှင့်အစိတ်အပိုင်းအသီးသီး၏အဆုံးနှစ်ခုတို့ကိုမျဉ်းဖြောင့်များဖြင့် ဆက်လိုက်လျှင် တြိဂံငယ်များကိုရရှိလာမည်။ ဤတြိဂံငယ်တို့၏ စုစုပေါင်းဧရိယာသည် အဝိုင်းထုချွန်တွင် ခုံးနေသော မျက်နှာပြင်၏ ဧရိယာပင်ဖြစ်သည်။ (ဤနေရာမှစ၍တြိဂံငယ် အသီးအသီး၏အမြင့်ကို အဝိုင်းထုချွန်၏ အမြင့်စောင်းဟု ခေါ်မည်။ အဝိုင်းထုချွန်၏အထွတ်မှ ယင်း၏အခြေသို့ မျဉ်းမတ်ကျသော မျဉ်းဖြောင့်ကို အဝိုင်းထုချွန်၏ အမြင့်မတ်ဟု ခေါ်မည်။)

အဝိုင်းထုချွန်၏ မျက်နှာပြင်ခုံး ဧရိယာ

= $\frac{၁}{၂}$ အမြင့်စောင်း × အခြေစက်ဝန်း။

အဝိုင်းထုချွန်ရှိ မျက်နှာပြင်တခုလုံး၏ ဧရိယာ

= မျက်နှာပြင် ခုံး၏ ဧရိယာ + အခြေ၏ ဧရိယာ

အဝိုင်းထုချွန်၏ ထုထယ်ကိုရှာလိုသောအခါ၊အခြေကို အမြင့်မတ်၏ သုံးပုံတပုံနှင့် မြှောက်ယူပါ။

**ပုစ္ဆာ။** ။(၁)ပိရမစ်၏ အခြေအနားသည် ၈ ပေပတ်လည်ရှိသောစတုရန်းဖြစ်၍ အမြင့်မတ်သည် ပေ ၂၀ ရှိလျှင် ပိရမစ်၏ထုထယ်ကိုရှာပါ။

**တွက်နည်း။**

ပိရမစ်၏ ထုထယ် = $\frac{၁}{၃}$ အမြင့် × အခြေ၏ ဧရိယာ

= $\frac{၁}{၃}$ × ၂၀ × (၈ × ၈)

= $\frac{၁၂၈၀}{၃}$

= ၄၂၆$\frac{၂}{၃}$ ကုဗပေ

**ပုစ္ဆာ။** ။(၂)အဝိုင်းထုချွန်တခုတွင် အခြေစက်ဝိုင်း၏ အချင်းသည် ၆ လက်မရှိ၍ အမြင့်မတ်သည် ၄ လက်မရှိလျှင် ခုံးနေသော မျက်နှာပြင်နှင့် ထုထယ်ကိုရှာပါ။




**တွက်နည်း။** ။အပေါ်ပုံမှ သိရှိရသည်မှာ

$AB^2 = BD^2 + DA^2$

$= ၃^2 + ၄^2 = ၂၅$ စတုရန်းလက်မ

ထို့ကြောင့် AB = ၅ လက်မ၊ ( အဝိုင်းထုချွန်၏အမြင့်စောင်း)

ခုံးနေသော မျက်နှာပြင်၏ ရေိယာ

$$= ၂\times \frac{၂၂}{၇}\times ၃\times \frac{၅}{၂} = ၄၇\frac{၁}{၇}$$ စတုရန်းလက်မ

မျက်နှာပြင်တခုလုံး၏ ရေိယာ

= အခြေ၏ရေိယာ + မျက်နှာပြင်ခုံး၏ ရေိယာ

$$= \left(၂\times \frac{၂၂}{၇}\times ၃\times \frac{၅}{၂}\right)+\left(\frac{၂၂}{၇}\times ၃\times ၃\right)$$

$$= ၇၅\frac{၃}{၇}$$ စတုရန်းလက်မ။

အဝိုင်းထုချွန်၏ ထုထယ်

= $\frac{၁}{၃}$ အမြင့်မတ် × အခြေ၏ရေိယာ

$$= \frac{၂၂\times ၃\times ၃\times ၄}{၇\times ၃}$$ ကုဗလက်မ

$$= ၃၇\frac{၅}{၇}$$ ကုဗလက်မ

အဝိုင်းထုချွန်ပြတ်၊ သို့မဟုတ် ထုချွန်ပြတ် ဆိုသည်မှာ အဝိုင်းထုချွန်၊ သို့မဟုတ် ပိရမစ်၏ထိပ်ပိုင်းကို အခြေနှင့်ပြိုင်နေသော မျက်နှာပြင်တခုဖြင့် ပိုင်းဖြတ်ထားသည့် ထုပုံဖြစ်လေသည်။





အဝိုင်းထုချွန်ပြတ်၊ သို့မဟုတ် ပိရမစ်ပြတ် မျက်နှာပြင်၏ ရေိယာရှာပုံမှာ အောက်ပါ ဥပဒေအရ ဖြစ်သည်။

ဥပဒေ။ ။ထိပ်နှင့်အခြေ ရေိယာတို့၏ ပေါင်းရကိန်းကို နှစ်နှင့်စားပြီးလျှင်၊ စားလဒ်ကို အမြင့်စောင်းနှင့် မြှောက်ပါ။ အဝိုင်းထုချွန်ပြတ်တွင် ထိပ်နှင့် အခြေတို့သည် စက်ဝိုင်းများ ဖြစ်ကြသည်။ ထို့ကြောင့် မျက်နှာပြင်ခုံး၏ ရေိယာ

$$= \pi \times \text{အမြင့်စောင်း} \times \left(\frac{R + r}{၂}\right)$$ ဖြစ်သည်။

(ဤနေရာ၌ R သည် အခြေ၏အချင်းဝက်ဖြစ်၍ r သည် ထိပ်၏အချင်းဝက်ဖြစ်သည်။)

မှတ်ချက်။ ။ဤပုံသေနည်း မှန်ကြောင်းကို ထုပုံ ဂျီဩမေတြီတွင် သာဓကပြထားသည်။

**အဝိုင်းထုချွန်ပြတ် နှင့် ထုချွန်ပြတ်၏ ထုထယ်ကိုရှာပုံ**

A နှင့် A′ သည် အဝိုင်းထုချွန်ပြတ်၊ သို့မဟုတ် ထုချွန်ပြတ်၏ အခြေနှင့်ထိပ်တို့၏ ရေိယာ ဖြစ်၍ h သည် အမြင့်မတ်ဖြစ်လျှင်၊ အဝိုင်းထုချွန်ပြတ် သို့မဟုတ် ထုချွန်ပြတ်၏ ထုထယ်သည် $\frac{h}{၃}\left(A + A' + \sqrt{AA'}\right)$ ဖြစ်သည်။

အဝိုင်းထုချွန်ပြတ်၏ ထုထယ်ကို အောက်ပါအတိုင်း ရေးသားနိုင်သည်။

$$\text{ထုထယ်} = \frac{h}{၃}\left(A + A' + \sqrt{AA'}\right)$$

$$= \frac{h}{၃}\left(\pi R^{၂} + \pi r^{၂} + \sqrt{\pi R^{၂}.\pi r^{၂}}\right)$$

$$= \frac{h\pi}{၃}\left(R^{၂} + r^{၂} + Rr\right)$$

(မှတ်ချက်။ ။ပုံသေတွက်နည်း၏ သာဓကကို ထုပုံ ဂျီဩမေတြီတွင်ကြည့်ပါ။)

**စက်ဝိုင်းလုံး။** ။စက်ဝိုင်းလုံး ဆိုသည်မှာ ဗဟိုနှင့် မျက်နှာပြင်ရှိ အမှတ်အသီးသီးကို ဆက်သည့် မျဉ်းဖြောင့်တို့ညီသော အရာဝတ္ထုဖြစ်သည်။ ဤမျဉ်းဖြောင့်အသီးသီးကို စက်ဝိုင်းလုံး၏ အချင်းဝက်ဟု ခေါ်သည်။ စက်ဝိုင်းခြမ်းကို တည်မြဲသော အချင်းပတ်လည်တွင် လှည့်သွားစေသောအခါ စက်ဝိုင်းလုံးကိုရသည်။



**စက်ဝိုင်းလုံး၏ မျက်နှာပြင်ဧရိယာကိုရှာနည်း။** ။စက်ဝိုင်းလုံး၏ မျက်နှာပြင် ဧရိယာကို ရရှိလိုသောအခါ၊ အချင်းဝက်၏ နှစ်ထပ်ကိန်းကို ၄ $\pi$ ဖြင့် မြှောက်ယူပါ။

အကယ်၍ r သည် အချင်းဝက် ဖြစ်လျှင် စက်ဝိုင်းလုံး၏ မျက်နှာပြင်ဧရိယာသည် ၄ $\pi r^{၂}$ ဖြစ်သည်။ အခြေ၏အချင်းဝက် r လက်မ ရှိ၍ အမြင့် ၂r လက်မရှိသော ဆလင်ဒါ၏ မျက်နှာပြင်ခုံးဧရိယာလည်း ၄ $\pi r^{၂}$ ဖြစ်သည်ကို သတိချပ်စေလိုသည်။

**စက်ဝိုင်းလုံး၏ ထုထယ်ကိုရှာပုံ။** ။စက်ဝိုင်းလုံးသည်အလွန်သေးငယ်သော အဝိုင်းထုချွန် သို့မဟုတ် ပိရမစ်များဖြင့် ဖွဲ့စည်းထားသည့် အရာဝတ္ထုဖြစ်သည်ဟု ယူဆနိုင်သည်။ ထိုပိရမစ်များမှာ အလွန်အလွန်သေးငယ်၍ ထောင့်ထွတ်များသည် ဗဟိုတွင် ဆုံလျက် ရှိပြီးလျှင်၊ အခြေများမှာစက်ဝိုင်းလုံး၏ မျက်နှာပြင်ဖြစ်နေသည်။

အကယ်၍ r သည် စက်ဝိုင်းလုံး၏ အချင်းဝက် ဖြစ်သော်

$$\text{စက်ဝိုင်းလုံး၏ ထုထယ်} = \text{အခြေ} \times \frac{\text{အမြင့်}}{၃}$$

(ဤနေရာ၌ အမြင့်သည် အချင်းဝက်ပင် ဖြစ်သည်။)

$$= ၄\pi r^{၂} \times \frac{r}{၃} = \frac{၄}{၃}\pi r^{၃}$$

**ပုစ္ဆာ။** ။(၁)အဝိုင်းထုချွန်ပြတ်တွင် အခြေနှင့် ထိပ်တို့၏ စက်ဝန်းများသည် အသီးအသီး ၄၄″ နှင့် ၂၂″ စီရှိ၍ အမြင့်စောင်းသည် ၅″ ရှိလျှင် မျက်နှာပြင်ခုံး၏ ဧရိယာ၊ မျက်နှာပြင်အားလုံး၏ ဧရိယာနှင့် ထုထယ်ကိုရှာပါ။

**တွက်နည်း။** ။အခြေစက်ဝိုင်း၏စက်ဝန်း $= ၂\pi r = ၄၄$

$$\text{ထိုစက်ဝိုင်း၏ အချင်းဝက် } (r) = \frac{၄၄ \times ၇}{၂ \times ၂၂} = ၇''$$




$$\therefore \text{ ထိပ်စက်ဝိုင်း၏ အချင်းဝက်} = ၃\frac{၁}{၂}'' \text{ သည်။}$$

$$\text{မျက်နှာပြင်ခုံးဧရိယာ} = \pi \times \frac{\text{အမြင့်စောင်း}(R+r)}{၂}$$

$$= \frac{၂၂}{၇} \times \frac{၅(၇+၃\frac{၁}{၂})}{၂}$$

$$= \frac{၁၆၅}{၂} \text{ စတုရန်းလက်မ}$$

မျက်နှာပြင်အားလုံး၏ဧရိယာ

= မျက်နှာပြင်ခုံး၏ ဧရိယာ + ထိပ်နှင့်အခြေခံတို့၏ ဧရိယာ

$$= \frac{၁၆၅}{၂} + \frac{၂၂ \times (၇^{၂} + (၃\frac{၁}{၂})^{၂})}{၇}$$

$$= ၈၂\frac{၁}{၂} + ၁၉၂\frac{၁}{၂}$$

$$= ၂၇၅ \text{ စတုရန်း လက်မ}$$

အဝိုင်း ထုချွန်ပြတ်တွင် အမြင့်မတ်ကို တွက်ယူသော် $\frac{၁}{၂}\sqrt{၅၁}$ လက်မ ရသည်။ (ပုံတွင်ကြည့်လျှင် အမြင့်မတ်ကို ပိုက်သဂိုးရပ်၏ နည်းဖြင့် ရှာသည်ကို တွေ့မြင်ရပေမည်။)

$$\text{အဝိုင်းထုချွန်ပြတ်ထုထယ်} = \frac{\pi h}{၃}(R^{၂} + r^{၂} + Rr)$$

ဟူသောပုံသေနည်းကို သုံးရသည်။

ထို့ကြောင့် ထုထယ်

$$= \frac{၂၂ \times \sqrt{၅၁}}{၇ \times ၃ \times ၂}\left[၇^{၂} + (၃\frac{၁}{၂})^{၂} + (၇ \times ၃\frac{၁}{၂})\right] \text{ ကုဗလက်မ}$$

$$= \frac{၂၂ \times \sqrt{၅၁} \times ၈၅\frac{၃}{၄}}{၇ \times ၃ \times ၂} \text{ ကုဗလက်မ}$$

$$= ၃၂၀{\cdot}၇၀၅ \text{ ကုဗလက်မ}$$

**ပုစ္ဆာ။** ။(၂) အချင်းဝက် ၇" ရှိသော စက်ဝိုင်းလုံးတွင် ထုထယ်နှင့် မျက်နှာပြင်၏ ရေိယာကို ရှာပါ။

**တွက်နည်း။** ။မျက်နှာပြင် $= ၄ \pi r^၂ = \frac{၄ \times ၂၂ \times ၇^၂}{၇}$

$= ၆၁၆$ စတုရန်းလက်မ

ထုထယ် $= \frac{၄ \pi r^၃}{၃} = \frac{\times ၂၂ \times ၇^၃}{၃ \times ၇}$

$= ၁၄၃၇ \frac{၁}{၃}$ ကုဗလက်မ။

**ပယင်း။** ။ပယင်းသည် ကြွပ်ဆတ်ဝါဝင်း၍၊အလင်းရောင် အနည်းငယ်ပေါက်သည့် မာသော ပစ္စည်းတမျိုး ဖြစ်၏။ လူတို့သည် ပယင်းကိုဖြတ်တောက်ပြီးလျှင်၊ပုတီးနားတောင်း ပြုလုပ်၍ ဆင်မြန်းလေ့ရှိသည်။ ပယင်း ဖြစ်ပေါ်လာပုံမှာ ရှေးနှစ်ပေါင်းများစွာလောက်က ထင်းရှူးပင်များမှ စီးထွက်သော ထင်းရှူးဆီများသည် မြေလွှာ အထပ်ထပ်တွင် နှစ်မြှုပ်လျက်ရှိခဲ့ရာ နှစ်ပရိစ္ဆေဒ များစွာ ကြာလတ်သော် ပြောင်းလဲမှု အမျိုးမျိုးဖြစ်၍ မာလာပြီးလျှင် နောက်ဆုံးတွင် ပယင်းဖြစ်လာသည်။ မာသည်ဟု ဆိုရငြားလည်း ဖန်၊ ကျောက်ဖြူတို့လောက်ကား မမာချေ။

ပယင်းဖြစ်စေသော ထင်းရှူးပင်များသည် ယခုအခါ ဗောလတစ်ပင်လယ်နှင့် မြောက်ပင်လယ်များ ဖြစ်နေသော ဒေသများတွင် ရှေးက ပေါက်ရောက်ခဲ့ကြသည်။ ထိုဒေသများသည် တဖြည်းဖြည်း ရေအောက်သို့ နစ်မြုပ်သွားပြီးလျှင်၊ ပင်လယ်ပြင်ကြီးများ ဖြစ်သွားသည့်အတွက်၊ ထိုဒေသရှိ ထင်းရှူးများသည် ရေနှင့် နုံးမြေတို့၌ နစ်မြုပ်သွားလေသည်။ ထိုပင်လယ်ပြင်ကြီးများတွင် ရံဖန်ရံခါ လေမုန်တိုင်းများကျရောက်၍ လှိုင်းလေ ပြင်းထန်သောအခါ၊ နစ်မြုပ်နေသော ပယင်းတုံးများသည် လှိုင်းများ၏ ရိုက်ခတ်ခြင်းကို ခံကြရ၍၊ ပတ်ဝန်းကျင် ကမ်းခြေများပေါ်သို့ တခါတရံ ရောက်လာကြလေသည်။ ဤသို့ ရောက်ရှိလာသော ထိုပယင်းများကို ရှေးခေတ်လူတို့သည် ကမ်းခြေ တလျှောက်တွင် လိုက်လံရှာဖွေ ကောက်ယူကြရလေသည်။ သို့ရာတွင် ယခုခေတ် တွင်မူ၊ ဤနည်းဖြင့် ပယင်းကို မရရှိတော့ဘဲ တူးဖော်ယူကြရလေသည်။

ပယင်းကို များသောအားဖြင့် အတုံးကလေးများ အနေနှင့် တွေ့ရတတ်သည်။ သို့သော် လေးပိဿာအထိ အချိန်စီးသောပယင်းတုံးကြီးများကိုလည်း တခါတရံ တွေ့ရတတ်၏။ ပယင်းကို အမေရိကန် ပြည်ထောင်စု၊ ဂရင်းလန်ကျွန်း၊ ဆိုက်ဗီးရီးယားနယ်၊ စစ္စလီကျွန်းနှင့် ဗြိတိန်နိုင်ငံများတွင်



ဗြိတိန်နိုင်ငံ ပမ်နစ်ကင်ဒေသရှိ ပယင်းလုပ်ငန်းရှခင်းတရပ်

အနည်းအကျဉ်းလောက်ရရှိ၍၊ ဗောလတစ် ပင်လယ်ကမ်းခြေတလျှောက်တွင် အထူးသဖြင့် ပရပ်ရှားပြည် အရှေ့ဖက်ဒေသများတွင် အမြောက်အမြားရရှိလေသည်။

ပယင်းကို ဝတ်စားတန်ဆာ အဖြစ်ဖြင့် အသုံးပြုသည့် အပြင်၊ ဆေးတံရိုးများ၊ ဗီးကရက်နှင့် ဆေးပြင်းလိပ်စွပ်တံများ၊ ထီးလက်ကိုင်များ လုပ်ကိုင်ရာ၌လည်း အသုံးချလေ့ရှိသေး၏။ သို့သော် မကြာသေးမီကပင် ဗေ့ကလိုက်ခေါ် ပယင်းတု ပစ္စည်းတမျိုးကို လုပ်ကိုင်နိုင်ခဲ့ရာမှ၊ ယခုအခါ ထိုပယင်းတုကို များစွာ အသုံးပြုလျက် ရှိကြလေသည်။ ထိုဗေ့ကလိုက်ကို လျှပ်စစ်ဓာတ် မလိုက်နိုင်သော ပစ္စည်းအဖြစ်ဖြင့်လည်း အသုံးပြုနိုင်၏။

ရှေးအခါက ဖိနီးရှန်းလူမျိုး၊ ဂရိနှင့်ရောမလူမျိုးတို့သည် ပယင်းကို တန်ခိုးဣဒ္ဓိပါဒ်နှင့် ပြည့်စုံသော အရာဟု ယူမှတ်ကာ အထွတ်အမြတ်ထားကြ၏။ အဘယ်ကြောင့်နည်းဟူမူ ပယင်းကို ပွတ်တိုက်လိုက်သောအခါ လျှပ်စစ် ဓာတ် ပေါ်လာပြီးသော် ပေါ့ပါးသော ပစ္စည်းများကို ဆွဲငင်နိုင်သော သတ္တိရှိသောကြောင့် ဖြစ်လေသည်။ ဂရိဘာသာစကားဖြင့် ပယင်းကို အီလက်ထရွန်ဟု ခေါ်ရာ၊ ယခုအခါ အီလက်ထရစ်စီတီ(လျှပ်စစ်ဓာတ်)ဟုခေါ်သော ဝေါဟာရသည် ထိုစကားမှ ဆင်းသက်ခြင်းပင် ဖြစ်သည်။ တခါတရံ ပယင်းတုံးများအထဲ၌ အမျိုးတိမ်ကော ပပျောက်ခဲ့ပြီးဖြစ်သော ရှေးပိုးသေကောင်များကို တွေ့ရတတ်လေသည်။

**ပရဟာမြို့။** ။ပရဟာမြို့သည်ချက်ကိုဆလိုဗားကီးယားနိုင်ငံ၏မြို့တော်ဖြစ်၏။ ထိုမြို့ကို အင်္ဂလိပ်တို့က ပရက်မြို့ဟုလည်း ခေါ်၏။ ၁၉၅၆ ခုနှစ် ခန့်မှန်းချက်အရ လူဦးရေ ၉၇၂,၅၇၇ ယောက်ဖြစ်သည်။ အဲလဗမြစ်၏ မြစ်လက်တက်ဖြစ်သော ဗာလတားဗား (ဝါ) မော်လဒေါင်းခေါ်မြစ်သည် ထိုမြို့ကို နှစ်ပိုင်းဖြတ်၍ စီးဆင်းသည်။ ထိုမြစ်၏ လက်ျာဖက်ပိုင်းသည် ခေတ်မှီသော အဆောက်အအုံများရှိရာ အပိုင်းဖြစ်၍၊ ကျန်တပိုင်းမှာမူ ရှေးကျသော အဆောက် အအုံများရှိရာ အပိုင်းဖြစ်၏။ မြို့၏ အထင်ရှားဆုံးသော အဆောက်အအုံသည် စိန်ဗိုင်းတပ် ဘုရားရှိခိုးကျောင်းကြီးဖြစ်၏။ ထိုဘုရားရှိခိုးကျောင်းကို ခရစ် ၉၂၅ ခုနှစ်၌ တည်ဆောက်သည်။ ခေတ်ဆန်သော မြို့တဖက်ကမ်းနေရာ၌ကား ခန့်ညားထယ်ဝါသော အဆောက်အအုံကြီးများ၊ဆိုင်ကြီးကနားကြီးများ၊ မီးရထား စက်ခေါင်းနှင့် မီးရထားတွဲ တည်ဆောက်ရာ ဌာနကြီးများရှိကြ၏။ သကြားချက်ရုံကြီးများ၊ ဗျစ်ရည်ချက်ရုံကြီးများနှင့် ဓာတ်သတ္တု လုပ်ငန်းများကိုလည်း တွေ့နိုင်၏။ ပရဟာမြို့သည် ချက်ကိုဆလိုဗားကီးယား နိုင်ငံ တခုလုံးရှိ



ချက်ကိုဆလိုဗားကီးယားနိုင်ငံ၏ မြို့တော်ဖြစ်သော ပရဟာမြို့



အင်္ဂလန်ပြည့်ရှင် ဝိတိုရိယဘုရင်မကြီးလက်ထက် ဘုရင့်အတိုင်ပင်ခံ ပရီဗီကောင်စီ ပဌမညီလာခံသဘင် ကျင်းပစဉ်

မီးရထားလမ်း၊ သင်္ဘောလမ်းတို့ဆုံရာ ဗဟိုအချက်အခြာမြို့ကြီးဖြစ်၍။ ဖန်ထည် မှန်ထည်၊ ကြွေထည်၊ အထည်အလိပ် အစရှိသည့် ကုန်ပစ္စည်းများ၊ စက်ကရိယာများကို ဖြန့်ဖြူးရာမြို့ကြီးလည်းဖြစ်၏။ ထိုမြို့ရှိ တက္ကသိုလ်ကျောင်းကြီးသည် ခရစ် ၁၃၄၇ ခုနှစ်က တည်ဆောက်ခဲ့သော ကျောင်းကြီးဖြစ်သည်။

**ပရီဗီကောင်စီ။** ။ဗြိတိန်နိုင်ငံတွင် ဘုရင်မင်းမြတ်အား အကြံဉာဏ်ပေးရသော ပရီဗီကောင်စီခေါ် ဘုရင့် အတိုင်ပင်ခံအဖွဲ့တခုရှိသည်။ ပရီဗီကောင်စီသည် ရှေး နော်မန်ဘုရင်များလက်ထက်က စ၍ တည်ရှိခဲ့သည်။ နော်မန် ခေတ်တွင် ဘုရင့်အရာရှိကြီးများသည် ပရီဗီကောင်စီတွင် ပါဝင်ကြ၍၊ ဗဟိုအစိုးရ လုပ်ငန်းဆောင်တာများကို စုပေါင်းတာဝန်ယူကာ ဆောင်ရွက်ကြရသည်။ သူတို့အား ဘုရင် မင်းမြတ်က ခန့်ထားလေသည်။ သို့ဖြင့် ရာဇဝင် တလျှောက်လုံးရှိခဲ့ရာတွင် တျူဒါ ဘုရင်များနှင့် စတူးဝပ် ဘုရင်များ လက်ထက်တွင်ကား၊ ပရီဗီကောင်စီသည် အကြီးဆုံး အုပ်ချုပ်ရေးအဖွဲ့ချုပ် ဖြစ်လာလေသည်။

၁၆ဂဂ ခုနှစ် တော်လှန်ရေး အောင်မြင်ပြီးသည့် နောက်တွင်မူ ပရီဗီကောင်စီ၏ နေရာတွင် ကက်ဗိနက်ဝန်ကြီးအဖွဲ့ ရောက်လာသည်။ ယခင်က ပရီဗီကောင်စီ၏လုပ်ငန်းဆောင်တာများကို ကက်ဗိနက် ဝန်ကြီး အဖွဲ့က ဆောင်ရွက်လာတော့သည်။ အစပဌမတွင် ကက်ဗိနက် ဝန်ကြီးအဖွဲ့သည် ပရီဗီကောင်စီ၏ အဖွဲ့တခု အနေဖြင့်သာ စတင်ပေါ်ပေါက်လာသည်။ ယခုအခါတွင်ကား ကက်ဗိနက် ဝန်ကြီးအဖွဲ့သည် ပရီဗီကောင်စီထက် အရေးပါလေသည်။

ပရီဗီကောင်စီ အဖွဲ့ဝင်များ၏ သက်တမ်းမှာ ရာသက်ပန်ဖြစ်သည်။ ကက်ဗိနက် ဝန်ကြီးများ အားလုံးသည် ရာထူးအရ ပရီဗီကောင်စီ အဖွဲ့ဝင်များဖြစ်ကြသည်။ ထို့ပြင် ဆွေတော်မျိုးတော်ထဲမှလည်း အဖွဲ့ထဲတွင် ပါဝင်၍၊ ဗြိတိန်၊ ဒိုမီနီယန် နိုင်ငံများနှင့် ကိုလိုနီများ၌ နိုင်ငံရေး၊ အယူဝါဒရေးနှင့် တရားစီရင်ရေးဆိုင်ရာ ရာထူးဌာနန္တရကြီးများလက်ကိုင်ရှိသော ပုဂ္ဂိုလ်ကြီးများကိုလည်း ဂုဏ်ပြုသော အနေဖြင့် ပရီဗီကောင်စီသို့ တင်မြှောက်လေ့ရှိသည်။ ယခုခေတ် ပရီဗီကောင်စီတွင် အဖွဲ့ဝင် ၃၀၀ မျှရှိလေသည်။

ထိုကောင်စီကဆောင်ရွက်ရသော အလုပ်ဝတ်တရားများထဲတွင် အရေးပါ အရာရောက်သော လုပ်ငန်းဆောင်တာများကို ကက်ဗိနက်အဖွဲ့က ထိုကောင်စီ၏ ကော်မီတီတခု

အနေနှင့် တာဝန်ယူ ဆောင်ရွက်သွားသည်။ ကောင်စီသည် အုပ်ချုပ်ရေး ဆိုင်ရာများတွင် ဆေးဖက်ဌာန၊ ကျွဲနွား တိရစ္ဆာန် ကုသရေးဌာန များကို ကြည့်ကြပ်ရ၍၊ မျူနီစီပယ်စသည့်အဖွဲ့များ ဖွင့်လှစ်ပေးရေး ကိစ္စများကိုလည်း ဆောင်ရွက်ရလေသည်။ ထိုပြင် ပရီဗီကောင်စီ၏ တရားစီရင်ရေးကော်မီတီသည် ယူနိုက်တက်ကင်းဒမ်းမှအပ၊ ဗြိတိသျှ ဓနသဟာယ အတွင်း တရားမမှုများအတွက်၊ နောက်ဆုံးအပြီးအပြတ် အယူခံဝင်ရာ ရုံးတော်ဖြစ်လေသည်။ ပရီဗီကောင်စီ၏ အကြီးအမှူးသည် ကက်ဗိနက်အဖွဲ့ဝင် ဝန်ကြီး တဦးဖြစ်၏။ ကောင်စီ အဖွဲ့ဝင် လူကြီး အားလုံးသည် ဘုရင်သစ် နန်းတက်စတွင်သာ ဖြစ်စေ၊ သို့မဟုတ် ဘုရင် ဖြစ်သူက မိမိအရွယ်ရောက်ပြီဖြစ်ကြောင်း ထုတ်ပြန်ကျေညာသည့် အခါတွင်သာ ဖြစ်စေ တွေ့ဆုံ စည်းဝေးလေ့ ရှိလေသည်။



ဒန်တီဂေဗရီယယ်ရိုဆက်တိ၏ အသေးစိတ်ဖော် ပန်းချီ လက်ရာကောင်းတခု

**ပရီရက်ဖီယယ်လိုက်။** ။မူရင်းအားဖြင့် အင်္ဂလိပ်စကားဖြစ်သော ပရီရက်ဖီယယ်လိုက်ဟူသည့် ဝေါဟာရသည် ခရစ် ၁၄၈၃ ခုနှစ်မှ ၁၅၂၀ ပြည့်နှစ်အတွင်း ထွန်းကားသောဣတလီအမျိုးသားပန်းချီကျော် ရက်ဖီယယ်၏ ခေတ် မရောက်မီ ခေတ်စားလျက်ရှိသော ပန်းချီရေးနည်း စံနစ်တရပ်ကို ပြန်လည်ထုတ်ဖော်သည့် ပန်းချီဂိုဏ်းသားတို့ကိုရည်ညွှန်းသည်။ (ရက်ဖီယယ်, စန္တီ — လည်းရှု။)ခရစ် ၁၈၄၈ ခုနှစ်တွင် ဟိုလမန်ဟန့်(ခရစ် ၁၈၂၇–၁၉၁၀)၊ ဂျွန် အက်ဗာရက် မီလေး (၁၈၂၉–၉၆) နှင့် ဒန်တီ ဂေဗရီယယ် ရိုဆက်တီ



ပရီရက်ဖီယယ်လိုက် ပန်းချီကျော် ဒန်တီဂေဗရီယယ်ရိုဆက်တီ

(ခရစ် ၁၈၂၈–၈၂) တည်းဟူသောပန်းချီဆရာ ၃ ဦးတို့သည် ယင်းတို့၏ခေတ်တွင် ထင်ရှားနေသော စာပေနှင့် ပန်းချီ အနုပညာနည်းနိသျတို့၌ ငြီးငွေ့လာပြီးလျှင်၊ နည်းသစ်နည်းဆန်းတို့ကို ရှာဖွေရာဝယ်၊ ဣတလီအမျိုးသားပန်းချီဆရာကြီး၏ခေတ်သို့ ရောက်နေလုဆဲဖြစ်သောကာလ၌ ရှေးရိုးဆရာကြီးတို့ရေးဆွဲသော ကိုးကွယ်ရာ အယူဝါဒနှင့်ဆိုင်သည့် ပန်းချီကား ရေးဆွဲနည်းတို့ကို လွန်စွာ နှစ်သက်လာကြလေသည်။ ထို့ကြောင့် ထိုနည်းကိုပင်လျှင် တဖန်ထွန်းကားစေမည်ဟု ရည်ရွယ်၍၊ ပရီရက်ဖီယယ်လိုက် အနုပညာရှင်ဂိုဏ်း တဂိုဏ်းကိုတည်ထောင်သည်။ ထိုဂိုဏ်းဝင် အနုပညာရှင်တို့သည် စာပေကျမ်းဂန်တို့၌ လာသော အကြောင်းအရာတို့ကို သစ်လွင်သောရောင်စုံတို့ဖြင့်၊ အသေးစိတ်၌ တိကျ မှန်ကန်လေအောင် ပန်းချီ ရေးခြယ်လေ့ ရှိသည်။ အသေးစိတ်တို့၌ တိကျ မှန်ကန်အောင် မည်မျှ ဂရုတစိုက် ပြုပါသနည်းဟုဆိုသော်၊ ပန်းချီဆရာဟန့်သည် ခရစ်တော်၏ လက်သမားဘဝကိုသရုပ်ဖော်သောပုံ၌ မူရင်းနှင့် အနီးစပ် အမှန်ကန်ဆုံးဖြစ်လေအောင် ပယ်လက်စတိုင်း၌ ပေါက်ရောက်သော ဆီဒါသစ်ပင်ကို သေချာစွာလေ့လာပြီးမှ ရေးဆွဲသည်။ ပရီရက်ဖီယယ်လိုက်တို့၏ အယူအဆသည် စာပေနှင့် ပန်းချီ အနုပညာတို့ဖြင့် တိကျမှန်ကန်သော သဘောကို အသေးစိတ်ပေါ်လွင်အောင် ဖော်ထုတ်သော အယူအဆဖြစ်သည်။



အောက်ဆီဂျင်ဒြပ်စင်ကို စတင်တွေ့ရှိသူ ဂျိုးဇက်ပရီးဆလီ

**ပရီးဆလီ,ဂျိုးဇက်**(ခရစ် ၁၇၃၃ – ၁၈၀၄)။ ။ဂျိုးဇက် ပရီးဆလီသည် ခရစ် ၁၇၇၄ ခုနှစ်တွင် အောက်ဆီဂျင်ဒြပ်စင်ကို စမ်းသပ်တွေ့ရှိသော ခရစ်ယာန် ဘုန်းကြီး ဓာတုဗေဒ ပညာရှင် ဖြစ်သည်။ ပရီးဆလီသည် အောက်ဆီဂျင်ကို ပဌမ ထုတ်လုပ်စဉ်က မာကျူရစ် အောက်ဆိုက်ကို မီးပြင်းတိုက်၍ထုတ်လုပ်သည်။ ထိုသို့ မီးပြင်းတိုက်၍ ရသောဓာတ်ကို ပြင်သစ်ဓာတုဗေဒပညာရှင် လဗွာစီယေက အောက်ဆီဂျင် ဟု အမည်မှည့်ခဲ့သည်။ (လဗွာစီယေ, အေ၊အယ်—ရှု။)

ပရီးဆလီကို အင်္ဂလန်ပြည် လိဒ်မြို့အနီးတွင်မွေးဖွားသည်။ ဦးစွာ၌ ပရီးဆလီသည် သမိုင်းပညာနှင့် သိပ္ပံပညာတို့ကို ဆပ်ဖတ်နယ်တွင် သင်ကြားပို့ချနေသော ဆရာဖြစ်သည်။ ထိုနောက် လိဒ်နှင့် ဗာမင်ဂမ်မြို့တို့တွင် နန်းကွန်ဖောမစ်ဂိုဏ်းဝင် ခရစ်ယာန် ဘုန်းကြီးအဖြစ်ဖြင့် နေထိုင်ခဲ့ရာ၊ ဗင်ဂျမင် ဖရန်ကလင်နှင့် သိကျွမ်းရသည်တွင်၊ လျှပ်စစ်ဓာတ် အကြောင်း၌ များစွာ စိတ်ပါဝင်စားလာပြီးလျှင်၊ ဓာတုဗေဒ ပညာကိုလည်းလိုက်စားလာခဲ့သည်။ဤသည်တွင် ပရီးဆလီသည် အောက်ဆီဂျင်အပြင် ဟိုက်ဒရိုကလောရစ်အက်ဆစ်၊ ဆာလဖာ ဒိုင်အောက်ဆိုက်၊ အမ်မိုးနီးယား၊ နိုက်ထရပ် အောက်ဆိုက် စသည်တို့ကိုလည်း စမ်းသပ်ထုတ်လုပ်တွေ့ရှိခဲ့သည်။ပရီးဆလီသည် နန်းကွန်ဖောမစ်ဖြစ်ပြီးလျှင်၊ပြင်သစ်တော်လှန်ရေးကိုလည်း အားပေးသောကြောင့်၊ အင်္ဂလန်ပြည်တွင် များစွာ နာမည်ပျက်ခဲ့သဖြင့်၊ ၁၇၉၄ ခုနှစ်တွင် အမေရိကန် ပြည်ထောင်စုသို့ ပြောင်းရွှေ့နေထိုင်သည်။ ၁၈၀၄ ခုနှစ် ဖေဖွာရီလ ၆ ရက်နေ့တွင် အမေရိကန် ပြည်ထောင်စု၌ပင် ကွယ်လွန်လေသည်။

**ပရီးဆလီ,ဂျွန်ဗိုင်တန်**(ခရစ် ၁၈၉၄ ဖွား)။ ။ဂျွန်ဗိုင်တန် ပရီးဆလီသည် အင်္ဂလိပ်ပြဇာတ်နှင့် ဝတ္ထုရေးဆရာဖြစ်သည်။ယော့ရှိုင်ယာနယ် ကျောင်းဆရာတဦးဖြစ်သူ၏ သားဖြစ်သည်။ ကိမ်းဗရစ် တက္ကသိုလ်တွင် ပညာသင်ခဲ့ပြီးလျှင်၊ နစဉ်အခါက ချားနှင့် မေရီလမ့်တို့၏ အတုကိုယူ၍၊ စာမွန်ရေးဆရာတဦးအဖြစ်ဖြင့်၊ ပြောင်မြောက်စွာ ထွန်းကားရန် ရည်သန်ခဲ့၏။ သို့သော် ချားဒစ်ကင်း၏ အဖွဲ့အနွဲ့နှင့် ဆင်ဆင်တူသော ဝတ္ထုများကို ရေးသားခြင်းကြောင့်သာလျှင်၊ ကျော်စော ထင်ရှားလာသည်။ (ဒစ်ကင်း, ချား — ရှု။) ပရီးဆလီရေးသားသည့် "အဖော်ကောင်း" ဟူသော ဝတ္ထုသည် မျက်မှောက်ခေတ် အင်္ဂလိပ်စာပေတွင် အလွန်ကျော်ကြားသည်။ နောင်သောအခါ ပရီးဆလီသည် သူ၏ ဝတ္ထုများကို ပြဇာတ်အဖြစ်ပြန်ရေးရာမှ၊ ပြဇာတ်အရေးအသားတွင်လည်း ထူးချွန်ကောင်းမွန်လာလေသည်။ဒုတိယကမ္ဘာစစ်အတွင်း၌ ပရီးဆလီသည် ဘီဘီစီမှနေ၍ အသံလွှင့်ရာ၊ သူ၏ အသံလွှင့်ချက်တို့ကို လူကြိုက်များလာပြန်သည်။



ပြဇာတ်နှင့်ဝတ္ထုရေးဆရာ ဂျွန်ဗိုင်တန်ပရီးဆလီ

**ပရိုတိုဇွန်းကောင်။** ။ပရိုတိုဇွန်းကောင်သည် ဆဲတခုတည်းရှိသော သတ္တဝါဖြစ်၍ပရိုတိုဇိုဝါခေါ် မျိုးပေါင်းစုတွင် ပါဝင်သည်။ပရိုတိုဇွန်းကောင်တို့သည်ခန္ဓာဖွဲ့စည်းပုံ၌အရှင်းဆုံးဖြစ်ကြသည့်အလျောက်၊ တိရစ္ဆာန်လောကတွင် အနိမ့်ဆုံးသတ္တဝါများဖြစ်ကြသည်။ ပရိုတိုဇိုဝါဟူသော စကားမှာ ဂရိလူမျိုးတို့၏ စကားဖြစ်၍ ကနဦးတိရစ္ဆာန်ဟူ၍အဓိပ္ပါယ် ရရှိသည်။ အခြား တိရစ္ဆာန်တို့ကိုမူ မက်တာဇိုဝါဟု ခေါ်၍၊ ထိုတိရစ္ဆာန် အပေါင်းသည် ဆဲအများဖြင့် ဖွဲ့စည်းလျက် ရှိကြသည်။

ပရိုတိုဇွန်းကောင်မျိုးပေါင်း၁၅,၀၀၀ ခန့်ရှိသည်ဟုဆို၏။ များသောအားဖြင့် ပရိုတိုဇွန်းကောင်တို့သည် သေးငယ်လွန်းလှ၍၊ ယင်းတို့ကို မိုက္ကရိုစကုပ်ဖြင့် ကြည့်မှသာလျှင် မြင်ရသည်။ ပရိုတိုဇွန်းကောင်များကို မြစ်၊ ချောင်း၊ ပင်လယ်ထဲရှိ ရေညှိပင်၊ ကျောက်ခက်ပင်များတွင် တွေ့ရတတ်သည်။ ထိုရေတစက်ကိုယူ၍ မိုက္ကရိုစကုပ်ဖြင့် ကြည့်ရှုလျှင်၊ ပရိုတိုဇွန်းကောင်ပေါင်း မြောက်မြားစွာပါရှိသည်ကို တွေ့ရမည်။ ပရိုတိုဇွန်းကောင်တို့သည် အလွန် ပွားလွယ်သောကြောင့် ပတ်ဝန်းကျင်အခြေအနေသည်သာ သင့်တင့်လျောက်ပတ်ပါက နာရီပိုင်း အနည်းငယ်အတွင်း မရေမတွက် နိုင်လောက်အောင် ပေါက်ပွားလာနိုင်ကြသည်။

ရေထဲတွင် ပရိုတိုဇွန်းကောင်များ ရှိကြောင်းကို ၁၇ ရာစုနှစ်အစလောက်တိုင်အောင် မည်သည့် သိပ္ပံပညာရှင်မျှ မတွေ့ရှိကြသေးချေ။ ၁၆၇၄ ခုနှစ်၌ ဒပ်ချ်လူမျိုး အန်းတွန်နီဗန်လေးဗင်ဟုဆိုသူသည် မိုက္ကရိုစကုပ်ဖြင့် စမ်းသပ် ကြည့်ရှုရာ၊ ကန်ရေ၊ ချောင်းရေ စသည်တို့တွင် ပရိုတိုဇွန်းကောင်များပါရှိသည်ကို စတင်တွေ့မြင်လေသည်။

ပရိုတိုဇွန်းကောင်တို့၏ ရွေ့ရှား သွားလာပုံမှာ တမျိုးနှင့်တမျိုး မတူပေ။ (က) ယူဂလီနားခေါ် ပရိုတိုဇွန်းကောင်မျိုးသည် ကိုယ်တွင်ရှိသော အမွေးယောင်ကို လှုပ်ရှား၍သွားလာသည်။ (ခ)အမီးဗားခေါ် ပရိုတိုဇွန်းကောင်မျိုးသည် ထိုအမွေးယောင်မျိုးမရှိသဖြင့်၊ ကိုယ်ကိုရှုံ့တွန့်၍ ရွေ့ရှားရသည်။ (ဂ)ပယ်ရာမီးရှီယမ်ခေါ် ပရိုတိုဇွန်းကောင်မျိုးတွင် ကိုယ်၏ ဘေးပတ်လည်၌ မွေးညှင်းများ ရှိခြင်းကြောင့် ယင်းတို့ကို အားပြု၍ သွားလာနိုင်သည်။ (ဃ) ပလက်စမိုဒီယမ်ခေါ် ပရိုတိုဇွန်းကောင်မျိုးတွင် မည်သည့်အရာကိုမျှ အားပြု၍ သွားစရာမရှိသဖြင့် တနေရာတည်းတွင် စွဲမြဲ၍နေရလေသည်။

ပရိုတိုဇွန်းကောင်များသည် ရေထဲ၌သာ ရှိကြသည်မဟုတ်။လူကိုယ်ခန္ဓာနှင့် မြေကြီးထဲ၌လည်း ရှိကြသည်။ ခြင်ကိုက်၍ ငှက်ဖျားရောဂါရရှိခြင်းမှာ သွေးသားထဲတွင် ငှက်ဖျားရောဂါ ပရိုတိုဇွန်းကောင်များ ဝင်ရောက်သွားခြင်းကြောင့် ဖြစ်သည်။ လူကိုယ်ခန္ဓာထဲသို့ ပရိုတိုဇွန်းကောင်များဝင်ရောက်လာလျှင် ငှက်ဖျားရောဂါနှင့် အဝါဖျားဖြစ်ပေါ်လာတတ်သည်။ ပရိုတိုဇွန်းကောင်များသည် သွေးသားကို အနှောင့်အရှက်အပေးနိုင်ဆုံးသော ပိုးမွှားကလေးများဖြစ်ကြသည်။ (ပရိုတိုပလက်ဇမ် — ရှု။)

**ပရိုတိုပလက်ဇမ်။** ။ဇီဝဗေဒတွင် ပရိုတိုပလက်ဇမ်ကို သက်ရှိ၏ အခြေခံပစ္စည်းဟု ဆိုသည်။ ပရိုတိုပလက်ဇမ်ကို အပင်နှင့်တိရစ္ဆာန်တို့တွင် တွေ့ကြရသည်။ အားလုံးသော အပင်နှင့်တိရစ္ဆာန်တို့သည် ဆဲများနှင့် ပြီးလျက်ရှိ၍၊ ထိုဆဲများမှာ အမြွေး ဖုံးအုပ်ထားသော သေးငယ်သည့် ပရိုတိုပလက်ဇမ်များဖြစ်ကြသည်။ပရိုတိုပလက်ဇမ်သည်အရောင်မဲ့၍၊ဂျယ်လီနှင့်တူသောပစ္စည်းဖြစ်သည်။ အများအားဖြင့် ဆဲတွင် အပိုင်း၂ ပိုင်း ပါဝင်သည်။ ဆဲ၏ဗဟိုပိုင်း၌ သိပ်သည်းသောပရိုတိုပလက်ဇမ်ရှိ၍ယင်းကို နျူးကလီးယပ်ဟုခေါ်သည်။ ထိုနျူးကလီးယပ်၏အပြင်ဖက်၌ရှိသော ပရိုတိုပလက်ဇမ်ကို ဆိုက်တိုပလက်ဇမ်ဟု ခေါ်သည်။

နျူးကလီးယပ်နှင့်ဆိုက်တိုပလက်ဇမ်ထဲတွင် ဓာတ်ပစ္စည်းများ အလွန်ရှုပ်ထွေးလျက်ပါရှိကြသည်။ ပရိုတိုပလက်ဇမ်သည် ဓာတ်အစု တမျိုးတည်းဖြင့် တည်ဆောက်ထားသော ပစ္စည်းမဟုတ်ပေ။ ဒြပ်ပေါင်း အမြောက်အမြား ရောနှောပါရှိသော ပစ္စည်းသာလျှင်ဖြစ်သည်။ ထိုဒြပ်ပေါင်းများတွင် ပါရှိသောဓာတ်အမျိုးအစားမှာလည်း ဆဲတခုနှင့်တခု၌ရင်း၊ တစ်ရှူးတမျိုးနှင့်တမျိုး၌ရင်းမတူပေ။ (တစ်ရှူး — ရှု။) ပရိုတိုပလက်ဇမ်ထဲတွင် တွေ့ရသော အရေးကြီးဆုံး ဓာတ်ပစ္စည်းတို့မှာ ပရိုတင်းများပင် ဖြစ်၍၊ ယင်းတို့မှာ ကာဗွန်၊ ဟိုက်ဒရိုဂျင်၊ အောက်ဆီဂျင်၊ နိုက်ထရိုဂျင် ဒြပ်ပေါင်းများဖြစ်ကြသည်။ ပရိုတင်းများအပြင် ကန့်၊ ဖော့စဖောရပ်နှင့် အခြားသတ္တုဒြပ်များကိုလည်း တွေ့ရသေးသည်။ အများအားဖြင့် ပရိုတိုပလက်ဇမ်တွင် အဆီနှင့် ကာဗိုဟိုက်ဒရိတ်များ ပါလေ့ရှိသည်။ ပရိုတို ပလက်ဇမ်ထဲ၌ ပါရှိသော ဒြပ်ပေါင်းတို့တွင် ကာဗွန်သည် အရေးကြီးသော ဒြပ်စင်ဖြစ်ပေသည်။

ဓာတုဗေဒပညာရှင်တို့သည် ပရိုတိုပလက်ဇမ်ထဲတွင်ပါရှိသော ဓာတ်ပစ္စည်းများကို ဓာတ်ခွဲ၍ ကြည့်နိုင်ကြသော်လည်း၊အဘယ်ကြောင့် ပရိုတိုပလက်ဇမ်၌ အသက်ရှိရသည်ကိုမူ မသိကြပေ။ ပရိုတိုပလက်ဇမ်ထဲတွင် ပါရှိသော ဓာတ်ပစ္စည်းများကို အခြားသက်မဲ့ ဝတ္ထုများထဲ၌လည်း တွေ့ရသည်။သို့သော် သက်ရှိပစ္စည်းများတွင် ထိုဒြပ်စင်များသည် သက်ရှိတို့အတွက် အဓိကလိုအပ်သော ဓာတ်များ ဖြစ်စေနိုင်ရန် ဆောင်ရွက်လျက်ရှိကြသည်။

ပရိုတိုပလက်ဇမ်၏ ဂုဏ်သတ္တိအချို့ကို ဆဲတခုတည်းရှိ အမီးဗားကဲ့သို့သော သတ္တဝါတွင် တွေ့ကြရသည်။ ထိုသတ္တ

ဝါကလေးများသည် ရိုးရိုးပရိုတိုပလက်ဇမ်အစိုင်အခဲပင်ဖြစ်သည်။ ထိုသတ္တဝါကလေးထဲရှိ ပရိုတိုပလက်ဇမ်သည် အပူချိန် ပြောင်းလဲမှုနှင့် တွေ့ထိမှုတို့ကို လိုက်၍ ရွေ့ရှားလျက်ရှိသည် ။(အမီးဗား — လည်းရှု။) ပရိုတိုပလက်ဇမ်သည် အစာကို မျိုဝ်နိုင်ပြီးလျှင် မလိုသောပစ္စည်းကိုလည်း စွန့်ပစ်နိုင်သည်။ ထိုပြင် အသက်လည်းရှုနိုင်၍၊ ဆဲလ်ခွဲခြင်းအားဖြင့် မျိုးဆက်ပွားမှုများကို ပြုလုပ်နိုင်သည်။ သိပ္ပံပညာရှင်များသည် ပရိုတိုပလက်ဇမ်ထဲတွင် ဖြစ်ပျက်နေသော ဓာတ်ပြုမှုများကို လေ့လာခဲ့ကြသည်မှာ နှစ်ပေါင်းအတော်ကြာခဲ့ပေပြီ။ သို့သော် ထိုပြဿနာများကိုမဖြေရှင်းနိုင်ကြသေးပေ။

**ပရိုတင်း။** ။ကျွန်ုပ်တို့ စားသောက်သော အစားအစာများတွင်ပါရှိသည့် ပရိုတင်းခေါ် ဓာတ်သည် လူသတ္တဝါတို့၏ ခန္ဓာကိုယ် တည်တံ့ခိုင်မြဲမှုအတွက် အရေးပါအရာရောက်သော ဓာတ်ဖြစ်သည်။ ပရိုတင်း၌နိုက်ထရိုဂျင်အပြင် ကာဗွန်၊ ဟိုက်ဒရိုဂျင်၊ အောက်ဆီဂျင်နှင့် တွင်းထွက်ဓာတ် အနည်းငယ်မျှပါဝင်လေသည်။

လူတိရစ္ဆာန်စသည့်သတ္တဝါတို့၏ ခန္ဓာကိုယ်သည် အစဉ်သဖြင့် တဖြည်းဖြည်းတရွေ့ရွေ့ ယွင်းယိုပျက်စီးနေလေရာ၊ ထိုသို့ချွတ်ယွင်းသွားလေသမျှကိုပရိုတင်းဓာတ်ကပြန်လည်အစားဖြည့်ပေးနေရပေသည်။ထို့ကြောင့် ခန္ဓာကိုယ် ထွားကျိုင်းသန်စွမ်းမှုသည် ပရိုတင်း၏ အကျိုးပြုမှုအပေါ် တွင် တည်ရှိသည်။ ပရိုတင်းသည် ခန္ဓာကိုယ်အား အပူနှင့်စွမ်းအင်ကိုပေးလေသည်။ ပရိုတင်းပါသော အစားအစာများမှာ ဟင်းသီးဟင်းရွက်၊ အမဲသား၊ ငါး၊ နွားနို့၊ ဒိန်ခဲ၊ ဥ၊ ပဲသီးပဲတောင့်နှင့် ဂျုံစသည့် ကောက်နှံများဖြစ်ကြသည်။ ပရိုတင်းသည်အမျိုးမျိုးအစားစားရှိရာ၊အရေအတွက်အားဖြင့်အမျိုးပေါင်း ၄၀ ကျော်ခန့်ရှိလေသည်။ဥအကာများ၌ ပါရှိသောပရိုတင်းကို အယ်လဗျူမင်ဟု ခေါ်၍၊ ဂျုံစပါး၌ ပါရှိသောပရိုတင်းကို ဂလူတင်ဟုခေါ်သည်။ ပဲသီးပဲတောင့် အစေ့တို့၌ ပါရှိသော ပရိုတင်းမှာ လီဂူမင်းဖြစ်၍၊ နွားနို့၌ ပါရှိသော ပရိုတင်းမှာ ကေစီအင်းဖြစ်သည်။ ကရီအေတင်းမှာကား အမဲသား၊ ငါးတို့၌ပါရှိသော ပရိုတင်းတမျိုးဖြစ်သည်။ အမဲသားငါးတို့တွင် ပရိုတင်းဓာတ် အများဆုံးပါဝင်လေသည်။ ကလိုရိုဖီခေါ် သစ်စိမ်းဓာတ်ရှိသော သစ်ပင် ပန်းပင်တို့သည် ပင်ကိုယ်သဘာဝအလျောက်ပရိုတင်းကိုအလိုလိုဖြစ်ပေါ် စေနိုင်သည်။သို့သော်လူနှင့်တိရစ္ဆာန်တို့မှာယင်းသို့မဖြစ်ပေါ် စေနိုင်သဖြင့် ပရိုတင်းရရှိစေရန် ထိုဓာတ်မျိုးပါရှိသည့်အစားအစာများကို စားသောက်ပေးကြရလေသည်။

ပရိုတင်းတို့သည် အမိနိုအက်ဆစ်ခေါ် အရိုးခံပစ္စည်းတို့ဖြင့် ဖွဲ့စည်းလျက်ရှိသည်။အစာကို ချေချက်ရာတွင် အစာ၌ရှိသောပရိုတင်းဘို့သည် အမိနို အက်ဆစ်များအဖြစ်သို့ ကူးပြောင်းသွားကြသည်။ထိုအမိနိုအက်ဆစ်တို့သည် သွေးထဲ၌ပျော်ဝင်၍၊ ကိုယ်ခန္ဓာအရပ်ရပ်ရှိ အသားမျှင် အသားစိုင်များဆီသို့ ပျံ့နှံ့သွားကြသည်။ အသားမျှင် အသားစိုင်များ၌ အမိနို အက်ဆစ်တို့သည် လိုအပ်သော ပရိုတင်းများအဖြစ် ပြန်လည်ဖွဲ့စည်းကြကုန်သည်။

ပရိုတင်းကို အများအပြား ဆက်ကာ စားခြင်းသည် လူကိုဥပဒ်ပေးတတ်သည်။ အဘယ်ကြောင့်ဆိုသော် အဆီနှင့်သကြားအပိုတို့ကို ကြွက်သားနှင့် အသည်းတို့၌ သိုမှီးထားနိုင်သော်လည်း၊ ပရိုတင်းကိုမူ ယင်းသို့ သိုမှီး၍ မထားနိုင်သောကြောင့်ဖြစ်သည်။ ပရိုတင်းတို့သည် ဓာတ်သဘောဖွဲ့စည်းပုံအားဖြင့် ရှုပ်ထွေးလှသဖြင့်၊ ကိုယ်ခန္ဓာထဲ၌ ကြေပျက်ပြိုကွဲရန် ခက်ခဲပေသည်။ ကိုယ်ခန္ဓာတွင် ပရိုတင်းတို့ ဓာတ် ကြေပျက်ပြိုကွဲရာမှ ဖြစ်ပေါ်လာသော ပစ္စည်းတို့သည် များသောအားဖြင့် အဆိပ်အတောက် ဖြစ်သွားလေ့ရှိကြသည်။ ထို့ကြောင့် အစာကို ကျန်းမာရေးနှင့် ညီညွတ်အောင် စားသုံးရာ၌ ကိုယ်ခန္ဓာအတွက် လိုအပ်သလောက်သာ ပရိုတင်းကို အဆီ၊ ကာဗိုဟိုက်ဒရိတ်၊ ဓာတ်ဆားတို့နှင့် မျှတစွာ စားသုံးရာသည်။ (အစာအာဟာရ — ရှု။)

**ပရိုမီးသယူး။** ။ဂရိရှေးဟောင်းပုံပြင်များ၏ အလိုအားဖြင့်၊ပရိုမီးသယူးသည် တိုင်တန်နတ်မျိုးနွယ်တဦးဖြစ်သည်။ တိုင်တန် နတ်မျိုးတို့သည် မိုးကောင်းကင်နှင့် ကမ္ဘာမြေတို့မှ ပေါက်ဖွားလာသော နတ်မျိုးဖြစ်ရကား၊ ဂရိတို့ ကိုးကွယ်သော ဇုနတ်မင်းကြီးထက် ရှေးကျ၍ တန်ခိုးတေဇာ ကြီးမားသည်ဟုဆိုသည်။ ပရိုမီးသယူး၌ အက်ပိ မီးသယူးနှင့် အက်တလတ်ဟူသော ညီတော်နှစ်ပါးရှိသည်။

တရံခါသော်၊ ဇုနတ်မင်းသည် ခမည်းတော် ကရိုးနပ် (ဆက်တန်) နတ်မင်းကို ပုန်ကန်ခြားနား၍ စစ်ခင်းလေသည်။ ထိုအခါ ပရိုမီးသယူးနှင့် အက်ပိမီးသယူးတို့သည် ဇုနတ်မင်းဖက်မှ နေ၍ ကူညီသည်။ ဇုနတ်မင်းသည် ထိုညီနောင်နှစ်ဦးအား ကမ္ဘာလောကရှိ သက်ရှိသတ္တဝါတို့ကို ယင်းတို့နှင့် ထိုက်တန်သော တန်ခိုးသတ္တိများဖြင့် ဖန်ဆင်းစေရန် တာဝန်ပေးအပ်လိုက်၏။ ထိုတာဝန်အရ အက်ပိမီးသယူးသည် တိရစ္ဆာန်တို့ကို ခွန်အားကြီးခြင်း၊ လျင်မြန်ခြင်း၊ ခြေသည်းလက်သည်းရှိခြင်း၊ ကောင်းကင်၌ ပျံတက်ခြင်း စသော တန်ခိုးသတ္တိတို့ ပြည့်စုံစေလျက် ဖန်ဆင်း၏။ ပရိုမီးသယူးကား ရုပ်ဆင်းသဏ္ဌာန်အားဖြင့် နတ်တို့နှင့် တူသောလူကို ဖန်ဆင်း၏။ ပရိုမီးသယူးသည် လူ၏ အကျိုးကို အမြဲရှေးရှုသဖြင့် လူကိုတိရစ္ဆာန်ထက်သာအောင် တန်ခိုးသတ္တိပေးရမည်ကို နှလုံးသွင်းမိ၏။ ထို့ကြောင့် ပရိုမီးသယူးသည် ကောင်းကင်သို့တက်ပြီးလျှင် နေမှရသော မီးဓာတ်ကို လူတို့အား ပေးလေသည်။ တနေ့သော် ဇုနတ်မင်းကြီးသည်




ပရိုမီးသယူးကို အခိုင်အမာချည်နှောင်၍ အရှင်လတ်လတ် လင်းတစာ ကျွေးစဉ်

လူတို့ကို စိတ်ဆိုး၍ မီးခေါတ်ကို လူ့အသိုက်အဝန်းမှ ကွယ်ပျောက်စေ၏။ သို့သော် ပရိုမီးသယူးသည် ထိုမီးခေါတ်ကို ဇုနတ် မသိအောင် ခိုးယူ၍ လူ့လောကကို ပြန်ပေးလေသည်။ ဤအခြင်းအရာကို ဇုနတ်မင်း သိလတ်သော် ဒေါသအမျက်ထွက်၍ ယခုခေတ်၌ ကော်ကေးဆပ် တောင်တန်းဟု တွင်သော ဒေသရှိ ကျောက်ဆောင်တခုတွင် ပရိုမီးသယူးကို အခိုင်အမာချည်နှောင်၍ အရှင်လတ်လတ် လင်းတစာကျွေးလေသည်။ လင်းတ တကောင်သည် နေ့စဉ်နေ့တိုင်း လာရောက်၍ ပရိုမီးသယူး၏အသည်းကို ဖောက်ထွင်းစားသောက်၏။သို့ရာတွင် ပရိုမီးသယူးသည် မသေနိုင်ချေ။ လင်းတစားပြီးသော သူ၏အသည်း၏နေရာတွင် နောက်တနေ့ ထိုလင်းတပင်လျှင် လာ၍ စားနိုင်ရန်အလို့ငှါ အသည်းအသစ်တခု ပြန်၍ ပေါက်သည်။ ဤနည်းဖြင့် ပရိုမီးသယူးသည် ကြီးစွာသော ဝေဒနာကို အနှစ်ထောင်ပေါင်းများစွာ ခံရ၏။ တနေ့သော် ဟားကျူးလီးသည် ပရိုမီးသယူး၏ ဒုက္ခဝေဒနာကို မကြည့်ရက်နိုင်သောကြောင့်၊ လင်းတကို သတ်၍ ပရိုမီးသယူးကို လွှတ်လေ၏။ ဤသည်ကို ရည်၍ ပရိုမီးသယူးကို လူတို့၏ ကောင်းကျိုးနှင့် တိုးတက်မှုကို လိုလားသော နတ်အဖြစ်ဖြင့် ဂရိတို့က ပူဇော်ကြသည်။ (ဂရိနတ်များ — ရှု။)

**ပရိုးတျူး။** ။ပရိုးတျူးသည် ဂရိရေနတ်အရှင် ပိုဆိုင်ဒွန်၏ သားဖြစ်သည်။ ပင်လယ် ဖျံများကို ထိန်းကျောင်းရသည်။ ဥာဏ်ပညာဗဟုသုတနှင့် ပြည့်စုံ၍ အနာဂတ်ကို ကြိုတင်မြင် နိုင်စွမ်းရှိသည်။ မိမိကိုယ်ကိုမိမိ ရုပ်သဏ္ဍာန် အမျိုးမျိုးဖြစ်အောင် အသွင်ပြောင်းလဲနိုင်သော တန်ခိုးဣဒ္ဓိပါဒ်နှင့် ပြည့်စုံသည်။ သက်ရှိသတ္တဝါအသွင်သာမက သက်မဲ့ရုပ်သဏ္ဍာန် အဖြစ်သို့လည်း ပြောင်းလဲနိုင်၍၊ မိမိကိုယ်ကိုမိမိ မီးသဏ္ဍာန်၊ ရေသဏ္ဍာန်ပင်လျှင် ဖန်ဆင်းနိုင်သည်။ ထိုကြောင့်ပုံသဏ္ဍာန်အမျိုးမျိုးပြောင်းလဲတတ်သော သဘောကို ပရိုးတျူးနှင့် တင်စား၍၊ ဥပမာ ပေးလေ့ရှိကြသည်။ (ဂရိနတ်များ — ရှု။)

**ပရင့်အက်ဒွပ်ကျွန်း။** ။ပရင့်အက်ဒွပ်ကျွန်းသည်ကနေဒါနိုင်ငံရှိ ပြည်နယ်တို့တွင် အငယ်ဆုံး ပြည်နယ်ဖြစ်သည်။ လူဦးရေလည်းအများဆုံးဖြစ်သည်။စိန်လောရင့် ပင်လယ်ကွေ့၌တည်ရှိ၍၊ ကနေဒါ ပြည်မရှိ နယူးဗရန်းဇွစ်နှင့် နိုဗာစကိုးရှားပြည်နယ်တို့မှ နော်သန်းဗာလန် ရေလက်ကြားက ပိုင်းခြားထားလေသည်။ ကျွန်း၏ အလျားသည် ၁၄၅ မိုင်ခန့်ရှည်၍၊ အနံမှာမူ ၃၅ မိုင်ခန့်ရှိသည်။ အကျယ်အဝန်းကားစတုရန်းမိုင် ၂,၁၈၄ မိုင်ဖြစ်သည်။ ထိုကျွန်း၏ ရာသီဥတု

သည် ဂပ်စထရင်း(ပင်လယ်ရေပူကြောင်း)ကြောင့် အပူအအေးမျှတသည်။ မြေဩဇာကောင်းမွန်၍ အာလူးနှင့် မြင်းစားဂျုံတို့ကို စိုက်ပျိုးသည်။ နို့ထွက်တိရစ္ဆာန် မွေးမြူရေးလုပ်ငန်းသည်ကြီးကျယ်သည်။ထောပတ်နှင့်ဒိန်ခဲ လုပ်ငန်းသည် အဓိက စက်မှုလက်မှု လုပ်ငန်းတရပ် ဖြစ်သည်။ ကျွဲနွား၊ သိုး၊ ဝက်စသောတိရစ္ဆာန်တို့ကို မွေးမြူသည့်အပြင်၊ သားမွေးအလို့ငှါ မြေခွေးတို့ကိုလည်း မွေးမြူသည်။ တံငါလုပ်ငန်းသည်လည်း ကြီးကျယ်သည်။

ပရင့်အက်ဒွပ်ကျွန်း၏ မြို့တော်သည် ရှားလော့တောင်းမြို့ဖြစ်သည်။ ဆိပ်ကမ်းကောင်းသောကြောင့် ကုန်စည်ကူးသန်းရောင်းဝယ်ရေးအတွက် အချက်အခြာဖြစ်သည်။

ထိုကျွန်းကို ခရစ် ၁၄၉၇ ခုနှစ်တွင် ဆီဗက်စချန်ကဲဗော့ ဆိုသူက တွေ့ရှိသည်ဆို၏။ (ကဲဗော့,ဂျွန် — လည်းရှု။) သို့သော် အချို့သောသမိုင်းပညာရှင်တို့ကမူ ခရစ် ၁၅၃၄ ခုနှစ်၌ ပြင်သစ်လူမျိုးဇက်ကာတီယေးသည် ထိုကျွန်းသို့ ရောက်ရှိလာသည်ဟုဆိုသည်။ (ကာတီယေး,ဂျေ — ရှု။) ထိုကျွန်းကို ခရစ် ၁၆၀၃ ခုနှစ်မှသည် ၁၇၅၈ ခုနှစ်အထိ ပြင်သစ်ပိုင်သည်။ ထိုနောက် ဗြိတိသျှတို့က သိမ်းပိုက်၍၊ ၁၇၆၃ ခုနှစ်တွင်နိုဗာစကိုးရှားပြည်နယ်သို့ သွတ်သင်းခဲ့သည်။ ၁၇၉၈ ခုနှစ်၌ကား ထိုကျွန်းကို ကနေဒါနိုင်ငံ ဘုရင်ခံ ပရင့်အက်ဒွပ်မင်းသားကို ဂုဏ်ပြုသောအားဖြင့် ပရင့်အက်ဒွပ်ကျွန်းဟု အမည်မှည့်၍ ကနေဒါနိုင်ငံ၏ သီးခြားပြည်နယ်တနယ်အဖြစ်ဖြင့် ထားရှိလေသည်။ ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေသည် ၉၈,၄၂၉ ယောက် ဖြစ်သည်။ ယင်းတို့အနက် အင်္ဂလိပ်၊ အိုင်ရစ်နှင့် စကော့လူမျိုးတို့သည် လူများစုဖြစ်သည်။ ပြင်သစ်အနွယ်တို့မှာ လူနည်းစု ဖြစ်၏။

**ပရင်းမရို့ပင်။** ။ပရင်း မရို့ပင်သည် ဥရောပ တိုက်ရှိ သစ်တော၊ ယာတောများတွင် အလေ့ကျပေါက်သော ပန်းပင်မျိုးဖြစ်သည်။ ထိုပန်းမျိုး၏ ရုက္ခဗေဒအမည်မှာ 'ပရင်းမျူလာ ဗာလဂဲရစ်' ဖြစ်သည်။ နွေဦးပေါက်တွင် ပွင့်သော ပန်းမျိုးများအနက် ပရင်းမရို့ပန်းသည် အကျော်ကြားဆုံးဖြစ်ပေသည်။ ဤသို့ကျော်ကြားရခြင်းမှာ သင်းပျံ့သောရနံ့နှင့် လှပသောအရောင်အသွေး ရှိခြင်းကြောင့် ဖြစ်သည်။ အပွင့်များမှာ အဝါရောင်ရှိသည်။ အရွက်များမှာ ရွက်တွန့်များဖြစ်၍၊အပေါ်ယံတွင်အမွေးနုကလေးများပေါက်လျက်ရှိသည်။ ပရင်းမရို့ပန်းပင်ကို ယခုအခါ ဥယျာဉ်ခြံမြေများတွင်စိုက်ပျိုးကြသည်။ ကူးယှက်မျိုးတည်ခြင်းဖြင့် အရောင်အမျိုးမျိုးရှိသော ပန်းပွင့်အမျိုးမျိုး ပေါ်ထွန်းလာသည်။ ဥယျာဉ်စိုက်ပန်းမျိုးအနက် အကျော်ကြားဆုံးမှာ 'ပေါ်လီယင်းသပ်ခေါ် ရိုးတံရှည်တခုတည်းတွင် အပွင့်များစု၍ပွင့်သော ပန်းမျိုးဖြစ်သည်။



ပရင်းမရို့ပင်၏ အပွင့်နှင့်အရွက်

ကမ္ဘာပေါ်တွင် ပရင်းမရို့ပန်းမျိုးပေါင်း ၃၀၀ ကျော်ခန့် မျှရှိသည်။ ထိုပန်းမျိုးတို့သည် ဥရောပတိုက်အပြင် အာရှတိုက်ရှိ အေးသော အပိုင်းများ၊ ဂျာဗားကျွန်းနှင့် အက်ဗီဆီးနီးယားနိုင်ငံ တောင်ထူထပ်ပေါများသော ဒေသတို့တွင် အလေ့ကျ ပေါက်ရောက်ကြသည်။ ထိုပန်းမျိုး စိုက်ပျိုးရန်ကောင်းသောနေရာမှာ လောင်းရိပ် အနည်းငယ်ရပြီး နွေအခါတွင် ရေခိုးရေငွေ့ များများ ရသော နေရာမျိုး ဖြစ်လေသည်။

**ပရုတ်။** ။ပရုတ်ကို ပင်ရင်းဒေသဖြစ်သည့် တရုပ်နိုင်ငံ၊ ဂျပန်နိုင်ငံနှင့် ဖော်မိုဆာကျွန်းတို့တွင် ပေါက်ရောက်သော စင်နာမိုမမ် ကမ်ဖိုရာခေါ် ပရုတ်ပင်မှ ချက်ယူရရှိသည်။ ပရုတ်ပင်သည် ဆယ့်နှစ်ရာသီ စိမ်းလန်းသော အပင်မျိုးဖြစ်၍၊ ကြီးမားသော အရွက်ကြီးများရှိ၏။ အမေရိကန်ပြည်ထောင်စု၊ ကာလီဖိုးနီးယားပြည်နယ်၊ ဖလော်ရီဒါပြည်နယ်နှင့် အခြားပူနွေးသော အရပ်ဒေသများ၌ ပရုတ်ပင်များကို အလှစိုက်ပျိုးလေ့ရှိကြသည်။

ပရုတ်ချက်လုပ်ရာတွင် ပရုတ်ပင်မှ ပင်စည်၊ အခေါက်နှင့် အရွက်များကို သင့်တော်သည့် အရွယ်ရအောင် ခုတ်ထစ်ပိုင်းဖြတ်ပြီးနောက် ရှေးရိုး နည်းအတိုင်း ရေနွေးငွေ့ဖြင့် ပေါင်းတင်ယူသည်။ ပေါင်းခံရည်ကို ခပ်နွေးနွေး ကျိုချက်ပေးသောအခါ ရေနှင့် အငွေ့ပျံလွယ်သော ဆီများထွက်

သွား၍ပရုတ်ရိုင်းအခဲကိုရ၏။ ပရုတ်ရိုင်းကို တဖန်အပူတိုက်ပေး၍ အငွေ့ပျံတက်စေပြီးလျှင်၊ပရုတ်ငွေ့ကို အအေးခံလိုက်သောအခါ ပရုတ်ပွင့်သန့်သန့်ကို ရလေသည်။ ပရုတ်သည် အဖြူရောင် အလင်းမှုန် ပစ္စည်းဖြစ်၏။ အငွေ့ ဖြစ်လွယ်၍၊ သာမန် အခန်းတွင်း အပူချိန်၌ပင်လျှင် အလိုအလျောက် အငွေ့ပျံကာ ကုန်ခမ်းသွားတတ်သည်။ သင်းသော အနံ့ရှိသည်။ အယ်လကိုဟောနှင့် အီသာတွင် လွယ်လင့်တကူ ပျော်ဝင်နိုင်သည်။ ပရုတ်ကို တာရပင်ဆီမှလည်းချက်ယူရရှိနိုင်ရာ၊ ယခုအခါတကမ္ဘာလုံး၌ အသုံးပြုလျက်ရှိသည့် ပရုတ်များအနက် ထက်ဝက်ခန့်ကို တာရပင်ဆီမှ ချက်ယူသည်။ (တာရပင်ဆီ — လည်းရှု။)

ပရုတ်ကို နှလုံးအားတိုးဆေး၊ ဘမ်းပရုတ်ဆီကဲ့သို့သော လိမ်းဆေးများနှင့် အခြားဆေးများဖော်ရာတွင် အသုံးပြုကြ၏။ အထူးသဖြင့် ချိပ်ဆေးနှင့် ဆဲလျူလွိုက်ပြုလုပ်ရာတွင် ပရုတ်ကို အမြောက်အမြား အသုံးပြုကြရသည်။ ယခင်က အဝတ်အစားများကို ပိုးမတောက်စေရန် ပရုတ်ဖြင့် ကာကွယ်လေ့ရှိကြသည်။ ယခုအခါ ပရုတ်အစား နက်ဖသလင်းဖြင့် ပြုလုပ်ထားသော ပရုတ်လုံးများကိုလည်း အသုံးပြုလာကြသည်။

**ပရပ်ရှားပြည်။** ။ယခုခေတ်၌အရှေ့ဂျာမနီဟုတွင်သော နိုင်ငံနှင့် အနောက်ဂျာမနီဟုတွင်သောနိုင်ငံတို့သည် ရှေးက တစုတပေါင်းတည်းတည်ရှိသော ဂျာမနီနိုင်ငံ ဖြစ်သည်။ (ဂျာမနီနိုင်ငံ — ရှု။) တဖန် ဂျာမနီနိုင်ငံ၏ ဇာစ်မြစ်ကို ကြည့်ပြန်သော်၊ ထိုနိုင်ငံသည် ခရစ် ၁၄၁၅ ခုနှစ်မှ အစပြု၍ ပေါ်ပေါက်လာသော ပရပ်ရှားပြည်၌ အရင်းခံသည်ကိုတွေ့ရသည်။ ခရစ် ၁၈၇၁ ခုနှစ်တွင် ဂျာမန် ပြည်နယ် အသီးအသီးတို့ကို နိုင်ငံတနိုင်ငံတည်း ဖြစ်အောင် စည်းရုံးသည့်အခါ၊ ပရပ်ရှားပြည်သည် ပရပ်ရှားဘုရင် ပဋ္ဌမဝီလျံ စိုးပိုင်သော ဂျာမန်အင်ပိုင်ယာနိုင်ငံ၏ ပြည်နယ်တနယ် ဖြစ်လာခဲ့လေသည်။ ဒုတိယကမ္ဘာစစ်ကြီးပြီးသောအခါ မဟာမိတ်တို့သည် ၁၉၄၆ ခုနှစ်၌ ပရပ်ရှားပြည်နယ်ကို ဖျက်သိမ်းလိုက်ကြသည်။ မူလက ပရပ်ရှားဟု တွင်ခဲ့သော နယ်သည် ယခုအခါ အရှေ့ ဂျာမနီ၊ ပိုလန်နှင့် ဆိုဗီယက်ရုရှ နိုင်ငံတို့၏ နယ်နိမိတ်အတွင်းတွင် တစိတ်တဒေသ တည်ရှိသည်။

ပရပ်ရှားပြည်၏သမိုင်းကား ဤသို့ဖြစ်၏။ ခရစ် ၁၄၁၅ ခုနှစ်တွင် ဟိုအင်ဆောလန်း မင်းညီမင်းသားအနွယ်တို့သည် ဗရန်ဒင်ဗတ်နှင့် နျူးရမ်းဗတ် နယ်နှစ်နယ်ကို တနယ်တည်း ပူးပေါင်း၍ အုပ်စိုးကြသည်။ သို့သော် ထိုနယ်သည် မြေဩဇာခြောက်သွေ့၍၊ စီးပွားရေး မဖွံ့ဖြိုးသောကြောင့် နယ်စားအဆက်ဆက်တို့သည် တဖြည်းဖြည်း နယ်ချဲ့လာကြရာ မူလပြည်နယ်၏တောင်ဖက်နှင့် မြောက်ဖက် နယ်နိမိတ်တို့သည် ကျယ်ဝန်းလာပြီးလျှင် နောက်ဆုံး၌ အနောက်နှင့် အရှေ့ ပရပ်ရှားပြည်နယ်တို့ကိုလည်း သိမ်းပိုက် နိုင်ခဲ့လေသည်။ ဤတွင် ပရပ်ရှားနယ်စားတို့ကို အစွဲပြု၍ ပရပ်ရှားဟူသောအမည်သည် ဥရောပသမိုင်းတွင် ပိုမိုတွင်ကျယ်လာလေသည်။ ထိုနောက် ဖရက်ဒရစ်ဝီလျံဘုရင် (၁၆၂၀–၈၈) လက်ထက်တွင် တိုင်းပြည်၏ နယ်နိမိတ်သည် ရှေးကထက် ကျယ်ပြန့်လာပြန်သည်။ ၁၇၀၁ ခုနှစ်တွင် နန်းတက်သော ပဋ္ဌမဖရက်ဒရစ်သည် ပရပ်ရှားပြည် ဘုရင်ဟူသော အမည်ကို ပဋ္ဌမဦးစွာ ခံယူသည်။ ၁၇၄၀ ပြည့်နှစ်တွင် နန်းတက်သော ဖရက်ဒရစ်-သ-ဂရိတ် အမည်ခံ ဒုတိယ ဖရက်ဒရစ် (၁၇၄၀–၁၇၈၆) လက်ထက်တွင် ပရပ်ရှားပြည်ကိုစစ်လက်နက်အင်အား အကြီးဆုံးဖြစ်သော တိုင်းပြည်ဖြစ်အောင် ဖန်တီးလေသည်။စင်စစ် ဂျာမန်လူမျိုးတို့၏ တက်ကြွသော စစ်သွေး စစ်မာန်စိတ်ဓာတ်သည် ဤခေတ်က အစ ပျိုးပေးလိုက်သော စိတ်ဓာတ် ဖြစ်သည်ဟု ဆိုရချိမ့်မည်။ ဖရက်ဒရစ်-သ-ဂရိတ်၏ စစ်တပ်တို့သည် ဩစတြီးယားပြည်ပိုင်ဆိုင်လီးရှားကိုငှင်း၊ ပိုလန်ပိုင်ပရပ်ရှားအနောက်ပိုင်းကိုငှင်း တိုက်ခိုက်သိမ်းယူ၍ ပရပ်ရှား အင်ပိုင်ယာကို စည်းရုံးလေသည်။ ၁၈၀၆ ခုနှစ်၌မူကား နပိုလီယန်၏ တပ်မတော်သည် ပရပ်ရှားပြည်တွင်းရှိ နယ်အချို့ကို သိမ်းပိုက်လိုက်သည်။ သို့ရာတွင် ၁၈၁၅ ခုနှစ်၌ နပိုလီယန်၏ တန်ခိုးအာဏာများ မှေးမှိန်လာလေရာ၊ ပရပ်ရှားပြည်သည် ဆုံးရှုံးခဲ့သော နယ်များကိုပြန်ရသည့်အပြင်၊ အချို့ဒေသတို့၌ နယ်သစ်များကို ပင် အောင်နိုင်လိုက်လေသည်။ ၁၈၇၁ ခုနှစ်၌ကား ပဋ္ဌမဝီလျံဘုရင်သည် ပရပ်ရှားပြည်ကို ဂျာမန်အင်ပိုင်ယာနိုင်ငံ အဖြစ်ဖြင့် တည်ထောင်၍၊ ဂျာမန်အင်ပိုင်ယာနိုင်ငံ၏ ဧကရာဇ်ဘုရင်ဟူသောအမည်နာမကို ခံယူသည်။ ဤသို့ဂျာမန်အင်ပိုင်ယာဟု ဖြစ်ပေါ်လာခြင်းကား ထိုဘုရင်၏ နန်းရင်းဝန် ဗစ်ဇမတ်၏ ဆောင်ရွက်ချက်တို့ကြောင့် ဖြစ်သည်။

၁၉၁၄–၁၈ ခုနှစ် ပဋ္ဌမကမ္ဘာစစ်ကြီးတွင် ဂျာမနီနိုင်ငံသည် စစ်ရေးရှုံးနိမ့်သောကြောင့်၊ပိုလန်နိုင်ငံသို့ အရှေ့ပရပ်ရှားနှင့် အနောက်ပရပ်ရှား နယ်နှစ်နယ်အကြားရှိ ဒေသကို ပေးအပ်လိုက်ရသည်။ ဟစ်တလာ ကြီးစိုးသောခေတ်တွင် ဟစ်တလာ၏စစ်တပ်သည် ပိုလန်နိုင်ငံကိုဝင်ရောက်၍ ယခင်ကဆုံးရှုံးခဲ့သောနယ်ကို ပြန်လည်သိမ်းပိုက်သည်။ ဤမှစ၍ ၁၉၃၉ – ၄၅ ခုနှစ် ဒုတိယ ကမ္ဘာစစ်ကြီး ဖြစ်ပွားလေရာ၊ နောက်ဆုံးတွင် ဂျာမနီနိုင်ငံသည် စစ်ရှုံးလေ၏။ စစ်ပြီးသောအခါ ဆိုဗီယက်ရုရှသည် အရှေ့ ပရပ်ရှားနယ်၏ မြောက်ပိုင်းဒေသတဝက်ခန့်ကို သိမ်းပိုက်လိုက်သည်။ ပိုလန်နိုင်ငံကမူ အိုဒါမြစ်၏အရှေ့ဖက်ရှိ ကြွင်းကျန်နေသော ပရပ်ရှားပြည်နယ်ကို သိမ်းပိုက်လိုက်သည်။ ၁၉၄၇ ခုနှစ်တွင် ယခင်က ပရပ်ရှားပြည်နယ်ဟု တွင်သော ဒေသကို မဟာ

မိတ်တို့က ဖျက်သိမ်းလိုက်၍ယနေ့သော် ပရပ်ရှားဟူသော နယ်သည် မရှိတော့ပြီ။ ဂျာမနီနိုင်ငံသည်လည်း အရှေ့ဂျာမနီနှင့် အနောက်ဂျာမနီဟု နှစ်နိုင်ငံ ဖြစ်လာလေသည်။

**ပရိက္ခရာ။** ။ပရိက္ခရာဟူသော ဝေါဟာရသည် ပရိက္ခာရ ဟူသောပါဠိကို အနည်းငယ် ပြုပြင် ပြောင်းလဲထားသော မြန်မာ့ဝေါဟာရ တခုဖြစ်သည်။ မူရင်း ပရိက္ခာရသဒ္ဒါသည် အရံအတား၊ အဆင်တန်ဆာ၊ အဆောက်အဦ (အသုံးအဆောင်) စသော အနက်တို့ကို ဟောသည်။ သို့ဖြစ်ရာ ပရိက္ခရာ ဟူသော ဝေါဟာရသည်လည်း ယင်းအနက်တို့ကို ပင် ဟောသည်။

ခါးဝတ်သင်းပိုင်၊ ကိုယ်ရုံကေသီ၊ ဒုကုဋ်ခေါ် နှစ်ထပ်သင်္ကန်းကြီး၊သပိတ်၊ ပဲကွပ်၊ ချုပ်အပ်၊ ခါးပန်းကြိုး၊ ရေစစ် တို့ကိုရဟန်းတော်များ၏အသုံးအဆောင်ဖြစ်သောကြောင့် ပရိက္ခရာဟု ခေါ်သည်။ အပေါ်လွှမ်း အိပ်ရာခင်း၊ သံကောက် (သော့)၊ နိသီဒိုန်၊ သားရေပိုင်းအခင်း၊ တောင်ဝှေး၊ ဆီကျည်၊ ထီး၊ ဖိနပ်တို့ကိုလည်း အသုံးအဆောင်များ ဖြစ်သောကြောင့် ပရိက္ခရာဟုပင်ခေါ်သည်။

ထိုကြောင့် ပရိက္ခရာ ၉ မျိုးဟုဆိုလျှင် ယခင် ၈ မျိုးတွင် အပေါ်လွှမ်း အိပ်ရာခင်း၊ သို့မဟုတ် သံကောက်ကို ထည့်သွင်းရေတွက်သည်။ ၁၀ မျိုးဟုဆိုလျှင် နိသီဒိုန်၊ သို့မဟုတ် သားရေပိုင်း အခင်းကို ထပ်မံထည့်သွင်းရေတွက်သည်။ ၁၁ မျိုးဟုဆိုလျှင် တောင်ဝှေး၊ သို့မဟုတ် ဆီကျည်ကို ထပ်မံထည့်သွင်းရေတွက်သည်။ ၁၂ မျိုးဟုဆိုလျှင် ထီး၊သို့မဟုတ် ဖိနပ်ကို ထပ်မံ ထည့်သွင်း ရေတွက်သည်။

ယင်းသို့ ပရိက္ခရာသည် အမျိုးမျိုးပင် ရှိသော်လည်း၊ ရဟန်းတော်များ၌ အလိုအပ်ဆုံး အကျဉ်းရုံး ပရိက္ခရာသည် ၈ မျိုးသာ ဖြစ်သည်။ယင်း ၈ မျိုးသည် ရဟန်းတော်များ၏ ကိုယ်နှင့်ဝမ်းအတွက် လိုအပ်သော ကိစ္စအရပ်ရပ်ကိုလည်း ဆောင်ရွက်ပြီးစီးစေသည်။ ယူဆောင်ရာ၌လည်း လွယ်ကူသည်။ အတောင်ရှိသောငှက်သည် ပျံသန်းလေရာရာသို့ မိမိအတောင်သာ ဝန်ရှိသည်ဖြစ်၍ ပျံသန်းသကဲ့သို့၊ ရဟန်းတော်သည်လည်း အရပ်တပါး သွားလေရာရာသို့ ထိုပရိက္ခရာ ၈ မျိုးကို ကိုယ်နှင့်မကွာ တပါတည်း လွယ်ကူစွာ ယူဆောင်သွားနိုင်သည်။ ထို့ကြောင့် ရဟန်းတော်သုံး အလိုအပ်ဆုံး အကျဉ်းရုံး ပရိက္ခရာဟုဆိုလျှင် ယင်း ၈ မျိုးကိုသာ မှတ်ယူရေတွက်ကြသည်။

ပရိက္ခရာ ၈ ပါးတွင် ရဟန်းတော်များသည် လူဒါယကာတို့ လှူဒါန်းသော သင်္ကန်းမပေါ်မီ ရှေးအခါက ပံသုကူ သင်္ကန်းကိုသာ ဝတ်ရုံ သုံးဆောင်ကြသည်။ ဘုရားရှင်သည် ဇီဝက၏ လျှောက်ထားချက်အရ၊ လူဒါယကာတို့ လှူဒါန်းသော သင်္ကန်းကို ဝတ်ရုံသုံးစွဲရန်ခွင့်ပြုတော်မူသည်။ ယင်းမှ နောက်ကာလ၌ ဘုရားရှင်သည် ချမ်းအေးခြင်းမှ ကြောက်ကန်သော ရဟန်းတို့အား သင်္ကန်းသုံးထည်ရှိလျှင် မျှတလောက်ပြီဟု သဘောရတော်မူ၍ တိစီဝရိတ်ခေါ် သင်္ကန်းသုံးထည်ကို ခွင့်ပြုတော်မူသည်။

မည်သည့် သပိတ်ကို ကိုင်တွယ် သုံးဆောင်ရမည်ဟု မသတ်မှတ် မပညတ်မီအခါက၊ ရဟန်းတော်များသည် လူတို့အသုံးအဆောင်ဖြစ်သည့် အမျိုးမျိုးသော သပိတ်တို့ကို ကိုင်တွယ် သုံးဆောင်ကြသည်။ ထို့ကြောင့် ဘုရားရှင်သည် ၁၁ လုံးသော သစ်သား၊ ရွှေ၊ ငွေ၊ ပတ္တမြား၊ ကျောက်မျက်ရွဲ၊ ဖန်၊ ကြေးဖြူ၊ စဉ့်၊ သလွဲဖြူ၊ သလွဲမည်း၊ ကြေးနီသပိတ်တို့ကို ပယ်မြစ်၍၊ မြေသပိတ်နှင့် သံသပိတ်တို့ကို ခွင့်ပြုတော်မူသည်။

ပဲကွပ်၏ အသုံးဝင်မှုကို မူလ ပဏ္ဏာသ အဋ္ဌကထာ၊ သုတ်သီလက္ခန်အဋ္ဌကထာတို့၌ 'ပဲကွပ်သည် ဒန်ပူဖြတ်သောအခါ၌၎င်း၊ ညောင်စောင်း အင်းပျဉ်တို့၏ အပေါင်အခြေ၊ သင်္ကန်း ကနုတ်တို့ကို ရွေသောအခါတို့၌၎င်း ကိုယ်ကိုဆောင်သည်ဖြစ်၏။ ကြံဖြတ်သောအခါ၊ အုန်းသီးခွဲစသည်ကို ရွေသောအခါ၌ ဝမ်းကို ဆောင်သည် ဖြစ်၏။' ဟု ပြဆိုထားသည်။

ပုံသဏ္ဌာန်အားဖြင့်မူ ဆရာအချို့ကား တရုပ်လက်သမား ကိုင် ရဲတင်းငယ်သဏ္ဌာန်ဟူ၍၎င်း၊ ဆရာအချို့ကား ပေါက်တူးကဲ့သို့သော အသွားကန့်လန့်တပ်လက်သမားဆောင် တစည်းငယ်သဏ္ဌာန်ဟူ၍၎င်း မိန့်ဆိုကြသည်။

ရဟန်းတော်များသည် သင်္ကန်းချုပ်သည့်အခါ ကြက်တောင်ဖြင့်၎င်း၊ ဝါးခြမ်းစိတ်ဖြင့်၎င်း သင်္ကန်းကို ချုပ်ကြသည်။ ယင်းသို့ ချုပ်သဖြင့် သင်္ကန်းမကောင်း ဖြစ်ရသည်။ ထို့ကြောင့် အပ်ကို ခွင့်ပြုတော်မူသည်။

အခါတပါး၌ ရဟန်းတော်တပါးသည် ခါးပန်းကြိုး မစည်းမပတ်မူ၍ ရွာတွင်းသို့ ဆွမ်းခံဝင်သည်။ ခရီးလမ်းမ အရောက်တွင် ခါးဝတ်သင်းပိုင် ကျွတ်ကျလေသည်။ ယင်းအခါ လူတို့ ဟစ်အော် ကြွေးကြော်သဖြင့် အရှက်ရကာ မျက်နှာမသာမယာ ဖြစ်ခဲ့ရသည်။ ထိုအကြောင်းကို ရဟန်းတော်များမှတဆင့် ဘုရားရှင် သိတော်မူ၍၊ ခါးပန်းကြိုးကို ခွင့်ပြုတော်မူသည်။

ပိုးမွှားရှိသောရေသည် ရဟန်းတော်များအတွက် မအပ်သောရေဖြစ်သည်။ ယင်း မအပ်သောရေကို စစ်၍သောက်သုံးရန် ရေစစ်ကို ခွင့်ပြုတော်မူသည်။

**ပရွက်စားကောင်။** ။ပရွက်စားကောင်သည် ပရွက်ဆိတ်၊ခြ စသောပိုးမွှားတို့ကိုစားသော နို့တိုက်သတ္တဝါမျိုး ဖြစ်သည်။ပရွက်စားကောင်အမျိုးမျိုးကိုတောင်အမေရိကတိုက်၌တွေ့ရသည်။ 'မာမီကိုဖာဂျီဒီး' မျိုးရင်းဝင် ပရွက်စား

ကောင်သည် ဦးခေါင်းရှည်၏။ နှုတ်သီး သေးသွယ်၏။ ပါးစပ်၊ နားရွက်၊ မျက်စိတို့သေးငယ်၏။ မေးရိုး၌ သွားမရှိ။ ရှည်လျားသော လျှာပေါ်၌ တံတွေးများ စေးကပ်လျက် ရှိသည်။ ခြေထောက် တုတ်ခိုင်၍ သန်မာသည်။ ထက်မြက်သော ခြေသည်းတို့ဖြင့် ပရွက်အုံ၊ ခြအုံတို့ကို ကုတ်ခြစ်ဖျက်ဆီးတတ်သည်။

တောင်အမေရိကတိုက် အပူပိုင်းဒေသ၌ တွေ့ရသော ပရွက်စားကောင်တမျိုးသည် ဝက်ဝံနှင့်တူသည်။ ထိုပရွက်စားကောင်သည် အမြင့် ၂ ပေ၊ အလျား ၄ ပေရှိသည်။ အသွားအလာနှေးကွေးသည်။ တောထဲတွင် မြေကြီးပေါ်၌ သာလျှင် နေသည်။ ရှည်လျား၍၊ အမွေးထူသော အမြီးရှိသည်။ကြောက်တတ်သော်လည်း ရန်သူကို ခြေသည်းတို့ဖြင့် ကုတ်ဖဲ့ခုခံတတ်သည်။ ကိုယ်အရောင်မှာ အညိုရောင် ခပ်မှိုင်းဖြစ်သည်။ ရင်ကိုပတ်၍ ကျောအထိ အနက်စင်းပါရှိသည်။ ခြေထောက်များဖြူသည်။ အမြီးနားနီးသောကျောနေရာ၌ အမွေးထူသည်။

တောင်အမေရိကတိုက်အပူပိုင်းဒေသ၌ပင် အခြားပရွက်စားကောင်ကလေးတမျိုးကိုတွေ့ရသေးသည်။ထိုပရွက်စားကောင်၏အရွယ်မှာ ကြောင်လောက်ရှိသည်။ သစ်ပင်ပေါ်၌နေ၍ ပရွက်ဆိတ်၊ ခြကောင်တို့ကို ဖမ်းစားတတ်သည်။ သစ်ပင်ပေါ်၌ နေစဉ် အမြီးရှည်ကြီးကို အကိုင်း၌ ရစ်ပတ်ထားလေ့ရှိသည်။ ဩစတြေးလီးယားတိုက်၌ တွေ့ရသော ပရွက်စားကောင်မျိုးသည် သားပိုက်ကောင်များ ဖြစ်၍၊ ‘မာမီကိုဖိုင်းယပ်’ မျိုးစိတ်၌ ပါဝင်ကြသည်။

**ပရွက်ဆိတ်။** ။ပရွက်ဆိတ်သည်အရွယ်သေးသော်လည်း အလွန်အံ့ဩဖွယ်၊ စိတ်ဝင်စားဖွယ်ကောင်းသည်။ ပရွက်ဆိတ်၏ ဝီရိယနှင့်ဇွဲသည် အရွယ်နှင့် မလိုက်အောင် ကြီးမားလှသည်။အဆောက်အအုံတည်ဆောက်ရာတွင်၎င်း၊ အစားအစာရှာဖွေရာတွင်၎င်း၊ အလုပ်တာဝန် စီမံခန့်ခွဲရာတွင်၎င်း လိမ္မာကျွမ်းကျင်သည်။ထိုအရည်အခြင်းတို့နှင့် ပြည့်စုံသောကြောင့် အချို့သူတို့က ပရွက်ဆိတ်၌ လူမှာကဲ့သို့ ဆင်ခြင်တုံဉာဏ်စွမ်း ရှိကောင်းရှိပေမည်ဟု ထင်မှတ်ကြသည်။ ကမ္ဘာကျော် သိပ္ပံကဝိကြီး လော့ ဒေ့ဗရီ (ဆာ ဂျွန် လပ်ဗတ်) သည် ပရွက်ဆိတ်များအကြောင်းကို နှစ်ပေါင်းများစွာလေ့လာပြီး နောက်၊ ‘ပရွက်ဆိတ်၌ ဆင်ခြင်တုံဉာဏ်စွမ်းမရှိဟု ပြောဆိုရန်ခက်သည်’ ဟူ၍ မိန့်ဆိုခဲ့ဘူးလေသည်။

ပရွက်ဆိတ်သည် အမျိုးပေါင်း ၂၀၀၀ ကျော်မျှရှိသည်။ ပါဏဗေဒအလိုအားဖြင့် ပရွက်ဆိတ်၏ နာမည်မှာ ‘ဖော်မစ်စီဒီ’ ဖြစ်၍၊ ‘ဟိုင်မင်နော့တာရာ’ မျိုးစဉ်တွင် ပါရှိသည်။



ဝင်ထွက်ရန် အပေါက်များနှင့်တကွ ကွေ့ကောက်သော လမ်းအသွယ်သွယ်၊ အိပ်ခန်း၊ ပစ္စည်းသိုလှောင်ခန်း အသီးသီးတို့ဖြင့် စနစ်ကျစွာတည်ဆောက်ထားသော ၂ ပေကျော်မြင့်သည့် ပရွက်ဆိတ်တောင်ပို့ကြီး

ထိုမျိုးစဉ်တွင် ပျားနှင့် နကျယ်တို့လည်း ပါဝင်ကြသည်။ ကျွန်ုပ်တို့ အများဆုံးတွေ့ရသော ပရွက်ဆိတ်မျိုးမှာ ပရွက်ဆိတ်နီနှင့်ပရွက်ဆိတ်နက် နှစ်မျိုးဖြစ်သည်။ ထိုနှစ်မျိုးစလုံး၌ သေးသွယ် ရှည်လျားသော ခါးရှိသည်။ ဦးခေါင်းရှိ ဦးမှင်သည် အရာဝတ္ထုများကို စမ်းသတ်ရန်အတွက်ဖြစ်သည်။ ပရွက်ဆိတ်သွားလာနေစဉ် ထိုဦးမှင်သည် အမြဲလှုပ်ရှား၍နေသည်။ ပရွက်ဆိတ်၏ကိုယ်ကို သေချာစွာကြည့်လျှင် အပိုင်းသုံးပိုင်း ကွဲပြားနေသည်ကိုတွေ့မြင်နိုင်သည်။ ထို အပိုင်း သုံးပိုင်းမှာ (၁)ဦးခေါင်း(၂)ရင်ပိုင်း(၃)ဝမ်းပိုင်းတို့ဖြစ်သည်။ အချို့ပရွက်ဆိတ်များသည် မျက်စိမမြင်ချေ။ သို့သော် များသောအားဖြင့် အလင်းနှင့်အမှောင်ကို ခွဲခြားသိနိုင်သော မျက်လုံးများပါရှိသည်။ အချို့ပရွက်ဆိတ်များ၌ ရန်သူကို အဆိပ် သင့်စေနိုင်သော အစွယ်ပါရှိသည်။ ထိုအဆိပ်မှာ ဖော်မစ်အက်ဆစ်ရည်အပြင်းဖြစ်သည်။

ပရွက်ဆိတ်သည် ပျားကဲ့သို့ အပေါင်းအဖော် အသိုက်အဝန်းဖြင့် အစုအအုပ်ဖွဲ့ကာ နေတတ်သော ပိုးမွှားမျိုးဖြစ်သည်။ တခါတရံ ပရွက်ဆိတ်တို့၏ အစုအအုပ်မှာ ကြီးမားလွန်းလှရကား သိန်းသောင်းချီ၍ပင် ရှိတတ်ပေသည်။သူတို့နေထိုင်ပုံကို ကြည့်လျှင် စည်းစနစ်ကျနသော ပြည်ကလေးတပြည်သဖွယ် ဖြစ်နေသည်ကိုတွေ့ရသည်။ ပရွက်ဆိတ်ပြည်တွင် ပရွက်ဆိတ်ဘုရင်မကြီး၊ တောင်ပံရှိ ပရွက်ဆိတ် အဖိုအမများ၊ တောင်ပံမဲ့ အလုပ်သမား ပရွက်ဆိတ်နှင့် သူနာပြု ပရွက်ဆိတ်များ စသည်ဖြင့် စုံစုံလင်လင် ရှိကြသည်။ အချို့ပရွက်ဆိတ် အစုအအုပ်များတွင် အလုပ်သမားပရွက်ဆိတ်ကို အမျိုးမျိုးခွဲခြားထား၏။ အကြီးစား ပရွက်ဆိတ် အလုပ်သမားနှင့် အငယ်စား ပရွက်ဆိတ် အလုပ်သမားတို့အပြင်၊ စစ်သား ပရွက်ဆိတ်ဟူ၍လည်း ရှိသေးသည်။ စစ်သားပရွက်ဆိတ်၌ ကြီးမားသောဦးခေါင်းနှင့် သန်မာသော မေးရိုးကြီးများရှိသည်။

ပရွက်ဆိတ်များသည် မြေကြီးအောက်တွင်၎င်း၊ တောင်ကုန်းကလေးအတွင်းတွင်၎င်း နေလေ့ရှိသည်။ အပြင်ပန်းကို သာကြည့်လျှင် ပရွက်ဆိတ်တောင်ပို့ကြီးသည် စိတ်ဝင်စားဖွယ်တစုံတရာမရှိဟုထင်ရသည်။ အချို့ပရွက်ဆိတ်တောင်ပို့ကြီးများသည် ၂ ပေကျော်မြင့်လျက်၊ အဝန်းအားဖြင့်ကိုက်ပေါင်းများစွာ ကျယ်ဝန်းသည်။ ပစ္စည်းအတိုအထွာများစွာကို တနေရာမှ သယ်ဆောင်လာပြီးလျှင် တောင်ပို့ထဲတွင် နေရာတကျ ခင်းကျင်း၍ထားသည်။ တံခါးမကြီး မြောက်မြားစွာကိုလည်း ပြုလုပ်ထားသည်။ ကောက်ကွေ့သော လမ်းအသွယ်သွယ်တို့သည် ထိုတံခါးမကြီးများကိုဖြတ်သန်းသွားကြသည်။ အချို့လမ်းများသည် အထက်သို့သွား၍ အချို့မှာအောက်သို့ဆင်းသည်။အိပ်ခန်း၊ ပစ္စည်း သိုလှောင်ခန်းစသည်ဖြင့် အခန်းအမျိုးမျိုးရှိသည်။ ဤပရွက်ဆိတ်ပြည်၏ အတွင်းအပြင်တွင် ပရွက်ဆိတ်များ ပျားပန်းခတ်သွားလာနေပုံမှာ စည်ကားသော မြို့ကြီးတမြို့တွင် မြောက်မြားစွာသောလူတို့အလုပ်ကိုယ်စီဖြင့် ထိုမှဤမှ လူးလာဆန်ခတ်သွားလာနေပုံနှင့် များစွာ တူပေသည်။

ပရွက်ဆိတ်ပြည် တပြည်လုံးရှိ ပရွက်ဆိတ်အပေါင်းသည် တကောင်နှင့် တကောင် ခွဲခြား၍မရအောင်ပင် ပုံပန်းသဏ္ဌာန်အားဖြင့် တူကြသည်။ အားလုံးသော ပရွက်ဆိတ်များသည် အားနေရသည်ဟူ၍မရှိ၊ အလုပ်ကိုယ်စီကိုယ်စီဖြင့် အသီးအသီး အလုပ်ရှုပ်လျက်ရှိကြသည်။ အလုပ်ရှုပ်သည်ဟု ဆိုရာတွင်လည်း အလုပ် တခုကို ဝိုင်းဝန်း စုပြုံ၍ လုပ်နေကြခြင်းမဟုတ်ဘဲ၊ မိမိတို့၏ တာဝန်ကို ဝေပုံကျ အတိုင်း စီမံခန့်ခွဲ၍လုပ်နေကြခြင်းသာလျှင် ဖြစ်သည်။ အချို့ပရွက်ဆိတ်များသည် ပရွက်ဆိတ်အုံအပြင်ဖက်တွင် ဆောင်ရွက်ဖွယ်တို့ကို လုပ်ကိုင်ရန်အတွက် ထွက်ခွါသွားကြ၏။ အချို့ပရွက်ဆိတ်များသည် အစာရိက္ခာ အသစ်ထပ်ဖြည့်ပေးရန်အတွက်ဆောင်ရွက်နေကြသည်။ အချို့ကမူ အဆောက်အအုံကိုချဲ့ထွင်ပြုပြင်ရန်အတွက် ပစ္စည်းအမျိုးမျိုးကို သယ်ယူလာကြသည်။ အပြင်အလုပ်သမား ပရွက်ဆိတ် အချို့သည် ပရွက်ဆိတ်ပြည်ထဲသို့ ဝင်ရာ လမ်းကြီးလမ်းငယ်အသွယ်သွယ်တို့တွင်ပိတ်ဆို့ကျရောက်သော အမှိုက်သရိုက်များကို ဖယ်ရှင်းပေးကြသည်။

ပရွက်ဆိတ် အဆောက်အအုံကြီးအတွင်း၌ အိမ်တွင်းအလုပ်သမား ပရွက်ဆိတ်များသည် အခန်းကြီး အခန်းငယ်တို့ကို ရှင်းလင်းသုတ်သင်ပေးခြင်းဖြင့် အလုပ်ရှုပ်လျက်ရှိကြ၏။ ကလေးထိန်းပရွက်ဆိတ်၊ သူနာပြုပရွက်ဆိတ်တို့သည် ဖြူဖွေးသော ဝန်ထုပ်ဝန်ပိုးများကို မေးရိုးဖြင့်ညှပ်ကာသယ်ယူနေကြသည်။ ဤဖြူဖွေးသော ဝန်ထုပ် ဝန်ပိုးများမှာ အခြားမဟုတ်၊ဥကလေးများသော်၎င်း၊ ပရွက်ဆိတ်ကလေးများသော်၎င်း ဖြစ်ကြသည်။ ပရွက်ဆိတ်ကလေးများနှင့် ပရွက်ဆိတ် ဥကလေးများကို သီးသန့် အခန်းများတွင် သိပ်ထားကြရသည်။ ဤကဲ့သို့ ကျနစွာ စီမံခန့်ခွဲတတ်သည့်နေရာတွင် ပရွက်ဆိတ်တို့သည် အရွယ်နှင့် မလိုက်အောင်ပင် ကျွမ်းကျင်လိမ္မာကြပေသည်။

ပရွက်ဆိတ်ပြည်ကို စတင် ထူထောင်သူမှာ ပရွက်ဆိတ်မကြီး ဖြစ်သည်။ ပရွက်ဆိတ်မသည် အုံလုံးကျွတ် နေရာပြောင်းရွှေ့သည့်အခါမျိုးတွင် ပရွက်ဆိတ် အစုအအုပ်ထဲမှ ပျံတက်၍၊ပရွက်ဆိတ်အဖိုနှင့်တွေ့ဆုံလေ့ရှိသည်။ပရွက်ဆိတ်အဖိုသည် အခြားအသိုက်အအုံမှဖြစ်၍ အမမှာကဲ့သို့ပင် အတောင်ပံပါရှိသည်။ ပရွက်ဆိတ်အဖိုနှင့် မိတ်လိုက်ပြီးသောအခါ ပရွက်ဆိတ်မသည် မြေကြီးပေါ် သို့ ပြန်ဆင်းလာပြီးလျှင် ဥအုလေသည်။ ထိုဥကလေးများမှ သေးငယ်သော ပိုးလန်းကလေးများ ပေါက်ပွားလာသည်။ ပေါက်ခါစ ပိုး

လန်းကလေးများကို မိခင်ဖြစ်သော ပရွက်ဆိတ်မကြီးသည် မိမိကိုယ်မှ ရသောအစာဖြင့် ကျွေးမွေး၏။ ဤသို့ကျွေးမွေးရသည်မှာပိုးတုံးလုံးကလေးဘဝသို့ ရောက်သည့်တိုင်အောင်ပင်ဖြစ်သည်။ ပိုးဥဘဝမှ ပိုးတုံးလုံးဘဝသို့ ရောက်ရန် ရက်သတ္တပတ်ပေါင်း မြောက်မြားစွာကြာ၏။ ထိုအချိန်တွင် အလုပ်သမား ပရွက်ဆိတ်များသည် ပရွက်ဆိတ်၏ အစုအအုပ်ကြီး တခုလုံးအတွက် ပြုလုပ်ဖွယ်တာဝန် ဝတ်တရားတို့ကို ပြုလုပ်ကြသည်။ ထိုပြင် ပရွက်ဆိတ် ဘုရင်မကြီးအတွက် ဆောင်ရွက်ဖွယ်ရာတို့ကိုလည်းဆောင်ရွက်ပေးကြ၏။ ပရွက်ဆိတ် ဘုရင်မကြီးကို ဤကဲ့သို့ အငြိမ်းစား နေနိုင်အောင်ကူညီပေးခြင်းမှာအခြားကြောင့်မဟုတ်၊ပရွက်ဆိတ်ဘုရင်မကြီးသည် ပရွက်ဆိတ် မြောက်မြားစွာ ပေါက်ဖွားပေးနိုင်ရန်ဖြစ်သည်။ပဌမဦးစွာပေါက်ဖွားသော ပရွက်ဆိတ်များသည် ကျွေးမွေးပြုစုမှုကို ကောင်းစွာ မရရှိသဖြင့်၊ ကြီးထွားသင့် သလောက် မကြီးထွား ကြသည်ကို တွေ့ရ၏။ နောက်ပေါက်ပရွက်ဆိတ်များမှာမူ၊ အရွယ်ငယ်သောနောင်တော်ပရွက်ဆိတ်တို့က စားကောင်းသောက်ဖွယ်တို့ဖြင့် မွေးမြူပြုစုခြင်းကြောင့် ပိုမိုကြီးထွား၍ လာကြသည်။ ပရွက်ဆိတ်အဆောက်အအုံကြီးထဲတွင် အလုပ်သမားပရွက်ဆိတ်တို့သည်ပိုးလောင်း၊ ပိုးဥနှင့်ပိုးအိမ်ကလေးများကို သန့်စင်သည်ထက် သန့်စင်လာအောင် နေလှမ်းပေးသည်။ ပရွက်ဆိတ်ပေါက်စကလေးများသည် ပျားပေါက်စကလေးများထက်သေးငယ်ကြသော်လည်း၊ ပျားပေါက်စကလေးများကဲ့သို့ များစွာ ပင်ပန်း ဒုက္ခရောက်ကြသည်။ ထိုပရွက်ဆိတ်ပေါက်စတို့သည် မည်သည့် အမှုကိစ္စကိုမှ ပြုလုပ်ဆောင်ရွက်နိုင်ခြင်းမရှိဘဲ၊ခြေထောက်မပါသော ခန္ဓာကိုယ်ကို တွန့်လိမ်ရုံမျှသာ တတ်နိုင်ကြသည်။ အစားအစာ ကျွေးမွေးလျှင်လည်း သေးနုပ်လှသောပါးစပ်ကို ဖွင့်ဟပေးရုံမျှသာတတ်နိုင်ကြသည်။ ကလေးထိန်း ပရွက်ဆိတ်တို့သည် ဤသနားစဖွယ်အကောင်ငယ်ကလေးများကို သက်ညှာယုယစွာထိန်းသိမ်းထားကြသည်။ ပရွက်ဆိတ်ကလေးတို့ကို အမြဲတစေ အစာကျွေးမွေးခြင်း၊ သန့်ရှင်း စင်ကြယ်စေခြင်း၊ သယ်ယူပို့ဆောင်ပေးခြင်း စသည်တို့ကို အခါမလပ် ပြုလုပ်ပေးကြသည်။ထိုပြင် ဦးခေါင်းရှိ အမှင်ဖြင့်လည်း ညင်သာစွာ ပွတ်သတ်၍ ပေးကြသည်။ ညအချိန်များတွင် ပရွက်ဆိတ်ကလေးတို့ကို နေ့အချိန်ကထားသောနေရာတွင် သိပ်မထားတော့ဘဲ၊ အဆောက်အအုံ၏ အောက်ဖက်အကျဆုံးနေရာသို့ သယ်ဆောင်သွားကြသည်။ ဤသို့ သယ်ဆောင်သွားရခြင်းမှာ ပရွက်ဆိတ်ကလေးများအဖို့ အောက်ဖက်ရှိ နေရာများမှာ ပို၍ လုံခြုံစိတ်ချရပြီးလျှင် ပို၍လည်း နွေးသောကြောင့် ဖြစ်သည်။ နေ့အချိန်သို့ ရောက်လာလျှင် ပရွက်ဆိတ်အုံကြီး၏ထိပ်ပိုင်းသို့ပြန်လည် ပို့ဆောင်ပေးကြသည်။ အကယ်၍ ထိုနေ့သည် ပူနွေး၍ သာသာယာယာရှိပါမူ အဆောက်အအုံထဲတွင် မထားဘဲ ပြင်ပသို့ ထုတ်၍ လေကောင်းလေသန့်နှင့် နေရောင်ခြည်တို့ကို ကောင်းစွာ ခံယူစေကြသည်။

ပရွက်ဆိတ် ပိုးလန်းကလေးများသည် အရွယ်ရောက်လာသောအခါ သေးငယ်သောပိုးအိမ်ကလေးများကိုပြုလုပ်ကြသည်။ ထိုနောက် ပိုးအိမ်အတွင်း၌ ပရွက်ဆိတ် တုံးလုံးကလေးများဖြစ်လာသည့်တိုင်အောင်ဝင်နေကြသည်။ကလေးထိန်းပရွက်ဆိတ်မတို့သည်လည်း ဆက်လက်၍စောင့်ရှောက်မြဲစောင့်ရှောက်ကြသည်။ပရွက်ဆိတ်တုံးလုံးကလေးများကို တနေရာမှ တနေရာသို့ ရွှေ့သွားသည့်အခါတိုင်း ပါးစပ်ထဲတွင်ထည့်၍သယ်ဆောင်သွားလေ့ရှိသည်။ နောက်ဆုံးတွင် သဘာဝအလျောက် ဆန်းကြယ်စွာပရွက်ဆိတ်ကလေးဖြစ်လာ၍ ပိုးအိမ်အပြင်သို့ ထွက်လာလေသည်။

ပရွက်ဆိတ်အုံကြီးထဲသို့ ပဌမဦးစွာ ရောက်ရှိလာသောပရွက်ဆိတ်ငယ်ကလေးသည် အလွန်ချည့်ချည့်နဲ့နဲ့ရှိလှသည်။ ထိုပရွက်ဆိတ်ပေါက်စကလေးများကို အလုပ်သမား ပရွက်ဆိတ်များက ကောင်းစွာပြုစုကျွေးမွေးကြရသည်။ အလုပ်သမားပရွက်ဆိတ်တို့သည် ထိုပရွက်ဆိတ် ပေါက်စကလေးများကို လမ်းသွားလမ်းလာ၌ ကူညီ ဖေးမပေးကြသည်။ ထိုမျှသာမက အစားအစာကျွေးမွေးခြင်း၊ အခြားရွယ်တူ ပရွက်ဆိတ်ငယ်များနှင့် မိတ်ဖွဲ့ပေးခြင်း၊ ဆန်းပြားသော ပရွက်ဆိတ်ပြည်ကြီး တဝှန်းလုံးသို့ အနှံ့အပြား လိုက်လံပြသခြင်းစသော ကိစ္စတို့ကိုပါ ဆောင်ရွက်ပေးကြသည်။ ဤပေါက်စပရွက်ဆိတ်ကလေးတို့ကိုပဌမတရက်နှစ်ရက်တွင် မည်သည့်အလုပ်တာဝန်ကိုမျှ မစေခိုင်းဘဲ၊ ပရွက်ဆိတ်ပြည်ကို အနှံ့အပြား လည်ပတ်စေသည်။ ပရွက်ဆိတ်ငယ်သည် အလုပ်လုပ်ရန် အားပြည့်လာသည်နှင့်တပြိုင်နက် အခြား အရွယ်ရောက်ပြီးဖြစ်သော အလုပ်သမား ပရွက်ဆိတ်များနှင့်ယှဉ်ကာ ကျရောက်သော တာဝန်များကို ထမ်းဆောင်ကြရတော့သည်။

ပရွက်ဆိတ်များသည်အမြင်အားဖြင့်သေးနုပ်သော်လည်း ယင်းတို့၏အလုပ်တာဝန်မှာအတော်ပင်များပြားကြီးကျယ်လှပေသည်။ တနေ့တခြားများပြားလာသော ပရွက်ဆိတ်ထုကြီးကို အစာရိက္ခာ မပြတ်မလပ်ထောက်ပံ့နိုင်ရန်အတွက်ငှင်၊ အဆောက်အအုံကြီးကိုချဲ့ထွင်ပြုပြင်ရန်နှင့်အခန်းသစ်များတူးဖော်တည်ဆောက်ရန်အတွက်ငှင်း အမျိုးမျိုးသောတာဝန်ကို ရွက်ဆောင်ကြရလေသည်။

ပူပြင်းသော နွေရာသီတချိန်တွင် ပရွက်ဆိတ်အုံကြီးတခုလုံးအလုပ်ရှုပ်နေခိုက်၊ ထူးဆန်းသော အခြင်းအရာတခု ဖြစ်ပျက်လေသည်။ ခါတိုင်းလို ပရွက်ဆိတ်ဥများမှ အတောင်ပံမဲ့ အလုပ်သမားပရွက်ဆိတ်တို့ ပေါက်လာမည့်အစား၊ အ

တောင်ပံရှိ ပရွက်ဆိတ်ငယ်များ ထွက်လာကြသည်။ ထို အတောင်ပံရှိ ပရွက်ဆိတ်ငယ်အုပ်တွင် ပရွက်ဆိတ်အထီး ရောအမပါ ပါရှိကြသည်။ ဤသို့ ရုတ်ခြည်း ထွက်ပေါ်လာသော ပရွက်ဆိတ်သစ်များသည် အခြားပရွက်ဆိတ်တို့နှင့် ရောနှော၍ အလုပ်မလုပ်ကြပေ။ ယင်းတို့ကို အလုပ်သမား ပရွက်ဆိတ်များက အစားအစာကျွေးမွေးပြီးနောက် အတောင်ပံကိုပင် ချောသည်ထက်ချောလာအောင် သုတ်သင်ရှင်းလင်းပေးကြသည်။ ငြိမ်သက်၍အိုက်စပ်သော တညနေတွင် အတောင်ပံရှိ ပရွက်ဆိတ်(ဝါ) ပရွက်ပျံ အဖိုအမများသည် တပြိုင်နက်တည်း ပရွက်ဆိတ်အုံတံခါးမကြီးများမှ လေထဲသို့ ပျံတက်သွားကြလေသည်။

ဤအနီးအနားတဝိုက်ရှိအခြားသောပရွက်ဆိတ်အုံများမှလည်း ထိုနည်းတူပရွက်ပျံများပျံတက်လာကြသည်။ယင်းတို့သည် ထိုထိုဤဤ အနှံ့အပြား ပျံသန်းလျက် နေရောင်ထဲတွင် တောင်ပံယှက်ကာ မြူးထူးပျော်ပါး၍ နေသည်။ သို့သော် ယင်းတို့ပျော်ရွှင်ရသောအချိန်မှာ မကြာလှပေ။ အနီးအနားရှိ ငှက်တို့သည် ပျော်မြူးနေကြသော ပရွက်ပျံ ထောင်ပေါင်းများစွာကို ထိုးသုတ်ဝါးမျိုကြလေသည်။ အသက်မသေဘဲ လွတ်မြောက်ကျန်ရစ်သော ပရွက်ဆိတ်မများသည် မြေသို့ကျဆင်းလာကြသည်။ ထိုနောက် ပရွက်ဆိတ်တွင်းများသို့ ပြန်လာ၍ အလုပ်သမား ပရွက်ဆိတ်တို့၏အကူအညီဖြင့် ပရွက်ဆိတ်ပြည်ကို ပြန်လည် ထူထောင်လေသည်။ ဤကဲ့သို့ ပျော်ပါးမြူးထူးရာမှ ပြန်လာသော ပရွက်ဆိတ်မတို့ကို မူလအဆောက်အအုံထဲမှ အလုပ်သမား ပရွက်ဆိတ်တို့သည် ငြူစူ စိမ်းကားခြင်းမရှိဘဲ၊ ကြည်ဖြူစွာပင် လက်ခံပြုစုလေ့ရှိသည်။

အသက်မသေဘဲကျန်ရှိသောပရွက်ဆိတ်ဖိုများ၏ ကြမ္မာမှာ ဝမ်းနည်းဖွယ် ကောင်းပေသည်။ နေရင်း ပရွက်ဆိတ်အုံသို့ ပြန်ဝင်လိုသော်လည်း၊ အလုပ်သမား ပရွက်ဆိတ်တို့က လက်မခံဘဲ ပြည်နှင်ဒဏ် ပေးကြသည်။ ပရွက်ဆိတ်ဖိုများသည် ခိုလှုံရန် နေရာမရှိသဖြင့် ထိုမှဤမှ သွားလာကူးသန်းယင်း ငှက်တို့၏ခံတွင်းသို့ ကျဆင်းကြရသည်။ အချို့လည်း အအေးဒဏ်ကြောင့် ပျက်စီးကြလေသည်။

ပရွက်ဆိတ်များသည်အဆောက်အအုံကြီးများကို နေရာမရွေး အခါမရွေးဘဲ တည်ဆောက်လေ့ရှိသည်။ သစ်တောတွင်ရင်း၊လွင်ပြင်တွင်ရင်း မြေကြီးကိုထွင်းဖောက်လျက်ဖြစ်စေ၊ တောင်ပို့ကြီးပမာ တည်ဆောက်လျက်ဖြစ်စေ အသိုက်အအုံ ထူထောင်လေ့ရှိသည်။ အချို့ အကောင်များသည် ဟောင်းနွမ်း ဆွေးမြေ့နေသော သစ်တုံးများနှင့် ပင်စည်များတွင် အသိုက် ဆောက်လုပ်တတ်ကြသည်။ အချို့ အကောင် များသည် သစ်ရွက် အပွတ် အခိုင်များထဲတွင် ပိုးမျှင်ဖြင့် အသိုက်အအုံဆောက်လုပ်တတ်ကြသည်။ အချို့ ပရွက်ဆိတ်တို့သည် လူနေအိမ်ခြေများတွင် အသိုက်ဆောက်လုပ်ပြီးလျှင် လူတို့အား အနှောင့်အရှက် ပေးတတ်ကြလေသည်။

လူတို့၌သာ လူဆိုးသူဆိုး ရှိသည်မဟုတ်၊ ပရွက်ဆိတ်တို့၌လည်း ပရွက်ဆိတ်အဆိုးများရှိသည်။ ဆိုးသွမ်းသော ပရွက်ဆိတ်တို့သည် အလွန်သေးငယ်၍ ဝါကြန့်ကြန့်အရောင်ရှိသည်။ထိုပရွက်ဆိတ်တို့သည်ပရွက်ဆိတ်ကြီးများ၏အသိုက်အအုံထဲတွင် ပုန်းလျှိုး၍နေတတ်ကြသည်။ ပရွက်ဆိတ်ကြီးများ၏ အသိုက်အအုံနံရံတွင် ကွေ့ကောက် လိမ်ရှုပ်သော လမ်းကြောင်းကလေးများရှိ၏။ ထိုလမ်းကြောင်းကလေးများသည်ကျဉ်းမြောင်းသေးငယ်လွန်း၍ သာမန်ပရွက်ဆိတ်ကြီးများ ဝင်ရောက်ရန် ခဲယဉ်းလှသည်။ ပရွက်ဆိတ်ဆိုးတို့သည် ပရွက်ဆိတ်ကြီးများ လစ်သည်နှင့် တပြိုင်နက် လက်လှမ်းမီရာ ပရွက်ဆိတ်တုံးလုံးနှင့် ပရွက်ဆိတ်လောင်းကလေးများကို ဖမ်းယူသည်။ ထိုနောက် မူရင်းနေရာ အပေါက်ငယ်ကလေးများဆီသို့ ကပျာကယာ ပြန်ပြေးကြသည်။

ပရွက်ဆိတ်များသည် အခြားထူးဆန်းသည့် ပိုးမွှားများကို ညှော့်သည်အဖြစ်ဖြင့် အရေးတယူ မွေးမြူထားတတ်သည်။ ပရွက်ဆိတ်အုံတွင် ပျများကို အစုလိုက်အအုံလိုက် မွေးမြူထားသည်ကို မကြာခဏ တွေ့ရသည်။ ထိုပျများသည် မည်သည့်အပင်ကိုမဆို အမျိုးအစားမရွေးဘဲ ဖျက်ဆီးတတ်ကြသည်။ သစ်ပင်၏ အဆီအနှစ်အားလုံးတို့ကို ယင်းတို့၏ ချွန်ထက်စူးရှသော နှုတ်သီးများဖြင့် ထိုးဖောက် စုတ်ယူတတ်ကြသည်။ အပင်၏ သြဇာများကို စုတ်ယူပြီးသော အခါ သေးငယ်သော ခန္ဓာကိုယ်ကလေးသည် ပူဖောင်းကဲ့သို့ ဖောင်းပွလာ၍ ချိုသောအရည်များသည် ကိုယ်မှ ယိုစီး၍လာသည်။ ပျတို့၏ကိုယ်မှ ယိုစီးထွက်လာသော အရည်ချိုကို ပရွက်ဆိတ်တို့သည် သောက်စို့ကြ၏။ ထို့ကြောင့် ပရွက်ဆိတ်များသည် ပျတို့ကိုစိတ်ရှည်လက်ရှည်ဖြင့် လူများ နို့စားနွားများကို ဒုက္ခခံကာ ထိန်းကျောင်း မွေးမြူထားသကဲ့သို့ မွေးမြူထားတတ်ကြသည်။ (ပျ — ရှု။)

မြောက်အမေရိကတိုက်တွင် ပျားရည် စုဆောင်းသော ပရွက်ဆိတ်တမျိုးရှိသည်။ထိုပရွက်ဆိတ်တို့သည်ပျားရည်ကို ဝက်သစ်ချပင်၏ အညွန့်အဖူးကလေးများမှ ရရှိကြသည်။ ထိုပျားရည်ကို အတောင်ပံ ပါရှိသော ပိုးမွှားတမျိုးက ပြုလုပ်ထားသည်။ ဤအဖူးကလေးများမှ ယိုစိမ့်၍ ထွက်လာသောပျားရည်ကိုပရွက်ဆိတ်သည်ထုတ်ယူပြီး စလုတ်ထဲတွင် အပြည့်ထည့်ကာ အသိုက်သို့ သယ်ဆောင်သွားသည်။ အသိုက်ထဲတွင် ပျားရည်ကို ပရွက်ဆိတ်တကာတို့သောက်ယူသုံးဆောင်နိုင်ရန် အိုးကြီးများတွင် သိုလှောင်ထား၏။ ထိုပျားရည်အိုးများကို တခုနှင့်တခုနခမ်းချင်းထိလုနီး အသိုက်အမိုးတွင်တွဲလောင်းချိတ်ဆွဲထားသည်။ အချို့အလုပ်သမား

ပရွက်ဆိတ်များသည် မိမိတို့၏ ခန္ဓာကိုယ်ကို ပျားရည်ထည့်သွင်းသိုလှောင်နိုင်အောင်ပြုပြင်ပြောင်းလဲထားရာ၊ အိုးကြီးများသဖွယ် ဖြစ်နေသည်။ ထိုသက်ရှိ ပျားရည်အိုးကြီးများသည် အဆက်မပြတ် ထည့်သွင်းထားသော ပျားရည်တို့ဖြင့် ဖောင်းပွ စူထွက်လျက်ရှိသည်။ အခြား အလုပ်သမားပရွက်ဆိတ်များသည် ဤသက်ရှိ ပျားရည်အိုးများဆီသို့ မကြာခဏရောက်ရှိလာပြီးလျှင် ပျားရည်ကို စုတ်ယူ သောက်သုံးကြသည်။ ဤသို့ သက်ရှိပျားရည်အိုးဖြစ်လျက်ရှိသော အကောင်တို့သည် မည်သည့်အခါမျှ အသိုက်ထဲက အပြင်ဖက်သို့ထွက်လေ့မရှိကြပေ။ ကိုယ်ခန္ဓာမှာ လေးလံပြည့်ဖောင်းလွန်းသဖြင့် လမ်းလျှောက်ရန်ပင် မတတ်နိုင်သည်ကိုတွေ့ရ၏။ တွဲလောင်း ဆွဲချိတ်ရာမှ တခါတရံ အောက်သို့ လိမ့်ကျလာလျှင် ရိုးရိုးအလုပ်သမား ပရွက်ဆိတ်များက ပြန်လည်အပေါ် တက်နိုင်ရန် ကူညီ မ တင် ပေးကြရသည်။

ပရွက်ဆိတ်တို့တွင် စနစ်တကျ ဖွဲ့စည်းထားသော ပရွက်ဆိတ်စစ်သည်တော်များရှိသည်။ မိမိတို့နှင့် အမျိုးတူဖြစ်သည့် အခြားသော ပရွက်ဆိတ် အသိုက်အအုံကြီးများကို ဝင်ရောက်တိုက်ခိုက်တတ်ကြသည်။ တိုက်ပွဲကြီးများ ဖြစ်ပွားပြီးနောက် စစ်နိုင်သော ပရွက်ဆိတ်တို့သည် စစ်ရှုံးသော ပရွက်ဆိတ်တို့ထံမှ ပရွက်ဆိတ်ဥများနှင့် ပရွက်ဆိတ်ငယ်များကို သယ်ဆောင်သွားကြသည်။ ဖမ်းယူသွားသော သုံ့ပန်းကလေးများကို ကောင်းစွာ မွေးမြူပြုစုထားပြီးနောက် ကြီးလာသောအခါ မိမိတို့ အသိုက်ထဲတွင်ပင် ဆက်လက်အလုပ်လုပ်စေသည်။ ဤသို့ အလုပ်လုပ်စေသောကြောင့် ပရွက်ဆိတ်သုံ့ပန်းများသည် ထိုပရွက်ဆိတ်ပြည်ကြီးတွင် အရေးပါအရာရောက်သော ပြည်သားများသဖွယ် ဖြစ်လာကြလေသည်။

အာဖရိကတိုက် အလယ်ပိုင်းဒေသ၊ တောင် အမေရိကတိုက်နှင့် အာရှတိုက်တောင်ပိုင်းဒေသတို့တွင်သက်ရှိသတ္တဝါအသားစားသောပရွက်ဆိတ်များရှိသည်။ ထိုပရွက်ဆိတ်တို့သည်သန်းပေါင်းများစွာစုရုံးကာတပ်ကြီးဖွဲ့၍၊တညီတညွတ်တည်း ချီတက် တိုက်ခိုက်လေ့ရှိကြသည်။ မည်သည့်သတ္တဝါကြီးမဆို ယင်းတို့နှင့် တွေ့လျှင် တိမ်းရှောင် ထွက်ပြေးကြရသည်။ အင်အားကြီးမားသော သားရဲ တိရစ္ဆာန် ရိုင်းကြီးများပင် ဤပရွက်ဆိတ်တို့၏ အကိုက်အခဲကို ခံရလျှင် ရေရှိရာအနီးဆုံးအရပ်သို့ ကတိုက်ကရိုက် ထွက်ပြေးကာ၊ ပရွက်ဆိတ်များကို ရေထဲတွင် နှစ်ပစ်ကြရသည်။ အာဖရိကတိုက်တွင် ဤပရွက်ဆိတ် အုပ်ကြီးမျိုး ချဉ်းကပ်လာသည်ကိုတွေ့လျှင် လူသူအားလုံးသည် အိုးအိမ်များကိုပင် စွန့်လွှတ်၍ထွက်ပြေးတိမ်းရှောင်ကြရလေသည်။

အမေရိကတိုက် တောင်ပိုင်း ပူအိုက်သော အရပ်ဒေသများတွင်၊ ထီးဆောင်း ပရွက်ဆိတ်ခေါ် ပရွက်ဆိတ်တမျိုးကို တွေ့ရသည်။ ထိုပရွက်ဆိတ်တို့တွင် အကောင်ကြီးအကောင်ငယ်နှစ်မျိုးရှိသည်။ ထီးဆောင်း ပရွက်ဆိတ်များသည် အခြား ပရွက်ဆိတ်များကဲ့သို့ပင် လုံ့လ ဝီရိယရှိကြပြီး၊ မြေအောက်တွင်ကြီးကျယ်သောအဆောက်အအုံများကို တည်ဆောက်လေ့ ရှိကြသည်။ ထို ပရွက်ဆိတ်တို့သည် တောထူထပ်သော အရပ်များတွင်ရင်း၊ ကာဖီခင်း၊ လိမ်မော်ခြံစသောအရပ်များတွင်ရင်း အသိုက်အအုံ ဆောက်လုပ်တတ်ကြသည်။ အနီးအနားတဝိုက်ရှိ သစ်ပင် ပန်းပင် အားလုံးတို့ကို ဖျက်ဆီးပစ်တတ်သောအကျင့်ဆိုးလည်းရှိ၏။ နေ့စဉ်နေ့တိုင်း ရှည်လျားလှသော ထီးဆောင်း ပရွက်ဆိတ်တန်းကြီးသည် မိမိတို့နှစ်သက်ရာသစ်ပင်ဆီသို့ရွေးရှု့သွားလာနေသည်ကို တွေ့ရသည်။ နှစ်သက်သော သစ်ပင်ဆီသို့ရောက်သော် ပင်စည်ပေါ်သို့ တခါတည်း တက်သွားကြပြီးလျှင် အခက်အလက် အသီးကိုပါမကျန် အစုလိုက်အအုပ်လိုက် ဖျက်ဆီးပစ်တတ်ကြသည်။ ထိုနောက် သစ်ရွက်စများကို ကိုက်ချီကာ သစ်ပင်ပေါ်မှ ဆင်းသက်လာပြီးလျှင် မိမိတို့၏ အသိုက်အအုံရှိရာသို့ ပြန်လာကြလေသည်။ သစ်ရွက် အစအနများကို ကိုက်ချီ ယူဆောင်လာသော ပရွက်ဆိတ်တို့သည် နေရောင်မှကာကွယ်ရန် ထီးကိုယ်စီ ဆောင်းလာသည်နှင့်ပင် တူတော့၏။ ထို့ကြောင့်လည်း ထီးဆောင်း ပရွက်ဆိတ်ဟု ခေါ်ခြင်းဖြစ်၏။ မိမိတို့သဘောကျ နှစ်သက်သော သစ်ပင်ကိုတွေ့လျှင် ထီးဆောင်းပရွက်ဆိတ်များသည်တနေ့လုံးလိုလိုပင် သစ်ရွက် အစအနများကို သွားယူလိုက်၊ ပြန်လာလိုက်နှင့် အလုပ်ရှုပ်ပွေလျက် နေကြသည်။ ထီးဆောင်းပရွက်ဆိတ်တို့ကို ကြည့်လိုက်လျှင် အမြဲလိုပင် အတန်းနှစ်တန်းဖြစ်လျက်ရှိသည်ကိုတွေ့ရသည်။ ပဌမအတန်းတွင် သစ်ရွက်စများကို အသိုက်အအုံထဲ၌ထားခဲ့၍၊ ခံတွင်း၌ ဘာမျှ ပါမလာသော ပရွက်ဆိတ်များ ပါဝင်သည်။ အခြားအတန်းဘွင်မူ သစ်ရွက်စများကို ကိုက်ချီလာသော ပရွက်ဆိတ်များ ပါဝင်ကြလေသည်။

ပရွက်ဆိတ်အသိုက်အအုံ၌ဧည့်သည်လုပ်သောအကောင်များကို မကြာခဏ တွေ့ရတတ်သည်။ ထိုပရွက်ဆိတ်၏ဧည့်သည်တို့မှာ ပရွက်ဆိတ်များက နိုင်လိုမင်းထက်ဖမ်းဆီးထားသော အကောင်များမဟုတ်ဘဲ၊ မိမိတို့ စိတ်ဆန္ဒအာလျောက် 'ဧည့်သည်' အဖြစ် ပရွက်ဆိတ်ပြည်တွင် နားနေခိုလှုံသော အကောင်များဖြစ်သည်။ အများအားဖြင့် တွေ့ရတတ်သော ထိုဧည့်သည်မှာ နွားချေးပိုးပင် ဖြစ်သည်။ အချို့အကောင်များသည် ပရွက်ဆိတ်၏ဧည့်သည်ဟု ဆိုရသော်လည်း ပရွက်ဆိတ်အသိုက်ထဲတွင် တသက်လုံးသေဆုံးသည်အထိ နေသွားကြသည်။ အချို့မူကား ဧည့်သည်ပီပီခေတ္တမျှသာနေထိုင်ပြီးလျှင်ရွှေ့ပြောင်းသွားကြလေသည်။ အချို့သော ပရွက်ဆိတ်၏ ဧည့်သည်တို့သည် ပရွက်ဆိတ်၏

အစာကို အမှတ်တမဲ့ ခိုးယူ စားသောက်ကြသည်။ အိမ်ရှင် ပရွက်ဆိတ်ကို စားသော ညှော်သည် အကောင်မျိုးပင် ရှိသည်။ သိပ္ပံပညာကျော်များသည် ပရွက်ဆိတ်၏ညှော်သည်များအကြောင်းကို အထူးဂရုတစိုက်လေ့လာခဲ့သော်လည်း၊ ယခုအထိ အတိအကျ မသိရှိကြရသေးပေ။ ပရွက်ဆိတ်၏ ညှော်သည်များသည် အဘယ်ကြောင့် ဤသို့ ပြုမူ ကျင့်ကြံကြ၍၊ အဘယ်ကြောင့် ပရွက်ဆိတ်များကလည်း သဘောတူညီ လက်ခံနေကြရသနည်းဟူသောပြဿနာကို ယခုထက်တိုင်သိပ္ပံပညာရှင် အပေါင်းတို့သည် စဉ်းစားဆဲပင် ဖြစ်လေသည်။

**ပရွန်းဆီးသီး။** ။အချိုဆီးသီးမျိုးကိုအတွင်းမှအစေ့ထုတ်မပစ်ဘဲ၊ ဆီးသီးခြောက် ပြုလုပ်နိုင်၏။ ထိုသို့အခြောက်လုပ်နိုင်သော ဆီးသီးမျိုးကို ပရွန်းဆီးသီးဟူ၍ ခေါ်သည်။ ထိုဆီးသီး၌ အသားပြည့်၍၊ အချိုဓာတ်အများပါရှိလေသည်။ ပရွန်းဆီးသီးသည် အပင်ပေါ်တွင်အမှည့်လွန်၍ အောက်သို့ ကြွေကျလေ့ရှိသည်။ အပင်အောက်သို့ ကြွေကျသော ဆီးသီးမှည့်များကို စုသိမ်းလျက် နေပူထဲ၌ လှန်း၍ဖြစ်စေ၊ စက်များဖြင့် ဖြစ်စေ ခြောက်သွေ့အောင် ပြုလုပ်ကြသည်။ နေပူရှိန် ကောင်းစွာရသော ကာလီဖိုးနီးယားပြည်နယ်တွင် ပရွန်းဆီးသီးများကို အများအားဖြင့် နေပူထဲ၌ အခြောက်လှန်းကြသည်။ ဩရီဂွန်နှင့်ဝါရှင်တန် ပြည်နယ်များ၌ အပူဓာတ်ပေးသောစက်ရုံများတွင် ဆီးသီးများကို အခြောက်ခံထားကြသည်။ ပရွန်းဆီးသီးများကို အခြောက်ပြုလုပ်၍ တင်ပို့ရောင်းချကြသော တိုင်းနိုင်ငံတို့မှာ ပြင်သစ်နိုင်ငံ၊ အခြား ဥရောပတောင်ပိုင်းနိုင်ငံများနှင့် အမေရိကန် ပြည်ထောင်စု ဖြစ်လေသည်။

အခြောက်လှန်းပြီးသော ဆီးသီးများကို အရည်စစ်သွားရအောင် သံစည်များ၌ဖြစ်စေ၊ အစုလိုက် အပုံလိုက်ဖြစ်စေ ရက်သတ္တ ၂ ပတ်၊ ၃ ပတ်မျှထားပြီးနောက် အမျိုးအစားအလိုက် အသီးများကိုခွဲခြားပြီးလျှင် အလေးချိန် တပေါင်စီပြုလုပ်၍ တင်ပို့တတ်သည်။ အမျိုးအစားခွဲခြားရာ၌ တပေါင်တွင် ပါဝင်သောဆီးသီးလုံးရေ အရေအတွက်ကိုလိုက်၍၊ ၄၅ မျိုး၊ ၇၅ မျိုးစသည်ဖြင့် အထုပ်ပေါ်တွင် ဂဏန်းဖြင့် ဖော်ပြထားတတ်သည်။ ပရွန်းဆီးသီးခြောက်များကို နဂိုအခြောက်အတိုင်းဖြစ်စေ ချက်၍ဖြစ်စေ စားသုံးသည်။


အခြောက်လှန်းရန် ပရွန်းဆီးသီးများခူးနေစဉ်

**ပလူတိုဂြိုဟ်။** ။နက္ခတ္တဗေဒတွင် ပလူတိုဂြိုဟ်သည် နေစကြဝဠာ၌ ပါဝင်သော နဝမမြောက် ဂြိုဟ်ဖြစ်သည်။ ထိုဂြိုဟ်ကို ၁၉၃၀ ပြည့်နှစ်တွင် တွေ့ရှိသည်။ နက်ပကျွန်းဂြိုဟ်မတွေ့မီက နက္ခတ်ပညာရှင်တို့သည် မသိရသောဂြိုဟ်တလုံးကြောင့် ယူရေးနပ်ဂြိုဟ် အသွားမမှန်ပုံကို သိရှိကြသည်။ ထိုနောက်မှ နက်ပကျွန်းဂြိုဟ်ကို တွေ့ရှိကြလေသည်။ ထိုနည်းတူ ပလူတိုဂြိုဟ် မတွေ့မီကလည်း နက္ခတ်ပညာရှင်တို့သည် နက်ပကျွန်းဂြိုဟ် အသွားမမှန်ပုံကို သိရှိကြသည်။ ပါမောက္ခ ပါစီဗယ်လိုဝဲသည် နက်ပကျွန်းဂြိုဟ်အလွန်၌ ဂြိုဟ်သစ်တလုံးရှိဦးမည်ဟု အဟောထုတ်ခဲ့သည်။ ပါစီဗယ်လိုဝဲသေဆုံးပြီးနောက်မှ အမေရိကန်ပြည်ထောင်စု၊ အယ်ရီဇိုးနားပြည်နယ်၊ ဖလက်စတပ်မြို့ရှိ လိုဝဲနက္ခတ်မျှော်စင်က ပလူတိုဂြိုဟ် တွေ့ရှိကြောင်း ကျေညာလေသည်။

ပလူတိုဂြိုဟ်သည် ယခုသိထားသော ဂြိုဟ်အားလုံးအနက် အပြင်ဖက် အကျဆုံးဖြစ်ပြီးလျှင်၊ နေနှင့် အဝေးဆုံးဖြစ်၍၊ နေမှမိုင်သန်းပေါင်း ၃၆၇၀ ခန့်ဝေးကွာသည်။ နေကို တပတ်လှည့်ရန် ၂၄၇ နှစ်ခန့်ကြာ၏။ နေကိုလှည့်ပတ်သော ပလူတို၏ လမ်းကြောင်းသည် အလွန်ရှည်လျားသော စက်ဝိုင်းရှည်ကြီးဖြစ်သည်။ ထိုလမ်းကြောင်းတွင် ပလူတိုသည် နေနှင့် အလွန်နီးသည့် အခါလည်းရှိ၍၊ အလွန်ဝေးသည့် အခါလည်းရှိသည်။ နေနှင့် အနီးဆုံးနေရာသို့ ရောက်လျှင် ပလူတိုဂြိုဟ်သည် နက်ပကျွန်းဂြိုဟ်ထက်ပင် နေနှင့် ပို၍နီးကပ်ပေမည်။ ကမ္ဘာ၌ ၁၁ စတုန်လေးသော သူတဦးသည် ပလူတိုဂြိုဟ်ပေါ်၌ ၂၂၃ စတုန်ခန့် လေးမည်ကိုရင်း၊ ပလူတိုဂြိုဟ်သည် ကမ္ဘာထက် ၇ ဆခန့်ပို၍ လေးသည်ကိုရင်း သိရှိရလေသည်။



အတ္ထုပ္ပတ္တိနှင့် စာမွန်ရေး နာမည်ကျော် ပလူးတပ်

**ပလူးတပ်**(ခရစ် ၄၆ – ၁၂၀ ခန့်)။ ။ပလူးတပ်သည် ဂရိစာရေးဆရာတဦးဖြစ်သည်။ အတ္ထုပ္ပတ္တိနှင့် စာမွန်တို့ကိုရေးရာ၌ ကျော်စောသည်။ ဂရိနိုင်ငံ ဗိအိုးရှားနယ်ကယ်ရိုနီးယားရှေးဟောင်းမြို့တွင် မွေးဖွား၍၊ အက်သင်းမြို့တွင် ယထာဘူတပညာရပ်တို့ကို သင်ကြားတတ်မြောက်ခဲ့ပြီးနောက်၊ ရောမမြို့တွင် ထိုပညာရပ်ကို သူတပါးတို့အား ပို့ချသင်ကြားပေးသည်။ ဂရိ၊ ဣတလီနှင့် အီဂျစ်ပြည်အရပ်ရပ်တို့သို့ ခရီးထွက်လှည့်လည်ကာ ထူးခြားသော ပုဂ္ဂိုလ်တို့၏ အကြောင်းကို လေ့လာ၍ မိမိနေရင်းမြို့သို့ ပြန်လည် ရောက်ရှိလာပြီးလျှင် သူကိုယ်တွေ့ခဲ့သော ပုဂ္ဂိုလ်များ၏ အတ္ထုပ္ပတ္တိတို့ကို ရေးသားသည်။ ထိုသို့ရေးသားသော အတ္ထုပ္ပတ္တိတို့မှာပုဂ္ဂိုလ်ထူး ၄၆ ဦးတို့၏ အတ္ထုပ္ပတ္တိများဖြစ်၏။ ရေးသားပုံမှာ ရောမနိုင်ငံမှ ပုဂ္ဂိုလ်ထူးတဦးကို ဂရိနိုင်ငံမှ ပုဂ္ဂိုလ်ထူးတဦးနှင့် နှိုင်းယှဉ်၍ပြသော နည်းဖြင့် ရေးသားသည်။ ထိုသို့ရေးသားသောအတ္ထုပ္ပတ္တိတို့ကို'ပလူးတပ်စီရင်သောအတ္ထုပ္ပတ္တိကျမ်း'ဟု ဂရိနှင့် ဥရောပ စာပေသမိုင်းတို့တွင် ထင်ရှား၏။ ကမ္ဘာကျော် အင်္ဂလိပ်ပြဇာတ်ဆရာ ဝီလျံ ရှိတ်စပီးယားသည် ပလူးတပ်ရေးသားသောအတ္ထုပ္ပတ္တိများကိုမှီငြမ်းပြု၍၊ရာဇဝင်ပြဇာတ်များကို ရေးသားသည်။ (ရှိတ်စပီးယား,ဝီလျံ — ရှု။)

**ပလေးတို** (ဘီစီ ၄၂၇–၃၄၇)။ ။ရှေးခေတ်တွင် ပေါ်ပေါက်ခဲ့သမျှသော ယထာဘူတ ကဝိများအနက်၊ ဂရိလူမျိုး ပလေးတိုသည် အထင်ရှား အကျော်စောဆုံးသော ပညာရှင်ကြီးတဦးဖြစ်၏။

အဖအရစ္စတန် အမိပယ်ရစ်တီအွန်းတို့မှပလေးတိုကိုခရစ်မပေါ်မီ ၄၂၇ ခုနှစ်ခန့်က ဂရိနိုင်ငံအက်သင်းမြို့တွင် ဖွားမြင်သည်။ အချို့ကလည်း အေဂျီးနား ကျွန်းတွင် ဖွားမြင်သည်ဟုဆိုကြသည်။ သူ၏အမည်ရင်းမှာ အယ်ရစ္စတိုကလီးဖြစ်သည်။ ပလေးတိုဟူသော အမည်မှာ ခင်မင်ရင်းနှီးသောမိတ်ဆွေများက ကျီစယ်ခေါ် ရာမှ တွင်ခြင်းဖြစ်သည်။ ယင်းအမည်သည် ဂရိဘာသာစကားဖြစ်၍ ကျယ်ပြန့်သော ပခုံးဟု အနက်ရသည်။ မိဖမျိုးရိုးသည် သူကောင်းမျိုးဖြစ်သည့်အပြင်၊ဂရိသမိုင်းတွင် အလွန် ထင်ရှားသော နိုင်ငံပြုသုခမိန်တဦးဖြစ်သည့် ဆိုလွန်၏ အဆက်အနွယ်ဖြစ်သည်။ (ဆိုလွန် — ရှု။)

ပလေးတိုသည် ဂရိတို့၏ သင်ရိုးသင်စဉ် ပညာရပ် အဖုံဖုံတို့ကို လေ့လာသင်ကြားပြီးနောက်၊အသက် ၂၀ အရွယ်တွင် ဂရိပညာရှင်ကြီး ဆိုကရေးတီး၏ တပည့်အဖြစ် ခံယူခဲ့ရာ၊ ဆိုကရေးတီး၏ တပည့်ရင်းကြီး ဖြစ်လာသည်။ (ဆိုကရေးတီး — ရှု။)

ဘီစီ ၃၉၉ ခုနှစ်တွင် ဆိုကရေးတီး သေဒဏ် အပေးခံရသောအခါ ပလေးတိုသည် အလွန်စိတ်နာကျည်းလှသဖြင့် အက်သင်းမြို့တော်မှ ထွက်ခွာခဲ့ကာ စစ္စလီကျွန်း၊ ဣတလီနိုင်ငံ၊ အီဂျစ်နိုင်ငံနှင့် အာဖရိကတိုက် မြောက်ပိုင်းဒေသများ၌ ၁၂ နှစ်လုံးလုံး ခရီးလှည့်လည်သွားလာလျက် ပညာဗဟုသုတ ရှာမှီးနေခဲ့လေသည်။ ယင်းသို့ လှည့်လည်သွားလာနေစဉ် ဆိုင်ရားကျူးဘုရင် ဒိုင်အိုနိုင်းဆပ်၏ မလိုမုန်းထားခြင်းကို ခံရသဖြင့် ထိုဘုရင်၏ ငွေဝယ်ကျွန်အဖြစ် ရောင်းစားခြင်းကို ခံရရှာသည်။ သို့သော် ကံကောင်းထောက်မ၍ မိတ်ဆွေတဦးက ပလေးတိုအား ကျွန်ဘဝမှ ကယ်တင်သဖြင့် ဘီစီ ၃၈၇ ခုနှစ်တွင်အက်သင်းမြို့တော်သို့ ပြန်လည်ရောက်ရှိသည်။

အက်သင်းမြို့တော်သို့ ပြန်ရောက်သောအခါ ပလေးတိုသည် အကယ်ဒမီဟုခေါ်သော ကျောင်းတကျောင်းကို မြို့မှ တမိုင်ခန့်ကွာဝေးသော အရပ်တွင် စတင် တည်ထောင်ပြီးနောက်၊ သူ၏ တပည့်များဖြစ်သော အက်သင်းမြို့သားလူငယ်များအား မိမိလေ့လာမှတ်သားခဲ့သည့် ပညာ ဗဟုသုတများကို သင်ကြားပို့ချ နေထိုင်ယင်း၊ အသက် ၈၀ အရွယ်တွင် အနိစ္စရောက်သွားလေသည်။ စင်စစ်အားဖြင့် ထိုအကယ်ဒမီကျောင်းတော်သည် ဂရိနိုင်ငံ၏ ပညာရှာမှီးရာ ဗဟိုဌာနတခုဖြစ်လာခဲ့သည်သာမက ဥရောပသမိုင်းတွင်ပဌမဆုံးတည်ထောင်ခဲ့သောတက္ကသိုလ်ကြီးတခုလည်းဖြစ်လေသည်။

ပလေးတို၏ စာပေလက်ရာဟူ၍ တစုံတခုမျှ ပျောက်ပျက်သွားခြင်း မရှိသော်လည်း၊ တွေ့ရှိသမျှ လက်ရာများသည် သူ၏လက်ရာ အစစ် ဟုတ် မဟုတ်ကိုကား သံသယဖြစ်နေကြသည်။ သူရေးသားသော စာပေများမှာ များသောအားဖြင့် စုံတွဲအပြန်အလှန် စကားပြောဆိုပုံမျိုးဖြစ်သည်။ ဆရာဖြစ်သူ ဆိုကရေးတီးနှင့် ယထာဘူတပညာဆိုင်ရာ အတွေးအခေါ် တို့ကို ဆွေးနွေးနေဟန် ရေးသားကာ၊ မိမိ၏ ယထာဘူတပညာဆိုင်ရာ သဘောတရား များကိုလည်း ဆိုကရေးတီး၏နှုတ်မှ မြွက်ကြားဟန်မျိုးဖြင့် ဖော်ပြခဲ့လေသည်။

စုံတွဲ အပြန်အလှန် စကားပြောဆိုပုံဖြင့် ရေးသားထားသော သူ၏ လက်ရာများအနက် 'ဆင်ပိုဆီယမ်' (အချစ်အကြောင်း)၊ 'ဖေးဒို' (ပျက်စီးခြင်းမရှိသော ဝိညာဉ်)၊ 'ရီပတ်ဗလစ်'(စံပြနိုင်ငံ)၊ 'သေးတီးတပ်'(ပညာဗဟုသုတ) 'တိမေးအပ်'(ရုပ်လောက သဘာဝ) စသော စာအုပ်များမှာ အထင်ရှားဆုံး ဖြစ်သည်။

'ရီပတ်ဗလစ်' တွင် ပလေးတိုသည် စံပြ (စိတ်တိုင်းကျ) နိုင်ငံဖြစ်ပေါ် လာစေရန် မည်သို့ဆောင်ရွက်ရမည်ကို စကားအခြေအတင်ပြောဟန်ဖြင့်ရေးသားထားသည်။ နိုင်ငံတနိုင်ငံ၏ ရည်ရွယ်ချက် ပန်းတိုင်သည် တိုင်းသူပြည်သားတို့အား စိတ်ပျော်ရွှင် ချမ်းမြေ့ရေးအတွက် အကျင့်စာရိတ္တ ကြံ့ခိုင်၍ တည်ကြည်ဖြောင့်မတ်အောင် လေ့ကျင့်ပေးရန် ဖြစ်ရမည်ဟု ပလေးတိုက ယုံကြည်လေသည်။ သူရည်မှန်းသော စံပြနိုင်ငံမျိုးသည် ဖောက်ပြန်လျက်ရှိသော ကမ္ဘာလောကကြီးတွင်တည်ထောင်၍မဖြစ်နိုင်ဟူသောအချက်ကိုမူ ပလေးတို သိသည်။ သို့သော်လည်း လူတို့က ရရှိအောင် ကြိုးပမ်းသင့်သည့် ရည်မှန်းချက်တရပ်အဖြစ် သတ်မှတ်ထားခဲ့၏။

စံပြနိုင်ငံတွင် လူတိုင်းသည် မိမိနှင့်အသင့်လျော်ဆုံးသော အလုပ်အကိုင်မျိုးကိုသာ ပြုလုပ်သင့်ကြောင်း၊ ယင်းနိုင်ငံအတွင်း နေထိုင်ကြသော ပြည်သူ ပြည်သားများအား အုပ်ချုပ်ရေးဖက်ဆိုင်ရာ လူတန်းစား၊ စစ်ဖက်ဆိုင်ရာ လူတန်းစားနှင့် ကုန်စည် ထုတ်လုပ်သမား လူတန်းစားဟူ၍ သုံးမျိုးသုံးစားခွဲခြားထားသင့်ကြောင်း၊ အုပ်ချုပ်ရေးဖက်ဆိုင်ရာ လူတန်းစားသည် ဉာဏ်အမြော်အမြင် ရှိသင့်၍၊ စစ်သားများသည် ရဲစွမ်းသတ္တိရှိသင့်ကာ၊ အလုပ်သမားများသည် စည်းကမ်းသေဝပ်မှုရှိသင့်ကြောင်း စသည်ဖြင့် ပလေးတိုက ပြဆိုထားလေသည်။

ပလေးတို၏ ယထာဘူတ ပညာဆိုင်ရာ အယူအဆများသည် ဂရိ ယထာဘူတပညာရှင်ကြီးများ၏ အတွေးအခေါ်များအနက် ဂရိအဆန်ဆုံးသောအတွေးအခေါ် များဖြစ်၏။ သို့သော် ပလေးတို ထုတ်ဖော် ရေးသားခဲ့သော အယူအဆများသည် ဖြစ်နိုင်သည်ထက် စိတ်ကူး ကွန့်မြူးမှုတို့က



ဂရိ ယထာဘူတပညာရှင် ပလေးတို

များလေသည်။ စိတ်၌ ဖြစ်ပေါ်သော အယူအဆသည် မျက်စိဖြင့် တွေ့မြင်ရသော အရာဝတ္ထုထက် ပို၍ မှန်ကန်တည်မြဲသည်ဟု ပလေးတိုက ယုံကြည်သည်။ လူ၊ သစ်ပင်၊ ပန်းမာလ်တို့သည် သေကျေပျက်စီး ပြောင်းလဲသွားမည်ဖြစ်သော်လည်း၊ ယင်းသည့် သစ်ပင်၊ ပန်းမာလ်၊ လူတို့နှင့် စပ်လျဉ်းသည့် ယေဘုယျသဘောထားသည် မည်သည့်အခါမျှ ပြောင်းလဲခြင်းမရှိဟု ဆိုလေသည်။

ပလေးတို၏ကြံဆချက်တွေးခေါ်ချက်များကို နှစ်သက်သော အတွေးအခေါ်သမားများနှင့် စာပေပညာရှင်များ အတော်များများ ပေါ်ပေါက်ခဲ့သည်။ တပည့်တပန်းများလည်း အတော်ပေါ်ခဲ့သည်။ ယင်းတို့အနက် အယ်ရစ္စတိုတယ်သည် ထင်ရှားလေသည်။ (အယ်ရစ္စတိုတယ် — ရှု။)

**ပလက်တီနမ်။** ။အလေးဆုံးသော ဓာတ်သတ္တုများတွင် တခု အပါအဝင်ဖြစ်သော ပလက်တီနမ် ဓာတ်သတ္တုသည် ငွေရောင်ကဲ့သို့ ဖြူသော အဆင်းရှိ၍၊ ရွှေထက်ပင် ပိုမိုသိပ်သည်းသေးသည်။ ခဲနှင့်ဆိုလျှင် နှစ်ဆနီးပါးမျှ ပို၍ သိပ်သည်းသည်။ ရွှေကဲ့သို့ပင် တန်ဖိုးထားရသော သတ္တုဖြစ်သည်။အက်ဆစ်ရည်များထဲသို့ထည့်လိုက်သော်လည်း၊အက်ဆစ်မစားနိုင်ချေ။ သို့သော် နိုက်ထရစ် အက်ဆစ် အပြင်း

ရည်နှင့် ဟိုက်ဒရိုကလေ ာရစ် အက်ဆစ်အပြင်းရည် နှစ်မျိုး ရောစပ်ထားသော အက်ကွာရီးဂျားသည် ပလက်တီနမ်ကို စားနိုင်၏။ ထိုသတ္တုသည် အပူနှင့်လျှပ်စစ်ဓာတ် ကောင်းကောင်း မလိုက်နိုင်သော်လည်း၊ နန်းဆွဲခြင်းကိုရင်း၊ အပြားခတ်ခြင်းကိုရင်း ခံနိုင်သည်။ ပင့်ကူမျှင်ထက် သေးသော နန်းကြိုးကလေးဖြစ်သည်အထိနန်းဆွဲခံနိုင်ရည်ရှိလေသည်။

ပလက်တီနမ်ကို လွန်ခဲ့သော နှစ်ပေါင်း နှစ်ရာ နီးပါးလောက်က တောင်အမေရိကတိုက်၊ကိုလံဗီးယားနိုင်ငံတွင် ပဌမဦးစွာ စတင် တွေ့ရှိခဲ့လေသည်။ ထိုနောက် ရုရှနိုင်ငံ ယူရယ်တောင်တန်းများနှင့်ကနေဒါနိုင်ငံတို့တွင် ဆက်လက်တွေ့ရှိပြန်၏။ပဌမစတင်တွေ့ရှိစဉ်အခါက ရုရှ အစိုးရသည် ပလက်တီနမ်ကို အပေါစားသတ္တုအဖြစ်ဖြင့် အသုံးပြုခဲ့သေးသည်။ သို့ရာတွင်နောင်သော် ရှားပါးသော ပစ္စည်းဖြစ်ခြင်းကြောင့်ရင်း၊ဓာတုဗေဒနှင့် လျှပ်စစ်ဓာတ်ဖက်တွင် လိုအပ်သောပစ္စည်းများပြုလုပ်ရာ၌ ပလက်တီနမ် မပါလျှင် မပြီးသလောက် ဖြစ်သောကြောင့်ရင်း ယခုအခါ ရွှေထက်ပင် တန်ဖိုး ၅ ဆကျော်မျှကြီးလေသည်။ပလက်တီနမ်ကို အာဖရိကတိုက်တောင်ပိုင်း၊ ဩစတြေးလီးယားတိုက်၊တက်စမေးနီးယားကျွန်း၊အလာစကာပြည်နယ်၊ မြန်မာနိုင်ငံနှင့် ဂျပန်နိုင်ငံများတွင်လည်း တူးဖော်ရရှိလေသည်။

ပလက်တီနမ်၏ အထူးခြားဆုံးသော ဂုဏ်တခုမှာ အခြားသောပစ္စည်းများနှင့်တွေ့သောအခါတွင်ဓာတ်မဖောက်ပြန်တတ်ဘဲ၊ မူလအခြေအတိုင်း တသီးတခြား ရှိနေတတ်ခြင်းပင် ဖြစ်လေသည်။ထိုသို့ မဖောက်ပြန်တတ်သော သတ္တိရှိခြင်းကြောင့် ပလက်တီနမ်ကို ကက်တလစ်ခေါ် ဓာတ်ကူပစ္စည်းအနေဖြင့် များစွာအသုံးပြုကြလေသည်။ (ကက်တလစ် — ရှု။)အမ်မိုးနီးယမ်း ကလိုရိုပလက်တီနိတ်ကို မီးရှို့ပေးခြင်းဖြင့်ရရှိသောပလက်တီနမ်ရေမြှုပ်၊ကလိုရိုပလက်တီနစ်အက်ဆစ်ထဲသို့ သွပ်ကိုထည့်ခြင်းဖြင့်ရရှိသော ပလက်တီနမ် အမဲမှုန့်၊ ကလိုရိုပလက်တီနစ် အက်ဆစ် ပျော်ဝင်ရည်ထဲသို့ ကျောက်ဂွမ်းများ နှစ်ထည့်ပြီးနောက်၊ အပူတိုက်ပေးခြင်းဖြင့် ရရှိသော ပလက်တီနမ်ကျောက်ဂွမ်းမှုန့် စသော ပလက်တီနမ် အမှုန့်များသည် အလွန်အသုံးဝင်သော ဓာတ်ကူပစ္စည်းများဖြစ်ကြ၏။ကက်တလစ်ဟုခေါ် သောဓာတ်ကူပစ္စည်းမှာဓာတ်ပေါင်းစပ်ရာ၌ရင်း၊ ဓာတ်ဖောက်ပြန်မှုများတွင်ရင်း မိမိကိုယ်တိုင် ခနောက်ဆုံး၌ ဓာတ်မပြောင်းဘဲ အခြားပစ္စည်းတို့၏ ဓာတ်ပေါင်းစပ်ခြင်း၊ ဓာတ်ဖောက်ပြန်ခြင်းတို့ကို လွယ်ကူ၍လျင်မြန်စေရန် ကူညီပေးသောဓာတ်ပစ္စည်းပင်ဖြစ်သည်။ ပုံမှာ-သာမန် အပူချိန်တွင် အောက်ဆီဂျင်နှင့် ဟိုက်ဒရိုဂျင်တို့ကိုရောထားသော်လည်း၊ ဖောက်ပြန် ပေါင်းစပ်ခြင်းမရှိချေ။သို့သော် ဟိုက်ဒရိုဂျင် ဓာတ်ငွေ့ထွက်နေသော နေရာ၌ ပလက်တီနမ်ရေမြှုပ်ကို ထားလိုက်လျှင်ကား ဟိုက်ဒရိုဂျင်သည် မီးစွဲလောင်၍ အောက်ဆီဂျင်နှင့် ပေါင်းစပ်သွားလေသည်။ပလက်တီနမ်မှာမူ မည်သို့မျှဓာတ်ပြောင်းခြင်း မရှိပေ။ ဆာလဖျူရစ် အက်ဆစ်ကို ချက်ယူရာတွင်လည်း ပလက်တီနမ် ကျောက်ဂွမ်းကို ဓာတ်ကူ ပစ္စည်းအဖြစ်ဖြင့် အသုံးပြုရလေသည်။

ပလက်တီနမ်ကို မီးပြင်းပြင်း တိုက်ပေးစေကာမူ အခြားသတ္တုများကဲ့သို့ များများစားစား ကားထွက်၍မလာချေ။ အပူရှိန်ကြောင့် ကားထွက်ရာတွင် ပလက်တီနမ်သည် ဖန်ကဲ့သို့ အနည်းငယ်လောက်သာ ကားထွက်လေသည်။ ဤဂုဏ်သတ္တိကြောင့်ပင် လျှပ်စစ်ဓာတ်မီးလုံးများတွင် ပလက်တီနမ်ကို အများအပြားအသုံးပြုကြရသည်။ ပလက်တီနမ်မှာ တန်ဖိုးများသောကြောင့် လိုသလိုမသုံးနိုင်ကြပေ။သို့သော် ယခုအခါပလက်တီနမ်အစား တန်ဖိုးနည်းသော သတ္တုရောတမျိုးကို တွေ့ရှိထားပြီဖြစ်၍ ထိုသတ္တုရောမှာ သံနှင့် နစ်ကယ်တို့ကို ရောစပ်ထားပြီးလျှင် ပလက်တီနိုက်ဟု ခေါ်၏။

ပလက်တီနမ်ကို ရွှေငွေတို့နည်းတူ၊ လက်စွပ် နားကပ် စသော ဆင်မြန်းစရာပစ္စည်းများပြုလုပ်ရာတွင်အသုံးပြုကြ၍၊ ဓာတ်ပုံကူးသည့် စက္ကူတမျိုးပြုလုပ်ရာတွင်လည်း အသုံးပြုသည်ကိုတွေ့ရသည်။ ပလက်တီနမ်ကို သာမန်အက်ဆစ်များ မစားနိုင်သည့်ပြင်၊စင်တီဂရိတ် ၁၇၅၅ ဒီဂရီအထိ အပူတိုက်ပေးမှ အရည် ပျော်နိုင်သောကြောင့် လျှပ်စစ်ဓာတ်ဆိုင်ရာ ပစ္စည်းများ၊ နန်းကြိုးများ၊ ပါးလွှာသော ပစ္စည်းများ၊ လုံမျာနှင့် အခြားခွက်များ ပြုလုပ်ရာ၌ များစွာ အသုံးပြုကြ၏။ ပလက်တီနမ်နှင့် လုပ်ထားသော ပစ္စည်းကရိယာများမှာ ဓာတုဗေဒ ဓာတ်စမ်းခန်းများတွင် မရှိလျှင် မဖြစ်ပေ။ ထိုပြင် ပလက်တီနမ်နှင့် ရွှေသာလျှင် ပါးစပ်အတွင်း၌ဖြစ်သော အချဉ်ဓာတ်ကို ခံနိုင်ရည်ရှိသောကြောင့်၊ ပလက်တီနမ်မှာ သွားတုများပြုလုပ်ရာ၌လည်း အလွန် အသုံးဝင်



ဓာတုဗေဒစမ်းခန်း၌အသုံးပြုသောပလက်တီနမ်လုပ်ပစ္စည်းကရိယာများ

ပြန်သည်။ ပလက်တီနမ်သည် ငွေနှင့်တူသောကြောင့် စပိန်ဘာသာအားဖြင့်ငွေကို 'ပလက်တာ' ဟုခေါ်ရာမှ ဆင်းသက်လာသော ဝေါဟာရ ဖြစ်သည်။ ထိုသတ္တုကို များသောအားဖြင့် ရွှေ၊ သို့မဟုတ် အိုင်ရစ်ဒီယမ်၊ အော့စမီယမ်၊ ပလေဒီယမ်၊ရိုဒီယမ်နှင့် ရူသီနီယမ် စသော အတွေ့ရှားပါးသည့် သတ္တုတခုခုနှင့်ဖြစ်စေ၊ အများနှင့် ဖြစ်စေ ရော၍ တွေ့ရတတ်သည်။ ပလက်တီနမ် သက်သက်ဆိုပါက အမှုန့် အဖြစ်ဖြင့်၎င်း၊ အပြားကလေးအဖြစ်ဖြင့်၎င်း၊ အခဲကလေး အတောင့်ကလေးများ အဖြစ်ဖြင့်၎င်း တွေ့ရတတ်လေသည်။

ပလက်တီနမ်ကို အိုင်ရစ်ဒီယမ်သတ္တုနှင့် စပ်၍ သတ္တုရောပြုလုပ်သောအခါ ကြာရှည်လေးမြင့်စွာ ထားရန်နှင့် သုံးစွဲရာတွင် အစားအခံနိုင်ဆုံးသောသတ္တုရောတမျိုးကို ရသည်။ ထိုသတ္တုရောကို ဖောင်တိန် ကလောင်သွား အဖျားတွင် အနည်းငယ်တပ်ပေးရာ၌ အသုံးချသည်။ နိုင်ငံတော် အစိုးရ၏စံပြုအလေးချိန် အတိုင်းအတာများ ပြုလုပ်ရန်အတွက်လည်း အသုံးပြုကြလေသည်။

**ပလက်ဝမြို့**။ ။ပလက်ဝမြို့သည် ချင်း ဝိသေသတိုင်း၊ တောင်ပိုင်းချင်းတောင်ခရိုင်တွင်ပါဝင်သည့် နယ်ပိုင်ရုံးစိုက်မြို့ဖြစ်သည်။ ချင်းတောင်များမှ မြစ်ဖျားခံ၍၊ ရခိုင်တိုင်းအထိစီးဆင်းသွားသော ကုလားတန်မြစ်၏ အနောက်ဖက်ကမ်းတွင်ပလက်ဝမြို့တည်ရှိသည်။ကုလားတန်မြစ်ကြောင်းအတိုင်း စစ်တွေမြို့မှ ၉၆ မိုင်ကွာဝေးသည်။ မြို့မြောက်ဖက် ၉ မိုင်ခန့်ဝေးသော ကျောက်ပန်းတောင် အဖိုနှင့် ကျောက်ပန်းတောင် အမတောင် ၂ တောင်အကြားတွင် မြစ်ဖျားခံသည့် ပလက်ချောင်းသည် ပလက်ဝ မြို့နားတွင် ကုလားတန် မြစ်တွင်းသို့ စီးဝင်သဖြင့် ပလက်ချောင်းဝတွင် တည်ရှိသည်ကို အစွဲပြု၍ ပလက်ဝမြို့ဟုတွင်သည်။ ပလက်ချောင်း မြစ်ဖျားခံရာတောင်ကြား၌ ရှေးက လင်းနို့များရှိခဲ့ဟန်တူ၍၊ လေးမြို့ ချင်းများက လင်းနို့ကို 'ပီလက်' ဟုခေါ်ရာမှ ပလက်ချောင်း၊ ပလက်ဝမြို့ စသည်ဖြင့်တွင်သည်ဟု ဆိုစမှတ်ပြုကြသည်။

ပလက်ဝမြို့သည် ၂ စတုရန်းမိုင်ခန့် ကျယ်၍၊ မြို့အနေအထားသည် ကျဉ်းမြောင်းသော တောင်ကြားတွင် ခပ်လျားလျားတည်သည်။ မြို့ပတ်ဝန်းကျင်တွင် ကြီးမား ထင်ရှားသော တောင်များဟူ၍ မရှိချေ။ မြန်မာနိုင်ငံ လွတ်လပ်ရေးမရမီက ယင်းမြို့ကို ရခိုင်တိုင်း၌ ထည့်သွင်းကာ အရေးပိုင် ရုံးစိုက်မြို့အဖြစ်ထားရှိသည်။ လွတ်လပ်ရေး ရရှိပြီးနောက်တွင်မူ ပလက်ဝမြို့ကို ချင်းဝိသေသတိုင်း အတွင်းသို့ သွတ်သွင်းလိုက်၍ နယ်ပိုင်ရုံးစိုက်မြို့ဖြစ်လာသည်။ သို့ရာတွင် တည်နေရာကောင်း၍ အဆက်အသွယ် လွယ်ကူသော မြို့ဖြစ်သဖြင့် ပလက်ဝနယ်ကို သီးသန့်ခရိုင်အဖြစ် သတ်မှတ်ကာ ပလက်ဝမြို့ကို ခရိုင်ဝန် ရုံးစိုက်မြို့အဖြစ် ပြုလုပ်ရန် အစီအစဉ်များ ရှိလေသည်။

၁၉၅၃ ခုနှစ် သန်းကောင်စာရင်းအရ ပလက်ဝနယ်သုံး၏ လူဦးရေသည် ၃၈,၅၀၇ ရှိ၍၊ မြို့ပေါ်တွင်လူ ၁,၅၀၀ ခန့်နေထိုင်သည်။ ခမီး ချင်းလူမျိုး အများဆုံးဖြစ်၍ ကျန်လူမျိုးများမှာ ရခိုင်နှင့် အိန္ဒိယလူမျိုးများဖြစ်သည်။ အများအားဖြင့် ဗုဒ္ဓအယူဝါဒ သက်ဝင်ယုံကြည် ကိုးကွယ်ကြ၍၊ ခရစ်ယန်နှင့် အစ္စလမ် အယူဝါဒီ အနည်းအကျဉ်းရှိသည်။ ခမီး ချင်းတို့သည် မိမိတို့ကိုယ်တိုင် ရက်လုပ်သော အဝတ်အထည်များကိုသာ ဝတ်ဆင်လေ့ ရှိကြသည်။

ပလက်ဝမြို့နယ်၏ ထွက်ကုန်များမှာ၊ နှမ်း၊ ဂျုတ်၊ ဆေး၊ ဝါနှင့် လိမ်မော်သီးဖြစ်သည်။ ပလက်ဝ မြို့နယ်တွင် ကုလားတန်ဆေးသည် အထူးထင်ရှားသည်။ မြို့နယ် တဝိုက်တွင် ဆန်စပါး အနည်းငယ် စိုက်ပျိုးသော်လည်း၊ နယ်သူ နယ်သားများစားရန်ပင် မလုံလောက်သဖြင့် ရခိုင်တိုင်း စစ်တွေနယ်မှ ဝယ်ယူကြရသည်။

စစ်တွေမြို့မှ မြောက်ဦးမြို့၊ ကျောက်တော်မြို့များကိုဖြတ်၍ ပလက်ဝမြို့သို့ ရက်သတ္တတပတ်လျှင် ၂ ကြိမ်ကျ အချိန်မှန်မှန် သင်္ဘောလမ်း အဆက်အသွယ်ရှိသည်။ ကုလားတန်မြစ်ဖျားဒေသမြို့ရွာများနှင့်လည်း လှေ၊ဖောင်စသည်တို့ဖြင့် ကူးသန်း ဆက်သွယ်နိုင်သည်။ မတူပီမြို့နယ်သို့လည်း ကုန်းလမ်းဖြင့် သွားနိုင်သည်။ ပလက်ဝမှ မတူပီမြို့သို့ အရောက် မော်တော်ကားလမ်းသစ်လည်း ဖောက်လုပ်လျက်ရှိသည်။

ပလက်ဝမြို့တောင်ဖက်၌ သင်းသေချောင်းရှိသည်။ ယင်းသည့်ချောင်းအဖျား ပလက်ဝမြို့နှင့် ၂ ဖာလုံခန့် ကွာဝေးသောနေရာတွင် အလွန်ရှုခင်းသာယာသော ရေတံခွန်ကြီးတခုရှိသည်။ ခရီးသည်များ၏ အပန်းဖြေစခန်းတခု ဖြစ်စေရန်မက ပလက်ဝမြို့တွင်းသို့ ယင်းသည့်ရေတံခွန်မှ စမ်းရေကို သွယ်ယူ အသုံးပြုနိုင်ရန်ပါ အစိုးရတို့က စီစဉ်လျက်ရှိသည်။ ပလက်ဝမြို့ပေါ်၌ နိုင်ငံတော်အထက်တန်းကျောင်း၊ ဆေးရုံ၊ ဗုဒ္ဓဘာသာ သာသနာပြုကျောင်း၊ ခရစ်ယန် သာသနာပြုကျောင်းနှင့် အေးစေတီ၊ အုတ်သလင်းစေတီ စသော ဘုရားစေတီများရှိသည်။ ယင်းဘုရားများ၏ ပွဲတော်များကို နှစ်စဉ်ကျင်းပကြသည့်အပြင်၊ တန်ခူးလတွင် နှစ်စဉ် လှေပြိုင်ပွဲများကို၎င်း၊ နတ်တော်၊ ပြာသိုလများတွင် တောင်ယာစပါး ရိတ်သိမ်းပြီးနောက် ခေါင်ရေသောက်ပွဲများကို၎င်း ကျင်းပကြသည်မှာ ပျော်ရွှင်ဖွယ်ဖြစ်သည်။

**ပလင်းမတ်မြို့**။ ။ပလင်းမတ်မြို့သည်အင်္ဂလန်ပြည်တောင်ဖက်ကမ်းခြေရှိ ထင်ရှားသော ဆိပ်ကမ်းမြို့ တမြို့ဖြစ်၏။ ဒက်ဗွန်ရှိုင်ယာနယ် ပလင်းမြစ်ဝတွင် တည်ရှိ၍၊ ထိုမြို့တွင်



အမျိုးသားဝတ်စုံ ဆင်ယင်ထားသည့် ရွှေပလောင်အမျိုးသမီး



အင်္ဂလန်ပြည် တောင်ဖက်ကမ်းခြေရှိ ပလင်းမတ် ဆိပ်ကမ်းမြို့

ဒက်ဗွန်ပို့နှင့် စတုန်းဟောက် မြို့တို့လည်း ပါဝင်ကြသည်။ ဆာ ဖရန်းစစ် ဒရိတ်သည် ခရစ် ၁၅၇၇ ခုနှစ်မှ ၁၅၈၀ ပြည့်နှစ်အတွင်း ပင်လယ်ခရီးဖြင့် ကမ္ဘာလှည့် ထွက်ခဲ့သည်မှာ ပလင်းမတ် ဆိပ်ကမ်းမြို့မှအစပြု၍ ထွက်ခဲ့ခြင်းဖြစ်သည်။ ခရစ် ၁၅၈၈ ခုနှစ်က စပိန်နိုင်ငံ၏ အာမဒါ ရေတပ်ကြီးကို တိုက်ခိုက်ဖြိုဖျက်ရန်၊ ဒရိတ် ဦးစီးသော အင်္ဂလိပ်ရေတပ်သည် ဤဆိပ်ကမ်းမှပင် ထွက်ခွါသွားခဲ့၏။ (ဒရိတ်, ဆာဖရန်းစစ် — ရှု။) ၁၆၂၀ ပြည့်နှစ်တွင် ကိုးကွယ်ရာ အယူဝါဒ၌ လွတ်လပ်ခွင့်ရရန် ဒေသသစ်ရှာဖွေသူများဖြစ်သော 'ပီးလဂရင်း ဖားသား' တို့လည်း 'မေဖလဝါး' သင်္ဘောဖြင့် အမေရိကသို့ ဤဆိပ်ကမ်းမှပင် ထွက်ခွါသွားကြ၏။ (ပီးလဂရင်း ဖားသား — ရှု။) ထို့ကြောင့် ပလင်းမတ်သည် သမိုင်းတွင် ထင်ရှားသော ဆိပ်ကမ်းမြို့ ဖြစ်ပေသည်။

ပလင်းမတ်မြို့၌ ၁၉၅၅ ခုနှစ်တွင်လူဦးရေ ၂၁၀,၀၀၀ ခန့်ရှိ၍၊ ကုန်အရောင်းအဝယ် စည်ကားသည်။ ရေတပ်စခန်း၊ လေတပ်စခန်းမြို့လည်း ဖြစ်သည်။ အတ္တလန္တိတ် သမုဒ္ဒရာကို ဖြတ်သန်း သွားလာသည့် သင်္ဘောတို့သည် ထိုမြို့တွင် ဝင်ထွက်ဆိုက်ကပ်လေ့ရှိကြ၏။ ထိုမြို့တွင် ထင်ရှားသော လုပ်ငန်းများမှာ စာပုံနှိပ်ခြင်း၊ သင်္ဘောတည်ခြင်း၊ ဓာတုဗေဒပစ္စည်းများ ပြုလုပ်ခြင်း၊ ငါးဖမ်းခြင်း ဖြစ်ကြ၏။ ဒုတိယကမ္ဘာစစ်ကြီး (၁၉၃၉–၄၅) အတွင်း၌ ပလင်းမတ်မြို့သည် သွင်းကုန်များ တင်သွင်းရာဌာန ဖြစ်သဖြင့်၎င်း၊ သင်္ဘောကျင်းများရှိသဖြင့်၎င်း စစ်ရေးစစ်ရာတွင် အထူးအရေးကြီးလာလေသည်။ ထို့အတွက်ဂျာမန်တို့သည် ပလင်းမတ်မြို့ကို အပြင်းအထန် ဗုံးကြဲ တိုက်ခိုက်ကြသည်တွင် မြို့လယ်ရပ်ကွက်သည်အကြီးအကျယ် ထိခိုက် ပျက်စီးခဲ့လေသည်။

**ပလောင် နှင့် ပလေး။** ။ပလောင် နှင့် ပလေးတို့သည် မွန်ခမာ အစုခွဲဝင် ဘာသာစကားကို ပြောဆို သုံးစွဲသူများ ဖြစ်ကြသည်။ ယင်းတို့နှင့် နီးကပ်စွာ အနွယ်တူသော သူများမှာ ယန်း လမ်၊ ယင်း၊ ဝ၊ လ၊ လဝ ဟူသည်တို့ ဖြစ်သည်။ ယင်းတို့အားလုံးကို ပေါင်း၍ ပလောင်–ဝ အစုကလေးဟုခေါ် ဝေါ်ကြသည်။ထိုအစုကလေး၏လူဦးရေမှာ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ၊ ၁၇၆,၀၀၀ ကျော်ဖြစ်၍၊ ပလောင်နှင့်ပလေးတို့မှာ ၁၄၀,၀၀၀ ကျော်သည်။

### နေရာဒေသ

ပလောင် နှင့် ပလေးတို့ကို ရှမ်းပြည်မြောက်ပိုင်း၌တွေ့ရသည်။တရံရောအခါကထိုသူတို့သည်မြစ်ကြီးနားနယ် ဆဒုံးဒေသနှင့် ဗန်းမော်နယ် ဂေါရီတို့ နေထိုင်ရာ ဒေသများတွင်

နေခဲ့ကြ၏။ ကချင်တို့ ဝင်ရောက်လာသောအခါတွင် ယင်းတို့သည် ကချင်တို့၏အလုံးအရင်းအားကိုမခံနိုင်ဘဲ၊ တောင်ဖက်သို့ ရွှေ့ပြောင်းပေးခဲ့ရာ၊ ယခုအခါ၌ မိုးကုတ်ကျောက်တွင်းဒေသ၊ မိုးမိတ်နယ်၊ ရွှေလီမြစ်၏ လက်ဝဲဖက်ကမ်းတလျှောက်ဖြစ်သော ကိုးတောင်ဒေသ၊ တောင်ပိုင်နယ်၊ သီပေါနယ်၊လားရှိုးနှင့်သိန္နီနယ်တောင်ပိုင်းတို့တွင် ရောက်ရှိနေကြသည်။အချို့မှာ ရှမ်းပြည်တောင်ပိုင်းသို့ ရွှေ့ပြောင်းနေထိုင်ကြ၏။ တရုပ်ပြည်ဘွင်း၌ ယင်းတို့ကို အနည်းအကျဉ်းတွေ့ရသော်လည်း၊ မြန်မာနယ်စပ်နှင့် များစွာမကွာလှမ်းလှပေ။

ပလောင်သည် မြန်မာ အမည်ဖြစ်သည်။ ရှေးကျောက်စာများတွင်ပေါင်လောင်ဟု ရေးသည်။ ပုဂံခေတ်က ယင်းတို့ ရွှေတောင်မြစ်ဝှမ်းမြေပြန့်တွင် ရှိကြောင်း ကျောက်စာများ၌ တွေ့ရသည်။မိမိတို့ကိုယ်ကိုရုမဲဟုခေါ် ဝေါ်ကြသည်။

### စိတ်နေသဘောထားနှင့် ယုံကြည်ကိုးကွယ်သော အယူဝါဒ

ပလောင်တို့သည် ကိုယ်သက် တောင့်တင်း ကြံ့ခိုင်၍၊ အလုပ်ကို ပင်ပင်ပန်းပန်း ကြိုးစားလုပ်ကိုင်သူများ ဖြစ်သည်။ ငြိမ်းချမ်း သာယာစွာ နေလိုကြ၍၊ ခိုက်ရန် ဖြစ်ပွားခြင်းကို



ပလောင် အမျိုးသမီး

မနှစ်သက်ကြပေ။ မိမိတို့ဘာသာ လုပ်ဖွယ်ဆောင်တာများကို အေးဆေးစွာ အားသွန်ခွန်စိုက် လုပ်လိုကြသည်။

ဗုဒ္ဓအယူဝါဒကို လေးလေးစားစား ကိုးကွယ်ယုံကြည်ကြ၏။တန်ခိုးကြီးဘုရားများ၊ အထူးသဖြင့် မန္တလေးမြို့ရှိဘုရားများသို့ စရိတ်ကြေးငွေ အကုန်အကျခံကာ၊ အစုအဝေးလိုက် ဘုရားဖူး သွားလေ့ရှိကြသည်။ ဒေသဆိုင်ရာ ဘုရားပွဲ၊ ဘုန်းကြီးပျံတို့သည် သူတို့အတွက် အရေးကြီး၏။ ပလောင်ပလေးရွာ ဖြစ်စေ၊ အိမ်အချို့သာရှိသော အုပ်စုပင်ဖြစ်စေ ဘုန်းတော်ကြီးကျောင်းနှင့် စေတီဘုရား ရှိစမြဲဖြစ်သည်။ မိရိုးဖလာ နတ်ကိုလည်း ကိုးကွယ်ကြ၏။

### ဝတ်စားတန်ဆာ

ပလောင် နှင့် ပလေး အမျိုးသားများသည် ကချင်ယောကျ်ားများကဲ့သို့ပင်ဝတ်ဆင်ကြသည်။ အမျိုးသမီးတို့အတွက် အမျိုးသမီးအဝတ်အစားသီးခြားရှိသည်။ သူတို့၏အဝတ်အထည်စုံများမှာ များသောအားဖြင့် အပေါ် အင်္ကျီအပြာ၊ ခါးစည်းအပြာ ဝတ်ဆင်လေ့ရှိသည်။ အင်္ကျီလည်ခွံမှာ အနီတပ်လေ့ရှိကြသည်။ ခြေကျင်းဝတ်တွင် အဝတ်ပတ်၍ ဆင်မြန်းလေ့ရှိသည်။ ခါးတွင် ကြိမ်ခွေ သို့မဟုတ် ငွေခါးပတ်ကြီးများကို ပတ်ထားသည်။ အမျိုးသမီးအချို့တို့သည် အဝတ် ဦးထုပ်အပြာ၊ သို့မဟုတ် အနီကို ဆောင်းသည်။ အချို့မှာ အရောင် တောက်သည့် ပန်းဖွားများဖြင့် တန်ဆာဆင်ထားသော ခေါင်းပေါင်းများကို ပေါင်းကြသည်။

ပလောင်နှင့် ပလေးဘို့၏ ခြားနားချက်မှာ များစွာမထင်ရှားလှချေ။ ပလောင်တို့သည် ငွေကြေး တောင့်တင်းသည်။ တောင်ပိုင်နယ်၏ မြို့တော်ဖြစ်သော နမ့်ဆန်မြို့ကို ဗဟိုပြု၍ နေထိုင်ကြသည်။ အများအားဖြင့် ပလောင်တို့သည် တောင်ထိပ်ဒေသများတွင် နေ၍၊ လက်ဖက်ပင် စိုက်ပျိုးခြင်းမှတပါး၊ အခြားစိုက်ပျိုးမှုကို လုပ်ကိုင်သည် မရှိလှပေ။ ပလေးဘို့မှာမူ တောင်အောက်ပိုင်း ဒေသချိုးတွင် အနေများ၍၊ စပါးကို ပိုမို စိုက်ပျိုးကြသည်။ ဤအချက်သာ အဓိက ကွဲပြားချက်ဖြစ်လေသည်။

### ဘာသာစကား

ပလောင်နှင့် ပလေးတို့သည် အစုလိုက်နေကြရာ၊ တစုနှင့်တစု အသံထွက်များမတူသောဘာသာစကားများကို ပြောဆိုကြသည်။ မိမိဘာသာ နေတတ်သည့် အလေ့ ရှိသည့်အတိုင်း၊ မိမိတို့ အစုအရေးလောက်သာ အာရုံထားတတ်ကြသဖြင့်၊ အားလုံး စည်းရုံး နေထိုင်မှုကို ဖြစ်မြောက်အောင် မဆောင်ရွက်ခဲ့ကြပေ။ သူတို့၏ ဘာသာစကားကို စာဖြင့် ရေးသားအသုံးပြုခြင်း မရှိသေး။ လူမျိုး တစုနှင့်တစု အချင်းချင်းအသံမတူသော စကားတို့နှင့် ပြောရာတွင် နား



ပလေး အမျိုးသမီး

မလည်ဘဲရှိသောကြောင့်၊ နားလည်နိုင်ရန် ရှမ်းဘာသာကို သုံးကြရသည်။

## အုပ်ချုပ်မှု

ပလောင်နှင့်ပလေးတို့နေထိုင်ရာ တောင်ပိုင်တောင်ကုန်းဒေသကို တရုပ်တို့က လက်ဖက်တောင်များဟု အဓိပ္ပါယ်ရသော ချာရှန်ဟု ခေါ်ဝေါ်ကြသည်။ ဤမွန်ခမာ အနွယ်ဝင်တို့၏အုပ်ချုပ်မှုမှာစိတ်ဝင်စားဖွယ်ကောင်းသည်။ဒေသန္တရကိုယ်ပိုင် အုပ်ချုပ်ရေးမှာ ပလောင်တို့အတွက် မထူးဆန်းလှပေ။ အုပ်စု၊ သို့မဟုတ် ရွာတရွာကို ထိုအုပ်စု၊ သို့မဟုတ် ရွာမှ ရွေးချယ်လိုက်သောလူကြီးက အုပ်ချုပ်သည်။ ထိုလူကြီးသည် နမ့်ဆန်မြို့နယ် အုပ်ချုပ်ရေး၏ လက်အောက်ခံဖြစ်သော်လည်း၊ များသောအားဖြင့် မိမိတို့ဆန္ဒနှင့် မိမိတို့အုပ်ချုပ်နိုင်သော အခွင့်အရေးအတော်အတန်ရှိလေသည်။ ဤကဲ့သို့ လူကြီးဖြင့် အုပ်ချုပ်သောစံနစ်မှ ယခုခေတ် ပေါလမ်ခေါ် အရာရှိတို့ ပေါ်ပေါက်လာသည်။ ပေါလမ်မှာ အမှန်အားဖြင့်၊ ရွာသားတို့က ရွေးချယ်လိုက်သော ကိုယ်စားလှယ်ဖြစ်သည်။ သူသည် အုပ်ချုပ်သော စော်ဘွား၏ ဟော်တွင် ဆိုင်ရာဒေသ၏ ကိုယ်စားလှယ်အဖြစ် နေလေ့ရှိသည်။ ထိုရာထူးမှာ အမွေဆက်ခံနိုင်သော ရာထူးဖြစ်၏။ ဘူဒေသလူထုက စော်ဘွားနှင့် ဆောင်ရွက်ရန် ကိစ္စရှိလျှင်၊ သို့မဟုတ် စော်ဘွားက သူ့ဒေသလူထုနှင့် ဆက်ဆံဆောင်ရွက်ရန်ကိစ္စများရှိလျှင်၊ ပေါလမ်ထံမှတဆင့်ဆောင်ရွက်ကြရသည်။ တနှစ်လျှင် ၂ ကြိမ်ကျ မိမိဒေသသို့သွား၍၊ အခွန်တော်ကောက်ခံပြီးလျှင်၊စော်ဘွားထံဆက်သရသည်။ စော်ဘွားက ပေါလမ်အား ရသင့်သောခိုင်ကို ပေးသည်။ စော်ဘွား တန်ခိုးနည်းသောအခါတွင် အုပ်စုများ သစ္စာခိုင်မြဲစေရန် ပေါလမ်များကို စော်ဘွားတို့က အာမခံအဖြစ်ဖြင့် ခေါ်ထားကြ၏။ နောက်ခေတ်တွင်မူကား၊ စော်ဘွားများ တန်ခိုးနည်းသည့်အခါ၌၊ လူထုက ပေါလမ်ကို ရွေးကောက်စေ၍၊ တန်ခိုးကြီးလာလျှင်၊ စော်ဘွားတို့သည် မိမိဆွေမျိုးထဲမှ လူများကို ခိုင် ရရှိစေရန် ပေါလမ် အဖြစ် ခန့်ကြလေသည်။

ဦးဘရှင်

**ပလိန်းပင်။** ။ပလိန်းပင်သည် ရုက္ခဗေဒအလိုအရ မျိုးစိတ်အမည်'ပလက်တာနပ်'ဖြစ်၍၊'ပလက်တာနေးစီအီး'မျိုးရင်းတွင် ပါဝင်သည်။ မြောက်ပိုင်း ကမ္ဘာလုံးခြမ်းတွင် မူလပေါက်ရောက်သည်။ အမေရိကတိုက်၌ ပေါက်သော ပလိန်းပင်ကို ဆစ်ကမိုးပင်ဟူ၍ခေါ်သည်။ မြောက်အမေရိကတိုက်အရှေ့ပိုင်းတွင် ဆစ်ကမိုးပင်တို့သည် ပေ ၁၃၀ ခန့်မြင့်ကြ၍၊ ထိုဒေသတွင် အမြင့်ဆုံးအပင်များဖြစ်ကြသည်။ အချို့ ဆစ်ကမိုးပင်တို့၏ ပင်လုံးမှာ ၈ ပေကျော်ခန့်ရှိသည်။ အညိုရောင်ဆစ်ကမိုးအသားကို အိမ်ထောင်ပရိဘောဂ ပြုလုပ်ရန်အတွက် အသုံးချကြသည်။ အမေရိကန် ပလိန်းပင်မျိုး၏ ရုက္ခဗေဒအမည်မှာ 'ပလက်တာနပ် အော့စီဒင်တာလစ်' ဖြစ်သည်။

အိန္ဒိယနိုင်ငံ၊ အာရှတိုက် အနောက်တောင်ပိုင်း၊ ဥရောပတိုက်အရှေ့ပိုင်းတို့၌ မူလပေါက်ရောက်သော ပလိန်းပင်မျိုး



ပလိန်းပင်၏ အသီးနှင့်အရွက်

လည်းရှိသည်။ ထိုအပင်မျိုး၏ ရုက္ခဗေဒအမည်မှာ 'ပလက်တာနပ် အိုရီယင်တာလစ်'ဖြစ်သည်။အမြင့်ပေ ၈၀ ခန့်ရှိ၍၊ တုတ်ခိုင်သော ပင်စည်ရှိသည်။ အခေါက်သည် စိမ်း၍၊ နှစ်စဉ် ကွာကျသည်။ ထန်းရွက်ကဲ့သို့သော အရွက်ကြီးများရှိသည်။ ရှည်သော အညှာတံထိပ်တွင် ပန်းများစုဝိုင်း၍ပွင့်သည်။ ဆောင်းဥတုတွင် ဆူးရှိသော အသီးများသီးသည်။ ထိုပလိန်းပင်များကို ဂရိနှင့် ရောမလူမျိုးတို့သည် အလှအပအဖြစ် စိုက်ပျိုးခဲ့ကြသည်။ ယခုတိုင်ပင် စံပြအဖြစ် ထားရှိသည့် အသက် အနှစ် ၄,၀၀၀ ကျော်ရှိပြီဆိုသော ပလိန်းပင်များကို တွေ့ရသေးသည်။

**ပလပ်စတစ်။** ။ပလပ်စတစ်သည် ယခုအခါ အလွန်ခေတ်စားလျက်ရှိသော ပစ္စည်းဖြစ်သည်။ ပလပ်စတစ်ဟူသော ဝေါဟာရသည် ဂရိဘာသာ စကားမှလာ၍ 'ပုံသွန်းရန်သင့်သော ပစ္စည်း'ဟုအနက်ရ၏။နှစ်ပေါင်းအတော်ကြာစွာပင် ပုံသွန်းရလွယ်သောပစ္စည်းများကိုဖြစ်စေ၊အားဖြင့် ပုံပြောင်းနိုင်သောပစ္စည်းများကိုဖြစ်စေ ပလပ်စတစ်အဖြစ်အသုံးပြုခဲ့ကြ၏။ထိုပစ္စည်းတို့တွင်မြေစေး၊ကော်ဖတ်နှင့်သတ္တုအချို့ပါဝင်၏။ ယခုအခါ ပလပ်စတစ်ကို ပစ္စည်းအမျိုးမျိုးမှ ဓာတုဗေဒနည်းများဖြင့် ရောစပ်ယူနိုင်ပြီဖြစ်ရာ၊ ပလပ်စတစ် လုပ်ငန်းသည် အထူးတိုးတက်ဖွံ့ဖြိုးလျက် ရှိပေသည်။

ပလပ်စတစ် ပစ္စည်းများကို ကျောက်မီးသွေး၊ လေနှင့် ရေတို့မှ ပြုလုပ်ရရှိသည်ဟု ဆို၏။ ဤသို့ဆိုရာ၌ ထိုပစ္စည်းများကို တခါတည်းရောစပ်၍ ပလပ်စတစ် ပြုလုပ်သည် ဟု မဆိုလိုချေ။ ထိုပစ္စည်းများကို ပဌမအဆင့်အားဖြင့် ကြားပစ္စည်းအမျိုးမျိုးကိုပြုလုပ်ပြီးမှ၊ ထိုကြားပစ္စည်းမှ တဆင့် ပလပ်စတစ်ကို ပြုလုပ်ကြရသည်။ ကျောက်မီးသွေး၊ ချေးလေ၊ ထုံးကျောက်နှင့် ဆားတို့ကို ကြားပစ္စည်း ပြုလုပ်ရန် အတွက် အများအပြားအသုံးပြုကြသည်။

ခေတ်မှီ ပလပ်စတစ်လုပ်ငန်းသည် အဓိကအားဖြင့် ဩဂဲနစ်ဒြပ်ပေါင်းတို့မှ ပုံသွန်းနိုင်သော ပစ္စည်းများကို ထုတ်လုပ်ယူသော လုပ်ငန်းပင် ဖြစ်သည်။ ဩဂဲနစ် ဒြပ်ပေါင်းသည် ကာဗွန်၊ ဟိုက်ဒရိုဂျင်၊ အောက်ဆီဂျင်၊ နိုက်ထရိုဂျင်နှင့်အခြားဒြပ်စင်တို့ကို ကာဗွန်ဓာတ် ပေါင်းစပ်ထားခြင်းဖြစ်သည်။ မူလအားဖြင့် ဩဂဲနစ် ပလပ်စတစ် လေးမျိုးရှိ၏။ ယင်းတို့မှာ (၁) ဓာတ်ကော်စေး ပလပ်စတစ်၊ (၂) သဘာဝကော်စေး ပလပ်စတစ်၊ (၃) ဆဲလျူလို့ ပလပ်စတစ်နှင့် (၄) ပရိုတင်းပလပ်စတစ်တို့ဖြစ်ကြသည်။

ဓာတ်ကော်စေး ပလပ်စတစ်တို့သည် အထူးထူးအပြားပြားအသုံးဝင်ကြသည်။ ဓာတုဗေဒဆရာများသည် ကော်စေးသတ္တိပါသော ပစ္စည်းအမျိုးမျိုးကို အတု ချက်လုပ်နိုင်ကြ၏။ ထိုသို့ ဓာတ်ဖြင့်ချက်လုပ်သော ကော်စေး ပလပ်စတစ်တို့တွင် ကျောက်ခဲကဲ့သို့မာသောပလပ်စတစ်မျိုးလည်းရှိ၏။ ဖန်ကဲ့သို့ အလင်းပေါက်သော ပလပ်စတစ်မျိုးလည်းရှိ၏။ ကော်ဖတ်ကဲ့သို့ ရုန်းကန်တတ်သော ပလပ်စတစ်မျိုးလည်းရှိ၏။ လချေးကဲ့သို့ ဓာတ်ကာသတ္တိကောင်းသော ပလပ်စတစ်မျိုးလည်းရှိ၏။ ဤဓာတ်ကော်စေးတို့ကို သင့်လျော်သော အဆာများဖြင့် ရောစပ်၍၊ ပစ္စည်း အမျိုးမျိုးပုံသွန်းယူနိုင်၏။ ဤသို့ ပုံသွန်း၍ရသော ပစ္စည်းတို့သည် အထူး တောင့်တင်းခိုင်မာ၏။ ပေါ့ပါး၏။ အရွယ်ပမာဏ တည်တံ့၏။အစိုကိုဖြစ်စေ၊အပူအသင့်အတင့်ကိုဖြစ်စေ၊ နေရောင်ကိုဖြစ်စေ ခံနိုင်၏။ ဓာတ်ကော်စေး ပလပ်စတစ် ပြုလုပ်ရာ၌ အသုံးပြုရသော ပစ္စည်းအချို့တွင် ဖီနော၊ ယူရီယာ၊ ဖော်မယ်ဒီဟိုက်၊ ဂလစ်ဆရိ၊ သဲလစ်အန်ဟိုက်ဒရိုက်၊ အဆက်တီလင်နှင့် ရေနံစိမ်းတို့ ပါဝင်ကြသည်။

အမှုန့်ပြုထားသော ပုံသွန်းပလပ်စတစ်ပစ္စည်းများကို အများအားဖြင့် အချောထည် ပုံသွန်းထုတ်လုပ်သူတို့အား ရောင်းချလေ့ရှိ၏။ ပုံသွန်းကော်စေးနှင့် လွှာထပ်ကော်စေးတို့ကို ကော်စေး ပြုလုပ်သူတို့က အချပ်လိုက်သော်ဖြစ်စေ၊ အချောင်းလိုက်သော်ဖြစ်စေ ပြုပြင်စီမံထားလေ့ရှိ၏။ စက်ဖြင့် အချောထည်ပြုလုပ်သောအခါ၊ ယင်းတို့ကို ဖြတ်တောက်၍ အသုံးချရသည်။

သဘာဝကော်စေး ပလပ်စတစ်တို့ကား၊ ချိပ်ဆေး၊ ထင်းရှူးစေး၊ကတ္တရာစသည်တို့ဖြစ်၏။ ဓာတ်ကော်စေး အချို့ကို အရည် မပျော်နိုင်သည့် အထည်ဝတ္ထု ပြုလုပ်ရာ၌ အသုံးချကြ၏။ သဘာဝကော်စေးကိုမူ အရည်ပျော်နိုင်သော အထည်ဝတ္ထုလုပ်ငန်းအတွက် အသုံးပြုကြ၏။ ချိပ်ဆေး၊ ထင်းရှူးစေးနှင့် ကတ္တရာတို့တွင် သင့်လျော်သော အဆာများကို ရောစပ်ပေးလျှင်၊ ပူသည့်အခါ၌ ပုံသွန်းနိုင်သော ပစ္စည်းတို့ကို ဖော်စပ်နိုင်၏။

ဆဲလျူလို့ ပလပ်စတစ်သည် ဩဂဲနစ် ပလပ်စတစ်များတွင်အသုံးအဝင်ဆုံးဖြစ်၏။အထင်ရှားဆုံးလည်းဖြစ်သည်။ ယင်းတို့တွင် ဆဲလျူလိုက် ပလပ်စတစ်၊ ဆဲလျူလို့ အက်ဆီတိတ်နှင့် ပြုပြင်ပြီး ဆဲလျူလို့တို့ ပါဝင်ကြ၏။

ဆဲလျူလို့ ပလပ်စတစ် ပြုလုပ်ရန် ဆဲလျူလို့ကို သာမန် ဝါဂွမ်းအဖြစ်ဖြင့်ဖြစ်စေ၊ သစ်ပျော့သားအဖြစ်ဖြင့်ဖြစ်စေ ရရှိနိုင်ပေသည်။ထိုပစ္စည်းတို့တွင် ဆဲလျူလို့စစ်စစ် အတော် အတန်ပါသည်။ ထူသော အမျှင်များလည်း ပါရှိသည်။ ဓာတ်တို့ဖြင့် စီရင်ပေးသောအခါ၊ဆဲလျူလို့သည် ပုံအသွန်းရလွယ်သော ဒြပ်ပေါင်းများအဖြစ်သို့ ပြောင်းလဲသွားသည်။ ဆဲလျူလို့ပလပ်စတစ်သည် အလွန်ခိုင်မာတောင့်တင်းသည်။ အထူးသဖြင့် ဆဲလျူလို့လွှာချပ်သည် ကွေးညွှတ် နိုင်သဖြင့် အသုံးဝင်ပေသည်။ ဤပလပ်စတစ်တွင် အပူဓာတ်သည် ဖြည်းဖြည်းသာဝင်နိုင်သည်။ ထိုပလပ်စတစ်မျိုးကို အရသာ

မရှိ၊ အနံ့မရှိအောင်ရင်း၊ အလင်းပေါက်အောင်ရင်း ပြုလုပ်နိုင်သည်။

ပရိုတင်း ပလပ်စတစ်တို့သည် ယင်းတို့တွင် ပါဝင်သော ပစ္စည်းများကို အကြောင်းပြု၍ ထင်ရှားကြ၏။ ပုံပမာ-ကေဆီအင်းသည် အဆီသဲပြီး နွားနို့ကို အကြောင်းပြု၍ရင်း၊ ပဲပုပ်နှစ်သည် ပဲပုပ်ကို အကြောင်းပြု၍ရင်း ထင်ရှားကြ၏။ ဤပရိုတင်းပစ္စည်းတို့ကို ကော်လို့က် ပစ္စည်းဖြစ်အောင် နှံ့စွာ နယ်ပေးရ၏။ ထိုနောက် ထိုကော်လို့က် ပစ္စည်းကို သင့်တော်သော ဖိစက်များဖြင့် ဖြစ်စေ၊ ညှစ်စက်များဖြင့် ဖြစ်စေ အချပ်သော်ရင်း၊ အချောင်းသော်ရင်း ပြုလုပ်ယူရ၏။ ဤပစ္စည်းတို့တွင် ဖော်မယ်ဒီဟိုက် ထည့်ပေးခြင်းဖြင့် မာအောင် ပြုလုပ်နိုင်သည်။

ယခုအခါ ပလပ်စတစ်နှင့် လုပ်သော ပစ္စည်းတို့တွင် ပုံသွန်းပစ္စည်းတို့ သာမက နည်းအမျိုးမျိုးဖြင့် ပြုလုပ်ထားသော ပစ္စည်းများလည်း ပါဝင်ကြ၏။ ပလပ်စတစ်မျှင်တို့ဖြင့် ပိုးတု အထည်ကို ဖြစ်စေ၊ သိုးမွေးတု အထည်ကိုဖြစ်စေ ရက်လုပ်နိုင်သည်။ မော်တော်ကား၌ အသုံးပြုသော ရော်ဗာသည် ပလပ်စတစ်ပင် ဖြစ်၏။ ကင်မရာ၌ အသုံးပြုသော ဖလင်ကော်ပြားသည်လည်း ပလပ်စတစ်ပင်ဖြစ်၏။ ပလပ်စတစ်ကော်စေးသာ မရှိလျှင်၊ မိုးလေခံသော သစ်လွှာထပ်သားများကို ပြုလုပ်နိုင်ရန် ခဲယဉ်းပေလိမ့်မည်။

လူအသုံးအဆောင် ပစ္စည်းအမျိုးမျိုး ရရှိအောင်၊ ပလပ်စတစ်တို့ကို သတ္တုများရောစပ်သကဲ့သို့၊ နည်းအမျိုးမျိုးဖြင့် ရောစပ်ပြုလုပ်နိုင်ပေသည်။ အချို့ ပလပ်စတစ်တို့သည် ဖန်ကဲ့သို့ အလင်းပေါက်ကြ၏။ အချို့ပလပ်စတစ်တို့ကို အက်ဆစ်မစားနိုင်၊ အခြားဓာတ်ပစ္စည်းတို့လည်း တိုက်စားခြင်း မပြုနိုင်။ အချို့ ပလပ်စတစ်တို့ကား ဓာတ်ကာ ပစ္စည်းကောင်းများဖြစ်ကြသည်။

ရေအပူ၏ဒဏ်ကိုရင်း၊ နေအပူ၏ ဒဏ်ကိုရင်း ခံနိုင်သည့် ပလပ်စတစ်မျိုးလည်းရှိ၏။ အချို့ပလပ်စတစ်သည် သာမန်အပူချိန်တွင် အရည်ပျော်သည်။ နေရောင်ကြောင့်လည်း အရောင်အသွေး ပြောင်းကြသည်။ တောင့်တင်း ခိုင်မာသော ပလပ်စတစ်တို့ကို ဂေါက်သီးတံခေါင်း ပြုလုပ်ရာ၌ရင်း၊ ဂီယာနှင့် ဗယ်ရင်များ ပြုလုပ်ရာ၌ရင်း အသုံးပြုကြသည်။ ပလပ်စတစ် ပုံနှိပ်ပြားတို့သည် နှိပ်ခြင်း၏ ဒဏ်ကို ခံနိုင်ရည်ရှိသည်။ ရေမြှုပ်နှင့်တူသော ပလပ်စတစ် ဓာတ်ကာပစ္စည်းသည် ကမ္ဘာတွင် အပေါ့ဆုံးပစ္စည်း ဖြစ်သည်ဟုဆိုသည်။ အချို့ ပလပ်စတစ်တို့သည် ကွေးကော့ ပျောင်းနွဲ့ နိုင်ကြသည်။ ယင်းတို့ကို အဝတ်လှန်းကြိုးများ၊ လက်ညှစ် ပုလင်းပျော့များ၊ ယာဉ်သုံးပြွန်များနှင့် ပရိဘောဂ ဖုံးလွှမ်းစရာများပြုလုပ်ရာ၌ အသုံးပြုကြ၏။ အချို့ပလပ်စတစ်တို့သည် ဖန်ကဲ့သို့ ဆတ်၏။ ရေခံ ပလပ်စတစ်တို့ကို အဆောက်အအုံများဆောက်လုပ်ရာ၌ရင်း၊ ထုပ်ပိုးစည်းနှောင်သော ပစ္စည်းများပြုလုပ်ရာ၌ရင်း၊ အပူခံနှင့် အစွန်းခံ စားပွဲခင်းများ ပြုလုပ်ရာ၌ရင်း အသုံးပြုကြသည်။ ပလပ်စတစ် ပစ္စည်းတို့ကို ရောင်စုံ သွန်းယူနိုင်သည့်အပြင်၊ အသား အမျိုးမျိုးရအောင်လည်း ပြုလုပ်နိုင်ပေသည်။

အချို့ပလပ်စတစ်၏ မော်လီကျူးများသည် မူလပစ္စည်း၏ရုပ်ကို ထိန်းတတ်ကြ၏။ ထို့ကြောင့် ယင်းပစ္စည်းတို့ကို ဆန့်လို ချုံ့လိုသော်၊ အပူပေး၍ ဆန့်နိုင် ချုံ့နိုင်၏။ မူလသဏ္ဌာန်အတိုင်း ပြန်ဖြစ်စေလိုသော်၊ အပူပေး၍ ပြုပြင်နိုင်၏။ ချုံ့၍ရသော ပလပ်စတစ်ကို စရွေးကိုက် ပလပ်စတစ်များပြုလုပ်ရာ၌ အသုံးပြုကြ၏။ အချို့ လင်းပေါက် ပလပ်စတစ်သည် အလင်းကို ကွေ့ကောက်၍ သွားစေနိုင်၏။ဆရာဝန်တို့သည် အစာအိမ်ကိုဖြစ်စေ၊ အခြားကိုယ်တွင်းရှိ အခေါင်းများကိုဖြစ်စေ ခွဲစိတ်ကုသရာ၌၊ ဤပလပ်စတစ်မျိုးဖြင့် လုပ်သော ကရိယာဖြင့် အလင်းရောင် သွင်းပေးကြလေသည်။

အထည်ဖြစ်ပြီးသော အရာဝတ္ထုတိုင်းလိုလိုတွင် မူလပစ္စည်းကြမ်းတို့၏ ဝိသေသဂုဏ်များ ပါရှိစမြဲဖြစ်သည်။ သို့သော် ပလပ်စတစ်တွင်ကား ဤသို့မဟုတ်ပေ။ စက္ကူလုပ်ငန်းကို ကြည့်လျှင်၊ ပစ္စည်းကြမ်းမှ ကုန်ချော ဖြစ်လာပုံ သဘောကို တွေ့ရပေမည်။ ပဌမဦးစွာ သစ်ပင်ကို ခုတ်လှဲ၍ သစ်တုံးများကို သစ်စက်သို့ ဆွဲယူ၏။ ထိုနောက် သစ်တုံးကို သစ်ပျော့ဖတ်ဖြစ်အောင်ကြိတ်၏။ ထိုနောက် သစ်ပျော့ဖတ်မှ စက္ကူဖြစ်အောင်ပြုလုပ်၏။စက္ကူ၌ပါရှိသော အမျှင်တို့သည် သစ်မျှင်တို့သာလျှင် ဖြစ်ကြ၏။ ယင်းတို့၏ ဓာတုဝိသေသဂုဏ်များကား ပြောင်းလဲခြင်းမရှိ၊ တည်မြဲနေကြပေ၏။ သို့သော် ထိုသစ်ပင်ကိုပင် ပလပ်စတစ်လုပ်ဖို့ အသုံးပြုပါက၊ ထူးခြားသော သဘောဖြစ်သည်။ ဆဲလျူလို့သည် ပလပ်စတစ်ဘဝသို့ ရောက်သည်တွင် ဆဲလျူလို့ သဘောမျိုး လုံးဝမရှိတော့ချေ။

ရောင်းတမ်းပလပ်စတစ်အမျိုးမျိုးရှိရာ၊ အချို့ပလပ်စတစ်တို့ ပြုလုပ်ပုံနှင့် အသုံးဝင်ပုံကို သိထိုက်ပေသည်။

ဖီနောလစ် ပလပ်စတစ်သည် ဓာတ်ကော်စေးတွင် အဆာထည့်ထားသော ပလပ်စတစ်ဖြစ်၏။ ဤပလပ်စတစ်၌သုံးသောဓာတ်ကော်စေးကို ဖီနောနှင့် ဖော်မယ်ဒီဟိုက်တို့ဓာတ်ပေါင်းစပ်ခြင်းဖြင့် ရရှိသည်။ ဖီနောလစ် ပလပ်စတစ်ကို ရုပ်လွှင့်ရုပ်ဖမ်း စက်အိမ်နှင့် အသံဖမ်း စက်အိမ်တို့ ပြုလုပ်ရန် အသုံးပြုကြ၏။ခြယ်ဆေးနှင့် သုတ်ဆေးတွင် ပါဝင်သော ဓာတ်ပစ္စည်းများ၊ ကြိတ်ဘီးများ၊ ဆိတ်ငြိမ် ဂီယာများ၊ သံစက် ဗယ်ရင်များ၊ လွှာထပ်သားကပ် ကော်များကို ဖီနောလစ် ပလပ်စတစ်ဖြင့် ပြုလုပ်သည်။

ယူရီယာ ပလပ်စတစ်ကို အမ်မိုးနီးယားနှင့် ဖော်မယ်ဒီ





ယခုခေတ်တွင် ပလပ်စတစ်ဖြင့်ပြုလုပ်သော လူသုံးပစ္စည်းများကို အသုံးများလျက်ရှိကြပေပြီ။ အပေါ် (ဝဲ) ပလပ်စတစ် လက်တွန်းလှည်းဖုံး။ (ယာ) ပလပ်စတစ်လက်အိတ်။ အောက် (ဝဲ) ပလပ်စတစ် လက်ပက်ရည်နှပ်အိုး။ (ယာ) ပလပ်စတစ်ဘောင်းဘီ။





ဟိုက်တို့မှရ၏။ ထိုပလပ်စတစ်သည် ကြွယ်သီး၊ မုတ်ဆိတ်ရိတ်စက်အိမ်၊ အသံဖမ်းစက်အိမ် စသည်တို့ ပြုလုပ်ရန် အသုံးကျ၏။

မယ်လာမင်း ပလပ်စတစ်ကို ဖော်မယ်ဒီဟိုက်နှင့် ကယ်လဆီယမ်ဆိုင်ယာနမိုက်တို့ ရောစပ်ခြင်းဖြင့် ရရှိ၏။ ထိုကော်စေး ပလပ်စတစ်တွင် အဆာအဖြစ် အဝတ်ကိုသော်၎င်း၊ ကျောက်ဂွမ်းကိုသော်၎င်း၊ ချတ်ပြီး ဆဲလျူလို့ကိုသော်၎င်း အသုံးပြုသည်။ မယ်လာမင်း ပလပ်စတစ်သည် လျှပ်စစ်မီးလုံး၏အပူဒဏ်ကိုပင် ခံနိုင်သည်။ ထိုပလပ်စတစ်ဖြင့် လုပ်သော ပန်းကန်သည် အပူကြောင့် မကွဲအက်ချေ။ အရောင်လည်း မပြယ်ချေ။ ရေနွေးဒဏ်ကိုလည်း ခံနိုင်၏။

ဆဲလျူလို့ အက်ဆီတိတ် ပလပ်စတစ်ကို အက်ဆီတိတ်အက်ဆစ်ဖြင့် စီရင်ထားသော ဆဲလျူလို့မျှင်များမှ ပြုလုပ်ရရှိ၏။ မော်တော်ကား စတီယာရင်ဘီး၊ကစားစရာများနှင့်အထွေထွေပစ္စည်းအဆန်းတို့ကိုဤပလပ်စတစ်ဖြင့်ပြုလုပ်သည်။

အက်ကရီလစ် ပလပ်စတစ်ကို ရေနံစိမ်းကျောက်မီးသွေး၊ လေနှင့်ရေတို့ ပေါင်းစပ်၍ ရသော ဒြပ်ပေါင်းများမှ ပြုလုပ်ရရှိ၏။ ဤပလပ်စတစ်တွင် ပါဝင်သော ပဓာနပစ္စည်းမှာ မက်သီ မက်သာကရီလိတ်ဖြစ်သည်။ ဤပလပ်စတစ်တို့သည် အလွန်ကြည်လင်၍၊ နေရောင်နှင့် မိုးလေဒဏ်ကို ကောင်းစွာခံနိုင်၏။ မော်တော်ကား၊ အိမ်သုံးပစ္စည်းနှင့် လေယာဉ်ပျံတို့အတွက် လိုသော ပုံသွန်းပြီးပလပ်စတစ် ပစ္စည်းများကို ထိုပလပ်စတစ်ဖြင့် ပြုလုပ်၏။

ဗိုင်းနီ ပလပ်စတစ်တို့တွင် ပျော့ပျောင်းသော ပလပ်စတစ်မျိုးနှင့် ခက်မာသော ပလပ်စတစ်မျိုးတို့ပါဝင်၏။ မိုးကာတင်းတိမ်၊ အထည်အလိပ်၊ ဓါတ်ပြား၊ ကြော်ငြာကတ်ပြား၊ မိုးကာအင်္ကျီတို့ကို ထိုပလပ်စတစ်ဖြင့် အများအပြားပြုလုပ်၏။

ပေါ်လီ အက်သီလင်းသည် အမြင်အားဖြင့် ဖယောင်းနှင့်တူသည်။ ယင်းကို ပုံသွန်းပလပ်စတစ်ပစ္စည်းအဖြစ် ပြုလုပ်ထား၍၊ ထိုပစ္စည်းမှ ဖလင်၊ နန်းကြိုးဓါတ်ကာ စသည်တို့ကို ပြုလုပ်ယူသည်။ ပုလင်း၊ ပန်းကန်နှင့် မိုးကာ တင်းတိမ်တို့ကို ဤပလပ်စတစ်ဖြင့် ပြုလုပ်သည်။ ရေခဲစိမ် စားစရာများကို ဤပလပ်စတစ်ဖြင့် ထုပ်ပိုး ချည်နှောင်သည်။ ပေါ်လီအက်သီလင်းပုလင်းတွင် ပြင်းသော အက်ဆစ်များ ထည့်ထားနိုင်၏။ အလှရည်ထည့်သော လက်ညှစ်ပုလင်းကို ဤပလပ်စတစ်ဖြင့် ပြုလုပ်သည်။

ပုံသွန်းပလပ်စတစ်ပစ္စည်းတို့တွင် အဆာကို အများအပြားအသုံးပြုကြသည်။ လိုအပ်သော ပလပ်စတစ်မျိုး ရရှိအောင်၊ အဆာကို အမျိုးမျိုးရွေးချယ်ရသည်။ပုံပမာ-ပျော့ပျောင်းသော ပလပ်စတစ်ရလိုလျှင်၊သစ်မှုန့်ကို အဆာအဖြစ် အသုံးပြုရသည်။ အထိအခိုက်ဒဏ်ကိုခံနိုင်သော ပလပ်စတစ်ရလိုလျှင်၊ အဝတ်စုတ်ကိုဖြစ်စေ၊ သဘော် နာနတ်မျှင်ကိုဖြစ်စေ၊ ဝါဂွမ်းကိုဖြစ်စေ အဆာအဖြစ် အသုံးပြုရသည်။ အပူဒဏ်ကိုခံနိုင်သော ပလပ်စတစ်ရလိုလျှင်၊ ကျောက်ဂွမ်းကို အဆာအဖြစ် အသုံးပြုရသည်။လျှပ်စစ် ကောင်းစွာလျှောက်နိုင်သော ပလပ်စတစ်ရလိုလျှင်၊ စက္ကူချပ်ကို အဆာအဖြစ် အသုံးပြုရသည်။

ပလပ်စတစ်လုပ်ငန်းတွင် ပုံသွန်းနည်း၊ လွှာထပ်စပ်နည်း၊ ညှစ်ထုတ်နည်း၊ မှုတ်၍ပုံသွန်းနည်း၊ ပုံလောင်းနည်း၊ အထည်ဖြစ်လုပ်နည်း၊ အချောသုတ်နည်းဟူ၍ နည်း အဆင့်ဆင့် ရှိသည်။ အပူပေးလျှင် မာတတ်သော ပလပ်စတစ်ကို ဖိအားဖြင့် ပုံသွန်းယူရသည်။ ဤပလပ်စတစ်မျိုးတွင် ဖီနောလစ်၊ ယူရီယာနှင့်မယ်လာမင်းတို့ပါဝင်သည်။ ဖိအားဖြင့် ပုံသွန်းနည်းသည် ရေခဲမုံ့လုပ်သည်နှင့် များစွာတူ၏။ တိုင်းတာပြီး ကော်စေးပမာဏကို သွန်းပုံတွင်ထည့်၍ အပူပေးကာ ဖိပေးရသည်။ ထိုအခါ ဓါတ်ပြုမှု ဖြစ်ပေါ်၍ ကော်စေးသည် မာလာ၏။ ထိုကော်စေးကို ထုတ်ယူလျှင်၊ သွန်းပုံသဏ္ဌာန်ရှိသော ပစ္စည်းကို ရရှိသည်။

အေးလျှင် အိပ်သည်ဆိုသော ပလပ်စတစ်မျိုးသည် အပူပေးလျှင် ပျော်၍၊ အအေးခံလိုက်လျှင် မာလာသည်။ ဤပလပ်စတစ်ကို ပုံသွန်းရန်မှာ သာမိုပလပ်စတစ် ပုံသွန်းမှုန့်များကို ကတော့ဖြင့် အပူတိုက်ခန်းထဲသို့ ထည့်ပေးရသည်။ ပူလာသောအခါ၊ ထိုအမှုန့်တို့သည် ကော်စေးပျော့ပျော့ဖြစ်သွား၏။ ထိုနောက် ကော်စေးပျော့ကို အပူချိန်နည်းသော သွန်းပုံထဲသို့ ထိုးသွင်းပေးသည်။ ထိုသွန်းပုံတွင် ပလပ်စတစ်ကို အအေးပေးပြီးလျှင်၊ မာလာသည်အထိ ဖိပေးထားသည်။

လွှာထပ်စပ်နည်းသည် ဆင်းဒွစ်မုံ့ခေါ် အသားညှပ်ပေါင်မုံ့လုပ်သည်နှင့် တူ၏။ အဝတ်လွှာတို့ဖြစ်စေ၊ စက္ကူလွှာတို့ဖြစ်စေ၊ သစ်လွှာတို့ ဖြစ်စေ ပလပ်စတစ် ကော်စေးကို ကြားညှပ်ထားသည်။ ထိုနောက် ထိုအလွှာတို့ကိုဖိပေးသည်။ ယင်းသို့ ဖိပေးသည်တွင် ကော်စေးသည် ဓါတ်ပြုမှုကြောင့် 'အိပ်' သော်လည်း အိပ်သွား၏။ သို့မဟုတ် အအေးကြောင့် မာသော်လည်း မာလာသည်။

ညှစ်ထုတ်နည်းသည် သွားတိုက်ဆေး ညှစ်ထုတ်ပုံနှင့်အလွန်တူသည်။ပုံသွန်းမှုန့်များကို စက်အိမ်ထဲသို့ ကတော့ဖြင့် ထည့်ပေးသည်။စက်ထဲတွင် ထိုအမှုန့်တို့ကို ပလပ်စတစ် အခြေ ရောက်သည်အထိ အပူပေးသည်။ထိုနောက် ပလပ်စတစ်ကိုသွန်းပုံမှ အဆက်မပြတ် ညှစ်ထုတ်သည်။ ပလပ်စတစ်ချပ်များ၊ ပလပ်စတစ်ဇန်များ၊ ပလပ်စတစ်ပြွန်ချောင်းများကို ဤနည်းဖြင့် ပြုလုပ်ယူသည်။ ထိုပြင် ယောကျ်ား ခါးပတ်များ၊ တန်ဆာပလာ လက်ကိုင်ရိုးများ၊ ပုံမှန်ပစ္စည်းများတို့ကိုလည်း ဤနည်းဖြင့် ပြုလုပ်သည်။

'လက်ညှစ်' ပုလင်း၊ အက်ဆစ်ထည့်စရာ ဗူးခွက် စသည်တို့ကိုပြုလုပ်ရာ၌ ပလပ်စတစ်ကို ဖန်မှုတ်သကဲ့သို့ မှုတ်ယူသည်။ မှုတ်နည်းတခုမှာ အရည်ပျော်ပြီး ပေါ်လီအက်သီလင်းကို ခေါင်းပွပြွန်ချောင်းထဲသို့ ညှစ်သွင်းသည်။ ဤပြွန်ချောင်းကို သွန်းပုံတွင် ထည့်၍ သွန်းပုံအတိုင်း ပြန့်ကားလာအောင် လေမှုတ်သွင်းပေးလေသည်။ အခြားမှုတ်နည်းတခုမှာ သာမိုပလပ်စတစ် ပစ္စည်းနှစ်ချပ်ကို သွန်းပုံခြမ်း နှစ်ခြမ်းအကြား ဝယ် ညှပ်ထားသည်။ ဤအချပ်နှစ်ချပ်အကြားသို့ ဖိအားကြီး လေကိုဖြစ်စေ၊ ဖိအားကြီး ရေနွေးငွေ့ကိုဖြစ်စေ မှုတ်သွင်းပေးသည်။ထိုအချပ်တို့သည် အပူနှင့် ဖိအားတို့ကြောင့် ကားထွက်ရာ၊ သွန်းပုံနှင့် ထိသောအခါ၊ သွန်းပုံ၏ ပုံသဏ္ဌာန်ကို ရရှိလေသည်။

ပလပ်စတစ် အမျိုးမျိုးကို သွန်းပုံတွင် လောင်းထည့်ခြင်းဖြင့်၊ ပုံလောင်းပစ္စည်း အမျိုးမျိုးရရှိနိုင်ပေသည်။ ထို ပလပ်စတစ်တို့သည် သွန်းပုံတွင် အအေးပေးခြင်းကြောင့်ရင်း၊ ဓာတ်ပြုမှုရှိခြင်းကြောင့်ရင်း မာလာကြသည်။ အက်ကရီလစ် ကော်စေးသည် ပုံလောင်း၍ သွားတု ပြုလုပ်ရသော ကော်စေးဖြစ်သည်။ အယ်လကစ် ကော်စေး၊ ဖီနောလစ် ကော်စေး၊ ဗိုင်နီကော်စေး၊ စတိုင်ရင်းကော်စေးတို့ကို ပုံလောင်းပစ္စည်းများအဖြစ် အသုံးများကြသည်။

ပလပ်စတစ်အချပ်၊ ပလပ်စတစ်အချောင်း၊ ပလပ်စတစ် အတုံးတို့မှ ဝတ္ထုပစ္စည်းများ ပြုလုပ်ခြင်းကို အထည်ဖြစ် လုပ်နည်းဟုခေါ်သည်။ အချို့ကိစ္စတို့တွင် လိုရာပုံရအောင် ပလပ်စတစ်ကို လွှဖြင့်တိုက်ဖြတ်ရ၏။ တခါတရံ လွှန်ဖြင့်သော်လည်း ဖောက်ပေးရ၏။စက်ဖြင့်သော်လည်း ပုံဖော်ယူရသည်။

အချောသုတ် ပလပ်စတစ် လုပ်ငန်းတွင် ရော်ဗာတုနှင့် သာမိုပလပ်စတစ်တို့ကို အသုံးပြုရသည်။ ပလပ်စတစ်တို့ကို အပူပေး၍ ပျော့ပျောင်းစေပြီးလျှင်၊ အထည်ပစ္စည်းပေါ်၌ ပါးပါးလွှာလွှာ လိမ်းကျံပေးရသည်။ ထိုနောက် ထိုဝတ္ထုကို ဒလိမ့်တုံးများအကြားတွင် အဆင့်ဆင့် ဖိနှိပ်ပေးပြီးလျှင် အချောကိုင်ယူသည်။

မြန်မာနိုင်ငံတွင် ဒုတိယကမ္ဘာစစ်ကြီးမဖြစ်မီက ပလပ်စတစ်လုပ်ငန်းမရှိသဖြင့် နိုင်ငံခြားဖြစ် ပလပ်စတစ်ကော်ဘီး၊ ဖောင်တိန် စသည်တို့ကို အသုံးပြုခဲ့ကြရ၏။ စစ်ပြီးခေတ်တွင် နိုင်ငံခြားဖြစ် ပလပ်စတစ်ကြယ်သီး၊ ရင်ထိုး၊ အရုပ်စသည်တို့ အထူးခေတ်စားလာသဖြင့်၊ ပလပ်စတစ် ပုံသွန်းစက်ငယ်များနှင့် သာမိုပလပ်စတစ်မှုန့်တို့ကို နိုင်ငံခြားမှ မှာယူ၍ ပြည်တွင်းမှာပင် ထိုပစ္စည်းများကို လုပ်ကိုင်လာကြသည်။ထို့ပြင် လင်းပေါက်ပလပ်စတစ်ချပ်တို့ကိုရင်း၊ အဖြူရောင်နှင့် လိပ်ခွံရောင် ပလပ်စတစ်ချပ်တို့ကိုရင်း နိုင်ငံခြားမှမှာယူ၍၊ ဆင်စွယ်ဘီးတု၊ လိပ်ခွံဘီးတု၊ မော်တော်ကား နံပါတ်ပြား၊ ဆိုင်းဘုတ်၊ သင်ခုန်းစားရိုး စသည်တို့ကို အမြောက်အမြား ပြုလုပ်လာကြသည်။

ယခုအခါ ရန်ကုန်မြို့တွင် ပလပ်စတစ် အလုပ်ရုံတို့ပေါ်ပေါက်လာခဲ့ပြီ။ ထိုအလုပ်ရုံတို့တွင် အပူခံ ပန်းကန်ခွက်ယောက်၊ ဆေးလိပ်ခံခွက်၊ ကြယ်သီး စသည်တို့ကို ပြုလုပ်လျက်ရှိသည်။ ယခုအခါ ပေါ်လီစတိုင်ရင်း ပလပ်စတစ်နှင့် ဗိုင်းနီ ပလပ်စတစ်တို့ကိုပင် အသုံးပြုနေကြပေပြီ။ ပလပ်စတစ် လုပ်ငန်းပညာရှင်တို့လည်း တဖြည်းဖြည်း ပေါ်ထွန်းလာကြရာ၊ မြန်မာ ပလပ်စတစ် လုပ်ငန်းသည် ရှေ့အဖို့ အလားအလာများစွာရှိပေသည်။ (ကော်ဖတ်။ သစ်စေး။ ဆဲလျူလို — လည်းရှု။)

**ပလိပ်ရောဂါ။** ။ပလိပ်ရောဂါသည် ကူးစက်တတ်သော ရောဂါတို့တွင် အပြင်းထန်ဆုံးရောဂါဖြစ်သည်။ (ကူးစက်တတ်သောရောဂါများ — ရှု။) လျင်မြန်စွာသေကြေပျက်စီးစေတတ်သည်။ ရောဂါဖြစ်ရာ၌ အရေပြားအောက်ရှိ သွေးများကို အမည်းရောင်ဖြစ်စေ၏။ ထို့ပြင်သွေးဖြူဂလင်းများကိုလည်း ရောင်စေ၍၊ အကျိတ်များကို ဖြစ်စေသည်။ ထိုအကျိတ်များကို ဘင်ဟု ခေါ်သည်။ ထို့ကြောင့် ဤကဲ့သို့ ဘင်များထွက်စေသော ပလိပ်ရောဂါကို ဘင်ထွက်ပလိပ်ရောဂါဟု ခေါ်သည်။ထို့ပြင် အဆုတ်ကိုရောင်စေသည့် ပလိပ်ရောဂါလည်း ရှိသေးသည်။ ထိုပလိပ်ရောဂါမျိုးကို အဆုတ်ရောင်ပလိပ်ရောဂါဟု ခေါ်သည်။

ပလိပ်ရောဂါသည် ပါးစတာရဲလာပက်စတစ်ခေါ် ဗက်စီလတ်ရောဂါပိုးကြောင့် ဖြစ်ပွားသည်။ ထိုပိုးကို ယာဆင်ဆိုသူက ၁၈၉၄ ခုနှစ်တွင် ဟောင်ကောင်မြို့၌ စတင်တွေ့ရှိခဲ့သည်။ ထိုမိုက္ကရုပ်ပိုးများသည် ကြွက်နှင့် အခြားကိုက်ဖြတ်သတ္တဝါများကိုလည်း ကူးစက်တတ်သေးသည်။ထိုကိုက်ဖြတ်သတ္တဝါတမျိုးမျိုးကို ကိုက်ပြီးသော အလှေးများက တဖန်လူများကိုကိုက်သောကြောင့် လူများ၌ ပလိပ်ရောဂါ ဖြစ်လာရခြင်း ဖြစ်လေသည်။

လူတွင်ဖြစ်ပွားသည့် ပလိပ်ရောဂါသည် အနည်းဆုံး ရှေးနှစ်ပေါင်း ၂၀၀၀ ကပင်လျှင် စတင် ဖြစ်ပွားခဲ့ဘူးသည်။ ပီလိပ္ပိနီရှန် စစ်ပွဲကြီးအတွင်း ဘီစီ ၄၃၀ ပြည့်နှစ်တွင် အက်သင်းမြို့တော်၌ ပလိပ်ကပ်ရောဂါဆိုး ကျရောက်ခဲ့လေသည်။ ဂရိနိုင်ငံပြု သုခမိန် ပဲရီးကလီးသည် ထိုကပ်ထဲတွင် ပါသွားရသည်။ (ပဲရီးကလီး — ရှု။) ရောမအင်ပိုင်ယာ အတွင်းတွင် အေဒီ ၅၄၂ မှ ၅၈၄ အထိ လူဦးရေထက်ဝက်ခန့်သည် ပလိပ်ရောဂါနှင့် သေဆုံးခဲ့ကြလေသည်။ ထိုနောက် ၁၄ ရာစုနှစ်အတွင်း အာရှတိုက် အရှေ့ပိုင်းတွင် ဖြစ်ပွားလာပြန်၍၊ အာရှမိုင်းနား၊ အာရေဗျ၊ အီဂျစ်၊ အာဖရိကတိုက်မြောက်ပိုင်းနှင့် ဥရောပတိုက်တို့သို့ ပျံ့နှံ့သွားပြီးလျှင်၊ ၁၃၄၈ ခုနှစ်

တွင် အင်္ဂလန်ပြည်၌ ထိုရောဂါ ကျရောက်လေသည်။ ထိုရောဂါ ကျရောက်သည့်အခါ တကိုယ်လုံးအသားအရေများ မည်းပြီးမှ သေဆုံးသဖြင့် ထိုရောဂါကို ဗလက်ဒက်ကပ်ရောဂါကြီးဟု ခေါ်ကြသည်။ ထိုကပ်ရောဂါကြီးကြောင့် ဥရောပတိုက်တွင် လူပေါင်း ၂၅ သန်းမျှ သေကြေပျက်စီးကြရ၍၊ ဗြိတိန်နိုင်ငံတွင် လူဦးရေတဝက်ကျော်ကျော် ကွယ်လွန်ကြရလေသည်။ လူတို့သည် ယင်းသို့ ရောဂါကပ်ကြီး ကျရောက်သည့်အခါ၊ရောဂါဘေးမှကင်းဝေးရာအရပ်သို့ အိုးပစ်အိမ်ပစ်ပြေးကြရာ၊ လယ်ယာများသည် လုပ်ကိုင်မည့်သူမရှိ၊ ကျွဲနွားများသည် ထိန်းကျောင်းမည့်သူမရှိ၊ မြို့ရွာစသော လူနေရပ်ကွက်များသည် သုသာန်တစပြင်ပမာ၊ ကျီးနှင့်ဖုတ်ဖုတ်ဖြစ်ကြကုန်လေသည်။ ထိုနောက်ဥရောပတိုက်အရှေ့ပိုင်းတွင် ၁၄၊ ၁၅၊ ၁၆ နှင့် ၁၇ ရာစုနှစ်များအတွင်း၌ ကျရောက်ပြန်သည်။ ထိုသို့ကျရောက်ရာတွင် ၁၆၆၅ ခုနှစ်တွင် လန်ဒန်မြို့၌ဖြစ်ပွားသည့် ပလိပ်ရောဂါကြီးလည်း ပါဝင်သည်။ ထိုရောဂါဆိုးကြီးကြောင့် လူဦးရေ ၄၅၀,၀၀၀ အနက် လူပေါင်း ၆၀,၀၀၀ မျှ ကွယ်လွန်ကြလေသည်။ ထိုနောက်တွင် ပလိပ်ရောဂါကြောင့် ကွယ်လွန်ခြင်းများသည် ဥရောပတိုက်၌ နည်းပါးသွားကာ၊ ၁၉ ရာစုနှစ်ရှေ့ပိုင်းအတွင်းတွင် ထိုရောဂါဖြစ်ခြင်းသည် လုံးဝရပ်စဲသွားလေသည်။ သို့ရာတွင် ဥရောပတိုက်အရှေ့ပိုင်း၌ ၁၉ ရာစုနှစ် အလယ်ပိုင်းလောက်တွင် အနည်းငယ် ဖြစ်ပွားလေသည်။

၁၈၉၄ ခုနှစ်တွင် ကန်တုန်နှင့် ဟောင်ကောင် မြို့များ၌ နောက်ဆုံး ဖြစ်ပွားပြီးနောက် ဂျပန်၊ အိန္ဒိယနှင့် အာရှမိုင်းနားတို့သို့ ၁၈၉၆ ခုနှစ်တွင် ပြန့်ပွားသွားလေသည်။ ထိုနောက်နှစ်နှစ်အတွင်းတွင် ကမ္ဘာအနှံ့အပြားလိုလို၌ ဖြစ်ပေါ်လာပြန်သည်။ ၁၉၀၀ ပြည့်နှစ်အတွင်းတွင် ကာလီဖိုနီးယားသို့ ပြန့်လာပြန်သည်။ ထိုသို့ ပြန့်လာခြင်းသည် ဟောင်ကောင်မြို့မှ ဖြစ်ကောင်းဖြစ်နိုင်သည်။

၁၁ ရာစုမှ ၁၇ ရာစုနှစ်များအတွင်း အိန္ဒိယပြည်၌ ပလိပ်ရောဂါဆိုက်ရောက်ခဲ့လေသည်။ ဘုံဘိုင်နယ်တွင် ၁၇၁၅ ခုနှစ်၌ ထပ်မံဖြစ်ပွား၍၊ ၁၉ ရာစုနှစ်အတွင်း၌လည်း နောက်ထပ်ဖြစ်ပွားလေသည်။

တရုပ်နိုင်ငံတွင် ခရစ်ယန်သာသနာ ရောက်ချိန်လောက်မှစတင်၍ မကြာခဏဖြစ်ပေါ်ခဲ့လေသည်။ အာဖရိကတိုက်တောင်ပိုင်းတွင် ၂၀ ရာစုနှစ် စောစောပိုင်း၌ ထိုကပ်ရောဂါကျရောက်ခဲ့လေသည်။

ကြွက်များနှင့် ကိုက်ဖြတ်သတ္တဝါအရိုင်းများတွင် ပလိပ်ရောဂါသည် အချိန်မှန် ဖြစ်ပေါ်ပြီးလျှင်၊ ထိုသတ္တဝါများကို အမြောက်အမြား သေစေလေသည်။ ထိုမျှသေကြေပျက်စီးကြသော်လည်း၊ ကူးစက်ခြင်း ကျန်မြဲကျန်ခဲ့လေသည်၊ အဘယ်ကြောင့်ဟူမူ ကူးစက်နိုင်သည့် အလေ့များသည် မှီခိုရသည့် ကိုက်ဖြတ်သတ္တဝါများ ကင်းမဲ့လျက်နှင့်ပင် အသက်ရှင်၍ နေနိုင်သောကြောင့် ဖြစ်သည်။ အချို့သော အလေ့များသည် လပေါင်းများစွာပင် အစာမမှီဝဲဘဲ နေနိုင်သည်။ ထိုနောက် မျိုးပြန့်ပွားမှုအတွက် အခြေအနေ ကောင်းမွန်လာသော အခါတွင်၊ ရောဂါကူးစက်ခြင်းကို ဖန်တီးလာကြပြန်သည်။

ပလိပ်ရောဂါကြောင့် သေဆုံးသည့်ကြွက်၏ သွေးတွင် ပလိပ်ဗက်စီလတ် အမြောက်အမြားရှိနေရာ၊ ယင်းမှတဖန် အလေ့၏ ကိုယ်တွင်းသို့ ရောက်သွား၍၊ ထိုမှတဆင့် ပလိပ်ရောဂါပိုးကို ပြန့်ပွားသွားစေသည်။

အိန္ဒိယပြည်မြောက်ပိုင်းကဲ့သို့သော ဒေသများမှာ သွေ့ခြောက်၍ ပူသည့်ရာသီဥတုနှင့် စိုထိုင်း၍ အေးသည့်ရာသီဥတုများ တလှည့်စီရှိရာ၊ ထိုသို့သော ဒေသတို့တွင် ပလိပ်ရောဂါသည် ရာသီအလိုက်ဖြစ်ပေါ်တတ်သည်။ ပူ၍ သွေ့ခြောက်သော ဒေသများတွင် အလေ့များသည် သူတို့မှီခိုသည့်သတ္တဝါ သေဆုံးပြီးနောက်၊ မကြာမီအတွင်းတွင် သေဆုံးကြသဖြင့်၊ သူတို့၏ ဦးရေသည်လည်း လျော့ပါးသွားလေသည်။ သို့သော် ပို၍အေးသည့်ရာသီ ရောက်လာသောအခါတွင် အလေ့များသည် ပြန်၍ ပွားလာကြပြန်သည်။ လူ၌ ပလိပ်ရောဂါ မကျရောက်မီ ကိုက်ဖြတ်သတ္တဝါများ၌ ပဌမဦးစွာ ကျရောက်မြဲဖြစ်သည်။

ပလိပ်ရောဂါ ဖြစ်ပေါ်လျှင်၊ အများအားဖြင့် ရတ်တရက်ဖြစ်ပေါ်လာတတ်သည်။ရောဂါသည်သည်ချမ်း၍အဖျားဝင်လာပြီးသော်၊ ခေါင်းကိုက်ခြင်းနှင့် ကိုယ်လက် နာကျင်ခြင်းများ ဖြစ်တတ်သည်။ ထိုအချိန်၌ သွေးဖြူဂလင်းများသည် ရောင်လာတတ်၏။ အထူးသဖြင့် ပေါင်ကြန် ချိုင်းနှင့် လည်ပင်းတို့တွင် ရောင်လာပြီးလျှင်၊ အကျိတ်ဖြစ်လာတတ်သည်။ အကျိတ်များသည် အများအားဖြင့် အနာဖြစ်လာတတ်လေသည်။ ဖျားပြီး၍ တတိယမြောက်နေ့မှ ပဉ္စမမြောက်နေ့အတွင်းတွင်ကွယ်လွန်တတ်သည်။အဆုတ်ရောင်ပလိပ်ရောဂါသည် အစ၌ ဘင်ထွက်ပလိပ်ရောဂါနှင့် ဆင်တူ၏။ သို့သော်အဆုတ်သည် မကြာမီအတွင်း၌ ရောင်လာပြီးလျှင်၊ အသက်ရှူကျပ်ကာ ချောင်းဆိုးတတ်သည်။ အဆုတ်ရောင် ပလိပ်ရောဂါတွင် အကျိတ်များ မထွက်ချေ။

ဘင်ထွက်ပလိပ်ရောဂါ ကျရောက်လျှင်၊ ၆၀ မှ ၉၅ ရာခိုင်နှုန်းအထိ သေဆုံးနိုင်သည်။ သို့သော် အခြေအနေကောင်းမွန်လျှင်၊ ရာခိုင်နှုန်း ၂၀ ပင် သေဆုံးသူ မရှိတတ်ချေ။ အဆုတ်ရောင်ပလိပ်ရောဂါကျရောက်လျှင်၊ အသက်ချမ်းသာသူ အလွန်ရှားသည်။

ပလိပ်ရောဂါ စွဲကပ်နေသူကို ဂရုတစိုက် ပြုစုပေးသင့်ပြီးလျှင်၊ ဆာလဖွန်နမိုက် ဆေးများကိုတိုက်ခြင်း၊ သို့မဟုတ် ထိုးပေးခြင်းသည် အကျိုးထူးကို ဖြစ်စေနိုင်သည်။ ထိုပြင်

ခေတ်မှီ အန်တီပလိပ်ဆီရမ်ခေါ် သွေးကြည်ရည်သည်လည်း ဆေးစွမ်းတလက်ဖြစ်၍၊ ထိုဆေးနှစ်မျိုးစလုံးကို အသုံးပြုလေ့ရှိကြသည်။ ထိုပြင် ဆာလဖာဒိုင်ယာဇင်နှင့် စထရက်ပတိုမိုင်ဆင်ဆေးများကိုလည်း ဆရာဝန်များကအသုံးပြုလေ့ရှိကြသည်။ ပလိပ်ရောဂါ ကာကွယ်ရန်ဆေးကိုလည်း အကာအကွယ်အဖြစ် ထိုးထားသင့်သည်။

ပလိပ်ရောဂါကို ကာကွယ်ရာတွင် အိမ်များကို သန့်ရှင်းစွာထားပြီးလျှင်၊ ကြွက်ကဲ့သို့သော ကိုက်ဖြတ်သတ္တဝါနှင့် ယင်းတို့၏ အလေ့များကို ဖျက်ဆီးပစ်သင့်သည်။ ကြွက်များ မလာနိုင်အောင် မီးဖိုတွင်လည်း အမှိုက်သရိုက်၊ စားကြွင်းစားကျန်များ မရှိစေရန် စီမံထားသင့်သည်။ ထိုပြင် ဒီ၊ဒီ၊တီ (ဒိုင်ကလိုရိုဒိုင်ဖင်နီထရိုင်ကလိုအီသိန်း) ခေါ် ပိုးသတ်ဆေးသည် အလေ့များကိုသတ်ရာတွင် အလွန်ထိရောက်သည့် ဆေးတမျိုးဖြစ်သဖြင့်၊ ထိုဆေးကိုလည်း အသုံးပြုသင့်ပေသည်။ ရပ်ရွာရှိလူများ၏ ပူးပေါင်းဆောင်ရွက်မှု ရရှိရန်လည်း ယင်းတို့အား ပလိပ်ရောဂါနှင့် စပ်လျဉ်းသည့် အချက်အလက်များကို အသိပေးသင့်ပေသည်။ ပလိပ်ရောဂါ ကာကွယ်ဆေးများ ထိုးကာ၊ အကာအကွယ် ယူခြင်းဖြင့်လည်း ကူးစက်မည့်အန္တရာယ်ကို နှိမ်နင်းနိုင်၍၊ အသက်ပေါင်းများစွာ ချမ်းသာရာ ရနိုင်ပေသည်။ (ဒီ၊ ဒီ၊ တီ — ရှု။)

# မရိုးနိုင်သည့် အရှည်ဆုံးပုံပြင်

**'သဘော်သားဆင်းဗတ်'၊ 'အလ္လာဒင်' စသည့် ပသီပုံပြင်များကို ယနေ့တိုင် မရိုးနိုင်အောင် ကလေးလူကြီးမရွေး နှစ်သက်ကြသည်။ ပသီပုံပြင်ကို အာရေဗစ်ဘာသာဖြင့် ရေးသားထား၍ ဘာသာမျိုးစုံသို့ ပြန်ဆိုထားကြသည်။ ဤအကြောင်းရပ်တွင် ပသီပုံပြင်ဟု အမည်တွင်ရပုံ၊ အဘယ့်ကြောင့် နှစ်သက်ကြပုံ အကြောင်းစုံတို့ကို ရှင်းလင်း ဖော်ပြထားသည်။**

**ပသီပုံပြင်။** ။'သဘော်သားဆင်းဗတ်' 'အလ္လာဒင်' အစရှိသော ပုံဝတ္ထုများကို လူတိုင်းလိုပင်ကြားဘူးကြသည်။ ထိုပုံပြင်များကို ကလေးလူကြီးမရွေး အားလုံးပင် နှစ်သက်ကြသည်။ ပုံပြင်ထဲ၌ပါသော အံ့သြဖွယ်၊ ထိတ်လန့်ဖွယ် အကြောင်းအချက်များသည် ကလေးများ၏စိတ်ကို များစွာ ဆွဲဆောင်နိုင်သည်။ လူကြီးများကလည်း အရှေ့တိုင်း၏ စိတ်ကူးစိတ်သန်း၊ ယဉ်ကျေးမှု၊ ဓလေ့ထုံးစံ စသည်တို့ကို သိရအောင် ပုံပြင်များကို ဖတ်ရှုကြသည်။ ထိုပုံပြင်တို့ကို အာရေဗစ်ဘာသာဖြင့် ရေးသားထား၍၊ မြန်မာမှုတ်ဆလင်ဆရာဝန် ဒေါက်တာဦးရာမန်သည် ၁၈၉၆ ခုနှစ်တွင် အင်္ဂလိပ်ဘာသာမှတဆင့် မြန်မာဘာသာသို့ ပြန်ဆိုခဲ့သည်။ ယင်းပုံပြင်တို့ကို 'ပသီပုံပြင်' ဟု အမည်ပေးသည်။

ထိုပသီပုံပြင်ကို အာရပ်လူမျိုးများသည် ပါးရှင်းလူမျိုးတို့ထံမှရ၍၊ ပါးရှင်းလူမျိုးတို့ကလည်း အချို့ကို အိန္ဒိယမှ ရသည်ဟု ဆိုကြ၏။ ဗဂ္ဂဒက်မြို့နှင့် အီဂျစ်ပြည်များမှ ရသည့် ဒဏ္ဍာရီများကိုလည်း မူလပုံပြင်များတွင် ဖြည့်စွက်ထည့်သွင်းကြပြန်သည်။ ပသီပုံပြင်တွင် ဥရောပတိုက်၊ ရှားလမိန်းဘုရင် တန်ခိုးကြီးစဉ်အခါ၊ အရှေ့နိုင်ငံတွင် ထီးပြိုင် စိုးစံသော ဟာရွန်း အယ် ရာရှစ်ဘုရင် ဘုန်းကြီးခဲ့သည့်ခေတ်က အဖြစ်အပျက်များ အများဆုံး ပါဝင်လေသည်။ ပသီပုံပြင်သည် ဒဏ္ဍာရီမျှသာ ဖြစ်သော်လည်း၊ ထိုခေတ်အခါက အာရေဗျ ယဉ်ကျေးမှုကို ဖော်ပြသော အဖိုးတန်စာပေ အထောက်အထားများ ဖြစ်လေသည်။

ပသီပုံပြင်ကို တကမ္ဘာလုံးအား သိစေသည့်ပုဂ္ဂိုလ်မှာ ပြင်သစ်တက္ကသိုလ်တွင် အာရေဗစ်ဘာသာဆိုင်ရာပါမောက္ခတဦးဖြစ်သော အန်တွမ်းဂလန်း ဖြစ်လေသည်။ ဂလန်းသည် အာရေဗစ်ဘာသာဖြင့် ရေးသားထားသော ပုံပြင်များကို ပြင်သစ်ဘာသာ ပြန်ဆိုကာ၊ ၁၇၀၄ ခုနှစ်တွင် စာအုပ်တွဲပေါင်း ၁၂ တွဲမျှ ထုတ်ဝေခဲ့လေသည်။

ပသီပုံပြင်၌ ပုံပေါင်းနှစ်ရာကျော်ခန့် ပါရှိလေသည်။ ထိုပုံပြင် အကြောင်းအရာများကို လွန်လေပြီးသောနှစ်ပေါင်းများစွာက ဗဂ္ဂဒက်မြို့ ဈေး၊ ပွဲ အစရှိသည့် လူစုဝေးရာ အရပ်များတွင် တယောက်စကားတယောက်နား ပြောခဲ့ကြလေသည်။ သဲကန္တာရအလယ် ယာယီတဲများနှင့် နေကြသော မိသားစုတို့ကလည်း သက်ကြီးစကား သက်ငယ် ကြားရလေအောင် ညဉ့်အခါ လူဆုံမိပြီဆိုလျှင် ထိုပုံများကို ပြောခဲ့ကြသည်။ မြစ်ကြောင်းခရီးသွားယင်း လှေများပေါ်တွင်လည်း ထိုပုံများကိုပြောခဲ့ကြသည်။ ထိုသို့နေရာတကာ အနှံ့အပြား ပြောနေကြသော ပုံများသည် အရှေ့တိုင်း ယဉ်ကျေးမှု သမိုင်းနှင့် ဘာသာ အယူဝါဒတို့ကို ဖော်ပြသော ဇာတ်လမ်းရှည်ကြီးတခု ဖြစ်ခဲ့လေသည်။

အံ့သြဖွယ်ကောင်းလှသည့် ထိုဒဏ္ဍာရီပုံပြင်များ ဖြစ်ပေါ်လာအောင် နိဒါန်းပျိုးသည့် ပုံဝတ္ထုသည် စိတ်ဝင်စားဖွယ်ကောင်းလှသည်။

လွန်လေပြီးသောအခါ၊ ပါးရှားပြည်ရှင် ဘုရင်တပါးသည် နေ့စဉ်နေ့တိုင်း အမျိုးသမီးတဦးကို ကြင်ယာတော်မြှောက်စားပြီးလျှင်၊ နောက်တနေ့၌ ကွပ်မျက်ပစ်လိုက်သည့်အလေ့ ရှိလေသည်။ ဤသို့ ဘုရင်၏ ကြောက်ဖွယ်ကောင်းသော

အလေ့ဆိုးကြီးကို ဖျောက်ဖျက်လိုသဖြင့်၊ ရှိဟာရာဇာအမည်ရှိသော မင်းသမီးတပါးသည် ဘုရင်၏ ကြင်ယာတော်အဖြစ်ကို ခံယူခဲ့လေသည်။ ထိုမင်းသမီးသည် ဉာဏ်ပညာရှိသူဖြစ်၍၊ မင်္ဂလာဦးညဥ့်တွင် ဘုရင်အား ဒဏ္ဍာရီပုံ ပြောပြလေသည်။ စိတ်ဝင်စားဖွယ်ကောင်းသည့်နေရာသို့ ရောက်လျှင် ဆက်မပြောဘဲ၊ နောက်တနေ့ ညဥ့်မှ ပြောမည်ဟု ရပ်ဆိုင်းထားရာ၊ ဘုရင်သည် ပုံဝတ္ထု၏အဆုံးကို ကြားလိုသဖြင့် မသတ်ဘဲ ဆိုင်းငံ့ထားလေသည်။ ဤနည်းဖြင့် ညပေါင်းတထောင်နှင့်တည ကြာမြင့်လာခဲ့လေသည်။ မိဖုရား၌လည်း သားတော်တပါးဖွားမြင်ရာ၊ ဘုရင်သည် မိဖုရားကို နှစ်သက်မြတ်နိုးလာလေ၏။ ထိုအခါမှ မိဖုရားက မိမိ၏ ပရိယာယ်ဆင်ပုံကို ပြန်၍တင်လျှောက်လေသည်။ ဘုရင်သည် မေတ္တာသက်ဝင်နေပြီဖြစ်၍၊ မိဖုရားအား အမျက်မထွက်တော့ဘဲ၊ သူ၏ ဉာဏ်ပညာကိုသာ ချီးမွမ်းကာ၊ အသက်ကိုလည်း ချမ်းသာပေးသောဟူ၏။

အထက်ပါ ပုံတိုကလေးကို အကြောင်းပြုကာ၊ 'ပသီပုံပြင်' ဟု အမည်တွင်သော ဒဏ္ဍာရီများသည် အာရေဗစ်စာပေလောက၌ ထွက်ပေါ်လာခဲ့လေသည်။ ပသီပုံပြင်ကို ဘာသာပေါင်းစုံသို့ ပြန်ဆိုရေးသားကြ၍၊ ကမ္ဘာပေါ်တွင် လူသိအများဆုံး၊ ဖတ်ရှုသူ အများဆုံး စာပေဟု ဆိုရပေမည်။ 'အလ္လာဒင်'၊ 'အလီဘာဘာနှင့် ခိုးသားလေးဆယ်'၊ 'သင်္ဘောသား ဆင်းဗတ်' အစရှိသော ဝတ္ထုတို့သည် အဆန်းတကြယ် အသည်းထိတ်ဖွယ်ရာ စွန့်စားခြင်းအကြောင်းများကို ရေးသားထားသော ဝတ္ထုများဖြစ်သည်။

**အလ္လာဒင်ဝတ္ထု။** ။လွန်လေပြီးသောအခါ တရုပ်ပြည်ရှိ မြို့ကြီးတမြို့တွင် အလွန်ဆင်းရဲနွမ်းပါးသော အပ်ချုပ်သည်မ၏သားအလ္လာဒင်သည် လမ်းမပေါ်၌ကလေးအဖော်များနှင့် အတူကစားနေလေ၏။ အလ္လာဒင်၏ ဖခင်သည် အလ္လာဒင် ငယ်ရွယ်စဉ်ကပင်သေဆုံးခဲ့သည်။ အလ္လာဒင်သည် အဖော်များနှင့် ကစားနေစဉ်၊ ခန့်ညားသပ်ရပ်သော လူကြီး တယောက်သည် သူ့ထံသို့ လာ၍၊ သူ၏ ဦးလေးဖြစ်ကြောင်း ပြောပြလေသည်။ စင်စစ် ထိုသူသည် အာဖရိကတိုက်မှ ကဝေဆရာကြီးတဦးဖြစ်၍၊ မိမိ၏ လုပ်ငန်းအောင်မြင်မှုအတွက် အလ္လာဒင်ကို ဖြားယောင်းသွေးဆောင်ခြင်းပင် ဖြစ်လေသည်။ ကဝေဆရာကြီးသည် လက်ဆောင်များပေး၍၊ အမျိုးမျိုးလှည့်ပတ်ပြောဆိုလေရာ၊ နောက်ဆုံး၌ အလ္လာဒင်နှင့်တကွ သူ၏အမိပါ ကဝေဆရာကြီး၏ ပြောစကားတို့ကို ယုံကြည်မိကြလေသည်။

တနေ့သောအခါ ဦးလေးယောင်ဆောင်နေသော ကဝေဆရာကြီးသည် အလ္လာဒင်ကို မြို့နှင့်အလွန်ဝေးသောနေရာသို့ ခေါ်သွား၏။ အလ္လာဒင်သည် သူ့အိမ်နှင့် အတော်ဝေးလာပြီကိုသိသောအခါ၊ အနည်းငယ် ကြောက်ရွံ့လာ၍၊ အိမ်သို့ အလျင်အမြန်ပြန်ပို့ပေးရန် ကဝေဆရာကြီးအား တောင်းပန်၏။ သို့ဖြင့် တောင်ကြားလမ်းကလေးတခုသို့ ရောက်လာသောအခါ၊ ဦးလေးဆိုသူက အလ္လာဒင်အား 'ငါတို့ရှေ့သို့ ဆက်လက်သွားရန် မလိုပြီ။ ဤနေရာ၌ ငါတို့မီးဖိုအံ့။ ငါတို့သည် ထင်းခြောက်များကို သွားကောက်ပါ။ မီးဖိုပြီးလျှင် ငါသည် အလွန်ထူးဆန်းသော အရာတခုကို ပြမည်' ဟုပြောလေ၏။ ထို့ကြောင့် အလ္လာဒင်သည် သူ့ဦးလေးဆိုသူ ခိုင်းသည့်အတိုင်း ထင်းခြောက်များကောက်ခဲ့၍ မီးဖိုလေ၏။ ကဝေဆရာကြီးသည် မီးပုံထဲသို့ ဆေးမှုန့်ထည့်လိုက်၍၊ မန္တာန်များ ရွတ်ဆိုလေ၏။

တခဏခြင်းတွင် မီးခိုးလုံးကြီးများ တက်လာ၍၊ မြေကြီးသည် တုန်ဟည်းကာ နှစ်ခြမ်းကွဲသွားပြီးသော်၊ မြေတွင်းမှ ကျောက်တုံးတတုံး ထွက်ပေါ်လာ၏။ ထိုကျောက်တုံး၏ အလယ်တွင် လက်စွပ်တကွင်း မြှုပ်ထားလေသည်။ ကဝေဆရာကြီးသည် အလ္လာဒင်အား လက်စွပ်ကို ချွတ်ယူကာ၊ ကျောက်တုံးကိုဆွဲ၍မရန် အမိန့်ပေးလေ၏။ အလ္လာဒင်သည် ရုတ်တရက်သော် ကြောက်လန့်နေသဖြင့်၊ သူပြောသည့်အတိုင်း မလုပ်ဘဲနေ၏။ ထိုအခါ ကဝေဆရာကြီးသည် ဒေါသထွက်လျက်၊ အလ္လာဒင်ကို ရိုက်ပုတ်ထုထောင်းလေ၏။ အလ္လာဒင်သည် ထိုအခါမှပင် သူ့ဦးလေး အစစ်မဟုတ်မှန်း ရိပ်မိတော့သည်။ ကဝေဆရာကြီးသည် အလ္လာဒင်မပါလျှင်၊ သူ့လုပ်ငန်းမအောင်မြင်နိုင်ဟု သတိရ၍၊ ကလေးကို ပြန်၍ ချော့ပြန်၏။ 'ငါ့တူအလ္လာဒင် ငါပြောသည့်အတိုင်း လုပ်ခဲ့ပါလျှင်၊ ငါတို့ နှစ်ဦးစလုံး သုံးစွဲ၍ မကုန်နိုင်သော ရွှေ ငွေ ရတနာများ ရနိုင်လိမ့်မည်' ဟု ပြောပြလေ၏။ ထိုအခါမှ အလ္လာဒင်သည် ကဝေဆရာကြီး အမိန့်ပေးသည့်အတိုင်း၊ သူ့ဖခင်နှင့် သူ့အဖိုးအမည်များကို နှုတ်ကရွတ်ဆိုယင်း လက်စွပ်ကိုချွတ်၍ ကျောက်တုံးကိုမလိုက်ရာ၊ အလွယ်တကူနှင့် ကျောက်တုံးသည် ရွေ့သွားလေ၏။ ထိုနောက် အလ္လာဒင်သည် ထူးဆန်းစွာ ကျောက်လှေကားထစ်များကိုတွေ့ရ၏။

ထိုအခါ ဦးလေးဆိုသူက အလ္လာဒင်အား ဤလှေကားထစ်များအတိုင်း ဆင်းသွားလျှင် တံခါးတွေ့လိမ့်မည်။ ထိုတံခါးကိုဖွင့်၍ အထဲသို့ သင်ဝင်သွားရမည်။ အထဲ၌ အခန်းကြီးသုံးခန်းရှိသော နန်းရင်ပြင်သို့ ရောက်လိမ့်မည်။ သင်၏ ဝတ်ရုံကို သင့်ကိုယ်ဝယ် ကျပ်ကျပ်ရုံထားလော့၊အခန်းနံရံနှင့် အဝတ်ထိမိလျှင်ပင် သင်သေလိမ့်မည်။ အခန်းသုံးခန်းစလုံးကို မရပ်မနားဘဲ ဖြတ်သွားလော့။ တတိယအခန်း၏ အဆုံးတွင် တံခါးပေါက်တခုတွေ့လိမ့်မည်။ ထိုတံခါးပေါက်မှ ထွက်သွားလျှင်၊ အသီးတို့ဖြင့် ဝေဆာနေသော သစ်ပင်များရှိသည့် ဥယျာဉ်တခုသို့ ရောက်လတ္တံ့ ။ ထိုဥယျာဉ်မှ လေးငါးလှမ်းလောက်ကျော်သွားလျှင်၊ မီးထွန်းထားသော မှန်အိမ်

ငယ်တခုကို စင်ကလေးပေါ်၌ တွေ့လိမ့်မည်။ ထိုမှန်အိမ်ကို မီးမှုတ်ပစ်၍ ဆီကိုလည်း သွန်ပစ်ပြီးမှ သင်၏ခါးချပ်တွင် ထည့်ကာ ယူဆောင်ခဲ့လော့။ အပြန်တွင် ဥယျာဉ်တွင်းရှိ သစ်သီးတို့ကို သင်နှစ်ခြိုက်သလောက် ခူးဆွတ်ခါယူခဲ့နိုင်ပေသည်ဟု မှာကြားပြီးသော်၊ ဘေးရန်ကင်းအောင် သူ့လက်စွပ်ကို အလ္လာဒင်အား ဝတ်ပေးလိုက်လေ၏။

အလ္လာဒင်သည် မှာကြားသည့်အတိုင်း ဆင်းသွားပြီးလျှင် မှန်အိမ်ကိုယူခဲ့ရာ၊ လမ်းတွင် သစ်ပင်များပေါ်၌ စိန်ကျောက်သံပတ္တမြားတို့ သီး ပွင့် နေကြသည်ကို တွေ့သဖြင့် တန်ဖိုးကိုမသိသော်လည်း လှသည်ဟူသော အမှတ်ဖြင့် ခူးဆွတ်ကာ အိတ်ထဲတွင် ဆံ့သမျှထည့်ခဲ့လေ၏။ ဂူဝသို့ ရောက်သောအခါ၊ အလ္လာဒင်သည် စိတ်တမျိုးပြောင်းသွားပြီးသော်၊ သူ့ဦးလေးဆိုသူအား သူယူခဲ့သော မှန်အိမ်ကို မပေးနိုင်ဟု ငြင်းဆန်လေ၏။ ထိုအခါ သူ့ဦးလေးကလည်း သူ့ကို ဂူဝမှအပေါ်သို့ တက်နိုင်အောင် ကူညီမည်မဟုတ်ဟု ဆို၏။ နောက်ဆုံး၌ အလ္လာဒင်သည် ဖြစ်လိုရာဖြစ်စေတော့၊ မှန်အိမ်ကိုကား မပေးနိုင်ဟု ပြောလိုက်သဖြင့်၊ ကဝေဆရာကြီးသည် ဒေါသအမျက် ခြောင်းခြောင်းထွက်ကာ ပါးစပ်မှ မန္တာန်များကို ရွတ်ဆိုလိုက်၏။ ထိုအခါ တခဏခြင်း၌ပင် ယခင်က ဖယ်ရှားထားသော ကျောက်တုံးကြီးသည် ဂူဝသို့ လိမ့်လာကာ ဂူပေါက်ကို ပြကတေ့အတိုင်း ပြန်ပိတ်လိုက်လေ၏။ ကဝေဆရာကြီးသည် ဒေါသအလျောက်လုပ်မိရာ၊ ယခုမူကား လက်စွပ်လည်းဆုံး၊ မှန်အိမ်လည်းဆုံး ဖြစ်ရလေပြီ။ သူလည်း ဘာမျှမတတ်နိုင်တော့သဖြင့် နောင်တ ကြီးစွာရ၍ ထိုနေရာမှ ထွက်ခွါသွားလေတော့၏။

အလ္လာဒင်သည်လည်း မှောင်မဲသော ဂူကြီးထဲတွင် တယောက်တည်း ပိတ်မိနေသဖြင့်၊ကြောက်လန့်ကာ ဟစ်အော်ငိုကြွေးပါသော်လည်း ပဲ့တင်သာ ဟည်းလျက် မည်သူတစုံတယောက်မျှ ကယ်မည့်သူ မပေါ်ဘဲရှိလေသည်။ ဤသို့ ကြံရာမရဘဲ ဂူကြီးထဲတွင် ၂ ရက်တိုင်တိုင် နေခဲ့ရပြီးမှ စိတ်ညစ်လွန်းလှသဖြင့် ဘုရားကိုတရန် လက်အုပ်ချီလိုက်ရာ ကဝေဆရာကြီး ဝတ်ပေးလိုက်သော လက်စွပ်ကို ပွတ်မိသွားလေ၏။ ထိုအခါ ကိုယ်ကာယ အလွန်ကြီးမားသော ဘီလူးသဏ္ဌာန်ရှိ အကောင်ကြီး ထွက်ပေါ်လာကာ၊ 'အိုအရှင်၊ ဘာကို အလိုရှိပါသနည်း၊ အရှင်လိုရာကို ကျွန်တော်မျိုးဆောင်ရွက်ပါအံ့၊ ကျွန်တော်မျိုးကား လက်စွပ်ကို စောင့်သော ဘီလူးဖြစ်ပါသည်' ဟု ပြောလေ၏။

အလ္လာဒင်လည်း ဘီလူးကြီးအား ကြောက်ရွံ့လျက်ပင် 'ကျွန်ုပ်အား ဤဂူကြီးအပြင်သို့ ရောက်စေပါလော့' ဟု ဆိုလိုက်လေ၏။ထိုခဏ၌ပင်အလ္လာဒင်သည် ကဝေဆရာကြီးနှင့်အတူ ကျောက်တုံးကို ဖယ်ရှားရသောနေရာသို့ ရောက်သွား၏။ ကျောက်တုံးကြီးကိုကား အစအနမျှ မတွေ့ရတော့ချေ။

အလ္လာဒင်လည်း ချက်ခြင်းပင် နေအိမ်သို့ပြန်၍၊ သူ၏မိခင်အား အကျိုးအကြောင်းပြန်ပြောပြလေသည်။ ထိုနောက် မိခင်အား အစာရေစာပေးပါဟု တောင်းရာ၊ မိခင်က 'ငါ့သား၊ အိမ်တွင် စားစရာ တစုံတရာမျှမရှိပါ။ ထိုကြောင့် သင့်မှန်အိမ်ကို သွားရောင်း၍၊အစားအစာများဝယ်ခဲ့ပါလော့'ဟု ပြောလေ၏။ ထိုနောက် အလ္လာဒင်၏မိခင်သည် မှန်အိမ်ကို သန့်ရှင်းအောင် ပွတ်တိုက်လိုက်ရာ၊ မိုးကြိုးထစ်သကဲ့သို့သော အသံကြီးနှင့်အတူ ဘီလူးကြီးတကောင် ပေါ်ထွက်လာလေ၏။ အလ္လာဒင်၏မိခင်သည် ထိတ်လန့်၍ မိန်းမောသွားလေသည်။ အလ္လာဒင်ကား ဤအကြိမ်တွင် မကြောက်တော့ဘဲ 'ငါ့ဆာလောင်လှသည်၊ စားသောက်ဖွယ်များယူခဲ့လော'ဟု ခိုင်းလေ၏။

ဘီလူးကြီးလည်း ပျောက်ကွယ်သွားပြီးလျှင်၊ ငွေလင်ပန်းကြီးများ၌ သစ်သီး အချိုအချဉ် မုံ့အမဲဟင်းလျာ အရသာမျိုးစုံသော အစားအသောက်များနှင့် အဖျော်ယမကာများ သယ်ယူလာခဲ့လေ၏။အလ္လာဒင်၏ မိခင်သည် ကောင်းစွာ သတိ ပြန်ရလာသဖြင့် နှစ်ယောက်စလုံး ဘုရင်မင်းများ သုံးဆောင်အပ်သည့် အစားအစာတို့ကို မြိန်ရှက်စွာ စားသောက်ကြလေ၏။

အလ္လာဒင်၏ မိခင်သည် လွန်စွာကြောက်တတ်သဖြင့် နောက်တခါ ထိုဘီလူးထံမှ ပစ္စည်းများကို မတောင်းရန် သူ့သားအား ပြောကြားလေ၏။ သို့ရာတွင် အလ္လာဒင်မှာကား မှန်အိမ်ကို အမှီပြု၍ ချမ်းသာမည့်လမ်းကို မြော်မှန်းလျက်ရှိလေသည်။ ဘီလူး ယူဆောင်လာသော ငွေလင်ပန်း၊ ငွေပန်းကန်ပြား စသည်တို့ကို ရောင်းချလိုက်၍၊ နောင် ထပ်မံအလိုရှိပြန်လျှင် မှန်အိမ်ကို ပွတ်၍ ဘီလူးထွက်လာသောအခါ လိုချင်သည့်ပစ္စည်းများ တောင်းဆိုလိုက်နှင့် အလ္လာဒင်သည် မပင်ပန်းဘဲ နေ့ခြင်းညခြင်း ချမ်းသာကြွယ်ဝလာလေသည်။ ထိုအတောအတွင်း အလ္လာဒင်သည် လူပျိုပေါက်အရွယ်သို့ ရောက်လာကာ ခွန်အားဗလနှင့် ပြည့်စုံ၍ ရုပ်ရည်ရူပကာလည်း တင့်တယ်လှပလျက်ရှိလေ၏။

တနေ့သော် ဘုရင်မင်းမြတ်သည် သမီးတော်ချိုးရေတော်သုံးလို၍ မင်္ဂလာကန်သို့ ထွက်စံမြန်းတော်မူမည် ဖြစ်သောကြောင့်၊ မြို့တွင်းမြို့ပြင်ရှိ ဈေးဆိုင်ကနား အားလုံးပိတ်၍၊ မည်သူမျှ လမ်းမထွက်စေရဟူ၍ မောင်းကြေးနင်းခတ်လေ၏။ ထိုအမိန့်သံကိုကြားရလျှင်၊ အလ္လာဒင်သည် ဘုရင့်သမီးတော်ကို မြင်လို၏။ ထိုကြောင့် ဘုရင့်သမီးတော် မင်္ဂလာကန် အဝင်ဝသို့ရောက်၍ မျက်နှာဖုံးကိုဖွင့်လှစ်သောအခါ ထိုကန်တော် အဝင်ဝနားမှ ချောင်းမြောင်းကြည့်ရှုလျှင် ကောင်းစွာ မြင်ရပေမည်ဟု ကြံစည်ကာ၊ ထိုနေ့၌ ဘုရင့်သမီးတော်ကို မြင်နိုင်လောက်သောနေရာမှ ကြိုတင် စောင့်ကြည့်နေ၏။သမီးတော်၏ မျက်နှာကို အလ္လာဒင်မြင်ရသော

အခါ၊ ဤမျှ ချောမောလှပတင့်တယ်သည့် မိန်းမပျိုကလေးကို သူတသက်တွင် တခါမျှမမြင်ဘူး၍၊ ဘုရင့်သမီးတော်အပေါ် ချက်ခြင်းမေတ္တာသက်ဝင်ကာ၊ သူနှင့်ဖူးစာဖက်ရန်အကြံပြုလေ၏။

အိမ်သို့ရောက်လျှင် အလ္လာဒင်သည် မိခင်ဖြစ်သူအား အကျိုးအကြောင်းပြော၍၊ ဘုရင့်သမီးတော်ကိုရအောင် သူ၌ရှိသော ကျောက်သံပတ္တမြားများကို လက်ဆောင်အဖြစ် ဘုရင့်ထံသို့ အပို့လွှတ်လိုက်လေ၏။ ဘုရင်လည်း ကျောက်သံပတ္တမြားတို့ကိုမြင်ရာ လွန်စွာ နှစ်သက်လှသဖြင့်၊ အလ္လာဒင်၏ မိခင်စကားကို အနူးအညွတ် လက်ခံလိုက်လေသည်။

သို့ရာတွင် အလ္လာဒင်သည် ဘုရင့်သမီးတော်နှင့် ချက်ခြင်းလက်မထပ်ရသေးဘဲ၊ အနှောင့်အရှက်များကို တွေ့ရ၏။ ဘုရင်ကြီးသည် ကျောက်သံပတ္တမြားကို စွဲမက်သောစိတ်ကြောင့် သမီးတော်ကို ပေးစားမည်ဟု ပြောကြားလိုက်သော်လည်း၊ အကယ်စင်စစ် သမီးတော်သည် နန်းရင်းဝန်၏သားနှင့် စေ့စပ်ထားသူ ဖြစ်လေသည်။ ထို့ကြောင့် အလ္လာဒင် အကြောင်းကို ကြားသောအခါ နန်းရင်းဝန်ကြီးမှာ မခံမရပ်နိုင်ဖြစ်၍၊ ဘုရင်ကြီးအား အကြံဉာဏ်ထုတ်ရန် တိုင်ပင်လေ၏။ ဘုရင်လည်း ပရိယာယ်သုံးကာ၊ အလ္လာဒင်အား သုံးလမျှစောင့်ဆိုင်းရန် ပြောထား၍၊ သုံးလမပြည့်မီပင် မြို့တွင်း၌ ဘုရင့်သမီးတော်နှင့် နန်းရင်းဝန်၏သား လက်ထပ်ပွဲအခမ်းအနားများ စီစဉ်နေလေ၏။ အလ္လာဒင်သည် များစွာဒေါသထွက်ကာ၊ လက်ထပ်မည့်ညဉ့်၌ သူဘီလူးကြီးများကို ခေါ်၍၊ သတို့သားနှင့်သတို့သမီးကို သူထံဆောင်ယူခဲ့စေ၏။ ဘုရင့်သမီးကို နှစ်သိမ့်စေ၍၊ သတို့သားကိုကား ဗီရိုတွင်း၌ သွင်းထားလိုက်၏။ နှစ်ရက်သုံးရက်မြောက်သော်၊ သတို့သားကိုယ်တိုင် သူ၏မင်္ဂလာပွဲ ဖြစ်မြောက်ရေးကို လက်လျှော့လိုက်၏။ အလ္လာဒင်၏မိခင်လည်း သုံးလအချိန်စေ့ရောက်ပြီဖြစ်၍၊ ဘုရင့်ထံသွားကာ သူ့သားနှင့် လက်ထပ်ပေးဖို့ တောင်းဆိုလေ၏။ ဘုရင်ကြီးသည် သူ့အပါးတော်မြဲနန်းရင်းဝန်ကြီးကို တိုင်ပင်ရာ၊ နန်းရင်းဝန်က မြောက်မြားလှစွာသော ကျောက်သံပတ္တမြား ရတနာရွှေငွေတို့ကို ပေးဆက်မှ လက်ထပ်သင့်ကြောင်းကို တိုက်တွန်းပြောဆိုလေသည်။ ဘုရင်လည်း နန်းရင်းဝန် အကြံပေးသည့်အတိုင်း တောင်းဆိုရာ၊ အလ္လာဒင်သည် လိုတရသော မှန်အိမ်၏ တန်ခိုးကြောင့်၊ တောင်းလေသမျှအရာများကို အားလုံးပေးစွမ်းနိုင်ပြီးလျှင်၊ သမီးတော်ကို လက်ထပ်ခွင့် ရလေသည်။ ထိုနောက် အလ္လာဒင်လည်း မှန်အိမ်စောင့်ဘီလူးကိုခေါ်၍၊ ကျောက်သံပတ္တမြား အတိပြီးသော နန်းပြာသာဒ်ဆောင်များ ဆောက်လုပ်စေပြီးလျှင်၊ ရံရွေတော် မောင်းမမိဿံအစုံအလင် ဖန်ဆင်းပေးစေ၏။ ထိုနန်းပြာသာဒ်ထက်၌ ဘုရင့်သမီးတော်နှင့်အတူ ပျော်ပါးစွာ စံနေလေ၏။

နှစ်ပေါင်းများစွာ ကြာလတ်သော်၊ ကဝေဆရာကြီးသည် အလ္လာဒင်၏ သတင်းစကားကို ကြားသဖြင့် အခဲမကျေလှဘဲ မှန်အိမ်ကို ပြန်ရအောင် ကြံနေလေ၏။ တနေ့သော် အလ္လာဒင် အမဲလိုက်သွားနေခိုက်၊ ကဝေဆရာသည် မှန်အိမ်အသစ်များကိုထမ်း၍ မှန်အိမ်ဟောင်းများကို အသစ်နှင့် လဲပေးမည်ဟု အလ္လာဒင်တို့အိမ်ရှေ့မှ ကြွေးကြော်လေ၏။ ထိုအခါ အလ္လာဒင်၏ဇနီး မင်းသမီးသည် နတ်မှန်အိမ်ကို ဟောင်းနေပြီဟူ၍၊ ကဝေဆရာ၌ ပါလာသော မှန်အိမ်သစ်ဖြင့် လဲယူလိုက်လေ၏။ ထိုအခါ ကဝေဆရာသည် မှန်အိမ်စောင့်ဘီလူး၏တန်ခိုးဖြင့် နန်းပြာသာဒ်ကြီးများနှင့်တကွမင်းသမီးကိုပါ အာဖရိကတိုက်သို့ ဆောင်ယူသွားလေ၏။ ဤအကြောင်းကို မင်းသမီး၏ ခမည်းတော် ဘုရင်ကြီးသိသောအခါ အလ္လာဒင်အား များစွာ ဒေါသထွက်လေ၏။

အလ္လာဒင်သည် အမဲလိုက်ရာမှ မြို့တွင်းသို့ ဝင်လာသောအခါ ဘုရင်စေလွှတ်ထားသော အာဏာသားတို့သည် သူကို ကြိုးနှင့်တုပ်နှောင်ဖမ်းဆီးပြီးလျှင် နန်းတော်သို့ ဆွဲငင်လာကြ၏။ မြို့သူမြို့သားများသည် အလ္လာဒင်ကို ခင်မင်နေကြ၍ အလ္လာဒင်ကို မသတ်ရန်၊ အကယ်၍ သတ်ပစ်ပါက အလ္လာဒင်ဖက်မှ ဝိုင်း၍ကူညီရန် တုတ်ဓားလှံတံများ ကိုင်ဆောင်ကာ နောက်မှ ထက်ကြပ်မကွာလိုက်၏။ အလ္လာဒင်ကား ဘုရင် တချက်လွှတ်အမိန့်ဖြင့်သာ အဖမ်းခံရသည်။ အဘယ်အပြစ်ကြောင့်ဟူ၍ သူကိုယ်တိုင် မသိရသေးချေ။ ဤသို့နှင့်ပင် ဘုရင့်ရှေ့တော်သို့ ရောက်လာရလေရာ၊အလ္လာဒင်သည် ပါးကွက်အာဏာသားများ၏ လက်သို့ ကျဆင်းရလေ၏။

ထိုအခါ ပါးကွက်အာဏာသား သူသတ်သမားများက အလ္လာဒင်ကိုသတ်ရန် ဦးခေါင်းထက်တွင် ဓားမိုး၍၊ ဘုရင်၏နောက်ဆုံးအမိန့်ကို စောင့်လင့်၏။ ထိုအချိန်တွင် 'နန်းတော်တခုလုံးကို မြို့သူမြို့သားများ ဝိုင်းထားကြလေပြီ' ဟု ဘုရင်အား အမတ်တဦးက သံတော်ဦးတင်ရာတွင်၊ ဘုရင်သည် နားထောင်နေစဉ်၊ အလ္လာဒင်က လျှောက်ခွင့်သင့်၍ သူကို မည်သည့်အပြစ်ကြောင့် ယခုကဲ့သို့ သတ်ရန်ဖမ်းဆီးရပါသနည်းဟု မေးလျှောက်လေ၏။ ထိုအခါမှ ဘုရင်ကြီးလည်း သတိရကာ အလ္လာဒင်၏ ပြစ်ချက်ကို ပြောပြလို၍၊ သူ့သမီးတော်စံရာ နန်းပြာသာဒ်နေရာကို လက်ညှိုး၍ပြတော်မူလိုက်၏။ အလ္လာဒင်လည်း ထိုနေရာကို ကြည့်လိုက်ရာ ပြာသာဒ်မရှိသည်ကို တွေ့ရမှ များစွာ အံ့သြဝမ်းနည်းသွားလေသည်။ ထိုနောက် သူချစ်ဇနီးမင်းသမီးကို ရှာဖွေရန် ရက်လေးဆယ်မျှ ခွင့်ပေးပါရန် ဘုရင်ကြီးကို တောင်းမန်သဖြင့် ဘုရင်ကြီးက ခွင့်ပြုလိုက်၏။ အလ္လာဒင်သည် နန်းတော်မှ ထွက်ခွါခဲ့ပြီးနောက်၊ သူလက်စွပ်ကိုပွတ်လိုက်ရာ၊ လက်စွပ်စောင့် ဘီလူးပေါ် လာပြန်လေ၏။ အလ္လာဒင်လည်း

မိမိ၏ နန်းတော်ကြီးနှင့်တကွ မင်းသမီးလေးကိုပြန်ရောက်အောင် ဆောင်ရွက်ပေးပါဟုပြောရာ၊ ဘီလူးက ဤကိစ္စမှာ မှန်အိမ်စောင့် ဘီလူးသာ တတ်နိုင်ပါသည်ဟု ပြန်ပြောလေ၏။ အလ္လာဒင်က ဤသို့ဖြစ်လျှင် ငါ့အား ထိုနန်းတော်ကြီး ရှိရာသို့သာ ပို့ပါတော့ဟု ဆိုလေ၏။

လက်စွပ်စောင့် ဘီလူး၏ တန်ခိုးဖြင့် အလ္လာဒင်သည် နန်းတော်ကြီးအတွင်း မင်းသမီး၏ရှေ့သို့ ရောက်သွားရာ၊ မင်းသမီးက အကျိုးအကြောင်း ပြန်ပြောပြလေ၏။ မှန်အိမ်ကို ကဝေဆရာကြီးသည် သူ့ကိုယ်၌ အမြဲဆောင်ထားသဖြင့် သူ့ကိုသတ်ပစ်မှ မှန်အိမ်ကို ရနိုင်ပေမည်။ ထို့ကြောင့် အလ္လာဒင်သည် မင်းသမီးအား အဆိပ်ဆေးမှုန့်များပေး၍၊ ကဝေကြီးအဆောင်တော်သို့ လာသည့်အခါ အရက်နှင့်ထည့်တိုက်စေ၏။

အလ္လာဒင်လည်း စားပွဲအောက်၌ ပုန်းအောင်းနေ၍၊ ကဝေကြီးအဆိပ်မိကာ လဲကျသွားသည်နှင့် တပြိုင်နက်၊ သူ့ခါးကြားမှ မှန်အိမ်ကို ဆွဲယူ၍ ပွတ်လိုက်သည်တွင် ထုံးစံအတိုင်း ဘီလူးကြီးပေါ် လာလေ၏။ ထိုဘီလူးကြီး၏ တန်ခိုးဖြင့် နန်းတော်ကြီးသည် နေပြည်တော်သို့ပြန်ရောက်ခဲ့သဖြင့် ဘုရင်မှာလည်း သမီးနှင့် သမက်တို့ကို ဝမ်းသာအားရစွာ ဆီးကြိုလေ၏။ အလ္လာဒင်နှင့် မင်းသမီးတို့သည် အနှောင့်အရှက်မရှိ စိတ်ချမ်းသာစွာ နေထိုင်ကြရာ၊ ဘုရင်နတ်ရွာစံလျှင် အလ္လာဒင်သည် ဘုရင်၏ ထီးနန်းအမွေကို ဆက်ခံစိုးစံရလေသတည်း။

**ပသျှူးကျွန်းဆွယ်**။ ။မလ္လာယုကျွန်းဆွယ် — ရှု။

**ပသျှူးခေါင်းဖြတ်အသင်း**။ ။ဖရီးမေဆင် — ရှု။

**ပသျှူးစာ၁**။ ။ပလိုဆေးဒီး မျိုးရင်းတွင် ပါဝင်၍၊ စာကလေး တမျိုးဖြစ်သော ပသျှူးစာကို ပါဏဗေဒ အမည်အားဖြင့် ပါစာမွန်တန်နပ် မလက်ဆင်စစ်ဟု ခေါ်သည်။ အလျားငါးလက်မခွဲခန့်ရှိသည်။ ပုံပန်းသွင်ပြင်သည် အိမ်စာနှင့်တူ၍မှားယွင်းတတ်သည်။ သို့သော်ပသျှူးစာနှင့်အိမ်စာသည် ပုံယွင်းအော်သံ၌ ခြားနားသည်။ ပသျှူးစာ၏ တစ်တစ်အော်သံသည် ခပ်အက်အက်ဖြစ်သည်။ ထို့ပြင် ဦးခေါင်းအရောင်သည် အိမ်စာကဲ့သို့ မွဲပြာပြာမဟုတ်ဘဲ၊ နီကျင့်ကျင့် အရောင်ရှိသည်။ ရင်အုပ်သည် မွဲပြာရောင်ဖြစ်လေသည်။

အိမ်စာကဲ့သို့ပင် ကြာကြာအငြိမ်မနေ။ တတစ်တစ်အော်မြည်ကာ ပျံသန်းလိုက်၊ နားလိုက် ပြုနေတတ်သည်။ မြန်မာနိုင်ငံတွင်ပသျှူးစာများကို တောကြိုအုံကြားရှိကျေးရွာများမှအပ၊ လူနေအိမ်ခြေရှိသမျှ အရပ်တို့တွင် တွေ့ရသည်။ တဲအိမ်၊ စရပ်၊ ဘုန်းကြီးကျောင်း စသည်တို့၏ ပန်းဆွဲနှင့် အမိုးများတွင်၎င်း၊ သစ်ပင်၊ နံရံစသည်တို့၏ အခေါင်းပေါက်များတွင်၎င်း အသိုက်များပြုလုပ်၍ ဥများ အုတတ်သည်။ တနှစ်ပတ်လုံး သားပေါက်တတ်သော်လည်း၊ များသောအားဖြင့် မေလမှသြဂုတ်လအတွင်း၌ ငှက်ကလေးများပေါက်လေ့ရှိသည်။ တမြုံလျှင် လေးဥမှ ခြောက်ဥအထိ ရှိတတ်ကြ၍ အိမ်စာဥထက် ငယ်သည်။ သို့သော် ပို၍ ညိုသည့်အပြင်၊ ပို၍လည်း ချောမွတ်ပြောင်လက်သည်။

ပသျှူးစာကို အိမ်စာကဲ့သို့ပင် ပေ ၆,၀၀၀ ခန့် အမြင့်ရှိသော တောင်ကုန်းများ အပါအဝင် မြန်မာနိုင်ငံဒေသအနှံ့အပြား၌ တွေ့ရသည်။ ထို့ပြင် ထိုစာကလေးမျိုးကို အင်္ဂလန်ပြည်နှင့် တရုပ်နိုင်ငံတို့၌လည်း တွေ့ရလေသည်။အထူးသဖြင့် တရုပ်နိုင်ငံတွင် အလွန်ပေါများသည်။

**ပဟေဠိကဗျာ**။ ။စာနယ်ဇင်းများတွင်ဇယားကွက်ဖြည့်ပဟေဠိများကို တွေ့မြင်ဘူးကြမည်ဖြစ်သည်။ ဇယားကွက်ဖြည့် ပဟေဠိ၏ သဘောမှာ စာလုံးများကို အလျားလိုက်ဖြစ်စေ၊ ဒေါင်လိုက်ဖြစ်စေ ပေါင်းစပ်၍ ဖတ်လိုက်သောအခါ အဓိပ္ပါယ်ရှိသောစကားရပ်ဖြစ်စေ၊ လူနာမည်ဖြစ်စေ၊ အရာဝတ္ထုပစ္စည်းတခုခု၏အမည်ဖြစ်စေ ရရှိအောင် စီစဉ်ထားခြင်းဖြစ်သည်။ယင်း စာနယ်ဇင်းများတွင် ထည့်သွင်းဖော်ပြလေ့ရှိကြသော ဇယားကွက်ဖြည့်ပဟေဠိများသည် ပဟေဠိရိုးရိုးဖြစ်ကြသည်။

မြန်မာစာပေလောကတွင် ကဗျာလင်္ကာများကို ပဟေဠိသဘော သက်ရောက်အောင် ဖွဲ့ဆိုခဲ့ကြသည်ကို တွေ့မြင်ရသည်။ ယင်းတို့ကို ပဟေဠိကဗျာဟုခေါ် လေသည်။အောက်ပါ ရှစ်လုံးဘွဲ့ကဗျာတွင် ကဗျာ၏ အရင်းစာလုံးများ၊ သို့မဟုတ် ပထမဆုံးဖြစ်သော စာလုံးများကို ဒေါင်လိုက်ဖတ်ရှုကြည့်လျှင်၊ ဦးသုဇာတဟူသော ရဟန်းဘွဲ့ကို ရရှိမည်ဖြစ်လေသည်။

> 'ဦး နှိမ်ညွတ်ကျူး၊ ရှိဦးပန်ထွာ၊
> သု ခပ္ပားတိုး၊ ဘေးမျိုးကင်းကွာ၊
> ဇာ တိဝတ်ဘေး၊ လွတ်အေးစေရော၊
> တ ရားဆေး၊ တိုက်ကျွေးမွေးမြူပါ။'

ထိုမှတပါး ပဒေသာတေးထပ်များကိုလည်း ပဟေဠိကဗျာများဟု မှတ်ယူနိုင်လေသည်။ ပဒေသာ တေးထပ်၏ သဘောမှာ ပထမအပိုဒ်၏ အစအကွရာနှင့် ဒုတိယအပိုဒ်၏ အစအကွရာတို့ တူရသည်။ တတိယ အပိုဒ်၏ အစအကွရာနှင့် စတုတ္ထအပိုဒ်၏ အစအကွရာတို့ တူရသည်။ ဤနည်းအတိုင်း တေးထပ်တပုဒ်လုံး၏အဆုံးထိ အစအကွရာတို့သည် နှစ်ပိုဒ်စီ တူညီသွားရသည်။ ပဒေသာတေးထပ် ပဟေဠိကဗျာကို ဖတ်ရှုရာတွင် တေးထပ်၏ နောက်ဆုံးအပိုဒ် အဖျား

| | | |
|---|---|---|
| လေးတော်ဝ ရုပ်သွင် | လေး | ဒီပါကျွန်းဌာန |
| ဘုရင် ခေါင်မှူး | ပ | ထက်ပယဉ်ထက်ယဉ် |
| ကိုပင် စုံပေါ်ချစ်ဦး | မယ် | ပြင်ဖြင့် မောင်မမြင်တယ် |
| ကြာခိုင် ရွှေဖူး | မြ | ကြစို ဖူးစာခိုင်ရယ် |
| အထူး ကြံရွယ် | တူ | နှစ်ကိုယ် ရည်စူးလို့ |
| ပန့်ကျက် စွဲကြံစိုက်ရွယ် | ပြိုင် | ဖူးစာ ဂဟေဆက် |
| သက်ဘွယ် သာကိမ္မိ | နှစ် | ရာသက် မပျက်ရှယ်တယ် |
| ခင့်ကေခိုင် | ဘုန်း | ဇာတိ သမ္ဘာလှိုင် |
| ကေခိုင်ရယ် | ညွန့် | ဖူးပေါ်စ |

ချ စကားလုံးဖြစ်သော 'လေး' မှ အစပြုလျက် စုန်၍ဖတ်ကာ၊ ထိုနောက်ဆုံးအပိုဒ်ကို အောက်မှ အထက်သို့ဆန်၍ ဖတ်ရလေသည်။တောင် နန်းမတော်မိဖုရား ရေးသားစီကုံးသည်ဟု ဆိုသော အထက်ပါ ပဒေသာ တေးထပ်ကို ရှုပါ။ ယင်းပဒေသာတေးထပ်ကို ရေးရိုးရေးစဉ်အတိုင်း ရေးလျှင် အောက်ပါအတိုင်း ဖြစ်သည်။

'လေးဒီပါကျွန်းဌာန၊ လေးတော်ဝ ရုပ်သွင်၊ ပထက်ပယဉ် ထက်ယဉ်ပဘုရင် ခေါင်မှူး၊ မယ့်ပြင်ဖြင့် မောင်မမြင်တယ်၊ မယ့်ကိုပင် စုံပေါ်ချစ်ဦး။ မြကြစို ဖူးစာခိုင်ရယ်၊ မြကြာခိုင် ရွှေဖူး။ တူနှစ်ကိုယ် ရည်စူးလို့၊ တူအထူးကြံရွယ်၊ ပြိုင်ဖူးစာ ဂဟေဆက်၊ ပြိုင်ပန့်ကျက် စွဲကြံစိုက်ရွယ်။နှစ်ရာသက် မပျက်ရှယ် တယ်၊ နှစ်သက်ဘွယ် သာကိမ္မိ၊ ဘုန်းဇာတိ သမ္ဘာလှိုင်၊ ဘုန်းခင့်ကေခိုင်။ ညွန့်ဖူးပေါ်စ ညွန့်ကေခိုင်ရယ်၊ ညွန့်ဘုန်းနှစ်ပြိုင် တူမြမယ်ပလေး။'

ထိုနောက် ပုလဲသွယ်တေးထပ် များကိုလည်း ပဟေဠိကဗျာများအဖြစ် မှတ်ယူနိုင်လေသည်။ အောက်ဖော်ပြပါ ပုလဲသွယ်တေးထပ်၌ ခေါင်းစဉ်အစ အက္ခရာတို့ကို ပေါင်း၍ ဖတ်လျှင် 'သထုံမြို့ ပဗ္ဗာရုံစာသင်တိုက်' ဟူသော စကားတရပ်ကို ရမည်ဖြစ်သည်။

'သ တင်းဂုဏ် စုံပြန့်လို့၊ ဘုံမဆုံ တက်ဝေ၊
ထုံ ရနံ့ မက်မပြေအောင်၊ ကျက်သရေ ဆောင်နှင်း၊
မြို့ တကာ့ မြို့တခွင်၊ မြို့ဘုရင် ထူးတဲ့မြို့မင်း။
ပ ဗွေ စက် ပဏ္ဏိတော၊ ဉာဏ်ရှိတော့ ထိန်လင်း၊
ဗ္ဗာ လလူ ပျောက်ကင်းလို့၊ တောက်အဆင်း ရောင်ဝါ၊
ရုံ တရုံ ပါကဋပါပေါ့၊ သာသနာ့ ထွန်းဘို့ဖန်လာ။

စာ သုတ္တန် ဝိနယာဘယ်၊ ဘိဓမ္မာသင်မှု မချွတာမို့၊
သင် ယူစို့ များထွေထွေ၊ ပျားသို့ အုံနေ၊
တိုက်တော်မြတ် ဂုဏ်မဟေယ်၊
ထုံသရေ တင့်ကြောင်းပလေး။

**ပဟိုရ်နာရီ။** ။ရှေးမြန်မာမင်းများ လက်ထက်တွင် စက်နာရီ မပေါ်ပေါက်သေးသဖြင့် ရေနာရီကို အသုံးပြုကြသည်။ ရေနာရီကို အမှီပြု၍ ပဟိုရ်စည်ကိုတီးခတ်သောအားဖြင့်ပဟိုရ်နာရီဟု နားလည်ကြသည်။ရေနာရီအားဖြင့် တရက်လျှင် နာရီ ၆၀ ပိုင်းခြားသတ်မှတ်ထားသည်။ တရက်ဆိုသည်မှာ လွန်ခဲ့သောသန်ကောင်မှသည် လာလတ္တံ့သော အနာဂတ် သန်ကောင်အထိ ဖြစ်သည်။ တရက်ဟုဆိုအပ်သောကာလကို နေ့ကာလ၊ ညဉ့်ကာလဟူ၍ ပိုင်းခြားပြန်သည်။ နေလုံးတခြမ်း ထွက်ပေါ်သည်မှ နေလုံးတခြမ်းဝင်သည့် အချိန်တိုင်အောင်သော ကာလကို နေ့ကာလ၊ နေလုံးတခြမ်းဝင်သည်မှ နေလုံးတခြမ်းပေါ် ထွက်သည်တိုင်အောင်သော ကာလကို ညဉ့်ကာလ ဟု ခေါ်သည်။ နာရီအားဖြင့် ဆိုသော် နေ့နာရီ ၃၀ ညဉ့်နာရီ ၃၀ စီရှိသည်။ သို့သော် နေထွက်နေဝင်နှင့် နေ့တာညဉ့်တာ အတိုအရှည်ကိုလိုက်၍၊ တလနှင့်တလ နေ့နှင့်ညဉ့် နာရီချင်း အစဉ်သဖြင့် မတူကြပေ။ တန်ခူးလနှင့် သီတင်းကျွတ်လတို့၌သာလျှင် နေ့နှင့်ညဉ့်နာရီချင်း တူမျှကြ၍၊ ဝါဆိုလတွင် နေ့တာအရှည်ဆုံးဖြစ်ကာ၊ ပြာသိုလတွင် ညဉ့်တာအရှည်ဆုံးဖြစ်သည်။ ထိုကြောင့် 'နေ့လိုဝါဆို၊ ညဉ့်လိုပြာသို' ဟု ဆိုစမှတ်ပြုကြလေသည်။

တဆယ့်နှစ်လတွင် တလနှင့်တလ၊ နေ့နာရီနှင့် ညဥ့်နာရီ ယေဘုယျအားဖြင့်မတူ၊ ခြားနားကြကြောင်းကို လွယ်လင့်တကူသိရှိနိုင်ရန် ကဝိလက္ခဏာ သတ်ပုံကျမ်းတွင် အောက်ပါအတိုင်း လင်္ကာရေးစပ်ခဲ့သည်။

'ပတ်သာတံရှည်၊ တီးသံမြည်၊ လက်ဆည်ကန်စာရေး။
တဆယ်လောင်းမည်၊ ထမ်းပိုးရည်၊ ယင်းသည် နာရီမေး။
ဆဲ့နှစ်လလည်၊ နေ့ဘို့ရည်၊ ညဥ့်သည်အကြွင်းဆေး။'

ရှင်းလင်းပြရသော် ပုံစံအားဖြင့်၊ တန်ခူးလ၏ နေ့ညဥ့်နာရီကို သိလိုလျှင်၊ 'ပတ်' ဟူသော ကြာသပတေးနံ ငါးတွင် တဆယ်ပေါင်းကာ၊ နှစ်နှင့်မြှောက်၍ ရသည့်ရလဒ် ၃၀ သည် နေ့နာရီ ဖြစ်သည်။ တရက်တာနာရီ ၆၀ မှ ၃၀ ကို နုတ်၍ ရသော အကြွင်းသည် ညဥ့်နာရီဖြစ်သည်။ ကျန်လများအတွက် ထိုနည်းတူ တွက်ချက်ယူရသည်။ (ဇယား — ရှု။)

နေ့နှင့်ညဥ့် ပိုင်းခြားပြီးနောက်၊ နေလုံးတခြမ်းထွက်ပေါ်သည်မှ မွန်းတည့်ချိန်အထိ၊နေမွန်းတည့်မှ နေလုံးတခြမ်းဝင်သည်အထိဟူ၍ နေ့ကာလကို နှစ်ပိုင်း ပိုင်းခြားပြန်သည်။ ညဥ့်ပိုင်း၌လည်း နေလုံးတခြမ်းဝင်သည်မှ သန်ကောင်အထိ၊ သန်ကောင်မှ နေလုံးတခြမ်း ထွက်ပေါ်သည်အထိဟူ၍ ညဥ့်ကာလကိုပင် နှစ်ပိုင်း ပိုင်းခြားသည်။ ဆိုခဲ့သော နေ့ကာလ နှစ်ပိုင်းကို ထပ်မံ၍ ထက်ဝက်ဝက်သော် လေးပိုင်းရသည်။ ထိုတပိုင်းသည် တပဟိုရ်မည်သည်။ ညဥ့်ပိုင်းကာလအတွက်လည်း ထိုနည်းတူဖြစ်သည်။ ယင်းသို့ဖြင့် နေ့ လေးပဟိုရ်၊ ညဥ့် လေးပဟိုရ်၊ တရက်တွင် ရှစ်ပဟိုရ်ရှိသည်။ ယင်းသည့် နေ့နှင့်ညဥ့် ပဟိုရ်များကိုလည်း တပဟိုရ်တချက်တီးပြု၍၊ နေထွက် လေးချက်တီး၊ နေ့ တချက်တီး၊ နေမွန်းတည့် နှစ်ချက်တီး၊ နေ့သုံးချက်တီး နေဝင်လေးချက်တီး၊ ညဥ့် တချက်တီး၊ ညဥ့် သန်ကောင် နှစ်ချက်တီး၊ ညဥ့် သုံးချက်တီးဟူ၍ ခွဲခြားမှတ်သားရလေသည်။

ပဟိုရ်စည်ကို ရေနာရီကို အမှီပြု၍ တီးရသည်။ ရေနာရီအားဖြင့် တရက်လျှင် နာရီ ၆၀ သတ်မှတ်ပိုင်းခြားထားသည်ဟု ဖော်ပြခဲ့သည့်အတိုင်း၊ ရေနာရီ ထားရှိပုံမှာ ဤသို့ဖြစ်သည်။

မန္တလေးခေတ် အတွင်းက ရွှေနန်းတော်ကြီး အတွင်း ဗြဲတိုက်တော် မြောက်ဖက်တွင် နာရီတော်ရုံရှိသည်။ ယင်းသည် တံခါးနီတော်အတွင်းကျသည့်အပြင်၊ မြောက်မာရဘင်တံခါးအတွင်း ဘွားဘက်ကျော်တန်းအနီးတွင် ရှိသည်။ ဗေဒင်တတ် မြန်မာပညာရှိ သို့မဟုတ် ပုဏ္ဏားပညာရှိတို့ကို နာရီတော်မှူးအဖြစ် ခန့်ထားလေ့ ရှိသည်။ နာရီတော်မှူးအောက်တွင် နာရီစောင့်သူနှင့် မောင်းတီးသူ နှစ်ယောက်စီ အလှည့်ကျ ထားရှိသည်။

ယင်းတို့ နှစ်ဦးသည် စံနစ်တကျ တိုင်းထွာပြုလုပ်ထားသော ရေဖလားကို အလှည့်ကျ စောင့်ကြည့်နေရသည်။ ထိုဖလားသည် ကြေးနီအချိန် တဆယ့်ခြောက်ကျပ်သားကို အစောက် ခုနစ်လက်သစ်၊ မျက်နှာဝ ကိုးလက်သစ် ရှိအောင် ခတ်လုပ်ထားသည့် ဖလားဖြစ်၍၊ ယင်း၏ အောက်အလယ် ဗဟို၌ ဆယ်နှစ်ရွှေး မိန်းမငယ်၏ ဆံပင် ၁၆ ပင် ဝင်ရုံမျှ အပေါက်ဖောက်ထားသည်။ ယင်းသည့်ဖလားကို ကြည်လင်သန့်ရှင်းသော ရေအပြည့်ထည့်ထားသည့် တင်းဝင်ရတနာ

| လများ | | နေ့ နာရီ | ညဥ့် နာရီ | နေ့ ပဟိုရ် ချင်းချင်း ကွာခြားသော နာရီပါဒ် | | ညဥ့် ပဟိုရ် ချင်းချင်း ကွာခြားသော နာရီပါဒ် | |
|---|---|---|---|---|---|---|---|
| | | | | နာရီ | ပါဒ် | နာရီ | ပါဒ် |
| တန်ခူး | (ပတ်) ၅ + ၁၀ = ၁၅ × ၂ | ၃၀ | ၃၀ | ၇ | ၂ | ၇ | ၂ |
| ကဆုန် | (သာ) ၆ + ၁၀ = ၁၆ × ၂ | ၃၂ | ၂၈ | ၈ | — | ၇ | — |
| နယုံ | ( တံ ) ၇ + ၁၀ = ၁၇ × ၂ | ၃၄ | ၂၆ | ၈ | ၂ | ၆ | ၂ |
| ဝါဆို | (ရှည်) ၈ + ၁၀ = ၁၈ × ၂ | ၃၆ | ၂၄ | ၉ | — | ၆ | — |
| ဝါခေါင် | (တီး ) ၇ + ၁၀ = ၁၇ × ၂ | ၃၄ | ၂၆ | ၈ | ၂ | ၆ | ၂ |
| တော်သလင်း | ( သံ ) ၆ + ၁၀ = ၁၆ × ၂ | ၃၂ | ၂၈ | ၈ | — | ၇ | — |
| သီတင်းကျွတ် | (မြည်) ၅ + ၁၀ = ၁၅ × ၂ | ၃၀ | ၃၀ | ၇ | ၂ | ၇ | ၂ |
| တန်ဆောင်မုန်း | (လက်) ၄ + ၁၀ = ၁၄ × ၂ | ၂၈ | ၃၂ | ၇ | — | ၈ | — |
| နတ်တော် | (ဆည်) ၃ + ၁၀ = ၁၃ × ၂ | ၂၆ | ၃၄ | ၆ | ၂ | ၈ | ၂ |
| ပြာသို | (ကန် ) ၂ + ၁၀ = ၁၂ × ၂ | ၂၄ | ၃၆ | ၆ | — | ၉ | — |
| တပို့တွဲ | ( စာ ) ၃ + ၁၀ = ၁၃ × ၂ | ၂၆ | ၃၄ | ၆ | ၂ | ၈ | ၂ |
| တပေါင်း | (ရေး ) ၄ + ၁၀ = ၁၄ × ၂ | ၂၈ | ၃၂ | ၇ | — | ၈ | — |

အင်တုံတွင် ချထားရသည်။ ဖလားအတွင်းသို့ တစိမ့်စိမ့် ရေဝင်၍ ဖလားတခါနစ်လျှင် တကြိမ် ငွေမောင်းတီး၍၊ တနာရီဟု အမှတ်ပြုရသည်။ ထိုနောက် သိတံခုံနှင့် ထားရှိသော ပေသီးကို လက်ဝဲဖက်မှ လက်ယာဖက်သို့ တလုံးရွှေ၍ မှတ်ရသည်။

ပဟိုရ်စည်တီးပုံမှာ ဤသို့ဖြစ်သည်။ တန်ခူးလတွင် နေ့နာရီ၊ ညဥ့်နာရီ တူညီစွာ ရှိသည်။ ထို့ကြောင့် နေ့လေးပဟိုရ် အချင်းချင်းသည်ဂုဏ်း၊ ညဥ့်လေးပဟိုရ် အချင်းချင်းသည် ဂုဏ်း နာရီကွာခြားပုံ တူညီသည်။ (ဇယားကိုကြည့်ပါ)။ ယင်း လတွင် ဇယားအရ ပဟိုရ် အချင်းချင်းကွာခြားသော နာရီမှာ ခုနစ်နာရီနှင့်နှစ်ပါဒ် ဖြစ်သည်။ သို့ဖြစ်၍ ရေနာရီ အရ ဖလားငယ်ခုနစ်ကြိမ် နစ်မြုပ်ပြီး၍၊ နောက်တကြိမ် ထက်ဝက် အမှတ်ထိအောင် ရေဝင်သည့်အခါ၊ ခုနစ်နာရီ နှစ်ပါဒ် ရှိပြီ ဖြစ်သောကြောင့်၊ ပဟိုရ်စည် တီးခတ်သည်။ ထိုနည်းတူစွာ ကျန် လများတွင်လည်း ဇယားပါ ကွာခြားသော နာရီအလိုက် နေ့ညဥ့် ပဟိုရ်များ တီးခတ်ရလေသည်။

ပဟိုရ်တီးရန် အချိန်ကျရောက်လျှင်၊ နာရီတော်ရုံမှ တာဝန် အလှည့်ကျသူတယောက်က ပဟိုရ်ရုံသို့ ပြေးသွား၍ အချိန်တော်ကြားရသည်။ မန္တလေး ရွှေနန်းတော်မှ ပဟိုရ်စင်သည် စွယ်တော်စဝ်နှင့် ရွှေးတော်ယူ တံခါးလမ်းမ ခြားလျက်၊ မြောက်ဖက်ကွက်လပ်တွင် ဆောက်လုပ်ထားသည်။ ထုထယ်ကောင်းလှသော လေးထောင့် အုတ်ခုံအမြင့်ခံပြီးလျှင်၊ တိုင်ဖြူ လေးလုံးထူ၍၊ ထိုအပေါ်မှ လေးတိုင်စင်နှင့် လည်ပေါ်ပြာသာဒ်ဆောင်ငယ်တင်ထားသည်။ယင်းအပေါ်ဆောင်တွင် ပဟိုရ်စည်ကြီးနှင့် ခေါင်းလောင်း ဆွဲထားပြီးသော်၊ နာရီတော်မှူးက ပဟိုရ်ချိန်ကျ၍၊ အချိန်တော်ကြားလာသည့်အတိုင်း အချိန်နာရီတော်ကြား တီးရသည်။

ပဟိုရ်ချိန် ကျရောက်ကြောင်းအကြောင်းကြားလာလျှင် ပုဆိုးဒူးဖုံး ခါးတောင်းကျိုက်၊ ခေါင်းပေါင်းဖြူ ဖော့လုံးပေါင်း၊ အင်္ကျီရှည်ကြီးများ ဝတ်ဆင်ထားသော ပဟိုရ်တီးသွေးသောက်ကြီးတို့သည် ပဟိုရ်စင်ပေါ်မှ ရွှေနန်းတော်ကြီးကို ဦးသုံးကြိမ်ချ၍၊နံနက်တချက်တီးချိန်ဖြစ်အံ့၊ပဌမ ခေါင်းလောင်း တချက်(နောင်)၊နောက်စည်တော်တချက်(ဒိုင်း)၊ ယင်းသို့အစဉ်အတိုင်း တဆယ့်တချက်စီ ပြည့်အောင် တီးရသည်။ထိုအတူ မွန်းတည့်နှစ်ချက်တီးအချိန်တွင် နှစ်ဆယ့်နှစ်ချက်စီ၊ သုံးချက်တီး အချိန်တွင် သုံးဆယ့်သုံးချက်စီ၊ လေးချက်တီးအချိန်တွင် လေးဆယ့်လေးချက်စီ အသီးအသီး တီးသွားရသည်။ နောက်ဆုံး အစွန်တချက်ကို ခပ်ကွာကွာ ထား၍လေးလေးတီးရသည်။ ညဥ့်ပဟိုရ်များလည်း ထိုနည်း အတူပင် တီးရလေသည်။

ပဟိုရ်ချိန်ကျကြောင်းကို နာရီတော်ရုံမှ အလှည့်ကျသူက ပြေးသွား၍ အခါဖော်ကြားရသဖြင့်၊ နေကို အစွဲပြုသော



မန္တလေးမြို့ရှိ ပဟိုရ်စင်

သင်္ကြံတိုင် အချိန်မှတ်နည်းနှင့် ပဟိုရ်တီးချိန်သည် မကိုက်ညီပေ။ ပဟိုရ်က နောက်ကျလေ့ရှိသည်။ နောက်ကျရသော အကြောင်းမှာ နာရီတော်ရုံနှင့် ပဟိုရ်ရုံတို့သည် တံခါးနှစ်တန် (တံခါးနီနှင့်မာရဘင်)ဆီးနေသောကြောင့် ဖြစ်သည်။ အထူးသဖြင့် ညဥ့်အခါတွင် တံခါးကို ဖွင့်နေရသောကြောင့် ပို၍ ကြန့်ကြာသည်။ ထိုပြင် ပဟိုရ်တီးရန် သွေးသောက်ကြီးများသည် စင်ပေါ်သို့ တက်နေရခြင်း၊ ပဟိုရ်မတီးမီ ရွှေနန်းတော်ကို ဦးချနေရခြင်းတို့ကြောင့်လည်း နောက်ကျရလေသည်။

နာရီတော်ရုံနှင့် ပဟိုရ်ရုံကို နီးနီးနားနား မထားသည့် အကြောင်းရင်းမှာ၊ နာရီမောင်းကိုသာ နန်းတွင်း အလှည့်ကျ အစောင့်အနေထားသော ယောကျ်ား မိန်းမများက မှတ်သားလိုက်နာကြရသောကြောင့် ဖြစ်သည်။ ပဟိုရ်မှာ လွှတ်ရုံးတက်ချိန် ဆင်းချိန်၊ မြို့တံခါး၊ နန်းတံခါး ဖွင့်ချိန်၊ ပိတ်ချိန်လောက်သာ လိုက်နာရသည်။ မြို့လေးမျက်နှာ ဓာတ်တံခါးကြီးလေးရပ်တွင်လည်း ဓာတ်စည်ကြီး တလုံးစီ ထားသည်။ နံနက်လေးချက်တီး ညဥ့်လေးချက်တီးသည့် အခါများတွင် ပဟိုရ်စည်တီးသကဲ့သို့ ယင်းသည့် ဓာတ်စည်ကြီးများကိုလည်း တီးရသည်။ နံနက်လေးချက်တီးလျှင် တံ

ခါး မကြီးများ ဖွင့်ရသည်။ ညဉ့်လေးချက်တီးလျှင် တံခါး မကြီးများ ပိတ်ရလေသည်။

ပဟိုရ်နာရီနှင့် စက်နာရီကို အကြမ်းအားဖြင့် နှိုင်းရှဉ့်လျှင်၊ စက်နာရီ နံနက် ၉ နာရီနှင့် နေ့ပဟိုရ်တချက်တီး၊ စက်နာရီ ၁၂ နာရီနှင့် နေ့ပဟိုရ်နှစ်ချက်တီး၊ စက်နာရီ ညနေ ၃ နာရီနှင့် နေ့ပဟိုရ်သုံးချက်တီး၊ စက်နာရီ ညနေ ၆ နာရီနှင့် ပဟိုရ် ညဉ့်လေးချက်တီး အသီးအသီး ညီမျှဖွယ် ရှိသည်။ ညဉ့်ပိုင်းတွင်လည်း ထိုအတူပင်ဖြစ်လေသည်။

**ပအိုးလူမျိုး။** ။ပအိုးလူမျိုးတို့သည် ကရင် အနွယ်ဖြစ်သော လူမျိုးတမျိုး ဖြစ်သည်။ တောင်ပေါ်ကရင်၊ ကွင်းကရင်နှစ်မျိုးလုံး၌ထက်ဝက်ခန့်စီ ပါဝင်သည်။ သို့သော် မူလက တောင်ပေါ်၌ အနေများသော လူမျိုးများဖြစ်၍လည်း တောင်သူဟူ၍ ခေါ်ဝေါ်ဟန်ရှိသည်။ ကရင်လူမျိုးတို့သည် အမျိုးအလိုက် မိမိတို့ကိုယ်ကို ခေါ်ဝေါ်သော အမည်များ ရှိကြသည်။ ပုံစံအားဖြင့် ကရင်နီတို့သည် မိမိတို့ကိုယ်ကို ကယားဟု ခေါ်ကြသည်။ ပအိုးဟူသော အမည်သည်လည်း အမျိုးအလိုက် ခေါ်ဝေါ်သော အမည်ပင် ဖြစ်သည်။

ပအိုးတို့သည် ကရင်မျိုးတို့တွင် လူဦးရေအားဖြင့်တတိယ အများဆုံး ဖြစ်သည်။ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ မြန်မာနိုင်ငံအတွင်းရှိ ပအိုး လူဦးရေသည် ၂၂၅,၇၂၂ ယောက်ဟု သိရသည်။ ယင်းတို့သည် မြန်မာနိုင်ငံအရှေ့ဖက် နယ်စပ်ဒေသ၊တောင်ပိုင်းရှမ်းပြည်အလယ်ပိုင်းနှင့်အနောက်ဖက် နယ်စပ်ဒေသတို့တွင် အန္တအပြား တွေ့ရှိရသည်။ ပအိုးတို့၏ အချက်အချာဒေသနှစ်ခုမှာ သံလွင်မြစ် အောက်ပိုင်း ပတ်ဝန်းကျင်ဒေသများနှင့် တောင်ပိုင်းရှမ်းပြည်ရှိ သထုံနယ်တို့ ဖြစ်သည်။ မြန်မာနိုင်ငံအောက်ပိုင်းရှိ ကျိုက္ခမိ ခရိုင်နှင့် သထုံခရိုင် (ပအိုးလူဦးရေ ၅၃,၁၅၉) တို့တွင် ပအိုးလူမျိုးအများဆုံး နေထိုင်ကြသည်။ တောင်ငူခရိုင်၊ ပဲခူးခရိုင်၊ ဖားအံခရိုင် (ပအိုးရွာ ၂၁ ရွာရှိသည်။) ကယားပြည်နယ် (ပအိုးလူဦးရေ ၂,၃၀၀) နှင့် ကော့ကရိတ် မြို့နယ်တို့တွင်လည်း ပအိုးလူမျိုးများ အန္တအပြား နေထိုင်ကြသည်။ မြန်မာနိုင်ငံမှ အပတွင် ယိုးဒယား၊ ကမ္ဘောဇနိုင်ငံများနှင့် မဲခေါင်မြစ်အောက်ပိုင်းဒေသတို့တွင်လည်း ပအိုးများအထင်အရှားရှိလေသည်။



ပအိုး(တောင်သူ) လူမျိုးမိသားစု

မြန်မာနိုင်ငံတောင်ပိုင်း သထုံခရိုင်သည် ပအိုးတို့၏ မူလဇာတိဒေသ ဖြစ်သည်။ ဒဏ္ဍာရီပုံပြင်များအရ ပုဂံပြည်သို့ အနော်ရထာမင်း သုံ့ပန်းအဖြစ် ဖမ်းယူသွားသော သထုံပြည့်ရှင် မနူဟာမင်းသည် ပအိုးလူမျိုးဟု ဆိုသည်။ ပုဂံသို့ မနူဟာမင်းပါသွားပြီးနောက်တွင် နိုင်ငံပြိုကွဲ၍ အချို့ပအိုးတို့သည် မြောက်ဖက်သို့ ရောက်သွားပြီးလျှင် ရှမ်းပြည်တောင်ပိုင်းတွင် သထုံနယ်သစ်ကို တည်ထောင်ကြသည်ဟု ဆိုသည်။ သထုံပြည်မှ ပြေးလာသော အချို့ပအိုးတို့သည် မြေလတ်တွင်လည်း အခြေစိုက်ကြသည်။ ပုဂံကျောက်စာတို့တွင် တောင်သူဟူ၍ ဖော်ပြပါရှိရကား၊ ပုဂံခေတ်ကပင် ပအိုးနှင့် မြန်မာတို့ အဆက်အသွယ်ရှိသည်ဟု ယူဆရပေသည်။

မေဂျာအင်းရစ်က ရှမ်းပြည်သထုံနယ်တွင် ပအိုးတို့သည် နန်းခေ၊ တတုတ်၊ ကွန်လောင်၊ တန်စန်နှင့် ခိုင်ဟူ၍ လူမျိုးစုငါးစုကွဲသည်ဟု ဆိုသည်။ တခါတရံ ရှမ်းပြည်မှ ပအိုးတို့ကို ရှမ်းတောင်သူဟူ၍လည်း ခေါ်ကြသည်။ ရှမ်းပအိုးတို့သည် မိမိတို့ကိုယ်ကို သထုံပန်းရင်ဟုလည်း ခေါ်ကြသည်။ ရှမ်းပြည်သထုံနယ်ကို အုပ်ချုပ်သူမြို့စားသည် ပအိုးလူမျိုးဖြစ်လေသည်။

ပအိုးတို့သည် ကိုယ်လက်ကြံ့ခိုင်တောင့်တင်းသည်။ သတ္တိလည်း ကောင်းကြသည်။ ဖော်ရွေ၍ ဆက်ဆံပေါင်းသင်းရန် ကောင်းသော လူမျိုးများ ဖြစ်သည်။ အခြားကရင်မျိုးတို့ကဲ့သို့ အရက်အကြောက်ကြီးလွန်းခြင်း၊ ဣန္ဒြေကြီးလွန်းခြင်း မရှိပေ။ ရှမ်းပြည်တွင် လယ်ယာ လုပ်ကိုင် စားသောက်ကြသည်။ ပင်ပန်းဆင်းရဲခံနိုင်သော လူမျိုးဖြစ်သည်။ လွတ်လပ်စွာ နေထိုင် လုပ်ကိုင် စားသောက်လိုသောစိတ် ရှိကြသည်။ မိမိတို့ဖာသာ စီမံ အုပ်ချုပ်နိုင်သော အစွမ်းလည်း ရှိကြသူများဖြစ်သည်။

ပအိုးတို့သည် ကရင်ဘာသာစကားနှင့် နီးစပ်သော ဘာသာစကားကို ပြောဆိုကြသည်။ ကိုယ်ပိုင် စာပေရှိသော်လည်း အလွန်ရှားပါးလှ၍ ပအိုးစာပေကို ဖတ်တတ်သူလည်း နည်းပါးလှသည်။ ပအိုးတို့သည် ဗုဒ္ဓအယူဝါဒကို သက်ဝင်ယုံကြည်ကြသူများဖြစ်ကြ၍ ကျောင်းကန်ဘုရားများ တည်ဆောက်ကြသည်။သို့သော် နတ်ကိုးကွယ်မှုကိုလည်း အများအပြား ပူကြသည်။ရွာနတ်၊ အိမ်စောင့် နတ်များကို မပျက်မကွက် ပူဇော်ပသမှုကို ပြုကြလေသည်။

ရှမ်းပြည်မှ ပအိုး အမျိုးသားတို့သည် ရှမ်းအမျိုးသားများ ကဲ့သို့ ရှမ်းဘောင်းဘီပွ၊ ရှမ်းအပေါ် ဖုံးအင်္ကျီတို့ကို ဝတ်ဆင်ကြသည်။ အမျိုးသမီးတို့သည်မူ ကရင်သင်တိုင်း ကဲ့သို့ သင်တိုင်းအမဲရောင်တွင် အနီရောင်အနားသတ်ထားသည်ကို ဝတ်ဆင်ဖုံးလွှမ်း၍ ထမီတိုတို ဝတ်ဆင်ကြသည်။ ခေါင်းတွင် ပန်းပွားပါသော တံပက်မဲကို ပေါင်းကြ၍ တံပက်မရွေ့ရှားရအောင် ငွေဆံညှပ်၊ ငွေကြိုးတို့ဖြင့် ထိန်းတွယ်စည်းနှောင်ထားသည်။ ဆံပင်နောက်တွဲ ထုံးကြသည်။ ငွေနားသံသီး၊ငွေလက်ကောက် ခေါင်းပွမျာကိုးလည်း ဝတ်ဆင်ကြသည်။ အောက်မြန်မာနိုင်ငံက ပအိုးတို့သည်မူ မြန်မာတို့ကဲ့သို့ပင် ဝတ်ဆင်ကြလေသည်။

ပအိုးတို့၏ သာရေးနာရေး ထုံးတမ်းစဉ်လာဆောင်ရွက်မှုတို့သည် မြန်မာထုံးတမ်းစဉ်လာတို့နှင့် ဆင်ဆင်တူသည်။ ပုံစံအားဖြင့် အပျိုအားလူပျိုလှည့်ပုံ၊ လင်မယား ကွာရှင်းပုံ၊ လူသေလျှင် ကူးတို့ခထည့်ပုံ စသည်တို့မှာ ဆင်တူရိုးမှားဖြစ်ကြလေသည်။

# ပြည်နယ်ချင်းမိုင်ကိုးရာ ခြားလျက်ရှိသောနိုင်ငံ

**ပါကစ္စတန်နိုင်ငံသည် အခြား လွတ်လပ်သော နိုင်ငံများနှင့်မတူ၊ အသွင်တမူ ထူးခြားကာ အရှေ့နှင့် အနောက် ပါကစ္စတန်ဟူ၍ ပြည်နယ်ချင်း မိုင်ကိုးရာ ခြားလျက် တည်ရှိသည့် အိမ်နီးချင်းနိုင်ငံဖြစ်သည်။ ထိုကဲ့သို့ အဘယ်ကြောင့် ဖြစ်ရပါသနည်း။ ထိုနှစ်ခြမ်းကွဲ နိုင်ငံကြားတွင် မည်သည့်နိုင်ငံ တည်ရှိပါသနည်း။ ဤအကြောင်းရပ်တွင် အကြောင်းစုံ ဖတ်ရှုရပေအံ့။**

**ပါကစ္စတန်နိုင်ငံ။** ။၁၉၄၇ ခုနှစ် အိန္ဒိယလွတ်လပ်ရေး အက်ဥပဒေအရ၊ အိန္ဒိယပြည်မကြီးကို ကိုးကွယ်ရာ အယူဝါဒကိုလိုက်၍ နှစ်ခုခွဲလိုက်ရာ၊ ၁၉၄၇ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့တွင် ဒိုမီနီယန် အဆင့်အတန်းရှိသော ပါကစ္စတန်နိုင်ငံသည် ထွန်းပေါ် လာလေသည်။ ထိုနောက် ၁၉၅၆ ခုနှစ် ဖေဖွာရီလ ၂၉ ရက်နေ့တွင် ပါကစ္စတန်နိုင်ငံတော် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေသည် အတည်ဖြစ်လာ၍၊ ထိုနှစ်မတ်လ ၂၃ ရက်နေ့တွင် ပါကစ္စတန်နိုင်ငံသည် အစ္စလမ်အယူဝါဒကို အခြေခံပြုသော ပါကစ္စတန်သမတ နိုင်ငံဖြစ်ကြောင်း ကျေညာလေသည်။ သို့သော် ထိုနိုင်ငံသည် ဗြိတိသျှမေနသဟာယအဖွဲ့တွင် ပါဝင်၍၊ ဗြိတိသျှဘုရင်မကို လွတ်လပ်သောနိုင်ငံများ ပေါင်းစပ်ဖွဲ့စည်းခြင်း၏ အထိမ်းအမှတ် အဖြစ်ဖြင့် အသိအမှတ်ပြုလေသည်။

ပါကစ္စတန်နိုင်ငံသည် အစ္စလမ်အယူဝါဒကို ယူကြသော နိုင်ငံတို့တွင် လူဦးရေအများဆုံး နိုင်ငံဖြစ်သည်။ ထိုနိုင်ငံ၏ ထူးခြားချက် တရပ်မှာ နိုင်ငံ၏ နယ်နိမိတ်သည် တစပ်တည်း မဟုတ်ဘဲ၊ အရှေ့ဖက်တွင် အရှေ့ပါကစ္စတန်နှင့် အနောက်ဖက်တွင် အနောက်ပါကစ္စတန်ဟု တခုနှင့် တခု မိုင်ပေါင်း ၉၀၀ မျှ ကွာဝေး၍ တည်နေခြင်းဖြစ်သည်။ ဤသို့ဖြစ်ရခြင်းမှာ မွတ်စလင် အများဆုံးရှိသော ဒေသကိုရွေးချယ်၍ ပါကစ္စတန်နယ်အဖြစ် သတ်မှတ်ခြင်းကြောင့် ဖြစ်လေသည်။ ပါကစ္စတန်နိုင်ငံ နှစ်ပိုင်းတို့၏ စပ်ကြား၌ အိန္ဒိယသမတနိုင်ငံတွင် ပါဝင်သော ပြည်နယ်များရှိသည်။ အနောက် ပါကစ္စတန်တွင် ဗလူချီစတန်၊ သိန္ဓုနယ်၊ ပန်ဂျပ်အနောက်ပိုင်းနှင့် အနောက်မြောက် နယ်ခြားဒေသတို့အပြင်၊ ပါကစ္စတန်နိုင်ငံထဲသို့ ဝင်လာသော ပဒေသရာဇ် ပြည်နယ်တို့ ပါဝင်ကြသည်။ အရှေ့ပါကစ္စတန်တွင်မူ ဗင်္ဂလားအရှေ့ပိုင်းနှင့် ယခင်က အာသံပြည်နယ်၏ ခရိုင်တခု ဖြစ်ခဲ့ဘူးသော စီလဟက်နယ်တို့ ပါဝင်ကြသည်။

ပါကစ္စတန်နိုင်ငံတခုလုံး၏ အကျယ်အဝန်းသည် ၃၆၄,၇၃၇ စတုရန်းမိုင်ဖြစ်သည်။ အနောက်ပါကစ္စတန်၏အကျယ်အဝန်းမှာ ၃၁၀,၂၃၆ စတုရန်းမိုင် ဖြစ်၍၊ အရှေ့ပါကစ္စတန်၏ အကျယ်အဝန်းမှာ ၅၄,၅၀၁ စတုရန်းမိုင် ဖြစ်သည်။ ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ၊ အနောက်ပါကစ္စတန်၌ လူဦးရေ ၃၃,၇၇၉,၅၂၅ ယောက်ရှိ၍၊ အရှေ့ပါကစ္စတန်၌မူ ၄၂,၀၆၂,၆၁၀ ယောက်ရှိသည်။ ပါကစ္စတန် တနိုင်ငံလုံး၏ လူဦးရေမှာ ၇၅,၈၄၂,၁၃၅ ယောက်ဖြစ်သည်။ ၁၉၅၇ ခုနှစ် လူဦးရေ ခန့်မှန်းခြေမှာကား ၈၁ သန်းဖြစ်သည်။ လူဦးရေအားလုံး၏ ၈၅.၉ ရာခိုင်နှုန်းသည် မွတ်စလင်များ ဖြစ်ကြသည်။

အနောက်ပါကစ္စတန်နှင့် အရှေ့ပါကစ္စတန်တို့၏ သွင်ပြင်နေထား၊ ရာသီဥတု အခြေအနေတို့သည် များစွာခြားနားကြသည်။အနောက်ပါကစ္စတန်တွင် နိမ့်တင်မြေကြွယ်ဝသော လွင်ပြင်များနှင့် တောင် ထူထပ်သော ကုန်းပြင်မြင့်များရှိသည်။ ရာသီဥတုမှာမူ ပူပြင်းခြောက်သွေ့သည်။ အရှေ့ပါကစ္စတန်၌ စိုစွတ်ထိုင်းမှိုင်းသော ရာသီဥတုရှိ၍၊ လူဦးရေထူထပ်ပေါများသည်။ ထိုသို့ ကွဲပြား ခြားနားခြင်းကြောင့် ဤနယ်နှစ်နယ်၏ အကြောင်းကို တခြားစီ ဖော်ပြရပေမည်။

အနောက်ပါကစ္စတန်သည် အနောက်ဖက်နှင့် အနောက်မြောက်ဖက်တို့တွင် အာဖဂနိစတန်နိုင်ငံနှင့်၎င်း၊ အီရန်နိုင်ငံနှင့်၎င်း ဆက်စပ်နေသည်။ အရှေ့ဖက်တွင် အိန္ဒိယနိုင်ငံရှိ၍၊ မြောက်ဖက်တွင် ကသ္မီရနယ်နှင့် ဂျမ္မူးနယ်တို့ ရှိကြသည်။




ပါကစ္စတန်နိုင်ငံ တည်နေရာပြမြေပုံ

တောင်ဖက်နှင့် အနောက်ဖက်တွင် အာရေဗျပင်လယ်ရှိသည်။ မြောက်ပိုင်းနှင့် အနောက်ပိုင်းဒေသတို့တွင် ဟိန္ဒူကုရှနှင့် ဆူလေမန်တောင်တန်းများရှိရာ၊ အချို့နေရာတွင် ပေ ၁၄,၀၀၀ အထိမြင့်သည်။ ထိုတောင်တန်း၏ အရှေ့ဖက်မနီးမဝေးတွင် ဆားတောင်တန်းရှိသည်။ထိုမှအရှေ့ဖက်တွင် ကား၊ ကျယ်ပြန့်သော လွင်ပြင်ဒေသကြီးသည် အာရေဗျပင်လယ်ကမ်းခြေအထိ တည်ရှိနေလေသည်။

အနောက်ပါကစ္စတန်တွင် မြစ်ကြီးငါးစင်းရှိသည်။ ယင်းမြစ်ကြီးငါးစင်းမှာ အိန္ဒုမြစ်၊ ဂျေလမ်မြစ်၊ ချီနပ်မြစ်၊ ရာဗီမြစ်နှင့် ဆပ်တလက်မြစ်တို့ဖြစ်၍၊ ထိုမြစ်အားလုံးသည် ဟိမဝန္တာတောင်တွင် မြစ်ဖျားခံကြသည်။ ထိုမြစ်တို့အပြင် ကြီးကျယ်သောဆည်မြောင်းများလည်း ရှိသဖြင့်၊ လယ်ယာစိုက်ပျိုးရေးလုပ်ငန်းသည် များစွာ ဖွံ့ဖြိုးသည်။ ဂျုံကိုအများဆုံး စိုက်ပျိုးလုပ်ကိုင်ကြသည်။ အခြားအသီးအနှံများမှာ ဆန်စပါး၊ ပြောင်း၊ မုယောနှင့် နံ့စားပြောင်းတို့ ဖြစ်သည်။ ပါကစ္စတန်မှ နှစ်စဉ်ထွက်သော ဝါဂွမ်း အလေးချိန်သည် အိန္ဒိယနိုင်ငံထွက် အလေးချိန်၏ ၃ ပုံ ၁ ပုံခန့်သာ ရှိသော်လည်း၊ ပါကစ္စတန် ဝါဂွမ်းသည် အိန္ဒိယပြည်ထွက် ဝါဂွမ်းထက် ပို၍အမျိုးကောင်းသည်။ ဆီထွက်သော သီးနှံစေ့များကို နိုင်ငံခြားသို့ တင်ပို့ရောင်းချနိုင်သည်။သိုး ဆိတ် ကျွဲ နွားမွေးမြူရေးသည်လည်း အနောက် ပါကစ္စတန်၏ လုပ်ငန်းတရပ် ဖြစ်သည်။ ရေနံ၊ ကျောက်မီးသွေး၊ ခရိုမိုက် စသော ဓာတ်သတ္တုများလည်း ထွက်သည်။ ပန်ဂျပ်နယ်မှ နှစ်စဉ်ဆားတန်ချိန်ပေါင်း ၅ သိန်းခန့် ထွက်သည်။

အနောက်ပါကစ္စတန်နယ်ထဲတွင် မီးရထားလမ်းမိုင်ပေါင်း



အာဖဂနိစတန်နှင့် ပါကစ္စတန်နိုင်ငံတို့အကြား ကိုင်ဗာ တောင်ကြားလမ်းမှ ရွာကလေးတရွာ၏ရှုခင်း



ပါကစ္စတန်နိုင်ငံ၏ မြို့တော်ဖြစ်သော ကရာချိဆိပ်ကမ်းမြို့

၅,၃၄၄ မိုင်နှင့်မော်တော်ကားလမ်း မိုင်ပေါင်း ၃၅,၀၀၀ မိုင်ခန့်ရှိသည်။ အရှေ့နှင့်အနောက် ပါကစ္စတန်ကို လေကြောင်းခရီးဖြင့် ဆက်သွယ်ထားသည့်ပြင်၊ ဥရောပ၊ သြစတြေးလီးယားနှင့် အခြားအရှေ့ဖျားဒေသများသို့ လေကြောင်းဖြင့်ပင် ဆက်သွယ်နိုင်သည်။

ကရာချိမြို့သည် အနောက်ပါကစ္စတန်တွင် အကြီးဆုံးသင်္ဘောဆိပ်မြို့ ဖြစ်သည့် အပြင်၊ ပါကစ္စတန်နိုင်ငံ၏ မြို့တော်လည်းဖြစ်သည်။ (ကရာချိမြို့ — ရှု။) လူဦးရေ တသန်းကျော်ရှိသည်။လာဟိုမြို့သည်လည်း မြို့ကြီးဖြစ်၍၊ လူဦးရေမှာ ၈၄၉,၀၀၀ ယောက်ခန့်ရှိသည်။ အခြားမြို့ကြီးများမှာ ပက်ရှဝါး၊ ကွက်တား၊ ရာဝါပင်ဒီနှင့် မူလတန်တို့ ဖြစ်သည်။

အနောက်ပါကစ္စတန်တွင် နေထိုင်သော လူများအနက် အများဆုံးမှာ မွတ်စလင်များပင် ဖြစ်သည်။ လူများစု ပြောဆို သုံးစွဲနေကြသည့် ဘာသာစကားမှာ အူရဒူးဘာသာ ဖြစ်သည်။

အရှေ့ပါကစ္စတန်ကို တနည်းအားဖြင့် အရှေ့ဗင်္ဂလားနယ်ဟူ၍လည်း ခေါ်ကြသည်။ အရှေ့ပါကစ္စတန်၏ အနောက်ဖက်၊မြောက်ဖက်နှင့် အရှေ့ဖက်တို့တွင် အိန္ဒိယနိုင်ငံရှိသည်။ တောင်ဖက်တွင်မူ၊ ဗင်္ဂလား ပင်လယ်အော်ရှိသည်။ အရှေ့ဖက်တပိုင်းတွင် မြန်မာနိုင်ငံနှင့်လည်း နယ်ချင်းဆက်လျက်ရှိသည်။ အရှေ့ ပါကစ္စတန်၏ ထူးခြားချက်တခုမှာ ထိုဒေသတွင် ဂင်္ဂါမြစ်နှင့် ဗြဟ္မပုတြမြစ်တို့၏ မြစ်ခွဲများ ရှုပ်ထွေးယှက်သန်းကာ စီးဆင်းနေခြင်းပင် ဖြစ်သည်။ ထိုမြစ်များသည် ရေကြောင်းခရီးလမ်း အလို့ငှါ များစွာ အသုံးဝင်သည်။ မြစ်ဝှမ်းဒေသများသည် မြေသြဇာထက်သန်သဖြင့် ထိုဒေသတို့၌ အသီးအနှံများကို ကောင်းစွာ စိုက်ပျိုး လုပ်ကိုင်နိုင်သည်။ ဂင်္ဂါမြစ်ဝကျွန်းပေါ်ဒေသရှိ သစ်တောများထဲတွင် ကျား၊ ကျားသစ် စသော တိရစ္ဆာန်ရိုင်းများ ကျက်စားသွားလာနေထိုင်ကြသည်။

အရှေ့ပါကစ္စတန်တွင် တနှစ်လျှင် မိုးရေချိန် ပျမ်းမျှ ၇၅ လက်မမျှ ရွာသွန်းသည် ဖြစ်ရာ၊ အနောက်ပါကစ္စတန်မှာကဲ့သို့ ဆည်မြောင်းစနစ်ကို အသုံးပြုရန် မလိုချေ။ ရာသီဥတုမှာ ပူအိုက်၍ စိုစွတ်ထိုင်းမှိုင်းသည်။ မြေသြဇာကောင်းသဖြင့် တနှစ်လျှင် နှစ်သီးကျ စိုက်ပျိုး လုပ်ကိုင်နိုင်သည်။ အများဆုံး စိုက်ပျိုးသော အသီးအနှံများမှာ ဆန်စပါးဖြစ်သည်။ သို့သော် နိုင်ငံခြားသို့ တင်ပို့နိုင်သော ကုန်ပစ္စည်းများမှာ ဂုံလျှော်ပင် ဖြစ်သည်။ ပါကစ္စတန်နိုင်ငံသည် ကမ္ဘာပေါ်တွင် ဂုံလျှော်ကြမ်း အများဆုံးထွက်သော နိုင်ငံဖြစ်သည်။ လက်ဖက်ပင်များကို စီလဟက်နယ်၌ အကြီးအကျယ် စိုက်ပျိုးကြသည်။ အခြားလုပ်ငန်းများမှာ ဖိုင်းငင်ခြင်းနှင့် အထည်ရက်လုပ်ခြင်း ဖြစ်သည်။

အရှေ့ပါကစ္စတန်တွင် မီးရထားလမ်း မိုင်ပေါင်း ၁,၇၀၂

မိုင်နှင့် မော်တော်ကားလမ်း မိုင်ပေါင်း ၂၀,၀၀၀ ခန့်ရှိသည်။ သို့သော် ပြည်တွင်းရေကြောင်းလမ်းသည် စရိတ်အသက်သာဆုံးနှင့် အသုံးအဝင်ဆုံး ဖြစ်သည်။ စစ်တကောင်းမြို့သည် အရှေ့ပါကစ္စတန်တွင် အကြီးဆုံး သင်္ဘောဆိပ်မြို့ ဖြစ်သည်။ သင်္ဘောဆိပ်မှာ အထူးပင် လုပသည်။ မြို့တော်မှာ ဒက္ကာမြို့ဖြစ်သည်။ လူဦးရေ၏ ၄ ပုံ ၃ ပုံသည် မွတ်စလင်များ ဖြစ်သည်။ သို့သော် ပြောဆိုသော ဘာသာစကားမှာမူ ဗင်္ဂါလီစကားဖြစ်သည်။

ပါကစ္စတန်နိုင်ငံ တဝှန်းလုံးတွင် အင်္ဂလိပ်ဘာသာကို ရုံးသုံးပြုလုပ်ထားသည်။ ကျောင်းများတွင် အင်္ဂလိပ် ဘာသာကို အပိုဘာသာအဖြစ် သင်ကြားကြရသည်။ပါကစ္စတန်နိုင်ငံ အလံသည် အဖြူရောင်နှင့် အစိမ်းပုပ်ရောင် နှစ်ရောင်ခြယ်သော အလံဖြစ်သည်။ အလံ၏ ၉ ပုံ ၂ ပုံသည် အဖြူဖြစ်၍၊ ကျန် ၇ ပုံမှာ အစိမ်းပုပ်ရောင်ဖြစ်၏။ အစိမ်းပုပ်ပိုင်း အလယ်တည့်တည့်၌ ငါးထောင့်ရှိသော ကြယ်ဖြူတပွင့်နှင့် လခြမ်းအဖြူတခုရှိသည်။ (အိန္ဒိယနိုင်ငံ၊ ဂျင်းနား,အမ်၊ အေ-လည်း — ရှု။)

**ပါစပက်တစ်ရေးဆွဲနည်း။** ။ပန်းချီပညာသည် ရှေးနှစ်ပေါင်း ထောင်ပေါင်းများစွာက စတင်ခဲ့ကြောင်းကို ကမ္ဘာဦးက ဂူနံရံများပေါ်၌ ရေးခြစ်ထားခဲ့ကြသော ရုပ်ပုံ အထောက်အထားများ အရ သိရှိခဲ့ကြရသည်။ သို့သော် ပါစပက်တစ်ရေးဆွဲနည်းသည်မူ ၁၅ ရာစု ခေတ်လောက်ကမှ စည်းကမ်း ဥပဒေနှင့် စံနစ်တကျ ဖြစ်လာလေသည်။

ပါစပက်တစ်ရေးဆွဲခြင်းဟူသည် အနီးအဝေး၊ ရှေ့နောက် အမြင်သဘောကိုလိုက်၍ ရေးဆွဲခြင်းဖြစ်သည်။ ပါစပက်တစ်ရေးဆွဲခြင်းသည် ဥရောပပန်းချီစံနစ်တခု ဖြစ်သည်။နံရံ၊ စက္ကူစသည့် အပြားအပြင်ပေါ်တွင် လူ၊ အရာဝတ္ထု၊ရှုမျှော်ခင်းစသည်တို့ကို အနီးအဝေးအလိုက် မြင်ရပုံအတိုင်း ရေးဆွဲပြသခြင်းဖြစ်သည်။ ပုံစံအားဖြင့် မီးရထားသံလမ်းနှစ်ဖက်သည် မျဉ်းပြိုင်ပြုလုပ်ထားသဖြင့် မည်သည့်အခါမှ သံလမ်းတဖက်နှင့်တဖက်သည် တွေ့ဆုံနိုင်မည် မဟုတ်ချေ။ သို့သော် ရှည်လျားသော မီးရထားလမ်းတလျှောက်ကို လှမ်းမျှော်ကြည့်သည့်အခါ၊ သံလမ်းနှစ်ဖက်တို့သည် အဝေးသို့ရောက်လေ၊ တဖက်နှင့်တဖက် နီးကပ်လေဟု ထင်မြင်ရကာ၊ တနေရာတွင် တဖက်နှင့်တဖက် တွေ့ဆုံကြသည်ဟု ထင်မြင်ရသည်။ထိုပြင် ရှည်လျားဖြောင့်တန်းသော လမ်းတလျှောက်ရှိ အရွယ်တူညီသောသစ်ပင်၊ သို့မဟုတ် ကြေးနန်းတိုင်များကို ကြည့်ပါ။ ကြည့်နေသူနှင့် နီးကပ်သော သစ်ပင် သို့မဟုတ် ကြေးနန်းတိုင်တို့ကို ယင်းတို့၏ မူလ အရွယ်အစား



ပါစပက်တစ် ရေးဆွဲနည်း အခြေခံ သဘောတရားများကို ထင်ရှား ပေါ်လွင်စေသော အနီးအဝေးပြ ရှုခင်းတခု

အတိုင်း တွေ့ရသော်လည်း ကြည့်နေသူနှင့် အလှမ်းကွာဝေးသွားလေလေ၊ သစ်ပင်၊ ကြေးနန်းတိုင်တို့သည် ငယ်၍ငယ်၍ သွားတတ်ပြီးလျှင်၊ မျက်စိတဆုံး တနေရာတွင် အစက် အပြောက်ကလေးများသာဟု ထင်မြင်ရတော့သည်။ ဤကား ပါစပက်တစ်သဘောတည်း။ ဤသဘောအတိုင်း စက္ကူ သို့မဟုတ် နံရံစသော အပြားအပြင်ပေါ်တွင် နီး၊ ဝေး၊ အမြင့် အတိုင်း ရေးဆွဲတင်ပြခြင်းကို ပါစပက်တစ် ရေးဆွဲခြင်းဟု ခေါ်လေသည်။

ပါစပက်တစ် ရေးဆွဲခြင်းတွင် စည်းကမ်း ဥပဒေများရှိသေးသည်။ အရေးပါသော စည်းကမ်းချက်များ အနက် အမှတ်တစ်မှာ အလျားလိုက်မျဉ်းတို့သည် ကြည့်နေသူ၏ အဝေးသို့ ရောက်သွားလေလေ၊ အပေါ်သို့ထောင်တက် စွေစောင်းသွားသည်ဟူ၍၎င်း၊အောက်သို့ လျှောကျစွေစောင်းသွားသည်ဟူ၍၎င်း ထင်မြင်ရသည်။ ကြည့်နေသူ၏ မျက်စိအမြင်အားဖြင့် မျက်စိနှင့် တပြေးတည်း ရှိနေသည့် မျဉ်းများအနက် အပေါ်ဖက်မှ အလျားလိုက် မျဉ်းများသည် အောက်သို့ လျှောကျစွေစောင်း၍၊ အောက်ဖက်မှ အလျားလိုက်မျဉ်းတို့သည် အပေါ်သို့ထောင်တက် စွေစောင်းတက်လာသည်။ စည်းကမ်းချက် အမှတ်နှစ်မှာ ကြည့်နေသူနှင့် ဝေးလေလေ အပေါ် အောက်မျဉ်းတို့သည် အောက်သို့၎င်း၊ အပေါ်သို့၎င်း အသီးအသီးပို၍စွေစောင်းသည်။ စည်းကမ်း အမှတ်သုံးမှာ မျဉ်းပြိုင်ဖြစ်နေသော အလျားလိုက်မျဉ်းတို့သည် ကြည့်နေသူနှင့် ဝေးသွားလေလေ၊ မျဉ်းတခုနှင့်တခု နီးကပ်ကာ တနေရာတွင် တွေ့ဆုံကြသည်ဟု ထင်ရသည်။ စည်းကမ်းချက် အမှတ်လေးမှာ ထောင်လိုက်မျဉ်းတို့သည် ကြည့်နေသူနှင့် ဝေးသွားလေလေ၊ ပို၍ နိမ့်၍နိမ့်၍သွားသည်ဟု ထင်ရပြီးလျှင်၊ တခုနှင့်တခု အကွာအဝေးသည် ပို၍ နီး၍ နီး၍ သွားသည်ဟု ထင်ရသည်။

ယင်းတို့ကား ပါစပက်တစ် အခြေခံ သဘောတရားများဖြစ်သည်။ အလျားလိုက်လည်းမဟုတ်၊ ထောင်လိုက်လည်း မဟုတ်သော မျဉ်းများ၊ အရိပ်ထင်ခြင်းများ စသည်တို့နှင့် စပ်လျဉ်းသော စည်းကမ်းဥပဒေများလည်း ရှိသေးသည်။ ဖော်ပြပါ စည်းကမ်းဥပဒေများကို အတိအကျဖြစ်စေရန် ဂဏန်းသင်္ချာနည်းများနှင့်လည်း တွက်ချက်ယူ၍ ရသည်။ သို့သော် ဆိုခဲ့သောစည်းကမ်းဥပဒေတို့သည် တနေရာတည်းတွင် တည်ငြိမ်စွာ ကြည့်ရှုမြင်ရချက် အတွက်သာဖြစ်သည်။ စိုးစဉ်းမျှ နေရာ ပြောင်းလိုက်လျှင်ပင် အမြင်တမျိုးပြောင်းသွားလေသည်။ ဆိုခဲ့သော ပါစပက်တစ် စည်းကမ်းဥပဒေများကို ထုတ်ခဲ့သူများကား ၁၅ ရာစုနှစ်က ထင်ရှားသော ပန်းချီကျော်ကြီးများ ဖြစ်ကြသည့် ဣတာလျံ လူမျိုး လီယိုနာဒိုဒါဗင်းချီနှင့် ဂျာမန်လူမျိုး အားဗရက်ဒျူရာတို့ ဖြစ်ကြသည်။

ရှေးရှေးခေတ်က ပန်းချီလက်ရာကို ဂူနံရံများ၌ ရှေးဦးစွာထင်ရှားစေခဲ့သူများ ဖြစ်ကြသော ရှေးအီဂျစ်နှင့် အဆီးရီးယန်းလူမျိုးတို့ကား ပါစပက်တစ်သဘောတရားကို မသိကြသေးပေ။ ရှေး ဂရိနှင့် ရောမလူမျိုးတို့သည်မူ အတော်အတန် သဘောပေါက်လာသည့် အထောက်အထားများ တွေ့ရသည်။ သို့သော် ဥရောပ အလယ်ခေတ်တွင် ပါစပက်တစ်ရေးဆွဲခြင်းသဘောကို အလေးတမူအရေးတယူ မပြုကြဘဲ မေ့မေ့ပျောက်ပျောက် ထားခဲ့ကြသည်။ ဣတာလျံရီနေဆွန်းခေတ်တွင်မှ ပါစပက်တစ် သဘောတရားကို ပြန်လည်ဖော်ထုတ်၍ အရေးတယူပြုလာကြသည်။ ဣတာလျံပန်းချီကျော်တဦးဖြစ်သော ဉီချယ်လိုအား ပါစပက်တစ်စံနစ်ကို ပြန်လည်ဖော်ထုတ်သူအဖြစ် ယူဆကြသည်။ အခြားဣတာလျံပန်းချီကျော်တဦးဖြစ်သော ကော်ရက်ဂျီအားလည်း ထိုနည်းအတူ ယူဆကြသည်။ ထိုခေတ်က ပါစပက်တစ် စံနစ်အလွန်ခေတ်စားခဲ့ရာ အချို့ပန်းချီကျော်တို့၏ လက်ရာ ပန်းချီကားတို့မှာ ပါစပက်တစ်သဘောကို ပြသည့် ပန်းချီကားမျိုးချည်းသာဖြစ်ခဲ့လေသည်။ ယခုခေတ်တိုင်အောင် ပန်းချီကျော်တဦးဖြစ်လိုလျှင်အခြေခံသင်ကြားဆည်းပူး၍ နိုင်နင်းတတ်မြောက်ထားရန် လိုအပ်သော ပန်းချီစံနစ်တခု ဖြစ်နေသည်။ သို့သော် ယခုခေတ် စံနစ်သစ် ပန်းချီများကို လေ့လာ လိုက်စားသူတို့အဖို့ကား၊ ပါစပက်တစ် ရေးဆွဲနည်းကို လေ့လာဆည်းပူးရန် လိုအပ်ချင်မှ လိုအပ်ပေမည်။

**ပါဏဗေဒ။** ။ပါဏဗေဒသည် သတ္တဝါတို့အကြောင်းကိုစံနစ်တကျလေ့လာသော သိပ္ပံပညာရပ်ဖြစ်သည်။ ယင်းသည် အပင်နှင့် သတ္တဝါဖြစ်သည့် သက်ရှိတို့အကြောင်းကို စူးစမ်းသော ဇီဝဗေဒခေါ် သိပ္ပံပညာရပ်ကြီးမှ ခွဲထွက်ဆင်းသက်လာသော ပညာနှစ်ရပ်အနက် တရပ်ဖြစ်၍၊ အခြားပညာရပ်မှာ ရုက္ခဗေဒ ဖြစ်သည်။ ပါဏဗေဒပညာကို ခရစ်တော်မပေါ်မီ နှစ်ပေါင်း သုံးရာကျော်လောက်က အယ်ရစ္စတိုတယ်အမည်ရှိ ဂရိပညာရှိကြီး တဦးက စတင် လေ့လာခဲ့သည်။ ပါဏဗေဒအား အနောက်တိုင်းအခေါ် ဇူးဩလိုဂျီ ဟူသော ဝေါဟာရမှာ ဂရိဘာသာစကားမှဆင်းသက်သော ဝေါဟာရဖြစ်ပေသည်။ ဂရိအလိုအားဖြင့် ဇူးဆိုသည်မှာ သတ္တဝါဖြစ်၍၊ လိုဂျီဆိုသည်မှာ လေ့လာစူးစမ်းခြင်းကို ဆိုလိုသည်။ ထို့ကြောင့် ဇူးဩလိုဂျီဟူသော ဝေါဟာရသည် သတ္တဝါတို့အကြောင်းကို လေ့လာခြင်းဟု အဓိပ္ပါယ်ရ၏။

ပါဏဗေဒပညာရပ်သည် ရှေးဂရိခေတ်၊ရောမခေတ်မှ ၁၆ ရာစုနှစ် ကုန်ဆုံးသည်တိုင် တိမ်မြုပ် ပျောက်ကွယ်လုမတတ်ဖြစ်ခဲ့၏။ ၁၇ ရာစုနှစ်သို့ ရောက်သောအခါတွင်မူ၊ ဤပညာရပ်သည် ပြန်လည်ထွန်းကားလာရာ၊ သွေးလှည့်လည်ခြင်းအကြောင်းကို အင်္ဂလိပ်လူမျိုး ဝီလျံဟားဗေးကရင်း၊ ခန္ဓာ

ကိုယ် အသေးစိတ်တည်ဆောက်ပုံကို ဣတာလျံလူမျိုး မာဆယ်လို မာလပီဂျီကင်း အသီးအသီး စတင်တွေ့ရှိ၍ ရေးသားခဲ့ကြ၏။ ဤပါဏဗေဒပညာရပ်နှင့်အတူ ရုက္ခဗေဒသည်လည်း ထွန်းကားလာခဲ့သည်။ ၁၈ ရာစုနှစ်သို့ ရောက်သောအခါ၌ ဆွီဒင်လူမျိုးကယ်ရိုလပ်လင်းနီးယပ်ကတဖန် သက်ရှိတို့၏ အမျိုးအမည်ကို ခွဲခြားရာတွင် သိပ္ပံစံနစ်တမျိုးကို စတင်တီထွင် အသုံးပြုလေသည်။ သက်ရှိတို့ကို ခွဲခြားသိမှတ်ရန်အတွက် ယင်းအသုံးပြုခဲ့သော စံနစ်မှာ ယနေ့တိုင်အောင် မူမပျက်ဘဲ အသုံးပြုကြရသဖြင့် ပါဏဗေဒအဆင့်အတန်း အတော်ပင် မြင့်တက်လာသည်ဟု ဆိုရပေမည်။ ကယ်ရိုလပ်လင်းနီးယပ် လက်ထက်မှ အစပြု၍ ပါဏဗေဒပညာရပ်သည် အဖက်ဖက်မှ တိုးတက်ထွန်းကားလာခဲ့ရာ အလွန်တရာကျယ်ဝန်းလှသောကြောင့် တိကျနက်နဲစွာ စူးစမ်းလေ့လာနိုင်ရန်အတွက် ပညာရပ်ခွဲ အတော်များများ ပေါ်ပေါက်လာလေသည်။ ထိုပညာရပ်ခွဲများ ပေါ်ထွက်လာသည်နှင့်အညီ ပညာရပ်ခွဲအသီးအသီးအတွက် ကျွမ်းကျင်ထင်ရှားသော ပါဏဗေဒ ပါရဂူကြီးများလည်း ပေါ်ပေါက်လာကြသည်။ ယင်းတို့အနက် သန္ဓေဗေဒတွင် ဖွန်ဗေးယားနှင့် ဖရန်စစ် ဗဲလဖော့တို့သည်၎င်း၊ ခန္ဓာစုကိစ္စ ဗေဒတွင် ဖွန်ဟောလား၊ ချားဗဲနှင့် ဂျိုဟန်းနက်မူလာတို့သည်၎င်း၊ ယှဉ်ပြိုင်အနာတမီပညာရပ်အတွက် ဂျော့ကူးဗီယေးနှင့် အိပ်ဟပ်စလေးတို့သည်၎င်း၊ နိဓါတကဗေဒအတွက်ချားလိုင်ယဲနှင့်လာမတ်တို့သည်၎င်း၊ ဆဲလ်ဗေဒအတွက် အမ်၊ ဂျေ၊ ရှလိုင်ဒင်နှင့် သီအိုဒိုရှဗန်း တို့သည်၎င်း၊ မျိုးရိုးပညာ အတွက် ဂရက်ဂါယိုဟန်းမင်းဒဲနှင့် တီအိပ်မော်ဂင်တို့သည်၎င်း၊ အီဗော်လူးရှင်းပညာအတွက် ချားဒါဝင်နှင့်လာမတ်တို့သည်၎င်း အသီးအသီး ထင်ရှားကျော်စောကြလေသည်။

ဤကဲ့သို့ ပါဏဗေဒမှ ဆင်းသက်ခွဲထွက်လာသော အခြားပညာရပ်များမှာ မျိုးခွဲပညာ၊ သတ္တဝါပထဝီပညာ၊အီကော်လော်ဂျီပညာမှ စ၍ အမျိုးမျိုး ရှိကြသေးသောကြောင့် ပါဏဗေဒ ပညာသည် အလွန်တရာ ကျယ်ဝန်းလာသော သိပ္ပံပညာရပ် ဖြစ်၏။

အထက်ပါ ပါဏဗေဒပညာရပ်ခွဲများအပြင်၊ သတ္တဝါများကို အစုလိုက်ကဏ္ဍခွဲ၍ လေ့လာသော အင်းဆက်ပိုးမွှားပညာ၊ ငှက်အကြောင်းပညာ၊ နို့တိုက်သတ္တဝါ အကြောင်းပညာ၊ ငါးအကြောင်းပညာ၊ ပိုးကပ်ပါးပညာ စသည်ဖြင့် ရှိကြသေး၏။ ထို့မှတဖန် လူတို့အတွက် တိုက်ရိုက် အကျိုးသက်ရောက်စေသော ပါဏဗေဒ၏ အပြုသိပ္ပံရပ်များ ချဲ့ထွင်ဖြစ်ပေါ်လာပြန်ရာ ယင်းတို့မှာ အင်းဆက်ပိုးမွှား နှိမ်နင်းသုတ်သင်ရန် သား ငါး တိရစ္ဆာန် အမျိုးမျိုး မွေးမြူရန် စသည်တို့အတွက် ဖြစ်ကြပေသည်။

ဒေါက်တာ စောသာမြင့်

**ပါတော်မူနေ့။** ။မြန်မာ လူမျိုးတို့သည် ရှေးအစဉ် အဆက်မှစ၍ လွတ်လပ်သောလူမျိုးအဖြစ် ကိုယ့်ထီးကိုယ့်နန်းကိုယ့်ကြငှန်းနှင့် နေထိုင်ခဲ့ကြသည်။ ဇာတိမာန် ထက်သန်ပြင်းပြသောလူမျိုးလည်း ဖြစ်ခဲ့ကြသည်။ ၁၇ ရာစုမှ အစပြု၍ အနောက်တိုင်း၌ နယ်ချဲ့ဝါဒလွှမ်းမိုးလာသောအခါ၊အရှေ့တိုင်း၏ သဘာဝ ပစ္စည်းများဖြင့် ပေါကြွယ်လှသော နိုင်ငံများသည် အနောက်တိုင်း လက်နက်နိုင်ငံကြီးများအတွက် မက်မောဖွယ်ကောင်းလှသည်။ မက်မောဖွယ် ကောင်းလှသော နိုင်ငံများအနက် မြန်မာနိုင်ငံလည်း ပါဝင်ခဲ့သည်။ ထို့ကြောင့် အနောက်တိုင်း နိုင်ငံကြီးများသည် မြန်မာနိုင်ငံအား သိမ်းပိုက်ရန် မျက်စောင်းထိုးနေခဲ့ကြသည်။ သို့သော် ဗြိတိသျှတို့ကအကြံဦးကာ လက်မြန်ခဲ့သည်။ လက်နက်အင်အား လူအင်အားချင်း မမျှသည့်ပြင်၊ မြန်မာနိုင်ငံသည် အနောက်နိုင်ငံကြီးများကဲ့သို့ မတိုးတက်သေးသည့်နိုင်ငံငယ်တခု ဖြစ်လင့်ကစား၊ ဗြိတိသျှတို့သည် မြန်မာနိုင်ငံအား သုံးကြိမ်တိုက်ယူမှ တနိုင်ငံလုံးကို သိမ်းပိုက်နိုင်ခဲ့လေသည်။

ပဌမအကြိမ် တိုက်ခိုက်စဉ်က ရခိုင်နှင့်ရေး၊ မြိတ်၊ ထားဝယ်တို့ကို သိမ်းပိုက်သည်။ ဒုတိယအကြိမ် တိုက်ခိုက်သောအခါ ဟံသာဝတီ ပဲခူးတိုင်းစသော မြန်မာနိုင်ငံ အောက်ပိုင်းကို သိမ်းပိုက်သည်။ နောက်ဆုံးဖြစ်သော တတိယအကြိမ်တွင် မြန်မာနိုင်ငံ အထက်ပိုင်းကို သိမ်းပိုက်လိုက်လေရာ၊ ၁၂၄၇ ခုနှစ် တန်ဆောင်မုန်း လပြည့်ကျော် ၈ ရက် တနင်္ဂနွေနေ့တွင်မြန်မာဘုရင်သီပေါမင်းတရားသည် ဗြိတိသျှစစ်ဗိုလ် ဂျင်နရယ်ပရင်ဒါဂတ်အား ထီးကြငှန်းနှင့် နိုင်ငံကိုပါ အပ်ရလေတော့သည်။ (မန္တလေးနန်းတော် ဥယျာဉ် အတွင်း၌ ဘုရင်မင်းမြတ်က ဂျင်နရယ် ပရင်ဒါဂတ်အား နန်းအပ်သောနေရာတွင် ဗြိတိသျှတို့က နန်းအပ် အထိမ်းအမှတ်ကျောက်တိုင် စိုက်ထူထားခဲ့သည်။) ထိုနေ့ ထိုရက်သည်ကား မြန်မာတို့ ထီးကျိုးစည်ပေါက်၊ နိုင်ငံပျောက်ခဲ့ရသော နေ့ကြီးဖြစ်သည်။ မင်းတရားကြီးနှင့် မိဖုရားခေါင်ကြီးတို့သည် ရတနာပုံနေပြည်တော်မှ သူ့ရိယခေါ် သင်္ဘောဖြင့် ဗြိတိသျှတို့ခေါ်ဆောင်ရာ အိန္ဒိယနိုင်ငံသို့ ပါတော်မူကြရရှာလေသည်။ တိုင်းတပါး၏စိုးမိုးမှုကို မခံယူဘူးသောနိုင်ငံသူနိုင်ငံသားအပေါင်းတို့သည် မိမိတို့၏ အရှင်သခင်များနှင့် ခွဲခွါရသဖြင့် သည်းအူပြတ်မျှ ငိုရှိုက်လိုက်ဖို့ ရတက်မအေး တနိုင်ငံလုံး ပူဆွေးခဲ့ရသော နေ့ရက်ပေတည်း။

မြန်မာတိုင်းရင်းသားတို့သည် ဇာတိမာန် ထက်သန်ကြသည့်အတိုင်း၊ တိုင်းတပါး၏ စိုးမိုးမှုလက်အောက်မှ လွတ်မြောက်ရန် အမျိုးမျိုး ရုန်းကန်ခဲ့ကြသည်။ ရုန်းကန်မှုကို အားပေးတိုက်တွန်းသူများ ဦးဆောင်သူများလည်း အများအပြားပေါ်ထွက်ခဲ့ကြသည်။ ယင်းသို့ ရုန်းကန်ကြရာ၌ မိမိတို့၏ သမိုင်းဖြစ်စဉ်ကို သတိရစေခြင်းဖြင့် ဇာတိသွေး



သီပေါဘုရင် အင်္ဂလိပ် စစ်တပ် အခြံအရံဖြင့် မြတောင်ကျောင်းဘိုက်သို့ ရောက်စဉ်

ဇာတိမာန်တို့ နှိုးကြားထကြွအောင် လှုံ့ဆော်ပေးမှုကိုသည်း ပြုကြသည်။ ယင်းသို့ လှုံ့ဆော်ပေးမှုတွင် မြန်မာတို့၏ ဦးစွန်းဖြစ်သော သီပေါဘုရင်နှင့် မိဖုရားခေါင်ကြီးတို့အား ကြက်ငယ် ငှက်ငယ် ဖမ်းသကဲ့သို့ဖမ်းကာ၊ မြန်မာတနိုင်ငံလုံးကို သိမ်းပိုက်သည့်အချက်ကို ဝိသေသပြုသော ပါတော်မူနေ့ ကျင်းပခြင်းသည် လွတ်လပ်ရေး မြတ်နိုးသူတိုင်း၏ စိတ်ကို ထိခိုက်စေခဲ့သည်။ မိမိတို့၏ အရှင်သခင်များ ပါတော်မူရသည်ကို ဝမ်းနည်းမိသော သူတို့သည် နယ်ချဲ့မှုတို့ကို စိတ်နာကာ၊ နယ်ချဲ့စံနစ်ကိုတော်လှန်ရန် ကြိုးပမ်းလာကြသည်။ ထိုကြောင့် ပါတော်မူနေ့သည် နယ်ချဲ့တို့အား တော်လှန်၍ လွတ်လပ်ရေး ကြိုးပမ်းရန် ဇာတိသွေးကို နှိုးဆွပေးသော အထိမ်းအမှတ်နေ့တနေ့ ဖြစ်လေသည်။

ပါတော်မူနေ့ ကျင်းပရေးကို စတင်လှုံ့ဆော်ပေးသူမှာ ထိုစဉ်က မြန်မာ့အလင်းသတင်းစာ၏ သတင်းထောက်ကြီးတဦးလည်းဖြစ်၍၊ အမျိုးသား သူနာပြုတပ်၏ ဗိုလ်ချုပ်ကြီးလည်းဖြစ်သော ဦးဘနှင်းဖြစ်သည်။ ဦးဘနှင်းသည် မြန်မာတို့ ထီးနန်းကွယ်ပျောက်ရသောနေ့ကို အမှတ်တရ အထိမ်းအမှတ်နေ့အဖြစ် ကျင်းပရန် စတင်လှုံ့ဆော်ပေးခဲ့သည်။ ပါတော်မူနေ့ကို အထိမ်းအမှတ်နေ့တခုအဖြစ်ထား၍ ကျင်းပခြင်းကို ပါတော်မူသည့်နှစ် အနှစ်ငါးဆယ်မြောက်ဖြစ်သော ၁၂၉၇ ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၈ ရက်နေ့ (၁၉၃၅ ခုနှစ် နိုဝင်ဘာလ)မှ စတင်ခဲ့လေသည်။

ဦးဘနှင်းနှင့် သူနာပြုတပ်သားများက ဦးဆောင်သော ပဌမဆုံးပါတော်မူနေ့ အထိမ်းအမှတ်ပွဲကို ဆိုခဲ့သောနေ့၊ နံနက် ၈ နာရီ ၈ မိနစ်အချိန်တွင် ကျင်းပခဲ့သည်။ (တန်ဆောင်မုန်းလမှာ မြန်မာနှစ်၏ ရှစ်ခုမြောက်ဖြစ်၍ ပါတော်မူသည်မှာ လပြည့်ကျော် ၈ ရက်ဖြစ်သဖြင့် တညီတညွတ်ဖြစ်စေရန် ၈ နာရီ ၈ မိနစ်အချိန်တွင် ကျင်းပသည်ဟုဆိုသည်။) ကျင်းပပုံမှာ အရှင်နှစ်ပါး ဗြိတိသျှတို့လက်သို့ ပါတော်မူရခြင်းကို ဝမ်းနည်းသော အထိမ်းအမှတ်အဖြစ် အလံတဝက်တင်ခြင်း၊ နှစ်မိနစ် ငြိမ်သက်စွာနေခြင်း၊ သက်တော် ၅၈ နှစ်တွင် အိန္ဒိယနိုင်ငံ ရတနာဂီရိမြို့၌ နတ်ရွာစံတော်မူရရှာသော နောက်ဆုံးမြန်မာဘုရင် သီပေါမင်းတရားအား ရည်စူး၍ သံဃာတော် သက်စေ့ဆွမ်းကပ်လှူဒါန်းကာ အမျှပေးဝေခြင်း၊ ဇာတိမာန် တက်ကြွစေ၍၊ အမျိုးသားစိတ်နှိုးဆွပေးသော တရားဟောပွဲများကို ပြုလုပ်ခြင်းတို့ဖြင့် ကျင်းပလေ့ရှိသည်။ ဦးဘနှင်း၏ နှိုးဆော်ချက်အရ မြန်မာနိုင်ငံအရပ်ရပ်ရှိ မြို့များတွင်လည်း ပါတော်မူနေ့ကျင်းပခဲ့ကြသည်။

ယင်းသို့ဖြင့် ပါတော်မူနေ့ကို မြန်မာသက္ကရာဇ် ၁၂၉၇ (၁၉၃၅) ခုနှစ်မှ အစပြု၍ ကျင်းပခဲ့ရာ၊ နောင်အခါတွင် စစ်မဖြစ်မီကာလတိုင်အောင် တို့ဗမာအစည်းအရုံးစသော အဖွဲ့အစည်းများက ဦးဆောင်၍ သိုက်သိုက်ဝန်းဝန်း ကျင်းပခဲ့သည်။ စစ်ပြီးကာလ ပြည်ထောင်စုခေတ်တွင်လည်း ဇာတိ

မာန်တက်ကြွစေ၍ လွတ်လပ်ရေးစိတ်ဓာတ်နှိုးဆွပေးခဲ့သော နေ့တနေ့အဖြစ် အဖွဲ့အစည်းအချို့က ကျင်းပမြဲကျင်းပခဲ့ကြလေသည်။

**ပါဒဲရက်စကီ၊ အီနာဇ်ဆီယန် (ခရစ် ၁၈၆၀–၁၉၄၁)။** ။ အီနာဇ်ဆီယန် ပါဒဲရက်စကီသည် ပိုလန်နိုင်ငံသား စန္ဒရားနှင့် ဂီတဆရာဖြစ်သည်။ ဂီတအနုပညာနှင့် မွေ့လျော်သူတဦးပင်ဖြစ်သော်လည်း၊ ပိုလန်နိုင်ငံ၏ လွတ်လပ်ရေးကို ဆောင်ကြဉ်းပေးခဲ့သော နိုင်ငံရေး ခေါင်းဆောင်လည်း ဖြစ်သည်။

ပါဒဲရက်စကီသည် ယခု ယူကရိန်းနယ်ထဲ၌ တည်ရှိနေသော ပိုဒိုးလီယာမြို့တွင် မွေးဖွားသည်။ အသက် ၆ နှစ်သားအရွယ်ကပင်လျှင် စန္ဒရား အတီးသင်ရာ၊ အရွယ်နှင့်မလိုက်အောင် ပညာစွမ်းထက်ခဲ့သည်။ ထို့နောက် အသက် ၁၇ နှစ်အရွယ်ကစ၍ ပိုလန်နိုင်ငံ ဝါဆောမြို့၌၎င်း၊ ပြင်သစ်နိုင်ငံ စထရပ်ဗုဂ်မြို့၌၎င်း၊ ဟန်ဂေရီနိုင်ငံ ဗီယင်းနားမြို့၌၎င်း စန္ဒရားအတတ်ကို သင်ယူ၍၊ ဥရောပတိုက်နှင့် အမေရိကန်ပြည်ထောင်စုတို့သို့ လှည့်လည်ကာ စန္ဒရားတီးပြခဲ့ရာ၊ လွန်စွာ နာမည်ကျော်ကြားခဲ့သည်။ ၁၈၉၇ ခုနှစ်၌ ပါဒဲရက်စကီသည် ဆွစ်ဇာလန်နိုင်ငံတွင် အိုးအိမ်တည်ထောင်နေထိုင်သည်။

ပဌမကမ္ဘာစစ် အတွင်း၌ ပါဒဲရက်စကီသည် ပိုလန်စစ်ဒုက္ခသည်တို့ကို ကယ်ဆယ်သော လုပ်ငန်း၌၎င်း၊ ပိုလန်စစ်သည် စုဆောင်းရေး လုပ်ငန်း၌၎င်း ဆောင်ရွက်ခဲ့သည်။ ထိုလုပ်ငန်းတို့အတွက် ငွေကြေးလိုနေပါက ပါဒဲရက်စကီသည် စန္ဒရားတီးပွဲကျင်းပ၍ ရန်ပုံငွေ စုဆောင်းလေ့ရှိသည်။ မူလက မျိုးချစ်စိတ်ဓာတ်ခံရှိသူဖြစ်ရာ၊ အခြေအနေအရ တစတစနှင့် ကမ္ဘာ့နိုင်ငံရေးထဲသို့ ဝင်ရောက်လာခဲ့ရလေသည်။ စစ်ပြေငြိမ်းသောအခါ၊ ပါဒဲရက်စကီသည် ဗာဆေးငြိမ်းချမ်းရေးညီလာခံ၌၎င်း၊ နိုင်ငံပေါင်းချုပ်အသင်း၌၎င်း ပိုလန်နိုင်ငံ၏ ကိုယ်စားလှယ်တော် အဖြစ်ဖြင့် ဆောင်ရွက်ခဲ့၏။ ထို့နောက် ပိုလန်သမတနိုင်ငံသစ်ကို တည်ထောင်သောအခါ ပါဒဲရက်စကီသည် ထိုနိုင်ငံ၏ ပဌမဆုံးသော ဝန်ကြီးချုပ်အဖြစ်ဖြင့် နိုင်ငံခြားရေးဌာနကိုပါ ပူးတွဲ၍ ဆောင်ရွက်ခဲ့ရလေသည်။ သို့ရာတွင် ၁၀ လမျှကြာသောအခါ အစိုးရအဖွဲ့မှ နုတ်ထွက်ခဲ့ရသည်။

၁၉၂၂ ခုနှစ်တွင် ပါဒဲရက်စကီသည် အမေရိကန် ပြည်ထောင်စု၌ လှည့်လည်၍ စန္ဒရားတီးပွဲများ ကျင်းပသည်။ ထိုတီးပွဲများအကြိမ် ၆၀ မျှ ကျင်းပရာ၊ ဒေါ်လာငွေပေါင်း ၄၆၀,၀၀၀ မျှရသောဟူ၏။ ရသမျှကြေးငွေတို့ကို ပိုလန်နိုင်ငံ ကြီးပွားတိုးတက်မှုအတွက် သုံးစွဲခဲ့၏။ ၁၉၃၉ ခုနှစ်တွင် အမေရိကန် ပြည်ထောင်စု၌ အလားတူလှည့်ခဲ့ရာ၊ စန္ဒရားတီးပွဲကြီးတခုတွင် နှလုံးရောဂါကြောင့် ရုတ်တရက်မကျန်းမမာဖြစ်လာရကား၊ အနားယူ၍ ဆွစ်ဇာလန်နိုင်ငံသို့ ပြန်လေသည်။ ဒုတိယ ကမ္ဘာစစ်အတွင်း၌ ဂျာမနီနိုင်ငံက ပိုလန်နိုင်ငံကို ကျူးကျော်လာသည်တွင် ပိုလန် စစ်ပြေး အစိုးရ၏ ပါလီမန် ဥက္ကဋ္ဌအဖြစ်ဖြင့် ဆောင်ရွက်ခဲ့ရပြန်သည်။ ၁၉၄၀ ပြည့်နှစ်၌ကား ကာလီဖိုးနီးယားပြည်နယ်တွင် အခြေစိုက်၍ အငြိမ်းစားနေထိုင်ရန် အလို့ငှါ အမေရိကန်ပြည်ထောင်စုသို့ လာခဲ့သည်။ ထို့နောက် မျှားမကြာမီ နယူးယောက်မြို့၌ ကွယ်လွန်သည်။



နာမည်ကျော် ပိုလန်ဂီတပညာရှင် အီနာဇ်ဆီယန် ပါဒဲရက်စကီ

**ပါရာဆိုက်။** ။ပါရာဆိုက်သည် သက်ရှိ ဖြစ်သော်လည်း သူ၏အသက် တည်တံ့ရန်အလို့ငှါ အခြားသက်ရှိတို့အပေါ်၌ မှီခို၍နေရသည်။ ဇီဝဗေဒ အလိုအားဖြင့် သက်ရှိတွင် အပင်နှင့်တိရစ္ဆာန်များအကျုံးဝင်ကြသည်။ (ဇီဝဗေဒ—ရှု။) ပါရာဆိုက်ကို ကပ်ပါးဟူ၍အဓိပ္ပါယ်ယူဆနိုင်ပေသည်။ အများအားဖြင့် ပါရာဆိုက်တို့သည် မိမိတို့အား လက်ခံသော သက်ရှိများကို ဘေးဥပဒ် ပြုတတ်ကြသည်။

ပါရာဆိုက်တို့တွင် အပင် ပါရာဆိုက်နှင့် အကောင် ပါရာဆိုက်ဟူ၍ ၂ မျိုးရှိသည်။ အကောင် ပါရာဆိုက်တို့သည်

အိမ်မွေးတိရစ္ဆာန်များကို ဘေးအန္တရာယ် ပြုတတ်ကြသည်။ ထိုပါရာဆိုက်များသည် အရေပြားကို ယားယံစေတတ်၍၊ သွေးကိုလည်း စုတ်ယူကြသည်။ ထိုပြင် ဝမ်းတွင်း အစိတ်အပိုင်းများ၌လည်း စွဲကပ်ကြပြီးလျှင်၊ ရောဂါပိုးများကို ကိုယ်ခန္ဓာတွင်းသို့ သယ်ဆောင်တတ်ကြသည်။ ရောဂါပိုးများသည် ပါရာဆိုက်တို့ကိုက်ထားသော အနာများမှ ဖြစ်စေ၊ အခြားအပေါက်များမှ ဖြစ်စေ ကိုယ်ခန္ဓာထဲသို့ ဝင်ရောက်နိုင်ကြသည်။

မှွား၊ သန်းနှင့် အလေးတို့သည် လူသိများသော သွေးစုတ်ပါရာဆိုက်များဖြစ်ကြသည်။ ကမျဉ်းနီခေါ် အလွန်သေးငယ်သော ပိုးကောင်သည် အရေပြားထဲသို့ ဖောက်ထွင်းဝင်ရောက်၍၊ ယားနာ အမျိုးမျိုးကို ဖြစ်စေတတ်သည်။ မြင်း၏ဦးနှောက်ထဲ၌ပင် ပါရာဆိုက်များကို တွေ့ရသည်။ အချို့ပါရာဆိုက်မျိုးသည် ယင်းတို့ကို လက်ခံသော တိရစ္ဆာန်များပေါ်၌ ဥ အုတတ်ကြသည်။ ထိုဥများမှ ပေါက်လာသော အကောင်ကလေးများသည် ယင်းတို့ကို လက်ခံသော တိရစ္ဆာန်အား အစာအတွက်မှီခို၍ ကြီးထွားလာကြရသည်။ လက်ခံတိရစ္ဆာန်များသည် ကိုယ်တွင်း၌ ရောက်နေသော ပါရာဆိုက်များကြောင့် ရောဂါအမျိုးမျိုးကို ရရှိကြသည်။ ပုံပမာ-တုတ်ပြားနှင့် တြစ်ခိုင်းနသန်ကောင်တို့သည် လက်ခံတိရစ္ဆာန်များ၏အူမနှင့် အစာအိမ်တို့တွင် မှီတင်းနေကြပြီးလျှင် ထိုလက်ခံ တိရစ္ဆာန်များကို ဘေးပြုကြသည်။

ပြင်ပ၌ တွေ့ရသော ခြင်ကောင်၊ ယင်ကောင်၊ ကြမ်းပိုး၊ သန်း၊အလေး၊ကမျဉ်းနီကောင်စသော အကောင်ပါရာဆိုက်များသည်လည်း လူကို အန္တရာယ်ပြုတတ်ကြသည်။ ခြင်ကြောင့် ငှက်ဖျားရောဂါ၊ အဝါဖျား၊ ဆင်ခြေထောက်ကဲ့သို့သော ရောဂါများဖြစ်သည်။ လူ့ကိုယ်ခန္ဓာ၌ စွဲကပ်နေတတ်သော သန်းကြောင့် တိုက်ဖတ်ရောဂါ ကူးစက်ပြန့်ပွားသည်။ ကြွက်တွင် တွေ့ရသော အလေးကြောင့် ဘင်ထွက် ပလိပ်ရောဂါ ကူးစက်ပြန့်ပွားသည်။ ထိုပြင် အကောင် ပါရာဆိုက်တို့သည် အရေပြားကို ယားယံစေတတ်၍ ပြည်တည်နာများကိုလည်း ဖြစ်စေနိုင်သည်။ လူနှင့် တိရစ္ဆာန်တို့၏ ကိုယ်ခန္ဓာထဲတွင် တွေ့ရတတ်သော ပါရာဆိုက်များမှာ တုတ်ပြား၊ချိတ်သန်၊တြစ်ခိုင်းန စသော အကောင်များဖြစ်သည်။ ထိုပါရာဆိုက်တို့သည် အူမနှင့် အစာအိမ်များထဲသို့ ဝင်ရောက်၍ အစာနှင့် သွေးကို စားသောက်ပြီးလျှင်၊ လူကိုရင်း၊ တိရစ္ဆာန်ကိုရင်း ဒုက္ခပေးကြသည်။

အပင်များကို ဖျက်ဆီးသော ပျ၊ ပေါက်ဖတ်ကဲ့သို့သော အကောင်ပါရာဆိုက်များလည်း ရှိသေးသည်။ ထိုပြင် ပိုးအချင်းချင်း ပါရာဆိုက်လုပ်တတ်သော အင်းဆက် ပိုးများလည်း ရှိသည်။ ထိုအင်းဆက် ပိုးမျိုးသည် လူတို့အား အန္တရာယ်ပြုတတ်သော အခြားအင်းဆက်ပိုးများကို ဖျက်ဆီးပစ်ခြင်းဖြင့် လူ့အကျိုးကို ဆောင်ကြသည်။ ဤလူ့အကျိုးဆောင် ပါရာဆိုက်များ ပြန့်ပွား၍ လာအောင် သိပ္ပံပညာရှိများသည် ကြံစည်ကြိုးစားလျက် ရှိကြသည်။

တိရစ္ဆာန်လောက၌သာ ဘေးပြုတတ်သော ပါရာဆိုက်များ ရှိသည်မဟုတ်။ အပင်လောက၌လည်း ဘေးပြုသော အပင် ပါရာဆိုက်များရှိလေသည်။ မှိုမျိုးသည် အပင်၌ရှင်း၊ တိရစ္ဆာန်၌ရှင်း ရောဂါ အမျိုးမျိုးကို ဖြစ်စေတတ်သည်။ ပွေးနာသည် မှိုနုခေါ် မှိုမျိုးကြောင့် ဖြစ်ရသည်။ ဆဲတခုတည်းပါရှိသောဗက်တီးရီးယားခေါ် အပင်ကလေးများသည် အများအားဖြင့် ပါရာဆိုက်များဖြစ်ကြ၍၊ အပင်နှင့် တိရစ္ဆာန်တို့တွင် ရောဂါ အမျိုးမျိုးကို ဖြစ်စေတတ်သည်။

ပါရာဆိုက် မဟုတ်သော်လည်း၊ ပါရာဆိုက် သဘောမျိုး သက်ရောက်သော အကောင်များရှိသည်။ ပုံပမာ-ပိုင်းလော့ခေါ် ငါးတမျိုးသည် ငမန်း၏ ကိုယ်အောက်ဖက်၌ တွယ်ကပ်နေထိုင်ပြီးလျှင်၊ ငမန်းပါးစပ်မှ ဖိတ်စဉ်ကျသော အစာများကိုစားသည်။ ထိုငါးသည် ငမန်းကို ဘေးမပြုတတ်သည့်ပြင်၊ မိမိဖာသာလည်း လွတ်လပ်စွာ အစာရှာ၍ အသက်မွေးနိုင်သည်။ ဤသို့ တဦးအား မိမိအကျိုးငှါ မှီခိုနေထိုင်ခြင်းကို ကွန်မင်ဆဲလစ်ဇင်ဟူ၍ ခေါ်သည်။

နှစ်ဦးနှစ်ဝ အကျိုးငှါ တဦးကိုတဦး အပြန်အလှန် မှီခိုနေထိုင်ခြင်းမျိုးလည်း ရှိသည်။ပုံပမာ-အနဲမနီးကောင်သည် ဟာမစ်ကရက်ခေါ် ကနန်းပေါ်၌ စီးလိုက်၍ အစာကိုရှာရသည်။ ကနန်းသည်လည်း မိမိအပေါ်၌ အနဲမနီးကောင်လိုက်ပါလျက်ရှိသောကြောင့်၊ ရန်သူများကို ဖယ်ရှားပစ်နိုင်ပေသည်။ ဤသို့တဦးကိုတဦးအပြန်အလှန် မှီခိုနေထိုင်ခြင်းကို ဆင်ဗိုင်အိုစစ်ဟူ၍ခေါ်သည်။ (ဆင်ဗိုင်အိုစစ် — ရှု။)

**ပါရစ်မြို့။** ။ပါရစ်မြို့သည် ပြင်သစ်နိုင်ငံ၏ မြို့တော်ဖြစ်သည်။ စိန်းမြစ်ပေါ်တွင်တည်ရှိ၍၊ ပင်လယ်မှ မိုင် ၁၁၀ မျှသာ ဝေးကွာသည်။ စာပေနှင့် သုခုမ အနုပညာရပ်တို့ အပြင် အခြားပညာရပ်များ ထွန်းကားရာ ဗဟိုဌာနဖြစ်သည်။ လူဦးရေ ၂၇ သိန်းခန့်ရှိ၍၊ ကမ္ဘာပေါ်ရှိ အလှပဆုံးမြို့များထဲတွင် ပါဝင်လေသည်။ ၁၉ နှင့် ၂၀ ရာစုနှစ်များ အတွင်းတွင် မြို့ကို အသစ်ပြန်လည် တည်ဆောက်ခဲ့သောကြောင့် ၁၇ ရာစုနှစ်ထက် ရှေးကျသော အဆောက်အအုံဟောင်းများမှာ အနည်းငယ်သာ ကျန်ရစ်သည်။ ထင်ရှားသော အဆောက်အအုံများမှာ ၁၂ ရာစုနှစ်အတွင်းက တည်ဆောက်သော နိုထရ ဒမ် ကသီဒရယ် ဘုရားရှိခိုးကျောင်း (ခရစ် ၁၁၆၃-၁၂၄၀)၊ကမ္ဘာပေါ်တွင် အကြီးဆုံးနှင့်အထင်ရှားဆုံး ဖြစ်သော လူးဗရအနုပညာပြတိုက်၊ လပ်ဇင်ဗတ်နန်းတော်နှင့် ဥယျာဉ်၊ နဝမ လူဝီဘုရင်၏ နန်းတော်၊ ပြင်သစ်မျိုးချစ်ပုဂ္ဂိုလ်တို့အား မြှုပ်နှံသင်္ဂြိုဟ်ရာ ပြင်သစ်အာဇာနည်ဗိမာန်၊



ပါရစ်မြို့ရှိ ၉၈၄ ပေမြင့်သော အက်ဖယ်တာဝါခေါ် သံမျှော်စင်ကြီး

နပိုလီယန်၏သင်းချိုင်းဂူနှင့် စစ်ဖက်ဆိုင်ရာ ပြတိုက်ရှိသော စစ်သားများဂေဟာ စသည်တို့ ဖြစ်လေသည်။ ထို့ပြင် အနုပညာ စာပေနှင့် အခြားပညာရပ်များကို ပို့ချရာ ပါရစ်ဆော်ဗန်းတက္ကသိုလ် သည် ပါရစ်တက္ကသိုလ်အဖြစ်ဖြင့် ထင်ရှားကျော်စောသည်။ (ဆော်ဗန်း — ရှု။) ၉၈၄ ပေမြင့်သော အက်ဖယ်တာဝါခေါ် သံမျှော်စင်ကြီးတခုလည်းရှိ၏။ ထိုမျှော်စင်ကို ဝိုင်ယာလက်ရုံ အဖြစ်ဖြင့်၎င်း၊ လောကဓာတ်ပညာရပ်များ လေ့လာကြည့်ရှုရန် နေရာ အဖြစ်၎င်း၊ အရပ်သူ အရပ်သားတို့က ပါရစ်မြို့ ရှုမျှော်ခင်းကို ကြည့်ရှုရန် မျှော်စင်အဖြစ်ဖြင့်၎င်း အသုံးပြုသည်။ ကင်းဝန်မင်းကြီး၏ မှတ်တမ်းတို့၌ အောင်မှတ်ဟုဖော်ပြထားသော အာ့ဒါထရီယွန့်သည် မြို့လယ်တွင် ထင်ရှားစွာ တည်ရှိသည်။ အောင်မှတ်သည် ပြင်သစ် စစ်သည်တို့ အောင်မြင်မှုကို အထိမ်းအမှတ်ပြုသော ကျောက်ဖြင့်ပြီးသည့် မှတ်ဖြစ်သည်။ ပါရစ်မြို့ပတ်လည်၌ရှိသော ၂၂ မိုင်မျှရှည်လျားသည့် မြို့ရိုးကားယခုမရှိတော့ပြီ။ နံဘေးတဖက်တချက်တွင် သစ်ပင်များ စိုက်၍ စိုက်ထားသော လမ်းမကျယ်ကြီးသည်သာ မြို့ကိုချစ်ဝိုင်းလျက်ရှိတော့၏။ ထိုလမ်းမကြီးသည် အထူးလှ၍၊ မြို့တော်ကြီး၏ကျက်သရေကို ဆောင်လျက် ရှိပေ၏။ လူနေအိမ်နှင့် အခြား အဆောက်အအုံများသည် ယေဘုယျအားဖြင့် လွန်စွာမမြင့်လှချေ။ ပြည်သူ့အဆောက်အအုံများ၊ ပန်းခြံများနှင့် တန်တားများကို လှပသော ရုပ်လုံးများ၊ ကျောက်ရုပ်များနှင့် တန်ဆာ ဆင်ထားလေသည်။

စိန်းမြစ်သည် မြို့ကိုဖြတ်၍ စီးလျက်ရှိရာ၊ ထိုမြစ်ကို လှပသော တန်တား ၃၀ ကျော်ဖြင့် ပေါင်းကူးထားသည်။ မြစ်မြောက်ဖက်တွင် အရောင်းအဝယ် စည်ကားသော ရပ်ကွက်နှင့် လူချမ်းသာများနေထိုင်သော ရပ်ကွက်များရှိ၏။ မြစ်၏တောင်ဖက်၌ လက်တင် ရပ်ကွက်ရှိ၏။ ထိုအရပ်မှာ ပါရစ်တက္ကသိုလ်ရှိသော အရပ်ဖြစ်ရာ၊ ရှေးခေတ်က ပညာရပ်အားလုံးကို လက်တင်ဘာသာဖြင့် သင်ဘူးသည်ကို အစွဲပြု၍၊ လက်တင်ရပ်ဟု ခေါ်တွင်လေသည်။

ပါရစ်မြို့၏ အရောင်းအဝယ် လုပ်ငန်း၌ ကျောက်မျက်ရတနာ၊ အမွှေးအကြိုင်၊ အဖိုးတန် ဂါဝန်အဝတ်အစားများ၊ အထည်ဆန်းများနှင့် အခြားအလှကုန်ပစ္စည်းများကို အဓိကထား၍ ရောင်းဝယ်ကြသည်။ ပါရစ်မြို့သည် အဝတ်တန်ဆာ အဆင်နှင့် ပုံဆန်းများ ပေါ်ထွက်ရာ ဗဟိုဌာနဖြစ်၍၊ ပါရစ်မြို့မှ အသစ်အဆန်းထွင်လိုက်သော ပုံစံနှင့် အဆင်များကို ဟာကမ္ဘာလုံးရှိ အထည်ကုန်သည်များက အမြဲအာရုံစူးစိုက်လျက်ရှိကြရ၏။ ပါရစ်မြို့သည်ပြင်သစ်နိုင်ငံတွင်ငွေကြေးကိစ္စအရပ်ရပ်ကို ဆောင်ရွက်သော ဗဟိုဌာနဖြစ်သဖြင့် ဘဏ်တိုက်ကြီးများ၊ ကုန်တိုက်ကြီးများရှိ၏။ ပဌမကမ္ဘာစစ်ကြီးအတွင်းမှစ၍ ဆင်ခြေဖုံးတွင် ခဲယမ်းလက်နက်ရုံ အမြောက်အများပေါ် ပေါက်လာခဲ့၏။ ပါရစ်မြို့သည်ပြင်သစ်နိုင်ငံ၏ အရောင်းအဝယ် အလုပ်အကိုင်ဗဟိုဌာနဖြစ်သည့်အတိုင်း၊ ထိုမြို့၏ စက်မှုလက်မှုလုပ်ငန်းများမှာ သတ္တုထည်လုပ်ငန်း၊ ဓာတုဗေဒနှင့် ဆေးဝါးဆိုင်ရာလုပ်ငန်း၊ သားရေလုပ်ငန်း၊ ဖန်ဗူးဖန်ခွက်လုပ်ငန်း၊ ဆေးတံသောက်ဆေးနှင့် စီးကရက်လုပ်ငန်း၊ အစားအစာလုပ်ငန်းနှင့် အလှကုန် လုပ်ငန်းများသည် အဓိကဖြစ်သည်။ ထိုလုပ်ငန်းတို့မှ ထွက်ကုန်များကို ပါရစ်မြို့မှ ကမ္ဘာ့အရပ်ရပ်သို့ တင်ပို့ရောင်းချရသည်။

ခရစ်တော်လက်ထက်က ပါရစ်မြို့ကို လူတီးရှားမြို့ဟုခေါ်သည်။ ပါရီစီလူမျိုးများကိုစွဲ၍ ပါရစ်မြို့ဟု ခေါ်တွင်ခဲ့ရာ၊ ၁၂ ရာစုနှစ် အတွင်းမှစ၍ ပြင်သစ်နိုင်ငံ၏ မြို့တော်ဖြစ်လာ၏။ ဖိလစ်အော်ဂပ်စတပ်၊ နဝမ လူဝီ၊ စတုတ္ထ ဟင်နရီ စသောဘုရင်များသည် လှပသော နန်းတော်များနှင့် အထိမ်းအမှတ်ကျောက်တိုင်များကို ဆောက်လုပ်ကြ၏။ သို့ရာတွင် ပါရစ်မြို့ကို အလှပဆုံးနှင့် အခမ်းနားဆုံး ခေတ်သစ်မြို့ကြီးတမြို့အဖြစ်သို့ ပြောင်းလဲလိုက်သူမှာ နပိုလီယန် ဗိုနာပတ်၏ တူတော် ဖြစ်သော တတိယ နပိုလီယန် ဘုရင် ဖြစ်၏။ ထိုဘုရင်သည် လမ်းများ၊ တန်တားများ၊ ပေါင်းကူးများ၊ သင်္ဘောဆိပ်တန်တားများ၊ ပန်းဥယျာဉ်များ၊ ကစားကွင်း



ပါရစ်မြို့၏ ကျက်သရေဆောင် အာ့ဒါထရီယွန့်ခေါ် အောင်မှတ်သည် မြို့လယ်တွင် ထင်ရှားစွာ တည်ရှိသည်။

လှပသော တန်တား ၃၀ ကျော်ဖြင့် ပေါင်းကူးထားကာ ပါရစ်မြို့ကိုဖြတ်၍စီးသော စိန်းမြစ်၏ ရှုခင်းတရပ်



များ၊ ဈေးခင်းများ စသည်တို့ကို ခေတ်အမှီဆုံး ဖြစ်စေရန် သူ့နေရာနှင့်သူ စီမံဆောက်လုပ်စေခဲ့၏။

ပဌမကမ္ဘာစစ် အတွင်း၌ ပါရစ်မြို့ကို ဂျာမန်တို့က လေကြောင်းမှ ဗုံးကြဲတိုက်ခိုက်၍၊ အဝေးပစ် အမြောက်ကြီးများနှင့် ပစ်ခတ်ခြင်းတို့ကြောင့်၊ အဆောက် အအုံပေါင်းများစွာ ပျက်စီးခဲ့လေသည်။ ဒုတိယကမ္ဘာစစ် ဖြစ်သောအခါ၊ ပါရစ်မြို့သည် ၁၉၄၀ ပြည့်နှစ် ဇွန်လ ၃ ရက်နေ့တွင် အပြင်းအထန် ဗုံးကြဲတိုက်ခိုက်ခြင်း ခံရ၏။ မြို့တော်ပျက်စီးမည်ကို စိုးရိမ်သဖြင့် ပြင်သစ် အစိုးရက မြို့ကို အကာအကွယ်မဲ့မြို့အဖြစ် ကြေညာလေသည်။ မဟာမိတ်တပ်တို့ကလည်း မြို့တောင်ဖက်ကို ဆုတ်ခွါပေးသည်။ သို့ဖြင့် နောက်တနေ့၌ ဂျာမန်တပ်များက မြို့တော်ကို သိမ်းပိုက်လိုက်ကြလေသည်။ ၁၉၄၄ ခုနှစ်တွင် ပြင်သစ်နိုင်ငံကို မဟာမိတ်တပ်များ ဝင်ရောက်သိမ်းပိုက်နိုင်သော အခါကျမှသာ၊ ဩဂုတ်လ ၂၅ ရက်နေ့တွင် ပါရစ်မြို့သည် ဂျာမန်တို့ လက်အောက်မှ လွတ်မြောက်သွားလေသည်။

# ဥပဒေပြုရေးအာဏာတည်ရာအဖွဲ့

''ပါလီမန်တို့၏မိခင်'' ဟူ၍ ခေါ်စမှတ်ပြုသည့် ဗြိတိသျှပါလီမန်လွှတ်တော် ဖြစ်ပေါ်လာပုံနှင့် ပါလီမန် လွှတ်တော်တို့၏ ထုံးတမ်းစဉ်လာများကိုရင်း၊ ပြည်ထောင်စု မြန်မာနိုင်ငံ ပါလီမန်လွှတ်တော် ဖွဲ့စည်းပုံဆိုင်ရာ အကြောင်းအရာများကိုရင်း ဤအကြောင်းရပ်တွင် စုံလင်စွာဖော်ပြထားသည်။

**ပါလီမန်လွှတ်တော်။** ။ပြည်ထောင်စုမြန်မာနိုင်ငံတော်၌ရင်း၊ ဂရိတ်ဗြိတိန်နိုင်ငံနှင့် ဗြိတိသျှဓနသဟာယနိုင်ငံတော် အသီးအသီး၌ရင်း ဥပဒေပြုရာ အဖွဲ့အစည်းများကို ပါလီမန်လွှတ်တော်ဟုခေါ်သည်။

အင်္ဂလန်ပြည် လန်ဒန်မြို့ရှိ ဝက်စမင်စတာ နန်းတော်၌ စည်းဝေးဆွေးနွေးလေ့ရှိသော ဗြိတိသျှ ပါလီမန် လွှတ်တော်တွင်၊ ဗြိတိသျှ ဘုရင်မင်းမြတ်၏ အထက်လွှတ်တော်နှင့် အောက်လွှတ်တော်တို့ ပါဝင်သည်။ ဗြိတိသျှ ပါလီမန်သည် အိုက်စလန်ကျွန်းတွင် ၉၃၀ ပြည့်နှစ်ကစ၍တည်ထောင်သော အော်လသင် ဥပဒေပြုလွှတ်တော်က လွဲလျှင်၊ ရှေးအကျဆုံး ဖြစ်၏။ ကမ္ဘာပေါ်ရှိ အခြားဥပဒေပြုလွှတ်တော်များသည် ဗြိတိသျှ ပါလီမန်ကိုစံထားကာ တည်ထောင်ကြသည်ဖြစ်ရာ၊ ဗြိတိသျှ ပါလီမန်ကို 'ပါလီမန်တို့၏ မိခင်' ဟု ခေါ်စမှတ် ပြုခဲ့ကြသည်။

ဗြိတိသျှပါလီမန်သည် အင်္ဂလို ဆက္ကဆွန် ဘုရင်များလက်ထက်၌၊ ဘုရင်များအား တိုင်းပြည် အုပ်ချုပ်ရာတွင် အကြံဉာဏ်များပေးရန်အတွက်၊ တနှစ်လျှင် နှစ်ကြိမ်သုံးကြိမ်မျှ ဖိတ်ခေါ်ခြင်းခံရသော ဂိုဏ်းအုပ် ဘုန်းကြီးများ၊ ကျောင်းထိုင်များ၊ ဘုရင့် ရဲမက်တော်များ၊ နိုင်ငံတော် အရာရှိကြီးများပါဝင်သည့် ဝစ်တနာဂမုတ်ခေါ် 'အတိုင်ပင်ခံ သုခမိန်အဖွဲ့' အဖြစ်ဖြင့်ရင်း၊ နော်မန် ဘုရင်များ လက်ထက်၌ ဘုရင်ဖိတ်ခေါ်ချက်အရ၊ စည်းဝေးဆွေးနွေးရသော ကံကျေးချမြေပိုင်ရှင်ကြီးများ ပါဝင်သည့် 'ကောင်စီအဖွဲ့ကြီး' အဖြစ်ဖြင့်ရင်း အခြေပြုခဲ့လေသည်။ ၁၃ ရာစုနှစ်တွင် ရှိုင်ယာနယ်များမှ ကိုယ်စားလှယ်များကို ထိုကောင်စီအဖွဲ့ကြီးသို့ ရံဖန်ရံခါ ဖိတ်ခေါ်ခဲ့လေသည်။ ထိုကိုယ်စားလှယ်များကို ရှိုင်ယာ နယ်များမှ မြေပိုင်ရှင်ကလေးများနှင့် လူကုံထံကလေးများက တနယ်လျှင် နှစ်ယောက်ကျ ရွေးကောက် တင်မြှောက်ခဲ့ရသည်။ ထိုအခါ ယခင်က ကောင်စီတွင် ကိုယ်ပိုင်အခွင့်အရေးကြောင့် တက်ရောက်ခွင့် ရသူများနှင့်အတူ၊ ထိုနယ်ကိုယ်စားလှယ်များ တက်ရောက်ခွင့် ရရှိလာသဖြင့်၊ ရွေးကောက် တင်မြှောက်သည့်သဘော ပေါ်ပေါက်လာခဲ့၏။ ၁၂၆၅ ခုနှစ်တွင် မြို့စားကြီးဆိုင်မွန်ဒီမွန့်ဖတ် ဖိတ်ခေါ်သော ကောင်စီကြီးသို့၊ ရှိုင်ယာနယ်များမှကိုယ်စားလှယ်များသည်ရင်း၊ မြို့များမှ ကိုယ်စားလှယ်များသည်ရင်း တက်ခွင့်ရခဲ့ကြသည်။ ထိုအစဉ်အလာကို ပဌမ အက်ဒွပ်ဘုရင်သည် ၁၂၇၅ ခုနှစ်မှအစပြု၍ ဆက်လက် လိုက်နာခဲ့ပြီးလျှင်၊ ၁၂၉၅ ခုနှစ်တွင် နောင်အခါ 'စံပြပါလီမန်' ဟုခေါ် တွင်သည့် ကောင်စီကို ဖိတ်ခေါ်ခဲ့၏။ (မွန့်ဖတ်၊ ဆိုင်မွန် ဒီ — လည်းရှု။)

လက်ဦးအစ၌မြို့များနှင့်ရှိုင်ယာနယ်များမှကိုယ်စားလှယ်များသည် လောဘ်ခံ မြေပိုင်ရှင်ကြီးများ၊ ဂိုဏ်းအုပ်ဘုန်းကြီးများနှင့် အတူတူပင် ပူးပေါင်း၍၊ စည်းဝေးဆွေးနွေးခဲ့လေသည်။ သို့သော် တတိယ အက်ဒွပ်ဘုရင်လက်ထက်တွင် သီးခြားစည်းဝေးဆွေးနွေးရာမှ အစပြု၍၊ လွှတ်တော်နှစ်ရပ် ပေါ်ပေါက် လာခဲ့လေသည်။

ပါလီမန်၏ ထုံးတမ်းစဉ်လာများမှာလည်း တဖြည်းဖြည်း အတည်တကျ ဖြစ်လာပြီးသော်၊ ပါလီမန်က အာဏာများကိုလည်း တစတစရရှိလာသည်။ ၁၅ ရာစုနှစ်လောက်တွင် ပါလီမန်သည် ဥပဒေပြုခွင့်အာဏာ၊ ရန်ပုံငွေများ သတ်မှတ်ခွင့်နှင့် ခွဲဝေ သုံးစွဲနိုင်ခွင့် အာဏာ၊ ဘဏ္ဍာတော်စာရင်းများ စစ်ဆေးနိုင်ခွင့်အာဏာ၊ ဘုရင်က ခန့်ထားသော ဝန်ကြီးများကိုစွပ်စွဲပြစ်တင်ပြောဆိုနိုင်ခွင့် အာဏာ စသည့်

အာဏာများကို ရရှိလေသည်။ သို့သော် ယော့မင်းဆက် ဘုရင်များလက်ထက်တွင်၎င်း၊ တျူဒါမင်းဆက် ဘုရင်များ လက်ထက်တွင်၎င်း ပါလီမန်သည် အတော်ပင် တန်ခိုးမှေး မှိန်နေခဲ့ရပြန်၏။ ၁၆၄၂ ခုနှစ်တွင် ဖြစ်ပွားသော ပြည်တွင်း စစ်ပွဲနှင့် ၁၆၈၈ ခုနှစ်တွင် ဖြစ်ပွားသော တော်လှန်ရေး များကြောင့်၊ ပြည်သူလူထုတို့ ခံစားရသော အကျိုးမှာ ပါလီမန် သဘော တူညီချက် မရဘဲ၊ ဘုရင်များသည် ဥပဒေပြုခွင့်၊ အခွန်ကောက်ခံခွင့် မရှိတော့သဖြင့်၊ ပါလီမန် သည် အချုပ်အချာ အာဏာပိုင် ဖြစ်သွားပြီးသော်၊ ဘုရင် များသည် ပါလီမန်ကို မှီခိုရသည့်အခြေသို့ ရောက်သွားလေ သည်။ ထိုအတောအတွင်း ဗြိတိသျှ နိုင်ငံရေး ဇာတ်ခုံတွင် နောင်အခါ တွင်တွင် ကျယ်ကျယ် ပါဝင်ကပြမည့် နိုင်ငံရေ ပါတီကြီးနှစ်ခု ပေါ်ပေါက်ခဲ့၏။ ထို့ပြင် လွှတ်တော်အတွင်း အင်အားကောင်းသည့် ပါတီမှ အမတ်များကိုရွေးချယ်ကာ၊ ဝန်ကြီးခန့်သည့် အစဉ်အလာတရပ်လည်း ဖြစ်ပေါ်လာပြန် လေသည်။

၁၇၀၇ ခုနှစ်တွင် အင်္ဂလိပ်ပါလီမန်ကို စကော့ ပါလီမန်နှင့် ပူးပေါင်းလိုက်လေသည်။ အိုင်ရစ်ပါလီမန်နှင့်မူ ၁၈၀၁ ခုနှစ် မှ ၁၉၂၂ ခုနှစ်အထိသာ ပူးပေါင်းခဲ့၏။

ပါလီမန်တွင် လွှတ်တော်နှစ်ရပ် ပေါ်ပေါက် လာစက၊ လော့ဘွဲ့ခံ မြေပိုင်ရှင်ကြီးများနှင့် ဂိုဏ်းအုပ် ဘုန်းကြီးများ ပါဝင်သည့် အထက်လွှတ်တော်သည် မြို့များနှင့် ရှိုင်ယာနယ် များမှ ကိုယ်စားလှယ်များပါဝင်သော အောက်လွှတ်တော် ထက် တန်ခိုးကြီး၏။ သို့သော် အောက်လွှတ်တော်မှာ ကိုယ်စားလှယ်များသာ ပါဝင်သော လွှတ်တော်ဖြစ်သဖြင့်၊ တဖြည်းဖြည်း ပါလီမန်၏ အရေးပါသော အစိတ်အပိုင်းတခု ဖြစ်လာသည်။ ထိုသို့ ဖြစ်လာရသည်မှာ ဘုရင်များသည် အုပ်ချုပ်ရေးအတွက် ငွေကြေးလိုတိုင်း၊ ပါလီမန်၏ သဘော တူညီချက်မရဘဲ အခွန်မကောက်ရ ဟူသော အစဉ်အလာ အရ၊ အောက်လွှတ်တော်၏အကူအညီ သဘောတူညီချက်ကို ကျေနပ်အောင် တောင်းခံရသောကြောင့်ပင် ဖြစ်၏။ ထို့ ကြောင့် နောင်အခါများတွင် ငွေကြေးနှင့် ဆိုင်သည့် ဥပ ဒေကြမ်းများကို အောက်လွှတ်တော်တွင် စတင် တင်သွင်းရ မည်ဟူသော အစဉ်အလာတရပ် ပေါ်ပေါက်လာလေသည်။

၁၉၁၁ ခုနှစ် ပါလီမန် အက်ဥပဒေအရမူ၊ အထက်လွှတ် တော်တွင် ငွေဥပဒေကြမ်းကို ပယ်ခွင့်၊ ပြင်ဆင်ခွင့် မရှိတော့ ချေ။ (ငွေဥပဒေကြမ်းမှာ အခွန်ကောက်ခံရေး၊ ဘဏ္ဍာ တော်ငွေ အသုံးချရေးတို့နှင့်ဆိုင်သော ဥပဒေကြမ်းကို ဆို လိုသည်။) ထို့မှတပါး အောက်လွှတ်တော်က ဆက်လက် ကျင်းပလတ္တံ့သော ညီလာခံများတွင်၊ သုံးကြိမ်တိုင်အောင် အတည်ပြု မြဲဌာန်းပြီးသော ဥပဒေကြမ်းတရပ်ကို အထက် လွှတ်တော်က မည်သို့ပင် ကန့်ကွက် ပယ်ချငြားလည်း၊


"ပါလီမန်တို့၏ မိခင်" ဟု ခေါ်စမှတ် ပြုရသော ဗြိတိသျှ ပါလီမန် အောက်လွှတ်တော် ညီလာခံ ခမ်းမဆောင်

ယင်း ဥပဒေကြမ်းကို စတင် တင်သွင်းသည်မှာ နှစ်နှစ် ကြာမြင့်နေပြီဖြစ်လျှင်၊ ဘုရင်၏ သဘောတူညီချက် ရရှိရန် တင်ပြရလေသည်။ ၁၉၄၈ ခုနှစ်တွင် ထို နှစ်နှစ်မျှ အချိန်ကို တနှစ်သို့ လျှော့ချလိုက်၏။

အောက်လွှတ်တော်သို့ ကိုယ်စားလှယ်များ ရွေးကောက် တင်မြှောက်ခဲ့ကြသော်လည်း၊ သူတို့ကို ရွေးကောက်တင် မြှောက်ရသည့် မဲဆန္ဒရှင်များမှာ ၁၈၃၂ ခုနှစ် မတိုင်မီက ထောင်ပေါင်း အနည်းငယ်မျှသာဖြစ်သည်။ ၁၈၃၂ ခုနှစ် ပြု ပြင်ရေး အက်ဥပဒေအရ၊ လူလတ်တန်းစားများ မဲပေးခွင့်ရရှိ လာကြ၏။ ၁၈၆၇ ခုနှစ်တွင်မူ၊ မြို့နေအလုပ်သမား လူတန်း စားများသည်၎င်း၊ ၁၈၈၄ ခုနှစ်တွင် လယ်ယာ အလုပ်သ မားများသည်၎င်း၊ ၁၉၂၈ ခုနှစ်တွင် အမျိုးသမီးများသည် ၎င်း မဲဆန္ဒပေးခွင့် ရရှိလာလေသည်။ ယခုအခါတွင်ကား ယောကျ်ားမိန်းမ မရွေး အသက် ၂၁ နှစ် ပြည့်သူတိုင်း မဲပေး နိုင်၏။

အထက်လွှတ်တော်သို့ အင်္ဂလိပ် မှူးမတ် မျိုးနွယ်များ၊ ဂိုဏ်းချုပ် ဘုန်းကြီးနှစ်ပါး၊ ဂိုဏ်းအုပ်ဘုန်းကြီး ၂၄ ပါးတို့ တက်ရောက်ခွင့်ရသည်။ စကော့ မှူးမတ်မျိုးနွယ် ၁၆ ဦးနှင့် အိုင်ရစ်မှူးမတ်မျိုးနွယ် ၂၈ ဦးတို့သည်လည်းပါဝင်ကြသည်။

စကော့မှူးမတ်မျိုးနွယ် ၁၆ ဦးတို့သည် ပါလီမန် သက်တမ်းရှိသမျှလောက်၊ အထက်လွှတ်တော်သို့ တက်ရောက်ခွင့် ရ၏။ အိုင်ရစ် မှူးမတ်မျိုးနွယ်တို့ အထည်းမှ အချင်းချင်း ရွေးကောက်တင်မြှောက်လိုက်သူ ၂၈ ဦးသည် ရာသက်ပန် တက်ရောက်ခွင့် ရသည်။ ထိုမှူးမတ်မျိုးနွယ်များအပြင်၊ အထက်လွှတ်တော်သည် အယူခံတရားလွှတ်တော်ချုပ်အဖြစ် ဆောင်ရွက်ရာတွင် ပါဝင်ရသော တရားလွှတ်တော် ဝန်ကြီးများလည်း တက်ရောက်ကြရ၏။ အထက် လွှတ်တော်တွင် တရားဌာန ဝန်ကြီးက ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်သည်။

ဗြိတိသျှ နိုင်ငံသားတိုင်း၊ ယောကျ်ား မိန်းမ မရွေး၊ အောက်လွှတ်တော် အမတ်အဖြစ် အရွေးခံနိုင်လေသည်။ သို့သော် အထက်လွှတ်တော်သို့ တက်ရောက်ခွင့်ရသော မှူးမတ်မျိုးနွယ်ဝင်များကား အရွေးမခံနိုင်ကြချေ။ သို့ဖြစ်ရာ အထက်လွှတ်တော်သို့ တက်ရောက်ခွင့် မရသော အိုင်ရစ်မှူးမတ်မျိုးနွယ်များသည် အရွေးခံနိုင်ပေသည်။ အင်္ဂလိပ် ရေဖျန်းဂိုဏ်းဝင် သာသနာ့ဝန်ထမ်းများသည် အမတ်အဖြစ် အရွေးမခံနိုင်ပေ။ သို့ရာတွင် အခြားဂိုဏ်းဝင်များသည် အရွေးခံနိုင်၏။ စိတ်ပေါ့သွပ်သူများသည်လည်း အရွေးမခံနိုင်ချေ။ အောက်လွှတ်တော် အမတ်ဦးရေကို လူဦးရေအလိုက် ကန့်သတ်လေ့ရှိသည်။ ၁၉၄၅ ခုနှစ်တွင် အောက်လွှတ်တော် အမတ် ဦးရေမှာ စုစုပေါင်း ၆၄၀ ဖြစ်ပြီးလျှင်၊ အင်္ဂလန်မှ ၅၁၀၊ ဝေလနယ်မှ ၃၅၊ စကော့တလန်မှ ၇၁၊ အိုင်ယာလန်မြောက်ပိုင်းမှ ၁၂ နှင့် တက္ကသိုလ်များမှ ၁၂ ဦး အသီးအသီး ရွေးကောက်တင်မြှောက်ကြ၏။ ၁၉၄၈ ခုနှစ်တွင် အမတ်ဦးရေမှာ ၆၁၈ ယောက်အထိ လျော့ကျသွားသည်။ အောက်လွှတ်တော်တွင် မိမိတို့အထည်းမှ အချင်းချင်း ရွေးချယ်တင်မြှောက်ခြင်း ခံရသူ အမတ်တဦးဦးက စပီကာခေါ် ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်လေသည်။

ပါလီမန် အမတ်များသည် လစာငွေအဖြစ် တနှစ်လျှင် ပေါင် ၆၀၀ မျှ ရရှိကြ၏။ ပါလီမန်၏ သက်တမ်းမှာ ငါးနှစ်ဖြစ်သည်။ သို့သော် ပါလီမန်သည် အရေးကြုံလျှင် ဥပဒေ တရပ်ပြဋ္ဌာန်းကာ၊ တနှစ်ပြီးတနှစ် ဆက်လက် တည်ရှိစေနိုင်သည်။ သို့ဖြင့် ပဌမကမ္ဘာစစ် အတွင်းကရင်း၊ ဒုတိယကမ္ဘာစစ်အတွင်းကရင်း ပါလီမန် သက်တမ်းကို တိုးမြှင့်သည့် အစဉ်အလာ ရှိခဲ့လေသည်။

ပါလီမန်ကို ဘုရင်၏ အမိန့်ဖြင့် ဆင့်ခေါ်၊ ရုပ်သိမ်း၊ ဖျက်သိမ်းရသည်။ ဖျက်သိမ်းသောအခါ၊ ဝန်ကြီးချုပ်၏ အကြံပေးချက်အရသာလျှင် ဖျက်သိမ်းရ၏။ ပါလီမန် ညီလာခံကို ဘုရင်မင်းမြတ်သည် မင်းခမ်းမင်းနားဖြင့် တက်ရောက်ဖွင့်လှစ်လေ့ရှိသည်။

ငွေကြေး ဥပဒေကြမ်းများကို အောက်လွှတ်တော်တွင်သာ စတင် တင်သွင်းရမြဲဖြစ်သည့်အတိုင်း၊ အောက်လွှတ်တော်သည် အသုံးစရိတ်များကို ခွင့်ပြုရသည်။ ထိုကိစ္စအတွက် ဆင့်ခေါ်ရသောညီလာခံကို ဗတ်ဂျက် ညီလာခံဟုခေါ်၏။ အောက်လွှတ်တော်တွင် နိုင်ငံအတွက် ကောင်းနိုးရာရာဥပဒေကြမ်းများကို တင်သွင်းနိုင်ရာ၊ ဥပဒေကြမ်းတခုသည် အတည်ပြု ပြဋ္ဌာန်းပြီးအခြေသို့ မရောက်မီ၊ သုံးကြိမ်တိုင်တိုင် စိစစ်ခြင်း ခံရသည်။ ပဌမအကြိမ်စိစစ်ခြင်းဆိုသည်မှာ အောက်လွှတ်တော် အတွင်းဝန်က ထိုဥပဒေကြမ်းကို အစည်းအဝေး အစီအစဉ်တွင် ထည့်သွင်းပြီးသော်၊ ဥက္ကဋ္ဌက အစည်းအဝေးတခုတွင် ကျေညာခြင်းဖြစ်၏။ ထိုနောက် ဥပဒေကြမ်းကို ပုံနှိပ်ပြီးလျှင်၊ အမတ်များသို့ လေ့လာထားနိုင်ရန်အတွက် ဝေငှထားရသည်။

ဒုတိယအကြိမ် စိစစ်ရာတွင် ဥပဒေကြမ်း၏ မူနှင့် အခြေခံအချက်များကို ဆွေးနွေးလေသည်။ ထိုသို့ ဆွေးနွေးပြီးနောက်၊ ပါလီမန်လွှတ်တော်က ခန့်အပ်သော ကော်မီတီတခုသို့လွှဲအပ်ကာ၊ တဖန် အသေးစိတ် စဉ်းစားဆွေးနွေးစေပြန်၏။ ထိုကိစ္စမျိုးကို ဆွေးနွေးရန်အတွက် လွှတ်တော်အမတ်အားလုံးပါဝင်သော ကော်မီတီကြီးနှင့် လွှတ်တော်အမတ်အနည်းငယ်သာ ပါဝင်သော ကော်မီတီများ ဖွဲ့စည်းထားရှိလေသည်။ လွှတ်တော် အမတ် အားလုံး ပါဝင်သော ကော်မီတီမှာ လွှတ်တော်ဥက္ကဋ္ဌက သဘာပတိအဖြစ် မဆောင်ရွက်ဘဲ၊ ကော်မီတီများတွင်သာ သဘာပတိအဖြစ် ဆောင်ရွက်ရန် ရွေးချယ်ထားခြင်းခံရသူ တဦးဦးက သဘာပတိအဖြစ် ဆောင်ရွက်သော လွှတ်တော် အစည်းအဝေးပင်ဖြစ်၏။ ကော်မီတီသည် ဥပဒေကြမ်းကို အသေးစိတ် စဉ်းစားဆွေးနွေး ပြုပြင် ပြင်ဆင်ပြီးနောက် လွှတ်တော်သို့ တင်ပြရပြန်သည်။ ထိုအခါ ကော်မီတီက တင်ပြသည့်အတိုင်း လွှတ်တော်က ထပ်မံဆွေးနွေးပြီးနောက်၊ ထိုဥပဒေကြမ်းကို လက်ခံသင့်၊ လက်မခံသင့် ဆွေးနွေးရပြန်သည်။ ထိုသို့ဆွေးနွေးသည်ကို တတိယအကြိမ် စိစစ်ခြင်းဟု ဆိုလိုသည်။ တတိယအကြိမ် စိစစ် အတည်ပြု ပြဋ္ဌာန်းပြီးနောက် အထက်လွှတ်တော်သို့ စဉ်းစားဆွေးနွေးရန် တင်ပြရလေသည်။ အထက်လွှတ်တော်တွင် အထက်ပါ နည်းအတိုင်း စိစစ်အတည်ပြု ပြဋ္ဌာန်းပြီးနောက် ဘုရင်ထံသို့ သဘောတူညီချက်ရရန်တင်ပြရသည်။ ဘုရင်ကသဘောတူညီလက်မှတ်ရေးထိုးပြီးနောက်တွင်ကား၊ ထိုဥပဒေကြမ်းသည် အများပြည်သူတို့ လိုက်နာရမည်ဖြစ်သော အက်ဥပဒေအဖြစ်သို့ ရောက်လေတော့သည်။ ဘုရင် သို့မဟုတ် ဘုရင်မသည် ပါလီမန် နှစ်ရပ်က သဘောတူညီပြီးဖြစ်သော ဥပဒေကြမ်းကို လက်မှတ်ရေးထိုးခြင်းမပြုဘဲ နေပိုင်ခွင့်ရှိ၏။ သို့သော် ဤအခွင့်အရေးကို မသုံးစွဲခဲ့သည်မှာ အတော်ပင် ကြာမြင့်ပြီဖြစ်၏။

အသုံးစရိတ်များကို ခန့်မှန်း ခွင့်ပြုရခြင်း၊ ဥပဒေပြုရခြင်း

တို့အပြင်၊ အောက်လွှတ်တော်သည် အရေးပေါ် ပြဿနာများကို အခြေအတင် ပြောဆိုဆွေးနွေးနိုင်ပေသေးသည်။

အထက်လွှတ်တော်သည်လည်း အောက်လွှတ်တော်ကဲ့သို့ပင် ဥပဒေပြုနိုင်သည်။ ထို့ပြင် အောက်လွှတ်တော်က တင်ပို့သော ဥပဒေကြမ်းကို လက်ခံစဉ်းစားဆွေးနွေးရသည်။ ထိုသို့တင်ပို့လိုက်သော ဥပဒေကြမ်းကို ပြင်ဆင်နိုင်သော်လည်း ပြင်ဆင်ချက်များနှင့် တကွ ဥပဒေကြမ်းကို အောက်လွှတ်တော်သို့ပြန်ပို့ရမည်ဖြစ်ပြီးလျှင်၊အောက်လွှတ်တော်ကလက်မခံလျှင်ကား မည်သို့မျှ မတတ်နိုင်ချေ။ အထက်လွှတ်တော်သည် (အဆုံးသတ်) အယူခံ တရားလွှတ်တော်ချုပ် အဖြစ်လည်း ဆောင်ရွက်ရသေး၏။ သို့သော် အထက်လွှတ်တော်အမတ်အားလုံး ပါဝင်ဆောင်ရွက်ခြင်းမရှိဘဲ၊ဥပဒေအကျော်အမော်များထဲမှ ရွေးချယ်ကာ၊ တသက်တာမျှသာ လော့ဘွဲ့အပ်နှင်းခြင်းခံရသော လော့ဘွဲ့ခံ တရားဝန်ကြီးများကသာ စစ်ဆေးဆုံးဖြတ်လေ့ ရှိသည်။

ပြည်ထောင်စု မြန်မာနိုင်ငံ ပါလီမန်ကို လူမျိုးစုလွှတ်တော်နှင့် ပြည်သူ့လွှတ်တော် နှစ်ရပ်တို့ဖြင့် ဖွဲ့စည်းသည်။ လူမျိုးစုလွှတ်တော်အတွက်မှာ ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံဥပဒေဖြင့် အမတ်နေရာ ၁၂၅ နေရာဟု အတိအကျ သတ်မှတ်ထားသည်။ ပြည်သူ့လွှတ်တော် အတွက်မှာမူကား ယေဘုယျအားဖြင့် ထိုလွှတ်တော်၏ အမတ်ဦးရေသည် လူမျိုးစု လွှတ်တော် အမတ်ဦးရေ၏ ၂ ဆနီးနီး ဖြစ်နိုင်သမျှ ဖြစ်စေရမည် ဟူသာ သတ်မှတ်ခဲ့သော်လည်း၊ ထိုလွှတ်တော်၏ အမတ်ဦးရေကို အခါကာလအားလျော်စွာ သတ်မှတ်ပိုင်ခွင့်ရှိသည်။ ထိုသို့ သတ်မှတ်ရာတွင် မူအားဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံအတွင်းရှိ လူဦးရေ တသိန်းလျှင် အမတ်တဦးကျဖြင့် တွက်၍ရရှိသော အမတ်ဦးရေအောက် လျော့၍ ဖြစ်စေ၊ လူဦးရေ သုံးသောင်းလျှင် အမတ်တဦးကျဖြင့်တွက်၍ ရရှိသော အမတ်ဦးရေထက် ပို၍ဖြစ်စေ မဖြစ်စေရဟုပြဋ္ဌာန်းထားသည်။ လက်ရှိအခြေအနေမှာ ပြည်သူ့လွှတ်တော် အမတ်ဦးရေသည် လူမျိုးစု လွှတ်တော် အမတ်ဦးရေ၏ ၂ ဆတိတိဖြစ်သော အမတ်ဦးရေ ၂၅၀ ပင်ဖြစ်၏။

သာသနာရေးဆိုင်ရာ ရဟန်း၊ သို့တည်းမဟုတ် သာသနာရေးဝန်ထမ်းဟူသမျှ၊ ပါလီမန် လွှတ်တော် တရပ်ရပ်၏ အမတ်အဖြစ် အရွေးမခံနိုင်ပေ။ အရွေးခံပြီးနောက်မှ အမတ်တဦးသည် သာသနာရေးဆိုင်ရာ ရဟန်း၊ သို့တည်းမဟုတ် သာသနာ့ဝန်ထမ်း ဖြစ်လာခဲ့သော်၊ အမတ် အဖြစ်နှင့်လည်း တည်မြဲမနေနိုင်ပေ။ သို့ရာတွင် ဒုလ္လဘ ရဟန်းခံသော အလေ့အထသည် ပြည်ထောင်စု မြန်မာနိုင်ငံ အတွင်း၌ ပျံ့နှံ့နေသည်ဖြစ်၍၊ ခြွင်းချက်တရပ် အနေဖြင့်၊ ပါလီမန်ဆိုင်ရာ လွှတ်တော်တရပ်၏ အမတ်တဦးသည် သက်ဆိုင်ရာ ပါလီမန်လွှတ်တော် ညီလာခံ မရှိခိုက်၊ ယာယီ သဘောအားဖြင့်၊ ရဟန်းအဖြစ်သော်၎င်း၊ ရှင်သာမဏေအဖြစ်သော်၎င်း ခံယူခြင်းကို ခွင့်လွှတ်ပေသည်။

ငွေဥပဒေကြမ်းများနှင့် သက်ဆိုင်သော ဆောင်ရွက်ဖွယ်ကိစ္စတို့တွင် ပြည်ထောင်စု မြန်မာနိုင်ငံ ပါလီမန်၏ အစဉ်အလာတို့ကို ဗြိတိသျှပါလီမန် လုပ်ရိုးလုပ်စဉ်တို့အပေါ် တွင် မူတည်ထားသဖြင့်၊ ထိုဥပဒေကြမ်းမျိုးတို့ကို လူမျိုးစု လွှတ်တော်တွင် စတင် ဆွေးနွေးနိုင်ခြင်း မရှိသည်သာမက၊ ထိုလွှတ်တော်က ပြည်သူ့ လွှတ်တော်၏ အဆုံးအဖြတ်ကို ပြင်ဆင်နိုင်ခွင့်မရှိချေ။ ပြည်သူ့လွှတ်တော်က အတည်ပြုခဲ့သော ငွေဥပဒေကြမ်းများကို လူမျိုးစု လွှတ်တော်က ၂၁ ရက် အတွင်း၊ ထိုလွှတ်တော်၏ ဆန္ဒအရ မည်သို့မည်ပုံ ပြုပြင်စေလိုသည်ဟု အကြံပေးနိုင်ခွင့် ရှိသော်လည်း၊ ထိုအကြံပေးချက်တို့ကို ပြည်သူ့လွှတ်တော်က လက်ခံလိုက လက်ခံနိုင်သည်။ ပယ်လိုက ပယ်ချနိုင်သည်။ ငွေဥပဒေကြမ်း မဟုတ်သော အခြားဥပဒေကြမ်းများကို လွှတ်တော်တရပ်ရပ်၌ စတင် တင်သွင်းနိုင်သည့်အပြင်၊ လွှတ်တော် နှစ်ရပ်က လက်ခံသော ပြဋ္ဌာန်းချက်များကိုသော်၎င်း၊ လွှတ်တော်နှစ်ရပ်သဘောကွဲလွဲသည့်အခါ၊ လွှတ်တော်နှစ်ရပ် တွဲဘက် အစည်းအဝေးမှ အတည်ပြုခဲ့သော ပြဋ္ဌာန်းချက်များကိုသော်၎င်း နိုင်ငံတော်သမတထံသို့ ပြဋ္ဌာန်းပေးရန် တင်သွင်းနိုင်သည်။

နိုင်ငံတော်သမတသည် မိမိထံသို့ လွှတ်တော် နှစ်ရပ်က ပြဋ္ဌာန်းပြီးသည့် ဥပဒေကြမ်းကိုသော်၎င်း၊ ပြည်သူ့လွှတ်တော်က ပြဋ္ဌာန်းသည့်ငွေ ဥပဒေကြမ်းကိုသော်၎င်း မိမိထံတင်ပြပြီးသည့်နောက် ၇ ရက်အတွင်း လက်မှတ်ရေးထိုး ပြဋ္ဌာန်းရန် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေဖြင့် သတ်မှတ်ထားသည်။အကယ်၍ နိုင်ငံတော်သမတက လက်မှတ် မထိုးဘဲ နေစေကာမူ၊ ၇ ရက်မြောက်သောအခါ၊ ထိုဥပဒေကြမ်းတို့သည် နိုင်ငံတော် သမတ လက်မှတ် ရေးထိုးသကဲ့သို့ပင် တည်မြဲပေသည်။

တည်ဆဲဖြစ်သော ပြည်သူ့ လွှတ်တော်ကို နိုင်ငံတော်သမတသည် ယေဘုယျအားဖြင့် နိုင်ငံတော် ဝန်ကြီးချုပ်က အကြံပေးသည့်အတိုင်း ဆင့်ခေါ်ရသည်။ ညီလာခံကို ရွှေ့ဆိုင်းရသည်။ ရုပ်သိမ်းရသည်။ ဖျက်သိမ်းရသည်။ နိုင်ငံတော်ဝန်ကြီးချုပ်အဖြစ် ဆောင်ရွက်နေသော ပုဂ္ဂိုလ်သည် ပြည်သူ့ လွှတ်တော်တွင် အမတ်များရာ၏ ထောက်ခံမှုကို မရသည့်အခါမှ သာလျှင်၊ ထိုနိုင်ငံတော် ဝန်ကြီးချုပ်၏ အကြံပေးချက်အတိုင်း၊ နိုင်ငံတော်သမတက မဆောင်ရွက်လိုက မဆောင်ရွက်ဘဲ နေနိုင်သည်။ လူမျိုးစုလွှတ်တော်ကို ခွဲခြား၍ ဖျက်သိမ်းရန် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ မလိုချေ။ ပြည်သူ့ လွှတ်တော်ကို ဖျက်သိမ်းလိုက်သည်နှင့်တပြိုင်နက်၊ လူမျိုးစု လွှတ်တော်လည်း ဖျက်သိမ်းပြီးသား ဖြစ်သည်။

ပါလီမန်ဆိုင်ရာ လွှတ်တော်နှစ်ရပ်ကိုဖျက်သိမ်းပြီးနောက်၊ ရက်ပေါင်း ၆၀ အတွင်း၊ ပြည်သူ့ လွှတ်တော် အသစ်အတွက် ရွေးကောက်ပွဲကိုကျင်းပရသည်။ ပြည်သူ့ လွှတ်တော် အသစ်ကို ရွေးကောက်ပြီးသည့်နောက်မှ၊ ရက်ပေါင်း ၆၀ အတွင်း၊ ပဌမဆုံး ညီလာခံ ကျင်းပရသည်။ ထိုညီလာခံ ကျင်းပသည့်နေ့မှ ၁၅ ရက်အတွင်း၊ လူမျိုးစုလွှတ်တော်အသစ်၏ ပဌမညီလာခံကို ကျင်းပရ၏။

လွှတ်တော်နှစ်ရပ်တို့သည် ပြည်ထောင်စု မြန်မာနိုင်ငံအတွင်း၊ ကိစ္စအများအပြားတို့၌ အချုပ်အချာအာဏာရှိသည်။ သို့ရာတွင် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေ၌ သတ်မှတ်ထားသော ပြဋ္ဌာန်းချက်တို့နှင့် ဆန့်ကျင်လျက်၊ ပါလီမန်လွှတ်တော်နှစ်ရပ်တို့က ဥပဒေပြုပိုင်ခွင့် မရှိချေ။

ကုန်းတပ်၊ ရေတပ်၊ လေတပ် ဖွဲ့စည်းထားရှိသော အခွင့်အရေးသည် ပါလီမန်၌သာ တည်ရှိသည်။ ထိုပြင် ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ အခွန်တော်ငွေများကို ခွဲဝေသုံးစွဲခြင်း၊ လက်ခံခြင်း၊ထိန်းသိမ်းခြင်း၊ထုတ်ပေးခြင်းစသည့် ကိစ္စများနှင့်တကွ၊ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း၌ အခွန်တော် ပြဋ္ဌာန်းခြင်း၊ ရုပ်သိမ်းခြင်း၊ သတ်မှတ်ခြင်းစသောကိစ္စတို့အတွက်လည်း ပါလီမန်၌သာလျှင် အာဏာတည်ရှိသည်။

ပြည်ထောင်စု ပါလီမန် နည်းဥပဒေများ၊ ပြည်နယ်များအတွက် ကန့်သတ်ထားသော ကိစ္စများတွင် ဥပဒေပြုပိုင်ခွင့်ရှိသော ပြည်နယ်ကောင်စီများ ရှိသည်ကိုလည်း သတိပြုရပေမည်။ ထိုကောင်စီများ၏ အာဏာအတွင်း သက်ဆိုင်သောကိစ္စအရပ်ရပ်တို့တွင် သာမန် အချိန်အခါတို့၌ လွှတ်တော်နှစ်ရပ်က ဥပဒေပြုပိုင်ခွင့်မရှိပေ။ သို့သော် ပြည်ထောင်စုအတွင်း၌ ပြည်ထောင်စု တည်တံ့မှုကို အန္တရာယ်ဖြစ်စေအံ့သော အထူးအရေးတကြီး အခြေဖြစ်ပေါ်နေပြီ ဟူ၍သော်၎င်း၊ ပြည်ထောင်စုကို ထိခိုက်နေသော စီးပွားရေး အရေးတကြီးအခြေအနေသည် ဖြစ်ပေါ်နေပြီဟူ၍၎င်း နိုင်ငံတော်သမတက ကြေညာ ထုတ်ပြန်ခဲ့သည့် အခါတွင်သာလျှင်၊ ထိုသီးသန့်ကိစ္စတို့၌ ပါလီမန် လွှတ်တော်နှစ်ရပ်က ပြည်နယ်များအတွက် ဥပဒေပြုပိုင်ခွင့်ရှိသည်။ ထိုသို့ပြုလုပ်သော ဥပဒေများသည်လည်း အခိုက်အတန့်၌သာ တည်မြဲသည်။

ဗြိတိန်နိုင်ငံတွင် ဥပဒေပြုရေးအာဏာသည် ပါလီမန်လွှတ်တော်၌သာ ရှိသော်လည်း၊ ပြည်ထောင်စု မြန်မာနိုင်ငံအတွင်း၌မူကား ဗြိတိသျှတို့၏ လက်အောက်ခံ ကိုလိုနီတရပ်အဖြစ် အုပ်ချုပ်ခြင်းခံခဲ့ရစဉ်က အမွေတရပ်အနေဖြင့် နိုင်ငံတော်သမတ၏ တချက်လွှတ် ဥပဒေအဖြစ် ပါလီမန်ဆိုင်ရာ လွှတ်တော်နှစ်ရပ်လုံး ညီလာခံ မရှိခိုက် ဥပဒေ ပြုနိုင်သည်။ ထိုသို့ပြုသော ဥပဒေများသည် ယာယီမျှသာ ဖြစ်၍၊ လွှတ်တော်နှစ်ရပ် ပြန်လည်စည်းဝေးသည့်နေ့မှ ၁၅ ရက် ကုန်ဆုံးသောအခါ၌ ပျက်ပြယ်ခြင်းသို့ ရောက်ရှိပေသည်။ (ပြည်ထောင်စု မြန်မာနိုင်ငံပါလီမန် — ရှု။)

**ပါဝါ**။ ။လူတယောက်တည်း ရက်ပေါင်းများစွာ လုပ်ရသည့်အလုပ်တခုကို စက်ဖြင့် လုပ်စေပါက နာရီပိုင်းအတွင်း ပြီးမြောက်နိုင်သည့်အတိုင်း၊ ကျွန်ုပ်တို့သည် နေရာတကာ၌ စက်ကိုတွင်တွင်ကြီး အစားထိုး၍ အသုံးပြုလာကြပြီ။ သို့သော်စက်သည် အဘယ်ကြောင့် လူထက်လျင်မြန်စွာ အလုပ်ပြီးမြောက်နိုင်သနည်း။ အဖြေမှာ စက်ကလူထက် 'လုပ်အား' သာသောကြောင့်ပင် ဖြစ်လေသည်။ ထို 'လုပ်အား' ကို သိပ္ပံဝေါဟာရအားဖြင့် ပါဝါ ဟု ခေါ်သည်။

ပါဝါဟူသောဝေါဟာရ၏အဓိပ္ပါယ်ကိုမစဉ်းစားမီ ကျွန်ုပ်တို့သည် 'အလုပ်' ဆိုသည်မှာ မည်သည်ကိုခေါ်၍၊ 'စွမ်းအင်' ဆိုသည်မှာ မည်သည့် အရာဖြစ်သည်ကို ရှေးဦးစွာ နားလည်ဖို့လိုပေမည်။

'အလုပ်'၊ 'စွမ်းအင်'၊ 'ပါဝါ' ဟူသော ဝေါဟာရ ၃ မျိုးကို ကျွန်ုပ်တို့သည် များသောအားဖြင့် မရှင်းမလင်းသော အဓိပ္ပါယ်များနှင့် ပေါ့ပေါ့ဆဆပြောဆိုသုံးစွဲလေ့ရှိကြသည်။ အမှန်မှာ ထိုစကားသုံးလုံး၌ သီးခြား အဓိပ္ပါယ် တမျိုးစီ အတိအကျ ရှိလေသည်။

'အလုပ်' ဆိုသည်မှာ အမှန်စင်စစ်အတိုက်အခံပြုနေသော အားကို အောင်မြင်ခြင်းပင် ဖြစ်သည်။ ပုံမှာ၊ အရာဝတ္ထုတခုကို မ တင်သည် ဆိုပါစို့။ ထိုအခါ အဆိုပါ အရာဝတ္ထုကို ကျွန်ုပ်တို့၏ ကမ္ဘာမြေကြီးက ဆွဲထားရကား၊ ထိုအရာဝတ္ထုကို မ တင်ရာတွင် ကျွန်ုပ်တို့သည် ကမ္ဘာမြေ၏ ဆွဲအားထက်သာသော အားကို စိုက်ထုတ်ပြီး မ ရ၍၊ ကျွန်ုပ်တို့စိုက်ထုတ်သောအားသည် ကမ္ဘာမြေက အတိုက်အခံပြုနေသော ဆွဲအားကို အောင်မြင်ကျော်နင်းမှသာလျှင် ကျွန်ုပ်တို့၏ အလုပ်သည် ပြီးမြောက်လေသည်။ 'စွမ်းအင်' ဆိုသည်မှာမူ အချိန်မည်မျှအတွင်း အလုပ်မည်မျှ လုပ်နိုင်သည်ဟု ဆိုအပ်သော အလုပ်လုပ်နိုင်သည့် နှုန်းပင် ဖြစ်လေသည်။

တူးမြောင်း ရေကန်စသော တူးဖော်ရသည့် လုပ်ငန်းတခုကို လုပ်ကြသည်ဆိုပါစို့။ ထိုအလုပ်ကို လူချည်းသက်သက်ဖြင့် လ ပေါင်းများစွာ တူးဖော်ရသည်ဖြစ်စေ၊ ရက်ပေါင်းအနည်းငယ်အတွင်း စက်ဖြင့်တူးဖော်ရသည်ဖြစ်စေ အလုပ်၏ ပမာဏနှင့် အလုပ်လုပ်ရာတွင် စိုက်ထုတ်ရသည့် စွမ်းအင်ပမာဏတို့မှာ အတူတူပင်ဖြစ်၏။ သို့သော် အလုပ်ပြီးမြောက်သည့် အချိန်ကို နှိုင်းရှည့်ကြည့်ပါက၊ စက်အလုပ်လုပ်သည့်နှုန်း (ဝါ) စက်၏ပါဝါသည် လူ၏ပါဝါထက် အဆပေါင်းများစွာ သာကြောင်း ထင်ရှားပေသည်။

ထိုသို့ အလုပ်လုပ်ရန် လိုအပ်သည့် ပါဝါကို ရှေးဦးစွာ လူတို့သည် မိမိတို့၏ခန္ဓာကိုယ်ရှိ ကြွက်သားများမှ ရရှိခဲ့ကြ

သည်။ တနည်း၊ မိမိတို့၏ ခြေလက်နှင့် ကိုယ်ခန္ဓာကိုသာ အသုံးပြုခဲ့ကြရသည်ဟု ဆိုလိုသည်။ ထိုနောက် ကျွဲ၊ နွား၊ မြင်း စသောတိရစ္ဆာန်တို့ကိုလည်း ခိုင်းစေ အကူအညီယူနိုင်ကြောင်းသိလာကြသောအခါ တိရစ္ဆာန်တို့၏ပါဝါကို အသုံးပြုခဲ့ကြပြန်သည်။ ဤသို့ အသုံးပြုလာခဲ့သည်မှာ ယခုတိုင်အောင်ပင် ဖြစ်၏။

လွန်ခဲ့သည့် နှစ်ပေါင်း ၂၀၀ ကျော်ကာလမှ စတင်၍ ဈူတန်နှင့် ဈူတန်၏လမ်းစဉ်ကို လိုက်ခဲ့ကြသော သိပ္ပံကဝိကြီးများ၏ ကျေးဇူးတို့ကြောင့်၊ ကျွန်ုပ်တို့သည် သက်မဲ့ပစ္စည်းများမှ ပါဝါကို ထုတ်နုတ် အသုံးချနိုင်လာခဲ့ကြလေသည်။ ထိုပုဂ္ဂိုလ်ကြီးတို့သည် စက်နှင့်ဆိုင်ရာ သဘာဝစည်းမျဉ်းများကို ချမှတ်ခဲ့၍၊ စက်ကိုစတင်တီထွင်နိုင်ခဲ့ကြလေသည်။ ထိုကြောင့် ယခုအခါတွင် မြောက်မြားစွာသော လုပ်ငန်းတို့၌ စက်၏ ပါဝါကို အသုံးချခြင်းဖြင့် လူတို့၌ သက်သာမှုသည် ဖြစ်ထွန်းလာလေသည်။

ယခုခေတ် စက်များ မပေါ်ပေါက်မီက လူတို့သည် လှေများတွင်ရွက်တပ်ပေးခြင်းဖြင့်၎င်း၊အချို့စက်များတွင် လေရဟတ် တပ်ဆင်ပေးခြင်းဖြင့်၎င်း လေ၏ သဘာဝပါဝါကို စတင်အသုံးချခဲ့ကြလေသည်။ ထိုနောက် ရေအားဖြင့်လည်သော ဆန်စက်များကို ကြံစည်ခဲ့ကြသည်။ ယခုအခါ နိုင်ငံကြီးများစွာ၌ ရေမ ရေကာတာကြီးများကို ပြုလုပ်ကာ၊ စရိတ်အလွန်သက်သာစေသည့် လျှပ်စစ်ဓာတ်အားပေးစက်များတွင် ရေရဟတ်များကိုတပ်ဆင်ပေးခြင်းဖြင့်၊ရေ၏ပါဝါကို အသုံးချနေလေပြီ။ (ရေအားသုံး လျှပ်စစ်စက်များ — ရှု။) ထိုမှတဆင့်ရေနွေးငွေ့စက်အတွင်း၌မီးပူရှိန်ကြောင့်ဖြစ်ထွန်းလာသော ရေနွေးငွေ့၏ တွန်းကန်အားကို ပါဝါအဖြစ်အသုံးပြုခြင်းဖြင့်ခရီးသွားယာဉ်များနှင့် လုပ်ငန်းစက်ရုံကြီးများရှိစက်များကို လည်စေနိုင်ခဲ့ကြပေသည်။ (ရေနွေးငွေ့အားအင်ဂျင်စက် — ရှု။) ထိုနောက် 'အတွင်းမီးအား အင်ဂျင်စက်'များတွင်ဓာတ်ဆီ၏စွမ်းအင်ကိုပါဝါအဖြစ်ပြောင်းလဲပေးခြင်းဖြင့်၊ မော်တော်ကား၊ လေယာဉ်ပျံစသောယာဉ်များကို မောင်းနှင်နိုင်ရုံမက၊ မြောက်မြားလှစွာသော စက်အမျိုးမျိုးကိုလည်း လည်စေနိုင်ခဲ့ကြပေသည်။ (အတွင်းမီးအား အင်ဂျင်စက် — ရှု။)

လျှပ်စစ် ဓာတ်၏ ပါဝါကို ယေဘုယျအားဖြင့် 'ဝပ်' ဖြင့် တိုင်းတာ၍၊ 'ဝပ်' တထောင်ကို 'ကီလိုဝပ်' ဟုခေါ်ရသည်။ စက်၏ ပါဝါကိုမူ မြင်းကောင်ရေအားဖြင့် တိုင်းတာကြ၍၊ မြင်းတကောင်အားသည် ၇၄၆ ဝပ်နှင့်ညီမျှသည်။ သို့မဟုတ် ကီလိုဝပ်တခုသည် ၁.၃၄ မြင်းကောင်ရေအားဖြင့် ညီမျှသည်။ (ရူပဗေဒ။ စွမ်းအင် — လည်းရှု။)

**ပါဝါစတေရှင်။** ။ဓာတ်အားပေးစက်ရုံ — ရှု။

**ပါးစတား, လူဝီ** (ခရစ် ၁၈၂၂–၁၈၉၅) ။ ။လူဝီပါးစတားသည် ပြင်သစ် လူမျိုးဖြစ်၍၊ ကမ္ဘာပေါ်တွင် အကြီးကျယ်ဆုံးသော တွေ့ရှိချက်တခုကို ပြုလုပ်ခဲ့သော ကမ္ဘာ့ကျေးဇူးရှင်ကြီးတဦး ဖြစ်သည်။ ဓာတုဗေဒနှင့် ဇီဝဗေဒ ပညာဆိုင်ရာ သူ၏ ရှာဖွေ တွေ့ရှိချက်များသည် သန်းပေါင်းများစွာသော လူတို့၏အသက်ကို ကယ်ဆယ် နိုင်ခဲ့ပေသည်။

လူဝီပါးစတားသည် ဗက်တီးရီးယိုလိုဂျီခေါ် သိပ္ပံ ပညာတရပ်ကို စတင်တွေ့ရှိခဲ့၏။ ယင်းပညာ ရပ်အားဖြင့် ရောဂါကူးစက်ပြန့်ပွားခြင်းကို တားမြစ်နိုင်ခဲ့သည်။ ဗီဇမျိုးတို့သည် လူတို့အား ရောဂါဖြစ်စေသည်ဟူသောအချက်ကို ပါးစတား မတွေ့မီက သက်မဲ့ဝတ္ထုသည် သက်ရှိဝတ္ထုဘဝသို့ သံသေဒဇအလိုအလျောက်ဖြစ်လာရသည်ဟု သိပ္ပံပညာရှင်တို့က ယူဆထားကြ၏။ သို့သော် ပါးစတားက ကဇော် ပေါက်သောအရည်များထဲတွင် တွေ့ရှိရသော သက်ရှိများသည် အလိုအလျောက် ဖြစ်လာခြင်း မဟုတ်၊ လေနှင့် လွင့်၍ ပါလာသော ဗီဇမျိုးများဖြစ်သည်။ ယင်းတို့ကို သေအောင်လည်း ပြုနိုင်သည်။ မပြန့်ပွားအောင်လည်း ထိန်းသိမ်းပေးနိုင်သည်ဟူသော အချက်ကို အထင်အရှား တင်ပြနိုင်ခဲ့သည်။

ပါးစတားသည် ပြင်သစ်နိုင်ငံ ဂျူးရားနယ် ဒိုးမြို့၌ ၁၈၂၂ ခုနှစ်၊ ဒီဇင်ဘာလ ၂၇ ရက်နေ့တွင်မွေးဖွားသူဖြစ်သည်။ ပါးစ



သိပ္ပံပညာရှင် လူဝီပါးစတား



လူဝီပါးစတားနှင့် အဖော်များ ခွေးရူးပြန်ရောဂါကုဆေးကို လက်တွေ့စမ်းသပ်ရှာဖွေနေစဉ်

တားမိသားစုသည် ဒိုးမြို့မှ အာဗွားမြို့သို့ ပြောင်းရွှေ့သွားကြရာ၊ ယင်းမြို့၌ပင် စတင်ပညာသင်ရသည်။ ပါးစတား၏ ဖခင်သည် သားရေနယ်သမား တယောက်ဖြစ်၍ ဝင်ငွေမှာ အသင့်အတင့်လောက်ပင် ရှိသော်လည်း သားဖြစ်သူအား ပါရစ်မြို့ရှိ နော်မန်ကျောင်းတွင် ဓာတုဗေဒပညာကို သင်ကြားရန် စေလွှတ်နိုင်ခဲ့သည်။ ထိုနောက် ပါးစတားသည် ဆော်ဗန်း တက္ကသိုလ်၌လည်း ဓာတုဗေဒပညာကို ဆက်လက် ဆည်းပူးနိုင်ခဲ့ပေသည်။

၁၈၄၉ ခုနှစ်တွင် ပါးစတားသည် စထရပ်ဇဗူး တက္ကသိုလ်တွင် ဓာတုဗေဒ ပါမောက္ခအဖြစ် ခန့်အပ်ခြင်း ခံရလေသည်။ ထိုအချိန်မှစ၍ ကဇော်ပေါက်ခြင်းနှင့်စပ်လျဉ်းသော ပညာရပ်များကို စတင်လေ့လာလေသည်။ ယင်းကား ဗက်တီးရီးယိုလိုဂျီခေါ် သိပ္ပံပညာတရပ် ထွန်းပေါ်လာခြင်းအစပင်ဖြစ်၏။ သူ၏ရှာဖွေ တွေ့ရှိမှုများကြောင့် အရက်ချက်လုပ်ငန်း တိုးတက်လာရာ ဖရန်ကို ပရပ်ရှားစစ်ပွဲအပြီး ပေးရန်ရှိသော စစ်လျော်ကြေးငွေကို ပြင်သစ်တို့ချောင်ချောင်လည်လည် ပေးဆပ်နိုင်လေသည်။

၁၈၅၄ ခုနှစ်တွင် ပါးစတားသည် လေး တက္ကသိုလ်၌ သိပ္ပံမဟာဌာနမှူးအဖြစ် ခန့်ထားခြင်းခံရသည်။ ၁၈၆၂ ခုနှစ်တွင် ပိုးမျှင်များထွက်သောပိုးမျိုးတွင်ဖြစ်သည့် ပိုးမည်းစက်နာခေါ် ရောဂါအကြောင်းကို ရှာဖွေပေးရန် ပါးစတားအား စေခိုင်းလေသည်။ တခါက အလွန် ဖွံ့ဖြိုးခဲ့သော ပိုးမွေးလုပ်ငန်းသည် ယင်း ပိုးရောဂါကြောင့် သိသိသာသာ ဆုတ်ယုတ်သွားလေသည်။ ထိုရောဂါ၏ ဇာစ်မြစ်ကို ငါးနှစ်မျှ ကောင်းစွာ လေ့လာပြီးနောက် ယင်းရောဂါကို ဖြစ်စေသော ကပ်ပါးကောင်များကိုတွေ့ရှိလေသည်။ ထိုအခါမှစ၍ ယင်းရောဂါ မပြန့်ပွားစေရန် ကာကွယ်စောင့်ရှောက်နည်းကို ပိုးမွေးသူများအား ညွှန်ကြား ပြသပေးထားရာ ပြင်သစ်နိုင်ငံ၏ ပိုးမွေးလုပ်ငန်းသည် သိသိသာသာ အောင်မြင်လာခဲ့သည်။

ပါးစတား၏ အကြီးကျယ်ဆုံးသော ဆောင်ရွက်မှုများမှာ ဆေးပညာဆိုင်ရာ ရှာဖွေတွေ့ရှိချက်များဖြစ်သည်။ အကယ်၍အနာရောဂါများကို ခွဲစိတ် ကုသရာ၌ အနာများကို မယဉ်းအောင် ပြုလုပ်ပေးနိုင်လျှင် အန္တရာယ်ကင်းနိုင်ကြောင်းကို ယုံကြည်သည့်အလျောက် တိရစ္ဆာန်များတွင် စမ်းသပ်ကြည့်လေသည်။ ခွဲစိတ်ရာတွင်အနာယဉ်းခြင်းသည် ဗီဇမျိုးများ ဝင်သောကြောင့် ဖြစ်ကြောင်းကို ပါးစတား တွေ့ရှိလေသည်။ ပါးစတား၏ တွေ့ရှိချက်ပေါ်တွင် မှီး၍ ဂျိုးဇက် လစ်စတားကအနာမယဉ်းဆေး ပြုလုပ်အောင်မြင်ခဲ့ရာ ခွဲစိတ်ကုသမှုလောကတွင် အကြီးအကျယ် ပြောင်းလဲသွားရုံမက ဆေးပညာကိုပါ တိုးတက်လာစေသည်။ (လစ်စတား, ဂျိုးဇက် — ရှု။) ထိုကြောင့် ၁၈၇၃ ခုနှစ်တွင် ပါး

စတားအား ဆေးပညာတံခွန်အသင်း အပေါင်းပါ အဖွဲ့ဝင် တယောက်အဖြစ် ခန့်အပ်ကြလေသည်။ ထိုနောက် ၁ဂဂ၀ ပြည့်နှစ်မှစ၍ ကြက်များတွင် ဖြစ်သော ကာလဝမ်းရောဂါ၊ ကျွဲနွားနှင့် သိုးများတွင် ဖြစ်တတ်သော ဒေါင်သန်းနာ ရောဂါနှင့် အခြား တီရစ္ဆာန်ရောဂါများကို စတင်လေ့လာ သည်။ ဤကဲ့သို့ လေ့လာရာ၌ ထိုရောဂါများကို ဗက်ဆင်း ဆေး ထိုးပေးခြင်းအားဖြင့် ကာကွယ်ပေးနိုင်ကြောင်းနှင့် ကုသပေးနိုင်ကြောင်းကို လက်တွေ့ပြလေသည်။ ဤသို့အား ဖြင့် ပြင်သစ်နိုင်ငံ၏ တိရစ္ဆာန်မွေးမြူရေးလုပ်ငန်းများ တိုး တက် အောင်မြင်ခဲ့ရသည်။

နောက်တနှစ်တွင် ပါးစတားသည် ပြင်သစ်နိုင်ငံ၌ နှစ်စဉ် နှစ်တိုင်း လူနှင့်ခွေးပေါင်း အမြောက်အမြားကို သေစေခဲ့ သောခွေးရူးပြန်ရောဂါကို စတင်လေ့လာလေသည်။ တနေ့ တွင် သူ တွေ့ရှိသောနည်းဖြင့် ခွေးရူးအကိုက်ခံရသော ဂျိုး ဇက်မီစတာဆိုသူ လူငယ်ကလေးအား စမ်းသပ် ကုသပေးရာ ကောင်းစွာ အောင်မြင်သည်မှစ၍ ခွေးရူးပြန်ရောဂါကိုကုသ ၍ဖြစ်ကြောင်း ကမ္ဘာသို့အထောက်အထားနှင့်တကွ ၁ဂဂ၅ ခုနှစ် ဇူလိုင်လ ၆ ရက်နေ့တွင် ကြေညာနိုင်သည်။ ယင်းကု ထုံးကိုမည်မျှလူကြိုက်များလာသနည်းဟူမူ ၁ဂဂဂ ခုနှစ်တွင် ပါရစ်မြို့၌ ခွေးရူးပြန်ရောဂါကု ဆေးရုံတရုံဖွင့်ရသည်။ ယင်း ဆေးရုံကို ပါးစတားအား ဂုဏ်ပြုသောအားဖြင့် ပါးစတား ဆေးရုံဟု မှည့်ခေါ်လေသည်။ ပါးစတားအားလည်း ယင်း ဆေးရုံ၏ ညွှန်ကြားရေးဝန်အဖြစ် ခန့်အပ်ကြသည်။ ယခုအ ခါ ပါးစတားဆေးရုံများကို ကမ္ဘာအရပ်ရပ်၌ ဖွင့်လှစ်ထား သည်ကို တွေ့နိုင်သည်။ ရန်ကုန်မြို့၌လည်း ပါးစတားဆေးရုံ တရုံရှိသည်။ ပါးစတားဆေးရုံသည် ခွေးရူးပြန်ရောဂါများ ကိုအဓိကထား၍ကုသပေးသဖြင့် ခွေးရူးဆေးရုံဟုအများက ခေါ်ကြသော်လည်း၊စင်စစ်အားဖြင့် ရောဂါအမျိုးမျိုး၏ ကု ထုံးနှင့်ကာကွယ်မှုကို လေ့လာနိုင်သော ဌာန ဖြစ်သည်။

ပါးစတား၏ ရှာဖွေ တွေ့ရှိချက်များသည် ကာလဝမ်း ရောဂါ၊ ဆုံဆို့နာ၊တက်တနတ်ရောဂါ၊ တီဗီရောဂါနှင့် အခြား ကူးစက်တတ်သော ရောဂါများကို လေ့လာနိုင်ရန်နှင့် ကာ ကွယ်ပေးနိုင်ရန် အခြေခံသဖွယ် ဖြစ်လေသည်။

ထို့ပြင် ပါးစတား ရိုက်ဇေးရှင်းခေါ် အစာများကို မပုပ် မသိုးအောင် ပြုလုပ်ပေးနိုင်သော နည်းကိုလည်း ပါးစတား ပင် တီထွင်ပေးသွားလေသည်။ ဤနည်းမှာ နို့ထဲတွင် ပါရှိသော ဗက်တီးရီးယားများကို သတ်ပစ်ခြင်းအားဖြင့် နို့များကို မချဉ်အောင် ကာကွယ်ပေးခြင်းဖြစ်သည်။ ဤ သို့အားဖြင့် ဗီဇမျိုးများ ပါရှိသော နို့ကို သောက်မိသော ကြောင့် ရောဂါဖြစ်၍ သေဆုံးရသော ကလေးပေါင်း အ မြောက်အမြား၏အသက်ကို ကယ်ဆယ်နိုင်ခဲ့သည်။

အသက်ထက်ဆုံး ကမ္ဘာ့ကောင်းကျိုးကို သည်ပိုးသွား သော ပါးစတားသည် ၁ဂ၉၅ ခုနှစ် စက်တင်ဘာလ ၂ဂ ရက် နေ့တွင် ပါရစ်မြို့၌ကွယ်လွန်၍ ယင်းမြို့ရှိ ပါးစတားဆေးရုံ၌ ပင် မြှုပ်နှံ သင်္ဂြိုဟ်လေသည်။

**ပါးစတားရိုက်ဇေးရှင်း။** ။ပါးစတားရိုက်ဇေးရှင်း ဆို သည်မှာ အစားအစာကို အပူနှင့် အအေးဖြင့် မပုပ်မသိုးဘဲ ကြာရှည်ခံအောင် ပြုလုပ်သော နည်းဖြစ်သည်။ ထိုနည်းကို လူဝီ ပါးစတားက စ၍ ထွင်သောကြောင့် ပါးစတားအား ဂုဏ်ပြုသည့်အနေဖြင့် ပါးစတားရိုက်ဇေးရှင်းဟု ခေါ်ထား ခြင်းဖြစ်၏။ (ပါးစတား၊ လူဝီ — ရှု။) နို့ကို စီမံရာ၌ ဤနည်းကို အသုံးပြုလေ့ရှိသည်။ ထို့ပြင် ဒိန်ခဲ၊ ဗီယာ (ဗျစ်အရက်) နှင့် အခြားအစားအစာများကို မပုပ်မသိုး အောင် ပြုလုပ်ရာ၌လည်း အသုံးပြုကြလေသည်။

ပါးစတားသည် စပျစ်ရည်နှင့် ဗီယာကို အပူချိန်ဖာရင် ဟိုက် ၁၂၂ ဒီဂရီမှ ၁၄၀ အထိ ပူအောင် ပြုလုပ်လျှင်၊ ယင်း တို့ကို အချဉ်ပေါက်ခြင်းမှ ကာကွယ်နိုင်ကြောင်း ပြသခဲ့လေ သည်။ ထိုနည်းဖြင့် နို့ကို စီမံရာ၌ နို့ကို အချဉ်ပေါက်စေ သည့် ဗက်တီးရီးယားများကိုသာ သေစေနိုင်သည် မဟုတ်။ နို့ထဲတွင် ပါရှိနိုင်သော ရောဂါများကို ဖြစ်စေတတ်သည့် သက်ရှိများ အလွန်လျင်မြန်စွာ တိုးပွားခြင်းကိုလည်း တား ဆီးနိုင်ပေသေးသည်။ ထို့ပြင် ပါးစတားရိုက်ဇေးရှင်းနည်း ဖြင့် နို့ကိုစီမံရာ၌ နို့၏ အနံ့အရသာ၊ ပရိုတင်းနှင့် ဗီတာမင် များသည် မပျက်စီးနိုင်ပေ။

အစားအစာများ ပျက်စီးကြရခြင်းမှာ ဗက်တီးရီးယား များကြောင့် ဖြစ်သည်ကို ပါးစတားက တွေ့ရှိခဲ့လေသည်။ (ဗက်တီးရီးယား — လည်းရှု။) ထိုသက်ရှိများသည် နေရာ အနှံ့အပြားတွင် သဘာဝအလျောက် ဖြစ်ပေါ်နေကြလေ သည်။ အစာအတွင်းသို့ ဗက်တီးရီးယား ရောက်သည်နှင့် တပြိုင်နက် ဆဲတခုတည်းသာရှိသော ထိုဗက်တီးရီးယား များသည် အလွန်လျင်မြန်စွာ ပွားလာပြီးလျှင် မကြာမီအ တွင်း၌ အစာကို အသုံးမပြုနိုင်သည်အထိ ပျက်စီးစေလေ သည်။ အရည်ကို သာမန်ဆူစေခြင်းဖြင့် ဗက်တီးရီးယား အားလုံးကို သေစေသည်မှာ မှန်၏။ သို့သော် နို့ကို ဆူ အောင်လုပ်သည့် အပူသည် နို့၏ အနံ့အရသာကို ဖျက်ဆီး ပစ်တတ်သည်။ နို့ကို ဆူအောင် လုပ်ရန် မလိုသည်ကို ပါးစတားသည် တွေ့ရှိခဲ့သည်။ ဗက်တီးရီးယားအမြောက် အမြားကို နို့မဆူစေသော အပူနှင့်ပင် သတ်ပစ်နိုင်သည်ကို လည်း ပါးစတားတွေ့ရှိခဲ့လေသည်။ ထို့ပြင် နို့ကို အပူတိုက် ပြီးသည်နှင့် လျင်မြန်စွာအအေးစေလျှင်လည်း၊ ဗက်တီးရီး ယားများသည် နောက်ထပ်၍ လျင်မြန်စွာ တိုးပွားမလာ သည်ကိုလည်း သိခဲ့လေသည်။

ထို့ပြင် ပါးစတားနည်းဖြင့် စီမံထားသော နို့သည် ကြာ

ရှည်အထားခံလေသည်။ နို့ကို အချဉ်မပေါက်စေရန် ပါးစတားရိုက်ဇေးရှင်းနည်းဖြင့် နို့ကို စိမ်သော လုပ်ငန်းကို ၁၉ ရာစုနှစ်နောက်ပိုင်းတွင်မှ စတင်ခဲ့ကြလေသည်။ ထိုနောက် ဤနည်းဖြင့် နို့ကို စိမ်ခြင်းဖြင့် ရောဂါကို ဖြစ်စေနိုင်သော သက်ရှိများပျက်စီးစေနိုင်သည်ကို တစတစသိလာကြသော အခါ၊ နို့ကို ဤနည်းဖြင့် စိမ်ပြီးမှသာ ရောင်းချရန် စည်းကမ်းများ သတ်မှတ်လာကြလေသည်။ ထိုနည်းဖြင့် နို့ကို စိမ်ရာ၌ နို့ကိုအပူချိန် ဖာရင်ဟိုက် ၁၄၇ ဒီဂရီအထိ ပူလာအောင်ပြုလုပ်ကာ၊ထိုအပူချိန်၌ မိနစ် ၃၀ ထက်မနည်း ထားပြီးနောက်၊ ချက်ခြင်းအပူချိန်ကို ဒီဂ ရီ ၅၀၊ သို့မဟုတ် ထို့ထက်နိမ့်သောအပူချိန်သို့ ရောက်သည်အထိ အေးစေသည်။ ထိုသို့စိမ်ရာ၌ အပူချိန်နှင့် အချိန်အချိုးညီရန် အထူးအရေးကြီးပေသည်။ ပါးစတားရိုက်ဇေးရှင်းပြုလုပ်ရာ၌ အပူချိန်မြင့်မြင့်နှင့်အချိန်တိုတိုထားခြင်းသည်အပူချိန်နိမ့်နိမ့်နှင့် အချိန်ကြာကြာထားခြင်းကဲ့သို့ပင် ဗက်တီးရီးယားပိုးများကို သေစေနိုင်ပေသည်။ တျူဗာကယ်ဇက်စီလတ်ခေါ် ပိုးသည် အပူချိန်ဒီဂရီ ၁၇၀ တွင် ၂ စက္ကန့်၊သို့မဟုတ် ၃ စက္ကန့်အတွင်း သေကြေသွားပေမည်။သို့မဟုတ်ဒီဂရီ ၁၆၀ တွင် ၁၂ စက္ကန့်၊ ဒီဂရီ ၁၅၁ တွင် ၂ မိနစ်မှ ၅ မိနစ်အတွင်း၊ သို့မဟုတ် ဒီဂရီ ၁၄၀ တွင် မိနစ် ၂၀၊ သို့မဟုတ် ၁၃၈ ဒီဂရီတွင် မိနစ် ၃၀ အတွင်း၌ သေစေနိုင်သည်။ ထို့ကြောင့် ပါးစတားရိုက်ဇေးရှင်းနည်းဖြင့် နို့ကို စိမ်သော အခြားနည်းတမျိုး၌ နို့ကို ပဌမနည်းဖြင့် ပြုသော အပူချိန်ထက် မြင့်သော အပူချိန် ဒီဂရီ ၁၆၀ သို့ရောက်အောင် ပြုလုပ်ပေး၍၊ ထိုအပူချိန်၌ ၁၅ စက္ကန့်သာထားပြီးနောက်၊ နို့ကို လျင်မြန်စွာ ပြန်အေးစေသည်။ မည်သည့်နည်းဖြင့် စိမ်သည်ဖြစ်စေ၊ နို့ကို လျင်မြန်စွာပြန်အေးစေရပေမည်။သို့မှသာ ဗက်တီးရီးယားများသည် လျင်မြန်စွာ ပွားများလာနိုင်မည် မဟုတ်ချေ။ ပါးစတား ရိုက်ဇေးရှင်းနည်းဖြင့် စိမ်ထားသော နို့ကိုသာ အသုံးပြုကြလျှင် နို့ကြောင့် ကူးစက်တတ်သော ကာလဝမ်းရောဂါ၊တီဗီရောဂါများနှင့် အခြားရောဂါများ ကူးစက်နိုင်မည် မဟုတ်ဟုဆိုသည်။ မြန်မာနိုင်ငံ၌လည်း အချို့နို့စားနွားမခြံများမှ ထွက်သော နို့များကို ပါးစတားရိုက်ဇေးရှင်း နည်းဖြင့် စိမ်၍ ရောင်းချလျက် ရှိပေသည်။

ပါးဆယု။ ။ပါးဆယုသည် ဂရိထုံးဟောင်းပုံပြင်တွင် ဇုနတ်နှင့် ဒန်နေအီ လူမိန်းမတို့မှ ဖွားမြင်သော သားဖြစ်သည်။ ပါးဆယုအား မဖွားမြင်မီက ဒန်နေအီ၏ ခမည်းတော် အားဂေါ်ပြည့်ရှင်အကရစ်ဆီးယပ်ဘုရင်ကြီးကို မိမိ၏မြေးတော်လက်ချက်ဖြင့် ကံကုန်ရလိမ့်မည်ဟု အဟောရှိခဲ့သည်။ ထို့ကြောင့် ဒန်နေအီတွင် သားတော် ပါးဆယုဖွားမြင်သည်ဟုကြားသိရသောအခါ၊ အကရစ်ဆီးယပ်သည် ဒန်



ပါးဆယုသည် မီဒူးဆားဘီလူးမ၏ ဦးခေါင်းဖြတ်ယူစဉ်

နေအီနှင့် ပါးဆယုတို့အား ကြိမ်သေတ္တာတွင် ထည့်ကာ၊ ပင်လယ်ကြော၌ မျှောလေသည်။

ကြိမ်သေတ္တာကြီးသည် ကျွန်းတကျွန်းသို့ ဆိုက်ကပ်သွားရာ ထိုကျွန်းမှ ဒစ်ကတစ်အမည်ရှိသော တံငါသည်ကြီးက ဆယ်ယူကာ၊ ဒန်နေအီတို့ သားအမိအား ကျွေးမွေးစောင့်ရှောက်ထား၏။ ယင်းသို့ဖြင့် ပါးဆယု မင်းသားကလေးမှာ ကြီးပြင်းလာခဲ့ရရာ၊ သန်မာထွားကျိုင်းသော လုလင်ပျိုတယောက် ဖြစ်လာ၏။ ထိုကျွန်း၏ဘုရင် ပေါ်လီဒက်တီသည် ပါးဆယု၏မယ်တော် ဒန်နေအီ မင်းသမီးကို ရယူလိုရကား၊ သားတော် ပါးဆယုအား သေစေပြီးမှ မယ်တော် ဖြစ်သူကို အရယူမည်အကြံပြုလျက်၊ ပါးဆယုအား မီဒူးဆား ဘီလူးမ၏ ဦးခေါင်းကို ဖြတ်ယူဆောင်ကြဉ်းပေးရမည်ဟု အမိန့်တော်မှတ်ကာ စေလွှတ်လိုက်၏။

ပါးဆယုသည် မီဒူးဆားဘီလူးမထံသို့ သွားရာ ခရီး၌၊

ပြိုတ္တာ ညီအစ်မသုံးဖော်နှင့် တွေ့၏။ ယင်းသည့် ပြိုတ္တာ ညီအစ်မသုံးဖော်မှာ သုံးဦးစလုံးတွင်မှ မျက်လုံးတလုံးသာ ရှိသည်။ပါးဆယုသည် ထိုမျက်လုံးကိုယူထားလိုက်ပြီးသော်၊ ပြိုတ္တာ ညီအစ်မများအား မိမိသွားရာခရီး၌ ဘေးရန် အသီးအသီးမှ ကာကွယ်ပေးမည်ဖြစ်သော အရာဝတ္ထုများကို ရရှိအောင် ညွှန်ပြပေးမှသာလျှင် မျက်လုံးကို ပြန်ပေးမည်ဟု ပြောလေသည်။ ဤသို့အားဖြင့် ပါးဆယုသည် ကြေးမုံပြင်ကဲ့သို့ အရိပ်ထင်သော ဒိုင်း၊ ခြေနင်းပျံ နှင့် နတ်မား၊ ဆောင်းလိုက်လျှင် ကိုယ်ပျောက်စေသောသံခမောက်တို့ကို ရရှိခဲ့လေသည်။

ပါးဆယုသည် ခရီးဆက်လက် ထွက်ခွာခဲ့ရာ၊ မိဒူးဆားဘီလူးမ နေထိုင်ရာ အရပ်သို့ ရောက်လေ၏။ ထိုအခါ ကိုယ်ပျောက်စေသော သံခမောက်ကိုဆောင်းကာ၊ ခြေနင်းပျံကိုစီးလျက် မိဒူးဆားအနီးသို့ချဉ်းကပ်၏။ မိဒူးဆား၏မျက်နှာကိုတိုက်ရိုက်မြင်သူများသည် ကျောက်ရုပ်ဖြစ်သွားတတ်သောကြောင့်၊ပါးဆယုသည်မိဒူးဆား၏ခေါင်းကို တိုက်ရိုက်မော်မကြည့်ဘဲ၊ ကြေးမုံပြင်ကဲ့သို့ အရိပ်ထင်သော ဒိုင်းတွင် ကြည့်ကာ ဖြတ်ယူလိုက်၏။ ထိုသို့ ပါးဆယုက မိဒူးဆား၏ ဦးခေါင်းကို ဖြတ်ရာတွင် ကျဆင်းလာသော လည်ချောင်းသွေးမှ ပဂ္ဂဆပ်နတ်မြင်းပျံဖြစ်လာသည်ဟု ဆိုသည်။ (ပဂ္ဂဆပ် — ရှု။)

ပါးဆယုသည် မိဒူးဆား၏ဦးခေါင်းကိုဖြတ်ယူပြီးနောက် အပြန်ခရီး၌၊ ရေသတ္တဝါကြီးတကောင်အား ကျွေးမွေးရန် အလို့ငှါ၊ ပင်လယ်ကမ်းပါး ကျောက်ဆောင်တခုတွင် သံကြိုးဖြင့်ချည်နှောင်ထားခြင်းခံနေရသောအန်ဒရွှမ်မီဒါမင်းသမီးကလေးအား ကယ်ယူခဲ့ပြီးလျှင်၊ ထိမ်းမြား လက်ထပ်လိုက်လေသည်။မိမိတိုင်းပြည်သို့ ပြန်ရောက်သောအခါ၊ ပါးဆယုသည် ပေါလီဒက်တီဘုရင်နှင့် မိမိ၏ ရန်သူအားလုံးကို မိဒူးဆား၏ ဦးခေါင်းကို ပြသ၍ ကျောက်ရုပ် ဖြစ်စေ၏။ ထိုနောက် ပါးဆယုသည် ကြင်ယာတော် အန်ဒရွှမ်မီဒါ၊ မယ်တော် ဒန်နေအီတို့နှင့်အတူ ဘိုးတော် အကရစ်ဆီးယပ်၏ နေပြည်တော်သို့ သွားရောက်လေသည်။ သူတို့ရောက်သွားချိန်ဝယ်၊ ပြေးပွဲပြိုင်ပွဲများ ကျင်းပနေဆဲဖြစ်သဖြင့်၊ ပါးဆယုသည်လည်း သံပြားဝိုင်းပစ်ပွဲ၌ ဝင်ရောက်ယှဉ်ပြိုင်၏။ ပါးဆယု ပစ်လိုက်သော သံပြားဝိုင်းသည် ပြိုင်ပွဲကိုရှုစားနေသော ဘိုးတော် အကရစ်ဆီးယပ်အား မတော်တဆ ထိမှန်သွားသဖြင့်၊ ဟောကိန်းနှင့်အညီ မြေးတော်လက်ချက်ဖြင့် ဘုရင်ကြီး နတ်ရွာစံလေသည်။

ဤသို့ဖြင့် ပါးဆယုသည် အားဂေါ့ပြည့်ရှင် ဘုရင် ဖြစ်လာပြီးလျှင်၊ နောင်အခါတွင် အားဂေါ့ပြည်ကို တီရင်းပြည်နှင့်လဲလှယ်ကာ အုပ်စိုးလေသည်။ ပါးဆယုနှင့် အန်ဒရွှမ်မီဒါတို့ကွယ်လွန်သောအခါ၊ကောင်းကင်၌ ပါးဆယုနှင့် အန်ဒရွှမ်မီဒါကြယ်စုများ ဖြစ်သွားသည်ဟူ၍ရင်း၊ မယ်တော် ဒန်နေအီမှာမူ ကက်ဆီအိုးပီးယား ကြယ်စု ဖြစ်သွားသည် ဟူ၍ရင်း ဂရိတို့ ပြောစမှတ် ပြုကြလေသည်။

**ပါးဆဲ,ဟင်နရီ**(ခရစ် ၁၆၅၉–၁၆၉၅)။ ။ဟင်နရီ ပါးသည် အင်္ဂလိပ် တေးဂီတ အရာတွင် ကဝိတဆူအဖြစ်ဖြင့် ထင်ရှားကျော်စောသော ဂီတစာဆို တဦးဖြစ်၍၊ ခရစ် ၁၆၅၉ ခုနှစ်တွင် လန်ဒန်မြို့၌ ဖွားမြင်သည်။ ဆယ်နှစ်သားအရွယ်ကပင် ဘုရင့်ဝတ်ကျောင်းတော်တွင် ဓမ္မသီချင်းများကို ဂီတ အဖွဲ့သားများနှင့်အတူ သံပြိုင် သီဆိုခဲ့သည်။ ၁၆၇၂ ခုနှစ်တွင် ထိုဘုရင့်ဝတ်ကျောင်းတော်၌ပင် ဩဂင်စန္ဒရားဆရာအဖြစ်ဖြင့် အမှုထမ်းခဲ့သည်။ ထိုသို့ အမှုမထမ်းမီနှင့် အမှုထမ်းဆဲကာလတို့တွင် ဝတ်ကျောင်းများ၌ သီဆိုသော ဓမ္မသီချင်းနှင့် ပြဇာတ်အတွက် သီချင်းတို့ကို ရေးစပ်ခဲ့ရာ၊ ၁၆၇၉ ခုနှစ်ခန့်တွင် ‘ဒိုင်ဒိုနှင့် အီးနီးယပ်’ အမည်ရှိသော အော်ပရာခေါ် တေးသံစုံ ဇာတ်အတွက် သီချင်းစာသား မပါဘဲ၊တီးကွက်တီးလုံးချည်းသာပါသောဂီတကို ရေးသားသီကုံးခဲ့သည်။ ထိုဂီတတို့တွင် ပါဝင်သော ငိုချင်းရှည်နှစ်ပုဒ်သည် အော်ပရာ တခုလုံးတွင် အလွန်ကြေကွဲ လွမ်းဆွတ်ဖွယ်ကောင်းသောငိုချင်းဖြစ်သည်။ပါးဆဲ စပ်ဆိုသော ဂီတ အသွားတို့သည် နိုင်ငံခြားယဉ်ကျေးမှုဩဇာမှကင်းစင်သော အင်္ဂလိပ်စစ်စစ်ဖြစ်သည့် ဂီတအသွားမျိုးဖြစ်လေရာ၊ ပါးဆဲကိုနှောင်းလူတို့က အင်္ဂလိပ် ဂီတစာဆိုတို့ ပူဇော်ထိုက်သော ဖခင်ကြီး အဖြစ်ဖြင့် အလေးအမြတ် ပြုကြသည်။ ၁၆၉၅ ခုနှစ်တွင် ပါးဆဲကွယ်လွန်လေသော်၊ သူ၏ ရုပ်ကလာပ်ကို ဝက်စမင်စတာ အက်ဗေးတွင်သင်္ဂြိုဟ်လေသည်။



အင်္ဂလိပ်တေးဂီတ ဆရာကျော် ဟင်နရီပါးဆဲ

**ပါးနဲ့,ချားစတူးဝပ်** (ခရစ် ၁၈၄၆ – ၁၈၉၁)။ ။ချားစတူးဝပ်ပါးနဲသည် အိုင်ယာလန်ပြည်လွတ်လပ်ရေးတိုက်ပွဲတွင် နာမည် ထင်ရှားခဲ့သော မျိုးချစ်ခေါင်းဆောင်ကြီးတဦး ဖြစ်သည်။ ၁၈၄၆ ခုနှစ် ဇွန်လ ၂၇ ရက်နေ့၌ ဝစ်ကလိုရိုင်းအက်ဗွန်ဒေးတွင် မွေးဖွားသည်။ပါးနဲ၏ဖခင်သည် မြေပိုင်ရှင်ကြီးတဦးဖြစ်၍ မိခင်ကား အမေရိကန်ပြည်ထောင်စုနိုင်ငံ ရေတပ်ဗိုလ်ချုပ်တဦး၏ သမီးဖြစ်သည်။ ပညာသင်သော အရွယ်တွင် ကိမ်းဗရစ် တက္ကသိုလ်၌ ပညာသင်ကြားခဲ့ရ၏။ ၁၈၇၅ ခုနှစ်တွင် အိုင်ယာလန်ပြည်မှ ဟုမ်းရူးဟုခေါ်သော နိုင်ငံရေးဂိုဏ်းဝင်အဖြစ် မိသ မဲဆန္ဒနယ်မှ ပါလီမန်သို့ ရွေးကောက်တင်မြှောက်ခြင်းခံရသည်။

ထိုခေတ်၌ အိုင်ယာလန်ပြည် တောင်သူ လယ်သမားများသည် အင်္ဂလိပ် မြေပိုင်ရှင်ကြီးများ၏ ဖိနှိပ်ခြင်းကို များစွာခံနေရ၏။ ထိုကြောင့် ပါးနဲသည် တောင်သူ လယ်သမားများ၏ အရေးကို အကြောင်းပြု၍၊ နိုင်ငံရေး ရည်ရွယ်ချက်အောင်မြင်ရန် ဆောင်ရွက်လေသည်။ ထိုစဉ်က နိုင်ငံရေး တယူသန်ဂိုဏ်းဖြစ်သော ဖီနီယန်ဂိုဏ်း၏ အကူအညီကိုလည်း ယူခဲ့ရာ၊ ပါးနဲ၏ ဂိုဏ်းသည် ပါလီမန် အတွင်း၌ အတော်ပင် အရေးပါလာသဖြင့်၊ ပါလီမန်၏ လုပ်ငန်းစဉ်များကို ပျက်ပြားအောင်ပင် ပြုနိုင်လာလေသည်။ ထိုကြောင့်လည်း ပါးနဲ၏ ဂိုဏ်းသည် ပါလီမန် အတွင်း၌ ဩဇာကြီးမားလာခြင်း ဖြစ်သည်။



အိုင်ယာလန်ပြည် မျိုးချစ်ခေါင်းဆောင် ချားစတူးဝပ်ပါးနဲ

၁၈၇၉ ခုနှစ်တွင် ပါးနဲသည် သီးစားခလျှော့ပေါ့ရေးနှင့် ကိုယ်ထိလက်ရောက် လယ်လုပ်သူတို့သာ လယ်မြေကိုပိုင်ဆိုင်ရေးအတွက် စည်းရုံးထားသော အမျိုးသားမြေယာအစည်းအရုံးတွင် ဥက္ကဋ္ဌဖြစ်လာသည်။ ၁၈၈၀ ပြည့်နှစ်တွင် ပါလီမန်အတွင်းရှိ အိုင်ရစ်ဂိုဏ်း၏ ခေါင်းဆောင် ဖြစ်လာသည်။ ထိုအတွင်းတွင် ပါးနဲသည် သီးစားတို့ အကျိုးငှါ လယ်ယာမြေစနစ်ပြုပြင်ရေး ဥပဒေများကို ပါလီမန်က အတည်ပြုမပေးသမျှ ကာလပတ်လုံး၊ သီးစားခ မပေးဘဲ သပိတ်မှောက်ရန် လှုံ့ဆော်ခဲ့သဖြင့် ထောင်ကျခဲ့သည်။ သို့ရာတွင် သပိတ်မှောက်ခြင်းကို ရုပ်သိမ်းလျှင်၊ အစိုးရတို့က သီးစားခကြွေးကိစ္စကို သက်ညှာစွာ စဉ်းစားမည် ဟူသော အစိုးရ၏ လိုက်လျှောချက်ကို ပါးနဲ လက်ခံလိုက်သဖြင့် ပါးနဲသည် ထောင်မှ လွတ်လာလေသည်။

ထိုသည်မှစ၍ အိုင်ယာလန်ပြည်အရေးသည် အခြေအနေ တိုးတက်ကောင်းမွန်လာလေသည်။ အင်္ဂလိပ် နန်းရင်းဝန် ဂလက်စတုန်း အစိုးရကလည်း အိုင်ယာလန်ပြည်အရေးကို သက်ညှာစွာ ဆောင်ရွက် ပေးလာခဲ့သည်နှင့်၊ ပါးနဲ၏ ဂိုဏ်းသည် ထိုအစိုးရအဖွဲ့ကို ထောက်ခံခဲ့လေသည်။ (ဂလက်စတုန်း, ဝီလျံ၊ အီ — ရှု။) ၁၈၈၆ ခုနှစ်တွင် သီးစားများ သက်သာချောင်ချိရေး ဥပဒေကို ပါလီမန်၌ အတည်ပြုပြဋ္ဌာန်းလိုက်သည်။ ထိုနှစ်တွင်ပင် ဂလက်စတုန်း၏ အိုင်ယာလန်ပြည် ကိုယ်ပိုင်အုပ်ချုပ်ရေး ဥပဒေကြမ်း တင်သွင်းရန် အစီအစဉ်များကို ပြုလုပ်လေသည်။ ဤအချိန်အတွင်းတွင် ပါးနဲအဖို့ နာမည်ပျက်စရာ အကြောင်းများ ပေါ်ပေါက်လာလေသည်။

၁၈၈၂ ခုနှစ်တွင် နိုင်ငံရေး တယူသန်သမားတို့၏ လက်ချက်ဖြင့်၊ အိုင်ယာလန်ပြည်ဆိုင်ရာ အတွင်းဝန်ချုပ်နှင့် အတွင်းဝန်ကလေးတို့သည် ဖီးနစ်ဥယျာဉ်ဝယ် အသတ်ခံရ၏။ ၁၈၈၇ ခုနှစ်တွင် လန်ဒန်တိုင်း သတင်းစာက ထိုကိစ္စကို ပြန်ဖော်၍ ထိုလုပ်ကြံမှုတွင် ပါးနဲနှင့် အပေါင်း အဖော် တစုတို့ပါဝင်သည်ဟု စွပ်စွဲလေသည်။ ပါးနဲက ထိုကိစ္စကို အစိုးရသည် ကော်မစ်ရှင် အဖွဲ့ဖွဲ့၍ စုံစမ်းပါမည့် အကြောင်း ဖြင့် ဂလက်စတုန်းအား တောင်းဆို၏။ ထိုတောင်းဆိုချက်အရ၊ ကော်မစ်ရှင် အဖွဲ့က ထိုအမှုကို စစ်ဆေးရာတွင်၊ ပါးနဲသည် အပြစ်မရှိကြောင်း ထင်ရှားလာလေသည်။ သတင်းစာတွင် ဖော်ပြခဲ့သော စာများသည် အတုသာလျှင်ဖြစ်ကြောင်း ခိုင်လုံစွာ သိရှိရလေသည်။ သို့ဖြစ်၍ ပါးနဲသည် ယခင်ကထက်ပင် ဩဇာတိက္ကမ ကြီး၍လာလေသည်။ ဂလက်စတုန်းလည်း အိုင်ယာလန်ပြည် ကိုယ်ပိုင် အုပ်ချုပ်ရေး ဥပဒေကြမ်းကို တင်သွင်းရန် အဆင်သင့်ပင် ရှိခဲ့သည်။ သို့

သော် မမြော်လင့်သော အဖျက်အဆီးတခုသည် နောက်ထပ် ပေါ်ပေါက်လာပြန်၏။ ပါးနဲသည် သူ၏နောက်လိုက် တဦး ဖြစ်သူ ကက်ပတိန် အိုရှေး၏ ဇနီးနှင့် မျှားစွာ ရင်းနှီး၏။ ထို ကြောင့် ၁၈၈၉ ခုနှစ်တွင် အိုရှေးက ပါးနဲနှင့် သူ၏ ဇနီးကို သမုတ်ကာ၊ လင်မယား ကွာရှင်းခွင့်ရရန် ရုံးတွင် လျှောက် ထားလေသည်။ အိုရှေးတို့ လင်မယား ကွာရှင်းပြီး၍ နောက် တနှစ်တွင် ပါးနဲသည် အိုရှေး၏ဇနီးနှင့် လက်ထပ်လိုက်လေ သည်။ ထိုကိစ္စသည် ပါးနဲ၏ ဂုဏ်သိက္ခာကို အလွန်ထိခိုက် လာလေသည်။

ထို့ကြောင့် နောက်ဆုံး၌ ပါးနဲသည် အိုင်ရစ် ဂိုဏ်း၏ ခေါင်းဆောင်အဖြစ်မှ လျှောကျခဲ့ရသည်။ ထို့ကြောင့်လည်း အိုင်ယာလန်ပြည်၏ အရေးသည် မအောင်မြင်ဖြစ်ခဲ့ရသည်။ ပါးနဲသည် ၁၈၉၁ ခုနှစ်တွင် ကွယ်လွန်လေသည်။

**ပါးမာစတန်, ဟင်နရီ ဂျွန်တင်ပယ်** (ခရစ် ၁၇၈၄ – ၁၈၆၅)။ ။ဟင်နရီဂျွန်တင်ပယ်ပါးမာစတန်သည်ဝိတိုရိယ ဘုရင်မလက်ထက်တွင် နှစ်ပေါင်း ၅၀ မျှ အစိုးရအဖွဲ့တွင် ပါဝင်ဆောင်ရွက်ခဲ့၍ နိုင်ငံပြု သုခမိန်အဖြစ်ဖြင့် ထင်ရှား ကျော်ကြားသော ပုဂ္ဂိုလ်ဖြစ်သည်။ အိုင်ယာလန် မှူးမတ် မျိုးနွယ် ဖြစ်၍ တတိယဗိုင်းကောင့်ဘွဲ့ကို ရရှိသူလည်း ဖြစ်သည်။



ဗြိတိသျှဝန်ကြီးချုပ် ဟင်နရီ ဂျွန် တင်ပယ် ပါးမာစတန်

ပါးမာစတန်သည် ဟမ့်ရှိုင်ယာနယ်တွင် ၁၇၈၄ ခုနှစ်၌ မွေးဖွားသည်။ ငယ်စဉ်က အက်ဒင်ဗာရာ တက္ကသိုလ်တွင် ပညာသင်သည်။ ၁၈၀၇ ခုနှစ်တွင် ပါလီမန် အမတ်ဖြစ် လာပြီးနောက်၊ နှစ်နှစ်မျှ ကြာသောအခါ၊ စစ်ဝန်ကြီးဖြစ် လာသည်။ ၁၈၃၀ ပြည့်နှစ်၌ လော့ဂရေး၏ အစိုးရအဖွဲ့ထဲ၌ နိုင်ငံခြားရေး ဝန်ကြီးအဖြစ်ဖြင့် ဆောင်ရွက်ခဲ့သည်။ ၁၈၄၁ ခုနှစ်နှင့် ၁၈၄၆ ခုနှစ်စပ်ကြား ကာလအတွင်း၌ကား ပါး မာစတန်သည် မည်သည့် အစိုးရအဖွဲ့မှာမျှ မပါဝင်ချေ။ ၁၈၄၆ ခုနှစ်တွင် လော့ ဂျွန်ရပ်ဆဲ၏ အစိုးရအဖွဲ့ထဲ၌ နိုင်ငံ ခြားရေးဝန်ကြီးအဖြစ်ဖြင့် ဆောင်ရွက်ရပြန်သည်။ ၁၈၅၁ ခုနှစ်၌မူကား ပြင်သစ်နိုင်ငံ၌ လူဝီ နပိုလီယန်က အာဏာကို လုပ်ကြံသည်တွင် လူဝီနပိုလီယန်ကို ထောက်ခံခဲ့သဖြင့်၊ နိုင်ငံ ခြားရေးဝန်ကြီး ရာထူးမှ နုတ်ပယ်ခြင်းကို ခံရသည်။ သို့ရာ တွင် ကရိုင်းမီးယန်းစစ်ပွဲကြောင့် ဗြိတိသျှနိုင်ငံရေး လှုပ်ရှား လာသောအခါ အစိုးရအဖွဲ့ထဲသို့ ပြန်လည် ဝင်ရောက်လာရ ပြီးလျှင်၊ ၁၈၅၅ ခုနှစ်တွင် နန်းရင်းဝန် ရာထူးကို လက်ခံရ လေသည်။ သို့ရာတွင် တရုပ်နိုင်ငံနှင့် စပ်လျဉ်းသော နိုင်ငံ ခြားရေးဝါဒ၌ အစိုးရအဖွဲ့နှင့် သဘောကွဲလွဲပြန်သဖြင့်၊ နန်း ရင်းဝန်ရာထူးမှ နုတ်ထွက်ခဲ့သည်။ ၁၈၅၉ ခုနှစ်တွင် နန်းရင်း ဝန်ပင် ပြန်ဖြစ်သည်။ ထိုသည်မှစ၍ ပါးမာစတန်၏ ဦးစီး ခေါင်းဆောင်ပြုခြင်းကို အများက လက်ခံလာကြရာ၊ ပါးမာ စတန်သည် နန်းရင်းဝန် အဖြစ်ဖြင့် အလုပ်ခွင်၌ပင်လျှင် ၁၈၆၅ ခုနှစ်တွင် ကွယ်လွန်လေသည်။ ပါးမာစတန်သည် ရှေးထုံးကို မပယ်သော ဝှစ်ပါတီဝင် တဦးဖြစ်သည်။ ဗြိတိသျှ နိုင်ငံ၏ လုံခြုံမှုနှင့် အခွင့်အရေးရရှိမှုတို့ကို မူတည်၍ နိုင်ငံ ရေးတွင် မိမိစိတ်နှင့် မိမိကိုယ် လွတ်လွတ်လပ်လပ် ဆောင် ရွက်လေ့ရှိရာ၊ တခါတရံ နိုင်ငံခြားရှိ နိုင်ငံပြု သုခမိန်တို့နှင့် သာမက ဝိတိုရိယဘုရင်မနှင့်ပင်လျှင် သဘောချင်းကွဲလွဲလေ့ ရှိသည်။ သို့ရာတွင် နန်းရင်းဝန်အဖြစ်ဖြင့် ဝါရင့်လာလေလေ၊ သူ၏လုပ်ရည်ကိုင်ရည်တို့ကို ဗြိတိန်နိုင်ငံသားတို့က နှစ်ခြိုက် လာလေလေဖြစ်၍ ဗြိတိန်၏ ကောင်းကျိုးကို ဆောင်ရွက် ခဲ့သူတဦး အဖြစ်ဖြင့် ဗိုင်းကောင့်ပါးမာစတန်ကို အသိ အမှတ်ပြုကြသည်။

**ပါးရဂွေးနိုင်ငံ**။ ။ပါးရဂွေးနိုင်ငံသည် လက်တင်အမေရိ က ဟုခေါ်သော တောင်အမေရိကနိုင်ငံများတွင် ပါဝင်သည့် သမတနိုင်ငံ တနိုင်ငံဖြစ်၍ တောင် အမေရိကတိုက်၏ အ လယ်ဗဟိုတွင် တည်ရှိသည်။ ထိုနိုင်ငံကို အနောက်၊ မြောက် နှင့်အရှေ့ဖက်ရှိ ဗိုလစ်ဗီးယားနှင့် ဗရာဇီးနှစ်နိုင်ငံတို့က ဝိုင်း၍ ထားပြီးလျှင်၊ အရှေ့နှင့် တောင်ဖက်တွင် အာဂျင်တီးနား နိုင်ငံက ငုံ၍ထားသည်။ ထိုနိုင်ငံတွင် ကျယ်ပြန့်သော စား ကျက်နှင့် သစ်တောများရှိသည်။ အရှေ့တောင်ဖက်ဖျား




ပါးရဂွေးနိုင်ငံ တည်နေရာပြမြေပုံ

တွင် တောင်တန်းများသည် တောင်နှင့် မြောက် တန်းလျက်ရှိသည်။ တောင်ဖက်ပိုင်း၌ ကုန်းမြေသည် ရွှံ့နွံများထူထပ်သည်။ ထိုဒေသ၌အမြဲစိမ်းလန်းလျက်ရှိသော သစ်တောများရှိသည်။ ပါးရဂွေးမြစ်သည် မြစ်ဖျားခံရာ မြောက်အရပ်ဒေသမှ နေ၍ ပါးရဂွေးနိုင်ငံကို ကန့်လန့်ဖြတ်ကာ၊ ပလားတား မြစ်တွင်းသို့ စီးဆင်းသည်။ ပါးရဂွေးမြစ်ကြောင်း၏ အရှေ့ဖက်၌၊ ပါးရဂွေးမြစ်နှင့် ပရနာမြစ်ခွနှစ်ခုကြားတွင် မူလ ပါးရဂွေးဒေသ တည်ရှိသည်။ ပါးရဂွေးမြစ်ကြောင်း၏အနောက်ဖက်၌ ပါးရဂွေးမြစ်နှင့် ပီးလကိုမားယိုးမြစ်ခွနှစ်ခုကြားတွင် ချားကိုဒေသ တည်ရှိသည်။ ချားကို ဒေသတွင် စိမ်းလန်းသော စားကျက်မြေနှင့် သစ်တောရှိ၍ ထိုဒေသအကြောင်းကို ယခုတိုင် စုံစုံလင်လင် စူးစမ်းရှာဖွေခြင်း မပြုရသေးချေ။ ပါးရဂွေးနိုင်ငံ၏ အကျယ်အဝန်းသည် စတုရန်းမိုင် ၁၅၇,၀၄၇ မိုင် ဖြစ်သည်။

ပါးရဂွေးနိုင်ငံ၏ ရာသီဥတုသည် ယေဘုယျအားဖြင့် ညီညွတ်မျှတသည်။ မိုးအသင့် အတင့်ရွာသည်။ နွေဥတုကာလမှာ ဒီဇင်ဘာလမှ ဖေဖွာရီလအထိ၊ ဆောင်းဥတုကာလမှာ မေလမှ ဩဂုတ်လအထိ ဖြစ်သည်။ မြန်မာနိုင်ငံနှင့် ယှဉ်ကြည့်လျှင် ရာသီဥတုသည် ပြောင်းပြန် ဖြစ်နေသည်။ ဤသို့ဖြစ်ရခြင်းမှာ ပါးရဂွေးနိုင်ငံသည် ကမ္ဘာ၏ တောင်ဖက်လုံးခြမ်းတွင် တည်ရှိ၍ မြန်မာနိုင်ငံမှာမူ ကမ္ဘာ၏ မြောက်ဖက်လုံးခြမ်းတွင် တည်ရှိသောကြောင့် ဖြစ်သည်။ နှစ်စဉ် ပျမ်းမျှ အပူချိန်မှာ ၇၄ ဒီဂရီဖာရင်ဟိုက်ဖြစ်၍ နွေရာသီပျမ်းမျှအပူချိန် ၈၁ ဒီဂရီ ဖာရင်ဟိုက်၊ ဆောင်းရာသီ ပျမ်းမျှအပူချိန် ၆၄ ဒီဂရီ ဖာရင်ဟိုက် ဖြစ်သည်။ တနှစ်လျှင် ပျမ်းမျှခြင်းအားဖြင့် မိုးရေချိန်လက်မ ၆၀ ရွာသည်။

ပါးရဂွေးနိုင်ငံ၏လူဦးရေသည် ၁,၄၀၅,၆၂၇ ယောက်ဖြစ်သည်။ ထိုနိုင်ငံတွင် နေထိုင်ကြသူတို့သည် စပိန်လူမျိုး အဆက်အနွယ်များဖြစ်သည်။ တိုင်းရင်းသား လူဦးရေ နည်းပါးသည်။ များသောအားဖြင့် စပိန်လူမျိုးနှင့် တိုင်းရင်းသားတို့သည် လူမျိုးချင်းနှောလျက် ရှိကြသည်။

ပါးရဂွေးနိုင်ငံ၏ မြေသြဇာသည် အလွန်ကောင်းမွန်ခြင်းကြောင့် စိုက်ပျိုးရေးသည် အလွန်ကောင်းမွန်သည်။ သို့သော် ကောက်ပဲသီးနှံ စိုက်ပျိုးခြင်းကို စွမ်းအားရှိသရွေ့ မလုပ်ဆောင်ရသေး။ ဝါဂွမ်းစိုက်ခြင်းကိုသာ အဓိကထား၍ လုပ်ဆောင်ကြသည်။ စက်မှု လက်မှု အလို့ငှါ ကြံကိုလည်း စိုက်ပျိုးသည်။ ထို့ပြင် ဆန်စပါးစသော ကောက်ပဲသီးနှံ၊ လိမ်မော်စသော သစ်သီးတို့အပြင်၊ ဆေးနှင့် လက်ဖက်တို့ကိုလည်း စိုက်ပျိုးသည်။ တိရစ္ဆာန်မွေးမြူရေးကိုလည်း အကြီးအကျယ်လုပ်ကိုင်သည်။ ပါးရဂွေးအစိုးရသည် အမဲသားလုပ်ငန်းနှင့် သားရေလုပ်ငန်းကို အထူးအားပေးသည်။ အာဂျင်တီးနားနိုင်ငံမှထွက်သောဂျုံကို ပါးရဂွေး နိုင်ငံတွင် စက်ကြိတ်သည်။

သယ်ယူပို့ဆောင်ရေး၌ မြန်မာနိုင်ငံကဲ့သို့ပင် နွားလှည်းကို အားကိုးအားထားပြုကြသည်။ ဒုတိယကမ္ဘာစစ်ကြီး မတိုင်မီက မီးရထားလမ်းတို့သည် ပါးရဂွေးနိုင်ငံအတွက် ၇၁၄ မိုင်မျှသာ အရှည်ရှိသည်။ အခြားကုန်းကြောင်းလမ်းတို့ကား မိုင်ပေါင်း ၄,၀၀၀ မျှရှည်သည်။

ပါးရဂွေးနိုင်ငံတွင် ရှေးရိုးစဉ်လာမပျက် နေထိုင်ကြသော တိုင်းရင်းသား ထောင်ပေါင်း အနည်းငယ် ရှိသေးသည်။ တောင်ဖက်ပိုင်းတွင်ကား လူအများသည် ခေတ်ယဉ်ကျေးမှုအရ တိုးတက်ခြင်းကို လက်ခံ၍ ကြွယ်ဝချမ်းသာစွာ နေထိုင်ကြသည်။ သို့ရာတွင် ဓနအင်အားသည် လူအများအပေါ်၌ ညီညွတ်မျှတစွာ မတည်ရှိခြင်းကြောင့်၊ လူဆင်းရဲနှင့် လူချမ်းသာ အဆင့်အတန်းသည် များစွာ အလှမ်းကွာသည်။ ထိုကြောင့်လည်း ပညာရေး၌ လူပေါင်း လေးပုံပုံလျှင် တပုံသာ လျှင် စာတတ်သည်။ လူ ၁၀၀ လျှင် တယောက်မျှသာ တန်းမြင့်ကျောင်း ပညာရေးကို ရရှိသည်။ မူလတန်း ပညာရေးသည် အခမဲ့ပညာရေး စံနစ်ဖြစ်သည်။ ထို့ပြင် မသင် မနေရ ပညာရေးစံနစ်ကို ပြဋ္ဌာန်းထားသော်လည်း၊ ကျောင်းများမှာ လုံလောက်အောင် မရှိချေ။ ပါးရဂွေးနိုင်ငံ၏ မြို့တော် အာဆွန်စီယွန်၌ အမျိုးသား တက္ကသိုလ်ကျောင်းရှိသည်။

ပါးရဂွေးနိုင်ငံသည် စပိန်နိုင်ငံ လက်အောက်ခံ ဘဝမှ လွတ်မြောက်၍ ခရစ် ၁၈၁၁ ခုနှစ် မေလ ၁၄ ရက်နေ့တွင် သမ္မတနိုင်ငံဖြစ်လာသည်။ ထိုနောက် နှစ် အနည်းငယ်အတွင်း အာဏာရှင်အုပ်ချုပ်ရေးစနစ်ဖြင့် အုပ်ချုပ်လာခဲ့သည်မှာ ၁၈၄၄ ခုနှစ်အထိ ဖြစ်သည်။ ထိုနှစ်တွင် ဖွဲ့စည်း အုပ်ချုပ်ပုံအခြေခံဥပဒေကို အသစ်ရေးဆွဲ ပြဋ္ဌာန်း၍ ထိုအခြေခံဥပဒေဖြင့် အုပ်ချုပ်ခဲ့သည်။ သို့သော် အာဏာရှင်စနစ်သည် မပပျောက်သည့်ပြင်၊ ပါးရဂွေးနိုင်ငံ၏ စစ်သည် အင်အားလည်းကြီးမားလာသဖြင့်၊ ၁၈၆၅ ခုနှစ်မှ ၁၈၇၀ ပြည့်နှစ်တိုင်အောင် အိမ်နီးချင်းဖြစ်သော အာဂျင်တီးနား၊ ဗရာဇီး၊ အူရူဂွေးနိုင်ငံတို့နှင့်စစ်ဖြစ်ခဲ့ရာ၊ပါးရဂွေးနိုင်ငံသည် များစွာဆုံးရှုံးခဲ့ရလေသည်။ ၁၈၇၀ ပြည့်နှစ်တွင် အခြေခံ ဥပဒေသစ်တရပ်ကို ထပ်မံရေးဆွဲ ပြဋ္ဌာန်း၍ ၁၉၂၀ ပြည့်နှစ်တိုင်အောင် သမတ အသီးအသီးတို့ဖြင့် အုပ်ချုပ်ခဲ့သည်။ ထိုနောက် ချာကိုဒေသ၌ ရေနံတွေ့ရှိလာသဖြင့်၊ ရေနံစစ်ပွဲများ ကျင်းပခဲ့ရပြီးနောက်၊ ၁၉၃၈ ခုနှစ်တွင် စစ်ပြေငြိမ်းလေသည်။ ၁၉၄၇ ခုနှစ်၌ကား ပြည်တွင်းစစ် ဖြစ်ပွား၍ ပြည်တွင်းတော်လှန်ရေးများဖြင့် မကြာခဏ သောင်းကျန်းခဲ့လေသည်။ လက်ရှိ အစိုးရအဖွဲ့ကား ၁၉၅၄ ခု နှစ်က ရွေးကောက်တင်မြှောက်လိုက်သော အစိုးရအဖွဲ့ဖြစ်သည်။

**ပါးရှားနိုင်ငံ။** ။အီရန်နိုင်ငံ — ရှု။

**ပါးရှင်း,ဂျွန်ဂျိုးဇက်(ခရစ် ၁၈၆၀–၁၉၄၈)။** ။ဂျွန်ဂျိုးဇက်ပါးရှင်းသည် အမေရိကန် ပြည်ထောင်စု၏ စစ်ဦးစီးဗိုလ်ချုပ်တို့အနက်၊ အမေရိကန် စစ်တပ်ကို ဥရောပတိုက်တွင် ဦးစွာပဌမ ဦးစီးခေါင်းဆောင် ပြုရသူ ဖြစ်သည်။ သာမည ကျောင်းဆရာကလေးဘဝမှ မရည်ရွယ်ဘဲနှင့် အမေရိကန် ပြည်ထောင်စု၏ အမြဲတမ်း ဗိုလ်ချုပ် အဖြစ်သို့ ရောက်ရှိလာသော ပုဂ္ဂိုလ်လည်း ဖြစ်သည်။

ပါးရှင်းသည် အမေရိကန်ပြည်ထောင်စု၊ မိဇူးရီနယ်သား ဖြစ်၍ ငယ်စဉ်ကပင် ပညာကောင်းကောင်း ရလိုသောစိတ်ဇောဖြင့် ပညာသင်ကြားခဲ့ပြီးလျှင်၊ ၁၇ နှစ်သားအရွယ်တွင် ကျေးလက်ရှိကျောင်းတကျောင်း၌ ကျောင်းဆရာလုပ်ယင်း၊ ပညာဆက်လက်သင်ရန် ကြေးငွေ စုဆောင်းခဲ့သည်။ ဤအတွင်း ရည်ရွယ်ချက် မရှိပါဘဲနှင့်၊ အပြိုင်စာမေးပွဲတခုကို ဝင်ရောက်ဖြေဆိုရာမှ၊ ဝက်စပွိုင့်ခေါ် စစ်တက္ကသိုလ်သို့ ဝင်ခွင့်ရသည်။ ၁၈၈၆ ခုနှစ်တွင် ထိုတက္ကသိုလ်မှ ဘွဲ့ရရှိခဲ့၍ အပက်ချီတိုင်းရင်းသားတို့နှင့် တိုက်ပွဲတပွဲ ဝင်ပြီးလျှင်၊ နီဗရက်စကတက္ကသိုလ်တွင် စစ်ပညာ သင်ပေးရသော ကျောင်းဆရာအဖြစ်ဖြင့်အမှုထမ်းခဲ့သည်။ထိုကျောင်းတွင် ဆရာလုပ်ယင်း ဥပဒေဘွဲ့ကို ရရှိအောင် ပညာ သင်ယူခဲ့သေး၏။ထိုနောက် ဖိလစ်ပိုင်ကျွန်းတွင် စစ်မှုထမ်းပြီးလျှင်၊ ရုရှ–ဂျပန် စစ်ပွဲအတွင်းက ဂျပန်နိုင်ငံရှိ အမေရိကန် သံရုံးတွင် စစ်ဖက်ဆိုင်ရာ တွဲဖက်သံအရာရှိအဖြစ်ဖြင့် အမှုထမ်းသည်။ ထိုနောက် အမေရိကန်သမတ သီယိုဒိုရူးစဗဲ့က ပါးရှင်းအား အထက်တန်းအရာရှိ ၁၆၂ ဦးကို ကျော်လွန်ကာ ဗိုလ်မှူးချုပ် အဖြစ်ဖြင့် ခန့်အပ်ခဲ့လေသည်။၁၉၁၃ ခုနှစ်တွင် ဖိလစ်ပိုင်မှ ဆန်ဖရန်စစ္စကိုသို့၊ ဆန်ဖရန်စစ္စကိုမှ မက္ကဆီကိုသို့ ရွှေ့ပြောင်းအမှုထမ်းခဲ့ရပြီးလျှင် ၁၉၁၇ ခုနှစ်တွင် နယ်စပ်၌ ဦးစီးရသောဗိုလ်ချုပ်ဖြစ်လာသည်။ ဤသို့ အမှုထမ်းဆဲကာလအတွင်း၊ သူ၏ဇနီးနှင့် သမီးသုံးယောက်တို့သည် ဆန်ဖရန်စစ္စကိုမြို့တွင် မီးသင့်၍ သေဆုံးလေသည်။

ပဌမကမ္ဘာစစ် အတွင်းတွင် အမေရိကန် သမတက ပါးရှင်းအား ဥရောပတိုက်ရှိ အမေရိကန် စစ်တပ်ကို အုပ်ချုပ်စေရန် ရွေးချယ်သည်။ထိုစစ် အတွင်းတွင် ဗိုလ်ချုပ်ပါးရှင်းသည် စစ်သည်တော် ၃,၀၀၀,၀၀၀ ကို စုရုံးဖွဲ့စည်းခဲ့သည်။ ပဌမကမ္ဘာစစ် ပြီးသောအခါ ဗိုလ်ချုပ်ပါးရှင်းသည် အမေရိကန် စစ်တပ် စစ်ဦးစီး ဌာနချုပ်၏ သေနာပတိဖြစ်လာသည်။ အမေရိကန်နိုင်ငံ သမတ၏ အမိန့်ဖြင့် အမြဲတမ်းဗိုလ်ချုပ်ခန့်အပ်ခြင်းကိုလည်း ခံရလေသည်။ ၁၉၂၅ ခုနှစ်တွင် ပီးရူးနှင့် ချီလီနယ်နိမိတ်ဝိဝါဒကို ဖြေရှင်းရသောအလုပ်ဝတ်တရားကို ထမ်းရွက်ဆဲ၊ မကျန်းမမာသည်နှင့် ရာထူးမှ



ပဌမကမ္ဘာစစ်အတွင်းဥရောပတိုက်ရှိ အမေရိကန် စစ်တပ်ကို အုပ်ချုပ်ခဲ့ရသော ဗိုလ်ချုပ်မှူး ဂျွန်ဂျိုးဇက်ပါးရှင်း

အနားယူသည်။ ၁၉၃၁ ခုနှစ်တွင် ပဌမ ကမ္ဘာစစ်အတွင်း ကြုံတွေ့သော ဗဟုသုတတို့ကို အခြေပြု၍ စာအုပ်တအုပ် စီရင်ရေးသားခဲ့၏။ ၁၉၄၇ ခုနှစ်တွင် ကွယ်လွန်လေသည်။

**ပါးရှင်းပင်လယ်ကွေ့။** ။ပါးရှင်းပယ်လယ်ကွေ့သည် ဆာအူဒီအာရေဗျ၊ ကော့တော၊ အိုမန် သုံးနိုင်ငံနှင့် အီရန်နိုင်ငံတို့ကိုပိုင်းခြား၍ အရှေ့ဖက်တွင် အိုမန်ပင်လယ်ကွေ့နှင့် ဩမတ်ရေလက်ကြားမှတဆင့် ဆက်စပ်နေသည်။ ထိုပင်လယ်ကွေ့သည် မိုင် ၅၀၀ မျှရှည်လျား၍ မိုင် ၂၃၀ မျှကျယ်သည်။ ဧရိယာအားဖြင့် စတုရန်းမိုင်ပေါင်း ၉၀,၀၀၀ ရှိသည်။ တိုင်းဂရစ်နှင့် ယူဖရေးတီးမြစ် ၂ သွယ်တို့သည် ရှက်တယ်အာရပ်မြစ်အဖြစ်သို့ ပေါင်းဆုံပြီးလျှင်၊ အနောက်ဖက် ကမ်းခြေမှနေ၍ ပါးရှင်းပင်လယ်ကွေ့ထဲသို့ စီးဆင်းသည်။ ဗာရိန်ကျွန်းစုတည်ရာတဝိုက်တွင် ပုလဲငုပ်သော ဒေသရှိသည်။

၎င်းပင်လယ်ကွေ့သည် ရှေးအခါကစ၍ ယခုခေတ်တိုင်အောင် ကူးသန်းရောင်းဝယ်ရေးအတွက် ခရီးလမ်းကောင်းတခုဖြစ်သည်။ဂရိတ်ဗြိတိန်နိုင်ငံအတွက်မှာမူ အိန္ဒိယနိုင်ငံသို့ သွားရာခရီးလမ်း၌ ကျရောက်နေသဖြင့် အသုံးဝင်သည်။ ဒုတိယကမ္ဘာစစ် မဖြစ်မီက ဂရိတ်ဗြိတိန်နိုင်ငံနှင့် ပြိုင်ဖက်ဖြစ်သော ဂျာမနီနိုင်ငံသည် ထိုပင်လယ်ကွေ့ကို လွှမ်းမိုးကြီးစိုးရန် များစွာလိုလားခဲ့၏။ ထိုမျှ မကသေး၊ ထိုပင်လယ်ကွေ့ကြီး ကမ်းခြေရှိ အီရန်နိုင်ငံမှ ရေနံတွင်းများကိုလည်း အပိုင်ရယူလိုသည်။ စင်စစ် ဂျာမနီ နိုင်ငံသာမက အခြားသော ကမ္ဘာကို လွှမ်းမိုးကြီးစိုးလိုသည့် နိုင်ငံတိုင်းသည် ထိုဒေသရှိ ရေနံတွင်းများနှင့်တကွ၊ အချက်ကျလှစွာသော ရေကြောင်းခရီးလမ်းကို လွှမ်းမိုးစိုးပိုင်လိုကြသည်မှာဒုတိယကမ္ဘာစစ်ကြီးအတွင်းက ကောင်းစွာ ထင်ရှားခဲ့လေသည်။

ပင်လယ်ရေတွင်း၌ရှိသော ရေပိုး ရေမွှားတို့၏ အရောင်ကြောင့်၊ ပါးရှင်းပင်လယ်ကွေ့သည် စိမ်းသော အရောင်ရှိသဖြင့်၊ အာရပ်လူမျိုးတို့က ယင်းကို ပင်လယ်စိမ်းဟု ခေါ်ဝေါ်လေ့ရှိကြ၏။

**ပါးလဟာဗာမြို့။** ။ပါးလဟာဗာမြို့သည် ပစိဖိတ်သမုဒ္ဒရာ ဟာဝိုင်းယန်းကျွန်းစုရှိအမေရိကန်အခြေခံရေတပ်စခန်းတခုဖြစ်သည်။ ပါးလဟာဗာ ဟူသော အင်္ဂလိပ်စကားသည် ပုလဲဆိပ်ကမ်းဟု အနက်ရသည်။ ဟိုနိုးလူးလူးမြို့မှ အနောက်ဖက်သို့ ၁၀ မိုင်ခန့်အကွာ အိုအားဟူကျွန်း၏ တောင်ဖက်ကမ်းခြေတွင် တည်ရှိသည်။ အမေရိကန် ပြည်ထောင်စုအစိုးရသည် ပါးလဟာဗာမြို့ကို ၁၇၇၅ ခုနှစ်ကတည်းကပင် အခြေခံ ရေတပ်စခန်းအဖြစ် အသုံးပြုလာခဲ့သည်။ ၎င်းရေတပ်စခန်းသည် ကမ္ဘာတွင် အရေးကြီးဆုံး ရေတပ်စခန်းတခုဖြစ်သည်။

ပါးလဟာဗာ သင်္ဘောဆိပ်၏ အလယ်တည့်တည့်တွင် ဖိုဒ်ကျွန်းရှိသည်။ ရေတပ်ဆိုင်ရာ လေယာဉ်ပျံများသည် ထိုကျွန်းပေါ်သို့ သက်ဆင်း၍ နားကြရသည်။ လေယာဉ်ပျံတင် သင်္ဘောကြီးများသည်လည်း ထိုကျွန်း ကမ်းခြေတလျှောက်တွင်ရှိသော သင်္ဘောကျင်းများတွင် ဝင်ရောက်ခိုလှုံဆိုက်ကပ်ကြရသည်။ အခြေခံ စခန်း၏ အရှေ့ဖက်ပိုင်းတွင် သင်္ဘောများအတွက် ကျောက်မီးသွေးနှင့် ဓာတ်ဆီ စက်ဆီ စသည်တို့ တင်သည့် ဌာနနှင့် သင်္ဘော အပျက်အစီးများကိုပြင်ဆင်သည့် သင်္ဘောကျင်းများ ရှိသည်။ ရေငုပ်သင်္ဘောများအတွက် အခြေခံ စခန်းကိုလည်း အထူးဆောက်လုပ်ထားသည်။ ပါးလဟာဗာမြို့နှင့် ထိုမြို့ပတ်ဝန်းကျင်တဝိုက်တွင် ဆေးရုံ၊ စားနပ်ရိက္ခာဖြည့်တင်းရေးဌာနနှင့် ရေကြောင်း အတတ်သင် ကျောင်းများရှိသည်။

၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် ဂျပန်လေယာဉ်ပျံများသည် ပါးလဟာဗာမြို့ကို အမှတ်တမဲ့လာရောက်ဗုံးကြဲတိုက်ခိုက်သဖြင့်၊ အမေရိကန် စစ်သင်္ဘော၊ စစ်လေယာဉ်ပျံနှင့် အခြားအဆောက်အအုံတို့ အများအပြား ပျက်စီးဆုံးရှုံးရသည်။ ထိုသည်မှစ၍ အမေရိကန်သည် ဒုတိယကမ္ဘာစစ်ထဲသို့ ဝင်ရောက်လာရသည်။ ဂျပန်တို့က ကြိုတင်သတိပေးခြင်း မပြုဘဲ၊ ရုတ်တရက် ဝင်ရောက် တိုက်ခိုက်ခြင်းကြောင့်၊ 'အယ်ရီဇိုးနား' နှင့် 'အိုကလဟိုးမား' အမည်ရှိ အမေရိကန် စစ်သင်္ဘော နှစ်စင်း နစ်မြုပ်သွားကာ၊ အခြားစစ်သင်္ဘော ခြောက်စင်း ပျက်စီးသွားသည်။ ထိုပြင်ကရူဇာစစ်သင်္ဘော၊ ဖျက်သင်္ဘောနှင့် အခြားစစ်သင်္ဘောများလည်း နစ်မြုပ်ပျက်စီးသွား၏။ အမေရိကန် လေယာဉ်ပျံ ၁၇၇ စင်းမှာ အားလုံးလိုပင် မီးလောင် ပျက်စီးသွားလေသည်။ဂျပန်တို့၏ အပျက်အစီး အဆုံးအရှုံးမှာမူ လေယာဉ်ပျံအစင်း ၄၀ နှင့် ရေငုပ်သင်္ဘော အငယ်စား ၃ စင်းမျှသာ ဖြစ်သည်။

**ပီဇားရို,ဖရန်စစ္စကို**(ခရစ် ၁၄၇၀ ခန့်–၁၅၄၁)။ ။ဖရန်စစ္စကို ပီဇားရိုသည် စပိန်လူမျိုး နယ်သစ်ရှာဖွေသူ တဦးဖြစ်သည်။ သူ၏အမည်ကို စပိန်ဘာသာဖြင့် ပီသားရို ဟုလည်း ခေါ်ကြသည်။ ငယ်စဉ်က စာပေ မသင်ကြားခဲ့ရ၍ သေသည့်အထိ သူ၏ အမည်ကိုမျှ မရေးတတ်ခဲ့ပေ။ ခရစ် ၁၅၁၀ ပြည့်နှစ်တွင် ကမ္ဘာသစ်ခေါ် အမေရိကတိုက်သို့ စွန့်စား၍ လိုက်လာခဲ့သည်။ ၁၅၁၃ ခုနှစ်တွင် စပိန်ရေကြောင်းဗိုလ်ကြီး ဗဲလဗိုးအာနှင့်အတူ လိုက်ခဲ့ရာ၊ တောင်အမေရိကတိုက်နှင့် မြောက်အမေရိကတိုက်တို့ကိုဆက်သွယ်ထားသော ကုန်းမြေ၏ အနောက်ဖက် ကမ်းရိုးတမ်းနှင့် ပစိဖိတ် သမုဒ္ဒရာကို အဝေးမှ မြင်ခဲ့ဘူးသည်။ ထိုနောက် ကျွဲနွား မွေးမြူခြင်းဖြင့် အသက်မွေးနေထိုင်ခဲ့သည်။ ၎င်းအချိန်တွင်ပင် အမေရိကတိုက်တောင်ဖက်၌ ကြွယ်ဝချမ်းသာသော ဒေသကြီးတခု



စပိန်လူမျိုး နယ်သစ်ရှာဖွေသူ ဖရန်စစ္စကို ပိဇာရို

ရှိကြောင်း သတင်းကောင်းကိုကြားသိရသဖြင့် ပိဇာရိုသည် ဒယေးဂို သေ အားလမားဂရို ဆိုသူနှင့် အတူ ထိုဒေသသို့ သွားရောက်ရန် စီစဉ်ခဲ့လေသည်။ ပိဇာရိုသည် ပဌမနှင့် ဒုတိယအကြိမ်တွင် ထမြောက်အောင်မြင်ခြင်း မရှိသဖြင့် ပနားမားမြို့ရှိ စပိန်ဘုရင်ခံထံ အကူအညီတောင်းဆိုသော်လည်းမရခဲ့ချေ။ ထိုအခါ ပိဇာရိုသည် စပိန်နိုင်ငံသို့ပြန်သွားပြီးလျှင်၊ စပိန်ဘုရင် ပဥ္စမချားအား ကိုယ်တိုင် အကြောင်းစုံ တင်လျှောက်လေသည်။ ရွှေရေးကို ကြိုတင်သိမြင်ပြီးဖြစ်သော စပိန်ဘုရင်လည်း ပီးရူးနယ်ကို သိမ်းပိုက်ရန် ပိဇာရိုအား လုံးဝအာဏာပေးအပ်လိုက်လေသည်။ ထိုကြောင့် ပိဇာရိုသည် နောက်လိုက်နောက်ပါ လူ ၂၀၀ ခန့်နှင့်အတူ ပီးရူးနယ်ကို ရေကြောင်းမှ လုပ်ကြံရာ၊ ၇ နှစ်ခန့်ကြာမှ ထိုနယ်ကို သိမ်းပိုက်နိုင်သည်။ ပိဇာရိုသည် ပဌမဦးစွာ အင်ကာဘုရင် အားတာဝါးလပါးကို မိတ်ဆွေဟန် ဆောင်၍ လုပ်ကြံပြီးလျှင်၊ ကွပ်စကိုမြို့သို့ ချီတက်တိုက်ခိုက်ရာ၊ အောင်မြင်ပြန်လေသည်။ ၁၅၃၅ ခုနှစ်တွင် ပီးရူးမြို့ဟုတွင်သော လီမာမြို့ကို တည်ထောင်သည်။ ထိုနောက် ၃ နှစ်ခန့်ကြာသောအခါ၊ ပိဇာရိုနှင့် သူ၏ရဲဘော် အားလမားဂရိုတို့သည် နယ်အဝေမတည့်ရာမှ ရန်ဖြစ်ပြီးသော်၊ ပြည်တွင်းစစ်ကလေး တခုဖြစ်ပွားခဲ့သည်တွင်၊ အားလမားဂရို ကျဆုံးလေသည်။ သို့သော် ပိဇာရိုသည်လည်း ၁၅၄၁ ခုနှစ် ဇွန်လတွင် အားလမားဂရို၏ နောက်လိုက်များက လုပ်ကြံ သတ်ဖြတ်ခြင်းကို ခံရလေသည်။

**ပိဋကတ်။** ။ပိဋကတ်ဆိုသည်မှာ သင်္ဂါယနာ ခြောက်ကြိမ်တင်ပြီး ကျမ်းရင်းဖြစ်သော ပါဠိပိဋကတ်ကျမ်းစာများနှင့်ယင်းကျမ်းစာများသို့ အနက်အဓိပ္ပါယ်အားဖြင့် သက်ဝင်သော အဋ္ဌကထာ၊ ဋီကာစသော ကျမ်းစာများကို ဆိုသည်။

ထိုပိဋကတ်ကျမ်းစာများကား (၁) ဝိနည်းပိဋကတ်(၂) အဘိဓမ္မာပိဋကတ် (၃) သုတ္တန်ပိဋကတ်ဟူ၍ ပိဋကတ်အားဖြင့် သုံးပုံဖြစ်သည်။ (၁) ဒီဃနိကာယ် (၂) မဇ္ဈိမနိကာယ် (၃) သံယုတ္တနိကာယ် (၄) အင်္ဂုတ္တရနိကာယ် (၅) ခုဒ္ဒကနိကာယ်ဟူ၍ နိကာယ်အားဖြင့် ငါးချပ်ဖြစ်သည်။ (နိကာယ်ငါးပါး — ရှု။)

ထိုနိကာယ်ငါးရပ် ပိဋကတ်သုံးပုံတွင်၊ ဝိနည်းပိဋကတ်နှင့် အဘိဓမ္မာပိဋကဘ် နှစ်ပုံတို့ကား မြတ်စွာဘုရားကိုယ်တော်တိုင် ဟောအပ်သော ပိဋကတ်များ ဖြစ်ကြသည်။ သုတ္တန်ပိဋကတ်တို့တွင်မူ သုတ္တန်အများကို မြတ်စွာဘုရားကိုယ်တော်တိုင် ဟောအပ်သော်လည်း၊ အချို့အချို့ကုန်သော သုတ္တန်တို့ကိုမူကား၊ ဗုဒ္ဓသာဝကများ ဟောကြားသည်ဟု တွေ့ရလေသည်။

ဗုဒ္ဓသာဝကများဟောအပ်သော သုတ္တန်များသည်လည်း မြတ်စွာဘုရားဟောအပ်သော အကျဉ်းကို အကျယ်ချဲ့ခြင်း၊ အမေးကို ဖြေဆိုခြင်း၊ မြတ်စွာဘုရား ပေးအပ်သော နည်းအတိုင်း ဟောခြင်းသာ ဖြစ်၍ မြတ်စွာဘုရား အလိုတော်နှင့် တသားတည်းဖြစ်သောကြောင့် ဘုရားဟောပင် ဖြစ်ပေသည်။

ဝိနည်းပိဋကတ် (ခုဒ္ဒကနိကာယ်)၌ (၁) ပါရာဇိကပါဠိ (၂) ပါစိတ္တိယပါဠိ (၃) မဟာဝဂ္ဂပါဠိ (၄) စူဠဝဂ္ဂပါဠိ (၅) ပရိဝါရပါဠိ ဟူ၍ ကျမ်းစာအရေအတွက် (၅)၊ စာအုပ်အရေအတွက် (၅) ဖြစ်သည်။

အဘိဓမ္မာပိဋကတ် (ခုဒ္ဒကနိကာယ်)၌ (၁) ဓမ္မသင်္ဂဏီပါဠိ (၂)ဝိဘင်္ဂပါဠိ (၃) ဓာတုကထာပါဠိ (၄) ပုဂ္ဂလပညတ္တိပါဠိ(၅)ကထာဝတ္ထုပါဠိ (၆)ယမကပါဠိ (၇)ပဋ္ဌာနပါဠိ ဟူ၍ ကျမ်းစာ အရေအတွက် (၇)၊ စာအုပ်အရေအတွက် (၁၂) ဖြစ်သည်။

သုတ္တန် ပိဋကတ် (ဒီဃနိကာယ်)၌ (၁) သီလက္ခန္ဓဝဂ္ဂပါဠိ (၂) မဟာဝဂ္ဂပါဠိ (၃) ပါထိကဝဂ္ဂပါဠိဟူ၍ ကျမ်းစာအရေအတွက် (၃)၊ စာအုပ်အရေအတွက် (၃) ဖြစ်သည်။

သုတ္တန်ပိဋကတ် (မဇ္ဈိမနိကာယ်) ၌ (၁) မူလပဏ္ဏာသပါဠိ (၂) မဇ္ဈိမ ပဏ္ဏာသပါဠိ (၃) ဥပရိပဏ္ဏာသ ပါဠိ ဟူ၍ ကျမ်းစာ အရေအတွက် (၃)၊ စာအုပ်အရေအတွက် (၃) ဖြစ်သည်။

သုတ္တန်ပိဋကတ် (သံယုတ္တနိကာယ်)၌ (၁) သဂါထာဝဂ္ဂသံယုတ္တပါဠိ (၂) နိဒါနဝဂ္ဂသံယုတ္တပါဠိ (၃) ခန္ဓဝဂ္ဂသံယုတ္တပါဠိ (၄) သဠာယနဝဂ္ဂသံယုတ္တပါဠိ (၅) မဟာဝဂ္ဂ သံယုတ္တ

ပါဠိဟူ၍ ကျမ်းစာအရေအတွက်(၅)၊ စာအုပ်အရေအတွက် (၃) ဖြစ်သည်။

သုတ္တန်ပိဋကတ် (အင်္ဂုတ္တရနိကာယ်) ၌ (၁) ဧကနိပါတ ပါဠိ၊ (၂) ဒုကနိပါတပါဠိ၊ (၃) တိကနိပါတပါဠိ၊ (၄) စတုက္ကနိပါတပါဠိ၊ (၅) ပဉ္စကနိပါတပါဠိ၊ (၆) ဆက္ကနိပါတ ပါဠိ၊ (၇) သတ္တကနိပါတပါဠိ၊ (၈)အဋ္ဌကနိပါတပါဠိ၊ (၉) နဝက နိပါတပါဠိ၊ (၁၀) ဒသကနိပါတပါဠိ၊ (၁၁) ဧကာ ဒသက နိပါတပါဠိ ဟူ၍ ကျမ်းစာအရေအတွက် (၁၁)၊ စာအုပ်အရေအတွက် (၃) ဖြစ်သည်။

သုတ္တန်ပိဋကတ် (ခုဒ္ဒကနိကာယ်)၌ (၁) ခုဒ္ဒကပါဌပါဠိ (၂) ဓမ္မပဒပါဠိ (၃) ဥဒါနပါဠိ (၄)ဣတိဝုတ္တကပါဠိ (၅) သုတ္တနိပါတပါဠိ (၆) ဝိမာနဝတ္ထုပါဠိ (၇) ပေတဝတ္ထု ပါဠိ (၈)ထေရဂါထာပါဠိ (၉) ထေရီဂါထာပါဠိ (၁၀) ဇာတက ပါဠိ (၁၁) မဟာနိဒ္ဒေသပါဠိ (၁၂) စူဠနိဒ္ဒေသ ပါဠိ(၁၃) ပဋိသမ္ဘိဒါမဂ္ဂပါဠိ (၁၄) ထေရာပဒါနပါဠိ (၁၅)ထေရီအပ ဒါနပါဠိ (၁၆) ဗုဒ္ဓဝံသပါဠိ (၁၇) စရိယာပိဋကပါဠိ (၁၈) နေတ္တိပါဠိ (၁၉) ပေဋကောပဒေသပါဠိ (၂၀) မိလိန္ဒပဉှာ ပါဠိဟူ၍ ကျမ်းစာအရေအတွက် (၂၀)၊ စာအုပ် အရေအ တွက် (၁၁) ဖြစ်သည်။

ဤသို့လျှင် ခြောက်ကြိမ်မြောက် သင်္ဂါယနာ တင်အပ်သော နိကာယ်ငါးရပ် ပိဋကတ်သုံးပုံ ပါဠိ၌ ကျမ်းစာ အရေအတွက် (၅၄)၊ စာအုပ်အရေအတွက် (၄၀) ဖြစ်သည်။

**မှတ်ချက်။** ။မိုင်းခိုင်းအတွင်းဝန် ပိဋကတ်တော်အုပ် မင်းကြီး မဟာသီရိဇေယသူ စီကုံးရေးသားသော ပိဋကတ်သမိုင်းစာတမ်း၌ ပိဋကတ်သုံးပုံကျမ်းစာ ရေတွက်ရာဝယ်၊ စူဠနိဒ္ဒေသပါဠိကိုချန်လှပ်၍ အပဒါန် ပါဠိကိုလည်း ထေရာပဒါန်၊ ထေရီအပဒါန်ပါဠိဟု နှစ်ကျမ်းမခွဲဘဲ၊ တကျမ်းတည်း ထားကာ၊ သုတ္တသင်္ဂဟပါဠိ၊ ဘိက္ခုပါတိမောက်ပါဠိ၊ ဘိက္ခုနီပါတိမောက်ပါဠိ၊ ဤသုံးကျမ်းကို ထည့်သွင်းလျက်၊ ကျမ်းစာအရေအတွက် (၅၅) ဖြစ်သည်ဟု ဆိုသည်။

နိကာယ်ငါးရပ် ပိဋကတ်သုံးပုံ အဋ္ဌကထာ ကျမ်းစာများ နှင့် ဋီကာ-အနု-မဓု- ယောဇနာ- ဂန္ထန္တရ ကျမ်းစာများသည် လည်း ကျမ်းရင်းဖြစ်သော ပါဠိပိဋကတ် ကျမ်းစာများသို့ အနက်အဓိပ္ပါယ်အားဖြင့် သက်ဝင်သောကြောင့်၊ ပိဋကတ် ဟုပင် ခေါ်ဆိုရပေမည်။ ဦးကြီးဖေ

**ပိဋကတ်သမိုင်း။** ။ပိဋကတ်သမိုင်းဆိုသည်မှာ ပိဋကတ် သုံးပုံနှင့် တကွ အခြား ကျမ်းစာများ အကြောင်းအရာ အတ္ထုပ္ပတ်ကို ပြဆိုသောကျမ်းဖြစ်သည်။ ဤနေရာ၌ မိုင်း ခိုင်းအတွင်းဝန် ပိဋကတ်တော်အုပ်မင်းကြီး မဟာသီရိဇေယ သူ စီရင်ရေးသားသည့် ပိဋကတ်သမိုင်းစာတမ်း ကျမ်းစာ၊ သို့မဟုတ် ကျမ်းစာ စာရင်းကို ဆိုလိုသည်။

ယင်းကျမ်းစာကို ပိဋကတ်သမိုင်းစာတမ်းဟု ခေါ်ဆိုရာ၌ ထိုကျမ်းတွင် ပိဋကတ် ကျမ်းစာများ၏ အကြောင်းအရာ အတ္ထုပ္ပတ်သာမဟုတ်၊ အဋ္ဌကထာ၊ ဋီကာစသော အခြား ကျမ်းစာများ၏ အကြောင်းအရာအတ္ထုပ္ပတ် ပါရှိလေသည်။ ထို့ကြောင့် ပဓာနနည်းအားဖြင့် ပိဋကတ်သမိုင်းဟု ခေါ်ဆို ခြင်းဖြစ်သည်။ ဘုရင်မင်းမြတ် ကြွလာသည်ဟု ဆိုရာဝယ် ဘုရင်မင်းမြတ်တဦးတည်းသာ ကြွလာသည်မဟုတ်၊ မှူးမတ် ခြွေရံပရိသတ်နှင့်ကြွလာခြင်းဖြစ်သည်။ သို့သော်လည်း ပြဓာန်းသော ဘုရင်မင်းမြတ် ကြွလာသည်ဆိုသဖြင့်၊ မပြဓာန်းသော မှူးမတ်ခြွေရံ ပရိသတ်တို့လည်း လာကြသည်ဟု အဓိပ္ပါယ်ကို ယူရသကဲ့သို့၊ ထိုအတူ ပြဓာန်းသော ပိဋကတ် ကျမ်းစာများကိုဆိုသဖြင့်၊ မပြဓာန်းသော အခြားကျမ်းစာ များကိုလည်း ယူရလေသည်။

ထိုပိဋကတ်သမိုင်းစာတမ်းကို ရေးသားရာ၌၊ ပိဋကတ်သုံး ပုံပါဠိတော် ကျမ်းစာများ၏နောက်၌ ဘုရားဟော သင်္ဂါယ နာ (၄) တန်တင်ဟု ရေးသားထားသည်။ အဋ္ဌကထာ၊ ဋီ ကာစသော အခြားကျမ်းစာများ၏နောက်၌ ကျမ်းပြုဆရာ အမည်၊ မြို့ရွာဌာန ဂုဏ်သကတ်စသော အကြောင်းအရာ အတ္ထုပ္ပတ်ကို ရေးသားထားသည်။ ကျမ်းစာများ၏ စာ ရင်းထားပုံမှာ အောက်ပါအတိုင်း ဖြစ်သည်။

(၁) နိကာယ်ငါးရပ် ပိဋကတ်သုံးပုံ ပါဠိတော် (၅၅) ကျမ်း စာရင်း၊
(၂) နိကာယ်ငါးရပ် ပိဋကတ်သုံးပုံ အဋ္ဌကထာ (၈၅) ကျမ်း စာရင်း၊
(၃) နိကာယ်ငါးရပ် ပိဋကတ်သုံးပုံ၊ ဋီကာ- အနု-မဓု- ယောဇနာ- ဝဏ္ဏနာ- ဂဏ္ဌိ- ဒီပနီ (၇၃) ကျမ်း စာရင်း၊
(၄) လက်သန်း အဋ္ဌကထာ (၃၁) ကျမ်းနှင့် လက်သန်း ဋီကာ (၃၃) ကျမ်း စာရင်း၊
(၅) ဝင် (၁၀) ဝင် ပါဠိ အဋ္ဌကထာ-ဋီကာ-ဂဏ္ဌိ-ဒီပနီ- ဝတ္ထုစသော ဂန္ထန္တရ (၄၉) ကျမ်း စာရင်း၊
(၆) သဒ္ဒါစာကိုယ် ဋီကာ စသော(၁၈)ကျမ်း စာရင်း နှင့် သဒ္ဒါငယ်စာကိုယ် ဋီကာ စသော(၅၆)ကျမ်း စာရင်း၊
(၇) အဘိဓာန် စာကိုယ် ဋီကာ (၆) ကျမ်း စာရင်း၊ ဆန်း စာကိုယ် ဋီကာ (၇) ကျမ်း စာရင်းနှင့် အလင်္ကာ စာကိုယ် ဋီကာ (၃) ကျမ်း စာရင်း၊
(၈) နိကာယ်ငါးရပ် ပိဋကတ်သုံးပုံ ပါဠိတော်နိဿယ (၁၀၇) ကျမ်း စာရင်း၊
(၉) နိကာယ်ငါးရပ် ပိဋကတ်သုံးပုံ အဋ္ဌကထာနိဿယ (၁၀၁) ကျမ်း စာရင်း၊

(၁၀) နိကာယ်ငါးရပ် ပိဋကတ်သုံးပုံ ဋီကာ- အနု- ယောဇနာ- ဂဏ္ဌိ- ဒီပနီ- နိဿယ (၁၇) ကျမ်း စာရင်း၊
(၁၁) လက်သန်း အဋ္ဌကထာနိဿယ(၆၁)ကျမ်း စာရင်းနှင့် လက်သန်းဋီကာနိဿယ (၁၁)ကျမ်း စာရင်း၊
(၁၂) ဝင် (၁၀) ဝင်ပါဠိ- အဋ္ဌကထာ- ဋီကာ- နိဿယ (၂၃)ကျမ်း စာရင်းနှင့် ဂဏ္ဌိ သစ်-ဟောင်း (၁၆) ကျမ်း စာရင်း၊
(၁၃) သဒ္ဒါ စာကိုယ် ဋီကာ နိဿယ (၁၅) ကျမ်း စာရင်းနှင့် သဒ္ဒါငယ် စာကိုယ် ဋီကာ နိဿယ (၁၇) ကျမ်း စာရင်း၊
(၁၄) အဘိဓာန် စာကိုယ် ဋီကာ နိဿယ (၅) ကျမ်း စာရင်း၊ ဆန်း စာကိုယ် ဋီကာ နိဿယ(၅)ကျမ်း စာရင်းနှင့် အလင်္ကာ စာကိုယ် ဋီကာ နိဿယ(၅) ကျမ်း စာရင်း၊
(၁၅) ဝတ္ထု- စကားပြေ (၃၆) ကျမ်း စာရင်း၊
(၁၆) ဝိဒဂ် စာကိုယ် ဋီကာ (၂) ကျမ်း စာရင်း၊
(၁၇) သွရသတိ ဗျာကရိုဏ်း စသော ဗျာကရိုဏ်း(၂၆) ကျမ်း စာရင်း၊
(၁၈) လောကီ သဒ္ဒ ဗျာချာန်ကလာပ်ကျမ်း စသော ကလာပ် (၇) ကျမ်း စာရင်းနှင့် ကလာပ်ကျမ်း သန္ဓိ မူလ စသော ကလာပ် (၁၉)ကျမ်း စာရင်း၊
(၁၉) စန်းကျမ်း သန္ဓိ စသော စန်းကျမ်း (၆) ကျမ်း စာရင်း၊
(၂၀) တက္ကိက သိရောမဏိ တက်ကျမ်း စသော တက်ကျမ်း (၂၃) ကျမ်း စာရင်း၊
(၂၁) ဗြဟ္မာပုရာဏ် စသော ပုရာဏ်(၂၄)ကျမ်း စာရင်း၊
(၂၂) မဇ္ဈိမဒေသ တိုင်းကြီးပြည်ကြီးတို့၌ ဖြစ်သော အမတ သာဂရ ဆေးကျမ်းစသော ဆေးကျမ်းပေါင်း (၁၆၀) ကျမ်း စာရင်း၊
(၂၃) သီဟိုဠ်ကျွန်း၌ ဖြစ်သော ဘေသဇ္ဇမဉ္ဇူသာ ဆေးကျမ်းနှင့် ယင်း၏ ယောဇနာကျမ်း (၂)ကျမ်း စာရင်း၊
(၂၄) ဘေသဇ္ဇမဉ္ဇူသာ ဆေးကျမ်း၌ သာဓကဆောင်၍ ပြသော တိကိစ္ဆာမတ ဆေးကျမ်း စသော ဆေးကျမ်း (၉၅)ကျမ်း စာရင်း၊
(၂၅) ဒြဗျဂုဏာပြကာသ ဆေးကျမ်းစသော ဆေးကျမ်း (၁၇) ကျမ်း စာရင်း၊
(၂၆) မြန်မာနိုင်ငံ၌ ဖြစ်သော ဒွါဒသရာသီ ဓာတ်ကျမ်း စသော ဆေးကျမ်း (၉၅) ကျမ်း စာရင်း၊
(၂၇) ဇောတိတတ္တ ဗေဒင်ကျမ်း စသော ဗေဒင်ကျမ်း (၅၃)ကျမ်း စာရင်း၊
(၂၈) ဂါထာ စုဏ္ဏိယ ပါဠိ နိဿယနှင့် ရှိသော မနုဓမ္မသတ်ကျမ်းရင်း စသော ဓမ္မသတ် ကျမ်း (၄၆) ကျမ်းစာရင်း၊ (စာရင်းမရှိ စောင်ရေ-၁၁)
(၂၉) ကျည်းမင်းဖြတ်ထုံး စသော ဓမ္မသတ်ဖြတ်ထုံးကျမ်း (၃၄) ကျမ်း စာရင်း၊ (စာရင်းမရှိ စောင်ရေ-၄၈)
(၃၀) ဓမ္မသတ် အင်းစောက်ချခွဲပုံကျမ်း (၆) ကျမ်း စာရင်း၊ (စာရင်းမရှိ စောင်ရေ-၄)
(၃၁) မနုဓမ္မသတ်လင်္ကာ စသော ဓမ္မသတ်လင်္ကာကျမ်း (၁၆)ကျမ်း စာရင်း၊ (စာရင်းမရှိ စောင်ရေ-၁၀)
(၃၂) ဓမ္မသတ် တရားပုံ စောင်ရေ (၁၀) စာရင်း မရှိ၊ (ဓမ္မသတ်ကျမ်း စာရင်းချုပ်၌ စာရင်းရှိ ဓမ္မသတ် ကျမ်း (၁၀၂) စာရင်းမရှိ ဓမ္မသတ်ကျမ်း (၇၃)၊ ၂ စု (၁၇၅) ပြဆိုထားသည်။
(၃၃) ပါရမီခန်းပျို့ စသော ပျို့ကဗျာ လင်္ကာနှင့် ပျို့အဖြေ (၁၅၈) စာရင်း၊
(၃၄) ရွှေနန်းကြော့ရှင် နန်းဖွဲ့မော်ကွန်းစသောမော်ကွန်း (၆၈) စာရင်း၊
(၃၅) သခင်ထွေး ချောင်းစသော ချောင်း (၄၈) စာရင်း၊
(၃၆) ၁၂ ရာသီအဲ စသော အဲ (၄) စာရင်း၊
(၃၇) ရဝေရှင်ထွေးဆို အန် (၁) စာရင်း၊
(၃၈) အလောင်းစည်သူ လူးတား စသော လူးတား(၁၀) စာရင်း၊
(၃၉) သဒ္ဓမ္မဇောတ ဆို ရတုစသော ရတု (၁၁) စာရင်း၊
(၄၀) ငွေတောင် ရကန်ဟောင်း စသော ရကန် (၅) စာရင်း၊
(၄၁) မဇ္ဈိမဒေသ ရာဇဝင် စသော ရာဇဝင် သာသနာဝင် ကျမ်း (၄၀) စာရင်း၊

မှတ်ချက်။ ။ပိဋကတ်သမိုင်း စာတမ်း၌ ပြဆိုအပ်သော ကျမ်းစာ စာရင်းမှာ (၂၀၄၇) ကျမ်း ဖြစ်လေသည်။

ဦးကြီးဖေ

**ပိတောက်ပင်**။ ။တပေါင်း တန်ခူး မိုးသားကြူးသည့် နွေရာသီအခါသမယ၌ အခြားသောသစ်ပင်ကြီးငယ်တို့ ရွက်ဟောင်းကြွေ၍ ရွက်သစ်ထွက်စ ပြုချိန်တွင် မြင့်မြင့်မားမားနှင့် ခန့်ညားသော ပိတောက်ပင်တို့ကား ရွက်စိမ်းရွက်စိုတို့ဖြင့် သိုက်မြိုက်ဝေဆာ၍ နေချေပြီ။ ထိုပြင် ထိုမြစိမ်းရောင် အရွက်အခက်တို့ အကြားမှ ရွှေ၏အဆင်း ဝါဝါဝင်းသော ပိတောက်ပန်းတို့သည် ပင်လုံးကျွတ် မြိုင်မြိုင်ဆိုင်ဆိုင်ကြီး ဖူးပွင့်ကြကာ၊ နှလုံးရွှင်လန်းဖွယ်ကောင်းသော သင်းပျံ့သည့် ရနံ့ကို တောတောင် တခုလုံး၌ ပျံ့နှံ့ စေသည်။ ထိုကြောင့်

**"သိင်္ဂိမြည္သောက်၊ ပန်းပိတောက်တို့၊**
**ဖြိုးမောက်ရွှင်လန်း၊ ထူးဆန်းလှတင့်၊**
**ရီးတံမြင့်နှင့်၊ ပွင့်ကြကြိုင်သင်း၊**


ပိတောက်ပင်၏ အပွင့်နှင့်အရွက်များ

မြိုင်လုံးဝင်းမျှ....'' ဟူ၍၎င်း၊
''မြိုင်မှာ မြိုင်လျှောက်၊ ရွှေပိတောက်လည်း၊
ဖူးညှောက်ပွင့်ချိန်....''ဟူ၍၎င်း၊
ရှေးမြန်မာ စာဆိုရှင်ကြီးများသည် ပိတောက်ပန်းများ ပွင့်ချိန်တွင် မြိုင်ခြေရိပ်ခွင်၏ သာယာ တင့်ဆန်းပုံကို ကဗျာလင်္ကာ သီကုံးစပ်ဆိုခဲ့ကြပေသည်။

ယင်းသို့ ပူပြင်းခြောက်သွေ့သော ရာသီချိန်ခါ၌ တောတောင်ရေမြေတို့ကို သာယာရှုမောဖွယ်ဖြစ်အောင် ဖန်တီးနိုင်စွမ်းသော ပိတောက်ပင်တို့ကို မြန်မာနိုင်ငံ၌ အနှံ့အပြားတွေ့မြင်ရသည်။ သဲနုံးမြေဆံ၍ ရေမဝပ်သော ဒေသတို့၌ ပိတောက်ပင်များ ပိုမိုဖြစ်ထွန်းသည်။ မိုးပါးရေရှား ရပ်ဝန်းဒေသ သစ်တောများအတွင်း၌လည်း ပေါက်ရောက်တတ်သည်။ ပိတောက်ပင်တို့သည် သစ်ပင်ကြီးမျိုးဖြစ်သည်။ လီဂူမီနိုးစီး မျိုးရင်းတွင် ပါဝင်၍ ရုက္ခဗေဒအမည်မှာ တာရိကားပတ်မက်ကရိုကားပတ်ဖြစ်သည်။ မြို့ပြများတွင် စိုက်ပျိုးကြသော ပိတောက်ပင် မျိုးတို့ကိုမူ တာရိကားပတ်အင်ဒီကားဟု ခေါ်သည်။

ပိတောက်ပင်တို့သည် အမြင့်ပေ ၆၀ မှ ၈၀ အထိ ရှိတတ်၍ လုံးပတ် ခုနစ်ပေမှ ရှစ်ပေအထိ ရှိတတ်သည်။ တပေါင်းလမှစ၍ သုံးကြိမ်ပွင့်သည်။ မွှေးပျံ့သင်းကြိုင်၍ ဝါဝါဝင်းသော ပိတောက်ခိုင် ပိတောက်ခက်တို့သည် အဆုပ်လိုက်အခဲလိုက် ပင်လုံးကျွတ် ဝင်းဝင်းထိန်အောင် ပွင့်ကြသည်။ ပိတောက် သုံးကြိမ် ပွင့်ပြီးလျှင် မိုးဖွဲ့ဖွဲ့ဖွဲ့ရွာ၍ မိုးရာသီအစပြုသည်။ ထိုကြောင့် မြန်မာလူမျိုးတို့သည် ပိတောက်ပွင့်သည့်အကြိမ်ကိုရေတွက်ကာ မိုးရာသီကို စောင့်မြော်ကြသည်။ ပူပြင်းခြောက်သွေ့သော ရာသီချိန်ခါတွင် မိုးရာသီစတင်တော့မည့် လက္ခဏာ ဖြစ်သော ပိတောက်ပန်းများ ပွင့်သည်ကို မြင်တွေ့သိရှိကြရလျှင် လူအပေါင်းမှာ မိုးရာသီနီးကပ်လာပြီဟူ၍ ရွှင်မြူးသွားတတ်ကြသည်။ ပင်လုံးကျွတ်ဝင်းဝါကြိုင်သင်းနေသောပိတောက်ပန်းများကို ပျော်ရွှင်စွာ အလုအယက်ခူးဆွတ်ကြသည်။ ဈေး၌ တပုံတခေါင်း ရောင်းချသည်ကိုလည်း အလုအယက်ဝယ်ကြသည်။ ဘုရားများ၌ အမြတ်တနိုး ကပ်လှူကြသည်။ အမျိုးသမီးများသည် ခုံခုံမင်မင် ပိတောက်ပန်းများကို ပန်ဆင်ကြသည်။ မြန်မာနှစ်သစ်ကူးချိန်ဖြစ်သောသင်္ကြန်တော်အခါနှင့်လည်း ပိတောက်ပွင့်ချိန်နှင့် ကြုံကြိုက်တတ်ရာ၊ ရေခံထွက်သူ၊ ရေပက်ထွက်သူ အမျိုးသမီးများသည် ပိတောက်ပန်းများကို အားရပါးရ ပန်ဆင်ကြသည်။ မော်တော်ကားစသည့် ယာဉ်ရထားများ၌လည်း ပိတောက်ကိုင်း ပိတောက်ခက် ပိတောက်ပန်းများကို ဆင်ယင်ကာ အလွန်ရွှင်လန်း ဝမ်းမြောက်နေတတ်ကြလေသည်။

ပိတောက်သီးတို့သည် ဒင်္ဂါးဝိုင်းခန့်ရှိ၍ မှိုပျားသလက်ကဲ့သို့ အလယ်ဖောင်းပြီး နံဘေးသား ပြားသည်။ နုစဉ်က အစိမ်းရောင်ဖြစ်သော်လည်း ရင့်လာသောအခါ ဝါကျင့်ကျင့်ဖြစ်လာသည်။ အထဲတွင် အစေ့ရှိသည်။ ပိတောက်သားသည် အလွန်မာ၍ ကြံ့ကြံ့ခိုင်ခိုင်ရှိသည်။ အနီရောင် ဖျော့ဖျော့ဖြစ်၍ အသားတွင် အကွက်အကွက်များ၊ အခွေအလိပ်များပေါ် နေတတ်ပြီး အကွက်လည်သဖြင့် လှပသော သစ်သားမျိုးရနိုင်သည်။ ပွတ်ပြင်ရန်သော်၎င်း၊ အရောင်တင်ရန်သော်၎င်းလွယ်ကူသည်။ လှည်းဘီးများ၊ လှေဘောင်များကို ပိတောက်သားဖြင့်ပြုလုပ်ကြသည့်အပြင် အိမ်ထောင်ပရိဘောဂပစ္စည်းများ ပြုလုပ်ရာ၌လည်း ပိတောက်သားသည် အသုံးဝင်သည်။ ထယ်၊ ထွန်စသော ထွန်ယက် စိုက်ပျိုးရန် ကရိယာများနှင့် ဆီဆုံများကိုလည်း ပိတောက်သားဖြင့်ပင် ပြုလုပ်ကြသည်။ နေအိမ် အဆောက်အအုံများ အတွက် တိုင်များ၊ အလှခင်းကြမ်း၊ ပျဉ်များအတွက်လည်း ပိတောက်သားကိုပင် အသုံးများကြသည်။ ပိတောက်သားသည် အသွေးအရောင် လှပသည့်ပြင် နေရာတိုင်း၌လိုလိုပင် အသုံးချနိုင်သည်။ မြန်မာနိုင်ငံ၏ ထင်ရှားသော ကျွန်းသစ်လောက် အသုံးမဝင်ဟုဆိုနိုင်စေကာမူ ကြတ်နန်သစ်၊ ဝက်သစ်ချသစ်များထက်ပို၍ ခိုင်ခံ့သည်။ ပိတောက်ပင်မှ သစ်စေးအနီတမျိုးကို ရရှိနိုင်သော်လည်း မည်သို့မျှ အသုံးချသည်ကို မတွေ့ကြရသေးချေ။

ပိတောက်ပင်တို့သည် အရိပ် အာဝါသကောင်းသော အ

ပင်များဖြစ်၍ အောက်မြန်မာနိုင်ငံမြို့ရွာများတွင် လမ်းဘေးတလျှောက်၌ အကိုင်းထိုးပြီး စိုက်လေ့ရှိကြလေသည်။

**ပိတုန်းငှက်။** ။ပိတုန်းငှက်သည် ငှက်တို့တွင် အငယ်ဆုံးဖြစ်၏။ ထိုငှက်၏ ကိုယ်ခန္ဓာတည်ဆောက်ပုံသည် ပျံလွှားငှက်နှင့်တူသည်။ အတောင်ကလေးများကို တစက္ကန့်လျှင် အကြိမ်ပေါင်း ၄၀-၅၀ ခတ်ရာမှ ထွက်ပေါ်လာသည့် ပိတုန်းမြည်သံကဲ့သို့သော အသံကို အစွဲပြု၍ ပိတုန်းငှက်ဟု ခေါ်ခြင်းဖြစ်သည်။ ပိတုန်းငှက်သည် 'တြိုခီလီဒီး' မျိုးရင်းတွင် ပါဝင်သည်။ ထိုငှက်မျိုးကို အပူပိုင်းဖြစ်သော အမေရိကန် အလယ်ပိုင်းနှင့် တောင်ပိုင်းတွင်သာ တွေ့ရတတ်သည်။ အမေရိကန် ပြည်ထောင်စု၌ ပိတုန်းငှက် အမျိုးပေါင်း ၁၉ မျိုးကိုတွေ့နိုင်သည်။ ကျူးဗားကျွန်းတွင် တွေ့ရသော ပိတုန်းငှက်တမျိုးသည် ပိတုန်းအရွယ်လောက်သာရှိသဖြင့်၊ ငှက်ရှိသမျှတွင် အငယ်ဆုံးဖြစ်သည်။ ထိုငှက်မျိုး၌ အမွေးများမရှိချေ။ အခြားပိတုန်းငှက်မျိုးများသည် ထိုအရွယ်ထက် အနည်းငယ်ပို၍ကြီးကြသည်။ အရွယ် အကြီးဆုံးဖြစ်သော လည်နီပိတုန်းငှက်တမျိုးသည် အလျား ၈ ဒ္ဒ လက်မ အထိ ရှိသည်။ ယင်းတို့ကို အန်းဒီးတောင်တန်းတွင် တွေ့ရသည်။ ပိတုန်းငှက်တို့၌ အတောင်၏ အလျားနှင့် ပုံသဏ္ဌာန်တို့သည် အမျိုးမျိုးရှိကြသဖြင့်၊ ပျံသန်းရာ၌ အသံမြည်ပုံချင်း မတူကြချေ။ အချို့သည် ပိုးကောင်များ အော်သံကဲ့သို့ မြည်တတ်သည်။

အထူးသဖြင့် ပိတုန်းငှက်တို့၌ အလွန်တောက်ပသော အမွေးအတောင်များ ရှိကြသည်။ အချို့ငှက်မျိုး၌ အမြီးမွေးတို့သည် အရောင်တောက်ပသည်။အချို့တွင်ခြေထောက်များ၌ အမွေးနုကလေးများစု၍ နေသည်။ အချို့တွင် နှုတ်ခမ်းဘေးတွင် အမွေးများရှိကြသည်။ အထူးသဖြင့် ပိတုန်းငှက်ဖိုတို့၌ တောက်ပသော အမွေးအတောင်များ ရှိမြဲဖြစ်သည်။ အမများ၏ အမွေးမှာမူ အထီးများလောက် မတောက်ပချေ။

ပိတုန်းငှက်တို့၏ နှုတ်သီးများသည် ရှည်၍ ချွန်ထက်နေသည်။ လျှာသည်လည်း ပြွန်ကဲ့သို့ဖြစ်၍၊ အဖျား၌ ပိုးကောင်ကလေးများကို လွယ်ကူစွာဖမ်းယူနိုင်ရန် အမွေးများရှိသည်။ ယင်းတို့၏ အစာမှာ ဝတ်ရည်နှင့် ပိုးကောင်များဖြစ်သည်။ ပိုးကောင်များကို ဖမ်းယူနိုင်ရန်အတွက် လျှာကို ရုတ်တရက် အပြင်သို့ထုတ်၍ ပြန်သွင်းနိုင်လေသည်။ ပန်းများမှ ဝတ်ရည်များကို လိုက်လံ စုတ်ယူရာ၌ အတောင်များကို လျင်မြန်စွာခတ်၍ လေထဲ၌ ရပ်နေပြီးလျှင် စုတ်ယူတတ်သည်။ ပိတုန်းငှက်များ၏ နှုတ်သီးများသည် ပိတုန်းငှက်မျိုးကိုလိုက်၍ အလျား အမျိုးမျိုး ရှိကြလေသည်။ ထိုနှုတ်သီးများရှိခြင်းကြောင့် ပန်းများ၏ အတွင်းရှိ ပိုးကောင်များကိုပင် ဖမ်းယူ စားသောက် နိုင်ကြလေသည်။ ပျံနေခိုက်တွင်လည်း ပိုးကောင်များကို ဖမ်းယူ စားသောက်နိုင်ကြသည်။ တခါတရံတွင် ပင့်ကူအိမ်အတွင်းရှိ ပိုးကောင်များကို ခိုးယူ စားသောက်ကြသည်။

ထိုငှက်ကလေးများသည် ရှေ့တိုးနောက်ငင်၊ အထက်ပျံ အောက်ဆင်း ပြုလုပ်နိုင်ကြသည်။ အမေရိကန်ပြည်ထောင်စုအရှေ့ပိုင်း၌ တွေ့ရသော လည်နီ ပိတုန်းငှက်များသည် ခရီးမိုင် ၅၀၀ကိုပင် မရပ်မနားပျံသန်းနိုင်ကြသည်။မိတ်လိုက်ချိန်များတွင် ငှက်ဖိုတို့သည် အကာအရံမရှိသောသစ်ကိုင်းများပေါ်၌ နား၍၊ မိမိတို့၏ အရောင်တောက်ပသော အတောင်များကို ဖြန့်ကာ အမများကို မြူကြသည်။ ထိုငှက်များသည် အစာရှာရာ၌ဖြစ်စေ၊ မိတ်လိုက်ရာ၌ ဖြစ်စေ တကောင်နှင့်တကောင် ရန်မူ တတ်ကြသည်။ ထို့ပြင် မိမိတို့ထက် အရွယ်အဆမတန် ကြီးမားသည့် ကျီးကန်းကဲ့သို့သော ငှက်ကြီးများကိုပင် ပြန်လှန်၍ ရန်မူလေ့ရှိသည်။ ထိုသို့ရန်မူရာ၌ ငှက်ကြီးများ၏ ဦးခေါင်းပတ်လည်တွင် ပတ်၍ အတောင်များကို ခတ်ခြင်းဖြင့် အသံများ ဖြစ်ပေါ်စေပြီးလျှင် ငှက်ကြီးကို စိတ်အနှောင့်အရှက်ပြုကာ မောင်းထုတ်တတ်သည်။

ပိတုန်းငှက်တို့သည် အဖိုနှင့်အမ အမြဲတွဲနေလေ့ မရှိကြချေ။ မိတ်လိုက်ပြီးသောအခါ၊ အမများသည် အထီးများမပါဘဲ၊ တဦးတည်း အသိုက်များကိုဆောက်လုပ်ကြသည်။ အသိုက်များသည် ခွက်ကလေးများနှင့်တူ၍ လှပသည်။ ဆောက်လုပ်ရာ၌ အပင်မှ အမွေးနုများ၊ ပင့်ကူအိမ်များနှင့် အခြားအမျှင်သေးများကို အသုံးပြုကြသည်။ တခါတရံ မိမိတို့၏ အသိုက်များကို မြေပြင်နှင့် တန်းလျက်ရှိသော သစ်ကိုင်းများတွင် လုပ်ကြ၍၊ သစ်ကပ်မှော်များနှင့် ဖုံးထားကြသဖြင့်၊ ယင်းတို့၏ အသိုက်များကို ရုတ်တရက် မတွေ့မြင်နိုင်ကြပေ။

ပိတုန်းငှက်များသည် အစဉ်လိုလို ဥနှစ်လုံးကိုသာ ဥလေ့ရှိသည်။ ထိုဥများသည် ပဲစေ့လောက်သာရှိ၍၊ အရောင်ဖြူသည်။ အချို့ ပိတုန်းငှက်မျိုးသည် တရာသီအတွင်း၌



ကိုယ်ခန္ဓာတည်ဆောက်ပုံ ပျံလွှားငှက်နှင့်တူသည့် ပိတုန်းငှက်

ပင် နောက်ထပ် အသိုက်များကို ဆောက်လုပ်၍၊ ဥများကို ထပ်အုကြပြန်သည်။ ရက်သတ္တ နှစ်ပတ်အတွင်း ဥကလေး များမှ အကောင်ကလေးများ ပေါက်လာကြသည်။ ဥမှ ပေါက်စ ငှက်ကလေးများသည် အမွေးများမရှိ၊ မျက်စိများ လည်းမမြင်ရဘဲ၊ ပိုးကောင်ကလေးများနှင့်တူသည်။ မိခင် ငှက်မသည် သားယော်များကို အစာခွံ့ရာ၌ ငှက်ယော်များ၏ လည်ချောင်းအတွင်းသို့ ယင်းတို့၏ နှုတ်သီးများကို ကြမ်း တမ်းစွာ ထိုးသွင်းလေ့ရှိသည်။ ငှက်ကလေးများသည် ကြီး ထွားလွယ်ကြသဖြင့်၊ မကြာမီ ရက်များအတွင်း၌ အသိုက် များမှ ထွက်ခွါနိုင်ကြလေသည်။ နွေကူး ဥတုများတွင် သဲ ကန္တာရ တောင်ကြားများတွင် ပိတုန်းငှက်များကို တွေ့နိုင် ပေသည်။

**ပိပစ်စာကလေး**။ ။ပိပစ်စာကလေးသည်စရိုက်အားဖြင့် ၎င်း၊ အဆင်းသဏ္ဌာန်အားဖြင့်၎င်း မိုးစွေငှက်နှင့်တူသည်။ သို့ရာတွင် မိုးစွေငှက်နှင့် မည်သို့မျှ ဆက်စပ်ခြင်း မရှိချေ။ ထိုငှက်ကလေးသည် 'လယ်စာ' တမျိုးဖြစ်၍၊ ယင်းကို ပါ ဏဗေဒအမည်အားဖြင့် 'အန်းသပ် ပရာတင်းဆစ်' ဟုခေါ် သည်။ ပိပစ်ငှက် အမျိုးပေါင်းမှာ ၅၀ ခန့်ရှိ၍၊ ယင်းတို့ကို ကမ္ဘာပေါ် ရှိ နေရာအနှံ့အပြား၌ တွေ့မြင်နိုင်လေသည်။

ဗြိတိသျှကျွန်းစုတွင် ထင်ရှားသော ပိပစ်စာကလေးမျိုး ကို တစ်တလတ်၊သို့မဟုတ် မဲဒိုးပိပစ်ဟုခေါ် သည်။ ပိပစ်စာ ကလေးသည် သာမန်အားဖြင့် မိုးစွေငှက်နှင့်တူသော်လည်း၊ ကိုယ်လုံးနှင့် နှုတ်သီး၌ ကွဲပြားခြင်းရှိသည်။ မိုးစွေငှက်မှာ အသီးအနှံများ၏ အစေ့ကိုသာ စား၍၊ ပိပစ်စာမှာကား ပိုး မွှားများကိုစားသည်။ပိပစ်စာကလေး၏နှုတ်သီးသည် သေး ၍ရှည်သည်။ အမြီးမှာလည်း ရှည်သည်။တကိုယ်လုံး၌ အညို အစက်အပြောက်များ ဖုံးအုပ်လျက်ရှိသည်။ မြေကြီးပေါ် ရှိ တွင်းချိုင့်များတွင် အသိုက်ကိုမြက်ဖြင့်ပြုလုပ်သည်။ ဥများ မှာညို၍၊ တမြုံလျှင် ၄ ဥ၊ ၅ ဥ ခန့်ရှိသည်။ ပိပစ်စာကလေး များ ကျက်စားရာနေရာမှာ မြက်ထူထပ်သော ကွင်းနှင့် လယ်မလုပ်သော မြေရိုင်းကွင်းတို့ ဖြစ်လေသည်။

ပါဏဗေဒအမည် 'အန်းသပ် စပိုင်နို လက်တာ ပတ်တရို ဆပ်' ခေါ် ပိပစ်စာကလေးမျိုးလည်း ရှိသည်။ ထိုပိပစ်စာ တို့သည် အညိုရောင်ရှိသော ငှက်ကလေးများဖြစ်၍၊ ပင်လယ် ကမ်းရိုးတလျှောက်တွင် လူးလာ ပျံသန်းနေကြသည်ကို မ ကြာခဏတွေ့နိုင်သည်။ အသိုက်များကို မတ်စောက်သော ကျောက်ထရံတွင်ဖြစ်စေ၊ ကျောက်ဆောင် အဆင့်များတွင် ဖြစ်စေ ပြုလုပ်ထားတတ်ကြသည်။

ပါဏဗေဒအမည် 'အန်းသပ် ထရစ်ဗီယယ်လစ်' ခေါ် ပိပစ် စာကလေးမျိုးလည်း ရှိသည်။ ထိုစာကလေးများ၏ လည် ချောင်းနှင့် ရင်အုပ်တွင် အမဲမှတ်များ ပါရှိသည်။ သာယာ ချိုမြသောတေးကို ဆိုတတ်၍၊ ပိုးမွှားကို စားတတ်သော ငှက်ကလေးများ ဖြစ်သည်။ မြန်မာနိုင်ငံတွင် ဤပိပစ်စာ ကလေးမျိုး ၆ မျိုးကို တွေ့ရသည်။

**ပိရမစ်**။ ။ရှေးအခါကအီဂျစ်နိုင်ငံတွင် နတ်ရွာစံဘုရင်တို့ ၏ ရုပ်အလောင်းကို ဆေးရည် စိမ်၍၊ အလွန်ထုထယ်ကြီး မားသော သင်းချိုင်းဂူထဲတွင် ထည့်ထားသည့် အလေ့အထ ရှိခဲ့သည်။ ထိုသင်းချိုင်းဂူကြီးသည် ကျောက်တုံးကျောက် ခဲများဖြင့် ပြုလုပ်ထား၍၊ ပုံသဏ္ဌာန်အားဖြင့် မျက်နှာလေး ဖက်ရှိပြီးလျှင်၊ အောက်ခြေမှ အထက်သို့ ချွန်၍ တက်သော ထုချွန်သဏ္ဌာန် ရှိလေသည်။ (ပုံကိုကြည့်ပါ) ထိုထုချွန် သဏ္ဌာန်ကိုစွဲ၍ ပိရမစ်ဟု ခေါ် လေသည်။

ကမ္ဘာပေါ် တွင် အထင်ရှားဆုံး ပိရမစ်များမှာ လစ်ဗျန် သဲကန္တာရ အစပ်နားရှိ ဂီဇာမြို့အနီးတွင် တွေ့မြင်နိုင်သော ပိရမစ်ကြီး ၃ ခုပင် ဖြစ်သည်။ ထိုအဆောက် အအုံကြီးများ သည် ကမ္ဘာ့အံ့ဖွယ်ခုနစ်သွယ်တို့အနက် တခုအပါအဝင်ဖြစ် ၍ သက်တမ်းအားဖြင့် အနှစ် ထောင်ပေါင်းများစွာ ကြာရှိ ခဲ့လေပြီ။ (ကမ္ဘာ့အံ့ဖွယ် ခုနစ်သွယ် — လည်းရှု။) ရှေးနှစ် ပေါင်း များစွာကတည်းကပင် ထောင်ပေါင်းများစွာသော ခရီးသည်များသည် ထိုအံ့ဖွယ်ရာ ပိရမစ်တို့ကို ကုလားအုပ်



နတ်ရွာစံ အီဂျစ်ဘုရင် သင်္ချိုင်းဂူဖြစ်သော ပိရမစ်ကို ဤသို့ ကျေးကျွန် မြောက်မြားစွာဖြင့် တည်ဆောက်ခဲ့ကြသည်။



အီဂျစ်နိုင်ငံ ဂီဇာမြို့ရှိ ပိရမစ်ကြီး၏ ရှုခင်းတရပ်

နှင့်တမျိုး၊ မြင်းစီး၍တဖုံ၊ ခြေလျင်တလီ၊ နည်းအမျိုးမျိုးဖြင့် သွားရောက်ကြည့်ရှုလေ့ရှိကြသည်။ ယခုအခါတွင်ကား ကိုင်ရိုမြို့မှ ထိုမြို့၏အနောက်ဖက် ၅ မိုင်ကွာ၌ရှိသော ဂီဇာမြို့အထိ ထရော်လီကားဖြင့် သွားရောက်၍ကြည့်ရှုနိုင်သည်။

ဂီဇာမြို့ရှိ ပိရမစ်ကြီးများအနက် အကြီးအကျယ်ဆုံးမှာ ဂရိတ် ပိရမစ်ပင် ဖြစ်သည်။ ဂရိတ်ဟူသော ဝေါဟာရမှာ ကြီးခြင်းဟူသော အဓိပ္ပါယ်ရှိသည်။ ထိုပိရမစ်ကြီးကို လွန်ခဲ့သော ဘီစီ ၂၉၀၀ ပြည့်နှစ်လောက်က ခူးဖူးအမည်ရှိ အီဂျစ်ဘုရင်တပါး ဆောက်လုပ်ထားခဲ့သည်ဟု ဆိုသည်။ ပိရမစ်ကြီး၏ အောက်ခြေ အကျယ် အဝန်းသည် ၁၃ ဧကရှိသည်။ အောက်ခြေ၌ စတုရန်းမျက်နှာ လေးမျက်နှာရှိ၍၊ မျက်နှာတဖက်လျှင် ၇၅၅ ပေကျော်စီ ရှည်လျားသည်။ အောက်ခြေမှ ထိပ်ဖျားအထိ မူလအမြင့်သည် ၄၈၁ ပေကျော်ရှိသည်။ ယခုအခါတွင်ကား ၄၅၁ ပေသာမြင့်တော့သည်။ ထိုပိရမစ်ကြီးကို ၂ ½ တန် (ပိဿာ ၁၅၀၀ ကျော်) စီးလေးသော ကျောက်တုံးပေါင်း ၂,၃၀၀,၀၀၀ ဖြင့် တည်ဆောက်ထားသည်။ ဒုတိယ ပိရမစ်မှာ ထိုဂရိတ် ပိရမစ်ထက် မတိမ်းမယိမ်းငယ်၍၊ အမြင့်ပေ ၄၅၀ ခန့်ရှိသည်။ တတိယ ပိရမစ်မှာ မူ ၂၀၄ ပေမြင့်သည်။ ထိုအပြင် အီဂျစ်နိုင်ငံတွင် အခြားပိရမစ် အငယ်စားများလည်း ၇၅ ခုခန့် ရှိသေးသည်။

ပိရမစ်များကို အီဂျစ် နိုင်ငံ၌သာ မဟုတ်၊ မက္ကဆီကိုနိုင်ငံ၌လည်း တွေ့ရသည်။ အီဂျစ် ပိရမစ်သည် ထိပ်ချွန်၍၊ မက္ကဆီကိုနိုင်ငံရှိ ပိရမစ်မှာ ထိပ်ပြားသည်။

ပိရပ်(ဘီစီ၃၁၈–၂၇၂)။ ။ပိရပ်သည်ဂရိတိုင်း၊အီပိုင်းရပ်ပြည်ကို စိုးစံသော ဘုရင်၏ သားတော်ဖြစ်သည်။ ပိရပ်သည် ငယ်စဉ်ကပင်လျှင်၊ ဖခမည်းတော်၏ ထီးမွေနန်းမွေကို စိုးစံရပါသော်လည်း၊ ရောမတိုင်းရှိ ပြည်ထောင်မင်းတို့နှင့် ခဏခဏ စစ်ဖြစ်ခဲ့ရသောကြောင့်၊ ထီးနန်းစည်းစိမ်မှ မကြာခဏ လျှောကျခဲ့ရသည်။ ထိုကြောင့် မိမိ၏ထီးနန်းကို ပြန်ရရန်၊ ရောမပြည်ထောင်မင်းတို့ကို အကြိမ်ကြိမ် စစ်တိုက်ခဲ့ရသည်။ ဘီစီ ၂၇၉ ခုနှစ်တွင် တိုက်ခိုက်ရသော အက်စကျူလမ် စစ်ပွဲ၌ ပိရပ်သည် ရောမ လူမျိုးတို့ကို ကောင်းစွာအောင်မြင်သဖြင့်၊ နာမည် ကြီးလာလေသည်။ သို့သော် ထိုသို့ အောင်မြင်သောစစ်ပွဲမှာ လူအင်အား များစွာဆုံးပါးသော စစ်ပွဲဖြစ်သဖြင့်၊ 'ယခုကဲ့သို့သော စစ်ပွဲမျိုးကို နောက်တကြိမ် အောင်မြင်ရပါဘိမူကား၊ ငါသည် ပျက်စီးခြင်းသို့ ရောက်ရလတ္တံ့.' ဟု ညည်းညူသောဟူ၏။ ဤအချက်ကို

အစွဲပြု၍ ကမ္ဘာ့သမိုင်း၌ အဆုံးအပါး များပြားသော စစ်အောင်နိုင်ခြင်းကို ပိရပ် ဘုရင်၏ အောင်နိုင်ခြင်းမျိုးဖြင့် နှိုင်းခိုင်း ပြောဆိုလေ့ရှိသည်။ ပိရပ်သည် ဘီစီ ၂၇၂ ခုနှစ် အားဂိုးတိုက်ပွဲတွင် ကျဆုံးလေသည်။

**ပိသုကာပညာ။** ။ဗိသုကာပညာ — ရှု။

**ပီကင်းမြို့။** ။ပီကင်းမြို့သည် တရုတ်ပြည်သူ့သမ္မတနိုင်ငံ၏ မြို့တော်ဖြစ်၍၊ ကမ္ဘာပေါ်ရှိ အလှဆုံးမြို့တို့တွင် တမြို့အပါအဝင်ဖြစ်သည်။ ပီကင်းမြို့သည် တရုတ်နိုင်ငံမြောက်ပိုင်း လွင်ပြင်ဒေသ၏ မြောက်ဖက်အစွန်ဆုံး၊ မြောက်လတ္တီတွဒ် ၃၉°၅၄'နှင့် အရှေ့လောင်ဂျီတွဒ် ၁၁၆°၀၂'တို့ ဆုံရာအရပ်တွင် တည်ရှိသည်။ တရုတ်နိုင်ငံမြောက်ပိုင်း၌ အကြီးဆုံးဖြစ်သော ယွန်တင်းမြစ်သည် ပီကင်းမြို့တော်၏ အနောက်ဖက်တွင်တည်ရှိသည်။ တရုတ်သမိုင်း၌ ကျော်စော ထင်ရှားသော မာကိုပိုလိုတန်တားသည် ထိုမြစ်ကိုဖြတ်၍ ဆောက်လုပ်ထားသော တန်တားဖြစ်သည်။ ရှေးယခင်က ထိုမြစ်သည် သဲနုံးတင်၍ ရေကြောင်း ခဏခဏ ပြောင်းပြီးလျှင်၊ ခဏခဏ ရေလွှမ်းမိုးတတ်သောကြောင့်၊ မြစ်ကြောင်းကျရာ ဒေသကို လွန်စွာ ဒုက္ခပေးခဲ့သည်။ ယခုခေတ်၌ကား၊ ထိုမြစ်၌ ရေကာတာများနှင့် ရေအား လျှပ်စစ်ဓာတ်ပေး စက်ရုံများ ဆောက်လုပ်ထားခြင်းကြောင့်၊ ရေလွှမ်းမိုးသော အန္တရာယ်ကို ကာကွယ်နိုင်သည့်ပြင်၊ ယွန်တင်းမြစ်မှ ပီကင်းနှင့် တီယင်ဆင်မြို့များသို့ ရေပေးသွင်းနိုင်သည်။ ပီကင်းမြို့မှ အရှေ့တောင်ဖက်သို့မျှော်လိုက်သော်၊ မိုင် ၁၀၀ ခန့်အကွာတွင် ပိုဟိုင်း ပင်လယ်ကွေ့ကို တွေ့ရလိမ့်မည်။ ထိုပင်လယ်ကွေ့၌ တည်ရှိသော တန်းကူး ပင်လယ်ဆိပ်ကမ်းသည် ပင်လယ်မှ ပီကင်းမြို့တော်သို့ဝင်ရာ တံခါးပေါက်သဖွယ် ဖြစ်သည်။ ယခင်က ပီကင်းမြို့တော်အတွက် ပင်လယ်ဆိပ်ကမ်းမြို့မှာ တီယင်ဆင်မြို့ ဖြစ်လေသည်။ ပီကင်းမြို့၏ အနောက်ဖက်၌ ထင်ရှားကျော်စောသော တရုတ်တံတိုင်းကြီးတည်ရှိသည်။

ပီကင်းမြို့သည် အကျယ် အဝန်းအားဖြင့် ၁၂၆၄ စတုရန်းမိုင်ရှိသည်။ ၁၉၅၅ ခုနှစ် သန်ကောင်စာရင်းအရ ပီကင်းမြို့တော်၏ လူဦးရေမှာ ၃,၂၀၀,၀၀၀ ဖြစ်သည်။ ထိုမြို့ကို အုပ်ချုပ်ရေးအလို့ငှါ ခရိုင် ၁၃ ခရိုင်ခွဲထားသည်။ ၇ ခရိုင်မှာ မြို့တော်တွင်း ခရိုင်များဖြစ်၍၊ ကျန် ၆ ခရိုင်မှာ ဆင်ခြေဖုံးခရိုင်များ ဖြစ်သည်။ ပီကင်းမြို့ကို ပီကင်းပြည်သူကောင်စီအဖွဲ့ဟုခေါ်သော မျူနီစီပယ်အဖွဲ့က အုပ်ချုပ်သည်။ သို့သော် ထိုမျူနီစီပယ်အဖွဲ့သည် တရုတ်ဗဟိုအစိုးရနှင့်တိုက်ရိုက်ဆက်သွယ်သည်။

ပီကင်းမြို့တော်၏ ရာသီဥတုမှာ မြောက်သမပိုင်းဇုန်တို့၌ တွေ့ရတတ်သော ကုန်းတွင်းပိုင်း မုတ်သုန် ရာသီဥတုမျိုးဖြစ်သည်။ ဆောင်းရာသီ၌ ဆိုက်ဗီးရီးယား ကုန်းမြေမှ တိုက်ခတ်သော လေအေးတို့ကြောင့်၊ ပီကင်းမြို့သည်လွန်စွာအေး၏။ နွေရာသီ၌ကား ပစိဖိတ်မှ တိုက်ခတ်သော မိုးပါသည့် လေကြောင့် စွတ်စို၏။ ပူလည်း ပူ၏။

ပီကင်းမြို့သည် ပတ်ဝန်းကျင် နယ်တို့မှ ထွက်သော ထွက်ကုန်တို့ကို တင်ပို့ရောင်းချရာ ဗဟိုချက်မ ဌာနဖြစ်၏။ ရှေးအခါက ကြွေထည်၊ မြေထည်၊ အင်္ကြွပ်၊ ဖန်၊ ပိုးထည်၊ ကန့်လန့်ကာ၊ စီးကရက် စသည်တို့ကို အိမ်တွင်းလုပ်ငန်းသဖွယ် လုပ်ကိုင်ကြသည်။ သို့ရာတွင် တရုတ်ပြည်သူ့သမ္မတနိုင်ငံဟု ထူထောင်ပြီးသည့်နောက်၊ အိမ်တွင်း လုပ်ငန်းများကို စုပေါင်း၍၊ ပြည်သူပိုင်စံနစ် ပြုလုပ်လိုက်သောကြောင့်၊ ထုတ်လုပ်မှုအင်အား တိုးတက်လာသည်ဟု အဆိုရှိသည်။ ယခုအခါ ပီကင်းမြို့တော်နှင့် ဆင်ခြေဖုံး အရပ်တို့၌ စိုက်ပျိုးရေးစက်ကရိယာလုပ်သော စက်ရုံများ၊ သံ သံမဏိလုပ်ငန်းများ၊ ခြည်စက်နှင့် သိုးမွေးစက်များနှင့် အခြားစက်မှုလက်မှုလုပ်ငန်းများ တိုးပွားလာလေသည်။

ပီကင်း မျူနီစီပယ် နယ်နိမိတ်အတွင်း၌ လယ်ယာများသည် ဧကပေါင်း ၂၀၀,၀၀၀ ကျော်ရှိသည်။ ဆန်စပါး၊ ဂျုံစပါး စသော ကောက်ပဲ သီးနှံတို့ကို စိုက်ပျိုးသည့်အပြင်၊ ဝါဂွမ်းနှင့် ဟင်းသီးဟင်းရွက်တို့ကိုလည်း စိုက်ပျိုးသည်။ ၁၉၅၆ ခုနှစ်ကစ၍ အားလုံးသော လယ်ယာတို့ကို လယ်ယာ သမဝါယမစံနစ်ဖြင့် စိုက်ပျိုးကြသည်။ ပီကင်းမြို့တောင်ဖက် နန်ယူအန်ခရိုင်ရှိ ကြယ်နီလယ်ယာစုပေါင်း လုပ်ဆောင်ရေး အဖွဲ့သည် များစွာ ထင်ရှားကျော်စောသည်။ ထို့ပြင် ကျွဲ နွား မွေးမြူရေး၊ ဝက် မွေးမြူရေး၊ နွားနို့ ထုတ်လုပ်ရေး၊ ဘဲ ကြက် မွေးမြူရေး၊ ဟင်းသီးဟင်းရွက်နှင့် ဥယျာဉ်စိုက်ပျိုးရေးဆိုင်ရာ ပြည်သူပိုင် လုပ်ငန်းများလည်းရှိသည်။

အစဉ်အလာအားဖြင့် ပီကင်းမြို့သည် လက်မှုလုပ်ငန်း အရပ်ရပ်တို့၌ လက်ရာ မြောက်သည်ဟု ကျော်ကြားသော မြို့ဖြစ်သည်။ ကျောက်စိမ်း၊ ဆင်စွယ်၊ အရိုး၊ သစ်သားတို့ဖြင့် ပန်းပုထုခြင်း၌ အလွန်နာမည်ရသည်။ ဇာထိုးပန်းထိုးလုပ်ငန်း၊ ကော်ဇောလုပ်ငန်း၊ ကြွေရေသုတ် လုပ်ငန်းတို့လည်း ထွန်းကား၏။ ကြွေရေသုတ် လုပ်ငန်း၌ ပီကင်းဒေသ၏ နည်းနိဿယ တရုတ်ဖြစ်သော ပန်းကြွဖော်နည်းသည် လွန်စွာ ထူးခြား၏။ အခြားလုပ်ငန်းတို့မှာ အင်္ကြွပ်လုပ်ငန်း၊ ဖန်ရည်ကျိုလုပ်ငန်း၊ ပိုးထည်လုပ်ငန်း၊ စီးကရက်လုပ်ငန်းစသည်တို့ဖြစ်သည်။

ပီကင်းမြို့သည် မြို့တော်ဖြစ်သည့် အလျောက်လည်း ယဉ်ကျေးမှု အနုပညာအရပ်ရပ်တို့အပြင်၊ လူမှုရေး၊ စီးပွားရေး၊ နိုင်ငံခြားရေးရာနှင့် သိပ္ပံဆိုင်ရာ ပညာအရပ်ရပ်တို့ကို သုတေသန ပြုရာ ဗဟိုဌာနလည်း ဖြစ်သည်။ ထို့ပြင် ပညာရေး အတွက်လည်း အချက်အခြာဒေသဖြစ်ရကား၊ ၁၉၅၅ ခုနှစ်တွင်

ပီကင်းမြို့

အထက်တန်း ဝိဇ္ဇာသိပ္ပံ ပညာရပ်တို့ကို ပို့ချသော ပညာသင်ကြားပေးရာ ဌာနပေါင်း ၂ဂ ဌာနရှိသည်။ မူလတန်းနှင့် အလယ်တန်း ကျောင်းများမှာလည်း ကျောင်းပေါင်း ၁၀၀၀ ကျော်မျှရှိသည်။ အထူးသဖြင့် သိပ္ပံပညာတံခွန်ကျောင်းသည် ခေတ်သစ် တရုပ်နိုင်ငံအတွက် ထူးခြားစွာပေါ်ပေါက်လာခဲ့သည်။ ထိုကျောင်း၌ ရူပဗေဒ၊ ဘူမိရူပဗေဒ၊ မိုးလေဝသ ပညာ၊ ဘောဂဗေဒ၊ ဘာသာစကားပညာ၊ ဝေါဟာရဗေဒတို့ကို သင်ကြားသည်။ ယခုအခါ ထိုပညာတို့အပြင်၊ အခြားပညာရပ်များကိုလည်း တိုးချဲ့ သင်ပေးလျက်ရှိ၏။ ထိုသိပ္ပံပညာတံခွန်ကျောင်း တည်ရာဒေသ၏ ပတ်ဝန်းကျင်၌ကား၊ ပီကင်းမြို့ နော်မန်တက္ကသိုလ်၊ ပီကင်းဆေးတက္ကသိုလ်၊ သံ သံမဏိလုပ်ငန်း အတတ်သင်ကျောင်း၊ ရေနံလုပ်ငန်း အတတ်သင်ကျောင်း၊ စက်ဖြင့် လယ်ယာ စိုက်ပျိုးရေး အတတ်သင်ကျောင်း၊ လေယာဉ်ပျံ အတတ်သင်ကျောင်း၊ ဘူမိဗေဒတက္ကသိုလ်၊ လူမျိုးစုကျောင်း၊ တရုပ် ပြည်သူ့ တက္ကသိုလ်၊ ပီကင်းတက္ကသိုလ်၊ ဆင်ဟူအားတက္ကသိုလ်စသည်တို့ရှိကြ၏။

ပီကင်းမြို့သည် လှပသောမြို့ဖြစ်သည့် အားလျော်စွာ ရှုခင်းနှင့် အဆောက် အအုံများစွာတို့ ရှိကြသည်။ ဦးစွာထင်ရှားသော အဆောက်အအုံမှာ တီယင်အန်မင်း တံခါးနီဖြစ်သည်။ ဤတံခါးနီကို ခရစ် ၁၄၂၀ ပြည့်နှစ်၌ မင်း မင်းဆက် ဘုရင်တပါးက တည်ဆောက်ခဲ့၏။ ထိုတံခါးနီရှေ့တွင် ယခုအခါ ကြီးကျယ်သော လူထု အစည်းအဝေးများကို ပြုလုပ်လေ့ရှိကြသည်။ ပီကင်းမြို့တော်၏ အလယ်တွင်ကား တရုပ်ဧကရာဇ် ဘုရင် အဆက်ဆက်တို့ စံပျော်ရာဌာနဖြစ်သော နန်းတော်ရှိသည်။ နန်းတော်မှာ တံခါးနီ၏မြောက်ဖက်ကျလေသည်။ ရှေးက ထိုနန်းတော်ရာဒေသရှိ ဗဟို နန်းတော်ဆောင် နေရာသို့ မည်သူမျှ မဝင်ရဟု ပညတ်ခဲ့သည်။ ယခုအခါ နန်းတော်ရာ ဒေသတခုလုံးလိုလိုကို ပြတိုက်သဖွယ် အသုံးချကြသည်။ ထိုနန်းတော်ရာ မြောက်ဖက်၌ ကျောက်မီးသွေးတောင်ဟုခေါ်သော တောင်ကုန်းရှိသည်။ ယင်းတောင်ကုန်းသည် ရှေး ပီကင်းမြို့တော်တွင်း၏ ဗဟိုချက်ခြာ ဖြစ်သည်ဟု ဆိုသည်။ ထိုပြင် တီယင်တန် ဥယျာဉ်ဟုခေါ်သော အရပ်တွင် ရှေးတရုပ် ဧကရာဇ်ဘုရင် အဆက်ဆက်တို့က သက်ဆိုင်ရာ နတ်တို့ကို ကိုးကွယ်ပူဇော်ပသရာ ကောင်းကင်ဘုံ နတ်ကွန်းဟု ခေါ်ဆိုအပ်သော နတ်ကွန်း အဆောက်အအုံများတည်ရှိသည်။ နတ်ကွန်းမှာ အားလုံး သုံးခုဖြစ်၏။ နတ်ကွန်းတို့ကို စက်ဝိုင်းသဏ္ဌာန် ဆောက်လုပ်၍၊ အမိုးကို အုတ်ကြွပ်ပြာဖြင့် မိုးထားလေရာ၊ အလွန်တရာ ခမ်းနားတင့်တယ်သည်။ ပီကင်းမြို့ ဆင်ခြေဖုံးတွင် ရှိသော နွေရာသီ နန်းတော်မှာလည်း ဗိသုကာ အတတ်၌ လက်ရာပြောင်မြောက်၍၊ သာယာကြည်နူးဖွယ်ရှိ၏။ ပီကင်းမြို့၏ အနောက်မြောက် မိုင် ၂၀ ခန့်အကွာ၌၊ ရှေး မင်း မင်းဆက်တို့ကို မြှုပ်နှံ သင်္ဂြိုဟ်ရာ သင်္ချိုင်းဂူများရှိသည်။ နိုင်ငံသမိုင်းတွင် ထင်ရှားသော မာကိုပိုလိုတန်တားသည် ပီကင်းမြို့တော်အရှံမြို့၏ အနောက်တံခါးမှ အနောက်ဖက် ၉ မိုင်ကွာအရပ်တွင် တည်ရှိသည်။ တရုပ်တံတိုင်းကြီးမှာလည်း ပီကင်းမြို့၏ အနောက်ဖက် ၂၅ မိုင်ခန့် အကွာတွင် တည်ရှိ၏။ ပီကင်းမြို့တော်မှာ ရှေးဘုရင်များ ခေတ်ကပင်လျှင်၊ ကမ္ဘာပေါ်ရှိ ကိုးကွယ်ရာ အယူဝါဒ အမျိုးမျိုး ထွန်းကားခဲ့သောကြောင့်၊ ဗုဒ္ဓအယူဝါဒဆိုင်ရာ အဆောက်အအုံများ၊ ခရစ်ယန်ဘုရားရှိခိုးကျောင်းများ၊ အစ္စလမ်အယူဝါဒီတို့၏ ပလီများနှင့် အခြားသော တရုပ်ဘုံကျောင်း အမျိုးမျိုးတို့ကို တွေ့ရှိနိုင်လေသည်။


ပီကင်းမြို့၏ ကျက်သရေဆောင် ကျောက်စေတီ

ပီကင်းမြို့ကို လွန်ခဲ့သော နှစ်ပေါင်း ၂၂၀၀ ခန့်က ယင်မင်းတို့သည် ချီမြို့ဟု သမုတ်၍၊ မင်းနေပြည်တော် ပြုလုပ်ခဲ့သည်ဟု အဆိုရှိသည်။ နောင်သောအခါ၊ ယူချူမြို့တော်ဟု တွင်ပြန်သည်။ သို့သော် သုံးပြည်ထောင် မင်းများခေတ် (ခရစ် ၂၂၀–၂ဂ၀)တွင် ယင် ဟူ၍ပင် ပြန်၍တွင်သည်။ ခရစ် ၉၃ဂ ခုနှစ်တွင် ယင်ချင်းဟု တွင်သည်။ ခရစ် ၁၁၅၃ ခုနှစ်၌ ချင်မင်းဆက် တည်ထောင်ရာတွင် ယင်ချင်းမြို့ကို ချုန်တူဟု သမုတ်သည်။ ချုန်တူဟူသောအမည်မှာ အလယ်ဗဟိုမြို့တော်ဟု အဓိပ္ပါယ် ရသည်။ ခရစ် ၁၂၇၂ ခုနှစ်၌ ကူဗလိုင်ခန်သည် ချင်မင်းဆက်တို့ကို အောင်နိုင်လိုက်သောအခါ၊ ချုန်တူမြို့တော်ကို တာတူးမြို့ဟု သမုတ်၍ ယူအန်

မင်းဆက် တည်ထောင်လေသည်။ ခရစ် ၁၃၆၈–၁၆၄၄ ခုနှစ်အတွင်း ထွန်းကားသော မင်း မင်းဆက်ကို လက်မှန်မဆွ တည်ထောင်သောချုယွမ်ချန်းလက်ထက်၌တရုပ်နေပြည်တော်ကို တာတူးမြို့မှ ပြောင်း၍၊ နန်ကင်းမြို့ကို မြို့တော်ပြုသည်။ ထိုအခါ တာတူးမြို့သည် ပေပင်းမြို့ဟုတွင်လာသည်။ ပေပင်းဟူသော ဝေါဟာရ၏အဓိပ္ပါယ်မှာ မြောက်ပိုင်းဒေသငြိမ်းချမ်းရေး ဖြစ်၏။ ခရစ် ၁၄၀၃ ခုနှစ်၌ ပေပင်းမြို့ကို ပီကင်းဟု အမည်ပြောင်းပြန်သည်။ ပီကင်း ဟူသည်မှာ မြောက်ပိုင်းဒေသမြို့တော်ဟု အဓိပ္ပါယ်ရသည်။ ခရစ် ၁၄၂၀ ပြည့်နှစ်၌ကား ပီကင်းမြို့သည် မင်း မင်းဆက်တို့၏ မင်းနေပြည်ဖြစ်ခဲ့ရပြန်သည်။ ထိုသို့ မြို့တော်အဖြစ်ဖြင့် ၁၉၁၁ ခုနှစ်အထိ တည်ရှိခဲ့ပြီးမှ မန်ချူး မင်းဆက်တို့ ဆိတ်သုဉ်းသည်နှင့် ပီကင်းမြို့သည် သာမန်မြို့မျှသာဖြစ်ခဲ့သည်။ကူအိုမင်တန်အဖွဲ့ အစိုးရအာဏာကို ရရှိလာသောအခါ၌ကား၊ နန်ကင်းကိုပင် မြို့တော်ဟု သမုတ်သည်။ ၁၉၄၉ ခုနှစ်တွင် တရုပ်ပြည်သူ့ သမတနိုင်ငံကို တည်ထောင် လိုက်သောအခါ၊ ပီကင်းသည် မြို့တော် ဖြစ်လာပြန်သည်။

**ပီစာမြို့။** ။ပီစာမြို့သည် အလယ်ခေတ်၌ မြေထဲပင်လယ်တွင် ထင်ရှားသော ဆိပ်ကမ်းမြို့ကြီးတမြို့ဖြစ်သည်။ လက်နက်အင်အား တောင့်တင်းခိုင်မာသော မြို့ဖြစ်ရာ၊ အိမ်နီးချင်းတိုင်းပြည်တကာတို့သည် ပီစာမြို့ကို ခန့်ညားရိုသေကြရသည်။ ယခုခေတ်၌ကား ပီစာမြို့သည် ရှေးခေတ်ဟောင်းအဆောက် အအုံတို့ကြောင့် ထင်ရှားသည်။ အထူးသဖြင့် ထိုမြို့တွင်ရှိသော ယိုင်နေသည့် မျှော်စင်ကြီး တခုအတွက် ကမ္ဘာကျော်ကြားသည်။ ထိုမျှော်စင်တခုလုံးသည် ကျောက်သား ပကတိဖြင့် ပြီး၏။ ကျောက်မှာ စကျင်ကျောက် ဖြူဖြူဖွေးဖွေး ဖြစ်သည်။ မျှော်စင်၏ အမြင့်မှာ ၁၇၉ ပေရှိသည်။ အထပ်ပေါင်း ၈ ထပ်ရှိသည်။ မျှော်စင်၏ ခေါင်မှ မြေသို့ချိန်သီးကြိုးချ၍ ကြည့်လျှင်၊ မြေ၌ကျသော ချိန်သီးသည် မျှော်စင်အောက်ခြေနှင့် ၁၆ ပေခွဲအကွာအဝေး၌တည်ရှိသည်။ တနည်းအားဖြင့်ဆိုသော် မျှော်စင်သည် ၁၆ ပေခွဲမျှ ယိုင်နေသည်ဟု ဆိုရမည်။ ယင်းသို့ ယိုင်နေသော်လည်း၊ ၁၃ ပေထူသော နံရံရှိသည့် အဆောက်အအုံသည် တောင့်တင်းခိုင်မာလှ၍၊ ယနေ့တိုင် ကောင်းစွာတည်ရှိလေသည်။ အောက်ဆုံးမှ အထက်ဆုံး အထပ်အထိ လှေခါးထစ်ပေါင်း ၃၀၀ ရှိသည်။ ထိုမျှော်စင်ကို ခရစ် ၁၁၇၄ ခုနှစ်၌ စတင်ဆောက်လုပ်ရာ၊ ၁၃၅၀ ပြည့်နှစ်မှ ပြီးစီးသည်ဟုဆိုသည်။ ပီစာမြို့သားဖြစ်သော သိပ္ပံကဝိ ဂယ်လီလေအိုသည် ထိုမျှော်စင်ထိပ်သို့တက်၍ စမ်းသပ်ချက်များကို ပြုလုပ်ရာ အရာဝတ္ထုတို့ မြေသို့ကျသော အလျင်ကို တွက်ချက် ပြသနိုင်ခဲ့သည်။ (ဂယ်လီလေအို — ရှု။)

ပီစာမြို့၏ တည်နေပုံကား ဣတလီနိုင်ငံ အားနိုးမြစ်သည် မြေထဲပင်လယ်ထဲသို့ စီးဝင်ရာမှ ၇ မိုင်အထက်တွင် တည်ရှိသည်။ ယခုခေတ်၌ ထိုမြို့သူ မြို့သားတို့သည် လယ်ယာစိုက်ပျိုးခြင်းနှင့် တံငါလုပ်ငန်းကို လုပ်ကိုင်ကြသည်။ ယင်းတို့အပြင် ပိုးထည် ခြည်ထည် လုပ်ငန်းများလည်း ရှိသေးသည်။ မြို့၏ လူဦးရေမှာ ၅၀,၀၀၀ ခန့် ရှိသည်။ သို့သော် မြို့၏ဗဟိုချက်ခြာနှင့် ဆင်ခြေဖုံးရပ်ကွက်အပါအဝင် မြို့နယ်ဒေသ၏ လူဦးရေမှာ ၇၀,၀၀၀ ကျော်ရှိသည်။

**ပီတာ-သ-ဂရိတ် (ခရစ် ၁၆၇၂–၁၇၂၅)။** ။ပီတာ-သ-ဂရိတ်၊ သို့မဟုတ် ရုရှ ပဌမ ပီတာဘုရင်ကြီးသည် ရုရှနိုင်ငံ၏ တန်ခိုးအာဏာ အကြီးထွားဆုံးသော နိုင်ငံပြု မင်းကောင်းကြီးဖြစ်သည်။ ပီတာ-သ-ဂရိတ်၏ ဂုဏ်သတင်းကျော်ကြားရခြင်းမှာ အလယ်ခေတ် အရှေ့တိုင်းဆံကာ မတိုးတက်၊ ခေတ်မမှီ ဖြစ်နေသော ရုရှနိုင်ငံကို ဥရောပနိုင်ငံများနည်းတူ တိုးတက် ခေတ်မှီစေရန် အုပ်ချုပ်ရေး၊ စီးပွားရေးနှင့် ပညာရေးစံနစ်တို့ကို လုံးလုံးလျားလျား ပြုပြင်ပြောင်းလဲ ပစ်နိုင်ခြင်း၊ နိုင်ငံ၏ နယ်နိမိတ်ကို တိုးချဲ့ခဲ့ခြင်းတို့ကြောင့် ဖြစ်လေသည်။ ယင်းသို့ကြောင့် ထိုမင်းလက်ထက်တွင် ရုရှသည် ကမ္ဘာ့အင်အားကြီး နိုင်ငံကြီးတနိုင်ငံအဖြစ်သို့ ရောက်ခဲ့ကာ ကမ္ဘာက အရေးထား ဂရုမှုခဲ့ရလေသည်။

ပီတာသည် ရုရှ ဇာဘုရင် အလက်ဆစ်မီဟိုင်းလိုဗစ်၏ဒုတိယ အိမ်ထောင်မှ မွေးသော သားတော်ဖြစ်၍၊ ၁၆၇၂ ခုနှစ် ဇွန်လ ၉ ရက်နေ့တွင် မော်စကိုမြို့၌ ဖွားမြင်သည်။ ဇာဘုရင် အလက်ဆစ်၏ပဌမအိမ်ထောင်မှမွေးသော အိုင်ဗန်မင်းသားနှင့် တွဲဖက်၍ ထီးနန်းကို ဆက်ခံရရာ၊ အိုင်ဗန်၏ အစ်မတော် ဆိုဖီယာက ရင်ခွင်ပိုက်အဖြစ်အုပ်စိုးလေသည်။အိုင်ဗန်ကား ပျော့ညံ့သူ ဖြစ်၍၊ ပီတာက အရေးမထားပေ။ ၁၆၈၉ ခုနှစ်တွင် ပီတာသည် ဆိုဖီယာအား ရင်ခွင်ပိုက်ရာထူးမှအဓမ္မနုတ်ထွက်စေခဲ့ပြီးနောက် သူသာလျှင် ကြီးစိုးနေခဲ့လေသည်။ ၁၆၉၆ ခုနှစ်တွင် အိုင်ဗန် ကွယ်လွန်သဖြင့် ပီတာသည် ရုရှထီးနန်း၏ တပါးတည်းသောအရှင်စိုးမင်းဖြစ်လာလေသည်။

ပီတာသည် ငယ်စဉ် အခါမှစ၍ မော်စကို မြို့တော်သို့ ကုန်သွယ်ရန်ငှင်း၊ အခြေစိုက်နေထိုင်ရန်ငှင်း လာရောက်ကြသော အနောက်တိုင်းသားတို့နှင့် တွေ့ဆုံဆက်ဆံဘူးသည်။ ထို့ပြင် ပီတာ၏နည်းပြဆရာတို့သည် ပြင်သစ်၊ ဆွစ်၊ စကော့လူမျိုးများဖြစ်ကြသည်။ ထို့ကြောင့် ပီတာသည် အနောက်တိုင်းသားတို့နှင့် အနေနီးစပ်ကာ အနောက်တိုင်းများကို အားကျနေခဲ့သည်။ ရုရှ ထီးနန်းကို ရပြီးနောက် အာဏာလက်ဝယ် ရရှိလာသောအခါ၊ ပီတာဘုရင်သည် အရှေ့တိုင်းဆံ၍ ခေတ်မမှီ ဖြစ်နေသော မိမိ နိုင်ငံကို အနောက်တိုင်းဆံလေအောင် အကြမ်းပတမ်းပင် ပြုပြင်လေတော့

သည်။ ပီတာသည် ဇွဲသန်၍ စိတ်ဓာတ်ပြင်းပြသလောက် ပြင်းပြင်းထန်ထန်လည်း အလုပ်လုပ်နိုင်သည်။ ကုန်းတပ်ရေတပ်တို့ကို အနောက်နိုင်ငံများ၏ အဆင့်အတန်းနှင့် တူညီအောင် ပြုပြင်ရေး၊ နိုင်ငံခြား ကုန်သွယ်မှု ကောင်းမွန်ရေး၊ သင်္ဘော ဆိပ်ကောင်း ရရှိရေးတို့အတွက် အထူး ကြိုးပမ်းသည်။ ဗောလဗစ်ကမ်းခြေတလျှောက်ရှိဆိပ်ကမ်းကောင်းများမှာ ဆွီဒင်ပိုင် များသာ ဖြစ်လျက်၊ ယင်း နိုင်ငံကိုလည်း ဖက်ပြိုင်နိုင်စွမ်း မရှိသေးချေ။ ထို့ကြောင့် ပင်လယ်နက်ဖက်၌ခြေကုပ်ရှာရာ၊ ၁၆၉၆ ခုနှစ်တွင် အဇော့ဆိပ်ကမ်းမြို့ကို တူရကီတို့ လက်မှ တိုက်ခိုက်သိမ်းယူလိုက်သည်။ ယင်းသို့ဖြင့် မိမိ၏ ပြုပြင်ဖွဲ့စည်းထားသော စစ်တပ် အစွမ်းကိုလည်းပြလိုက်သည်။ အဇော့မြို့ကို ရရှိသဖြင့်လည်း မိမိ၏ရေတပ်ကို ပြုပြင်ဖွဲ့စည်းနိုင်ခွင့် ရပြန်လေသည်။

အနောက်တိုင်း ဓလေ့ထုံးစံ၊ အနောက်တိုင်းစံနစ်တို့ကို အလွန် အထင်ကြီးသော ပီတာသည် ဥရောပနိုင်ငံများမှ လက်မှုပညာသည်များ၊ အင်ဂျင်နီယာများ၊ စစ်သားများကို ခေါ်ယူကာ၊ ရုရှနိုင်ငံတွင်းသို့ အနောက်တိုင်း ယဉ်ကျေးမှုကို သွင်းယူသည်။ထိုမျှနှင့် အားမရသေး၍၊ ၁၆၉၇ ခုနှစ်တွင် မိမိကိုယ်တိုင် ဂျာမနီ၊ ဟော်လန်၊ အင်္ဂလန်စသော ဥရောပနိုင်ငံများသို့ လေ့လာ ဆည်းပူးရန် ခရီးထွက်လေသည်။ ပီတာသည် သွားနုတ်သည့်အတတ်မှအစ သင်္ဘောဆောက်လုပ်ခြင်းအတတ်အထိ စက်မှုလက်မှု ပညာအရပ်ရပ်ကို ကိုယ်တိုင်လက်တွေ့ ဝင်ရောက် လုပ်ကိုင်ခဲ့သည်။ ယင်းသို့ လေ့လာနေခိုက် မိမိ၏နိုင်ငံတော်၌ ပြုပြင်ရေး မလိုလားသူတစု၏ ပုန်ကန်မှု တရပ် ပေါ်ပေါက် လာသဖြင့်၊ ပြန်ခဲ့ရလေသည်။ ၁၆၉၈ ခုနှစ်တွင် ပုန်ကန်မှုကို ပြင်းပြင်းထန်ထန် နှိမ်နင်းပြီးနောက်၊ ပီတာသည် မိမိ၏ လေ့လာချက်များကို အကောင်အထည်ဖော်လေသည်။ အခွန်သစ်များကို တီထွင်ကောက်ခံသည်။ ဥရောပတိုက်သားတို့၏ ဝတ်စားဆင်ယင်မှုကို အတုယူစေ၍၊ ရုရှလူမျိုးတို့ ထားလေ့ရှိသော မုတ်ဆိတ်များကိုပင် ရိတ်ဖြတ်ပစ်စေသည်။ မုတ်ဆိတ်ထားသူများသည် အခွန်ဆောင်ကြရသည်။ အမျိုးသမီးများအားလည်း အိမ်တွင်းပုန်းဘဝမှ အပြင်လောကသို့ ထွက်လာစေသည်။ လူအများအပေါ် တွင်ဩဇာညောင်းလျက်ရှိသော အယူဝါဒဂိုဏ်းဂဏများကို ဖိနှိပ်၍ မိမိ လက်အောက်တွင် ထားစေသည်။ ရုရှနိုင်ငံသူ နိုင်ငံသားမှန်သမျှ အထက်တန်းစားမှ အောက်တန်းစားအထိ နိုင်ငံတော်၏ ကျေးကျွန်များသာဖြစ်စေသည်။ ရုရှပြက္ခဒိန်ကိုပင် ပြောင်းလဲပစ်သည်။ ပီတာသည် နိုင်ငံခြားနှင့် ဆက်သွယ်ရေး၊ ကုန်ကူးသန်းရောင်းဝယ်ရေးအစရှိသည်တို့ကို လွယ်ကူစွာ ပြုလုပ်နိုင်ရန်အတွက် ရေခဲလွတ်သည့်ဆိပ်ကမ်းကောင်းများရရှိရေးကိုလည်းဆက်လက်ကြိုးပမ်းခဲ့လေသည်။

၁၇၀၀ ပြည့်နှစ်တွင် ဗောလတစ် ပင်လယ်သို့ ထွက်ပေါက်ရရန်အတွက် ပိုလန်၊ ဒင်းမတ် နိုင်ငံတို့နှင့် မဟာမိတ်ဖွဲ့ပြီးလျှင် သင်္ဘောဆိပ်ကောင်းများပိုင်သော ဆွီဒင်နိုင်ငံနှင့် စစ်ပြိုင်သည်။ နားဗာတိုက်ပွဲတွင် ပီတာ၏ တပ်မကြီး မရှုမလှအရေးနိမ့်၍၊ ပိုလံနိုင်ငံကိုလည်း ဆွီဒင်က တိုက်လေသည်။ အထိနာခဲ့သော ပီတာသည် ဆွီဒင်အား ထပ်၍ မကြံစည်သေးဘဲ 'စိန့်ပီတာစဗတ်' (ယခုလီနင်ဂရက်မြို့တော်)အမည်နှင့် မြို့တော်သစ်ကို တည်ဆောက်ယင်း မိမိ၏တပ်မတော်ကိုပြန်လည် ပြုပြင်ဖွဲ့စည်းသည်။ ၁၇၀၉ ခုနှစ်တွင် ဆွီဒင်ဘုရင်ချား(၁၂)က ရုရှကိုတိုက်ခိုက်လာပြန်သည်။သို့သော် ပီတာက ပိုလတာဗာ တိုက်ပွဲတွင် ချား၏ တပ်များကို ချေမှုန်းလိုက်သည်။ ချားသည် အခဲမကြေသဖြင့် ၁၇၁၀ ခုနှစ်တွင် တူရကီနိုင်ငံ၏အကူအညီဖြင့်၊ ရုရှားနှင့်တဖန် စစ်ဖက်ကြပြန်သည်။ ပီတာ အရေးရှုံးနိမ့်၍ တူရကီအား အဇော့မြို့ကို ပြန်ပေးရလေသည်။

ဆွီဒင်နှင့်ကား ကြာရှည်လေးမြင့်စွာပင် စစ်တိုက်နေခဲ့ရာ၊ ပီတာသည် ကုန်းဖက်၊ ရေဖက်တွင် အောင်ပွဲများ ရရှိခဲ့သည်။ ချားဘုရင် လွန်သောအခါ၊ ၁၇၂၁ ခုနှစ်တွင် ပီတာသည် ဆွီဒင်နိုင်ငံအား နစ်စတက်စစ်ပြေငြိမ်းစာချုပ်ကို လက်မှတ်ရေးထိုးစေပြီးလျှင် စစ်ပြေငြိမ်းလိုက်သည်။ ယင်းသည့် စစ်ပြေငြိမ်းစာချုပ်အရ၊ပီတာပိုင်ဆိုင်လိုခဲ့သော ဗောလတစ် ပင်လယ် အရှေ့ဖက်ကမ်းခြေတလျှောက်ရှိ လီဗိုနီယာ၊ အက်



ရုရှနိုင်ငံကိုခေတ်မှီအောင်ပြုပြင်ပေးခဲ့သောပီတာ·သ ဂရိတ်ဇာဘုရင်

စတိုနီယာနှင့် ဖင်းလန်နိုင်ငံတစိတ်တဒေသတို့ အပါအဝင်ဖြစ်သော နယ်မြေများကို ရရှာရရှိသည်။ ယင်းသို့ဖြင့် ရုရှသည် အင်အားတောင့်တင်းသော နိုင်ငံကြီးတနိုင်ငံ ဖြစ်လာသည်။ ထို့ကြောင့် ရုရှဆီနိတ်လွှတ်တော်က ပီတာဘုရင်အား ရုရှနိုင်ငံ၏ ဖခင်ဟူ၍၎င်း၊ ကေရာဇ်မင်းဟူ၍၎င်း၊ 'ပီတာ-သ-ဂရိတ်'ဟူ၍၎င်း ဘွဲ့နာမ်များ ပေးအပ်လေသည်။

ပီတာဘုရင်သည် ၁၇၁၇ ခုနှစ်တွင် အာရှအလယ်ပိုင်းသို့ ချီတက် တိုက်ခိုက်သေးသော်လည်း မအောင်မြင်ချေ။ ၁၇၂၂ ခုနှစ်တွင်ကား ပါးရှား (အီရန်)ကို စတင်တိုက်ခိုက်ရာ၊ တောင်ပိုင်း ကက်စပီယန် နယ်ပယ်အချို့ကိုရလိုက်သော်လည်း၊ မကြာမီ ပြန်အပ်ရလေသည်။ ပီတာ ဘုရင်သည် ၁၇၂၅ ခုနှစ်တွင် ကွယ်လွန်သည်။ ထိုမင်းကား စစ်ရေးရာ လိုက်စား၍၊ လွန်စွာ အကြံကြီးမားသည်။ ဆက်လက်၍ အသက်ရှည်သေးလျှင် ပါးရှားနိုင်ငံအလုံးကိုပင် တိုက်ခိုက်သိမ်းပိုက်နိုင်ဖွယ်ရာရှိသည်။ အိန္ဒိယနိုင်ငံသို့လည်း ချီတက်တိုက်ခိုက်နိုင်ဖွယ်ရာရှိလေသည်။

ပီတာဘုရင်သည် မိမိနိုင်ငံအား ပြုပြင်နိုင်ခဲ့သော်လည်း၊ မိမိကိုယ်ကိုမူ မပြုပြင်နိုင်ခဲ့ချေ။ ထိုမင်းသည် အမျက်စောင်းမာန်ကြီး၍၊ ရက်စက်ကြမ်းကြုတ်သည်။ ရုရှနိုင်ငံကြီးအား ဒလကြမ်းခေတ်ပြောင်းခဲ့ရာ၌ အတိုက်အခံပြုသူ၊ ဆန့်ကျင်ဖက်ပြုသူတို့ကို ရက်ရက်စက်စက် ပြင်းပြင်းထန်ထန် နှိပ်ကွပ်သည်။ သားတော်အိမ်ရှေ့ဥပရာဇာ အလက်ဆစ်မင်းသားကို ပုန်ကန်ရန် ကြံစည်သည်ဟု ထင်မြင်သဖြင့်၊ အသက်ဆုံးသည်အထိ ညှဉ်းပန်းထားစေသည်။ မိမိနှင့် ဝါဒမတူသော ပဋမမိဖုရားအား ကွာရှင်း၍၊ ကက်သရင်းအမည်ရှိ သာမညမောင်းမဘဦးအား မိဖုရားမြှောက်သည်။ ထို့ပြင် အစဉ်အလာကိုချိုးဖောက်ကာ ယင်းကက်သရင်း မိဖုရားအား မိမိ၏ရိုက်ရာသီးနန်းစည်းစိမ်ကို လွှဲအပ်ခဲ့လေသည်။

ပီတာဘုရင်သည် နိုင်ငံပြု လုပ်ငန်းများကို စွမ်းစွမ်းတမံဆောင်ရွက်ခဲ့သော်လည်း ရုရှနိုင်ငံကြီးကို တကယ်တန်းဒုက္ခပေးနေသော အရင်းအမြစ်ပြဿနာကို ကား မဖြေရှင်းခဲ့ပေ။ ယင်းပြဿနာကား ကျေးပိုင်ကျွန်ပိုင်စံနစ်ပေတည်း။ မည်သို့ပင်ဖြစ်စေ ပီတာ-သ-ဂရိတ်သည် ကြံချည်ဖန်ရည် ရှိသလောက် တိုးတိုက်တိုက်၊ ကျားကိုက်ကိုက် ဆောင်ရွက်ရဲသော ဇွဲသတ္တိလည်းရှိသည်။ ထို့ကြောင့် သူ့အား အထက်မြက်ဆုံးသော ရုရှဘုရင် ကေရာဇ်တပါးဟူ၍ ခေါ် ဆိုထိုက်ပေသည်။

**ပီမိုးနင်း** (မြန်မာ ၁၂၄၅—၁၃၀၁)။ ။ပီမိုးနင်းသည်ပဋမကမ္ဘာစစ်ပြီးခေတ်မှ ဒုတိယကမ္ဘာစစ်မတိုင်မီ ခေတ်အတွင်း မြန်မာစာပေလောက၌ ထင်ရှားကျော်ကြားသောထိပ်တန်း စာရေးဆရာကြီးတဦးဖြစ်သည်။ မြန်မာစာပေ အရေးအသားကို တမျိုးထွင်ကာ စာပေလောကကို တိုးတက်ကျယ်ဝန်းစေခဲ့သော ပုဂ္ဂိုလ်ကြီးလည်း ဖြစ်သည်။ အင်္ဂလိပ် မြန်မာ နှစ်ဘာသာလုံးဖက်၌ ဗဟုသုတ ပြည့်ဝကုံလုံသူ ဖြစ်ရာ၊ အနောက်တိုင်း စာပေတို့မှ မြန်မာ အမျိုးသားတို့အတွက် အကျိုးပြုမည့် ကောင်းနိုးရာရာတို့ကို ဘာသာ ပြန်ဆို၍ မြန်မာစာပေလောကသို့ ယူဆောင်လာခဲ့ပေသည်။

ဆရာကြီးပီမိုးနင်းသည် ပြောင်မြောက်အောင်မြင်သော စာပေတို့ကိုရေးသားခဲ့သော်လည်း၊သူ၏ဘဝမှာကား ပြောင်မြောက်အောင်မြင်ခြင်း မရှိခဲ့ချေ။ သူ၏ ပြောင်မြောက်အောင်မြင်သော စာပေတို့၏ အကျိုးကျေးဇူးကို ဝဝလှလှ မခံစားမစံစားခဲ့ရဘဲ ဆင်းရဲပင်ပမ်းခြင်းဝဲဩဃ၌ တဝဲလည်လည်နေခဲ့ရလေသည်။

ပီမိုးနင်းဟူ၍ အကျော်အမော် စာရေးဆရာကြီး ဖြစ်လာမည့် မောင်မိုးနင်းသည် သုံးဆယ်မြို့၊ ရွာမရပ်၌ ၁၂၄၅ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၆ ရက်၊ တနင်္လာနေ့တွင် ဖွားမြင်ခဲ့သည်။ မွေးဖွားသည့်အချိန် နံနက် ကိုးနာရီခန့်မှ စ၍ ဆယ်နာရီကျော်ခန့်အထိ၊ မိုးနင်းများ ထူထပ်စွာ ကျရောက်သည်ကို အစွဲပြု၍ 'မိုးနင်း' ဟူသော အမည်ကို ရခဲ့သည်။

ကလေးအရွယ် ငယ်စဉ်အခါ၊ အဖိုးအဖွားများလက်တွင် ချမ်းချမ်းသာသာနေခဲ့ရသော်လည်း၊ အဖိုးအဖွားများ ဓားပြတိုက်ခံရ၍ အိမ်ကြီးနှင့် ငှက်ပျောခြံကြီးပါ မီးလောင်ခံရပြီး နောက်တွင် မောင်မိုးနင်းသည်လည်း အဆင်မပြေသော ဘဝခရီးကို စတင်လျှောက်ခဲ့ရပေသည်။ အဖိုးအဖွားများသည် ဓားပြတိုက်ခံရပြီးသည့်နောက်တွင် ပြန်၍ စီးပွားရေး နလံထူနိုင်ခဲ့ကြဟန် မတူချေ။ မောင်မိုးနင်း၏ ဖခင်သည် ရှပ်ရည်ချောသလောက် လက်မှုပညာ အမျိုးမျိုးကိုတတ်ကျွမ်းသော်လည်း၊ လူလေတဦးဖြစ်ကာ အရပ်လေးမျက်နှာသို့ သွားလာနေပြီးလျှင်၊ မိမိ၏ဇနီးနှင့် သားသမီးများထံ ခြောက်လခန့်၊ တနှစ်ခန့်ကြာမှ တခါပြန်လာသူ ဖြစ်သည်။ ထို့ကြောင့် မောင်မိုးနင်း၏ မိခင်သည် ဈေးတောင်းခေါင်းရွက်ကာ၊ အိမ်ထောင်တာဝန်ကို ထမ်းဆောင်ရရှာသည်။ ထိုအခါ သားကြီးဖြစ်သော မောင်မိုးနင်းသည် မိခင်ကို ကူညီသောအားဖြင့် အိမ်မှုကိစ္စကို ဆောင်ရွက်ခြင်း၊ ကလေးထိန်းခြင်းကို ပြုခဲ့ရရှာလေသည်။

မောင်မိုးနင်းသည် မိမိတို့၏ ပင်ပန်း ဆင်းရဲသော ဘဝမှ လွတ်မြောက်ရေးကို တွေးသည်။ ပညာတတ်လျှင် ဆင်းရဲမည်မဟုတ်ဟု သဘောပေါက်ကာ ပညာသင်လိုစိတ် တဖွားဖွား ပေါ် လာသည်။ ထို့ကြောင့် သုံးဆယ်မြို့ အာစီအမ် (ဗရင်ဂျီသာသနာပြု) ကျောင်းသို့ ထွက်ပြေးသည်။ ထိုကျောင်းမှ ကျောင်းအုပ် ဖာသာပဲလဝါးက မွေးစားကာ ပညာသင်ပေးလေသည်။

ထိုကျောင်းတွင် သုံးနှစ်မျှ ပညာသင်ကြားပြီးနောက်၊



နာမည်ကျော် မြန်မာစာရေးဆရာကြီး ပီမိုးနင်း

ဗရင်ဂျီဘုန်းကြီးအဖြစ် သင်ရန် မော်လမြိုင်မြို့ ဆင်မီနာရီ ကျောင်းသို့ သွားရသည်။ မော်လမြိုင်ကျောင်းတွင် လက်တင်ဘာသာကို ကျနစွာ သင်ကြားခဲ့ရသည်။ ထိုကျောင်း၌ သုံးနှစ်ကြာပြီးနောက်၊ ပီနန်မြို့ရှိ ဂျင်နရယ်ကောလိပ်သို့ သွားရပြန်သည်။ ထိုကောလိပ်တွင် နှုတ်မှုပညာ၊ တက္ကဗေဒ၊ ယထာဘူတပညာနှင့် အခြားလောကီပညာရပ်တို့ကို သင်ကြားခဲ့ရလေသည်။ ထိုကျောင်း၌ ပညာဆုံးခန်းတိုင်ရောက်အောင်သင်ပြီးလျှင် ဘုန်းကြီးသိက္ခာကိုယူရသည်။ ဗရင်ဂျီဘုန်းကြီးသိက္ခာယူပြီးလျှင်လူထွက်ရိုးထုံးစံမရှိသောကြောင့် မောင်မိုးနှင်းသည် တသက်လုံး ဘုန်းကြီး လုပ်နိုင်မည် မဟုတ်သဖြင့်၊ဘုန်းကြီးအတတ်သင်တန်းမဆုံးမီ မြန်မာပြည်သို့ ပြန်ခဲ့လေသည်။ ထိုအချိန်တွင် မောင်မိုးနှင်းသည် အသက်နှစ်ဆယ်ခန့်ရှိချေပြီ။ အဖိုးအဖွားများလည်းသေဆုံးကုန်ကြ၍၊ မောင်မိုးနှင်း၏ ဖခင်သည်လည်း မောင်မိုးနှင်း မော်လမြိုင်၌ ရှိစဉ်ကပင် သေဆုံးခဲ့ပြီးဖြစ်လေသည်။ မောင်မိုးနှင်း ပီနန်မှပြန်ရောက်သောအခါ၊ မိခင်သည် အိမ်ထောင်သစ် ထူထောင်လျက်ရှိနေသည်။ မောင်မိုးနှင်း၏ ပထွေးသည်မြန်မာစာပေကျမ်းဂန်တို့ကို အလွန်လိုက်စားသူဖြစ်ရာ၊ ထိုစဉ်က မြန်မာစာကို ၄ တန်းစာမျှသာ သင်ဘူးခဲ့သော မောင်မိုးနှင်းသည် ပထွေးဖြစ်သူ၏ မြောက်မြားလှစွာသော မြန်မာစာအုပ်များကို ဖတ်ရှုလေ့လာခြင်း၊ ပထွေးနှင့် မိခင်တို့အား မသိနားမလည်သမျှကို မေးမြန်းခြင်းဖြင့် မြန်မာစာပေနှင့် ကျမ်းဂန်တို့ကို အတော်အတန် သိရှိနားလည်ခဲ့သည်။ မောင်မိုးနှင်း၏ မိခင်သည် ပုံတိုပါဠိစ ရယ်မောစရာတို့ကို မရပ်မနား စကားမထပ်ရအောင် ပြောနိုင်သူဖြစ်ရာ၊ နောင်အခါ ဆရာကြီးပီမိုးနင်း၏ ကျော်စောမှုကို ပြုသည့် ဥာဏ်ရည် ဥာဏ်စွမ်းတို့သည် မိခင်ထံမှရသော ဥာဏ်အမွေအနှစ်များ ဖြစ်သည်ဟု 'ပီမိုးနင်း၏ ပီမိုးနင်း' စာအုပ်ထဲတွင် ဆရာကြီးက ထုတ်ဖော် ရေးသားခဲ့လေသည်။

မိခင်ကို နွယ်၍ ဥာဏ်ရည် ဥာဏ်စွမ်း ထက်မြက်သူဖြစ်ခဲ့သော်လည်း၊ ဖခင်ကို နွယ်၍ စိတ်လေလွင့်မှု ရှိခဲ့ဟန်တူလေသည်။ မြန်မာပြည်သို့ ပြန်ရောက်ပြီးသော်၊ အသက်မွေးဝမ်းကျောင်းနိုင်သည့်ပညာအခြေခံအသင့်အတင့်ရှိသော်လည်း၊ အလုပ်အကိုင်တခုခုကို စွဲစွဲမြဲမြဲမလုပ်ဘဲ စိတ်လေလွင့်ရာ သွားလာနေခဲ့သည်။ ကျောင်းဆရာအလုပ်၊ ပီဒဗျူဒီဌာန၌ စာရေးအလုပ်၊ ရန်ကုန်မြို့ ဟံသာဝတီ ပုံနှိပ်တိုက်၌ ဘာသာပြန်အလုပ်၊ ဘိန်းစာရေးအလုပ်တို့ကိုလည်း လုပ်ကိုင်ခဲ့၍၊ လယ်သမားကြီးတဦး၏ မွေးစားသား အဖြစ် နေထိုင်ခဲ့စဉ်က လယ်အလုပ်ကိုလည်း လုပ်ကိုင်ခဲ့သည်။ ယင်းသို့ စိတ်လေလွင့်ရာ သွားလာနေခဲ့သော်လည်း၊ ပီနန်ကောလိပ်တွင်ရှိစဉ်က သင်ကြားခဲ့ဘူးသော ယထာဘူတပညာ၊ စိတ်ပညာတို့ကို စိတ်ပါဝင်စား၍ လေ့လာယင်း၊ တက္ကဗေဒကျမ်းတအုပ်ကိုလည်း ပြတ်တောင်း ပြတ်တောင်း ပြုစုခဲ့သည်။ သို့သော် ထိုကျမ်းကို ဟံသာဝတီတိုက်၌ရောင်းချရာတွင် ဟန်မကျဘဲ၊ ထိုတိုက်၌ ဘာသာပြန်အလုပ်ကိုသာ ရရှိသည်။ ယင်းသည်ကား မောင်မိုးနှင်းသည် စာပေလောကသို့ ဝင်ရောက်ရန် ပဌမကြိုးပမ်းမှုဖြစ်လေသည်။ မောင်မိုးနှင်းသည် ဘာသာ အယူဝါဒတို့ကို နက်နက်နဲနဲတွေးတောကြံဆသူဖြစ်၍၊ဗုဒ္ဓမြတ်စွာ၏ အဘိဓမ္မာကို လေ့လာဆည်းပူးနိုင်ရန် လယ်တီ ဆရာတော်ဘုရား အထံ၌လည်း သက်န်း ဆည်းခဲ့ဘူးလေသည်။

သုံးဆယ်မြို့၌ ဖာသာပဲလဝါး၏ ကျောင်းတွင် ကျောင်းဆရာအဖြစ်လုပ်ကိုင်နေစဉ် လူရိုက်မှုဖြစ်၍ ဓမ္မိမြို့သို့ တိမ်းရှောင်ခဲ့သည်။ ဓမ္မိမြို့သူ မစိန်တင့်နှင့် အကြောင်းပါခဲ့ရာ ဇနီးဖြစ်သူကို ချစ်မြတ်နိုးလှသဖြင့်၊ ဘိန်းစာရေး အလုပ်တွင် တနှစ်ကျော်ခန့် လုပ်ကိုင်သည်။ သို့သော် သားကြီး မောင်ကျော်စိုး မွေးဖွားပြီးနောက်တွင် ထိုအလုပ်မှထွက်၍ အလုပ်အကိုင် မယ်မယ် ရရ မလုပ်ဘဲ လေနေခဲ့ပြန်သည်။

ပဌမကမ္ဘာစစ် မဖြစ်မီကလေးတွင် သုံးဆယ်မြို့၌ ပုံနှိပ်တိုက်ထောင်၍ မြန်မာ့မိတ်ဆွေအမည်ရှိ မဂ္ဂဇင်းထုတ်ဝေခဲ့သည်။ သို့သော် စစ်ဖြစ်လာသောအခါ မဂ္ဂဇင်းပျက်၍၊ သားနှင့် မယားကို သုံးဆယ်၌ ထားခဲ့ပြီးလျှင် ရန်ကုန်သို့ ရောက်ခဲ့ပြန်လေသည်။

ရန်ကုန်သို့ရောက်လျှင် သူရိယသဘင်းစာတိုက်၊ မြန်မာ့အလင်းသတင်းစာတိုက်၊ ထို့နောက် သူရိယ သတင်းစာတိုက်တို့တွင် ပြန်၍ လုပ်ကိုင်ခဲ့သည်။ ထိုစဉ်အတွင်း အလုံရပ်မှ ဗဟိုတစ်ကျောင်းတွင် လက်တင်ဆရာအဖြစ် ဝင်၍လုပ်ကိုင်ပြန်သည်။ ထိုကျောင်း၌ အလုပ်လျှောက်စဉ်က ဇာတာ၌ပါသည့် မောင်ကျော်ညွန့်ဟူသော မြန်မာ နာမည်နှင့်လျှောက်လွှာတင်သည်။ ထိုအခါ မြန်မာလူမျိုးကို လက်တင်ဆရာအဖြစ် မခန့်နိုင်ဟု ဆိုသဖြင့်၊ မော်လမြိုင်ကျောင်း၌ နေခဲ့စဉ်က ဗရင်ဂျီအမည် ဖီးလစ်၏ စာလုံးအတိုကောက် 'ပီ'ကိုယူပြီးလျှင်၊ မိုးနှင်းအမည်တွင် ရှေ့မှ 'ပီ' တလုံးထည့်က၊ အင်္ဂလိပ်နာမည်ယောင်ယောင် ပီမိုးနင်းဟူသော အမည်ဖြင့် လျှောက်ထားမှ အလုပ် ရရှိခဲ့သည်။ နောင်အခါ ထိုအမည်ကို ကလောင်အမည်အဖြစ် အသုံးပြုခဲ့လေသည်။

လက်တင်ဆရာအဖြစ် လုပ်ကိုင်ပြီး နောက်တွင် သူ၏ ညာဉ်အတိုင်း ထိုအလုပ်မှ တဖန်ထွက်၍၊ ပညာ့အလင်း သတင်းစာတိုက်သို့ကူးပြောင်းလုပ်ကိုင်ပြန်သည်။ ထို့နောက် ဆရာကြီးသည် သစ္စာဝါဒီသတင်းစာ၊ ဗန္ဓုလ ဂျာနယ်နှင့် သတင်းစာတို့တွင် ဝင်ရောက် လုပ်ကိုင်ခဲ့သည်။ ယင်းသည့်တိုင်အောင် ချောင်ချောင်လည်လည် မရှိခဲ့ချေ။ ဗန္ဓုလ သတင်းစာ ရပ်စဲပြီးနောက်တွင်၊ ကဝိမျက်မှန်၊ ကဝိတံခွန်၊ ဗြိတိသျှဘားမား၊ ဒဂုန်မဂ္ဂဇင်း တိုက်များသို့ ဝတ္ထုဆောင်းပါးများ ပေးပို့၍ အသက်မွေး ဝမ်းကျောင်း ခဲ့ရသည်။ ပဲခူးဦးဆန်နီ၏ လမ်းညွှန်ဂျာနယ်ကိုလည်း ဦးစီးထုတ်ဝေခဲ့သည်။ စာရေးခြင်းအလုပ်ဖြင့် နေရေး စားရေး မလုံလောက်သောကြောင့် ဆေးဖော်ရောင်းခြင်း၊ ဂျာမန်ရွှေတုပစ္စည်း လုပ်ရောင်းခြင်းတို့ကိုလည်း တဖက်တလမ်းက လုပ်ကိုင်ခဲ့ရသည့်တိုင်အောင် နေရေးစားရေးမှာ ကြပ်တည်း ကျဉ်းမြောင်းခဲ့သည်။ သို့သော် စာရေးဝါသနာတခုကိုကား ဆရာကြီးသည် အလွန်စွဲမြဲခဲ့၍၊ ထိုဝါသနာသည်လည်း ကြီးမားသည့်အလျောက်၊ မိမိ၏ ဝမ်းရေးချို့ငဲ့မှုကို ပမာမထားဘဲ၊ ဝတ္ထုဆောင်းပါးများစွာကို မဂ္ဂဇင်း ဂျာနယ်တိုက်များသို့ ရေးသားပေးပို့သည်။ ထိုစဉ်က ဝတ္ထုဆောင်းပါးတို့ မည်မျှကောင်းသော်လည်း၊ စာရေးဆရာသည် တန်ရာတန်ဖိုးကို ထိုက်သည့်အားလျော်စွာ ရကြသည့်ခေတ်မဟုတ်သဖြင့် ဆရာကြီးမှာ စာရေးဆရာတို့၏ ဆင်းရဲဒုက္ခ ဝဲသြဃအတွင်း တဝဲလည်လည် ရှိခဲ့လေသည်။

သားကြီးမောင်ကျော်စိုး ရုပ်ရှင်နယ်ထဲ၌ နာမည်ရလာချိန်တွင် ဆရာကြီးသည် ဗြိတိသျှဘားမား ကုမ္ပဏီတွင် ဇာတ်ညွှန်းဖက်ဆိုင်ရာနှင့် ဝတ္ထုဖက်ဆိုင်ရာဌာန၌ ဝင်ရောက်လုပ်ကိုင်ခဲ့သည်။ သားဖြစ်သူကလည်း နာမည် တက်လာသဖြင့် ဆရာကြီးတို့ မိသားတစုမှာ အသက် ရှူပေါက်အတော်အတန် ချောင်ခဲ့သည်။ သို့သော် သားကြီးမောင်ကျော်စိုး ခေါင်းထိုးခံရ၍ သေဆုံးပြီးသည့်နောက်တွင် ဆရာကြီးအဖို့ ကြမ္မာဆိုး၏ ဖိစီးခြင်း ခံရပြန်သည်။ ဇနီးသည် ဒေါ်စိန်တင့်သည်လည်း မျက်စိကွယ်နေရာမှ သားကိစ္စကြောင့် စိတ်မချမ်းမသာ ဖြစ်ပြီးလျှင် သားသေဆုံးပြီး၍ သုံးလအကြာတွင် ကွယ်လွန်သည်။ ထိုအချိန်မှ စပြီးလျှင် ကျန်ခဲ့သော သားငယ် သမီးငယ်များနှင့် ဆရာကြီးသည် ဒုက္ခမျိုးစုံကို ရင်ဆိုင်ခဲ့ရပြန်သည်။

သို့ပင်ငြားလည်း ဆရာကြီးကား စာရေးခြင်းကိုမူ စွဲစွဲမြဲမြဲလုပ်ကိုင်ခဲ့၏။ ထိုအချိန်တွင် ဆရာကြီးကိုယ်တိုင်လည်း လေဖြတ်ခံရ၍ သန်သန်စွမ်းစွမ်း မရှိတော့ချေ။ စာရေးရသလောက် အကျိုးမခံစားရသဖြင့် သုံးဆယ်မြို့သို့ပင် ပြန်မည်ပြုစဉ်၊ ဂျာနယ်ကျော် ဦးချစ်မောင်၏ ဆောင်ရွက်ပေးမှုကြောင့် မြန်မာ့အလင်း သတင်းစာက အထောက်အပံ့ပေးက၊ 'လေပွေအခန်း'ကို ရေးသားစေသည်။ ယင်းသို့ဖြင့် မြန်မာ့အလင်း သတင်းစာတွင် ဆောင်ရွက်နေစဉ် ၁၃၀၁ ခုနှစ် တန်ဆောင်မုန်း လဆုတ် ၁၀ ရက် (ခရစ် ၅-၁၂-၃၉) နေ့တွင် မြန်မာ့အလင်း သတင်းစာတိုက်၏ အမျိုးသား အောင်ပွဲနေ့ အလှူသို့အလာ၊စက်ဘီးတိုက်ခံရသည့်ဒဏ်ရာမှ ပြန်၍ နာလန်မထူနိုင်တော့ဘဲ၊ ထိုနှစ် နတ်တော်လဆုတ် ၁၂ ရက်နေ့ (ခရစ် ၆-၁-၄၀)တွင် ရန်ကုန် ဆေးရုံကြီး၌ ကွယ်လွန်လေသည်။

ဆရာပီမိုးနင်းကား စာရေးဆရာ အလုပ်ဖြင့် အကျိုးမပေးခဲ့ သော်လည်း၊ သူ့ သက်တမ်း တလျှောက် ထိုအလုပ်ကိုသာလျှင် စွဲစွဲမြဲမြဲ လုပ်ခဲ့သည်။ သူ့ သဘောမှာ သူ့စာကို ရောင်းစားသည်၊ အမြတ်ထွက်အောင် လုပ်သည် မရှိ၊ ရေးလိုသောစိတ်၊ ကြီးမားသောဝါသနာတို့ကြောင့် ရေးခဲ့ခြင်းဖြစ်လေရာ၊ မြန်မာပြည်တွင် စာအုပ် အများဆုံး ရေးသွားသော ပုဂ္ဂိုလ်ကြီးဖြစ်သည်။

စာအုပ် စာတမ်းပေါင်း များစွာကို ရေးသား ခဲ့သော ဆရာကြီး၏ လက်ရာများကို ခေတ်လေးခေတ် ပိုင်းခြားနိုင်သည်။ ပဌမခေတ်သည် ပညာ့အလင်းသို့ မဝင်မီ၊ 'မောင်ကျော်' ဟူ၍ မထင်ရှားသောအမည်ဖြင့် ရေးသားခဲ့သော ခေတ်ဖြစ်သည်။ ထိုခေတ်တွင် 'ခင်ထား'၊ 'ပင်လယ်ကူးဓာတ်ပုံ'၊ 'ဘိအေ မောင်တင့်'၊ 'ကချေသည်မယ်မြင့်' အစ ရှိသော ဝတ္ထုများနှင့် လောကီ အလင်းပြ ကျမ်းများကို ရေးသားခဲ့လေသည်။

ဒုတိယခေတ်သည် ပညာ့အလင်း၌ ဝင်ရောက် လုပ်ကိုင်စဉ်၊ 'ပိုက်ဆံကြီး' ဟူသော အမည်ဖြင့် ရေးသားသော ခေတ်ဖြစ်သည်။ အလွန်ကျော်ကြားခဲ့သော 'နေရီရီ'၊ 'ပွဲစားကြီးသားအဘနှင့် မြမြ'၊ 'ဘားမားဒေး' ဝတ္ထုများသည် ထိုခေတ်က ထွက်ပေါ်ခဲ့လေသည်။

တတိယခေတ်တွင် 'ပီမိုးနင်း' အမည်ဖြင့် ရေးသားခဲ့ရာ၊

သူ၏ အကောင်းဆုံး လက်ရာဖြစ်သည့် 'နေညိုညို'၊ 'ဟေမဝန်ဘွဲ့'၊ 'တကိုယ်တော်'၊ 'ချစ်ပန်းနွယ်'၊ 'တနိုင်ငံမြိုင်ယံခြား' စသော ဝတ္ထုရှည်ကြီးများနှင့် အခြားဝတ္ထုတို အမြောက် အမြားတို့ ပေါ်ထွက် ခဲ့လေသည်။ ထို့ပြင် 'ကမ္ဘာ့မင်တံ'၊ 'သခင်စိတ်'၊ 'လက်တွေ့ ကြီးပွားရေး' စသော ကြီးပွားတိုးတက်ရေးလမ်းညွှန် စာအုပ်များကိုလည်း ထိုခေတ်ကပင် ရေးသားခဲ့လေသည်။

'ကျွန်းငွေသောင်'၊ 'ကျားကြီးရာဇာ'၊ 'တခုလပ် နှင့် တလင်ကွာ'၊ 'သဲမြည'ာ' စသော နာမည်ကျော် ဝတ္ထုရှည်ကြီးများနှင့် မရေမတွက်နိုင်အောင် များပြားသော ဝတ္ထုတိုများကို စတုတ္ထခေတ်၌ ရေးသားခဲ့သည်။ 'တိုင်းရေးပြည်ရေး'၊ 'အောင်စိတ်'၊ 'သားဂုဏ်ရည်'၊ 'သမီးဂုဏ်ရည်'၊ 'မိန်းမစိတ်' စသော ကျမ်းများသည်လည်း ထိုခေတ်က ဆရာကြီး ပီမိုးနင်း၏ လက်ရာများ ဖြစ်ကြလေသည်။

ဆရာ ပီမိုးနင်းသည် စိတ်ကူးဉာဏ် အလွန်ထက်မြက်သူဖြစ်ရာ၊ မမှုလောက်သော အရာကလေးကိုပင် စူးစူးရှရှ မြင်တတ်သည်။ မြင်တတ်သလောက်လည်း စူးစူးရှရှ ပေါ်ပေါ်လွင်လွင် ရေးတတ်သည်။စာအသုံးအနှုန်းလည်း ကြွယ်ဝသူဖြစ်သည်။ စာဖတ်သူ၏ စိတ်နှလုံးတွင် သာယာငြိမ့်ညောင်းစေရမည့် အကြောင်းအရာကို ရေးသားသည့်အခါ၊ စန္ဒရားကို မထိတထိတို့၍ မထင်မရှားသံစုံများထွက်ကာ၊ နားသောတ၌ ငြိမ့်လေးသာယာစေသကဲ့သို့ ရေးစွမ်းနိုင်သည်။ သရုပ်ပေါ်အောင် ရေးပြရမည့် နေရာတွင်လည်း ဒိုးဒိုးဒေါက်ဒေါက် ကျယ်လောင်မြည်ဟီးသကဲ့သို့ ဖန်တီးရေးစွမ်းနိုင်သည်။ အနောက်တိုင်း စာပေမှ အမြင်သစ်၊ သဘောသစ်တို့ကို မြန်မာများ သဘောပေါက် နားလည်လွယ်အောင် ရိုးရိုးနှင့် ရှင်းရှင်း ရေးပြနိုင်သည်။ မြန်မာ အသုံးအနှုန်းများကိုလည်း အဟောင်းကိုပင် အသစ်ဖြစ်အောင် ပြင်သည့်အခါ ပြင်၍ ရေးသားခဲ့လေသည်။

ဆင်းရဲကြပ်တည်းလှသော်လည်း၊ မိမိ၏ ချမ်းသာကြွယ်ဝမှုကို မြှော်ကိုးပြီးလျှင် စာရေးသူ မဟုတ်ပေ။ ငွေကြေးအတွက် ဂရုမစိုက်သကဲ့သို့ ဝတ်စားမှုကိုလည်း ဂရုမစိုက်ချေ။ စာရေးရာ၌လည်း လက်ရေးလက်သားမှာ တော်ရုံလူ ဖတ်မရအောင် ဖြစ်ပြီးလျှင်၊ တွေ့ရာ စာရွက် အစအနများပေါ်တွင် ဖြစ်သလို ကောက်ရေးတတ်လေသည်။

ပုထုဇဉ် သဘာဝအတိုင်း သူကိုယ်တိုင် မကောင်းမှုများပြုခဲ့သည့်အခါ ပြုခဲ့သည် မှန်သော်လည်း၊ တိုင်းပြည် နှင့် ကလောင်အပေါ်၌မူ သစ္စာရှိသူ ဖြစ်သည်။ ထိုခေတ်က ငို့ဘနိုင်ငံရေးသမားတို့အား အကွက်ဆိုက်လာလျှင်၊သူ၏ပြောင်မြောက်သော ကလောင်ဖြင့် နှက်တတ်လေသည်။

အင်္ဂလိပ် မြန်မာ ဗဟုသုတ ပြည့်ဝသူဖြစ်၍၊ မြန်မာစာအရေးအသား ကောင်းရုံသာမက၊ အင်္ဂလိပ်စာ အရေးအသားလည်း ခေသောသူ မဟုတ်ပေ။ ထိုခေတ်က ခေတ်သစ်စာရေးဆရာများတွင် ဝါအရင့်ဆုံး၊ အသက်အကြီးဆုံး ဖြစ်သော်လည်း၊ ပညာဂုဏ် မောက်ခြင်းမရှိ။ တွေ့သမျှလူကို နှိမ့်နှိမ့်ချချ ပြေပြေပြစ်ပြစ် ဆက်ဆံတတ်သည်။ စာပေဖြင့်ရေးသားကူညီမှုကို ငွေရသည် မရသည်ကို ပမာမထား၊ ဦးမလေးဘဲ ဆောင်ရွက်ပေးတတ်လေသည်။

ဆရာကြီးပီမိုးနင်းသည်မြန်မာစာအရေးအသားကို ခေတ်သစ် နည်းတမျိုးဖြင့် ထွင်ခဲ့သူ ဖြစ်သည်။ 'ရောင်ခြည် တထောင် အလင်းဆောင်သော ဘာဏုရာဇာ နေမင်းသည် အရှေ့ပြင်ဗွာ၊ ဝိဒေဟာမှ ထွက်ပေါ်လာပြီး....'ဟူ၍ အဖွဲ့အနွဲ့ တသီးတတန်းကြီးများ ခေတ်စားနေသော အချိန်တွင် 'နေထွက်လာပြီ' ဟူသော တိုတိုနှင့် လိုရင်း အဖွဲ့အနွဲ့များ ခေတ်စားအောင် ထွင်ခဲ့သည်။ အရေးအသားသာလျှင် ဆန်းကြယ်သည်မဟုတ်၊ အတွေး အခေါ်တို့လည်း ဆန်းကြယ်သည်။ သူ၏ စာပေတို့သည် နှစ်ပေါင်း ၃၀-၄၀ ကျော်ခန့် ရှိခဲ့ပြီ ဖြစ်သော်လည်း သူ၏ ရေးပုံ ရေးနည်း အတွေးအခေါ် အယူအဆတို့ကား ယခုတိုင် မရိုးသေး၊ ဆန်းသစ် ပျိုမြစ်နေဆဲပင် ရှိကြလေသည်။

**ပီယာ းရီ့ရောဗတ်အက်ဒွင်** (ခရစ် ၁၈၅၆–၁၉၂၀)။ ။ ကမ္ဘာ့မြောက်ပိုင်း အာတိတ် ဒေသများကို စွန့်စားသွားလာရှာဖွေခဲ့သော အမေရိကန်လူမျိုး ရောဗတ်အက်ဒွင် ပီယာရီသည် အမေရိကန်ပြည်ထောင်စု၊ ပင်ဆီလဗေးနီးယား ပြည်နယ်သားဖြစ်သည်။ အသက် ၂၅ နှစ်တွင် အမေရိကန် ပြည်ထောင်စု ရေတပ်တွင် အမှုထမ်းသည်။ နစ်ကရားဂွ ဒေသတွင် တူးမြောင်းတူးရန် အတွက် တိုင်းထွာရသော လုပ်ငန်းတွင်လည်း အင်ဂျင်နီယာအဖြစ်ဖြင့် ဆောင်ရွက်ခဲ့ဘူးသည်။

ပီယာရီသည် ရေခဲ ဖုံးလွှမ်းနေသော မြောက်ပိုင်း ဒေသများသို့ စွန့်စားသွားလာ စူးစမ်းလိုသော ဆန္ဒရှိခဲ့၏။ ထို့ကြောင့် ၁၈၈၆ ခုနှစ်တွင် ဂရင်းလန်သို့ သွားရောက်စုံစမ်းခဲ့သည်။ ၁၈၉၁ ခုနှစ်တွင် ဖိလဒဲလဖီးယား သဘာဝသိပ္ပံ ပညာတံခွန် အသင်းက စေလွှတ်သဖြင့်၊ ပီယာရီသည် သူ၏ ဇနီးပါ အပါအဝင် လူ ၇ ဦးပါသော အဖွဲ့ကို ခေါင်းဆောင်၍ အာတိတ် ဒေသများသို့ ခရီးထွက်ခဲ့သည်။ ဇနီးဖြစ်သူသည် လင်ယောကျာ်းနှင့်အတူ မြောက်ပိုင်း အာတိတ် ဒေသတွင် နှစ် အတန်ကြာမျှ နေထိုင်ခဲ့ရာ၊ 'ဆီးနှင်းမယ်'ခေါ် သမီးကလေးကိုပင် ထိုအရပ်၌ မွေးဖွားခဲ့သည်။

ပီယာရီသည် ၁၈ နှစ်အတွင်း ဝင်ရိုးစွန်းသို့ ရောက်ရှိရန် အမျိုးမျိုး ကြိုးပမ်းခဲ့၍၊ ခုနစ်ခေါက်မျှ ခရီးထွက်ခဲ့သည်။ အခက်အခဲ အမျိုးမျိုးနှင့် ရင်ဆိုင်ရသော်လည်း၊ လက်မလျှော့ဘဲ ဆက်လက်ကြိုးပမ်းသဖြင့်၊ နောက်ဆုံး တနေ့တွင် အောင်မြင်လေသည်။



မြောက်ဝင်ရိုးစွန်းသို့ ဦးစွာရောက်ရှိသူ ရောဗတ်အက်ဒွင်ပီယားရီ

ပီယားရီသည် သတ္တမ အကြိမ်မြောက် ခရီး ထွက်ခဲ့ရာ၊ ၁၉၀၉ ခုနှစ် ဧပြီလ ၆ ရက်နေ့တွင် မြောက်ဝင်ရိုးစွန်းသို့ ရောက်ရှိလေသည်။ ပီယားရီနှင့် အတူ တပည့် နီးဂရိုးလူမျိုး တယောက်နှင့် အက်စကီးမိုး လူမျိုး ၄ ယောက်တို့လည်း ပါဝင်လေသည်။ သူတို့သည် ရက်ပေါင်း ၅၃ ရက်ဘိုင်တိုင် ခွေးများဆွဲသော စွပ်ဖားများဖြင့် ရှိရိဒင် အငူမှ အစပြု သော ရေခဲပြင်ခရီးကို မိုင်ပေါင်း ၉၅၀ မျှ ခဲယဉ်းစွာ သွား ခဲ့ရသည်။ ပီယားရီသည် မြောက်ဝင်ရိုးစွန်းတွင် ရောက်ခဲ့ သော အထိမ်းအမှတ်ဖြင့် အမေရိကန် အလံကို စိုက်ထူခဲ့ပြီး လျှင်၊ ကမ္ဘာသိ ကျေညာလိုက်လေသည်။ သူနှင့်တကွ သူ၏ အဖွဲ့ဝင်များ စွန့်စားသွားလာခဲ့သော ရေခဲပြင် ခရီးအ ကြောင်းများကိုလည်း စာအုပ်ရေးသား ထုတ်ဝေသည်။

၁၉၁၁ ခုနှစ်တွင် ကမ္ဘာ့ မြောက်ဝင်ရိုးစွန်းသို့ အသက် ဆံဖျား စွန့်စား၍ သွားရောက်ခဲ့သော ပီယားရီအား ရေ တပ်ဗိုလ်ချုပ် အဆင့်အဘန်းကိုပေးအပ်သည်။ ရောမမြို့တွင် ရှိနေသော အပြည်ပြည်ဆိုင်ရာဝင်ရိုးစွန်းကော်မရှင်သို့လည်း ကိုယ်စားလှယ်အဖြစ် စေလွှတ်လေသည်။ ထိုသို့ နိုင်ငံအစိုးရ ၏ချီးမြှောက်ခြင်းခံရသော ပီယားရီသည် ခရစ် ၁၉၂၀ ပြည့် နှစ်တွင် ကွယ်လွန်လေသည်။

**ပိလောပိန်ပင်။** ။ပီလောပိန်ပင်၏ မူလပေါက်ရောက်ရာ အရပ်သည် တောင်အမေရိကတိုက် ဖြစ်ဟန်တူသည်။ ထိုအ ပင်ကို ဥအတွက် စိုက်ပျိုးကြ၏။ ဥသည် ကတ္တော်ဥကဲ့သို့ အမြစ်မှာ ဆက်သွယ်၍ အုလေသည်။ မြန်မာနိုင်ငံကဲ့သို့ သော အပူပိုင်းဒေသ တိုင်းနိုင်ငံတို့တွင် ပီလောပိန်ပင်များ ကို စိုက်ပျိုးလေ့ရှိကြသည်။

မြန်မာနိုင်ငံတွင် ပီလောပိန်ဥများကို ဥလိုက်ပြုတ်၍ သော်ငင်း၊ နန္ဒင်းမကင်း စသော မုံ့ပဲသရေစာတို့ ပြုလုပ်၍ သော်ငင်း စားသုံးလေ့ရှိကြသည်။ အမှုန့်ပြုလုပ်ပါက များ စွာအသုံးဝင်နိုင်ပေသည်။ အခြားနိုင်ငံတို့၌မူ၊ ဥများကို စင် ကြယ်အောင် ဆေးကြော သုတ်သင်ပြီးနောက်၊ အစိတ်စိတ် အမြွှာမြွှာ ဖြစ်လာအောင် ဖြတ်တောက် ပစ်သည်။ ရရှိ သောပျစ်ချွဲချွဲ အဖတ်ကို ရေနှင့် အထပ်ထပ် ဆေးချလိုက် လျှင်၊ ဥတွင်ပါရှိသည့် ကစီကိုခွသည်။ တဖန် ဤကစီကို သံပြားပူများပေါ်တွင် အခြောက်ခံထားလိုက်သည့်အခါ၊ သာဂူစေ့ကလေးများကဲ့သို့ အလင်းဖောက်နိုင်သည့် အစေ့ ကလေးများဖြစ်ပေါ်လာသည်။ထိုသာဂူကဲ့သို့သော အစေ့ များကို ရောင်းချသုံးစွဲကြသည်။ သာဂူကဲ့သို့ပင် ပီလောပီ န်စေ့များကို ကျိုချက်၍စားသုံးနိုင်သည်။ အစာကြေလွယ် သည့် အစာမျိုးဖြစ်သည့်ပြင်၊ ပြုလုပ်ရလည်း လွယ်ကူလေ သည်။ ခါးသက်သက် အရသာရှိသော ပီလောပိန်ဥမျိုးမှ ထိုကစီစေ့များပြုလုပ်၍ရသည်။ဥအချိုမျိုးအုသော ပီလော ပီန်ပင်လည်း ရှိသေးသည်။

မြန်မာနိုင်ငံ၌ စိုက်လေ့စိုက်ထရှိသော ပီလောပိန်မှာ နှစ် မျိုးနှစ်စားရှိ၏။ တမျိုးမှာ မြန်မာမျိုးဖြစ်၍၊ အခြားတမျိုး မှာ အမေရိကန်မျိုးဖြစ်သည်။ မြန်မာမျိုးသည် ဥအထွက် နည်းသည့်ပြင်၊ အတက်များ ရင့်လွန်းပါက စားသုံးရာ၌ တောက်တတ်သည်။ သို့ရာတွင် ဥလိုက် ပြုတ်၍ စားသည့် အခါ၊ စေးစေးပိုင်ပိုင်ရှိသည်။ အမေရိကန်မျိုးသည် မြန်မာ မျိုးလောက် မစေးလှသော်လည်း၊ ဥအထွက် ပို၍ ကောင်း သည်ဖြစ်သောကြောင့်၊ အမေရိကန်မျိုးကို အစိုက်များကြ သည်။ ပီလောပိန်ပင်မှာ ချုံယောင်ပင် ဖြစ်၍၊ တောက် ပြောင်နေသည့် လက်ဝါးပုံ အရွက်များ ရှိသည်။

မြန်မာနိုင်ငံတွင် ပီလောပိန် အများအပြား စိုက်သော ဒေသများမှာ မြစ်ဝကျွန်းပေါ်ဒေသ၌ ရှိသော ဟင်္သာတ ခရိုင်နှင့် ပုသိမ်ခရိုင်မြောက်ပိုင်း အရပ်များဖြစ်သည်။ ပီ လောပိန်ပင်သည် စိုက်ပျိုးရလွယ်ကူ၍၊ တောင်သူ လယ် သမားတို့အတွက် ပိုက်ဆံခဲ သီးနှံပင် တခုဖြစ်သည်။ ထိုအ ပင်မျိုးသည် မြေစေးမြေကျစ်ကို မကြိုက်မနှစ်သက်ဘဲ၊ မြေပွ မြေဖွာကိုသာ ကြိုက်သည်ဖြစ်သောကြောင့်၊ သဲမြေနုအင် တိုင်းမြေများတွင် စိုက်ပျိုးပါက အထူးဖြစ်ထွန်းကြသည်။ စိုက်ပျိုးသောအခါ၊ ဘောင်ထိပ် တဖက်တချက် နခမ်းတ



ဂျားဗားကျွန်းသူတဦး ပီလောပီနံ့ဥ အမှုန့်များကို အခြောက်လှန်းနေစဉ်

လျှောက်တွင် စီရရီထားလျက်၊ ရိုးတံဖြတ်ပိုင်းတပိုင်းနှင့် တပိုင်း တပေစီခြားပြီးလျှင်၊ မျိုးဖြတ်ကလေးများကို ခပ်စောင်းစောင်းထိုးစိုက်ရသည်။အပင်ချင်း မျက်နှာချင်းဆိုင်တည့်တည့်မဖြစ်စေရပေ။ ဖိုခနောက်ဆိုင် စွေစောင်းစောင်း စိုက်ရသည်။ စိုက်ပျိုးပြီးသည်မှ ဆယ်လကြာသည့်အခါတွင် အပင်များ ကြီးရင့်လာပြီးဖြစ်သဖြင့်၊ ဥများကို တူးဖော်နိုင်လေသည်။ စိုက်ခင်း၏ အခြေအနေကိုကြည့်၍၊ ပေါင်းသင်ပေါင်းထိုးခြင်း၊ မြေတောင်မြှောက်ခြင်းများကိုလည်း ပြုလုပ်ပေးရသည်။ ဥအထွက်မှာ တဧကလျှင် ပိသာချိန် ၄၀၀၀ ခန့်ဖြစ်၏။

**ပီလောပင်။** ။ဂုံလျှော်ပင် — ရှု။

**ပီး,ဆာရောဗတ်** (ခရစ် ၁၇ဂဂ–၁ဂ၅၀)။ ။ဗြိတိသျှနိုင်ငံသမိုင်းတွင် နိုင်ငံပြုသုခမိန်အဖြစ်ထင်ရှားသူ ရောဗတ်ပီးသည် လန်ကရှိုင်ယာနယ်တွင် ၁၇ဂဂ ခုနှစ် ဖေဖွာဝါရီလ ၅ ရက်နေ့၌မွေးဖွားသည်။ ဖခင်သည် ကြွယ်ဝချမ်းသာသော ခြည်ထည်ထုတ်လုပ်သူ တဦးဖြစ်၍၊ ပီးသည် အထက်တန်းပညာရပ်များကို သင်ကြားနိုင်ခဲ့သည်။ ပဌမဦးစွာတွင် ပီးသည် ဟယ်ရို ကျောင်းတွင် ပညာ သင်ကြားပြီးနောက်၊ အောက်စဖို့ တက္ကသိုလ်၌ ဆက်လက် ပညာသင်ရာ၊ ပဌမတန်း ဂုဏ်ထူးဖြင့် တက္ကသိုလ် ဘွဲ့ကို ဆွတ်ခူး ခဲ့သည်။ ပညာဖက်တွင် ထူးချွန်ခဲ့သော ပီးသည် ငယ်ငယ်ရွယ်ရွယ်နှင့်ပင် နိုင်ငံရေးနယ်သို့ ဝင်လေသည်။ ၁ဂ၀၉ ခုနှစ်၊ အသက် ၂၁ နှစ် အရွယ်တွင် တိုရီပါတီဝင် ပါလီမန် အမတ်အဖြစ်ဖြင့် အရွေးခံရသည်။ ပီးသည် စကားပြောကောင်းသူဖြစ်သည့်အလျောက် ထင်ပေါ်ခဲ့လေသည်။ ၁ဂ၁၀ ပြည့်နှစ်တွင် ပီးသည် စစ်ဖက်ဆိုင်ရာ လက်ထောက် အတွင်းဝန် ဖြစ်လာသည်။

နိုင်ငံရေး နယ်ထဲသို့ ပီး ဝင်ရောက်လာသည့် အချိန်သည် ပြင်သစ်နိုင်ငံမှ တော်လှန်ရေးစိတ်ဓာတ်များ အင်္ဂလန်ပြည်သို့ ကူးစက်လာမည်ကို စိုးရိမ်နေကြသော အချိန်ဖြစ်သည်။ နပိုလီယန် စစ်ကြီး ဖြစ်ပွားနေသောအချိန်လည်း ဖြစ်သည်။ (နပိုလီယန်ဘုရင်များ — လည်းရှု။) ထိုအခါ လူထုသည်



ဗြိတိသျှနိုင်ငံသမိုင်းတွင် ထင်ရှားသော နိုင်ငံပြုသူခမိန် ဆာရောဗတ်ပီး

နိုင်ငံရေးအားဖြင့် နိုးကြားလျက် ရှိသည်။ ပြုပြင်ပြောင်းလဲရေးတို့တွင်လည်း စိတ်ပါဝင်စားလျက် ရှိသည်။ ထို့ကြောင့် ၁၈၁၂ ခုနှစ်တွင် အိုင်ယာလန်ပြည်၌ မကျေနပ်မှုများ၊ သူပုန်ထရန် ကြံစည်မှုများ ပေါ်ပေါက်လာခဲ့သည်။ ဤအတွင်း ပီးသည် အိုင်ယာလန်ပြည်ဆိုင်ရာ အတွင်းဝန်အဖြစ် ၆ နှစ်မျှ ဆောင်ရွက်ရသည်။ ထိုနောက် ပြည်ထဲရေးဝန်ကြီးအဖြစ် ဆောင်ရွက်လေသည်။

ထိုအခါ ပီးသည် ပြည်တွင်းရေး အခြေအနေ မငြိမ်မသက် ရှိနေစဉ်၊ လူထု၏ အသက် စည်းစိမ်ကို ကာကွယ်ရန်၊ ပုလိပ်အဖွဲ့ဟုခေါ်သော ရဲအဖွဲ့များကို ပဌမဘွင် အိုင်ယာလန်ပြည်၌၎င်း၊ နောက်တွင် အင်္ဂလန်ပြည်၌၎င်း စတင်တည်ထောင်ပေးခဲ့၏။ ထို့ကြောင့် ထိုစဉ်က ပုလိပ်အဖွဲ့ဝင်များကို အိုင်ယာလန်ပြည်၌ ပီးလား ဟူ၍၎င်း၊ အင်္ဂလန် နိုင်ငံတွင် ဗော်ဗီဟူ၍၎င်း ရောဗတ်ပီးကို အစွဲပြု၍ ခေါ်ဝေါ်ကြလေသည်။

ပီးသည် ၁၈၂၈ ခုနှစ်တွင် ဝယ်လင်တန်၏ အစိုးရ အဖွဲ့တွင် ပါဝင်၍၊ ကက်သလစ် ဗရင်ဂျီ ဂိုဏ်းဝင်တို့၏ လွတ်မြောက်ရေး အက်ဥပဒေကို အတည်ဖြစ်အောင် ကြိုးပမ်းခဲ့သည်။ ထိုဥပဒေမှာ ယခင်က သူဆောင်ရွက်ခဲ့သော လမ်းစဉ်နှင့် ဆန့်ကျင်ဖက်ဖြစ်လေရာ၊ ထိုသို့ဆောင်ရွက်ခြင်းဖြင့်၊ တိုရီ ပါတီ နှစ်ခြမ်း ကွဲလုမတတ် ဖြစ်သွားခဲ့၏။ သို့ရာတွင် ဤဥပဒေ ဖြစ်မြောက်မှသာလျှင်၊ အိုင်ယာလန်၌ ငြိမ်းချမ်းရေး တည်မြဲမည်ဟု ယုံကြည်သော ပီးသည် ဇွဲသတ္တိနှင့် အရှည် မြော်မြင်မှုတို့ကြောင့်၊ အောင်မြင်အောင် ဆောင်ရွက်နိုင်ခဲ့လေသည်။ သို့သော် ဗရင်ဂျီ လွတ်မြောက်ရေး အက်ဥပဒေ ပြဋ္ဌာန်းပြီးနောက်၊ ပီးသည် ရာထူးမှ နုတ်ထွက်ရသည်။ ထိုအချိန်တွင် တိုရီပါတီသည် ကွန်ဆားဗတစ် ပါတီဟု အမည်ပြောင်းလဲလာလေသည်။ (ကွန်ဆားဗတစ်ပါတီ — ရှု။) ပီးသည် အတိုက်အခံဖက်မှနေ၍၊ ၁၈၃၂ ခုနှစ် ပါလီမန် ပြုပြင်ရေး ဥပဒေကြမ်းကို အပြင်းအထန် ကန့်ကွက်လေသည်။ ၁၈၃၄–၃၅ ခုနှစ်တွင်ကား ပါတီခေါင်းဆောင်အနေဖြင့် အစိုးရအဖွဲ့ ဖွဲ့စည်းကာ၊ နန်းရင်းဝန် ဖြစ်လာသည်။ သို့ရာတွင် ပါလီမန်၌ 'ဝှစ်' ဦးရေ များပြားလေရာ၊ မကြာခင် ရာထူးမှ နုတ်ထွက်ရပြန်သည်။

၁၈၄၁ ခုနှစ်တွင် ပီးသည် ဒုတိယအကြိမ် နန်းရင်းဝန် ဖြစ်ခဲ့ပြန်သည်။ ဤအကြိမ်တွင် ပီးသည် ပြုပြင်ရေး များစွာတို့ကို အကောင်အထည် ဖော်စေသည်။ ထိုအချိန်သည် တိုင်းပြည်၏ ဘဏ္ဍာရေး အခြေအနေ အလွန်ဆိုးရွားသော အချိန်ဖြစ်လေရာ၊ ကုန်များပေါ်တွင်စည်းကြပ်သော အခွန်တော်များကို လျှော့ချ၍၊ အမြတ်တော်ဖက် စသည့် အခြားဌာနများမှ အကောက်ကို တိုးယူခြင်းဖြင့် ဘဏ္ဍာရေး အခြေအနေကို ထိန်းသိမ်းနေရသည်။ ထိုသို့ ထိန်းသိမ်းသဖြင့် အမျိုးသား ပညာရေးတွင် ငွေများကို သုံးဆတိုး၍ သုံးစွဲနိုင်ခဲ့သည်။ စက်ရုံများ၌ မိန်းမများ၊ ကလေးများကို အလုပ်လုပ်ခိုင်းခြင်းကိုလည်း ဥပဒေဖြင့် ကန့်သတ်ပေးနိုင်ခဲ့သည်။ အမေရိကန် ပြည်ထောင်စု၊ ပြင်သစ် နိုင်ငံများနှင့် နိုင်ငံရေး ဆက်ဆံမှုမှာလည်း ကောင်းမွန်လာသည်။ ပီး၏ဆောင်ရွက်ချက်များတွင် အထင်ရှားဆုံးကား ကောက်သီးနှံ ဥပဒေများကို ဖျက်သိမ်းခြင်း ဖြစ်လေသည်။ ထိုဥပဒေများကား ကောက် သီးနှံ တင်သွင်းသည်ကို အခွန် ကောက်သော ဥပဒေဖြစ်၏။

ကွန်ဆားဗတစ် ပါတီဝင်များသည် မြေပိုင်ရှင်ကြီးများ ဖြစ်ရာ၊ မိမိတို့၏ အကျိုးအတွက် နိုင်ငံခြားမှ တင်သွင်းသော ကောက်သီးနှံ ဝင်ကုန်များ အပေါ်တွင် အခွန်ကောက်ရန် သဘောတူခဲ့၏။ သို့ရာတွင် ၁၈၄၅ ခုနှစ်၌ အိုင်ယာလန်ပြည်တွင် ငတ်မွတ်ခေါင်းပါးခြင်းဘေး ဆိုက်ရောက်လာသော အခါ၊ လူထု သက်သာရာ ရစေရန်၊ ပီးသည် ပါတီဝါဒမှ သွေဖည်၍၊ ကောက်သီးနှံများ အပေါ်တွင် အခွန်ကောက်သည့် ကောက်သီးနှံ ဥပဒေကို ဝှစ်ပါတီဝင်များ၏ အကူအညီဖြင့် ဖျက်သိမ်းလိုက်လေသည်။ ထို့ကြောင့် ပီးသည် ပါတီဝင်တို့၏ ထောက်ခံချက် မရသည်နှင့် နန်းရင်းဝန်ရာထူးမှ နုတ်ထွက်ပေးရလေသည်။

သို့ရာတွင် ရာထူးနှင့် ပါတီကြီး လက်လွတ်သွားသော်

လည်း၊ လူထုကြီး တရပ်လုံး၏ ချစ်ကြည် အားကိုးမှုကို ခံယူရသော အကျိုးထူး ခံစားရလေသည်။ ထို့ကြောင့် ရာထူးလက်မဲ့ ဖြစ်သွားသော်လည်း၊ ပီးသည် တန်ခိုးမမှိန်ပေ။ ဝှစ်အစိုးရ အဖွဲ့သည် ပီး၏ အကူအညီကိုယူရသည်။ ပီး ကား အလွန် အလုပ်လုပ်နိုင်သော ပုဂ္ဂိုလ်ကြီးဖြစ်၍၊ ရှေ့ရေးကို မြော်မြင်တတ်သူလည်း ဖြစ်သည်။ ယင်းသို့ ကိုယ်ကျိုးမငဲ့ဘဲ ဆင်းရဲသား လူမျိုးစု၏ အရေးကို ဆောင်ရွက် ပေးခဲ့၍၊ အင်္ဂလန်ပြည်တွင် အုပ်ချုပ်ရေး၌ အတော်ဆုံးသော ပုဂ္ဂိုလ်ကြီးတဦးဟု ဥဒါန်းတွင်လေသည်။ ဤသို့ ထင်ရှားခဲ့သော ဆာ ရောဗတ် ပီးသည် ၁၈၅၀ ပြည့်နှစ်တွင် မြင်းပေါ်မှ လိမ့်ကျသော ဒဏ်ရာဖြင့် ကွယ်လွန်လေသည်။ ထုံးစံအားဖြင့် ဝက်စမင်စတာ အက်ဗေး ဘုရားရှိခိုးကျောင်းတွင် မြှုပ်နှံရမည် ဖြစ်သော်လည်း၊ သူ၏ သေတမ်းစာအရ စတက်ဖတ်ရှိုင်ယာနယ် ဒရေးတန် ဘုရားရှိခိုးကျောင်းတွင် သူ့အား သင်္ဂြိုဟ်ရသည်။

**ပီးပစ့်ဆယ်မျူယယ်** (ခရစ် ၁၆၃၃—၁၇၀၃)။ ။ဆယ်မျူယယ်ပီးပစသည် ခရစ် ၁၆၆၀ ပြည့်နှစ်၊ ဇန္နဝါရီလ ၁ ရက်နေ့မှအစပြု၍၊ ၁၆၆၉ ခုနှစ် မေလ ၃၁ ရက်နေ့အထိ၊ ၉ နှစ်နှင့် ၄ လတိုင်တိုင် မိမိကြုံတွေ့ရသော နေ့စဉ် အဖြစ်အပျက်



နေ့စဉ်မှတ်တမ်းများ ရေးသားခဲ့ခြင်းဖြင့် ကမ္ဘာကျော်ခဲ့သူ အင်္ဂလိပ်လူမျိုး ဆယ်မျူယယ် ပီးပစ

တို့ကို နေ့စဉ်မှတ်တမ်း၌ အဆက်မပြတ် ရေးသား မှတ်တမ်းတင်ခဲ့သဖြင့်၊ ကမ္ဘာပေါ်တွင် နာမည် ကျော်ကြားခဲ့သော ပုဂ္ဂိုလ်ဖြစ်သည်။ ၁၆၃၃ ခုနှစ် ဖေဖွာရီလ ၂၃ ရက်နေ့တွင် လန်ဒန်မြို့၌ ပီးပစကို ဖွားမြင်သည်။ သူ၏ဖခင်မှာ အပ်ချုပ်သမားတဦးဖြစ်သည်။ ငယ်စဉ်က လန်ဒန်မြို့နှင့် ကိမ်းဗရစ်မြို့တွင် ပညာသင်ကြားခဲ့ပြီးလျှင်၊ အရွယ်ရောက်သောအခါ၊ ရေတပ်မတော်ရုံးတွင် စာရေး အဖြစ်ဖြင့် အမှုထမ်းခဲ့ရာမှ ရာထူးဌာနန္တရ အဆင့်ဆင့် တိုးတက် လာခဲ့လေသည်။ ထိုသို့ အမှုထမ်းဆဲတွင် နေ့စဉ် ကြုံတွေ့ရသော အဖြစ်အပျက်တို့ကို မှတ်တမ်းတင်ခဲ့ရာ၊ ထိုမှတ်တမ်းထဲတွင် သမိုင်းနှင့် စပ်လျဉ်း၍ အရေးကြီးသော အချက်အလက်များ ပါဝင်လေသည်။ သာဓကအားဖြင့် လန်ဒန်မြို့တွင် ပလိပ်ရောဂါ ဆိုက်ရောက်သော အဖြစ် အပျက်နှင့် မီးအကြီး အကျယ်လောင်သော အဖြစ် အပျက်တို့ကို ပီးပစသည် နေ့စဉ်မှတ်တမ်း၌ မျက်မြင်ကိုယ်တွေ့ ဖော်ပြထားသည်။ ထို့ကြောင့် ပီးပစသည် အလုပ်ကျွမ်းကျင်၍ ဝတ်တရားကျေပြွန်သော အမှုထမ်း အရာထမ်းတဦးအဖြစ်ဖြင့် ကျော်စောထင်ရှားသည်ထက် မျက်မှောက်သမိုင်းကို မှတ်တမ်းတင်ခဲ့သူအဖြစ်ဖြင့် ပိုမို၍ ကျော်စောထင်ရှားလေသည်။ ပီးပစသည် နောင်သောအခါ ပါလီမန်အမတ်ဖြစ်လာ၍ ၁၆၈၄ ခုနှစ်တွင် ရေကြောင်းဌာန အတွင်းဝန် ရာထူး၌ တည်မြဲလာပြီးနောက် တော်ဝင် အသင်း၏ ဥက္ကဋ္ဌ ဖြစ်လာသည်။ ၁၇၀၃ ခုနှစ် မေလ ၂၆ ရက်နေ့တွင် ကွယ်လွန် အနိစ္စရောက်သည်။ ပီးပစသည် မကွယ်လွန်မီက မိမိပိုင် စာကြည့်တိုက်နှင့် နေ့စဉ်မှတ်တမ်းတို့ကို ကိမ်းဗရစ်တက္ကသိုလ်၊ မောဒလင် ကောလိပ်သို့ လှူဒါန်းကြောင်း သေတမ်းစာ ရေးသားထားခဲ့သဖြင့်၊ အဖိုးတန် မှတ်တမ်းကို နောင်လာနောင်သားတို့ ကောင်းစွာ ဖတ်ရှုလေ့လာခွင့် ရကြလေသည်။

**ပီးဗော့ဒီ့ဂျော့** (ခရစ်၁၇၉၅—၁၈၆၉)။ ။ဂျော့ပီးဗော့ဒီသည် အလှူဒါနတွင် ရက်ရောသော အမေရိကန် သဌေးတဦးဖြစ်သည်။ ထိုပုဂ္ဂိုလ်သည် အမေရိကန်ပြည်ထောင်စု မက်ဆာချူးဆက်ပြည်နယ် ဆောက်ဒန်ဗာမြို့တွင် ဖွားမြင်၍၊ ငယ်ရွယ်စဉ် အသက် ၁၁ နှစ် အရွယ်ကပင်၊ ကုန်သေးဆိုင်တခုတွင်အလုပ်လုပ်၍ အသက်မွေးခဲ့ရသည်။ ကြီးပြင်းလာသောအခါ ရစ်နှင့်ပီးဗော့ဒီ အစုစပ် ကုန်စုံဆိုင်ကြီးကို တည်ထောင်၍၊ များစွာချမ်းသာကြွယ်ဝလာလေသည်။ ၁၈၃၇ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ ပြောင်းရွှေ့ နေထိုင်ပြီးလျှင်၊ ဘဏ်လုပ်ငန်းကို လုပ်ကိုင်သည်။ သူ၏ဇာတိ အမေရိကန် ပြည်ထောင်စုနှင့် သူနေထိုင်ရာ အင်္ဂလန်ပြည်တို့တွင် ပညာရေးနှင့် လူနေမှုဆိုင်ရာ ကိစ္စတို့အတွက် အလှူကြီးများပြုလုပ်ခဲ့ရာ၊ ပေါင် ၂,၀၀၀,၀၀၀ ကျော်မျှ ရှိလေသည်။ ပုံစံ



အလှူဒါနတွင် ရက်ရောသော အမေရိကန် သဌေး ဂျော့ပီးဗော့ဒီ

အားဖြင့် လန်ဒန်မြို့တွင် အလုပ်သမားများအတွက် နေအိမ်များဆောက်လုပ်ရန် ပေါင် ၅၀၀,၀၀၀ ကိုလှူဒါန်းခဲ့သည်။ အမေရိကန် ပြည်တွင်းစစ် အပြီးတွင် စစ်ကြောင့် အတိဒုက္ခရောက်သော တောင်ပိုင်းဒေသ မြို့များကို ပြန်လည် ထူထောင်ရန်အတွက် ပေါင် ၇၀၀,၀၀၀ လှူဒါန်းခဲ့သည်။ ပီးဗော့ဒီ၏ အမည်သည် ထင်ရှားကျော်ကြားလာသောအခါ၊ သူမွေးဖွားရာ ဒန်ဗာမြို့ကိုပင် ပီးဗော့ဒီမြို့ဟု အမည်ပြောင်း၍ မှည့်ခေါ်ကြသည်။ ပီးဗော့ဒီသည် ပီးဗော့ဒီမြို့၊ ဗော့လတီမိုးမြို့၊ ယေးမြို့နှင့် ဟားဗဒ်မြို့တို့၌ ပညာမြင့်တင်ရေးအဖွဲ့များနှင့် ပြတိုက်များကို တည်ထောင်ပေးခဲ့သည်။

ပီးဗော့ဒီသည် ခရစ် ၁၈၆၉ ခုနှစ် နိုဝင်ဘာလ ၄ ရက်နေ့တွင် လန်ဒန်မြို့၌ ကွယ်လွန်ရာ၊ သူ၏ရုပ်ကလာပ်ကို ဝက်စမင်စတာအက်ဗေး၌ ခေတ္တထား၍၊ ဗြိတိသျှ စစ်သင်္ဘောတစင်းဖြင့် အမေရိကန် ပြည်ထောင်စုသို့ ပို့ဆောင်ပေးကြသည်။ ထိုနောက် သူ၏ဇာတိဖြစ်သော ပီးဗော့ဒီမြို့တွင် သူ၏ရုပ်ကလာပ်ကို မြေမြှုပ်သင်္ဂြိုဟ်ကြလေသည်။

**ပီးရနီးတောင်။** ။ပီးရနီးတောင်သည် စပိန်နှင့် ပြင်သစ်နိုင်ငံအကြားတွင်ရှိ၏။ ဗစ္စကေး ပင်လယ်ကွေ့ ကမ်းခြေမှ မြေထဲပင်လယ်ကမ်းခြေသို့တိုင်အောင်တန်းလျက်တည်ရှိ၏။ ပျမ်းမျှခြင်းအားဖြင့်ပေ ၅,၀၀၀ မှ ၆,၀၀၀ အထိ မြင့်သည်။ အမြင့်ဆုံးသော တောင်ထွတ်မှာမူ ပီကိုသေ အားနေတို



ပြင်သစ်နိုင်ငံဖက်ရှိ ပီးရနီးတောင်တန်း၏ ရှုခင်းတရပ်

တောင်ထွတ်ဖြစ်၍၊ ၁၁,၁၆၈ ပေ မြင့်လေသည်။ ပီးရနီးတောင်တန်းသည် အပြတ်အလပ်ဟူ၍မရှိဘဲ၊ ပင်လယ်ကမ်းခြေတဖက်မှ တဖက်သို့ တောက်လျှောက်တည်ရှိသည်။ အရှေ့ဖက် တောင်တန်း အလယ်ဗဟိုတွင် စတုရန်းမိုင် ၁၉၁ မိုင်ကျယ်ဝန်းသော အင်ဒိုရာခေါ် နိုင်ငံငယ်တခုရှိ၏။ ထိုနိုင်ငံကို အမတ် ၂၄ ယောက် ပါဝင်သော ကောင်စီလွှတ်တော်က အုပ်ချုပ်သည်။

**ပီးရူးနိုင်ငံ။** ။ပီးရူးနိုင်ငံသည် တောင်အမေရိကတိုက်အနောက်ပိုင်း၊ ပစိဖိတ် သမုဒ္ဒရာကမ်းခြေတွင်၊ အီကွေတာမျဉ်းကြောင်း၏ တောင်ဖက်၌ ကပ်လျက် တည်ရှိသည်။ အကျယ် အဝန်းမှာ ၄၇၂,၂၅၇ စတုရန်းမိုင် ဖြစ်၏။ နယ်နိမိတ်မှာ မြောက်ဖက်၌ အက်ကွာဒေါနိုင်ငံ၊ အရှေ့မြောက်ဖက်နှင့် အရှေ့ဖက်၌ ကိုလံဘီးယားနှင့် ဗရာဇီးနိုင်ငံ၊ အရှေ့တောင်ဖက်၌ ဗိုလစ်ဗီးယားနိုင်ငံ၊ တောင်ဖက်၌ ချီလီနိုင်ငံတို့ ဖြစ်လေသည်။ ပီးရူးနိုင်ငံ၏ ပင်လယ်ကမ်းရိုးတန်းသည် ၁၄၁၀ မိုင် ရှည်လျား၏။ ပင်လယ်မှ အရှေ့ဖက်တောင်တန်းအထိ အကျယ်ဆုံးမှာ မိုင် ၇၀၀ ဖြစ်လေသည်။

အန်းဒီးတောင်တန်း၏ အမြင့်ဆုံး အပိုင်းသည် ပီးရူးနိုင်ငံထဲ၌ တည်ရှိ၏။ ဤတောင်တန်းသည် ပီးရူးကို တောင်နှင့်မြောက် အလျားလိုက် သုံးပိုင်း ပိုင်းခြားထားလေသည်။ ယင်းတို့မှာ (က) အနည်းဆုံးမိုင် ၅၀၊ အများဆုံး မိုင် ၁၀၀ ကျယ်၍၊ မိုင် ၁၄၀၀ မျှ ရှည်လျားသော ပစိဖိတ်ကမ်းမြောင်ဒေသ၊ (ခ) ကုန်းပြင်မြင့်နှင့် နက်ရှိုင်းကျဉ်းမြောင်းသော တောင်ကြားများပါရှိသည့် အန်းဒီးတောင်ကုန်းဒေသနှင့် (ဂ)အရှေ့ဖက်မြေနိမ့် တောနက်ဒေသတို့ ဖြစ်ကြသည်။

ပစိဖိတ်ကမ်းမြောင်ဒေသသည် မိုးခေါင်၏။ မြစ်ဝှမ်းများတည်ရှိသည့် နေရာမှတပါး ကျန်နေရာ အားလုံးတို့သည် ခြောက်သွေ့သော သဲကန္တာရများသာ ဖြစ်သည်။ သို့ရာတွင် ပင်လယ်လေကြောင်းကျသော နေရာဖြစ်သည့်ပြင်၊ ပင်လယ်ရေအေး စီးကြောင်းသည် ကမ်းရိုးတန်းအနီးတွင် စီးဆင်းလျက်ရှိသောကြောင့်၊ ရာသီဥတုမှာကား ပူအိုက်သင့်သလောက်မပူအိုက်ချေ။ထိုအရပ်တွင်စိုက်ပျိုးသောဆီးနှင်းများပင်လျှင် ကျတတ်သည်။ တောင်ကုန်းဒေသ ဖြစ်သော အန်းဒီးတောင်တန်း၏ အနောက်ဖက် ဆင်ခြေလျှောတွင်ကား မိုးကောင်း၏။ အမေဇုန် မြစ်ဝှမ်းထဲသို့ ဆင်းသွားသော အရှေ့ဖက် ဆင်ခြေလျှောတွင်လည်း မိုးကောင်းစွာ ရွာသွန်းသဖြင့်၊ တောတောင် ထူထပ်ပြီးလျှင်၊ မြေဩဇာ ကောင်းမွန်သော လွင်ပြင်များလည်း ရှိလေသည်။ ဤဒေသတွင် လူ အနေပါး၏။ ကြက်ခေါင်းစေးပင်များ ပေါက်ရောက်သည်။ ဤနယ်၏ မြို့တော်ဖြစ်သော အီကီးတိုးမြို့သည် အမေဇုန်မြစ်အထက်ပိုင်း မိုင် ၂,၀၀၀ ခန့်တွင် တည်ရှိလေသည်။




ပီးရူးနိုင်ငံ တည်နေရာပြမြေပုံ

လီမာမြို့သည် ပီးရူးနိုင်ငံ၏ မြို့တော်ဖြစ်၏။ ထိုမြို့ကို 'ရှင်ဘုရင်များ၏မြို့တော်' ဟူ၍ ခေါ်စမှတ် ပြုကြ၏။ ဤမြို့သည် ပီးရူးနိုင်ငံတွင် အရေးအကြီးဆုံးသော ကုန်ရောင်းဝယ်ရာဗဟိုဌာနဖြစ်လေသည်။

ပီးရူးနိုင်ငံ မြောက်ပိုင်းမှ တောင်ပိုင်းသို့ ခရီးသွားသော်၊ ရာသီဥတုပြောင်းလဲမှုကို မတွေ့ရချေ။အနောက်ပိုင်း မြေနိမ့်ဒေသမှ အရှေ့ပိုင်း တောင်ကုန်းဒေသသို့ သွားသော်ကား၊ ရာသီဥတုပြောင်းလဲမှုကို သိနိုင်ပေသည်။

အန်းဒီးတောင် အရှေ့ဖက်တွင် မိုးအများဆုံးရွာသွန်း၍၊ ထိုမှအနောက်ဖက်သို့ တဖြည်းဖြည်း မိုးပါးသွားသည်။ နှစ်စဉ်ပျမ်းမျှ မိုးရေချိန်မှာ လက်မ ၁၀၀ ဖြစ်၍၊ နှစ်စဉ် ပျမ်းမျှ အပူချိန်မှာ ဖာရင်ဟိုက် ဒီဂရီ ၇၀ ဖြစ်လေသည်။

ပီးရူးနိုင်ငံလူဦးရေသည် ၁၉၅၄ ခုနှစ် ခန့်မှန်းချက် အရ ၉,၂၉၅,၀၀၀ ဖြစ်သည်။ ထိုလူဦးရေ၏ ၇၅ ရာခိုင်နှုန်းသည် လယ်ယာလုပ်ငန်းနှင့် သိုးဆိတ်စသော တိရစ္ဆာန် မွေးမြူခြင်းဖြင့် အသက်မွေးနေထိုင်ကြ၏။ သို့ရာတွင် နိုင်ငံခြားသို့ တင်ပို့ရောင်းချသော ထုတ်ကုန်များထဲတွင် လယ်ယာထွက် ကုန်စည်များမှာ ၄၀ ရာခိုင်နှုန်းသာ ပါဝင်လေသည်။ အရေးအကြီးဆုံးနှင့် အများဆုံးထွက်သော အသီးအနှံမှာ ဝါဂွမ်းဖြစ်၍၊ထုတ်ကုန်အားလုံး၏ ရာခိုင်နှုန်း ၂၀ ဖြစ်လေ



ပီးရူးနိုင်ငံ၏ မြို့တော်ဖြစ်သော လီမာမြို့ရှိ ကသီဒရယ် ဘုရားရှိခိုးကျောင်း

သည်။လူပေါင်း ၁၀၀,၀၀၀ ခန့်သည် စက်မှု လက်မှု လုပ်ငန်းများတွင် လုပ်ကိုင်ကြသည်။ ကြံစိုက်ပျိုးခြင်းနှင့် သကြားလုပ်ငန်းသည် ဝါဂွမ်းနောက် ဒုတိယလိုက်သော လုပ်ငန်းဖြစ်၏။ အခြားအသီးအနှံများမှာ ဂျုံ၊ ဆန်စပါး၊ အာလူး၊ ပဲအမျိုးမျိုး၊ဗာလီနှင့် ပြောင်းဆန်တို့ ဖြစ်ကြလေသည်။ ပြောင်းဆန်သည်ပီးရူးလူမျိုးတို့၏ပဓာနအစာ ဖြစ်လေသည်။ ပီးရူးတနိုင်ငံလုံးတွင် လယ်ယာစိုက်ပျိုးနိုင်သော မြေဧက ပေါင်း ၂၉,၄၆၀,၀၀၀ ရှိသည့်အနက်၊ မြေဧကပေါင်း ၃,၆၁၇,၀၀၀ သာလျှင် အမှန်စိုက်ပျိုးလုပ်ကိုင်ကြ၏။

ပီးရူးနိုင်ငံသည် သဘာဝတွင်းထွက်သတ္တုများဖြင့် ကြွယ်ဝလှသော နိုင်ငံတခု ဖြစ်၏။ အချို့သော သတ္တုတွင်းများမှာ အင်းကားလူမျိုးများ ကြီးပွားထွန်းကားစဉ် ခေတ်ကတည်းကပင် တည်ရှိခဲ့လေသည်။ (အင်းကားလူမျိုး — ရှု။) ဤနိုင်ငံသည် ဗနေဒီယမ်ခေါ် သတ္တုတမျိုး အများအပြားထွက်သော နိုင်ငံတခုဖြစ်၏။ ရေနံသည်လည်း အရေးကြီးသော ထွက်ကုန်တခုဖြစ်၏။ ရေနံနှင့်ရေနံထွက် ပစ္စည်းများ၏တန်ဖိုးမှာ ပီးရူးနိုင်ငံမှထွက်သမျှသော ဓာတ်သတ္တုအားလုံးတန်ဖိုး၏ ထက်ဝက်နီးနီး ရှိလေသည်။

နိုင်ငံခြားသို့ တင်ပို့ရောင်းချသော အဓိက ကုန်ပစ္စည်းများမှာ ရေနံ၊ ရေနံစိမ်းနှင့် ရေနံထွက်ပစ္စည်းများ၊ သကြား၊ ကြေးနီ၊ ဝါဂွမ်းတို့ဖြစ်၏။ သွင်းကုန်များမှာ စက်ကရိယာများ၊ ယာဉ်များ၊ စားကုန်သောက်ကုန်၊ အထည်အလိပ်၊ သတ္တုကုန်များ၊ ဓာတုဗေဒနှင့် ဘယဆေးများ၊ ဆိုးဆေးစသည်တို့ ဖြစ်လေသည်။

တောင်အမေရိကတိုက်တွင် ပဌမဦးစွာ ဆောက်လုပ်ပြီးစီးသောမီးရထားလမ်းမှာ လီမာမှ ကာယားအိုသို့သွားသော မီးရထားဖြစ်၍၊ ၁၈၅၁ ခုနှစ်တွင် ဆောက်လုပ်ခဲ့သည်။ ၁၉၃၇ ခုနှစ်တွင် ပီးရူးနိုင်ငံအတွင်း၌ မီးရထားလမ်း မိုင်ပေါင်း ၂၆၁၂ မိုင်ရှိ၏။ အရေးအကြီးဆုံး မီးရထားလမ်းနှစ်ခုရှိရာ၊ တခုမှာ ရှေ့၌ဆိုခဲ့သော လီမာမြို့နှင့် ကာယားအိုမြို့ကို ဆက်သွယ်ထားသော ပီးရူးနိုင်ငံ ဗဟို မီးရထားလမ်းဖြစ်၍၊ ကျန်တခုမှာ တောင်ပိုင်း မီးရထားလမ်းဖြစ်သည်။ မော်တော်ကား လမ်းမကြီးများကို ကမ်းမြောင်ဒေသတွင် အများဆုံး ဖောက်လုပ်ထား၏။ အရေးအကြီးဆုံး လမ်းမကြီးမှာ ၁၉၃၅ ခုနှစ်တွင် ဖောက်လုပ်၍ လီမာမြို့နှင့် အိုရီးယားတို့ကို ဆက်သွယ်ထားသော လမ်းမကြီး ဖြစ်လေသည်။

ပီးရူးနိုင်ငံသည် အမေရိက၊ ဥရောပ၊ အာရှစသော တိုက်ကြီးများနှင့် ပင်လယ်ရေကြောင်းဖြင့် အဆက်အသွယ်ရှိ၏။

ပီးရူးနိုင်ငံ၏ ပဌမဦးဆုံး လေကြောင်းခရီးကို ၁၉၂၈ ခုနှစ်တွင် စတင်ဖွင့်လှစ်ခဲ့၏။ ထိုအချိန်မှစ၍ လေကြောင်း ဆက်သွယ်ရေး လုပ်ငန်းသည် များစွာ တိုးတက်လာခဲ့လေသည်။

တောင်အမေရိကတိုက်ရှိ နိုင်ငံများထဲတွင် ပီးရူးနိုင်ငံသည် ယဉ်ကျေးမှုအားဖြင့် ရှေးအကျဆုံးသော နိုင်ငံဖြစ်သည်။ ရှေးဦးစွာ အင်းကားလူမျိုးတို့သည် ဤနိုင်ငံမှနေ၍ တောင်အမေရိကတိုက် တတိုက်လုံးကို အုပ်စိုးခဲ့ကြ၏။ ထိုနောက်စပိန်တို့သည် ဤနိုင်ငံမှစ၍ ကမ္ဘာသစ်တွင် သူတို့၏ အာဏာစက်ကို ပျံ့နှံ့စေခဲ့လေသည်။ ၁၉၃၃ ခုနှစ် ဧပြီလ ၉ ရက်နေ့တွင် ပြဋ္ဌာန်းအတည်ပြုလိုက်သော ပီးရူးနိုင်ငံ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ၊အစိုးရအဖွဲ့တွင် သမတ တဦးနှင့် ဒုတိယသမတ ၂ ဦးပါဝင်၏။ ထိုပုဂ္ဂိုလ်များကို ၆ နှစ်တကြိမ် ပြည်သူတို့က တိုက်ရိုက် ရွေးကောက် တင်မြှောက်ရသည်။ တကြိမ် ရွေးကောက်ခြင်း ခံရသော သမတသည် နောက်ထပ် အရွေးခံနိုင်ခွင့် မရှိတော့ချေ။

ဥပဒေပြု လွှတ်တော်တွင် အထက်လွှတ်တော်နှင့် အောက်လွှတ်တော်ဟူ၍ လွှတ်တော်နှစ်ရပ်ရှိ၏။ ပြည်သူ့ကိုယ်စားလှယ် အမတ်များ၏ သက်တမ်းသည် ၆ နှစ်ဖြစ်သည်။ အထက်လွှတ်တော် အမတ်နေရာအတွက်ဖြစ်လျှင် အသက် ၃၅ နှစ်ပြည့်၍၊ အောက်လွှတ်တော် အမတ်အတွက် ဖြစ်လျှင် အသက် ၂၅ နှစ်ပြည့်ပြီး၍ မဲပေးနိုင်ခွင့်ရှိသော ပီးရူးနိုင်ငံဇာတိသားများသာ အသီးအသီးအရွေးခံနိုင်ခွင့်ရှိသည်။စာရေးနိုင် ဖတ်နိုင်၍ အသက် ၂၁ နှစ်ပြည့်သော ယောကျ်ားတိုင်း မဲပေးနိုင်ခွင့်ရှိသည်။စာရေးနိုင် ဖတ်နိုင်သော အသက် ၂၁ မှ ၆၀ အကြားရှိ ယောကျ်ားများမှာ မဲမပေးဘဲ မနေရချေ။ ယခင်က မြူနီစီပယ် ရွေးကောက်ပွဲများတွင်သာ အမျိုးသမီးများသည် မဲပေးခွင့်ရှိခဲ့၏။ သို့တိုင်အောင် အိမ်ထောင်သည်များသာလျှင် မဲပေးနိုင်ခဲ့ကြသည်။ သို့သော် ၁၉၅၅ ခုနှစ်မှစ၍ အမျိုးသမီးများသည် အမျိုးသားများကဲ့သို့ပင် မဲပေးနိုင်လာကြပြီ ဖြစ်လေသည်။

အသက် ၇ နှစ်မှ ၁၄ နှစ်အတွင်း ကလေးသူငယ်များအတွက် မသင်မနေရ အခမဲ့ပညာရေးစံနစ်ကို ပြုလုပ်ထား၏။ ပီးရူးနိုင်ငံတွင် အကြီးဆုံးနှင့် ရှေးအကျဆုံး တက္ကသိုလ်ကျောင်းတခုကို ၁၅၅၁ ခုနှစ်တွင် တည်ထောင်ခဲ့သည်။ ယင်းတက္ကသိုလ်ကား ဆန်မားကပ် တက္ကသိုလ် ဖြစ်သည်။ ထိုတက္ကသိုလ်အပြင် အခြားတက္ကသိုလ်ကျောင်း ၄ ကျောင်းလည်း ရှိသေး၏။

ပီးရူးနိုင်ငံတွင် အစိုးရက အသိအမှတ်ပြုထားသော ကိုးကွယ်သည့် အယူဝါဒဂိုဏ်းမှာ ဗရင်ဂျီဂိုဏ်းဖြစ်၏။ သို့ရာတွင် မည်သူမဆို မိမိကိုးကွယ်လိုသည့် အယူဝါဒကို ကိုးကွယ်နိုင်ပေသည်။

လူဦးရေအားလုံး၏ ၆၀ ရာခိုင်နှုန်းမှာ တိုင်းရင်းသား



ပီးရူးအမျိုးသား ဝတ်စုံ ဆင်ယင်ထားသော လုံမပျိုဖြူ

အင်ဒီးယန်းလူမျိုးများဖြစ်၏။ ၁၀ ရာခိုင်နှုန်းမှာ ဥရောပတိုက်သား စပိန်လူမျိုးတို့၏ အဆက်အနွယ်များ ဖြစ်လေသည်။ ကျန်လူမျိုးသည်ကား မက်စတီဇိုလူမျိုး ဖြစ်ကြ၏။

**ပီးလဂရင်းဖားသား။** ။ပီးလဂရင်း ဖားသားဟူသည်မှာ မိမိတို့ ကြိုက်နှစ်သက်ရာ အယူဝါဒကို လွတ်လပ်စွာ ကိုးကွယ်နိုင်ရန်အလို့ငှါ ဒေသသစ်ကို ရှာဖွေ၍၊ နယ်တည်ထောင်ကြသော ပုဂ္ဂိုလ်တစုကို ဆိုလိုသည်။ ခရစ် ၁၇ ရာစုနှစ်ဦး၌ အင်္ဂလန်ပြည်တွင် ရေဖျန်းဂိုဏ်းမှ ခွဲထွက်သော ခရစ်ယန် ဂိုဏ်းတခု ပေါ်ပေါက်လာခဲ့သည်။ ထိုဂိုဏ်းသားတို့သည် မိမိတို့ယုံကြည်ကိုးကွယ်သောအယူဝါဒအလျောက်၊ သာသနာ့အဖွဲ့အစည်းကို ဖွဲ့စည်းရန် အားထုတ်ကြသည်။ ထိုအခါ ရေဖျန်းဂိုဏ်းဝင် ဖြစ်သော အင်္ဂလိပ် ဘုရင်၏ အစိုးရသည် ထိုခွဲထွက်သော ဂိုဏ်းသားတို့ကို မင်းအာဏာဖြင့် နှိပ်ကွပ်လေသည်။ ထို့ကြောင့် ခရစ် ၁၆၀၇ ခုနှစ်နှင့် ၁၆၀၈ ခုနှစ်တို့တွင် ဂိုဏ်းခွဲသူတို့သည် ဟော်လန်နိုင်ငံသို့ ထွက်ပြေးကြ၍၊ ထိုနိုင်ငံ၌ ဂိုဏ်းသစ်ကို သာသနာပြုကြသည်။ ထိုဂိုဏ်းသားတို့သည် ယင်းကဲ့သို့ ဟော်လန်နိုင်ငံတွင် ဂိုဏ်းသစ်ထူထောင်ပြီးနောက်၊ ၁၁ နှစ်ခန့် ကြာသောအခါ၊ အင်္ဂလန်



မြောက်အမေရိကတိုက်သို့ နယ်သစ်တည်ရန် ဦးစွာ ပဌမ ရောက်လာသော ပီးလဂရင်းဖားသားများ ဆုမွန်တောင်းနေကြစဉ်

ပြည်သို့ ခေတ္တ ပြန်လာပြီးလျှင်၊ အင်္ဂလန်ပြည်မှ တဆင့် အမေရိကတိုက်သို့ ပြောင်းရွှေ့ကြလေသည်။ ခရစ် ၁၆၂၀ ပြည့်နှစ် ဒီဇင်ဘာလ ၂၁ ရက်နေ့တွင် ထိုသို့ ပြောင်းရွှေ့လာသူတစုသည် မြောက်အမေရိကတိုက်၊ မက်ဆချူးဆက်ပြည်နယ်ရှိ ပလင်းမတ် ကိုလိုနီ ဒေသသို့ 'မေဖလားဝါး' ခေါ် ရွက်သင်္ဘောနှင့် ဆိုက်ရောက်လာကြလေသည်။ ထိုသို့ ဦးစွာ ပဌမ နယ်သစ်တည်ရန် ဆိုက်ရောက်လာသူ တစုကို 'ပီးလဂရင်းဖားသား' ဟုခေါ်သည်။ ပီးလဂရင်းဟူသော အင်္ဂလိပ်စကားမှာ ဘုရားဖူးသူဟု အဓိပ္ပါယ်ရသည်။ အလယ်ခေတ်တွင် ခရစ်ယာန်သာသနာ စတင်ထွန်းကားရာအရပ်သို့ ဘုရားဖူးသူများ သွားလေ့ရှိကြရာ၊ ထိုဘုရားဖူး ပုဂ္ဂိုလ်များ၏ အမည်ကိုယူ၍ ပီးလဂရင်းဟုတွင်သည်။ ဖားသားဟူသော အင်္ဂလိပ်စကားမှာ ဖခင်ဖြစ်သည်။ စတင် တီထွင် လုပ်ကိုင်သူတို့ကို အင်္ဂလိပ် အသုံးအနှုန်း၌ ဖခင်ဟု တင်စား၍ ခေါ်လေ့ရှိသည်။ ပလင်းမတ် ကိုလိုနီသို့ ဦးစွာရောက်ရှိသော ပီးလဂရင်းဖားသား လူစုသည် မူလက လူပေါင်း ၁၀၂ ယောက်ရှိသည်။ ပလင်းမတ်သို့ ရောက်ပြီးနောက် တနှစ်အတွင်းတွင် ထိုလူစုသည် အစာရေစာ ရှားပါး၍ရင်း၊အနာရောဂါ ကျရောက်၍ရင်း တဝက်ခန့် သေကြေပျက်စီးသည်။ သို့သော် ထိုအရပ်တွင် နေထိုင်သော အင်ဒီးယန်း တိုင်းရင်းသားတို့နှင့် မိတ်ဆွေ ဖြစ်လာသောအခါ၊ အစာရေစာ လုံလောက်အောင် စိုက်ပျိုးနိုင်လာသဖြင့်၊ နှောင်းခေတ်များတွင် ပီးလဂရင်းဖားသားတို့နည်းတူ နယ်သစ် တည်ထောင်လိုသူတို့ ထိုဒေသသစ်သို့ တဖွဲဖွဲရောက်ရှိလာကြသည်။ ထိုမှစ၍ ကာလကြာလတ်သော် အမေရိကန်ပြည်ထောင်စုနိုင်ငံဟူ၍ နိုင်ငံသစ်တခု ဖြစ်ပေါ်လာလေသည်။

ပု၊ ဆရာ (မြန်မာ ၁၂၂၂–၁၂၇၆)။ ။မြန်မာသဘင်လောကတွင် ဇာတ်သဘင်နှင့် ရုပ်သေးသဘင်ဟူ၍ ရှိရာ၌ ဇာတ်သဘင်သည်များက လက်ဟန်ခြေဟန် မျက်နှာ အမူအရာတို့ကို အဓိကပြုသည်။ ရုပ်သေးသဘင်က လူဟန်မပါ၊ လေသက်သက်ဖြင့် ပရိသတ် စွဲမက်အောင် ပြော၊ ဆို၊ ငိုရသည်။ သို့အတွက် 'ရုပ်သေးမှာအသံ၊ ဇာတ်မှာဟန်' ဟုဆိုရိုးရှိခဲ့သည်။ (ရုပ်သေး — ရှု။) ရုပ်သေးမင်းသား မင်းသမီးတို့ကို အသံကောင်း၊ အဆိုကောင်း၊ အပြောကောင်း၊ အငိုကောင်းမှ လူကြိုက်များသည်။

မှုပ်သေး သဘင်လောကတွင် သီချပါမင်းတရားလက်ထက်မှ ဗြိတိသျှခေတ်တိုင်အောင်၊ အထက်အောက် မြန်မာနိုင်ငံတခွင်၌ ခေတ်ပြိုင်စင်ပြိုင် ကျော်ကြားခဲ့သော ရုပ်သေးအနုပညာရှင်ကြီးနှစ်ဦးမှာ ဆရာပုနှင့်ဦးဖုးညို(ဖုးညိုဦး —ရှု။) တို့ဖြစ်ပေသည်။ သူတို့နှစ်ဦးမှာ 'အပြော ကိုဖုးညို၊ အဆို ကိုပု' ဟူ၍ ထိုခေတ်က ပြောစမှတ် ပြုကြသည့်အတိုင်း အပြော အဟောတွင် ဦးဖုးညိုက ပို၍ ကျော်ကြားပြီးလျှင်၊ အဆိုတွင် ဆရာပုက ပို၍ ကျော်ကြားထင်ရှားသည်။

ဆရာပုသည် ရုပ်သေး မင်းသမီးဖြစ်သည်။ ဆရာပု၏အသံသည် မိန်းမသံပါခြင်း၊ အသံ လုံခြင်း၊ အသံ ရခြင်း၊ အဆိုကောင်းခြင်းတို့ကြောင့် အလွန် လူကြိုက်များသော နိုင်ငံကျော် ရုပ်သေးမင်းသမီး ဖြစ်လာခဲ့သည်။ ဆရာပုကဲ့သို့ မိန်းမသံ ပါပါနှင့် အော်နိုင် ဟစ်နိုင် ဆိုနိုင်သူသည် မိန်းမမင်းသမီးထဲ၌ပင် မရှိသလောက်ဖြစ်သည်။ အများအားဖြင့် သံမှန် လေးဆစ်ကို ထုံးစံအတိုင်းဆိုကြသော်လည်း၊ ဆရာပုက သုံးဆစ် သံမှန် ဆိုသည့်ပြင်၊ နှစ်ဆစ်ခွဲခန့်သို့ပင် သံရှိန်ကူးချင်သေးသည်။ မေးဝဲခေတ်၌ ဆရာပု၏ မေးဒျန်မှာ အလွန်ညက်ညောလှ၍၊ လေလေချင်းမပြတ်အောင် ဆိုနိုင်သည်။ ဆရာပု၏ မေးဒျန်အတိုင်း ညက်ညောစွာ အမှီဆိုနိုင်သူမှာ ဆရာပု၏ တပည့်တဦးဖြစ်သူ ဇာတ်သဘင်လောကမှ သတင်းကြီးလှသည့် မင်းသမီး မထွေးလေး တဦးတည်းသာ ဖြစ်သည်။ ဆရာပုအသံနှင့် မထွေးလေး၏ အသံမှာ အသံချင်းလည်း ဆင်တူသည်ဟု ဆိုကြသည်။ (ထွေးလေး၊ ဒေါ် —ရှု။)

ဆရာပုသည် အသံကို လိုသလောက် ဆွဲငင်ရသဖြင့် ငိုချင်းငိုရာမှာ အသံကို ပစ်ခတ်ပြီးလျှင် ဆွဲငင်၍ ငိုနိုင်သည်။ သစ္စာထား နှစ်ပါးသွားခန်းတွင် ဆရာပု၏ အသံကို အမှီလိုက်နိုင်သူ ရုပ်သေးမင်းသားများ ရှားလှသည်။ တခါသော် နေမျိုးဗလကျော်သူဘွဲ့ခံ ရှာစား စိန်ဗေဒါသည် ဆရာပုရုပ်သေးနှစ်ပါးသွား ကနေစဉ် ခေတ္တခဏ ဆိုင်းဝိုင်း၌ ဝင်တီးသည်။ ဆရာပုသည် နှစ်ပါးသွားကိုရပ်၍'အထူးထူးငယ်နှင့်' ပတ်ပျိုးကြီးကို ကောက်ဆိုလိုက်သည်။ ပတ်ပျိုးကို မေးရိုက်မေးဝဲသံတွေ ထည့်ဆိုသဖြင့် 'တခိုင်လုံးရွှေ' အပိုဒ်သို့ ရောက်သောအခါ၊ စိန်ဗေဒါ လက်ဖျားခတ်မရအောင် ဖြစ်လာရသည်။ အမေပု (ထိုစဉ်က ဆရာပုအား ကျော်ကြားသော ရုပ်သေးမင်းသမီးကြီး အဖြစ် ရိုသေလေးစားသမှုဖြင့် 'အမေပု' ဟုလည်း ခေါ်ကြသည်။) ၏အဆိုမျိုးကို စောင်းနှင့်မှ ခတ်နိုင်သည်။ စိန်ဗေဒါသည် ထိုစဉ်က လက်သံပြင်းသော်လည်း ငယ်နုသေးသဖြင့် စောင်းအခတ်မျိုးမတီးနိုင်သေးဖြစ်ရာ၊ အမေပုအား တောင်းပန်ယူရသည်။ ယင်းသို့ ဆိုင်းကို အဆိုနှင့်ပင် ကစားနိုင်သော သီဆိုခြင်းမျိုးကို ပင်ကိုယ်တကယ်အသံရှိမှ အဆိုပိုင်နိုင်လှမှသာလျှင် တတ်နိုင်ပေသည်။



နာမည်ကျော် ရုပ်သေးမင်းသမီးကြီး ဆရာပု

ဆရာပု၏ အသံကောင်း၊ အဆိုကောင်းပုံမျိုးကို ယခုခေတ်တိုင် မှီသူ မပေါ်သေးသလောက် ဖြစ်သည်။ ထို့ကြောင့်ပင် သီပေါမင်းတရား လက်ထက်က 'နေမျိုးသီရိမဓုသဒ္ဒ ရွှေတောင်' ဟူသော အသံချိုလှသူဘွဲ့ အပြင်၊ မြင်းခြံခရိုင်ရှိ သမုန်းကိုင်း ဆဲ့နှစ်ရွာကိုလည်း အပိုင်စားပေးသနားခြင်း ခံခဲ့ရလေသည်။ ထိုအကြောင်းကို ဆရာပုဆိုလေ့ရှိသော သီချင်းတပုဒ်၌—

'အို.... ပြေပြေခွင်တိုင်း၊ သဘင်ကျော် လူရှင့်တူစရာမှိုင်း၊ အပုမေကသာ၊ မဟာစင်တော်၊ ဘုရင်နော်ကောက်စေခိုင်း၊ မြတ်အမိန့်တော်အတိုင်း၊ သိုင်းဘွဲ့စိုက်ခါ၊ ရာဇမတ်အလံဖြူတဖြာ၊ ဘွဲ့အမည်နှိပ်၍၊ ရွှေတံဆိပ်ရခါ၊ ခုနောက်သဘင်သည်တကာ၊ မနိုင်းနှင့် ဂိုဏ်းသင့်မှာ၊ သိုင်းနှင့်ကျိုင်းနှင့်ဆရာ၊ ဇမ္ဗူရေမြန်ချော တသောင်းလုံး၊ အကောင်းဆုံးခင်ပုပါ....' ဟူ၍ ထည့်သွင်းသီဆိုထားလေသည်။

ဆရာပု၏ အပြော အဆိုတို့သည် အသက်နှစ်ဆယ်၊ နှစ်ဆယ့်ငါးနှစ်အရွယ် အမျိုးသမီးတဦး၏ အတွေးအခေါ် အပြောအဆို၊ လေယူလေသိမ်းမျိုး ဖြစ်လေသည်။

ဆရာပုတို့ကျော်သည်ဆိုရာ၌ အသံကောင်း၍ချည်းလည်း မဟုတ်ပေ။ ယောကျ်ားမင်းသမီး ဖြစ်လင့်ကစား၊ မိန်းမမင်းသမီးများ လိုက်မမှီအောင် ဇာတ်ဆောင်ကောင်းသည့်အတွက်လည်းကျော်ခြင်းဖြစ်သည်။ ဇာတ်ထုပ် ဇာတ်ကွက်ဖော်ရာတွင် အပြော အဆို အငိုမှ စ၍ အစစအရာရာတွင် လိုလေသေးမရှိအောင် နိုင်နင်းစွာ ဇာတ်ဆောင်နိုင်သည်။ မင်းသမီးတို့မည်သည် 'ပိုး၊ မွေး၊ ခေါ်၊ မြှော်၊ အောင်၊ ဇော်၊ လု၊ ဘာ၊ ရှုး၊ အာ၊ သော၊ ပစ်' ဟူသော အတတ် ၁၂ ပါးကို နိုင်နင်းကျွမ်းကျင်ရသည်။ 'သော' ဟူသော မင်းသမီးသောခန်း၌ မင်းသမီး 'မသော' တတ်လျှင် ဇာတ်မနာဘဲ၊ တညလုံး သယ်လာသမျှ သဲရေကျ ဖြစ်တတ်သည်။ အမေပုကား လူဟန်

မပါဘဲ အသံနှင့်ချည်းပင်'သေ'တတ်သည်။ သေခါနီး၌ လျှာလေးအာလေးဖြစ်ကာ စကား မပြီမသ ဖြစ်လာပုံ၊ အမောဖောက် ချွဲဆိုက်လာပုံ၊ အသံပြုပြီး ဝိညာဉ်ချုပ်သွားပုံအထိ အမေပုက အသံနှင့် သေပြပုံတို့မှာ သရုပ်သဏ္ဌာန် တူလှသည်။ ဆရာပုသည် ပြောင်ဝိုင်သည့်အခါများ၌ အပြောပါပုံ၊ အပြောတတ်ပုံ၊ အသံနေ အသံထား မှန်ပုံတို့မှာ ကြားရသူအပေါင်း ကြက်သီးထပြီးလျှင်၊ လှိုက်လှိုက် လှိုက်လှိုက် ဖြစ်အောင် စွမ်းဆောင် နိုင်ပေသည်။

နောင်အခါ ဆရာပုဟူ၍ နာမည်ကျော်ကြားလာမည့် မောင်ပုကို မြန်မာသက္ကရာဇ် ၁၂၂၂ ခုနှစ်တွင် ကျောက်ဆည်ခရိုင် တဖက်ဆွဲရွာ၌ ဖွားမြင်သည်။ အဖမှာ ဦးထိုက်၊ အမိမှာဒေါ်မိ ဖြစ်သည်။ မောင်ပု ငါးနှစ်သားခန့်တွင် မိခင်သေဆုံး၍၊ မိထွေးနှင့် နေရသည်။ ရွာ၏အရှေ့ ရွှေဆံတော်ဘုရားအနီးရှိ ဘုန်းကြီးကျောင်းတွင် ပညာသင်သည်။ တောင်သူလယ်သမားမျိုးရိုး ဖြစ်သော်လည်း၊ ငယ်စဉ်ကပင် အသံအလွန်ကောင်း၍ သီချင်းဆို ဝါသနာပါလေသည်။

၁၂ နှစ်သားအရွယ်တွင် မန်ကျည်းပင်ပေါ် တက်၍ မန်ကျည်းရွက်ခူးယင်း မိထွေးနှင့် နေရသည့် အဖြစ်ကို တွေးကာ စိတ်မချမ်းသာလှသဖြင့်၊ လွမ်းချင်းတပုဒ်ကို ဟစ်၍ဆိုလိုက်သည်။ ထိုအခိုက်တွင် နာမည်ကျော် ဘုရင့်အသုံးတော်ခံ စင်တော်ကြီးဖြစ်သော ဦးသာဗျော၊ ဦးသာဇံတို့၏ ရုပ်သေးလှေသည် ပန်းလောင်မြစ်အတွင်းသို့ ဝင်လာလျက်ရှိလေရာ၊ သာယာလှသော သီချင်းသံ ကြားရသောအခါ၊ လှေကိုရပ်နား၍ နားထောင်ကြသည်။ ထိုနောက် ကုန်းပေါ်တက်၍၊ မန်ကျည်းပင်ပေါ် မှ မောင်ပုကို လှေဆီသို့ ခေါ်ယူစုံစမ်းမေးမြန်းသည့်အခါ၊ အကျိုးအကြောင်း သိရှိသွားပြီးနောက်၊ ရုပ်သေးအဖွဲ့နှင့် လိုက်ပါရန် ခေါ်ကြ၏။ မောင်ပုကလည်း စိတ်ပါသဖြင့်၊ အိမ်မှ ထွက်ပြေးပြီးလျှင်၊ ရုပ်သေးလှေနှင့် လိုက်ပါသွားလေသည်။

ဤသို့ဖြင့်ရုပ်သေးလောကထဲသို့ ရောက်ရှိလာသောအခါ၊ ရုပ်သေးမင်းသမီးများဖြစ်သော ဦးသာဇံ၊ ဦးပါတူနှင့် အာလာကပ္ပ ဆရာမူတို့ကငင်း၊ ရုပ်သေးမင်းသား ကျောက်ကာဆရာမိုးကငင်း သွန်သင်ပြသပေးကြသည်။ ဆရာကောင်းတပည့်ပြီသစွာ ပညာဆည်းပူးခဲ့သဖြင့်၊ မောင်ပု၏ အမည်သတင်းကို တစတစလူသိများလာ၍၊ နောင်အခါတွင် ရုပ်သေးမင်းသမီးကိုပု၊ ဆရာပုဟူသောအမည်သည် အထက်အောက်မြန်မာပြည်တလွှား၌ ထင်ရှားကျော်ကြားလာသည်။ တွဲဖက်ခဲ့သော မင်းသားများမှာ (၁) စစ်ကိုင်းနယ် ဗြဲတရော်ဆင်တပ်ရွာသား ဦးရွှေစင် (၂) ကျောက်ဆည်နယ်သား ဦးအုန်းခိုင် (၃) ဦးကြွယ်ကြီး (၄) မလှိုင်နယ်၊ ပန်းအိုင်ရွာမှ စပယ်သက် (၅) မင်းသား ဦးစိန်ခို (၆) ဦးဘကျော့ (၇)ဦးလွင် (၈) ဦးသန့် (၉) ဦးဘလှိုင်တို့ ဖြစ်လေသည်။

၁၂၇၀ ပြည့်နှစ်ခန့်က ဆရာပု သီဆိုသော 'ပြည်ကုန်းဘောင် သာစဥ္စဥ္ခန၊ လွမ်းစရာ ရေညို' အစချီသော သီချင်းသည် မိမိတို့၏ အရှင်သခင်ကို လွမ်းဆွတ် တမ်းတစေကာ၊ ကျွန်ဘဝမှ လွတ်မြောက်ပြီးလျှင်၊ ကိုယ့်မင်းကိုယ့်ချင်းနှင့်နေလိုစိတ်များကို နှိုးဆွပေးသကဲ့သို့ ဖြစ်ခြင်းကြောင့် ဆရာပုသည် ဗြိတိသျှ အစိုးရ၏အဖမ်း ခံခဲ့ရဘူးလေသည်။

ဆရာပုသည် ၁၂၇၆ ခုနှစ်၌ မန္တလေးမြို့တွင် ကွယ်လွန်အနိစ္စရောက်သွားရာ၊ (၁) စာရေးဆရာနှင့် ဇာတ်မင်းသားကြီး ဦးကြင်၊ (၂) ဦးရှင်၊ (၃) ဦးသွင်၊ (၄) ဦးအောင်ဘ၊ (၅) ဒေါ်အုန်းကြင်၊ (၆) ဒေါ်အုန်းမြင့်ဟူ၍ သားသမီး ခြောက်ယောက် ကျန်ရစ်သည်။ ယင်းတို့သည် ယခုတိုင်ရှိကြပေသေးသည်။

**ပုခက်**။ ။ကလေးငယ်တဦးအား အိပ်စေရန် ချော့သိပ်ရာ၌ ပုခက်သည် အစွမ်းဆောင်နိုင်ဆုံး ပစ္စည်းတခု ဖြစ်သည်ဟု ဆိုရလျှင် မှားမည် မဟုတ်ချေ။ ပုခက်ဟူသည် လက်ဖြင့်လွှဲရသော၊ လှုပ်ရမ်းပေးရသော ပရိဘောဂ ပစ္စည်းတမျိုးဖြစ်၍၊ ကလေးငယ်အား ပုခက်တွင်း၌ သိပ်ပြီးလျှင် 'လူကလေးရဲ့ငို၊ ခိုဖမ်းလို့ပေး' အစရှိသော သားချော့တေးကို တညည်းညည်း ဆိုကာ၊ ပုခက်ကိုလွှဲကာ၊ လှုပ်ကာ၊ ရမ်းကာ ပြုလုပ်ပေးလျှင်၊ ရိုးရိုးသိပ်မရသော ကလေးများသည် ပုခက်၏လှုပ်ရမ်းမှု၊ သီချင်းသံ၏ဆွဲဆောင်မှုတို့ကြောင့် ငိုက်မျည်းလာကာ အိပ်ပျော်သွားလေသည်။

ကလေးတို့၏ သဘာဝကား မိခင်၏ ရင်ခွင်ထက်တွင်သာ မွေ့လျော်လိုကြသည်။ သို့သော် မိခင် တဦးသည် ကလေးငယ်အား အစဉ်အမြဲ ပွေ့ပိုက်ချော့သိပ်၍ မနေနိုင်ပေ။ ထိုကြောင့် မိခင်များအတွက် သက်သာရာ သက်သာကြောင်းကို ရှာကြံ တီထွင်လာကြသဖြင့်၊ ပုခက်ဟူ၍ ပေါ်ပေါက်လာဟန် ရှိပေသည်။

ပုခက်ကို ရှေးပဝေဏီကပင် လူမျိုးဘာသာမရွေး အသုံးပြုခဲ့သည့် အထောက်အထားများ တွေ့ရသည်။ လူယဉ်ကျေးတို့လည်း လူယဉ်ကျေးတို့အလျောက်၊ လူရိုင်းတို့လည်း လူရိုင်းတို့အလျောက် ကလေးများ သိပ်ရန် ပုခက်များကို အသုံး ပြုခဲ့ကြသည်။ ဥရောပတိုက်တွင် အလယ်ခေတ်က အသုံးပြုခဲ့ကြသော ပုခက်များကို ပြတိုက်များ၌ တွေ့ကြရသည်။ ရှေးကျသော ပုခက်များသည် သစ်သားသေတ္တာများကို လှုပ်ရမ်း၍ လွှဲ၍ရအောင်ပြုလုပ်ထားခြင်းဖြစ်သည်။ ရောမတို့၏ ပုခက်များသည် ကလေးအိပ်ရာကလေးများကို လွှဲ၍လည်း ရအောင်၊အဆန်းတကျယ် ပြုလုပ်ထားကြောင်း တွေ့ရသည်။ အင်္ဂလန်ပြည့်ရှင် ပဌမ ဟင်နရီဘုရင်၏ ပုခက်အကြောင်း ရေးသား ဖော်ပြချက်များလည်း ရှိခဲ့သည်။ ၁၄၀၀ ပြည့်နှစ်ဘွင် ပြင်သစ်တို့က အင်္ဂလန်ပြည့်ရှင် ဒုတိယ

အက်ဒွပ်၏ မိဖုရား၊ ပြင်သစ်မင်းသမီး အဇ္ဇဗဲလား၏ ရွှေပုခက် တခုနှင့် ငွေပုခက် တခုကို အင်္ဂလိပ် ဘုရင်ထံမှ ပြန်တောင်းသည့် အရေးအခင်း တခုလည်း ပေါ်ပေါက်ခဲ့ပေသေးသည်။

အစစအရာရာတို့သည် တခေတ်ပြီးတခေတ် ပြောင်းလဲလာသည့်နည်းတူ၊ ပုခက်ပုံစံတို့လည်း အမျိုးမျိုးပြောင်းလဲခဲ့ကြသည်။ အသုံးပြုသူတို့၏ ဓနအင်အား အလျောက်၊ အုန်းဆံကြိုးနှင့် ပိတ်ပိုင်း၊ စောင်တို့ဖြင့် အလွယ်တကူ ပြုလုပ်နိုင်သော အဝတ်ပုခက်မှသည် ကြိမ်ဖြင့် ရက်လုပ်သော ပုခက်များ၊ သစ်သားကို လှပဆန်းကျယ်အောင် ထုထွင်း ပန်းဖော် ပြုလုပ်ထားသော ဆောင်ပန်း ပုခက်များအထိ အထွေထွေအပြားပြား ပြုလုပ်ကြသည်။သို့သော်ကလေးကို ပုခက်လွှဲ၍ လှုပ်ရမ်း၍ အိပ်ပျော်အောင် ချော့သိပ်ရန် ဟူသော မူလရည်ရွယ်ချက်သည်မူ တည်မြဲလျက်ပင်ရှိသည်။

အထက်တွင် ပြင်သစ်မင်းသမီး အဇ္ဇဗဲလား၏ ရွှေပုခက် ငွေပုခက်အကြောင်းကို ဖော်ပြခဲ့ရာ၊ မြန်မာ ဘုရင့်ရင်သွေးတော်များအတွက်လည်း ရတနာကိုးပါးဖြင့် စီခြယ်အပ်သော ရတနာပုခက်များ အသုံးပြုခဲ့သည်။ မြပုခက်ဟုလည်းခေါ်သည်။ ယှဉ်ဟုလည်းခေါ်သည်။ အရပ်သားကလေးများအား သားချော့သီချင်းဖြင့် ချော့သိပ်သည့်နည်းတူ၊ ဘုရင့်သားတော် သမီးတော်များအား ယှဉ်တွင် တင်ကာ သီချင်းဖြင့် ချော့သိပ်ကြရာ၊ ယင်း သီချင်းများကို ယှဉ်ချင်းဟု ခေါ်သည်။ ယှဉ်ချင်း အမည်မှ မြန်မာ စာပေတွင် ပါဝင်သော ချောင်း ပေါ်ပေါက်လာလေသည်။

# မြန်မာ့ယဉ်ကျေးမှု၏ကြေးမုံ

**ပုဂံကျောက်စာများသည် မြန်မာစာပေ၏ အုတ်မြစ်သဖွယ်ဖြစ်သည်သာမက၊ မြန်မာ့ယဉ်ကျေးမှု၏ ကြေးမုံသဖွယ်လည်း ဖြစ်သည်။ ဤအကြောင်းရပ်ကို လေ့လာရာ၌၊ ပုဂံကျောက်စာများ၏ အရေးကြီး အသုံးဝင်ပုံကိုရှင်း၊ မြန်မာတို့၏ ယဉ်ကျေးမှု အဆင့်အတန်း မြင့်လာပုံကိုရှင်း တွေ့မြင်ရပေလိမ့်မည်။**

**ပုဂံကျောက်စာ။** ။'လှည်းဝင်ရိုးသံ၊ တည်းညံ၊ ပုဂံဘုရားပေါင်း' ဟူသော စကား အစဉ်အလာကို ထောက်၍၊ ပုဂံပြည်တွင် စေတီ ဘုရားပေါင်း မည်မျှ ရှိသည်ကို သိနိုင်၏။ စေတီဘုရားရှိသလောက် ကျောက်စာလည်း များပြား၏။ လွန်ခဲ့သော နှစ်ပေါင်း ကိုးရာလောက်က ဧရာဝတီမြစ် အရှေ့ဖက်ကမ်းတွင် ထွန်းကားခဲ့သော ပုဂံပြည်ဟောင်းတွင် စေတီ ပုထိုး တည်ခြင်း၊ ကျောင်းဆောက်ခြင်း အစရှိသော ကုသိုလ်ကောင်းမှုတို့ကို ပြုသော ကုသိုလ်ရှင်တို့သည် အလှူစာရင်းနှင့် ဆုတောင်းစာ၊ ကျိန်စာတို့ကို ကျောက်တိုင် ကျောက်ပြားပေါ်တွင် မှတ်တမ်း တင်လေ့ရှိကြသည်။ ယင်းမှတ်တမ်းကို ကျောက်စာဟုခေါ်၏။

ရှေးအကျဆုံးသော မြန်မာအရေးအသားကို ပုဂံကျောက်စာတွင် ဖတ်ရ၏။ ယင်းအရေးအသားသည် မွန်အက္ခရာစဉ်မှတဆင့်ပါဠိအက္ခရာစဉ်ကိုမှီ၏။မြန်မာဘာသာသည် မျိုးရိုးအားဖြင့် ပါဠိဘာသာမှ ခြားနား၏။ မြန်မာဘာသာသည် တိဗက်တရုပ်မျိုးရိုးမှ ဆင်းသက်သော တိဗက်မြန်မာ မျိုးခွဲတွင်ပါဝင်၏။ ပါဠိဘာသာသည် အင်ဒို ဉရောပ မျိုးရိုးမှ ဆင်းသက်သော အာရိယန် အနွယ်တွင် ပါဝင်၏။ သို့ဖြစ်၍ မြန်မာအရေးအသားသည် ပါဠိ အက္ခရာစဉ်ကို မှီ၏ဟုဆိုခြင်းသည် အ အာ အား ကဲ့သို့သော သံနေသံထား ကွဲ၍ စကားတလုံး အသံတချက်ထွက်သည့် ကေဝဏ္ဏ မြန်မာအသံတို့ကို စကားလုံး၏ ရင်းမြစ်ဖြစ်သော ဓာတုတွင် ရှေ့နောက်ပစ္စည်းတွဲကာ ဝိဘတ်အမျိုးမျိုးသွယ်သည့် ပါဠိအက္ခရာများဖြင့် ရေးသားခြင်းကို ဆိုသည်။ ယင်းသို့ ရေးသားခြင်းသည် လွယ်ကူသော အရာမဟုတ်ပေ။ မြန်မာ အသံတို့ကို ပါဠိ မျိုးရိုးနွယ်သော အင်္ဂလိပ်အက္ခရာများဖြင့် ရေးသားကြည့်လျှင် မည်မျှ ခဲယဉ်းသည်ကို သိရပေလိမ့်မည်။

ပုဂံကျောက်စာများကို ဖတ်ရှုရာ၌ အောက်ပါ အချက်တို့ကို မှတ်သားသင့်၏။ ယခု ဗိန္ဒုဖြင့်ပြသော အောက်မြစ်နှင့် ဝိသဇ္ဇနီတို့ကို မပြဘဲထား၏။ သို့မဟုတ် အောက်မြစ်ကို ဗိန္ဒုအစား 'အ' ဖြင့်ပြ၏။ ဝိသဇ္ဇနီကို သဟ်၊ သိဟ် မှာကဲ့သို့ 'ဟ်' ဖြင့် ပြ၏။ မြန်မာတို့သည် ဂ နှင့် ဃ၊ ဇ နှင့် ဈ၊ ဒ နှင့် ဓ၊ ဗ နှင့် ဘ တို့ကို အသံကွဲပြားအောင် မဆိုကြချေ။ ဋ ဌ ဍ ဎ ဏ အသံတို့ကိုလည်း တ ထ ဒ ဓ န အသံတို့မှမခွဲခြားကြချေ။ ကဝံ (ဂဝံ)၊ သခေါ် (သဃော)၊ စံပုတိတ် (ဇမ္ဗုဒိပ်)၊ တေဝတတ် (ဒေဝဒတ်)၊ အနုမောတနာ (အနုမောဒနာ)၊ တတ်တော် (ဓာတ်တော်)၊ သတ္တာ (သဒ္ဓါ)၊ ပိုဝ်ပါ (ဗိုဝ်ပါ) အစရှိသည်တို့၌ ဃောသဖြစ်သော ဂ၊ဃ၊ဇ၊ဒ၊ ဓ၊ဗ တို့အစား ဆိုင်ရာ အဃောသဖြစ်သော က၊ ခ၊ စ၊ တ၊ ထ၊ ပ တို့ကို သုံးသည်ကို တွေ့ရ၏။ မြန်မာတို့သည် တကောင်ကို တဂေါင်၊ ဦးစီးခေါင်းကိုင်ကို ဦးစီးဃောင်းဂိုင်၊ တုတ်ကို ဒုတ်၊ ထားကို ဓား၊ ဝမ်းပိုက်ကို ဝမ်းဗိုက် ဟူ၍ အဃောသ ဖြစ်သော က၊ ခ၊ စ၊ တ၊ ထ၊ ပ တို့ကို ဂ၊ ဃ၊ ဇ၊ ဒ၊ ဓ၊ ဗ ဟူသော ဃောသ အသံတို့ဖြင့် ဖတ်လေ့ ရှိကြရကား၊ အဆိုပါ ဃောသမှ

အဿောသသို့ ပြောင်းလဲခြင်းများသည် မှန်ဩဇာ မကင်းသော ပြောင်းလဲခြင်းများ ဖြစ်ရာသည်ဟူ၍ ယူဆအပ်၏။ ထိုပြင်—

ေ+ အစား ိ+ယ် ကို အသုံးပြုကြသည်။
ပြယုဂ်၊ ပိယ် = ပေ။
ေ+ိ အစား +ုယ် ကို အသုံးပြုကြသည်။
ပြယုဂ်၊ ငုယ် = ငွေ။
ဲ+ နှင့် +ယ် တို့မှာ ခြားနားခြင်းမရှိ။
ပြယုဂ်၊ လဲ = လယ်။

'လည်း' အစား 'လေ' ကိုသုံး၏။

ဤယ်၊ ထိုဝ် အစရှိသည်တို့၌ ယ်၊ ဝ် တို့သည် အဆုံးသတ်ဗျည်းများ ဖြစ်ကြ၏။

+ဝ် သည် ေ+ာ နှင့်တူ၏။ ပြယုဂ် စဝ် = စော။

အဆုံးသတ်ဗျည်း စ်၊ င် (ဉ်) အစား တ်၊ န် ကို အသုံးပြုသည်။ ပြယုဂ်—ချတ် = ချစ်။ ညှန်ဆယ်= ညှင်းဆဲ(ညှဉ်းဆဲ)။

ပုဂံကျောက်စာ ဝေါဟာရများတွင် ဟိ (ရှိ)၊ ဆိုဝ် ငြယ် (ဆင်းရဲ)၊ ရှယ်တောင်တက် (နန်းတက်)၊ ကလန်သံဗျင် (မြို့သူကြီး ရွာသူကြီး)၊ ထုယ်တော်ချ (အမိန့်ချ)၊ သင်ဖမ (တရားမှုအရာရှိ)၊ အမူကွန် (မော်ကွန်း)၊ ပုရဟာ (ဖုရား) စသည်တို့သည် ထူးခြား၏။

အချို့ကျောက်စာများတွင် ယ –ပင့်၊ ရ – ရစ် အစား လ– ဆွဲသည်ကိုတွေ့ရ၏။

ကျ၊ ကျား၊ ကျောက်၊ ကျောင်း၊ ကျီး၊ ကျွတ်၊ ချ၊ ချောင်း၊ ချီး အစရှိသည်တို့ကို ကျောက်စာများ၌ ယ မပင့်ဘဲ လ ဆွဲ၏။

ပြည့်၊ ပြန်၊ ပြေး၊ ပြောင်းပြန်၊ မြစ်၊ မြေ၊ မြေး အစရှိသည်တို့ကို ကျောက်စာများ၌ ရ မရစ်ဘဲ၊ လ ဆွဲ၏။

ယင်းစကားလုံးများ၌ ပုဂံခေတ် လကို ယခု ယအသံထွက်သော ယ၊ သို့မဟုတ် ရ ဖြင့် ရေးကြသော်လည်း၊ ထားဝယ် အရပ်ဒေသတို့၌ လ အသံကို ယခုထက်တိုင် ကြားရပေသေး၏။

တရား၊ သိရက်၊ အစီအရင်၊ ရပ်၊ ရက်တက်၊ မုရင်း၊ အရိယာ အစရှိသည့် ကျောက်စာ စာလုံးများတွင် ရကို ယပင့်၍ ရေးသည်ကို ထောက်သော်၊ ပုဂံခေတ် ရ အသံသည် ယအသံမှ သီးခြားသော လျှာလိပ်သံဖြစ်ကြောင်း သိရ၏။

ပန်ခီ၊ ကိပ်၊ ကီ၊ စာခီ အစရှိသည့် ကျောက်စာ စာလုံးတို့၌ ယပင့်မပါချေ။ ပုဂံကျောက်စာများ၌ များသောအားဖြင့် စေတီပုထိုးတို့အား ဝတ္တကံမြေ လှူသည့် အကြောင်းအရာစုကို ဖော်ပြထားသော်လည်း၊ စကားဝေါဟာရ အသုံးအနှုန်း ပြည့်စုံကြွယ်ဝ၍ ပြောပြလိုသည့် အနက် အဓိပ္ပါယ်တို့ကို လုံလောက်စွာဖော်ပြနိုင်ပေသည်။ စကား အစီအကုံး အသွားအလာသည် ငုံးတိတိဖြစ်သော်လည်း လိုရင်း အဓိပ္ပါယ် ပြည့်စုံရုံ ရိုးရိုးသားသား မှန်မှန်ကန်ကန် ထင်ရှားအောင် ဖော်ပြ နိုင်ခြင်းသည် ကျောက်စာများ၏ ချီးမွမ်းဖွယ်ရာ အချက်တခု ဖြစ်သည်။

စူဠာမဏိ လေးမျက်နှာ ဘုရားကျောက်စာ၌ ဤသို့ဖတ်ရ၏။ "သကရစ် ၅၈၇ ခု၊ အာသိန်နှစ်နကာ လဆန်း ၄ ရက် ကြာသပတေးနေ့ ကျစွာမင်း ရွှေတောင်တက်ပြီ။ 'ငါ့မိကိုဝ်ကားမသိလိုက်၊ ငါ့မိထွေးမွေး၍ ငါကြီး၏။ ငါ့မိထွေးလျှင် တည်း ငါ့မိ၏' ဟူ၍ အိမ်ပြုနေပေ၏။ အိမ်ထောင်ကျွန်လယ်လည်းပေးတော်မူ၏။ အိမ်လည်း ငါနေ၏။ ကျွန်လည်း ငါစေ၏။ လယ်လည်း ငါစား၏။ အိမ်ငါနေသောထက်ကား သတင်းပညာဟိသော သင်္ခါနေသော် မြတ်၏ဟူ၍ ငါကြံမိရကား ကူလည်းပြု၏။ ကူပြီးရကား ဖုရားလောင်းကို ငါကြား၏။ 'မြတ်စွာသော ငါ့သခင်၊ အတိုဝ် ကျွန်ကို ပြုပေသော အိမ်တည်းသာလည်း သာနိုးစွာ၏။ အတိုဝ်ကျွန်တိုဝ် နေသော ထက်ကား သင်္ခါနေသော် မြတ်၏ဟူ၍ ကူလည်း ပြု၏။ အိမ်လည်း ကျောင်းရည်၏။ ပေးတော်မူသော အိမ်ထောင်ကျွန်လယ်လည်း အတိုဝ် ကျွန်လှူ၏။' ငါကြားရကား၊ 'မိထွေး တင့်အပ်နိုးသော သင်္ခါထားလင့်' ဟု မိန့်တော်မူ၏။ သကရစ် ၆၁၅ ခု၊ စယ်နှစ် တပို့တွဲလဆန်း ၆ ရက် သောကြာနေ့၊ ကျောင်းသင်္ခါကို ဆောက်တည်ခဲ့၍ ငါထွက်ခဲ့၏။ အိမ်ထောင် ကျွန်လယ် လှူလျှင်၏။" ယင်းကျောက်စာ၌ ဝါကျတိုများဖြင့် လိုရင်း အဓိပ္ပါယ်ကို တိတိကျကျ ဖော်ပြထားသည်။ ကျောက်စာ အချို့တွင်ကား ဝါကျရှည်ကြီးများ သုံးသည်ကိုလည်း တွေ့ရ၏။

လေးထောင့်ကန် လေးမျက်နှာဘုရားကျောက်စာကို ဤသို့ စ၏။ "သကရစ် ၅၇၅ ခု၊ အာသိတ်သံဝစ္ဆရ၊ နတ်တော်လဆုတ် ၇ ရက် သောကြာနေ့အား၊ မြတ်စွာသော မင်းကြီး အမတ်ျာ၊ မဟာသေနာပတိ အနန္တသူရ်မောင်နှံနှစ်ယောက် ဤယ်လူတွင်နှိုက် အတိုင်းမသိ သဒ္ဓါ၍ပြုသော ကောင်းမှုအကျိုးဖြင့်ကား၊ ရေမြေ ခပ်သိမ်းသော အသွှင်ဖြစ်သော မြတ်စွာသော မင်းကြီးစသော၊ မင်းညီမင်းသား၊ မင်းသမီး မင်းနှမ ခပ်သိမ်း၊ အမိပုရှာစသော မောင်းမတော် ခပ်သိမ်း၊ အမတ်ျာစသော ဗိုလ်ပါခပ်သိမ်း၊ အောက် အဝီစိ စသော အထက်ဘဝက်တိုင်အောင်၊ အတိုဝ်စကြဝဠာစသောအတိုင်းမသိသော စကြဝဠာနှိုက် နေသော လူနတ်သတ္တဝါ ခပ်သိမ်းသောတို့ကိုဝ် အကြွင်းမဲ့သဖြင့်၊ သံသရာဆိုဝ်ငြယ်မှ ထွက်မြောက်ခဲ့၍ ဆိုဝ်ငြယ်မဲ့သော နိရဗန်ပြည်သို့ ရောက်စေချင်သောကြောင့်၊ ငါလည်း သိစပ်မြင်နှံ့သော သဗ္ဗညုတဉာဏ်ဖုရားဆုကို လိုချင်သောကြောင့်၊ ဤအာမနာမည်သော ကန် အရပ်နှိုက်ကား၊ များစွာသော ထန်းပင် တိလျှင် ကျောင်းအရံစိုက်လတ်၍၊ အုတ်အတိပြုသော တန်တိုင်း

လည်း နှစ်ထပ်ရံလတ်၍၊ တန်တိုင်းတွင်နိုက် ကလသာ အိုး အယောင်နှင့် တူသော တင့်တယ်စွာသော စင်ကြံထက်ကူ လည်းတည်၏။'' ယင်း ဝါကျသည် ရှည်လျားသော်လည်း အဓိပ္ပါယ် ရှင်းလင်း၏။

ပုဂံပြည်သူပြည်သားတို့သည် စေတီ ပုထိုးအား ဝတ္ထုကံ မြေ လှူရာ၌၊ မည်သည့်ရည်ရွယ်ချက်များ ထားရှိသည်ကို လိုက်စစ်ရှာဖွေလျှင်၊ ကုသိုလ်ရှင်တို့၏ စိတ်နေစိတ်ထားများ ကို သိရသည့်အပြင်၊ နန်းတက်နှစ်များမှစ၍၊ နိုင်ငံသမိုင်း ဆိုင်ရာ ပုဂံခေတ် မှတ်သားဖွယ်ကောင်းသော အကြောင်း အရာများကိုလည်း တွေ့ရပေသည်။ အထက်၌ ကိုးကား သော စူဠာမဏိ လေးမျက်နှာဘုရား ကျောက်စာ၌ ကျစွာ မင်းကပေးသော အိမ်နှင့်ကျွန်လယ်တို့ကို မိထွေးဖြစ်သူသည် 'အိမ်ငါနေသောထက်ကား သတင်းပညာရှိသော သခ်ါနေ သော်မြတ်၏' ဟူ၍ သင်္ဃာအားလှူသည်ကို မင်းကြီးက သဘောတူကြောင်း၊ ကျစွာမင်းသည် ထိုမိထွေးမွေး၍ ကြီး ပြင်းလာခဲ့ပြီးလျှင်၊၅၉၇ ခုနှစ်တွင် နန်းတက်ခဲ့ကြောင်းတို့ကို ဖတ်ရ၏။

မြစေတီကျောက်စာ၌ သီရိတြိဘုဝနာဒိတျ ဓမ္မရာဇ်မည် သော ကျန်စစ်သားသည် သာသနာ ၁၆၂၈ ခုနှစ်တွင် နန်း တက်၍ ၂၈ နှစ် မင်းမူကြောင်း။ ထိုမင်း၏ 'ပါယ်မယား' ဖြစ်သော တြိလောကဝဋံသကာ ဒေဝီသည် နိုင်ငံသမိုင်းတွင် ဖတ်ရသော မထီးတူမ သမ္ဘူလပင်ဖြစ်၏။ သမ္ဘူလတွင် ဖွားမြင်သော ရာဇကုမာရ်သည် 'သေခမူနာသော' ခမည်း တော်မင်းကြီး၏ ကျေးဇူးများကို အောက်မေ့ကာ ရွှေ အထွတ်ရှိသော ကူဘုရားတဆူကို တည်၍ အမွေအနှစ်ဖြစ် သော ကျွန်သုံးရွာကိုလှူလေ၏။

ပရိမ္မ ထီးလိုင်ရှင်ဘုရား ကျောက်စာ၌လည်း ဓိလိုင်သျှင် မည်သော ကျန်စစ်သားသည် မိမိမွေးဖွားရာ ပရိမ်ပြည်နိုက် စေတီ တည်ပြီးလျှင်၊ 'ဥဿာလမည် တန်လိုင်ပြည်ကို နည် ၂ ညက် ၂ ဖျက်ချေပြီး၍' ပညာကြီးသော တန်လိုင် သုခမိန်ကို ထားခဲ့ကြောင်းကို ဖတ်ရသည်။ 'တန်လိုင်' (တလိုင်း) ဟူ သော စကားကို ဤကျောက်စာ၌ ပဌမဦးစွာ တွေ့ရ၏။

နားတောင်းတပ် ဘုရားကျောက်စာ၌ စည်သူမင်းကြီး မယား ဝေလုဝတီသည် နားတောင်းတပ် ဘုရားအား မြေ လှူကြောင်းပါသည်။''ကောင်းမှုကို ဖျက်သသူကား၊ အမျိုး ခုနစ်ဆက် ညက်ညက် ပြုန်းတီး ပျက်စီးစေသော၊ အဝီစိ အထဲ ငရဲကျက်၍ အကမ္ဘာဘာ ဖုရားတိုလာ၍ ချတ်လည်း မကျွတ်တတ်သည် ငရဲသစ်ငုတ်လျှင် ဖြစ်စေသတည်း'' ဟူ သော လက်ာသံပါသည့် ကျိန်စာကို တွေ့ရသည်။

ဖုရားမဖြစ်သော အကြား 'ပဥ္စဂ်တုရ်မည်သော စည်သွင်း ဖြင့်နိုးထထသော စည်းစိမ်လို'သော အမတ်ျကြီး သိင်္ဃသူရ် ရေးထိုးသော ကူနီဘုရားကျောက်စာ၌ စည်ကြီးပန်တျာ၊ စည်သည်၊ ပသာသည်၊ ခွက်ခွင်းသည်၊ ကုလားပန်တျာ၊ မြန် မာပန်တျာတို့ကို တွေ့ရ၏။

ဇေယျပွတ်ဘုရားကျောက်စာတွင် ဘုန်းတော်ကြီးများ ဩဇာရှိကြောင်း သိရ၏။ သကရစ် ၅၇၃ ခုတွင် နန်း တက်သော ဥဇနာမင်းထံမှ ရသော လယ် ၇၅၀ ကို သံဃျင် ဇေယျပွတ်သည် မိမိပြုသော တောကျောင်း ဖုရားတရား သင်္ဃာရတနာ ၃ ပါးအား အကုန်လှူ၏။ ၅၉၇ ခုတွင် နန်းတက်သော ကျစွာမင်းသည် အကြေအညာ၌ရှိသော မဟာဒါန်မြေ ခပ်သိမ်းကို သိမ်းယူလေရာ၊ ဇေယျပွတ်၏ မဟာဒါန်လယ်လည်း ပါလေ၏။ ထိုသို့ပါလေရကား ဇေယျ ပွတ်တောကျောင်း၌နေသော သိင် သင်္ဃာတို့သည် မင်းကြီး အား 'မဟာရစ်၊ ဤဇေယျပွတ်၏ မဟာဒါန်ကား တော ကျောင်းဖုရားအားလျှင် လှူခဲ့သတည်း' ဟူ၍ ကြားလိုက် ၏။ ဤသို့ကြားလိုက်ရကား ပညာကြီးသော မင်းကြီးသည် အမတ် ၆ ယောက်အား စစ်ဆေး စုံစမ်းစေ၍ ဟုတ်မှန်သည် ကိုသိလျှင် 'ဇေယျပွတ်ကို ငါ့ခမည်း မဟာဒါန်ပေးသလည်း စင်၏။ ဇေယျပွတ်သည် တောကျောင်းဖုရား လှူသလည်း စင်၏ဟူမူကား ငါလည်းလှူပါတို့၏' ဟူ၍ မင်းကြီးကား အ မတ်တကာ မှောက်လျှင် ရေစင်တော်ချ၍လှူတုံသတည်း။' ယင်းသို့ ဘုန်းတော်ကြီးများဩဇာရှိရခြင်း အကြောင်းမှာ မင်းကြီးမှစ၍ ပုဂံပြည်သူ ပြည်သားတို့သည် ရတနာသုံးပါး ကို အလွန်တရာကြည်ညိုလေးမြတ်ကြသောကြောင့်ဖြစ်၏။

သျှင်ဒိသာပါမောက္ခ ကျောက်စာ၌ သျှင်ဒိသာပါမောက် သည် ရဟန်းဖြစ်လျက်နှင့် တရုပ်ပြည်သို့ သံအဖြစ်ဖြင့် သွား ရောက်ကာ တိုင်းရေးပြည်မှုကို ဆောင်ရွက်ကြောင်း သိရ သည်။ ဆောင်ရွက်ပုံကား ဤသို့တည်း။ သကရစ် ၆၄၇ ခုနှစ် တွင် ပြည်မြို့ အနောက်ဖက် လှည်းကျနိုက် မင်းကြီးနေတော် မူ၏။အနန္တပိစည်း မဟာပိုဝ်တို့ကိုခေါ်၍တရုက်တို့၏အလား အလာကိုသိအောင်စေလွှတ်ရာ၊သဝဏ္ဏလိပ်ပြုအံ့သောသူ မရှိ သဖြင့် ထိုအမတ်တို့ကို မလွှတ်ဘဲ သျှင်ဒိသာပါမောက်ကို လွှတ်တော်မူ၏။ တရုက်မင်းက ပုဂံသို့ ပို့လိုက်သော သု သုတ္တကီမင်းသားနှင့် သူရဲ ၂၀၀၀၀၊ ပုညဓမ္မိကမဟာထီး၊သီရီ ဓမ္မိကာ သင်္ဃာထီးတို့သည် သင်းတဲ့ပြည်သို့ ရောက်လာကြ ရာ၊ သျှင်ဒိသာပါမောက်နှင့် တွေ့ကြလေ၏။ ယင်းမဟာထီး သင်္ဃာထီးတို့သည် မဟာယာန ဘုန်းတော်ကြီးများ ဖြစ်ကြ ဟန်တူ၏။ ယင်းတို့သည် သျှင်ဒိသာပါမောက်အား လက် ဆောင်လက်နက် ဆက်၍၊ ပုဂံသာသနာကို သူတို့ မပြုဘဲ နေရစေကြောင်း ဆိုကြရကား၊ သျှင်ဒိသာပါမောက်လည်း တယ်တူသို့ တက်လေ၏။ တရုက်မင်းလည်း နှစ်လိုစွာ၍ ပြည်ထဲစကားကိုဆိုကြ၏။ ပြည်မှုကိုကား မဆိုရ၊ 'ပဏ္ဍိတ်၊ ဤငါ့သူရဲ ၂၀၀၀၀ နှင့် မဟာထီး သင်္ဃာထီးလျှင်နှင့် သာသ နာပြုလေ' ဟု အပ်နှင်းရာ၊ ဘုန်းတော်ကြီးက 'မဟာရစ်၊ ဤ

သူ့ရဲ့အလုံး သဿ်အလုံး စပါးရှိမှ တည်ကြည်အံ့၊ စပါးကား ပြည်၏စည်းစိမ် မဟုတ်လော။ ဤသူရဲတို့သည် ထန်းကိုစည်း ၍စားလျှင် ဝမ်းနာ၍ မသေကုန်လော။ ကြွင်းသောသဿ်တို့လည်း ပြည်တွင်းမဝင်ဝံ့ဘဲ တောသို့ပြေး၍ သေကုန်ခဲ့တကား။ မင်းကြီး အောင်ပြီးသော အမှု မဟုတ်လော၊ ဥယျာဉ်စိုက်သော ယောကျ်ားကား ရေသွန်း၍ သစ်ပင်ကို ကြီးစေ၏။ အညွန့်မဆိတ်တကား၊ သစ်ပင်သီးပြီးသောအခါမှ အသီးကိုစား၏။ တမ္ပဒိပ်ပြည်ကိုလည်း ရေသွန်းဦး၊ မင်းကြီးကား ဖုရားဆုတောင်းသော သူမဟုတ်လော၊အဖ ကောတမ သာသနာကို မပျက်စေလတ်ပေ။ မင်းကြီးနိုင်သော ပြည်ကား များလည်းများစွ၊ ကြီးလည်းကြီးစွ၊ တမ္ပဒိပ်ပြည်ကား အငယ်တည်း။သူ့ရဲ မာင်စေနှင့်ဦး။ ငါကား ကောက်ပဲ စိုက်လေဦးအံ့၊ ကောက်ပဲ ပြီးပြီးသောကား၊ ဝင်' ဟူ၍ဆိုပေ၏။ ဤသို့တရုက်မင်းသည် တိုင်းပြည်ကို နိုင်ရုံနှင့် မကျေနပ်သေး၊ သာသနာပေါ်တွင်လည်း လွှမ်းမိုးချင်သောကြောင့် ဘုန်းတော်ကြီးက ယင်းသို့ ပြောဆိုဟန်တူ၏။ တရုက်မင်းက 'ဤစကားတွင် ငါ့အဖို့ လေးပါ၏။ ပဏ္ဍိတ်လာ၍ ပြေးပြေးသောသျှင်တို့ကို ခေါ်လေ။ ကောက်ပဲလည်း စိုက်လေ။ ပြီးပြီးသောအခါ ငါကို လွှတ်လတ်တုံ' ဟူ၍ဆိုလျှင်၊ ဘုန်းတော်ကြီးသည် ပြန်လာခဲ့၏ ဟူသတည်း။ (ဒိသာပြမုက်၊ သျှင် — ရှု။)

ထိလုကုန်း ဘုရားကျောက်စာ၌ 'ပိတကတ်သုံးပုံလည်း တတ်စွာထသော သဒ်ကြိုတ် ဗျာကရိုဏ်ဟူးရားသွားအမှုလည်း တတ်စွာသော စတုရင်ဗိဇယ်မည်သော အမတ်ကြီးသည် ပြုသော ကျောင်းအရပ်နိုက်' ဟူသော စကားကို ထောက်သော်၊ ပုဂံခေတ်တွင် ပိဋကတ်သုံးပုံကို သာမက သဒ်ကြိုတ်ပညာရပ်များကိုလည်း တတ်သော ပညာရှိ အမတ်ကြီးများရှိကြောင်း သိရ၏။ ပုဂံကျောက်စာများ၌ သီရိ၊ သောကြာ၊စကြဝဠာ အစရှိသည်တို့ကို ပါဠိစာလုံးပေါင်းဖြင့်မရေးဘဲ သက္ကတစာလုံးပေါင်းဖြင့် ရေးကြသည်။ လေးထောင့်ကန် မြောက်ကျောင်းကျောက်စာ၌ ငါးဆောင်ချမ်း စစ်ပွဲကို ရည်ညွှန်းသော အချက်ပါသည်။ 'သကရစ် ၄၆၀ ပိသျှက်နှစ်၊ ဤန္တပစ္စယာမည်သော အမတ်ကြီးသည် မြတ်ကြီး မဟာကဿပ အရပ်(နိုက်) ထေရကျောင်း မရှိရကား၊ ထေရကျောင်း ဖြစ်စိမ့်ဟူ၍စီရင်၏။ ကျောင်းကား မပြုဦး တန်တိုင်းပြု၏။ တန်တိုင်းလည်း မပြီးခဲ့၊ ဤန္တပစ္စယာလည်း ငါးဆောင်ချမ်မှို့ နေရလေ၏။ ပြည်ထဲ ပျက်စီးသော ဖြစ်ခဲ့၏။'

သက္ကရာဇ် ၆၃၃ မင်းဝိုင်းကျောက်စာ၏ ကျောဖက်တွင် မိဖုရားဖွားစောသည် ဤသို့ဆုတောင်း၏။

'ဤသို့ဝကြီးစွာလျှင် ငါမှုသော ကောင်းမှု အကျိုးဖြင့် နိယ်ရဗန်မရောက်သောကြား လူဖြစ်သော်ကား လူတကာထက် မြတ်သော စည်းစိမ် ချမ်းသာ ငါရလို၏။ နတ်ဖြစ်သော်လည်း နတ်တကာထက် မြတ်သော နိုင်ငံသော အဆင်း အရောင်အဝါနှင့် ပြည့်စုံ၍ အထူးသဖြင့်လျှင် အသက်ရှည်သော အနာမဲ့သော အဆင်းလှသော အသံသာသော အလုံးအယပ်လှသော လူနတ်ခပ်သိမ်း ချစ်ခင် ရှိသေသော မြတ်နိုးသောငါဖြစ်လို၏။ ရွှေငွေပတ္တမြား ပုလဲသန္တာကစသော အသက်မဲ့ဥစ္စာ၊ အသက်ရှိသော ဆင်မြင်းကစသော ဥစ္စာ ရတနာများစွာသော ငါဖြစ်လို၏။ ဖုန်းတန်ခိုးဖြင့် အနိုင်အင် အခြံအရံ အကျော်အစောကြီးစွာသော ငါဖြစ်လို၏။ ဖြစ်လေရာရာအရပ်နိုက် အလှူသတင်းသဒ္ဓါပညာကစသော မြတ်သောကျေးဇူးနှင့်ပြည့်စုံလျက် ဆိုဝ်ငြယ်အမှတ်မသိလို။ လူစည်းစိမ် နတ်စည်းစိမ် ခံစားပြီး၍ အဆုံးနိုက်ကား အရဟတ္တဖိုလ် မည်သော မြတ်သော အကျွတ်တရားပွင့်လတ်၍ ငြိမ်ဆိမ်စွာသော နိယ်ရဗန် ချမ်းသာ ငါရလို၏။' ဤစာကို ထောက်ရှုခြင်းအားဖြင့် မိဖုရား ဖွားစော၏ စိတ်ဓာတ်တွင် မာန်မာနဖက်သည်ဟု ဆိုရာသည်။ ဖြစ်လေရာရာတွင် လူတကာ၏ထိပ်၊ နတ်တကာ၏မကိုဋ် ဖြစ်လို၏။ ငါ-ငါ ဟူသော သက္ကာယဒိဋ္ဌိသံ၊ မာနသံတို့ ရောစွက်လျက် ရှိ၏။ (စော၊ မိဖုရား — ရှု။)

သက္ကရာဇ် ၆၂၈ အာမနာကျောင်းကျောက်စာတွင် သိဿ်သူသမီးသည် ဤသို့ ဆုတောင်း၏။

'ဤယ်ငါတို့ပြုသော ကောင်းမှုအကျိုး၊ အတို့ခပ်သိမ်းသောကို အစိုးရသော ရေမြေအသျှင် ဖြစ်သော မင်းကြီးလည်းရစေ၏။ ဤယ်ကောင်းမှု အာနုဘော်ဖြင့် ပြည်တိုင်းကား ခပ်သိမ်းသောနိုက်နေသော လူခပ်သိမ်းသော၏ အစီးအပွား ချမ်းသာကို ရှာပေလျက် သက်တော်ရှည်စွာ နေ၍ ဤယ်ကောင်းမှုကို ထောက်ပင့်စေသတည်း။ အမိဖုရား စသော မောင်းမတော် ခပ်သိမ်းလည်းရစေ၏။ အချင်းချင်း အမျက်အဤတစေ့မရှိ ချစ်သောမျက်စေ့ဖြင့် ရှုကြရစေ၏။ ယခုရှိသော နောင်ဖြစ်လတ်အံ့သော မင်းကြီးမင်းသား အမတျာစသော သူခပ်သိမ်းလည်း ရစေသတည်း။ အရေအရံ ယူပါစေသတည်း။ ယမမင်းစသော သတ္တဝါခပ်သိမ်းလည်း ရစေသတည်း။ အရအမိကိုလိုသောသူကား အရအမိရစေ၏။ ကောင်းမှုကိုမူ လိုသောသူကား ကောင်းမှုကိုမူ ရစေ၏။ ငါလည်း ရံမက်ကြီးသော မရောင့်ရဲတတ်သော အမျက်ကြီးသောသူတစ်ထူးကို ညဉ်းဆဲတတ်သော ပညာမရှိသော မိုက်သော ဝန်တိုသော အပေးအကမ်းမရှိသော သစ္စာမရှိသော ပျက်တတ်သောမေ့လျော့သော အောက်မေ့တသကင်းသော မဖြစ်မူ၍ ရံမက်နည်းသော ရောင့်ရဲလွယ်သော အမျက်နည်းသော သနားတတ်သော ပညာရှိသော အကြောင်းကို သိတတ်သော ဝန်မတိုသော အပေးအကမ်းရှိသော သစ္စာရှိသော မပျက်တတ်သော မမေ့လျော့သော အောက်မေ့တသ

ရှိသော ဤယ်သို့သော ကျေးဇူးတို့နှင့် ပြည့်စုံလျက် သသ်ရာနှိုက်ကျင်လည်၍ မိတ္တရာဖုရားမျက်မှောက် ကကာလျှင် မြတ်သော အကျွတ်တရား ရလိုသတေး။'

ဤစာကို ထောက်ရှုခြင်းဖြင့် သိဃ်သူ့သမီးသည် အထက်ဆိုခဲ့ပြီးသော မိဖုရားဖွားစောနှင့် စိတ်ဓာတ်ချင်း တူပုံမရ။ အလိုရံမက် အမျက်ကင်းရှင်းလျက် သူတထူးအားစောင်မ ကြည့်ရှုလိုသော စိတ်သာလျှင်ရှိ၏။ မိမိကိုယ်ကို နှိမ့်ချလိုသော စိတ်လည်းရှိ၏။ ဤသို့ မွန်မြတ်သော စိတ်ဓာတ်နှင့် ပြည့်ဝသည့် သိဃ်သူ့သမီး၏ ဆုတောင်းပဋ္ဌနာကို မြန်မာ အမျိုးသမီးတိုင်း အစဉ်မပြတ် ဖတ်ရှုဆင်ခြင်အပ်၏။ ထိုမိဖုရားနှစ်ပါးတို့၏ အတွင်းစိတ်ဓာတ်သဘော တည်နေပုံခြားနားခြင်းကို ဖတ်ရှုသူတို့ ကွက်ကွက်ကွင်းကွင်း ထင်လင်းပေါ်လွင် သိမြင်အောင် ရေးသားခြင်းမှာ လွယ်ကူသည် မဟုတ်ချေ။ ပုဂ္ဂိုလ် အမည် ဝတ္ထု တစုံတခု၏ ဖြစ်ပျက်သည့် အကြောင်းအရာကို ပြန်လှန် ရေးသားခြင်းထက် ခက်ခဲ၏။ ယင်းသို့ ခက်ခဲလှငြားသော်လည်း၊ အဆိုပါ ကျောက်စာ ၂ ခုတို့တွင် အဓိပ္ပါယ် ပါပါနှင့် မိမိရရ ရေးသားထားသည်ကို ထောက်ရှုခြင်းအားဖြင့်၊ ပုဂံခေတ် မြန်မာစာ အရေးအသားသည် မည်မျှ တိုးတက်လျက် ရှိသည်ကို သိသာနိုင်၏။

မိဖုရားဖွားစော၏ အလှူစာရင်းကို 'မင်းကြီးပြ၍ အမှုကွန်းတင်၏။.... သစ်တလားတွင် ထည့်၏။ ရွှေပေ ရှစ်ချပ်၊ ရွှေခြည်ဖွဲ့၏။ သစ်ကျမ်း ဆေးရေးတည်း.... တန်ဆိပ်သံကောက် (ကို) မြတ်လှကြီးစွာ လက်တွင် လျှင်နှင်း၍' ဟူ၍ အဆိုပါကျောက်စာတွင် ဆက်၍ ဖတ်ရ၏။ သို့ဖြစ်၍ အလှူစာရင်းများကို ကျောက်စာတွင် ရေးသားသည် သာမက၊ ရွှေပေတွင် ရေးပြီးလျှင်၊ ဆေးရေး သစ်ကျမ်းပြု၍ ထားလေ့ရှိသည်ကိုလည်း သိရသည်။ (ပုဂံထက် နှစ်ပေါင်း ၅၀၀ လောက် ဦးသော သရေ ခေတ္တရာ ပြည်တွင် အဘိဓမ္မာကောက်နုတ်ချက် များကို အိန္ဒိယ တောင်ပိုင်း အက္ခရာ များဖြင့် ရွှေပြားပေါ်၌ ရေးသားခဲ့ကြလေပြီ။)

ရွှေပေရှစ်ချပ်တွင် မော်ကွန်းတင်သော အလှူစာရင်းတွင် အောက်ပါ အကြောင်းအရာတို့ကို ဖတ်ရ၏။

'ဤအမနာမည်သော မြေအရပ်နှိုက် ရခဲစွာသော ရတနာသုံးပါး ထားအံ့သောငှါ တင့်တယ်စွာသော အုတ်အတိသော အရံတန်တိုင်းပြု၏။ ထိုတန်တိုင်းတွင် ကလသာအိုးအယောင်နှင့်တူသော တင့်တယ်စွာသော စကြာ်ထက် လေးမျက်နှာရှိသော ကူလည်းတလုံးပြု၏။ ထိုကူတော်တွင် လေးမျက်နှာလျှင် အမျက်ခတ်သော ရွှေပလ္လင်ထက် နဝတင်တန်စာမာနှင့် ဆင်သော ဖုရားဆင်းပုပြု၏။ ဖုရားဟောသော နိကာယ်ငါးပါး ရှစ်သောင်းလေးထောင် တရားပိဋကတ်သုံးပုံထားအံ့သောငှါ ကုလားကျောင်းလည်းပြု၏။ ထိုကျောင်းတွင် ရွှေတလားနှင့် ပိဋကတ်လည်း ထား၏။ ရွှေရည်ရေးသောထက်ဝယ် ဖုရားအရုပ်၊ ဖုရားတန်ထိမ် သုံးဆူလည်းထား၏။ ကျောင်းကြီးပြု၏။ ဓမ္မသာပြု၏။ ကျောင်းမြင့်ပြု၏။ စလစ်ကျောင်းနိမ့် ပြု၏။ အလှူပစ္စည်း ထားစိမ့်သောငှါ ကပ္ပိယကုဋိပြု၏။'

အထက်ဖော်ပြအပ်သော လေးထောင့်ကန်၊ လေးမျက်နှာဘုရားကျောက်စာ အစဖြစ်သော ဝါကျ ရှည်ကြီးကို ဆက်၍ဖတ်လျှင်၊ ကူ ဌာပနာသော အကြောင်းအရာစသည်တို့ကိုတွေ့ရ၏။

'ကူဌာပနာသောအခါနှိုက်ကား သရီရဓာတ်တော် ထည့်သော တန်စီကူကြုတ်၊ ထိုအပကား ဖန်ပြုသောကြုတ်၊ ထိုအပကားတန်စီကူနီပြုသောကြုတ်၊ထိုအပကား ရွှေပြုသော၊ ထိုအပကား ငွေပြုသော၊ ထိုအပကား ရွှေမှု၍ ရတနာတိအမျက်ခတ်သော၊ထိုအပကားဆင်စွယ်ပြုသော၊ထိုအပကား ကြေးနီပြုသော၊ ထိုအပကား ကျောက်ပြုသော၊ ထိုတွင်ထည့်ပါသော ရွှေစမခန်၊ ငွေစမခန်၊ ရွှေပေါက်ပေါက်၊ ငွေပေါက်ပေါက်၊ ရွှေတန်ဆောင်း ငွေတန်ဆောင်းတို့ဖြင့် ပူဇော်၍ ထည့်လိုက်၏။ ကျောက်ပုထိုးကိုကား ဆေးရေး၍ ကြေးခြည်နှင့် ခတ်၏။ အထွတ်ကားရွှေထွတ်ပြု၏။ အထွတ်ထက်ကား ရွှေထီးဆောက်၏။ ရွှေထီးကိုကား ပုလဲသန္တာဆွဲ၏။ အထွတ်အောက်ရွှေကား ပုဆိုး (၇) ထပ် လွှမ်း၏။ ပုဆိုးထက်ကား ရွှေကျက်တငိုယ်ခတ်၏။ ရွှေ ၃၀ သွန်းသော ရွှေပုရား ၁ ခု၊ ငွေ ၅၀ သွန်းသော ငွေ ပုရားတခု၊ ကျောက်ဖြူပြု၍ ရွှေရည်ရေးသော ပုရားတခု၊ ရွှေထီး ငွေထီးတို့လည်းဆောင်း၏။ ထိုသို့သော အထူးထူးသဖြင့် ပြု၍ ဌာပနာ၏။ ကူတွင်ကား ပုရားသွိင် ဆင်းတု လေးမျက်နှာပြု၍ ရတနာတိတောက်ပဆန်းကြယ်စေ၏။ကူအရံတွင်နှိုက်ကားများစွာသော ပုရားဆင်းတုလည်း ပြု၏။ ဇာတ်ငါးရာလည်း အတင့်အတယ်ရေး၏။ ကူထွတ်တန်ဆာ ပန်ထျန်လက်တွင် ချိန်ပေး၍ ခုတ်သော ကြေးကား ၄၇ ဗိသာ ၈ ဗိုဟ် ၄ ကျပ်ခုတ်သော ယုတ်သောကြေးကား ၇ ပိသာ ၉ ကျပ် အပြီးခံသော ကြေးကား ဗိသာ ၄၀ ၇ ဗိုဟ် ၅ ကျပ်၊ ရွှေသားဝင်သော ၇၉ ကျပ် ၃ မတ်၊ ပြထားရည်ကား ၁၅၉ ကျပ်ဝင်၏။ ဤယ်သို့သော ရတနာဖြင့် ကူထွတ်ကို တောက်ပစေ၏။ ပိဋကတ် သုံးပုံသော တရားအပုံလည်းပြု၏။ တရားနာအံ့သော ပရိသတ်တကာ စည်းဝေးစိမ့်သောငှါ ကျောက်အုတ်တိဖွဲ့သော သာယာစွာသော ဓမ္မာသာလည်းပြု၏။ တရားဟောရာ ရွှေပလ္လင်လည်း ပြု၏။ ပလ္လင်ထက်ကား ရွှေထီးလည်းဆောက်၏။ အထက်ဖြင့်ကား ပိတာန်လည်းဆင်၏။ နိရဗန်ကိုလိုသော သူတော်တကာတို့ ဆုမ္ဗခံစိမ့်သောငှါ သွိင်ထေရ်နေရာ သာယာစွာသော ကျောင်းကြီးလည်းပြု၏။ တန်တိုင်းတထပ်သော အပဝန်းကျင်ကား သာသနာကိုချစ်၍ သတင်းကျင့်သော သွိင်အရိယာတို့ နေစိမ့်သောငှါများစွာသော ကျောင်းလည်း အစဉ်ပြု၏။ သွိင်အရိယာတို့

ရေချမ်းသာစိမ့်သောငှါ အုတ်တိဖွဲ့သောရေတွင်းလည်း တူး၏။ အုတ်ဖွဲ့သော ၄ ထောင့်ကန်လည်း တူး၏။ အရှေ့ဖြင့်ကား ကန်ကြီးလည်း ၂ ဆင့်တူး၏။ ရေဝင်စိမ့်သောငှါ ပြွန်နှင့် တလားလည်းအတင့်အတယ်ပြု၏။ ရေကန်အပါးဝန်းကျင်တွင်ကား ဥယျာဉ်လည်း စိုက်၏။ ထိုကျောင်းအပကား လေးမျက်နှာ လာလာသော သူတော်တကာ နေသော အိပ်သော ရပ်သော အလိုချိမ့်သောငှါ တင့်တယ်စွာသောတန်တိုင်းတွင်ရပ်အထူးထူးသဖြင့် ဆန်းကြယ်ထလျက်သော သာယာစွာသော တန်ဆောင်းကြီးလည်း ပြု၏။ ထိုအနောက်ဖြင့်ကား အလှူပေးလိုသော သူတော်တို့ အလှူပေးစိမ့်သောငှါ မြဲမြံစွာသော အုတ်စရပ်လည်း ပြု၏။ ဤယင်ငါ့ကျောင်းနှိုက်ရှိသော ပုရားတရားသင်္ဃာတို့ ချမ်းသာစိမ့်သောငှါ ပြည်အစနှိုက်ကား အုတ်နှင့် မြဲမြံစွာဖွဲ့သော ကပ္ပိယ ကုဋိလည်းပြု၏။ အလုပ်အကျွေးလည်း များစွာထားပေ၏။ လေးမျက်နှာ လာလာသော သူတို့ ရေအလိုချိမ့်သောငှါ အုတ်နှင့် မြဲမြံစွာဖွဲ့သော ရေတွင်းလည်း တူး၏။ ဤယ်မျှသော အနှစ်မောင်နှံ့ပြုသော ကောင်းမှုခပ်သိမ်းကား သာသနာအနှစ် ၅၀၀၀ မြောက်အောင် တည်ရ စိမ့်သောငှါ အစီအရင် များစွာ ပြုသတည်း။' ဤမျှ ခမ်းနားဆန်းကြယ်သော အဆောက်အအုံ အစီအရင်တို့ကို ထောက်ရှုသော်၊ ပုဂံပြည်သည် မည်မျှ စည်ပင်သာယာ ဝပြောချမ်းသာလျက် ရှိသည်ကို သိနိုင်၏။

ကျောက်ခေါ် တွင် မဟုတ်ဘဲ၊ ဘုရားနံရံတွင် ရေးသားသော မင်စာများလည်း ရှိကြသေး၏။ ဤကဲ့သို့သော မင်စာများကို ယခုဆက်တိုင် အမြောက်အမြား တွေ့နိုင်သေးသည်။ မင်စာတို့ဖြင့် အထူးဖော်ပြသည့် အကြောင်းအရာများကား၊ ဂေါတမ မြတ်စွာဘုရား၏ ဘုရားမဖြစ်မီနှင့် ဖြစ်ပြီး အတ္တုပ္ပတ္တိ၊ ရဟန္တာများ၏ ရှေးရှေးဘဝ အတ္တုပ္ပတ္တိ၊ နှစ်ကျိပ်ရှစ်ဆူသော ဘုရားတို့၏ ဗျာဒိတ်ခံနန်းနှင့် ဗောဓိပင်၊ ၅၅၀ ဇာတ်ဝတ္ထု၊ အထူးသဖြင့် ဇာတ်တော်ကြီး ၁၀ ဆောင်၊ ကိုဋိပူရဠ္ဌ သီတင်းသုံးနေသော ရှင်ဓမ္မပါလရေးသည့် ဝိမာနဝတ္ထု၊ သုတ္တန်အမျိုးမျိုး ဟောကြားခြင်း၊သီရိဓမ္မာသောကမင်း အတ္တုပ္ပတ္တိနှင့် သီဟိုဠ်ကျွန်းသို့ ရှင်မဟိန္ဒ ကြွရောက်သည့် အကြောင်းအရာများ ဖြစ်သည်။

သက္ကရာဇ် ၅၇၂ ရေး ဘုရား ရပ်စောက်မင်စာ၌ 'ပိဋကတ် အဦး သီလခန်ဓဝါသီတစ်ကျမ်း၊ အဘိဓမ္မသင်္ဂြိုဟ်တစ်ကျမ်း၊ တဿဇာတ်တစ်ကျမ်း၊ ခမ္မပဒဘာဇ်ကျမ်း ဝိနည်းတစ်ပုဲလည်း ပြုခဲ့ဖူး၏'ဟူ၍ အချို့သော ပိဋကတ်ကျမ်းတို့ကို အမည်ဖြင့် ဖော်ပြထား၏။

ပုဂံပြည် ကြီးကျယ် ခမ်းနားစဉ်အခါက ထိုးစိုက်ခဲ့သော ကျောက်စာများသည် ရာပေါင်းများစွာရှိ၏။ ခရစ် ၁၁၁၂ ခုနှစ်လောက်တွင် ရေးထိုးသော မြစေတီဘုရား ကျောက်စာ၌ မြန်မာအပြင်၊ ပျူ၊ ပါဠိ၊ မွန်ဘာသာတို့ကို တွေ့ရ၏။ ပျူဘာသာသည် သရေခေတ္တရာပြည်၌ ထင်ရှား၍၊ ပုဂံခေတ်တွင်ပင် တိမ်ကောသွားလေပြီ။ ကျန်သုံးဘာသာတို့တွင် ပါဠိသည် မဇ္ဈိမ ဒေသတွင် ခရစ်မပေါ်မီ နှစ်ပေါင်း ၅၀၀ လောက်က ထင်ရှားသော ဗုဒ္ဓသာသနာဆိုင်ရာ ပိဋကတ်သုံးပုံကို ရေးသော ဘာသာဖြစ်သည်။ ရှေးအကျဆုံး မွန်စာကို ဂ ရာစုနှစ် နောက်ပိုင်းတွင် အယုဓျမြောက်ဖက် လောဗ္ဗုရိ(လဝပုရ)၌ရေးထိုးသော ကျောက်စာများတွင် ဖတ်ရသည်။ အများအားဖြင့် အနော်ရထာမင်း လက်ထက်မှစ၍ နရပတိ စည်သူဟုခေါ်သော ဒုတိယ စည်သူ၏ လက်ထက်အထိ ရေးထိုးကြသော ကျောက်စာများအနက် ကျန်စစ်သား၏ ကျောက်စာများသည် မွန်ဘာသာနှင့်ရှိ၍၊ အလောင်းစည်သူခေါ် သော ပဌမ စည်သူ၏ ကျောက်စာများမှာ ပါဠိဘာသာနှင့် ရှိလေသည်။ ဒုတိယ စည်သူ၏ လက်ထက်မှစ၍သာ မြန်မာဘာသာ ကျောက်စာ အမြောက်အမြား ပေါ် ပေါက်လာကြလေသည်။ ဤအချက်ကို ထောက်ရှုခြင်းအားဖြင့် ပေါ် ပေါက်စဖြစ်သော မြန်မာစာ အရေးအသားသည် ရှေးကျသော ပါဠိ မွန်ဘာသာတို့မှ ကောင်းနိုးရာရာတို့ကို ခံယူကာ တဖြည်းဖြည်း တိုးတက်လာကြောင်း သိရသည်။

မြန်မာစာပေ၏ အုတ်မြစ်သဖွယ် သာမက၊ မြန်မာယဉ်ကျေးမှု၏ ကြေးမုံသဖွယ်ဖြစ်သော ပုဂံကျောက်စာများကိုနဂိုအကွာရာ ပေါ် အောင်၊ အောက်စဖို့ တက္ကသိုလ် စာပုံနှိပ်တိုက်၌ စက်တင် ပုံနှိပ်၍၊ နိုင်ငံခြားရှိ ပိဋကတ်တိုက်များသို့ ရန်ကုန်တက္ကသိုလ်က ဝေငှထားသည်မှာ အားရစရာ ကောင်းလှပေသည်။

ဦးဖေမောင်တင်

**ပုဂံခေတ်ဥဿာပဲကူတိုက်ပွဲ။** ။ပုဂံခေတ်တွင်ဥဿာပဲကူ တိုက်ပွဲဟူ၍ ဘုရင်နှစ်ပါး လက်ထက်၌ တိုက်ပွဲ ၂ ကြိမ် ဖြစ်ပွားခဲ့သည်။ ပဌမ ဥဿာပဲကူ တိုက်ပွဲသည် အနော်ရထာမင်း လက်ထက်တွင် ဖြစ်ပွား၍၊ ဒုတိယ ဥဿာပဲကူ တိုက်ပွဲသည် သားတော်စောလူးမင်း လက်ထက်တွင် ဖြစ်ပွားသည်။

အနော်ရထာမင်း၏ လက်ထက်တွင် ဖြစ်ပွားသော ဥဿာပဲကူ တိုက်ပွဲမှာ ဥဿာပဲကူသို့ ဂျွမ်းစစ်သည်များ ချီလာ၍၊ ဥဿာမင်းက အနော်ရထာ မင်းထံ စစ်ကူ တောင်းခြင်းကို အကြောင်းပြုသည်။

ဥဿာမင်းက စစ်ကူတောင်းသည့်အခါ အနော်ရထာမင်းလည်း မြင်းသည်ကောင်း လေးသိန်း စစ်ကူလာလိမ့်မည်ဟု မိန့်တော်မူလိုက်ကာ ကျန်စစ်သား၊ ငထွေးရူး၊ ငလုံးလက်ဖယ်၊ ညောင်းဦးဘီး သူရဲကောင်း လေးယောက်တို့ကို နတ်၏ တန်ဆာကဲ့သို့သော တန်ဆာကို ဝတ်ဆင်စေ၍ အလုပ်အကျွေး ကုလားခြေလျင် ရှစ်ကျိပ်နှင့်အတူ ဥဿာပဲကူသို့ စစ်ကူစေလွှတ် လိုက်လေသည်။

ဥဿာမင်းလည်း မြင်းသည်လေးသိန်း လွှတ်မည် ဆိုပါလျက် မြင်းလေးစီးသာ ရောက်လာသည်ဟု စိတ်မသက်မသာရှိစဉ် နတ်မြင်းသည် လေးစီးသားတို့သည် သူတို့၏ လုပ်ရည် ကြံရည်



ပုဂံမြို့ သာရဗာတံခါး

တို့ကို သခွါးယာ အစရှိသည်တို့၌ ပြုကြရာ မင်းနှင့်တကွ လူအပေါင်းတို့ အံ့ဩချီးမွမ်းကြကုန်၏။ ဆင်လုံး မြင်းရင်းနှင့် တကွ များစွာသော ဂျွမ်းစစ်သည်တို့ ရောက်လာသောအခါ သူရဲကောင်း လေးယောက်တို့သည် ဂျွမ်းစစ်သည်တို့ လေးစုကွဲအောင် အလယ်ထွင်း၍ တိုက်သည်။ ဂျွမ်းစစ်သည်တို့လည်း လေးစုကွဲကာ ပရမ်းပတာ ပြေးသည်။ ထိုအခါ သူရဲကောင်း လေးယောက်သည် အောက်ဖြုရံ၊ အောက်ဖြုရဲ၊ အောက်ဖြုဘုံ၊ အောက်ဖြုပိုက် အမည် အသီးအသီး ရှိသော ဂျွမ်းစစ်သူကြီး လေးယောက်ကို ဖမ်းယူ၍ ဥဿာမင်းအား ဆက်သည်။

ဥဿာမင်းလည်း လွန်စွာ နှစ်ထောင်းအားရသည် ဖြစ်၍ သူရဲကောင်း လေးယောက်တို့အား ကြီးစွာသော ဆုလပ်သပ်ပကာပေးသည်။ သူရဲကောင်း လေးယောက်တို့၏ အရှင် အနော်ရထာမင်းအားလည်း ဥဿာမင်းအဆက်ဆက်တို့ ရွှေကြုပ်တွင်ထည့်၍ ကိုးကွယ်သော ဓာတ်တော်ကို ဆက်သည်။ ထို့အပြင် ဥဿာမင်းသည် မိမိ၏ ချစ်စွာသော ရွှေအဆင်းကဲ့သို့ရှိသော ခြသေ့ရုပ် အလေးမျှသာရှိသည့် သမီးတော် မဏိစန္ဒာကိုလည်း အနော်ရထာမင်းအား ဆက်လေသည်။

စောလူးမင်း၏ လက်ထက်တွင် ဖြစ်ပွားသော ဥဿာပဲကူတိုက်ပွဲကား စောလူးမင်းအား အထိန်းတော်သား ဥဿာပဲကူစား ငရမာန်ကန်းက တော်လှန်ပုန်ကန်ရာမှ စတင်ဖြစ်ပွားခဲ့သည်။ (စောလူးမင်း။ ငရမာန်ကန်း — ရှု။)

ငရမာန်ကန်း၏ တပ်များသည် ပုဂံသို့ ချီလာ၍ ပြည်တော်သာကျွန်းသို့ရောက်သော် စောလူးမင်း၏ တပ်များနှင့် စစ်တွေ့ကြရာ စောလူးမင်း အရေးနိမ့်သောကြောင့်၊ ငရမာန်ကန်းလည်း စောလူးမင်းကို ဖမ်းယူသွားလေသည်။ နောင်အခါ၌ စောလူးမင်းအား ကျန်စစ်သား ခိုးယူရန်အားထုတ်သော်လည်း မအောင်မြင်ချေ။ ထို့နောက် ငရမာန်ကန်းလည်း အနုရာဓအရပ်၌ စောလူးမင်းကို ကွပ်မျက်လိုက်လေသည်။ စောလူးမင်းလွန်သော် ကျန်စစ်သားသည် ငရမာန်ကန်း၏ ရန်ကို နှိမ်နင်းခဲ့ရာ၊ မွန်၊ မြန်မာ၊ ပျူတို့၏ ပုဂံနိုင်ငံတော်ကြီးလည်း ပြိုကွဲခြင်း အန္တရာယ်မှ လွတ်မြောက်ခဲ့ရလေသည်။

**ပုဂံမြို့။** ။မြင်းခြံခရိုင်အတွင်း မြင်းခြံမြို့တောင်ဖက်၊ ဧရာဝတီမြစ်၏ အရှေ့ဖက်ကမ်းပေါ်တွင် တည်ရှိသော ပုဂံမြို့သည် မြန်မာနိုင်ငံ သမိုင်းတွင် ပုဂံမင်းဆက်တို့၏ ထီးနန်းစိုက်ရာ နေပြည်တော်ကြီးဖြစ်ခဲ့သည်။ ပုဂံ မြို့ဟောင်းကား ၁၆ စတုရန်းမိုင် ကျယ်သည်။

ပုဂံရာဇဝင်ကိုပြောလျှင် တုတ်ထမ်း၍ ပြောရသည်ဟူသော စကားနှင့်အညီပင် ပုဂံရာဇဝင်သည် ရှုပ်ထွေးလျက် ရှိသည်။ မှန်နန်းရာဇဝင်အရ ပုဂံမြို့ကို စတင် တည်ထောင်သူမှာ သမုဒ္ဒရာဇ်မင်းဖြစ်၍ သက္ကရာဇ် ခ ဆ ပဉ္စကိန်းဝင် ၂၈ ခု နှစ်တွင် ယုန်လွတ်ကျွန်းအရပ်၌ တည်ထောင်သည်ဟု ဆိုသည်။ သမုဒ္ဒရာဇ်မင်းသည် သရေခေတ္တရာမင်းဆက် နောက်ဆုံးမင်း၏ တူတော် ဖြစ်သည်။ သမုဒ္ဒရာဇ် စုစည်း၍ မြို့တည်ထောင်သော ရွာပေါင်း ၁၉ ရွာမှာလည်း ပျူရွာများဖြစ်သည်။ ထို့ကြောင့် ထိုမြို့တော်သည် ပူ+ဂါမ (ပျူတို့၏ဒေသ)ကို စွဲ၍ ပုဂံဖြစ်လာသည်ဟု ဆိုကြပြန်သည်။ပုဂံမြို့၏ ပါဠိအမည်ကား အရိမဒ္ဒနပူရ (ရန်သူကို ခြေမှုန်းသူမြို့) ဟု ဖြစ်သည်။ မွန်တို့ကမူ ပေါကာမ် သို့မဟုတ် ပုကာမ် သို့မဟုတ် ဗုကာမ်ဟု ရေးသားဖော်ပြလေ့ရှိသည်။ယင်းနေရာတွင် အနှစ် ၂၃၀ ကျော်မြို့တော်ဖြစ်ခဲ့သည်။

သမုဒ္ဒရာဇ်မင်းမှစ၍ ရေတွက်သော် ပုဂံမင်းဆက်၏ ၇ ဆက်မြောက် မင်းဖြစ်သော သေဉ်လည်ကြောင်မင်းသည် ပုဂံမြို့သစ်ကို လောကနန္ဒာ အရပ်၌ ထပ်မံတည်ထောင်၍ သီရိပစ္စယာဟု ခေါ်တွင်စေသည်။ ယင်းရွာသည် ယခု ပုဂံမြို့တောင်ဖက် ကပ်လျက် ရှိလေသည်။ မြို့တည် သက္ကရာဇ်ကို အတိအကျမသိနိုင်သော်လည်း ထိုမင်း၏နန်းသက် (သက္ကရာဇ် ၂၆၆—၃၀၉) ကိုထောက်၍ ၂၆၆ ခုနှစ်ခန့်တွင် တည်ထောင်ဘွယ်ရာရှိသည်။ ယင်းနေရာတွင် အနှစ် ၁၇၀ ကျော် မြို့စိုက်၍ မင်း ၆ ဆက် စိုးစံလေသည်။

သေဉ်လည်ကြောင်မင်း တည်ထောင်ခဲ့သော သီရိပစ္စယာမြို့ကို ပစ်၍ ပုဂံမင်း ၁၂ ဆက်မြောက် သိုက်တိုင်မင်းသည် သမထီးအရပ်၌ မြို့သစ်တည်ပြန်သည်။ ယခု ဖွားစောရွာဟုတွင်သော နေရာတွင် ဖြစ်သည်။ မြို့တော်အမည်ကား တမ္ဗဝတီဖြစ်၍ မြို့တည်သက္ကရာဇ်ကို သေချာစွာ မသိရပေ။ ထိုမင်း၏နန်းတက်သက္ကရာဇ်မှာ ၄၃၇ ခုနှစ် ဖြစ်၍ ၄၃၇ ခုနှစ် ကျော်လောက်တွင် မြို့တည်ဘွယ်ရာ အကြောင်းရှိသည်။

ပုဂံမင်းဆက်၏ ၃၄ ဆက်မြောက်မင်းဖြစ်သော ပျဉ်ပျားမင်းသည် (သက္ကရာဇ် ၂၀၇ – ၂၄၀) ပုပ္ပါးစောရဟန်းဖြို့ပြီး သက္ကရာဇ် ၂၁၁ ခုနှစ်တွင် တမ္ဗာဝတီမြို့မှ ယခု ပုဂံမြို့တည်ရာဒေသသို့ ပြောင်းရွှေ့၍ မြို့သစ် တည်ထောင်သည်။ မြို့တည်သောအခါ ကျုံးပတ်ရံလျက်ရှိသော အုတ်မြို့ရိုးကို ဆောက်၍ တည်သည်။ မြို့ရိုးတွင် တံခါး ၁၂ ခုထားသည်။ မြို့ရိုးအတွင်းတွင် နန်းတော်ဆောက်၍ ရှေး သရေခေတ္တရာမင်း သထုံမင်းတို့ကဲ့သို့ စံလေသည်။ ပျဉ်ပျားမင်း ဆောက်ခဲ့သော အုတ်မြို့ရိုးရှိ သရဖာတံခါးကို ယခုခေတ် ပုဂံမြို့ဟောင်းတွင် ယခုတိုင် တွေ့မြင်နိုင်သေးသည်။ ယင်းမြို့သည် ပုဂံမင်းဆက် ပြတ်သည့်တိုင် နှစ်ပေါင်း ၅၂၀ လုံးလုံး မင်းနေပြည်တော် ဖြစ်ခဲ့သည်။ ပုဂံမြို့သည် အထူးသဖြင့် ၄၂ ဆက်မြောက်မင်းဖြစ်သော အနော်ရထာမင်းစော လက်ထက်တွင် စတင်၍ စည်ကားလာသည်။ အနော်ရထာမင်း ချဲ့ထွင်သော ပုဂံ ဩဇာခံ ဒေသများ၏ မြို့တော် ဖြစ်လာသည်။

ပုဂံပြည် ကောင်းစားစဉ်က ပုဂံပြည်တွင် အိမ်ခြေပေါင်း ၉၉၉၉၉၉၉၉ ရှိလေဟန်ကို (ကိုးကိုးတန် ပုဂံအိမ်ခြေပေါင်း) ဟူ၍၎င်း၊ ရပ်ကွက်တိုင်းတွင် လောကဓမ္မ ရာဇဝတ်ရေး ကိစ္စ

များအတွက် တီးခတ် နှိုးဆော်အပ်သော မောင်းတလုံးစီ ထား ရှိသဖြင့် ရပ်ကွက်ပေါင်း ၃၃၃၃ ရှိလေဟန်ကို ညိုးညိုးညံ့ညံ့ ပုဂံ ဆော်သည့်မောင်းဟူ၍ရှင်း၊ပုဂံတခွင်တွင်စေတီကူဘုရားပေါင်း ၄,၄၄၆,၇၃၃ ဆူ ရှိလေဟန်ကို လှည်းဝင်ရိုးသံ၊ တည်ညံ၊ ပုဂံ ဘုရားပေါင်း ဟူ၍ရှင်း စကား အစဉ်အလာ ရှိလေသည်။ ထို စကားတို့သည် ပုဂံပြည်၏ ဂုဏ်ကို အံ့ဘွယ်သရဲဖြစ်အောင် ဖွဲ့ဆို ထားသော စကားမျှသာ ဖြစ်သည်ဟု ဆိုရန် ရှိပေသည်။ သို့ရာတွင် ယခုဘိုင်လည်း ဘုရားပုထိုး အဆောက်အအုံပေါင်း ၅၀၀၀ ခန့်အထိ တွေ့နိုင်သေးရာ ရှေးခေတ် ပုဂံပြည်သည် အကယ်ပင် ကြီးကျယ်ခဲ့သည် ဟူသော အချက်ကို သက်သေ ခံလျက် ရှိသည်။တဖန် ထိုစေတီ ကူဘုရားများရှိ၊ စုလစ်မွန်းချွန် တို့သည်ရင်း၊ ခြူးပန်းခြူးနွယ်တို့သည်ရင်း၊ ရုပ်လုံး ရုပ်ထု ဆေး ရေး ပန်းချီတို့သည်ရင်း ပုဂံခေတ်တွင် မြန်မာတို့၏ ယဉ်ကျေးမှု အဆင့်အတန်း မည်မျှမြင့်တက်နေသည်ကို သာဓက ပြလျက် ရှိ၏။ ပုဂံသူ ပုဂံသားတို့၏ စိတ်ဓာတ်၊ အယူအဆ၊ အုပ်ချုပ်ပုံ စံနစ်တို့ကို ဖော်ပြသော ကျောက်စာပေါင်း မြောက်မြားစွာ လည်း ယခုထက်တိုင် ရှိနေသေးသည်။

ပုဂံ ကောင်းစားစဉ်က ဤမျှ များပြားသော ဘုရားကျောင်း ကန်များကို တည်ဆောက်ခဲ့ကြရသဖြင့် သစ်ကြီး ဝါးကြီးတို့ ပြုန်းတီးကာ ယခုအခါ သဲကန္တာရ တပိုင်းပမာ ဆူးပင်ယော်တို့ သာ ပေါက်ရောက်သော ဒေသ ဖြစ်ရသည်ဟု ဆိုကြသည်။ သို့ရာတွင် ပုဂံဒေသသည် မူလကပင် ချောက်သွေ့သော ဒေသ ဖြစ်သည်။ ရှေးယခင်ကပင် မွန်တို့က ပုဂံနှင့်ပတ်ဝန်းကျင်အရပ် တို့ကို တတ္တဒေသ (ခန်းခြောက်ရာအရပ်)ဟု ခေါ်ဝေါ်ခဲ့ဘူး ပေသည်ကို ထောက်၍ သိသာသည်။ ယင်းသို့ ခန်းခြောက်ရာ ဒေသတွင် မြို့တည်မိသဖြင့်လည်း၊ စိမ်းလန်းစိုပြေ၍ ဆန်စပါး ထွက်သော အခြားဒေသတို့ကို ချဲ့ထွင် သိမ်းပိုက် ရပေသည်။ သက္ကရာဇ် ၄၁၉ ခုနှစ်တွင် မြန်မာပြည်၏ သင်္ဘောဆိပ်မြို့ဖြစ် သော သထုံကို သိမ်းပိုက်ပြီးသဖြင့် ပုဂံသည် အိမ်နီးချင်းနိုင်ငံ ဖြစ်သော အိန္ဒိယ၊ သီဟိုဠ်တို့နှင့် အဆက်အသွယ် ရှိလာသည်။ သီဟိုဠ်ရာဇဝင် ကုလဝံသတွင် ဗုဒ္ဓအယူဝါဒီ ဝိဇယဗာဟုမင်း သည် ကုလဘုံနှင့် စစ်ဖြက်ရာ၌ အနော်ရထာမင်းက ဝိဇယဗာဟု မင်းအား အကူအညီများပေးအပ်ကြောင်းပါရှိလေသည်။

အနော်ရထာမင်း၏နောက် ဆယ်ဆက်မြောက် မင်းဖြစ်သော တရုပ်ပြေးမင်းခေါ် စည်သူခေါ် ပန်းပွတ်ပုထိုး ဒါယကာ၏ လက်ထက် ၆၄၆ ခုနှစ်တွင် တရုပ်စစ်သည်များ ပုဂံမြို့သို့ ချီတက်လာရာ ထိုမင်းသည် ပုသိမ်မြို့တိုင်အောင်ပြေးရသဖြင့် ကြီးကျယ် ခမ်းနားသော ပုဂံမြို့ကြီးသည် တခဏချင်းအခါကာခဲ့ ရသည်။ ထိုမင်းနောက် သက္ကရာဇ် ၇၃၀ အထိ သားတော် မြေးတော် မြစ်တော်ဘိုင် မင်း သုံးဆက် ဆက်လက် မင်းပြု သော်လည်း ပုဂံပြည်ကား တန်ခိုးအာဏာမရှိတော့ချေ။ ထိုအ ခါမှ စ၍ ပုဂံမင်းနေပြည်သည် ရွာဘဝသို့ ဖြစ်ခဲ့ရသည်။

ယခုရှိသော ပုဂံမြို့သည် မြင်းခြံမှ ၄၆ မိုင်ဝေး၍ နွေရာသီ၌ သာ သွားလာနိုင်သော ကားလမ်းဖြင့်ဆက်သွယ်ထားရှိသည်။ ပုဂံမြို့ဆိပ်ကမ်းသည်လည်း သောင်များ ထွန်းနေပြီ ဖြစ်သဖြင့် သင်္ဘောကြီးများ ဆိုက်ကပ်ခြင်း မပြုနိုင် သောကြောင့် ပုဂံမြို့ သည် ကူးသန်းရောင်းဝယ်ရေးအတွက် ညောင်ဦးမြို့မှတဆင့် ပြုလုပ်ရသည်။ ပုဂံမြို့နယ်ဟူ၍ သတ်မှတ်ထားသော်လည်း မြို့ နယ်အုပ်ချုပ်ရေးအရာရှိများသည် ပုဂံမြို့မြောက်ဖက် ၄ မိုင်ခန့် ဝေးသော ညောင်ဦးမြို့၌သာ ရုံးစိုက်ကြသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ပုဂံမြို့၏ လူဦးရေမှာ ၂၇၂၅ ယောက် ရှိသည်။ ကျောက်ကာထည် ယွန်းထည်များ ပြုလုပ်ရောင်းချ ၍ အသက်မွေးကြသည်။ ရှေးဟောင်း ယဉ်ကျေးမှုဆိုင်ရာ စေတီ ကူဘုရား အဆောက်အအုံများကြောင့် ပုဂံမြို့ကား ထင် ရှားလျက် ရှိသည်။ ပြည်ထောင်စု ယဉ်ကျေးမှုဌာနက ပုဂံပွဲ တော် ရက်သတ္တပတ်ဟူ၍ပင် သတ်မှတ်ကာ ရှေးပုဂံအကြောင်း သိကောင်းစရာများကို ဖော်ထုတ်လျက်ရှိသည်။ ပုဂံမြို့တွင် စေတီ ကူဘုရားအဆောက်အအုံများစွာရှိသည့်အနက် ထင်ရှား သည်တို့ကား အာနန္ဒာ၊သဗ္ဗညု၊ရွှေဂူ၊ ဂေါ်တော့ပလ္လင်၊ မဟာ ဗောဓိ၊ ဓမ္မရံကြီး၊ စူဠာမဏိ၊ ထီးလိုမင်းလို၊ ကူပြောက်ကြီး ပုထိုးသမြားစသော ကူဘုရားများနှင့် သမီးဝှက် ဥမင်၊ ကျန်စစ် သား ဥမင်၊ ဥပါလိသိမ်၊ ပိဋကတ်တိုက်စသည်တို့ဖြစ်၏။

ပုစဉ်း။ ။ပုစဉ်းသည်အမျိုးများ၏။တကမ္ဘာလုံးတွင် ပုစဉ်း မျိုးပေါင်း ၂၀၀၀ ကျော်ခန့်ရှိသည်။ ပုစဉ်း၏ အတောင်ပံနှင့် ကိုယ်ထည်တို့သည် ရောင်စုံခြယ်ထားဘိသကဲ့သို့ရှိရ၍၊ များစွာလှ ပ၏။ ပုစဉ်းတွင် ထူးဆန်းသော မျက်လုံးတစုံပါရှိသည်။ ထို မျက်လုံးသည် မျက်စိငယ်ကလေးပေါင်း ၂၀,၀၀၀ ကျော် ၂၅,၀၀၀ မျှဖြင့် ပေါင်းစပ်ထားသော မျက်လုံးဖြစ်သည်။ယင်းသို့ မျက်စိငယ်ကလေးပေါင်း ထောင်သောင်းမကတို့နှင့် ပြည့်နှက် နေသောကြောင့်၊ ပုစဉ်းသည် အလွန် အမြင် ထက်သန်သည်။ အမြင်ထက်သန်သလောက် အတောင်ပံ အားကလည်း စွမ်းလှ ၍၊ တနာရီ မိုင် ၆၀ နှုန်းမျှဖြင့် လျှင်မြန်စွာ ပျံသန်းနိုင်သည်။

ပုစဉ်းတို့သည် အဓိကအားဖြင့် နှစ်မျိုးနှစ်စားကွဲပြားသည်။ ထိုနှစ်မျိုးစလုံးသည် 'အိုးဒိုနေးတား' မျိုးစဉ်ဝင်ချည်းသာဖြစ် ကြသည်။ နားသည့်အခါ အတောင်ပံ မရုပ်ဘဲ နားတတ်သော ပုစဉ်းမျိုးနှင့် အတောင်ပံရုပ်ကာ နားတတ်သော ပုစဉ်းမျိုးဟူ ၍ အကြမ်းအားဖြင့် နှစ်မျိုး ခွဲခြား မှတ်သားနိုင်သည်။

'ဒင်မွားဇဲ' ခေါ် ပုစဉ်းငယ်မျိုးသည် အတောင်ပံကို ရုပ်သိမ်း ၍၊နောက်ကျောတွင် ကပ်ထားလေ့ရှိသည်။ ဤပုစဉ်းမျိုး၌ ရှည်လျားသေးသွယ်သော ကိုယ်ရှိသည်။ အရောင်မှာ အပြာ ရင့်ရောင်၊ အစိမ်းရောင်၊ ကြေးညိုရောင်၊ ကြေးနီရောင်၊ ဖြူ ဆွတ်ဆွတ်အရောင် စသည်ဖြင့် ရောင်စုံရှိသည်။ သေးသွယ် ပါးလျားသော အတောင်ပံ ၄ ခုသည်း ရှိသည်။ တခါတရံ



ဥများကိုရေ၌သာ အုလေ့ရှိသော ပုစဉ်းများ

အတောင်ပံ၌ အဖြူစက်၊ အညိုစက်၊ အပြာစက်ကလေးများပါရှိတတ်သေး၏။ အားကောင်းသော မျက်လုံးများသည် အပြင်ဖက်သို့ ပြူးထွက်ကာ တောက်ပလျက် ရှိသည်။

ပုစဉ်းသည် ရေ၌ အဥအုတတ်သော အကောင်မျိုးဖြစ်၍၊ သူ၏ဘဝမှာ ရေ၌တဝက်၊ ကုန်း၌တဝက် ကျက်စားသော ဘဝဖြစ်သည်။ ဥများကို ရေထဲတွင်သာအုထားတတ်သည်။ ပုစဉ်းကောင် အဖြစ်သို့ မရောက်မခြင်း၊ ပုစဉ်းလောင်းကလေးများသည် ရေထဲဘွင် ၂ နှစ်တန်သည် ၃ နှစ်တန်သည် နေလေ့ရှိကြ၏။ ပုစဉ်းလောင်းကလေးများသည် ရေထဲ၌ ပိုးမွှားတို့ကို စားသောက်၍ အသက်မွေးကြသည်။ တခါတရံ ငါးငယ်ကလေးများကိုပင် ဖမ်းယူ စားသောက်ကြသည်။ ပုစဉ်းလောင်း၏ အောက်နှုတ်ခမ်းမှာ ရှည်လျား၍၊ အဖျားမှာ ဇာကနာကဲ့သို့သော အင်္ဂါတခုပါရှိသည် ။ထိုအင်္ဂါကို ဆန့်ထုတ် လိုက်ခြင်းဖြင့် အစာကို ဖမ်းယူနိုင်သည်။ ထိုအင်္ဂါကို အသုံးမပြုလျှင်၊ ဦးခေါင်းအောက်တွင် လိပ်၍ထားသည်။ အသက်ရှူသောအခါ ပုစဉ်းလောင်းကလေးသည် ရေကို ပါးဟက်မှ စုတ်သွင်း၍၊ ထိုရေမှ အောက်ဆီဂျင်ကို ထုတ်ယူသည်။

**ပုစဉ်းထိုးမြီးပြာ။** ။ပုစဉ်းထိုးမြီးပြာသည်‘မီရေ့ာပိဒီး’မျိုးရင်းတွင် ပါဝင်၍၊ ပါဏဗေဒ အလိုအားဖြင့် ‘မီရေ့ာဖိလစ်ပိုင်နပ် ဖိလစ်ပိုင်နပ်’ ဟုဘွင်သည်။ ထိုငှက်သည် အလျား ၁၂ လက်မ ရှည်သည်။ ရိုးရိုးပုစဉ်းထိုး ငှက်များထက် အရွယ်ပို၍ ကြီးပြီးလျှင်၊ အမြီးနှင့် တင်ပါးတွင် အပြာရောင်ရှိသည်။ ကိုယ်ထည်တခုလုံးသည် အစိမ်းရောင်တွင် ကြေးညိုရောင် သန်း၍နေသည်။ မေးသည် အဝါရောင်ဖြစ်၍၊ လည်ချောင်း၏ အရောင်မှာ ဇော်ဂျီရောင်ဖြစ်သည်။ ပျံသန်းယင်း အော်တတ်သည်။ အသံမှာ သာယာ၍ လေချွန်သံမျိုးဖြစ်သည်။ ထိုငှက်သည် ရေကို နှစ်သက်သဖြင့်၊ အများအားဖြင့် မြစ်များ၊ ချောင်းများနှင့် ထုံးအိုင်များတွင် တွေ့ရတတ်သည်။ ထိုပြင် လယ်တော၌လည်း တွေ့နိုင်သည်။

ပုစဉ်းထိုးမြီးပြာငှက်သည် ဖေဖွာရီလမှ မေလအထိ သားပေါက်သည်။ သားပေါက်ရာ၌ အများအားဖြင့် မြန်မာနိုင်ငံတွင် မြစ်ကမ်းပါးရှိ ဂူလိုဏ်များ၊ မြစ်ကြီးနားမြို့အနီး ဧရာဝတီမြစ်ထဲရှိ ကျွန်းများ၊ ဧရာဝတီ မြစ်ကမ်းတလျှောက်ရှိ ကိုင်းမြေများနှင့် ပင်လယ်ကမ်းရိုး အနီးရှိ သောင်ခုံများ၌ အုပ်လိုက်သားပေါက်လေ့ရှိသည်။

ထိုငှက်ကို အရှေ့တိုင်းဒေသတို့တွင် အနှံ့အပြား တွေ့ရသည်။ မြန်မာနိုင်ငံ အထက်ပိုင်းတွင် မတ်လလယ်မှ ဩဂုတ်လလယ်ထိ တွေ့ရသည်။ မြန်မာနိုင်ငံ အလယ်ပိုင်း (မြင်းခြံ) တွင် သားပေါက်ချိန်မှအပ အတွေ့ရနည်းသည်။ မြန်မာနိုင်ငံ အောက်ပိုင်း၌ ထုံးအိုင်များတွင် ဆောင်းအခါ ထိုငှက်တို့ ကျက်စားနေသည်ကို တွေ့ရတတ်သည်။ ရန်ကုန်မြို့ တဝိုက်၌ အောက်တိုဘာလ ဒုတိယ လဝက်အတွင်း အမြောက်အမြားပျံသန်းသွားကြသည်ကို တွေ့ရတတ်သည်။ ပြည်ခရိုင်၌ မတ်လလယ်လောက်တွင် သားပေါက်ရန် ရောက်ရှိလာပြီးလျှင်၊ စက်တင်ဘာလ သို့မဟုတ် အောက်တိုဘာလတွင် ပျောက်ကွယ်သွားပြန်သည်။ တနင်္သာရီတိုင်း မြောက်ပိုင်း၌ တနှစ်ပတ်လုံးနီးပါး တွေ့ရသော်လည်း၊ တောင်ပိုင်း၌ ဖေဖွာရီ လကုန်လောက်တွင်သာ တွေ့ရသည်။ အိန္ဒိယနိုင်ငံ၌ နွေအခါတွင် မြောက်ဖက်သို့ ရွှေ့ပြောင်း သွားကြပြီးလျှင်၊ ဆောင်းအခါတွင် တောင်ဖက်သို့ ရွှေ့ပြောင်း သွားရောက်ကြသည်ဟု ဆိုသည်။

**ပုစဉ်းထိုးရင်ဝါ။** ။ပုစဉ်းထိုးရင်ဝါသည်‘မီရေ့ာပိဒီး’ မျိုးရင်းတွင် အပါအဝင်ဖြစ်၍၊ ပါဏဗေဒအလိုအားဖြင့် ‘မီရေ့ာလေးချင်နေ့ာလတီ လေးချင် နေ့ာလတီ’ ဟုတွင်၏။မြန်မာနိုင်ငံတွင် တွေ့ရသော ‘မီရေ့ာပိဒီး’ မျိုးရင်းထဲတွင် ပုစဉ်းထိုးရင်ဝါသည် အလှဆုံးသော ငှက်ဖြစ်သည်။ ထိုငှက်၏ ဦးခေါင်းထိပ်နှင့် ကျော အပေါ်ပိုင်းသည် တောက်ပသော ဇော်ဂျီရောင်ဖြစ်၍၊ မေးစေ့နှင့် လည်ပင်းသည် အဝါရောင်ဖြစ်သည်။ ငှက်ဖိုနှင့် ငှက်မတို့သည် ဆင်တူကြ၏။ တင်ပိုင်းနှင့် အမြီးပိုင်းသည် အပြာဖျော့ရောင်ဖြစ်သည်။ ထိုငှက်သည် တောနေငှက် ဖြစ်သည်။ အလျား ၇½ လက်မရှိ၏။

ပုစဉ်းထိုးရင်ဝါသည် ပျံသန်းယင်း သာယာစွာမကြာခဏ အော်တတ်သည်။ ထိုငှက်ကို ပဲခူးရိုးမရှိ ကျွန်းတောများတွင် တွေ့ရတတ်သည်။ သစ်တောလမ်း တလျှောက် သွယ်ထားသော ကြေးနန်းကြိုးများပေါ် တွင် နားလေ့ရှိသည်ကို ခဏခဏ တွေ့ရသည်။ ထိုပြင် တောတွင်းရှိ လူသွား လမ်းပေါ်တွင် ကျနေရစ်သော သစ်စေ့ ဆန်စေ့များကို ကောက်ယူရန်အလို့ငှါ စုရုံး၍ နေသည်ကိုလည်း တွေ့ရတတ်၏။ တိမ်ညင်းငှက်များကဲ့သို့ ရေငုပ်တတ်သည်ဟုလည်း ဆိုကြသည်။ လိပ်ပြာများကို ဖမ်းယူ စားသောက်တတ်၏။ သို့သော် လိပ်ပြာ၏ အတောင်များကိုမူ မစားချေ။

ပုစဉ်းထိုးရင်ဝါသည် တောင်ပေါ်တွင်သာ သားပေါက်မြဲဖြစ်၏။ သာမန်အားဖြင့် ရာသီအလိုက် နေရပ်ပြောင်းရွှေ့တတ်၏။ သို့သော် အချို့တို့သည် ဆောင်းခို၍ နေတတ်ကြသည်ကိုတွေ့ရ၏။ သာဓကအားဖြင့် ပဲခူးရိုးမနှင့် လှော်ကားကန် နယ်မြေတို့တွင် ပုစဉ်းထိုး ရင်ဝါတို့သည် ဆောင်းခိုမြဲဖြစ်သည်။

**ပုစဉ်းရင်ကွဲ။** ။စီကားဒါးခေါ် ပုစဉ်းရင်ကွဲသည် 'ဟိမစ်တာရာ' မျိုးစဉ်၌ ပါဝင်သည်။ အမေရိကန် ပြည်ထောင်စုတွင်တွေ့ရသော ပုစဉ်းရင်ကွဲတမျိုးသည် ၁၇ နှစ်ကြာလျှင် တကြိမ်၊ အအုပ်အသင်းဖွဲ့၍ ပေါ်ပေါက် လာတတ်သည်။ ထိုပိုးကောင်မျိုးသည် အမိဝမ်းမှ ဥအဖြစ်ဖြင့် ပေါက်ပွားပြီးနောက်၊ ၁၆ နှစ် ပြည့်မြောက်၍ ၁၇ နှစ်သို့ ဝင်မှသာလျှင်၊ အရွယ် ရောက်သည်။ အရွယ် မရောက်မခြင်း မြေထဲတွင် အောင်းနေပြီးလျှင်၊အရွယ်ရောက်သည်နှင့်တပြိုင်နက်၊ မြေထဲမှ ထွက်လာလေသည်။ ထိုနောက် နေရောင်ခြည်တွင်ရက်သတ္တပါးပတ်မျှ ပျော်မြူး၍နေပြီးလျှင် သေဆုံးလေသည်။



အသံမပြတ် အော်မြည်လေ့ရှိသော ပုစဉ်းရင်ကွဲ

ပုစဉ်းရင်ကွဲတို့ အရွယ် ရောက်လာပုံမှာ ဤသို့ဖြစ်၏။ ပုစဉ်းရင်ကွဲလောင်းများသည် သစ်ပင်အကိုင်းထက်ရှိဥများမှပေါက်ပွား၍၊ မြေသို့ ကျရောက်ကြသည်။ ထိုနောက် မြေကြီးထဲသို့ ထွင်းဖောက် ဝင်သွားပြီးလျှင်၊ မြေအောက်ရှိ သစ်ပင် အမြစ်မွှာများတွင် တွယ်ကပ်၍ နေကြသည်။ ဤနေရာ၌ အပင်ရည်ကို စုတ်ယူကာ ၊ မလှုပ်မရှက် ၁၇ နှစ်ကြာမျှ နေကြသည်။ ထိုနောက် ပုစဉ်းရင်ကွဲလောင်းကလေးများသည် သဘာဝအလျောက်၊ မြေအောက်မှ အလင်းရောင်ရှိရာ မြေကြီးပေါ်သို့ တဖန်ပြန်တက်လာကြသည်။ မြေသို့ရောက်၍ သစ်ပင်ပေါ် သို့ တွယ်တက်ပြီးသော်၊ အရေခွံလဲပစ်လိုက်သည့်အခါတွင် အရွယ်ရောက်သော ပုစဉ်းရင်ကွဲဖြစ်လာသည်။

ပုစဉ်းရင်ကွဲသည် နှံကောင်၊ ကျိင်းကောင်စသော ပိုးမွှားတို့ထက် အတန်ငယ်ကြီး၍၊ သန်မာသော ကိုယ်ထည်ရှိ၏။ နှံကောင်ကဲ့သို့ပင် နားငြီးဖွယ် စူးရှကျယ်လောင်စွာ အော်မြည်တတ်၏။ သို့သော် ပုစဉ်းရင်ကွဲအမသည် မအော်တတ်ချေ။ ပုစဉ်းရင်ကွဲအဖိုသာလျှင် အော်တတ်သည်။ ပူအိုက်သောတိုင်းပြည်များတွင် သက်တမ်းတိုသော ပုစဉ်းရင်ကွဲများကို တွေ့ရသည်။

# မြန်မာစာပေလောကတွင် ကျော်ကြားသည့်စာဆို

**စလေဦးပုညသည် မြန်မာစာပေလောကတွင် ထင်ရှားကျော်ကြားသော စာဆိုတဦးဖြစ်သည်။ စာပေမျိုးစုံ ရေးသားခဲ့၍၊ ဇာတ်ဥာဏ် ထက်သန်မှု၊ ဟာသဂုဏ်မြောက်မှု စသည်တို့အတွက် လူကြိုက်များသည်။ ထိုမျှကျော်ကြားသော စာဆိုသည် နောက်ဆုံး၌ အကုသိုလ်ဝင်လာသည့်အခါ ပျက်စီးရချေသည်။**

**ပုညာ၊ဦး၊စလေ။** ။'စာမကုံးချင်ဘူးလုံးလုံးကြီး စိတ်နာ၊ ခုအခါ တို့သူငါ သေအောင်ကောင်းစေတော့၊ ရှေးကြောင်းရင်း ကုသိုလ်ဖန်၊ နိုင်ငံမှာ ကိုပုညတဲ့၊ သူမှသာ စာပြောင်၊ ပြည်ဘောင် အံ့တဲ့မင်းပလေး' ဟူ၍ အချုပ်တန်း ဆရာဖေကဲ့သို့သော အခြား ကဗျာဆရာများက မနာလို ဖြစ်ကာ ရေးရသည် အထိ ကျော်ကြားသူကား ကုန်းဘောင်ခေတ် ဒုတိယပိုင်း စာဆိုကျော် စလေ ဦးပုည ဖြစ်သည်။

ဦးပုညကို စလေမြို့ တိုက်စုရပ်၌ ၁၁၇၄ ခုနှစ် ကဆုန်လဆန်း ၁၃ ရက် ကြာသပတေးနေ့တွင်ဖွားမြင်သည်။ ဦးပုည မွေးဖွားသော သက္ကရာဇ်မှာ အမှတ်အသား မညီကြ။ အချို့က ၁၁၇၃ ခု၊ အချို့က ၁၁၇၈ ခု ဟူ၍ ပြောဆို ကွဲပြားကြသည်။ ဦးပုည၏ အဖမှာ စလေမြို့ သူကြီးရိုး ပုညသမန်းမျိုး ဦးမြတ်ထွား ဖြစ်သည်။ အမိမှာ ဒေါ်ဆုံတည်း။ မိဖမည်ရည်နှင့် စပ်လျဉ်း၍လည်း အမျိုးမျိုး ကွဲပြား

လျက် ရှိသည်။ ဦးပုည၏ ငယ်မည်မှာ မောင်ပုတ်စည် ဖြစ်သည်။ ယင်းအမည်ကို သာယာဝတီမင်းက ပေးသည်ဟု အဆိုရှိသည်။ ဦးပုည၏ ကန့်ကူလက်လှည့် ငယ်ဆရာကား တူမောင်းဆရာတော် ဦးဒီပ၊ စလေမြို့မ ခင်ကြီးစ တို့တည်း။ စလေခင်ကြီးသာ၊ ပုဂံ ရွှေကျောင်းနေ ဒလ ခင်ကြီး အမရပူရ ဗန်းမော် ဆရာတော်တို့သည် ဦးပုည၏ ကြီးဆရာများ ဖြစ်သည်။

အသက် ၈ နှစ် အရွယ်တွင် မောင်ပုတ်စည်သည် စလေတွင် ရှင်ပြုပြီးနောက်၊ ဗန်းမော် ဆရာတော်ထံတွင် ပညာဆည်းပူးသည်။ ရှင်ငယ်အဖြစ်နှင့်ပင် ပိဋကတ်၊ ဗေဒင်၊ သက္ကတကျမ်းတို့ကို တတ်ခြင်း၊ စာရေးစာဖတ် ကောင်းခြင်းတို့ကြောင့် ကျော်စောခဲ့သည်။ ရှင်မည်မှာ ရှင်ပုညဘိဇ ဖြစ်သည်။ ယင်းအမည်ကို စွဲ၍ နောင်တွင် ဦးပုညဟု တွင်ခြင်း ဖြစ်သည်။

၁၁၉၄ ခုနှစ်တွင် ဗန်းမော်တိုက်၌ ပဉ္စင်းခံသည်။ ရဟန်း ၅ ဝါ အရတွင် စလေသို့ ဆင်း၍ ကျောင်းထိုင်ရာမှ မိန်းမများက ကဗျာ စပ်ခိုင်းခြင်း၊ ဗေဒင် မေးခြင်း စသည်ဖြင့် ရှုတ်ရှုတ်ထွေးထွေး ဖြစ်၍ လူကဲ့ရဲ့များသည်နှင့် ရန်ကုန်သို့ ဆင်း၍ ဗဟန်းကျောင်းတိုက်တွင် နေလာသည်။ ၁၂၀၀ ပြည့်တွင် အမရပူရသို့ ပြန်၍ ဗန်းမော်တိုက်တွင် နေသည်။ ထိုနှစ်တွင်ပင် သိက္ခာချ၍ ရှင်သာမဏေအဖြစ်နေသည်။

မင်းတုန်းမင်း နန်းတက်၍ အတော် ကြာသောအခါ ရှင်ပုညသည် လူဝတ် လဲခဲ့၏။ ဗန်းမော် ဆရာတော်ကို အကြောင်းပြု၍ အိမ်ရှေ့ ကနောင်မင်းထံ စာဆိုတော်အဖြစ် အမှုထမ်းရွက်ရသည်။ အိမ်ရှေ့မင်းထံ ခစားစဉ် ဦးပုညသည် မြို့ဖွဲ့ နန်းဖွဲ့ ရတု ကဗျာ တေးတျာများ ရေးသားရာ၊ မင်းတရားကြီး နှစ်သက်တော်မူ၍ ညီတော်ထံမှ တောင်းယူပြီးလျှင် အပါး၌ ခစားစေသည်။ ရွှေတိုက်စိုး ဦးကောင်းနှင့် တလှည့်တည်း ဝင်ထွက် ခစားရသည်။ မကြာမီ ပုခန်းမြို့စား ဝန်ကြီးက မ စ လျှောက်ထားသဖြင့် လက်ဖက်ရည်တော် ရာထူးနှင့် မင်းလှ သခ်ယာဘွဲ့ကို ပေးအပ်နှင်းကာ ရွာစည်ရွာကိုလည်း အပိုင်စား ပေးအပ်ခြင်း ခံရသည်။

ဦးပုညသည် မင်းတရား အမိန့်ဖြင့် ၁၂၁၄–၁၅ ခု နှစ်တွင် ယိုးဒယား ဇင်းမယ် နိုင်သည့်အကြောင်းကို ယိုးဒယားနိုင်မော်ကွန်း ဟူ၍ ရေးသား ဆက်သွင်း ရသည်။ အိမ်ရှေ့မင်းက နန်းတွင်းတွင် မိဖုရားအချို့ အကျင့် ဖောက်ပြားနေသည်ကို မင်းကြီး သိစေလို၍ ပဒုမ ဇာတ်ကို ဦးပုညအား ရေးခိုင်းသည်။ ထိုအခါ မိဖုရားတို့က အဖိုးတန်မိန်းမကောင်းများ ရှိသေးသည်ကို ပြလို၍ ဦးပုညအား ဝေဿန္တရာ ဇာတ်ကို ရေးစေသဖြင့် ရေးရပြန်သည်။ မင်းတုန်းမင်းနှင့် ကနောင်မင်းတို့ စိတ်ဝမ်း ကွဲပြားလျက် ရှိနေကြပြီးမှ တဦးနှင့်တဦး အထင်လွဲမှုကြောင့် ဖြစ်ရသည်ကို သိသဖြင့် ရေသည် ပြဇာတ်ကို မင်းတုန်းမင်းက ရေးခိုင်းသဖြင့် ရေးရသည်။ ဤရေသည် ပြဇာတ်သည် ဦးပုညရေးသော ပြဇာတ်များတွင် အကောင်းဆုံး ပြဇာတ်ဟု ဆိုကြသည်။ မင်းတုန်းမင်းတရားကြီး၏ သားတော်များဆိုးသွမ်းသည်ကို ဆုံးမစေရန် အိမ်ရှေ့မင်း၏ ခိုင်းစေချက်အရ ဦးပုညသည် ဝိဇယပြဇာတ်ကို ရေးသည်။ ထိုဝိဇယဇာတ်သည် ဦးပုည အသတ်ခံရစေသော အကြောင်းများထဲတွင် တကြောင်းအဖြစ် ပါဝင်ခဲ့ရသည်။ မင်းတရားကြီး၏ သားတော်များ ဖြစ်သော မြင်ကွန်းမြင်းခုံတိုင် မင်းသား နှစ်ပါး ထကြွ ပုန်ကန်ကြသည်မှာ ဦးပုည ရေးသားသော ဝိဇယပြဇာတ်ကို ဖတ်ရှု အားကျသောကြောင့် ဖြစ်သည်ဟု လျှောက်ထားကြသည်။ထိုအခိုက်တွင် ဦးပုညသည် ထကြွ ပုန်ကန်မှုတွင် အခါပေးဖြစ်သည်ဟု စစ်ချက် မေးချက် ထွက်ပြန်သောကြောင့်၊ မြို့သာမြို့စား မြောက်မြို့ဝန် ဦးသာအိုးထံ အကျယ်ချုပ်ထားသည်။ ထိုစဉ် ဦးသာအိုး၏ မယားငယ် ခင်သုန်နှင့် ရည်ငံမှု ပေါ်ပေါက်သဖြင့် ၁၂၂၈ ခုနှစ် နယုန်လတွင် ဦးသာအိုးက ဦးပုညကို အဆုံးစီရင်လိုက်လေသည်။ နောက်မှ မင်းတရားကြီး သိသောအခါ၊ 'လူကို ခွေးသတ်လေရဲ့' ဟု မိန့်တော်မူသည်ဟု အဆိုရှိသည်။

ဦးပုညသည် မြို့ဝန် ဦးသာအိုးက ရေတွင် ချ၍ သတ်သည်မှာ အမှန် ဖြစ်သော်လည်း ထိုအချိန်က မြို့ဝန်၏ မယားငယ် ခင်သုန်၊ အစ်မ ခင်မှုန်၊ ခင်မှုန်၏ ခင်ပွန်း ကိုသူရနှင့် ပုသိမ် ပွဲစားကြီး ဦးညိုတို့၏ ကယ်ဆယ်မှုကြောင့် မသေဘဲ မော်လမြိုင်ဖက်၌ တိမ်းရှောင်နေယင်း ၁၂၃၇ ခုနှစ်တွင်မှ ကွယ်လွန်သည်ဟု အချို့က အခိုင်အလုံ ဆိုကြသည်။

ဦးပုညသည် အရပ် မနိမ့်မမြင့် အသားလတ် ဖြစ်၍ နှာတံစင်း နဖူးကျယ် ရင်ကားပြီးလျှင် ယာလက်သည် တထောင်ဆစ်မှ လက်ဖျားအထိ သိမ်နေသည်။ ထိုကြောင့် စာရေးသားရာ၌ ဝဲလက်ဖြင့် ရေးသားရသဖြင့် ပုရပိုက်ကို ထောင်လိုက်ထား၍ ရေးရ၏။ လက်ရေးမှာ အလွန် ညီညွတ် လှပသည်။ မင်းတရားကြီးအပါးတွင် ခစားသည့်အခါ သိမ်သော လက်များကို အုပ်မိအောင် အင်္ကျီလက်ရှည်ဝတ်သည်။

ဦးပုညကား မြန်မာစာပေ သမိုင်းတွင် ထူးကဲစွာ ထင်ရှား ကျော်စောသော စာရေး စာဆို ပုဂ္ဂိုလ်ကြီး ဖြစ်သည်။ သူ ရေးသား ပြုစုခဲ့သော စာပေတို့မှာ များရုံမက အမျိုးလည်း စုံသည်။ ဦးပုညသည် မော်ကွန်း ၄ စောင်၊ တရားဟောစာ ၃၀၊ မေတ္တာစာ ၆၀၊ ပြဇာတ် ၈ စောင်၊ တောလားရေလားသပြေလား၊ ဟောကိန်းရကန်၊ ဒွေးချိုးလေးချိုး၊ တေးထပ်၊ သဖြန်၊ ဓမ္မသတ်လင်္ကာ၊ ငိုချင်း၊ မှာ

တမ်း၊ တိုးချင်း၊ သမိုင်း၊ ကျောက်စာသံပိုင်း၊ ချင်း၊ လူး တား၊ ရတု၊ ပုံကြီးသံ၊ လေချင်းတက်သံ၊ လေ့တော်သံ၊ တေးဘွဲ့ ယိုးဒယား စာတမ်း စသည်ဖြင့် လောကီ လောကုတ် ၂ ဖြာသောအကျိုး သက်ရောက်စေသည့် စာပေ မျိုးစုံကို ရေးသားခဲ့သည်။ ဦးပုညသည် ဇာနည်ဉာဏ် ထက်သန်သူဖြစ်သည့်အလျောက် မည်သည့် စာပေကိုမဆို ရက်ရှည်လများ စဉ်းစား မနေရဘဲ ၄-၅-ရက် အတွင်း ပြီး စီးအောင် ရေးတတ်သည်။ ယင်းသို့ လျင်မြန်စွာ ရေးလေ့ ရှိသော်လည်း၊ ဦးပုည၏ စာပေများမှာ ထိမိသည်။ ရှင်း လင်းသည်။ လွမ်းစရာကို လွမ်းစေနိုင်သည်။ ရယ်စရာကို ရယ်နိုင်စေသည်။

ဦးပုည၏ သောကွက် ရွှမ်းကွက်များမှာ အတင်း ကလိ ထိုး၍ ရယ်ရ သောရ ရွှမ်းရသည့် သဘောမဟုတ်။ ပညာ ပါပါနှင့် ရယ်ရ မောရ သောရ ရွှမ်းရသည် ဖြစ်ကြောင်း ကို မိဒ္ဒေသစ်သို့ ပေးသော ဒေါနဆီ မေတ္တာစာတွင်—

''ဒေါနဆီဘဝမှ၊ စုတိမနေ၊ သေလွန်ပြီးလျှင်၊ အထောက် မတန်၊ ရေနံဘဝတွင်၊ ပဋိသန္ဓေ၊ စွဲလာနေသည်ကို၊ ဆရာ လည်း မသိ၊ သတိလည်း မထား၊ ဘုရားတဆူတွင်၊ ကြည် ဖြူစေတနာ၊ သဒ္ဓါစိတ်ပြေး၍၊ ဆီမွှေးပူဇော်မည်အကြံနှင့်၊ ရောင်လျှံတော် မဏိဦးက၊ ဖန်ဘူးကို စောင်း၍၊ လောင်း လိုက်ရာတွင်၊ ရုပ်ရှင်တော် မြတ်စွာလည်း၊ နံ့ရှာတော်မူ လွန်း၍၊ ရွှေခွန်းတော် မတုံ၊ အနိုင်သာ ငုံ့ပြီးလျှင်၊ ရှုံ့၍ ခံတော်မူရှာချေသည်။"

ဟူသော စာပိုဒ်ကို ထောက်၍ သိနိုင်သည်။

အသောဖက်တွင်သာ ဦးပုည စွမ်းသည်မဟုတ်၊ အလွမ်း ဖက်တွင်လည်း စွမ်းကြောင်း—

"မြဆိုင်ပညောင်၊ ရွှေဂူချောင်ဝယ်၊ ဆွေမောင်နှင့်မယ်၊ ကျီဆယ်သမူ၊ ပန်းခိုင်လှူ၍၊ ကယုကယင်၊ ချစ်တို့တင် လျက်၊ ကြင်ကြင်လည်လည်၊ ပျော်ခဲ့ဘူးသည် များကို၊ ကြံစည်စေ့စေ့၊ တစိမ့်စိမ့် အောက်မေ့၍၊ တငွေ့ငွေ့ဆင်ခြင်၊ ပူစကို ငင်မိလျှင်၊ ပုပင်လယ်ရေ၊ လှိုင်းဗောင်ဗင်ဝေသော ကြောင့်၊ မဖြေနိုင် မဆည်နိုင်၊ သည်းစိုင်လောင်ခြစ်၊ ကျ မျက်ရည် ချောင်းဖြစ်အောင်၊ အော်ဟစ်၍ ငိုဆဲတွင်"

ဟူ၍ ဆဒ္ဒန်ဆင်မင်း ဝတ္ထု၌ သုဘဒ္ဒါ မိဖုရားကြီး၏ အဖြစ် ကို ရင်နင့်ဖွယ်ရာ ကောင်းလောက်အောင် လက်စွမ်းပြ ခဲ့ပေသည်။

ဦးပုညသည် သရုပ်ဖော်ရာတွင် ကြည်လင် ပြတ်သား အောင် သရုပ်ဖော်နိုင်စွမ်း ရှိသည်။

'အကာဆူးခက်၊ အင်ဖက်အမိုး၊ ကျူရိုးတိုင်ထူ၊ နေပူ ကြဲကြဲ၊ ဝက်သိုက်ထဲတွင်၊ အဝှဲခေါင်းအုံး၊ အိုးတလုံး ဖျာမရှိ၊ ဘူမိကမ္ဗလာ၊ မြေမွှေရာထက်၊ ချူချာတော်မူ လှသော'

ဟူ၍ ကာကဝလ္လိယ ဝတ္ထုတွင် ဦးပုညက အကွယ်အထောင့် မပါ ရှင်းလင်း ရိုးသားစွာ ဆင်းရဲသားဖွဲ့ကို ဖွဲ့ဆိုခဲ့၏။

စာနုစာယဉ် ရေးရာတွင်လည်း ဦးပုညသည် သူမတူ အောင် ရေးနိုင်ကြောင်းကို—

'မာလာငွေဖော့၊ ခွေလျော့လျော့၊ ကြွေတော့မဲ့ပုံ၊ နုကသိုဏ်းကျ ရှုတိုင်းလှပါတဲ့ မြကြေးမုံ' ဟူသော အဖွဲ့ ကလေးကပင် သက်သေခံနေပေသည်။ ကြမ်းရမည့် နေရာ တွင်လည်း ဦးပုညသည် နှစ်ယောက်မရှိပေ။

'ထောင့်ငါးရာ ကိလေသာ ရွှေတိုက်ကို သော့ရိုက်လို့ ထား၊ ဖွင့်မည့်သူ ပေါ်လာခဲ့လို့၊ အူထဲကယား၊ ဖွားကနဲ ယနေ့၊ ကာလသားများနှင့် ကားကနဲ တွေ့ရင်လ၊ ကြည့် ရော့ဟေ့ မယ်ဒက္ခ၊ ကိလေ တမန်နှင့်၊ လက်ရစ်သံစမ်းလိုက် လို့၊ သွေးဖြန်းဖြန်း ထစေ့မယ်'ဟူ၍ ဝိဇယ ပြဇာတ်၌ ကုဝဏ္ဏာပတ်တိုက်တွင် ကြမ်းပြခဲ့သည်။

စာပြောင်ရေးရာ၌လည်း 'သေးကွက်နှင့် ပင်လယ် နင် တကယ်ထင်လို့၊ သဘင်ဝယ် ယှဉ်မတိုလာနဲ့၊ သခင်တို့ဦးချီ၊ အုန်းမှုတ်လို အနေအစားငယ်က၊ ရွှေဖလား မနိုင်းသင့်ပြီ၊ ဥတနှင့် ပုဇွန်ဆီလို၊ ဒွန်ပြိုပြို ယှဉ်တွဲလို့၊ စပ်ဖဲအတွင်းခါ၊ ရိုးမိုက်တဲ့ဉာဏ်၊ မိုးကြိုးနဲ့ အီးသံလို၊ ခရီးမှန် ကွာလွန်းလှ လေး' ဟူ၍ စကားလုံးပြောင်ပြောင် ဥပမာပေး ပြောင် ပြောင်နှင့် ဦးပုညသည် ခေတ်ပြိုင် စာဆိုများကို လှောင် ပြောင်ခဲ့ပေသည်။

ဦးပုညသည် အသောအလွမ်း၊ အပြောင် အကြမ်းတို့ ၌သာ ရသည်မဟုတ်၊ အတည်အခန့်ဖက်ကလည်း ရသည်။ ဦးပုည ရေးသမျှ မော်ကွန်းတို့အနက် အကောင်းဆုံး ဖြစ် သော ရတနာနဒီ မြစ်တော်ဖွဲ့ မော်ကွန်းသည် တည် ကြည် ခန့်ငြား၍ အထက်တန်းကျလှသည်။ သပြေငါး ရွာစား ကင်းဝန်မင်းကြီး ရေးသော မော်ကွန်းနှင့် ယှဉ်၍ ဖတ်စေတော်မူပြီးနောက် ဦးပုည၏ လက်ရာက ပို၍ သာ ကြောင်းဖြင့် မင်းတုန်းမင်းတရားကြီး ကိုယ်တိုင် မိန့်တော် မူဘူးလေသည်။ ဦးပုညသည် စကား ပရိယာယ် အလွန် ကြွယ်သူ ဖြစ်လေသည်။

ဦးပုည၏ ပြဇာတ်များတွင် အလင်္ကာ တန်ဆာဖြင့် ပြည့်ဝခြင်း၊ စကားအသုံး ယဉ်ကျေးခြင်းတို့ကို တွေ့ရ သည်။ သူ၏ ပြဇာတ်များသည် ကပြရန်ထက် ဖတ်ရှုရန် ပို၍ ကောင်းသည်။ ဇာတ်ကြောင်းဆင်ရာ၌လည်း ဘုရား ဟော ဇာတ်ဝတ္ထုများကို မှီငြမ်းပြု၍ ရေးသည်။

ဦးပုည၏ စာပေများကို ခြုံ၍ကြည့်မူ ဦးပုညသည် ပျော်ပျော်ပါးပါးနေတတ်သူ ဖြစ်ကြောင်း သိရသည်။ လောကကြီးကိုရယ်စရာအဖြစ် ကြည့်ရှုတတ်သည်။ ဟာသ ဉာဏ်ရှင်သည်။ သို့ရာတွင် သူသတ်တို့ လက်တွင်းရောက်မှ သူရေးသားသော ''ဟုတ်ပလေ နှုတ်ချေဟရမှာဖြင့်၊ ပုဗ္ဗေစ

ထင်ရဲလေ၊ ကောသလငယ်တို့၊ ဘဝအသရေ လျှမ်းပါတဲ့၊ ရွှေနန်းစံ ရာနရိမ်မှ၊ ခါချိန်တန် ပျက်စမြဲဟာမို့၊ စွဲမိသံဝေ။ ။အကုသိုလ် ဃာတကတ်ရယ်က၊ အခုလို လာလို့ဖြတ်တာကြောင့်၊ ဇရပ်သို့ ပြေးရလေ၊ ခွေးသေသို့ သေရပြား။ ။သိလျက်နှင့်ပင် ဝိပါက် တကယ်ထင်လို့၊ ရွှေဥာဏ်ရင် မဝေခွဲနိုင်ကာ၊ ပွဲတွေအမှား။''ဟူသည့် လေးဆစ်သဖြန့်ဦးကဲ့သို့ အကုသိုလ် ဝင်လာသည့်အခါ နောက်ဆုံး၌ ပျက်စီးရချေသည်။

**ပုတတ်စာ။** ။မြန်မာနိုင်ငံ၌ ဆောင်းရာသီ ဟင်းသီးဟင်းရွက်မျိုး ဖြစ်သည်။ ဟင်းသီးဟင်းရွက်ဟု ဆိုရသော်လည်း စင်စစ် ပုတတ်စာသည် ပန်းခက် ဖြစ်သည်။ ပင်တိရွက်စိမ်း မရှိဘဲ တရှိန်တည်း မြေပြင်မှ ထွက်၍ အပွင့် ပွင့်သည်။ ပွင့်သည့်အခါ မှိုကဲ့သို့ တနေရာတည်းတွင် အများအပြား ပွင့်တတ်သည်။ အပွင့်တိုသည် သုံးလက်မခန့် ရှည်သည်။ ချင်းပင်ကဲ့သို့ ဥအတက် ရှိသည်။ ဇင်ဂျီဗာရေးစီးမျိုးရင်းဝင် ဖြစ်၍၊ ရုက္ခဗေဒ အမည်အားဖြင့် ကင်ဖီးရီးယားကန်ဒီတာဟု ခေါ်သည်။ မြန်မာနိုင်ငံ အောက်ပိုင်းကုန်းဖက်ကျသော ဒေသများနှင့် ရှမ်းကုန်းပြင်မြင့်တွင် အလေ့ကျ ပေါက်ရောက်လေ့ ရှိသည်။ ယင်းသို့ အလေ့ကျပေါက်သည်များကို ဆွတ်ခူးတင်ပို့ ရောင်းချကြလေသည်။

ရုက္ခဗေဒ အလိုအားဖြင့် ပုတတ်စာပင်ကို ပင်မဲ့ပန်းခက်ဟု ဆိုသည်။ ပန်းခက် တခုလျှင် ပန်းပွင့် ခြောက်ပွင့်မှ ရှစ်ပွင့်အထိ ပါတတ်သည်။ ပွင့်ချပ်အုံ အစိတ်အပိုင်းတို့သည် လုံ့စွပ်ပုံရှိသည်။ လှပသောအပွင့်တို့သည် အဖြူရောင်ဖြစ်သော်လည်း အလယ်တွင် အဝါရောင် အတန်ငယ် စွက်သည်။ သင်းပျံ့သောအနံ့ ရှိလေသည်။

ပုတတ်စာကို ဟင်းချို၊ ဟင်းခါး ချက်၍ရင်း၊ ရေနွေးဖြော့ပြီးလျှင် အတို့အဖြစ်ရင်း သုံးဆောင်ကြသည်။ ပုတတ်စာဥကို ထန်းလျက်နှင့်ရော၍ ကလေးများ သံချဆေးအဖြစ်သုံးစွဲကြလေသည်။

**ပုထိုးတော်ကြီး(အမရပူရ)။** ။ဘွဲ့တော်မှာမဟာဝိဇယရံသီ ဖြစ်သည်။ သို့သော် စည်းခုံတော် ပုထိုးတော်ကြီး နာမံတော်ဖြင့် ပို၍ လူသိများသည်။ ယင်း စေတီတော်ကြီးကို စစ်ကိုင်းမင်း အမည်ခံ မှန်နန်းရှင် ဘကြီးတော်မင်း တည်ထား ကိုးကွယ်၍၊ အမရပူရ အနောက်တောင်ထောင့်တွင် တည်ရှိလေသည်။

စစ်ကိုင်းမင်းသည် ဘိုးတော် ဗဒုံမင်း၏ ရိုက်ရာကို ဆက်ခံရသည်နှင့် တပြိုင်နက် ရှေး ဘေးလောင်းတော် ဘိုးလောင်းတော်များ နည်းတူ ကုသိုလ်ကောင်းမှုတော်များ ပြုရန် ကြံစည်တော်မူသည်။ ထိုကြောင့် နတ်ရွာစံ



ပုထိုးတော်ကြီး စေတီအား ဤသို့ ဖူးမြော်ရသည်။

ခမည်းတော် အိမ်ရှေ့မင်းနှင့် မယ်တော် အိမ်ရှေ့ မိဖုရားတို့၏ ကောင်းမှုဖြစ်သော ဟေမ မာလာ စေတီနှင့်တကွ ကျောင်းတိုက်ကြီးအတွင်းမှ ကျောင်းတော်ကြီးများ မီးသင့် လောင်ကျွမ်းသဖြင့်၊ လစ်လပ်သော သရက် ဉယျာဉ်မြေ၌ ငွေတော်တသိန်း ရှစ်သောင်း ငါးထောင် နှစ်ရာကုန်ကျစေ၍၊ စည်းခုံတော် ပုထိုးတော်ကြီးကို တည်တော်မူသည်။

၁၁၈၁ ခုနှစ် တန်ခူးလဆန်း ၁၅ ရက်နေ့တွင် မိဖုရားကြီးနှင့်တကွ ကိုယ်တော်တိုင် အုတ်မြစ်ချတော်မူသည်။ အုတ်မြစ်ချတော်မူပြီးသည့်နေ့မှစ၍ နေ့စဉ် ထွက်တော်မူကာ ကိုယ်တော်တိုင် ကြပ်မ တည်တော်မူသည်။ ပုထိုးတော်ကြီး တည်ထား ဌာပနာပုံမှာ အကျဉ်းချုပ်အားဖြင့်၊ ကျုံးကြီးနှစ်တန် ပတ်ရံ၍ ဌာပနာတိုက်ကြီး လေးတိုက်၊ တိုက်ငယ် ၁၂ တိုက် ပြုလုပ်ထားသည်။ အလယ်ဌာပနာတိုက် အတွင်း၌ မင်းတရားကြီး ကိုယ်တော်တိုင် ဌာပနာတော်မူသော ဘုရားရှင်၏ သရီရ ဓာတ်တော် ၁၁၂ ဆူ ရှိသည်။ ယင်း ဓာတ်တော်များကို ပတ္တမြား စေတီ၌ သွင်း၍ ပတ္တမြား စေတီကို ရွှေစေတီမျိုသည်။ ရွှေစေတီကို မိုးကြိုးစေတီ၊ မိုးကြိုးစေတီကို ငွေစေတီ၊ ငွေစေတီကို ကြေးစေတီ၊ ကြေးစေတီကို နံ့သာစေတီ စသဖြင့် စေတီ အသီးအသီးတို့က ဆင့်ကဲ ဆင့်ကဲ မျိုကြ၍၊ ယင်းနံ့သာ စေတီကို ရတနာ ပန်းတောင်းဖြင့် ထည့်လျက် ရွှေစေတီ၊ ငွေစေတီ၊ ရွှေတံခွန်၊ ငွေတံခွန်၊ ရွှေမြူတာ၊ ငွေမြူတာ၊ ရွှေပန်းခိုင်၊ ငွေပန်းခိုင်၊ ရွှေတန်ဆောင်၊ ငွေတန်ဆောင်၊ ရွှေပေါက်ပေါက်၊ ငွေပေါက်ပေါက်၊ ပတ္တမြားပေါက်ပေါက်၊ ပတ္တမြား လက်စွပ်၊ ရွှေပုတီးကုံး၊ ငွေပုတီးကုံး

စသော များစွာသော ရတနာတို့ကို ဓာတ်တော် စေတီပတ်လည်၌ စီစဉ် ခင်းကျင်း၍ ဌာပနာလေသည်။

ဌာပနာတိုက်ကြီးများ အတွင်း၌ ပွင့်လေပြီးသော ဘုရားရှင် လေးဆူတို့၏ ရွှေကိုယ်လေး (ရွှေ ၁၆ ပိဿာ) ရုပ်ပွားတော် တတိုက် တဆူကျစီနှင့် ဘေးလောင်းတော်၊ ဘိုးလောင်းတော်များမှ စ၍ စစ်ကိုင်းမင်းအထိ၊ မိဖုရား ရုပ် ကိုယ်စီ၊ အစီးအနင်း အဆောင်အရွက် ကိုယ်စီနှင့် မြတ်စွာဘုရားကို ရှိခိုး ပူဇော်ဟန် ရွှေကိုယ်လေး ငွေကိုယ်လေး ရုပ်တုများ ရှိသည်။ ထိုပြင် ရွှေစေတီ၊ ငွေစေတီ၊ မိုးကြိုးစေတီပေါင်း များစွာ၊ ရွှေဆင်းတု၊ ငွေဆင်းတု၊ မိုးကြိုးဆင်းတုပေါင်း များစွာကိုလည်း ဌာပနာထားသည်။ ပတ္တမြားဆင်းတု၊ မြဆင်းတု၊ ပယင်းဆင်းတု၊ သလင်းဆင်းတု၊ စိန်ဆင်းတု စသဖြင့် အဖိုးထိုက် ဌာပနာပစ္စည်းများအပြင်၊ ရွှေသားပေ၊ ငွေသားပေတို့တွင် ရေးသားထားသည့် ဓမ္မက္ခန္ဓာတော် အစုများလည်း ဌာပနာတိုက်များအတွင်း ထည့်သွင်းထားခဲ့လေသည်။

ယင်းသို့ အဖိုးထိုက်လှစွာသော ဌာပနာများအပြင် ပုထိုးတော်ကြီး၏ ပဌမ၊ ဒုတိယ၊ တတိယ ပစ္စယ ခါးပတ်ပတ်လည်တို့၌၊ ငါးရာ့ငါးဆယ် ဇာတ်တော်များနှင့် ဇာတ်တော်ကြီး ဆယ်ဘွဲ့မှ ပုံတော်များ၊ သမ္ဗုဒ္ဓေ မြတ်စွာဘုရား ရုပ်တုတော်များကို စကျင်ကျောက်ဖြူတွင် ပြီးပြေအောင် ထုလုပ်စေ၍၊ ကမ္ဘည်းအက္ခရာများကိုပါ ရေးထိုးထားသည်။

ယင်းသို့ဖြင့် အချင်း ဖိနပ်တော်သံတောင် ၁၂၀၊ ဥဘာ့တော် သံတောင် ၁၂၀ ရှိသော စည်းခုံတော် ပုထိုးတော်ကြီးကို တည်လုပ် ပြီးမြောက်ခဲ့သောကြောင့်၊ ၁၁၈၄ ခုနှစ် တပို့တွဲ လပြည့်ကျော် ၅ ရက် ကြာသပတေးနေ့တွင် မင်းခမ်း မင်းနား ကြီးကျယ်စွာ ဗုဒ္ဓပူဇနီယသဘင် ဆင်ယင်ကျင်းပလျက်၊ အဝ ၁၂ တောင်၊ အမြင့် ၁၈ တောင် ဘုံကိုးဆင့်ရှိသော ရွှေထီး အထွတ်တင်လှူခဲ့သည်။

သို့သော် ၁၂၀၀ ပြည့်နှစ် တန်ခူးလဆန်း ရှစ်ရက်နေ့တွင်၊ စစ်ကိုင်းငလျင် သို့မဟုတ် အင်းဝ ငလျင်ကြီး လှုပ်သဖြင့်၊ စစ်ကိုင်းဖက်မှ စေတီပုထိုးများ၊ မင်းကွန်းဘုရားကြီး၊ မင်းကွန်း ခြင်္သေ့ကြီးများနှင့်အတူ ပုထိုးတော်ကြီးသည်လည်း ငလျင်ဒဏ်မိကာ ထီးတော် မြေသို့ ခလေသည်။ ပုထိုးတော်ကြီးသည် ၁၂၀၀ ပြည့်နှစ်မှ ၁၂၃၄ ခုနှစ်အထိ၊ ၃၄ နှစ်ကြာအောင် ထီးတော်မဲ့နေခဲ့လေသည်။ ၁၂၃၄ ခုနှစ်တွင် ဘဝရှင် မင်းတုန်းမင်းတရားကြီးက အမြင့် ၁၃ တောင်ထွာ အဝ ကိုးတောင် နှစ်မိုက်ရှိသော ထီးတော်ကို ပုပ္ပါးဝန်အား ကြပ်မတ်စေ၍ တင်လှူခဲ့လေသည်။

မြန်မာနိုင်ငံကို အင်္ဂလိပ်တို့ သိမ်းပိုက်ပြီးနောက်၊ ၁၂၆၇ ခုနှစ်တွင် ဘာသာခြား လူဆိုးသူခိုးတို့သည် ဌာပနာများကို ခိုးဝှက် ဖောက်ယူကြသေးသည်။

မင်းတုန်းမင်းတရားကြီး ထီးတော် လှူဒါန်း၍ အနှစ် ၄၀ မြောက်သော ၁၂၇၄ ခုနှစ်တွင် မြေငလျင် အကြီးအကျယ် လှုပ်၍၊ ဒုတိယအကြိမ် ထီးတော် မြေခပြန်သည်။ ထီးတော်မဲ့ အဖြစ်ဖြင့် ခုနှစ်နှစ်ကြာမျှ နေတော်မူခဲ့ရပြီးနောက် ၁၂၈၁ ခုနှစ်တွင် အမရပူရမြို့သူမြို့သားတို့က တတိယအကြိမ် ထီးတော်သစ် တင်လှူခဲ့လေသည်။

၁၃၁၈ ခုနှစ် ဝါဆိုလဆန်း ၉ ရက်နေ့တွင် မြေငလျင်ကြီးကျယ်လှစွာ တုန်လှုပ်သည့်ဒဏ်ကြောင့် စည်းခုံတော် ပုထိုးတော်ကြီးသည် ထီးတော်နှင့်တကွ ခရားသီးမှ ကြာမှောက်အထိ ပြိုကျ ပျက်စီးကာ ဖောင်းတလုံးရောက်အောင် ကွဲအက်သွားလေသည်။ မြို့ပေါ်မှ ဆရာတော် သံဃာတော်များနှင့်တကွ မြို့သူမြို့သားတို့၏ စေတနာနှင့် ဝါယမ စိုက်ထုတ်မှုကြောင့် မကြာမတင် ပျက်စီးသမျှကို ပြုပြင် ပြီးစီးခဲ့သည်။ ၁၃၁၉ ခုနှစ်၊ တော်သလင်း လဆန်း ၁၅ ရက်နေ့မှစ၍ ဗမာ့ခေတ် ဦးအုန်းခင်နှင့် ဇနီး ဒေါ်ခင်ခင်လေးတို့၏ ကောင်းမှုဖြစ်သော အဝ ကိုးတောင် နှစ်မိုက်၊ အမြင့် ၁၃ တောင်ထွာရှိ ထီးတော်ကြီးကို တင်လှူပူဇော်သည့် ထီးတော်တင်ပွဲကြီးကို လပြည့်ကျော် ၁၂ ရက်နေ့တိုင် သိုက်မြိုက် ခမ်းနားစွာ ကျင်းပခဲ့လေသည်။ ထိုနှစ် တန်ဆောင်မုန်း လပြည့်ကျော် ၁၂ ရက်နေ့တွင် စိန်ဖူးတော် တင်၍ ပြီးမြောက်ခြင်းသို့ ရောက်ခဲ့လေသည်။

ပုရပိုက်။ ။မြန်မာပုရပိုက် — ရှု။

**ပုရစ်။** ။ပုရစ်၏ အရောင်သည် များသောအားဖြင့် နံ့ကောင် စသည်တို့၏ အရောင်လောက် တောက်ပ ပြောင်လက်ခြင်း မရှိချေ။ အပင်၌ မှီတင်း နေထိုင်သော ပုရစ်တို့သည် အစိမ်းနုရောင်ရှိ၍၊ အိမ်နှင့် လယ်ကွင်းများ၌ ကျက်စားလေ့ရှိသော ပုရစ်တို့မှာ အနက်ရောင်၊ သို့မဟုတ် အညိုရောင် ရှိသည်။ ပုရစ်၏ မျက်လုံးတို့သည် တောက်ပ၏။ အသံမှာ စူးရှ ကျယ်လောင်သည်။ ပုရစ်သည် နေ့အချိန်တွင် အပြင်ဖက်သို့ မထွက်ဘဲ၊ ညဉ့်အချိန်ရောက်မှ ခိုအောင်းရာ အနီးအနား တဝိုက်တွင် အော်မြည်တတ်လေသည်။ ပုရစ်၏ မနေမနား အော်မြည်သော အသံသည် နားကြားပြင်းကပ်စရာ ကောင်းလှ၏။ ပုရစ်အမ



ညဉ့်အချိန်ရောက်မှ စူးရှစွာ အော်မြည်တတ်သော ပုရစ်

သည် များစွာ မအော်မြည်နိုင်ဘဲ၊ ပုရစ် အဖိုသာလျှင် အဆက်မပြတ် စူးရှ ကျယ်လောင်စွာ အော်မြည်တတ်သည်။ ထိုသို့ အော်မြည်သော အသံသည် နောက်ခြေထောက်ရှိ တံစည်းကဲ့သို့သော အရာနှင့် အရှေ့ တောင်ပံ၏ ကြမ်းတမ်းသော မျက်နှာပြင်တို့ အရှိန် ပြင်းစွာ တိုက်ခြစ်သောကြောင့် ထွက်ပေါ် လာခြင်း ဖြစ်သည်။ အတောင်ပံများအပြင်၊ ပုရစ်၌ ကောင်းစွာ ခုန်နိုင်ရန် အတွက်၊ ရှည်လျား သန်မာသော ခြေထောက်များ ရှိသည်။

အိမ်ပုရစ် (ဂရစ်လပ် ဒိုမက်စတစ်ကပ်) ၏ မူလ ဒေသမှာ ဥရောပတိုက် ဖြစ်သည်ဟု ဆိုသည်။ ရှေး နှစ်ပေါင်း အတန်ကြာကပင်၊ ဥရောပတိုက်မှ အိမ်ပုရစ် အချို့သည် အမေရိကန် ပြည်ထောင်စု၊ ကနေဒါ နိုင်ငံ စသည်တို့သို့ ပြောင်းရွှေ့ နေထိုင်ခဲ့ကြသည်။ ဥရောပတိုက်မှ အိမ်ပုရစ်များသည် ဒေသသစ် ဖြစ်သော အမေရိကန် ပြည်ထောင်စုနှင့် ကနေဒါ နိုင်ငံ စသည်တို့သို့ ရောက်ရှိသောအခါ၊ မူလနေပုံအတိုင်းပင် အိမ်တွင်း မီးဖိုဟောင်းကြီးများ၊ ပေါင်မုန့်ဖိုဟောင်းကြီးများ အတွင်း၌ ပုန်းအောင်း နေထိုင်ကြသည်။ အိမ်ပုရစ်များသည် တလက်မခန့် ရှည်၏။ ဦးထိပ်၌ ရှည်လျားလျား ဦးမှင်ပါ၍၊ ညိုပုပ်သော အဆင်းရှိ၏။ ပုရစ်အမများသည် ဆောင်းဦးပေါက်တွင် မြေကြီးပေါ်၌ ဥများကို အုချကြသည်။ နွေဦးပေါက်ချိန် ကျမှ ပုရစ်ကောင်ကလေးများ ပေါက်လာကြသည်။ ပုရစ်တို့သည် အနွေးဓာတ် ရှိသော အိမ်နှင့် စားသောက်ရန် အမှိုက်သရိုက် ပေါများသော အိမ်များ၌ နေထိုင်ရန် ပို၍ နှစ်သက်ကြသည်။

ကွင်းပုရစ် (ဂရစ်လပ် ကမ်ပက်စတရစ်) ကို ဥရောပတိုက်နှင့် အမေရိကတိုက် ၂ တိုက်စလုံးတွင် တွေ့ရ၍၊ အင်္ဂလန်ပြည်၌ကား ကျယ်ပြန့်သော အရပ်ဒေသ အချို့၌သာ တွေ့ရ၏။ ထိုပုရစ်တို့သည် နွေကာလ၌ သစ်ပင်များ၏ အောက်တွင်၎င်း၊ ကျောက်တုံးကြီးများ အောက်တွင်၎င်း နေလေ့ ရှိကြ၏။ နွေရာသီကုန်၍၊ ဆောင်းရာသီသို့ ကူးလျှင်၊ ပုရစ်များသည် အပြင်ဖက်တွင် မနေကြတော့ဘဲ၊ ကျစ်စာတွင်းထဲ၌ နေလေ့ ရှိကြသည်။

အိမ်ပုရစ်၊ ကွင်းပုရစ်တို့အပြင်၊ အခြား ပုရစ် ၂ မျိုး ရှိသေး၏။ ထိုပုရစ်တို့မှာ ပွေးပုရစ် (ဂရစ်လိုတယ်လပါ) နှင့် အပင် ပုရစ်တို့ ဖြစ်ကြသည်။ ပွေးပုရစ်သည် ပုရစ်မျိုးတွင် မည်သည့် ပုရစ်နှင့်မျှ မတူဘဲ အတန် ထူးခြား၏။ ယင်းသည် အိမ်ပုရစ်လောက်လည်း မငယ်ဘဲ၊ အလျား ၂ လက်မခန့် ရှိသည်။ ကြီးမား ကျယ်ပြန့်သော နောက်ကျောရှိ၍၊ အညိုရောင် အဆင်း ရှိ၏။ ပွေးပုရစ်ကို မြေပြင်၌ တွေ့ရခဲသည်။ အဘယ်ကြောင့် ဆိုသော် ထိုပုရစ်သည် အများအားဖြင့် မြေအောက်တွင်သာ နေလေ့ ရှိသောကြောင့် ဖြစ်သည်။ ပွေးပုရစ်၌ သာမန် ပုရစ်ကဲ့သို့ ရှည်လျား သန်မာသော နောက်ခြေထောက်များ မရှိချေ။ ထိုကြောင့် ယင်းတို့သည် အခြားပုရစ်များကဲ့သို့ ခုန်၍ မသွားနိုင်ဘဲ၊ တွား၍ သွားရလေသည်။

အပင် ပုရစ်သည် ပုရစ် တမျိုးလုံးတွင် အလှဆုံး ဖြစ်သည်။ အများအားဖြင့် အစိမ်းနုရောင် ရှိ၍၊ တခါတရံသာ အဖြူနှင့် အစိမ်းကွက်များ ရှိသည်ကို တွေ့ရ၏။ ထိုပုရစ်တို့သည် သစ်ပင်များပေါ် တွင်၎င်း၊ ချုံဖုတ်များပေါ် တွင်၎င်း နေလေ့ရှိ၏။

**ပုလဲ။** ။ရတနာ ၇ ပါး၊ ရတနာ ၁၀ ပါးနှင့် နဝရတ် ၉ ပါးတို့တွင် ပုလဲသည် အပါအဝင် ဖြစ်၏။ နှီရည်ကဲ့သို့ ဖြူဆွတ်၍၊ နှစ်လိုဖွယ်ကောင်းသော ပုလဲကို ပင်လယ်၌ ရှိသော ကမာကောင်၏ ကိုယ်တွင်းမှ ရရှိသည်။ (ကမာ — ရှု။) အခြား ခရု၊ ယောက်သွား၊ ခုံးကောင် စသည်တို့မှလည်း ရရှိနိုင်သေး၏။ ကမာကောင်များနှင့် အလားတူ အခွံမာရှိသော ရေသတ္တဝါများတွင် အလွန် နူးညံ့ ဖြူဖွေး၍ အရောင် တောက်သော အနှစ်တမျိုး ရှိရာ၊ ယင်းမှာ အပြင် အခွံကြမ်းနှင့် အတွင်း အသားနုတို့ကို မထိစေရန် ခွဲခြား ကာကွယ်ပေးထားသည့် အထပ် ဖြစ်လေသည်။ ဤအထပ်မှ ပုလဲကို ဖန်တီး မွေးထုတ်ပေးရသည်။

ကမာ၊ ခုံးကောင် စသည့် အခွံမာ ရှိသော ရေသတ္တဝါ၏ ကိုယ်တွင်းသို့ သဲပွင့် တပွင့် ဖြစ်စေ၊ ရေပိုးမွှားလေး ဖြစ်စေ၊ အခြား သေးငယ်သော အရာဝတ္ထု ဖြစ်စေ ဝင်ရောက်လာပါက၊ ယင်းအကောင်၏ နူးညံ့သော အတွင်းသားသည် လူတို့၏ မျက်စိတွင်းသို့ ပိုးစပ်ကောင် ဝင်ဘိသကဲ့သို့ ယားယံသလို ဖြစ်ကာ အခံရဆိုးလာ၏။ ထိုအခါ နူးညံ့သော ကိုယ်တွင်းမှ နွားနို့ကဲ့သို့ ဖြူဆွတ် ကြည်လင်သော အရည်ကြည်များကို အကြိမ်ကြိမ် ညှစ်ထုတ်၍၊



**သဘာဝ ပုလဲကို ကမာကောင် အတွင်း၌ ဤသို့ တွေ့ရသည်။**

ယားယံစေသော အရာဝတ္ထုကို ဖယ်ရှားရန် ကြိုးစားလေတော့၏။ ဖယ်ရှား၍ မရနိုင်သောအခါ၊ ထိုအရာဝတ္ထုငယ်ကို အရည်ကြည်များဖြင့် အထပ်ထပ် ဖုံးအုပ်လေသည်။ ထိုသို့ ဖုံးအုပ်ထားရာမှ ကာလကြာမြင့်သောအခါ၊ အရည်ကြည်များသည် မာ၍ လာကာ၊ နောက်ဆုံး၌ ပုလဲအဖြစ်သို့ ရောက်ရှိလေသည်။ ကမာကောင်၏ မာကျောသော အခွံကို ထွင်းဖောက် ဝင်ရောက်နိုင်သော ပါရာဆိုက်ပိုးမွှားတမျိုး ရှိသေး၏။ ထိုပိုးမွှား ထွင်းဖောက်သော အပေါက်ငယ်ကို ဖာထေးရန်အတွက် ကမာကောင်သည် အရည်ကြည်များ ညှစ်ထုတ်သောအခါ၌လည်း ပုလဲ ဖြစ်လာတတ်သည်။

ကမာကောင် အမျိုးအစား မျှားပြားသကဲ့သို့ ပုလဲလည်း အကောင်းစား အညံ့စား ဟူ၍ ကွဲပြားလေသည်။ အသားကို စားရသော ကမာကောင်များမှ ပုလဲ အညံ့စားကို ရရှိ၏။ ပုလဲထွက်သော ရေသတ္တဝါ အမျိုးမျိုးမှ အကောင်းစား ပုလဲနှင့် ကနုကမာခွံများကို ရရှိသည်။ အပြင်ဖက် အခွံမာ၏ အရောင်အသွေး အလိုက်၊ ပုလဲ၏ အရောင်အဆင်းလည်း ရှိနေတတ်၏။ အတွင်းသားအရောင်မှိန်သော ကမာကောင်မှရရှိသော ပုလဲသည် အရောင်မှိန်၍၊ များစွာ အဖိုးမတန်ချေ။ (ကနုကမာ — ရှု။)

ပုလဲထွက်သော ရေသတ္တဝါများသည် ပင်လယ် ရေငန်အောက် ပေ ၁၀ မှ ၁၅၀ အထိ နက်ရှိုင်းသော နေရာများတွင် နေထိုင် ရှိကြ၏။ ပုလဲငုပ်သမားများသည် လှေများ



ပုလဲများကို ရေပြင်အောက်၌ ရှာဖွေနေစဉ်

သင်္ဘောများဖြင့် သွားရောက်ကာ၊ ကမာကောင်များကို ဖမ်းယူခဲ့ကြပြီးလျှင်၊ အတွင်းသားနုများ ဆွေးရိသည့်တိုင်အောင် ပစ်ထားတတ်ကြသည်။ ထိုနောက် တူ၊ ဇာကနာ စသည်တို့ဖြင့် အခွံကို ခွဲထုတ်ကာ ပုလဲကို ရှာဖွေယူကြလေသည်။

ပုလဲသည် အများအားဖြင့် အဖြူနှင့် ပန်းနုရောင်များ ရှိကြသော်လည်း၊ ပုလဲနက်များကို မက္ကဆီကို ပင်လယ်နှင့် တောင်သမုဒ္ဒရာများတွင် တွေ့ရသေး၏။ ပုလဲနက်များမှာ ရှားပါးသောကြောင့် တန်ဖိုး ကြီးလေသည်။ အမျိုးကောင်းသော ပုလဲကို အရှေ့ဖက် နိုင်ငံများ၌ တွေ့ရှိရလေသည်။ ပုလဲ အကောင်းဆုံး အမျိုးအစားကို ပါးရှင်း ပင်လယ်ကွေ့မှ ရရှိတတ်၏။ ပုလဲ ရရှိနိုင်သော ကမ္ဘာပေါ်ရှိ အခြား နိုင်ငံများမှာ စကော့တလန်၊ အိုင်ယာလန်၊ ဂျာမနီ၊ ဖိလစ်ပိုင်နိုင်ငံ၊ သီဟိုဠ်ကျွန်း၊ မြန်မာနိုင်ငံ၊ တရုပ်နိုင်ငံ စသည်တို့ ဖြစ်၏။ ပုလဲစေ့ (ခေါ်) ပုလဲ အငယ်စားများကို စကော့တလန်၊ အိုင်ယာလန်၊ ဂျာမနီနှင့် တရုပ်နိုင်ငံတို့ရှိ မြစ်များ အတွင်း၌ နေလေ့ရှိသော ယောက်သွားကောင်များမှ ရရှိ၏။ ပင်လယ်နီ အတွင်းရှိ ပုလဲ လုပ်ငန်းများကို ဗြိတိသျှ နိုင်ငံက ကြီးကိုင်လေသည်။

သဘာဝ နည်းလမ်းဖြင့် မဟုတ်ဘဲ ပုလဲကို မွေးယူနိုင်လေသည်။ ယင်းသို့ မွေးယူပုံမှာ ရှေးဦးစွာ ကမာကောင်များကို ငုပ်ယူ၏။ ထိုကမာကောင်တို့၏ နူးညံ့သော ကိုယ်တွင်းသို့ သေးငယ်သော အရာဝတ္ထုများကို သွတ်သွင်းပေးပြီးလျှင်၊ လှောင်အိမ်များတွင် ထည့်ကာ ရေထဲတွင် မြှုပ်ထားလိုက်လေသည်။ ထိုကမာကောင်များသည် ဖြူဆွတ် ကြည်လင်သော အရည်ကြည်များကို ညှစ်ထုတ်ကာ ထိုယားယံစေသော အရာဝတ္ထုကို အထပ်ထပ် ဖုံးအုပ်တော့၏။ ဤနည်းဖြင့် ကာလကြာမြင့်သော်၊ အရည်ကြည်များသည် မာ၍ ပုလဲ အဖြစ်သို့ ပြောင်းလဲလာလေသည်။ ထိုအခါ လှောင်အိမ်များကို ရေပေါ်သို့ ဖော်ယူကာ၊ ပုလဲကို ထုတ်ယူကြလေသည်။ ဤပုလဲတုမွေးနည်းကို ၁၃ ရာစုခေတ်ကပင် တရုပ် နိုင်ငံတွင် စတင် အသုံးပြုခဲ့ကြောင်း သိရ၏။

ယခုအခါ ဂျပန်လူမျိုးတို့သည် ပုလဲတု မွေးမြူ ထုတ်လုပ်ရာတွင် အလွန်ကျော်ကြားကြလေသည်။ ယင်း လုပ်ငန်းတွင် အလွန်ကျွမ်းကျင်သည့် အလျောက်၊ ဂျပန်လူမျိုးတို့ပြုလုပ်သောပုလဲနှင့် သဘာဝပုလဲကို သာမန်လူတို့ မခွဲခြားနိုင်ကြပေ။ သက်ဆိုင်ရာ ပါရဂူများသာလျှင် ခွဲခြားသိနိုင်ကြလေသည်။

ပုလဲအကြောင်းကို မြန်မာကျမ်းဂန်များတွင်လည်း ရေးသားဖော်ပြထားသည်။ သာရတ္ထသင်္ဂဟတေရသကဏ္ဍကာတွင်ပုလဲမျိုးရှစ်ပါးရှိကြောင်း၊ ယင်းတို့မှာ(၁) ဟတ္ထိကုမ္ဘ—

ဆင်ဦးကင်း၌ဖြစ်သောပုလဲ၊ ရွှေရောင်အဆင်းရှိ၏။ (၂)ဝရာ ဟဒါဠ—ဝက်စွယ်၌ဖြစ်သောပုလဲ၊ဝက်စွယ်အဆင်းရှိ၏။ (၃) ဘူဇင်္ဂသီသ—မြွေဦးခေါင်း၌ဖြစ်သော ပုလဲ၊စိမ်းညိုတောက်ပ သည်။ (၄)ဝလာဟက—တိမ်တိုက်၌ဖြစ်သောပုလဲ၊ နတ်သုံး ရတနာမျိုး၊ အလွန်လင်း၏။ (၅)သခ်—ခရုသင်း၌ဖြစ်သော ပုလဲ၊ ခရုသင်း အဆင်းရောင်ရှိ၏။ (၆) သိပ္ပိ—ယောက်သွား ၌ဖြစ်သောပုလဲ၊ အဆင်းရောင် အထူးထူးရှိ၏။ (၇)ဝေဠု— ဝါး၌ဖြစ်သောပုလဲ၊ စပျစ်သီးစိမ်းရောင် အဆင်းရှိ၏။ (၈) မစ္ဆသိရ—ငါးဦးခေါင်း၌ဖြစ်သောပုလဲ၊ ငါဖယ်ကျောက်ကုန်း အဆင်းရှိ၏ ဟူ၍ တွေ့ရသည်။ ထိုကိုရည်၍ 'မစ္ဆသီသ၊ သခ်သိပ္ပိ၊ ဟတ္ထိကုမ္ဘ၊ နဂါ့ထိပ်လယ်၊ ဝက်စွယ်နှင့်ဝါး၊ တိမ် တိုက်ကြားဟု၊ ရှစ်ပါးရပ်တွင်၊ ပေါ်ရောက်ထင်သည်၊ မျက် ရှင်ပုလဲ၊ ရှစ်မျိုးကွဲ၏ 'ဟု မန္တာတု စကြာမင်းပျို့တွင် စပ်ဆို ထားလေသည်။ မဟာဝင်ကျမ်းတွင် မင်း၏ အာနုဘော်၊ ဘိသိက်၏ အာနုဘော်တို့ကို အမှီပြု၍ ဖြစ်ထွန်းလာသော ပုလဲရှစ်မျိုးရှိကြောင်း ဖော်ပြထား၏။ ယင်းတို့မှာ (၁) မြင်းနှင့်တူသောပုလဲ။ (၂) ဆင်နှင့်တူသောပုလဲ။ (၃) ရ ထားနှင့်တူသော ပုလဲ။ (၄) သျှိသျှားသီးနှင့်တူသောပုလဲ။ (၅) လက်ကောက်နှင့် တူသောပုလဲ။ (၆) လက်စွပ်နှင့်တူ သောပုလဲ။ (၇) ရေခံတက်သီးနှင့် တူသောပုလဲ။ (၈) ပြ ကတေ့သဘောရှိသော ပုလဲတို့ဖြစ်၏။ ပုလဲကို သန့်ရှင်း ဖြူ စင်ခြင်း၊ မြင့်မြတ်ခြင်း၊ မြတ်နိုးဖွယ်ရာ ဖြစ်ခြင်းဖြင့် တင်စား ၍သုံးသည်။ နဝရတ်လက်စွပ် စီရင်ရာ၌ ပုလဲကို ထည့်သွင်း သည်မှာ ကျက်သရေအတွက် ဖြစ်ကြောင်းဟု တွေ့ရလေ သည်။ (နဝရတ် — ရှု။)

**ပုလောမြို့။** ။ပုလောမြို့သည် တနင်္သာရီတိုင်း မြိတ်ခရိုင် ၏ မြောက်ဖက်အစွန်ဆုံးကျသော ပုလောမြို့နယ်၏ မြို့ပိုင်ရုံး စိုက်မြို့ဖြစ်သည်။ ထားဝယ်ခရိုင် နယ်နိမိတ်နှင့် ပုလောမြို့ နယ်၏ နယ်နိမိတ်တို့ စပ်လျက်ရှိသည်။ ပုလောမြို့နယ်သည် မူလက တိုက်နယ်ကလေးမျှသာ ဖြစ်သော်လည်း၊ သတ္တု လုပ်ငန်း ဖွံ့ဖြိုးလာသည်နှင့်အမျှ စီးပွားရေး ဖွံ့ဖြိုးလာ၍ မြို့နယ်အဖြစ် ရောက်ရှိလာသည်။ ပုလောမြို့နယ်၏ အကျယ် အဝန်းမှာ ၁၁၅၁ စတုရန်းမိုင်ရှိ၍၊ ပုလောမြစ်၏ တောင် ဖက်ရှိ ပင်လယ်ကမ်းခြေမြို့နယ်ကလေးဖြစ်သည်။ သစ်တော နှင့် တောင်များ ထူထပ်သော မြို့နယ်ဖြစ်သည်။ သူကြီးနယ် ပေါင်း ၃၀ ခန့် ပါဝင်၍၊ မြို့နယ် တနယ်လုံးတွင် ၁၉၅၆ ခုနှစ် ခန့်မှန်းချက်အရ လူဦးရေ ၅၄၅၉၃ ဦးရှိသည်။

ပုလောမြို့သည် ထားဝယ်မှမြိတ်သို့သွားသော ကားလမ်း ပေါ်တွင်တည်ရှိ၏။ ထားဝယ်မြို့မှ ၉၂ မိုင်ဝေး၍ မြိတ်မြို့မှ ၅၆ မိုင်ဝေးသည်။ ပုလောမြို့သည် ပင်လယ်ကမ်းခြေဘွင် တည်ရှိသဖြင့်၊ မော်လမြိုင်၊ မြိဘ်စသည်ဘို့မှ သင်္ဘောများ



ပုလောမြို့ မြို့ဦးစေတီနှင့် အစိုးရရုံးများတည်ရှိရာဆိပ်ကမ်းရှုခင်း

ဝင်ထွက်သွားလာသောကြောင့် ကုန်ကူးသန်းရောင်းဝယ်ရေး အတွက် ကောင်းမွန်သည်။

သတ္တု ထွက်ရာ ဒေသဖြစ်သဖြင့် သတ္တုလုပ်ငန်းနှင့် ပင် လယ်ကမ်းခြေနှင့်နီးသဖြင့် ဆားချက်ခြင်း၊ ငါးဖမ်းခြင်း လုပ်ငန်းများအပြင်၊ ငပိ၊ ငခြောက် လုပ်ငန်းများ ထွန်း ကားသည်။ မြတ်စွာဘုရား၏ ခြေတော်ရာရှိသဖြင့် ကျော် ကြားသော ပလမြို့သည် ပုလောမြို့တောင်ဖက် ၁၂ မိုင်ကွာ တွင် ရှိသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ပုလော မြို့၏ လူဦးရေမှာ ၅၈၀၄ ဦးဖြစ်သည်။

**ပုလင်းပုံပင်။** ။ဗောတပင် — ရှု။

**ပုလိပ်။** ။ရဲ — ရှု။

**ပုသိမ်ခရိုင်။** ။ပုသိမ်ခရိုင်သည်အောက်မြန်မာနိုင်ငံ၊ဧရာ ဝတီတိုင်း၏ အနောက်တောင်ဖက် အစွန်တွင် တည်ရှိသည်။ ဧရာဝတီတိုင်း၏ အကျယ်ဝန်းဆုံးသော ခရိုင်ဖြစ်၍၊ ပုံပန်း သဏ္ဌာန်မှာ အပေါ်ကား၍ အောက်ပိုင်းရှူးသည်။ ခရိုင်၏ မြောက်ဖက်တွင် ဟင်္သာတခရိုင်နှင့် သံတွဲခရိုင်၊ အရှေ့ဖက် တွင် မအူပင်ခရိုင်နှင့် မြောင်းမြခရိုင်၊ အနောက်ဖက်နှင့် တောင်ဖက်တို့တွင် ဗင်္ဂလားပင်လယ်အော်တို့ အသီးအသီး တည်ရှိသည်။

ရခိုင်ရိုးမ တောင်တန်းသည် ခရိုင်၏ အနောက်ဖက်ပိုင်း တွင် ကမ်းရိုးတန်းနှင့် ယှဉ်ပြိုင်လျက် မြောက်မှ တောင်သို့

သွယ်ဘန်းနေပြီးလျှင်၊ မော်ဘင်စွန်းတွင် အဆုံးသတ်လေသည်။ ရခိုင်ရိုးမ၏ အရှေ့ဖက်ရှိ အပိုင်းသည် မြေနုကျွန်းပေါ် မြေပြန့်မြေနိမ့်ဒေသ ဖြစ်လေသည်။

ပုသိမ်ခရိုင်အတွင်း၌ မြစ်ငယ်ချောင်းငယ်များစွာ ဖြတ်သန်း စီးဆင်းလျက်ရှိသည်။ ခရိုင်အတွင်း အရေးအပါဆုံး မြစ်မှာ ပုသိမ် (ငဝန်) မြစ်ဖြစ်သည်။ ယင်းမြစ်သည် ဟင်္သာတမြို့အထက်နားတွင် ဧရာဝတီမြစ်မှ ခွဲထွက်၍၊ ခရိုင်တလျှောက် မြောက်ဖက်မှတောင်ဖက်သို့ ဖြတ်သန်းစီးဆင်းလာပြီးလျှင်၊ ဗင်္ဂလား ပင်လယ်အော်သဲသို့ စီးဝင်သည်။ ပုသိမ်မြစ်ဝတွင် ကျွန်းကလေးအများအပြားရှိရာ၊ အထင်ရှားဆုံးမှာ ဟိုင်းကြီးကျွန်းနှင့် ထိုကျွန်း၏အောက်ဖက်နားတွင် လိပ်ဥ အမြောက်အမြားထွက်၍ လူသိများသော လိပ်ကျွန်း၊ သို့မဟုတ် သမီးလှကျွန်း (အင်္ဂလိပ်အခေါ် ဒိုင်းမွန်းကျွန်း) တို့ဖြစ်လေသည်။

ပုသိမ် (ငဝန်) မြစ်၏ မြစ်လက်တက်များမှာ ပုသိမ်မြို့ အထက်နား ၁၄ မိုင်ခန့်တွင် စီးဝင်သော ဒကမြစ်နှင့် ပုသိမ်မြို့၏ အောက်ဖက် ၂၈ မိုင်ခန့် အကွာတွင် စီးဝင်သော ပန်းမဝတီမြစ်တို့ ဖြစ်ကြသည်။ (ပန်းမဝတီမြစ် —— ရှု။) ပုသိမ် (ငဝန်) မြစ်သည် မြစ်ဝနှစ်ခုဖြင့် ပင်လယ်ထဲသို့ စီးဝင်သည်။ သို့သော် အရှေ့ဖက်မြစ်ဝဖြစ်သော သက္ကယ်သောင်မြစ်သည် သဲသောင်များ ပေါများ၍၊ သင်္ဘောကြီးများ မဝင်ထွက်နိုင်ပေ။ အနောက်ဖက်မြစ်ဝလည်းဖြစ်၍ ပင်ရင်း မြစ်ကြောင်းလည်း ဖြစ်သော ပုသိမ် (ငဝန်) မြစ်ဝကား ပုသိမ်မြို့တိုင်အောင် ပင်လယ်ကူးသင်္ဘောကြီးများဝင်ထွက်နိုင်သည်အထိ နက်ရှိုင်းကျယ်ဝန်းလေသည်။ (ပုသိမ်မြစ် —— ရှု။)

ပုသိမ်ခရိုင်၏ မြောက်ဖက်ပိုင်း ဖြစ်သော ရခိုင်ရိုးမ၏ အရှေ့ဖက်မြေပြန့်ဒေသသည် မြေဩဇာ ထက်သန် ကောင်းမွန်၍ ဆန်စပါး အထွက်အများဆုံး ဒေသဖြစ်သည်။ ယင်းဒေသမှ အောက်ဖက်သို့ ဆင်းလာရာ၊ ငဝန်မြစ်နှင့် ဒကမြစ်အကြားရှိ ဒေသသည် မြေဩဇာညံ့၍ ရေလွှမ်းမိုးသော ဒေသဖြစ်သည်။ ဒကမြစ်၏အရှေ့ဖက်နှင့် တောင်ဖက်ဒေသတို့တွင်ကား မြေပြင်သည် အနည်းငယ်မြင့်လာ၍၊ မြေဩဇာ ထက်သန်လာပြန်သည်။ ငဝန်မြစ်အတွင်း ဒကမြစ် စီးဝင်သည့်နေရာမှ အနောက်ဖက်ဒေသသည် မြေနိမ့်၍ ရေလွှမ်းမိုးတတ်ပြီးလျှင် စိုက်ပျိုး၍ မဖြစ်ထွန်းလှချေ။ ထိုနေရာမှ အောက်ဖက်သို့ ဆင်းလာပြန်လျှင်၊ မြေပြင်သည်မြင့်လာ၍ စိုက်ပျိုးဖြစ်ထွန်းလာပြန်သည်။ ပုသိမ်မြို့မှလွန်၍ တောင်ဖက်ပိုင်းတွင်ကား မြစ်ဝကျွန်းပေါ် ဒေသဖြစ်သည့် အလျောက် မြစ်ငယ် ချောင်းငယ်များဖြင့် ယှက်သန်းနေကာ၊ လယ်ယာများ ကိုကြားတည်ရှိသည့် လမုတောများ ရှိလေသည်။ ပုသိမ်ခရိုင်၏ အနောက်ဖက် ကမ်းရိုးတန်းသည် အကွေ့အကောက် အလွန်များသည်။

ပုသိမ်ခရိုင်အတွင်း၌ အထူးသဖြင့် ခရိုင်၏ အရှေ့မြောက်ဖက်ဘွင် အင်းအိုင်များလည်း ပေါများရာ၊ ကျုံပျော်မြို့နယ်အတွင်း ကျုံပျော်မြို့မှ လေးမိုင်ကွာရှိ အင်းရဲကြီးသည် အဓိကရဖြစ်သည်။ ယင်း အင်းကြီးသည် အဝန်း ခုနစ်မိုင်ရှိ၍ နွေရာသီ၌ပင် ၁၅ ပေ ရေအနက်ရှိသည်။ ခရိုင်အတွင်း အင်းများအနက် အင်းရဲကြီးမှ အင်းခွန်အများဆုံး ရလေသည်။

ခရိုင်အတွင်း ရခိုင်ရိုးမ သစ်တောများမှ ပျဉ်းကတိုး၊ ပျဉ်းမနှင့် အခြားသစ်မျိုးပေါင်း သုံးဆယ်ကျော်ခန့်ထွက်သည်။ ဝါးများလည်း အမြောက်အမြား ခုတ်ယူရရှိသည်။

ပုသိမ်ခရိုင်သည် ဆန်စပါး အထွက်များသော ခရိုင်တခု ဖြစ်သည်။ ခရိုင်အတွင်း အဓိကလုပ်ကိုင်ကြသော လုပ်ငန်းများမှာ ဆန်စပါးလုပ်ငန်း၊ သစ်လုပ်ငန်းနှင့် ငပိလုပ်ငန်းဖြစ်၍၊ ငပုတောမြို့နယ်ဖက်တွင် ဆားချက်သော လုပ်ငန်းကိုလည်း လုပ်ကိုင်ကြလေသည်။

မြစ်ဝကျွန်းပေါ် ဒေသဖြစ်၍ မြစ်ချောင်း ပေါများသည်အားလျော်စွာ ခရိုင်အတွင်း ကူးသန်းသွားလာမှုကို ရေကြောင်းဖြင့်သာပြုကြသည်။ ၁၇၂၂–၇၃ ခုနှစ်မှစ၍ရန်ကုန် ပုသိမ်သင်္ဘောလမ်းကို ဧရာဝတီ သင်္ဘောကုမ္ပဏီက ဖွင့်လှစ်ခဲ့သည်။ ထိုစဉ်က တပတ်တကြိမ်မျှသာဖြစ်သည်။ ၁၇၇၅ ခုနှစ်တွင် တပတ်လျှင် နှစ်ကြိမ်ကျအထိ တိုးတက်လာ၍၊ ယခုအခါ နေ့စဉ်သွားလာနေသည်။ ငဝန်မြစ်ကြောင်းသွားလာရေးကို ၁၈၇၂ ခု နှစ်မှစတင်ခဲ့၍ ၁၇၉၀ ပြည့်နှစ် အထိ ပုသိမ်–ဟင်္သာတသင်္ဘောလမ်းသည် နှစ်လုံးပေါက်သွားလာနိုင်ခဲ့သည်။ ထိုနောက်တွင်ကား မြစ်တွင်သောင်များ ထွန်းလာသဖြင့် ပုသိမ်မှ ငသိုင်းချောင်း အထိသာ ဇွန်လမှ နိုဝင်ဘာလ တိုင်အောင် သင်္ဘော ခုတ်မောင်း နိုင်သည်။ ပုသိမ်–ကျုံပျော် သင်္ဘောလမ်းကို ၁၇၉၃ ခုနှစ်တွင် စတင်ဖွင့်လှစ်ခဲ့၍ ပုသိမ်–မြောင်းမြ သင်္ဘောလမ်းသည် ၁၉၀၄ ခုနှစ်မှစတင်ခဲ့ရာ ယနေ့တိုင်အောင် သွားလာ အသုံးပြုလျက်ရှိသည်။

ခရိုင်အတွင်း တခုတည်းသော မီးရထားလမ်းမှာ ပုသိမ်နှင့် ဟင်္သာတကို ဆက်သွယ်ထားသော မီးရထားလမ်းဖြစ်၍၊ ၇၆ မိုင်ရှည်လျားသည်။ ပုသိမ်မှ ရန်ကုန်သို့ မီးရထားဖြင့် သွားလိုသူတို့သည် ဟင်္သာတဘက်ကမ်း သာရဝေါမှတဆင့် ပြည်–ရန်ကုန် မီးရထားလမ်းပေါ်ရှိ လက်ပံတန်းသို့ သွားရောက်ကြပြီးသော်၊ ရန်ကုန်သို့ ခရီးဆက်နိုင်ကြပေသည်။

ပုသိမ်ခရိုင်သည် ဧရာဝတီတိုင်း၏ အရေးပါသော ခရိုင်ကြီးတခု ဖြစ်ပေသည်။ ၄၁၄၉ စတုရန်းမိုင် ကျယ်ဝန်း၍ ၁၉၅၆ ခုနှစ် သန်ကောင်စာရင်း အရ မှန်းဆ လူဦးရေ ၇၇၅,၅၄၇ ယောက်ရှိသည်။ ခရိုင်အတွင်း ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးတို့၏ ဦးရေမှာ အများဆုံးဖြစ်၍၊ ဒုတိယအများဆုံးမှာ ခရစ်ယာန် အယူဝါဒီ ကရင်လူမျိုးများ ဖြစ်ကြသည်။ ကရင်လူမျိုးများတွင် စကောကရင်နှင့်ပိုးကရင်ဟူ၍ရှိ

ပြန်ရာ၊ ပိုးကရင်ဦးရေက ပို၍များပြားသည်။ ရှေးက ရာမညတိုင်းတွင် အပါအဝင်ဖြစ်၍ မွန်ဒေသဖြစ်ခဲ့သော်လည်း၊ ယခုအခါ မွန်အဆက်အနွယ်တို့ တိမ်ကောပျောက်ကွယ်လျက်ရှိကြလေသည်။ မြန်မာနိုင်ငံ အခြား ခရိုင်များနည်းတူ နိုင်ငံခြားသား တရုပ် ကုလားတို့ကို ခရိုင်အတွင်း အနှံ့အပြား တွေ့ရှိရလေသည်။

ပုသိမ်ခရိုင်သည် ရှေးမြန်မာနှင့် မွန်ဘုရင်တို့ လက်ထက်အခါကပင် ထင်ရှားခဲ့သော ဒေသတခုဖြစ်ပေသည်။ ရာမညတိုင်း မွန်သုံးရပ်တွင် ပါဝင်ခဲ့၍ ကုသိမ မဏ္ဍလ ဟူ၍၎င်း၊ ကုသိမရဋ္ဌတိုင်းဟူ၍၎င်း၊ မွန်ညဟူ၍၎င်း ခေါ်တွင်သော တိုင်းတွင် အပါအဝင် ဖြစ်ခဲ့သည်။ မြန်မာသက္ကရာဇ် ၅၃၆ ခုနှစ်တွင် နန်းတက်သော နရပတိစည်သူမင်း လက်ထက်၊ ရွှေတိုက်တော်စာရင်းတွင် ပုသိမ် ၃၂ မြို့၏ အမည်များ မှတ်တမ်း တင်ထားသည်ကို တွေ့ရသည်။ ရှေးအခါကပင် ပုသိမ်မြို့သည် သင်္ဘောဆိပ်ကမ်းမြို့တမြို့ဖြစ်ခဲ့သည်။ ပုသိမ်ခရိုင်သည် ရှေးနှစ်ပေါင်းများစွာက မြန်မာနှင့် မွန်တို့ အင်အားပြိုင်ရာ ဒေသလည်း ဖြစ်ခဲ့ပေသည်။

ဗြိတိသျှတို့သည် အိန္ဒိယတွင် ခြေကုပ်ရ၍ အရှေ့အိန္ဒိယကုမ္ပဏီကို တည်ထောင် အခြေစိုက်ခဲ့ပြီးသော်၊ မြန်မာနိုင်ငံ ဧရာဝတီမြစ်ဝကျွန်းပေါ်တွင်လည်း အခြေစိုက်နိုင်ရန် နှစ်ကြိမ်တိုင်တိုင် ကြိုးပမ်းခဲ့သော်လည်း မအောင်မြင်ခဲ့ပေ။ မြန်မာသက္ကရာဇ် ၁၀၄၇ ခုနှစ် (ခရစ်နှစ် ၁၆၈၇) တွင် ဗြိတိသျှတို့သည် ဟိုင်းကြီးကျွန်းတွင် အခြေစိုက်နေစပြု၍ အရှေ့အိန္ဒိယကုမ္ပဏီ ဌာနခွဲတခုကို ပုသိမ်မြို့၌ ဖွင့်လှစ်သည်။ အရှေ့အိန္ဒိယကုမ္ပဏီ ဌာနခွဲတခုကို သံလျင်မြို့၌ ဖွင့်လှစ်ထားပြီးဖြစ်သော်လည်း ဗြိတိသျှတို့သည် ဟိုင်းကြီးကျွန်းကို အခြေခံစခန်းပြုလုပ်ရန် ပို၍ နှစ်ခြိုက်ကြသည်။ အကြောင်းမှာ ဟိုင်းကြီးကျွန်းသည် သံလျင် ဆိပ်ကမ်းထက် ရေနက်သည်တကြောင်း၊ မဒရပ်၊ ဗင်္ဂလားတို့နှင့် ပို၍နီးသည်တကြောင်း၊ မြန်မာနိုင်ငံနှင့် ရခိုင်ပြည်အကြား၌ရှိ၍ ခရီးအထောက်အလှမ်း အဆက်အသွယ် သင့်လျော်သည်တကြောင်းတို့ကြောင့် ဖြစ်လေသည်။

မြန်မာသက္ကရာဇ် ၁၁၁၇ ခုနှစ် (ခရစ်နှစ် ၁၇၅၇) တွင် အလောင်းမင်းတရားကြီးနှင့် ဟံသာဝတီမွန်တို့ အရေးတွင် အင်္ဂလိပ်တို့က မြန်မာတို့ဖက်မှ ကူညီသဖြင့် အလောင်းမင်းတရားကြီးက ဗြိတိသျှတို့အား ဟိုင်းကြီးကျွန်းနှင့် ပုသိမ်မြို့တွင် နေရာတခုကို အပိုင်ပေး၍ ခံတပ်ဆောက်လုပ်ခွင့် ပြုခဲ့သည်။ သို့သော် ၁၁၂၀ ပြည့်နှစ် (ခရစ်နှစ် ၁၇၅၉) တွင် မွန်တို့ပုန်ကန်ပြန်သောအခါ၊ ဟိုင်းကြီးကျွန်းမှအင်္ဂလိပ်တို့ကမွန်တို့အား တိတ်တဆိတ်အားပေးသည်ဟု အလောင်းမင်းတရားကြီး သိရှိတော်မူသဖြင့်၊ ဟိုင်းကြီးကျွန်းသို့ တပ်များစေလွှတ်၍ အင်္ဂလိပ်တို့အား သတ်ဖြတ် အမြောက်သေနတ်များကို သိမ်းယူစေသည်။ ဗြိတိသျှတို့သည် ဟိုင်းကြီးကျွန်းတွင် ပြန်လည်နေထိုင်ခွင့်ရရန် နောင်အခါများတွင် ကြိုးပမ်းကြသေးသော်လည်း မအောင်မြင်ပေ။

အင်္ဂလိပ်-မြန်မာ စစ်ပွဲများ ဖြစ်ပွားလာသောအခါ ပုသိမ်မြို့ပေါ်၌၎င်း၊ ပုသိမ်ခရိုင်အတွင်း၌၎င်း ဗြိတိသျှတပ်များနှင့် မြန်မာတပ်များ တိုက်ပွဲများ ဖြစ်ပွားခဲ့သေးသည်။ ဒုတိယ အင်္ဂလိပ်-မြန်မာ စစ်ပွဲအပြီးတွင် ဗြိတိသျှတို့က အောက်မြန်မာနိုင်ငံကို သိမ်းပိုက်ရာ၊ ပုသိမ်ခရိုင်သည်လည်း ဗြိတိသျှတို့လက်အောက်သို့ ရောက်ခဲ့သည်။ သို့သော် ဇာတိသွေး ဇာတိမာန် ထက်သန် ပြင်းပြသည့် မွန်မြန်မာတို့ တော်လှန် ပုန်ကန်ကြခြင်း၊ ဓားပြများ သောင်းကျန်းလှခြင်းတို့ ကြောင့် ခရိုင် တခုလုံး၏ ငြိမ်ဝပ် ပိပြားရေးကို ဗြိတိသျှတို့ ကြိုးစားထိန်းသိမ်းခဲ့ရသည်။ တတိယ အင်္ဂလိပ်-မြန်မာ စစ် ဖြစ်လာပြန်သောအခါ၊ ပုသိမ်ခရိုင်သည် လှုပ်ရှားထကြွလာပြန်သေးသဖြင့်၊ ဗြိတိသျှတို့သည် ခရိုင် အခြေအနေကို ထိန်းသိမ်းထားနိုင်ရန် ကြိုးစားဆောင်ရွက်ခဲ့ရသည်။

ဗြိတိသျှတို့ စိုးမိုးသည် မှစ၍ ၁၈၉၃ ခုနှစ်တွင် ပုသိမ်ခရိုင်အတွင်းမှ နယ်မြေအချို့ကို မြောင်းမြခရိုင်သစ်ဖွင့်ရန် သွတ်သွင်းပေးရသည်မှအပ၊ ခရိုင်နယ်နိမိတ် အပြောင်းအလဲမရှိခဲ့ပေ။ ပုသိမ်ခရိုင်အတွင်း ပုသိမ်နယ်နှင့် ကျုံပျော်နယ်ဟူ၍ နယ်နှစ်နယ်ခွဲခြားထားသည်။ ပုသိမ်နယ်တွင် ပုသိမ်အရှေ့ပိုင်း၊ ပုသိမ် အနောက်ပိုင်း၊ သာပေါင်းနှင့်၊ ငပုတော ဟူ၍ မြို့နယ်လေးခု ပါဝင်သည်။ ကျုံပျော်နယ်တွင် ငသိုင်းချောင်း၊ ကျုံပျော်နှင့် ကျောင်းကုန်းဟူ၍ မြို့နယ်သုံးခုပါဝင်သည်။ ပုသိမ်ခရိုင်၏ ခရိုင် ရုံးစိုက်မြို့မှာ ပုသိမ်မြို့ ဖြစ်သည်။ ဗြိတိသျှတို့ အုပ်ချုပ်စ အခါက၊ ခရိုင်ရုံးစိုက်မြို့ကို ပုသိမ်မှပြောင်းရွှေ့၍ ပုသိမ်မြစ်ဝနှင့် ပို၍ နီးသော နေရာတခုကို ဒါလဟိုဇီမြို့ဟု အမည်ပေးကာ ခရိုင်မြို့သစ် တည်ရန် စီစဉ်ခဲ့ကြသည်။ သို့သော် မြို့တည်စ၊ ၁၈၅၆–၇ ခုနှစ်တွင် လေဆင်နှာမောင်း တိုက်ခတ်သဖြင့် မြို့သစ်နေရာမှာ လုံးဝပျက်စီးသွားသောကြောင့် မြို့ပြောင်းရွှေ့ရေးကိုလက်လျှော့ခဲ့ရလေသည်။

**ပုသိမ်မြို့။** ။ပုသိမ်မြို့သည် မြန်မာနိုင်ငံအောက်ပိုင်း၊ ဧရာဝတီတိုင်း၏ အုပ်ချုပ်ရေး ဗဟိုဌာနဖြစ်၍၊ ဧရာဝတီတိုင်းမင်းကြီး ရုံးစိုက်မြို့ဖြစ်သည်။ ပုသိမ်ခရိုင်၏ ရုံးစိုက်မြို့လည်း ဖြစ်လေသည်။ ဧရာဝတီ မြစ်ဝကျွန်းပေါ် ဒေသတွင် ရန်ကုန်မြို့မှလွဲလျှင် အကြီးဆုံးနှင့် အစည်ကားဆုံး မြို့ဖြစ်သည်။ ပုသိမ်မြို့သည် ပုသိမ် (ငဝန်) မြစ်၏ မြစ်ကမ်းပါးပေါ်၌တည်ရှိသည်။ ပင်လယ်ဝမှ ၇၅ မိုင်ဝေးသော်လည်း ပင်လယ်ကူးသင်္ဘောကြီးများဝင်ရောက်နိုင်သဖြင့် မြန်မာနိုင်ငံတွင် ကုန်းတွင်းအကျဆုံးသော ဆိပ်ကမ်းမြို့ ဖြစ်လေသည်။



ပုသိမ်မြို့၏ ကျက်သရေဆောင် ရွှေမုဋ္ဌောဘုရား

ပုသိမ်မြို့သည် အလွန်ရှေးကျသော သင်္ဘောဆိပ်မြို့ဖြစ်သည်။ ရှေးအခါက မြန်မာနိုင်ငံနှင့် မဇ္ဈိမဒေသ၊ သီဟိုဠ်ကျွန်းစသည်တို့ ကူးလူး ဆက်ဆံကြရာတွင် ပုသိမ်မှတဆင့် သွားလာကူးသန်းခဲ့ကြလေသည်။

ပုသိမ်မြို့သည် နှစ်ပေါင်းများစွာ မြို့သက် ရှည်ကြာခဲ့၍ အမည်များစွာဖြင့်လည်း ခေါ်တွင်ခဲ့သည်။ သီရိဓမ္မာသောကမင်းလက်ထက်ဖြစ်သော သာသနာ သက္ကရာဇ် ၂၁၇ ခုနှစ်ခန့်ဆီက အတိသဥ္စာနဂရဟု ခေါ်တွင်ခဲ့သည်ဆိုသည်။ ယင်းနောက် ကုသိမရဋ္ဌဟု ခေါ်တွင်ပြန်သည်။ ပုဂံပြည် မင်းယဉ်နရသိင်္ခမင်း လက်ထက်တွင် ရန်ဖက်ဖြစ်သော ပဋိက္ခရား (ကုလား) မင်းနှင့် စစ်ပြိုင်ရမည် ဖြစ်၍ ထိုမင်း၏အလံ ဦးကင်းဖျား (ဝါ) စစ်ဦးကျသော ကုသိမရဋ္ဌမြို့ကို ခံမြို့အဖြစ် ဘုရင်ခံ အုပ်စိုးစေ၍ အခိုင် အလုံ တည်စေသောအခါ၊ မူလကုသိမရဋ္ဌသည် လောကုတ္တရာ အမည်ဖြစ်သည်။ စစ်ရေးပြိုင်ရမည့်အခါကြီးတွင် အရေးပါသော ခံမြို့၏ အမည်ကို လောကီရေးအတွက် အကျိုးပြုနိုင်အောင် အမည် ပြောင်းစေသည်။ ယင်းသည့်အခါ ပညာရှိ အဲအလင်ဖြင့် ဗေဒင်ကျမ်းကြီးကျမ်းခိုင် အမျိုးမျိုးကို ညှိနှိုင်း၍၊ ကုသိမသည် ကုသိမ်ဖြစ်လျှင်၊ 'က' နှင့် 'သ' သည် သောကဓာတ်ကျသဖြင့် ရန်ဂြိုဟ် ဖြစ်နေသည်။ ထို့ကြောင့် ကဝတ္တ 'က' ကို 'ပ'သို့ ပြောင်းလျှင် 'ပ' နှင့် 'သ'မှာ မိတ်နံ ဖြစ်သဖြင့် 'ကုသိမ်' မှ 'ပုသိမ်' သို့ပြင်ဆင်၍ မော်ကွန်းစိုက်ထူကြောင်း ရှေးဟောင်းရွှေတိုက်စာရင်း စစ်တမ်းတွင် ဖော်ပြလေသည်။

ထို့နောက်တွင် ပုသိမ်၌ စိုးစံကြသော ကုလားပသီမင်းတို့ကို စွဲ၍ ပသီမြို့ဟု တွင်ခဲ့သေးသည်။ သို့သော် ၅၉၅ ခုနှစ်တွင် ပသီမင်းအား ဂုဏ္ဏာသာရနှင့် ဂုဏ္ဏာသာရီ မွန်ညီနောင်တို့က လုပ်ကြံပြီးနောက်၊ ယင်းညီနောင်တို့ စိုးစံသည့်အခါ ပုသိမ်ဟုပင် ခေါ်တွင် စေပြန်သည်။

တဖန် သက္ကရာဇ် ၆၀၀ ကျော်တွင် သမုဒ္ဒဃောသမင်းနှင့် ဥမ္မာဒန္တီ မိဖုရားတို့လက်ထက်၌ နဂရဝေပုလ္လ (စည်ပင်ပြန့်ပြောသောမြို့)ဟု တွင်ပြန်သေးသည်။

သက္ကရာဇ် ၉၄၇ (ခရစ်နှစ် ၁၅၈၆ ခုနှစ်)တွင် မြန်မာနိုင်ငံသို့ရောက်ရှိလာသော သိုးဆောင်းလူမျိုး ရတ်ဖစ်ကမူ ပုသိမ်ကို 'ကော့စမင်း' ဟုခေါ်သည်။ ကော့စမင်းသည် မွန်အခေါ်ကော့သမိုန်ကို မပြီမသ ခေါ်ဝေါ်ခြင်းဖြစ်သည်။ မွန်အဓိပ္ပါယ်အရ ကော့=ကျွန်း၊ သမိုန်=မင်းသား၊ ပေါင်းသော် မင်းသားကျွန်း၊ သို့မဟုတ် မင်းကျွန်းဟူ၍ ဖြစ်လေသည်။

ယင်းသည့်နောက်များတွင် ဖော်ပြလောက်အောင်မဟုတ်သော အခြားအမည် အမျိုးမျိုးတို့နှင့် တွင်ခဲ့ဘူးသေးသော်လည်း၊ ပုသိမ်ဟူသော အမည်ဖြင့်သာ ယနေ့တိုင် ထင်ရှားလျက် ရှိလေသည်။ ပုသိမ်မြို့သည် မြို့သက်ရှည်ကြာသော်လည်း နိုင်ငံ အုပ်ချုပ်သည့် မင်းတို့၏ နေပြည်တော်ကား မဖြစ်ခဲ့ပေ။ ဘုရင်ငယ်များ၊ ဘုရင်ခံများ အုပ်စိုးသည့် မြို့တော်တခုသာလျှင် ဖြစ်ခဲ့သည်။ ပုသိမ်ကို မြို့ပြအဖြစ် တည်ထောင်ခဲ့သူတို့မှာ ဟံသာဝတီပြည်ကို တည်ထောင်သော ဝိမလမင်း၏ မြောက်နန်းဖွား သားတော်ခြောက်ပါးဖြစ်သည်။ ယင်းညီနောင်တို့သည် မြန်မာ သက္ကရာဇ် ၅၃၆ ခုနှစ်တွင် ပုသိမ်ကို မြို့အဖြစ် တည်ထောင် စိုးစံကြလေသည်။ မင်းယဉ် နရသိင်္ခက ပုသိမ်မြို့တွင် ဘုရင်ခံအဖြစ် အုပ်စိုးစေသူမှာ ဆိုခဲ့သော ညီနောင် ခြောက်ပါးအနက် အကြီးဆုံးဖြစ်သော ဝါသုဒတ္တဖြစ်သည်ဟုဆိုလေသည်။

ယင်းညီနောင် ခြောက်ပါးတို့ အစဉ်အဆက် စိုးစံပြီးနောက်၊ ပသီကုလားများ ဝင်လာ၍ အုပ်စိုးသည်။ ယင်းပသီ ကုလားမင်းတို့ကို ဂုဏ္ဏာသာရ၊ ဂုဏ္ဏာသာရီ မွန်ညီနောင်တို့က လုပ်ကြံ၍ အစဉ်အဆက် စိုးစံကြပြန်သည်။ မွန်ညီနောင် စိုးစံပြီးနောက် သမုဒ္ဒဃောသမင်း စိုးစံသည်။ သမုဒ္ဒဃောသ၏ မိဖုရားဥမ္မာဒန္တီကား အဆင်းလှ၍ ကျော်ကြားသည်။ သမုဒ္ဒဃောသမင်း၏နောက် စိုးစံသူတို့ကိုကား ရာဇဝင် သမိုင်းများ၌ အထင်အရှား မတွေ့ရချေ။

အင်းဝ၌ မင်းကြီးစွာ စော်ကဲ၊ ဟံသာဝတီပဲခူး၌ ရာဇာဓိရာဇ်တို့ စိုးစံသည့်ခေတ်မှစ၍၊ အလောင်းဘုရား လက်ထက်တိုင်အောင်၊ နှစ်ပေါင်း ရာပေါင်းများစွာ၊ ပုသိမ်နယ်တဝိုက်သည် မွန်နှင့် မြန်မာတို့ အားပြိုင်ကြရာ ဒေသဖြစ်ခဲ့သည်။ ဗြိတိသျှတို့သည် အိန္ဒိယ၌ ခြေကုပ်ရပြီးသောအခါ၊ မြန်မာနိုင်ငံ၌လည်း ခြေကုပ်ရရန် ကြိုးစားကြသည်။ ခရစ်နှစ် ၁၆၈၇ ခုနှစ်တွင် ဗြိတိသျှတို့သည် ဟိုင်းကြီးကျွန်းတွင် အခြေခံစခန်းပြုပြီးနောက်၊ ပုသိမ်မြို့တွင်လည်း အရှေ့အိန္ဒိယ ကုမ္ပဏီဌာနခွဲတခုဖွင့်သည်။ အလောင်းဘုရားလက်ထက်တွင် မွန်မြန်မာအရေး၌ မြန်မာတို့အား ကူညီသဖြင့် အလောင်းဘုရားက ဗြိတိသျှတို့အား ပုသိမ်မြို့ပေါ်တွင် မြေရာတကွက်အပိုင်စား ပေးသနားသည်။ သို့သော် နောင်တဖန် ထကြွပြန်သော မွန်သူပုန် အရေးတွင် မွန်တို့အား ဗြိတိသျှတို့က အားပေးသည်ဟု ယူဆသဖြင့် ပုသိမ်မြို့ပေါ်နှင့် ဟိုင်းကြီးကျွန်းတွင် ဗြိတိသျှတို့အား ပေးထားသော အခွင့်အရေးများကို မင်းတရားကြီးက ပြန်လည် သိမ်းပိုက်စေသည်။

ပဌမ အင်္ဂလိပ်-မြန်မာ စစ်ပွဲအတွင်း ဗြိတိသျှတပ်များက ပုသိမ်မြို့ကို တိုက်ခိုက် သိမ်းပိုက်ထားသေးသည်။ နောင်အခါ ရန္တပိုစာချုပ်အရ လက်လွှတ်ရသည်။ ဒုတိယ အင်္ဂလိပ်-မြန်မာစစ်ပွဲအတွင်း ၁၈၅၂ ခုနှစ်တွင် ဗြိတိသျှ တပ်များသည် ပုသိမ်မြို့ကို အပြင်းအထန် တိုက်ခိုက် သိမ်းပိုက်သည်။ မြန်မာတပ်တို့က အပြင်းအထန် ခုခံသေးသော်လည်း၊ အားမတန်၍ မာန်လျှော့ရသည်။ ဒုတိယ အင်္ဂလိပ်-မြန်မာ စစ်ပွဲအပြီး ဗြိတိသျှတို့က အောက်မြန်မာနိုင်ငံကို သိမ်းပိုက်သောအခါ ပုသိမ်မြို့သည်လည်း ဗြိတိသျှ အုပ်ချုပ်ရေး လက်အောက်သို့ ရောက်ခဲ့ရလေသည်။

ပုသိမ်မြို့သည် ၁၂ စတုရန်းမိုင်ခန့်ကျယ်ဝန်း၍ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၇၇,၉၀၅ ယောက်ရှိသည်။ ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးတို့၏ ဦးရေမှာ ရာခိုင်နှုန်းအများဆုံးဖြစ်၍၊ ဒုတိယအများဆုံးမှာ ခရစ်ယန်အယူဝါဒီ ကရင်အမျိုးသားများ ဖြစ်ကြလေသည်။

မြို့သည် ပုသိမ်မြစ်၏ အရှေ့ဖက်ကမ်းနှင့် အနောက်ဖက်ကမ်းနှစ်ခုလုံးပေါ်၌ တည်ရှိရာ မြစ်၏ အရှေ့ဖက်ကမ်းတွင် မြို့သစ်အကွက်ရှိ၍ အစိုးရရုံးများနှင့် ဈေးရုံကြီးရှိသည်။ အနောက်ဖက် သင်္ဘောကျင်း ရပ်ကွက်ဖက်တွင် ဆန်စက်များရှိသည်။ ပုသိမ်မြို့ရှိ ရပ်ကွက်များမှာ အသည်ကြီး၊ တလိုင်းချောင်း၊ ယိုးဒယားကုန်း၊ မရမ်းချိုကုန်း၊ အတီးစု စသည်တို့ဖြစ်သည်။ မြို့၏ လမ်းမကြီးများသည် မြစ်ကမ်းနားနှင့် ယှဉ်ပြိုင်လျက် ရှိသည်။ လမ်းတို သို့မဟုတ် ဖြတ်လမ်းများက လမ်းမကြီးတခုနှင့် တခုကို ဆက်သွယ်ပေးကြသည်။ ထင်ရှားသောလမ်းများမှာ မကျည်းပင်တန်း၊ ပဒင်းတန်း၊ ဦးလူလမ်း၊ တန်တားကြီးတန်း စသည်တို့ ဖြစ်သည်။ မြို့၏ စည်ပင်သာယာရေးကို ၁၈၇၄ ခုနှစ်မှစ၍ မျူနီစီပယ်အဖွဲ့က ဆောင်ရွက်သည်။

တိုင်းမင်းကြီး ရုံးစိုက်ရာ မြို့ကြီးတမြို့ဖြစ်သည့် အားလျော်စွာ အစိုးရရုံးများ၊ အစိုးရ အဆောက် အအုံများလည်း များပြားသည်။ မြန်မာနိုင်ငံတော် လွတ်လပ်ရေး ရပြီးသည်နောက်တွင် ပိုမို များပြားလာသည်။ စာသင်ကျောင်း ဦး



ပင်လယ်ရပ်ခြား ဆန်စပါး ရောင်းဝယ်မတွင် အချက်အခြာ ပင်လယ်ဆိပ်ကမ်းမြို့တမြို့ဖြစ်သည့် ပုသိမ်မြို့၏ဆိပ်ကမ်းရှုခင်းတရပ်

ရေလည်း တိုးတက်ခဲ့သည်။ မူလတန်းကျောင်းများ၊ တန်းမြင့် ကျောင်းများအပြင်၊ ဆရာအတတ်သင် ကောလိပ်ကျောင်းတကျောင်းလည်း ဖွင့်လှစ်ခဲ့၍၊ ၁၉၅၇ ခုနှစ်တွင် ပုသိမ် ဥပစာကောလိပ်ကိုလည်း ဖွင့်လှစ်ခဲ့သည်။

တန်ခိုးကြီး ဘုရားစေတီများလည်း ပေါများရာ များသောအားဖြင့် မြို့၏အရှေ့ဖက်တွင် တည်ရှိသည်။ ယင်းသည့်အနက် ရွှေမုဋ္ဌောစေတီမှာ အထင်ရှားဆုံး ဖြစ်သည်။ ယင်းစေတီတော်သည် မူလက သီရိဓမ္မာ သောကမင်းကြီး၏ ကောင်းမှုတော် စေတီတဆူ ဖြစ်ရာ၊ နောင်အခါ အလောင်းစည်သူစသော မင်းတို့က အဆက်ဆက် ပြုပြင်မွမ်းမံခဲ့သည်။ အခြားထင်ရှားသော စေတီပုထိုးများမှာ တကောင်းဘုရား၊ မဟာဗောဓိ၊ ကိုးသိန်းကိုးသန်းနှင့် ရွှေစည်းခုံ စသည်တို့ ဖြစ်ကြလေသည်။

ပုသိမ်မြို့၏ ပတ်ဝန်းကျင် ဖြစ်သော မြစ်ဝကျွန်းပေါ်ဒေသသည် ဆန်စပါး အမြောက်အမြားထွက်၍၊ ပုသိမ်ဆိပ်ကမ်းမှ နိုင်ငံခြားသို့ တိုက်ရိုက် တင်ပို့ရောင်းချလေ့ရှိသည်။ ၁၉၀၂ ခုနှစ်တွင် ပုသိမ်-ဟင်္သာတ မီးရထားလမ်း ဖွင့်လှစ်လိုက်သောအခါ၊ ဟင်္သာတတဖက်ကမ်း သာရဝေါမှ တဆင့် လက်ပံတန်း၊ ထိုမှတဆင့်ပြည်၊ ရန်ကုန်စသည်တို့သို့ မီးရထားလမ်းပေါက်သဖြင့် ပြည်တွင်း ကုန်သွယ်မှု ပို၍ သွက်လက်လာသည်။ ခရိုင်အတွင်း မြို့များနှင့်၎င်း၊ ခရိုင်အပ မြို့များနှင့်၎င်း ပြည်ဘွင်း ရေကြောင်း သယ်ယူ ပို့ဆောင်ရေး အဖွဲ့ပိုင်သင်္ဘောများနှင့် ဆက်သွယ်နိုင်သည်။ ယခုအခါ ရန်ကုန်မြို့နှင့် လေကြောင်းခရီး အဆက်အသွယ်လည်း ရှိသည်။ ထို့ကြောင့် ပုသိမ်မြို့သည် အခြားမြို့များနှင့် လမ်းပန်း ဆက်သွယ်ရေးကောင်းသည်။ မြန်မာနိုင်ငံ၏မြို့တော် ရန်ကုန်နှင့် ရေကြောင်းအားဖြင့် ၁၉၄ မိုင်၊မီးရထားလမ်းဖြင့် ၁၉၁ မိုင်၊ လေကြောင်းဖြင့် ၉၄ မိုင်ကွာဝေးသည်။ ခရိုင်တွင်း ခရိုင်ပ၊ အခြားမြို့များနှင့် မော်တော်ကားလမ်းမှု နည်းပါးသည်။

ဆန်စပါး အရောင်းအဝယ် စည်ကား ဖွံ့ဖြိုးသော မြို့ဖြစ်၍ မြို့၏ဆင်ခြေဖုံးတွင် ဆန်စက်များပေါများလှသည်။နိုင်ငံခြားသို့ ပုသိမ်မြို့မှ အဓိက တင်ပို့သော ထွက်ကုန်မှာ ဆန်သာလျှင်ဖြစ်သည်။ ပုသိမ်မြို့၏ ကမ္ဘာသိ လုပ်ငန်းတရပ်မှာ ပုသိမ်ထီးလုပ်ငန်းဖြစ်သည်။ ပုသိမ်ထီး လုပ်ငန်းသည် လွန်ခဲ့သော အနှစ်တရာခန့်က ပုသိမ်မြို့တွင် စတင်ခဲ့သော လုပ်ငန်းတရပ် ဖြစ်သည်။ မူလက ပြည်မြို့မှ ရောက်ရှိလာသော လူတစုက စက္ကူထီးများကို ပြုလုပ်ရောင်းချရာမှ တစတစ တိုးတက် တီထွင်ပြီးလျှင်၊ ပိတ်ထီး၊ ပိုးထီး၊ ဖဲထီးများကိုလည်း ချစ်စဖွယ်အရောင်အသွေးများတွင် လှပဆန်းကျယ်သော ပန်းခက် ပန်းနွယ်တို့ဖြင့် ခြယ်လှယ်၍၊ မြန်မာနိုင်ငံ အရပ်ရပ်သို့ တင်ပို့ရောင်းချရရာ၊ ပျို့မေတို့အကြိုက် ပစ္စည်းတရပ် ဖြစ်လာသည်။ ထို့ပြင် မြန်မာနိုင်ငံသို့ အလည်အပတ်လာကြသော နိုင်ငံခြားသားတို့ နှစ်သက် မြတ်နိုးလှသည့် လက်ဆောင် ပစ္စည်းတရပ်လည်း ဖြစ်ပေသည်။

ပုသိမ်မြို့ ဆင်ခြေဖုံးတွင် သစ်စက်များလည်းရှိ၍၊ ပြည်တွင်းသုံး အတွက် သစ်လုပ်ငန်းကိုလည်း လုပ်ကိုင်ကြသည်။ ခရိုင်အတွင်း၌ အင်းများရှိသည့်တကြောင်း၊ ပင်လယ်နှင့်နီးသည့်တကြောင်းတို့ကြောင့် ငပိငါးခြောက်စသည်တို့ကို နိုင်ငံတွင်း အရပ်ရပ်သို့ ပုသိမ်မှတဆင့် တင်ပို့ရောင်းချကြသည်။

ပုသိမ်မြို့၏ ရာသီဥတုမှာ သင့်တင့်ကောင်းမွန်သည်။ နွေအခါ ပင်လယ်လေရသဖြင့် အပူရှိန်သက်သာသည်။ နှစ်စဉ် မိုးရွာသော ရက်မှာ ပျမ်းမျှခြင်းအားဖြင့် ၁၁၇ ရက်ဖြစ်၍၊ ပျမ်းမျှ မိုးရေချိန်မှာ ၁၀၆ လက်မ ဖြစ်လေသည်။

**ပုသိမ်မြစ်။** ။ပုသိမ်မြစ်သည် ဧရာဝတီမြစ်၏ မြစ်ဝကျွန်းပေါ်ရှိ အကြီးဆုံးနှင့် အနောက်ဖက် အကျဆုံး မြစ်ခွဲဖြစ်သည်။ (ဧရာဝတီမြစ် — ရှု။) ယင်းကို ငဝန်မြစ် ဟုလည်း ခေါ်ကြသည်။

ပုသိမ်မြစ်သည် ဟင်္သာတမြို့အထက် မိုင်အနည်းငယ်ခန့် အကွာမှစ၍ ဧရာဝတီမြစ်၏ လက်ျာဖက်သို့ ခွဲထွက်လာပြီး နောက်၊အနောက်တောင်ဖက်သို့ မိုင် ၂၀၀ ခန့်ရှေးရှုစီးဆင်းလာကာ၊ဟိုင်းကြီးကျွန်း၊ လိပ်ကျွန်းနှင့် အဂူအာဒါကျောက်တန်း မီးပြတိုက်တို့သို့ ဦးတိုက်လျက် ဗင်္ဂလား ပင်လယ်အော်ထဲသို့စီးဝင်သည်။လေးမျက်နှာ၊ သိုင်းချောင်း၊ သာပေါင်း၊ ဘုရားကုန်း၊ ပုသိမ်၊ ငပုတော စသော မြို့ကြီးများသည် ယင်းမြစ်ပေါ် တွင် တည်ရှိသည်။ ပုသိမ်မြစ်တွင်းသို့ ဒကမြစ်၊ ပန်းမဝတီမြစ်၊ သံတွဲမြစ်၊ တောင်ကလေးမြစ်နှင့် ကညင်ချောင်း၊ ဂတ်ချောင်း၊ ကွမ်းချောင်း၊ စစ္စရန်ချောင်း စသည်တို့ စီးဝင်ကြလေသည်။

ပင်လယ်ကူး သင်္ဘောကြီးများသည် ပုသိမ်မြစ်အတွင်းသို့ မြစ်ဝမှ ၇၅ မိုင်ဝေးသော ပုသိမ်မြို့အထိ ဆန်တက်နိုင်သည်။ မြစ်တွင်းသွား သင်္ဘောများမှာမူ မိုးရာသီအတွင်း ရေပြည့်ချိန်၌ မြစ်တလျှောက်လုံး စုံဆန် သွားလာနိုင်သော်လည်း၊ နွေအခါ ရေနည်းချိန်၌ သောင်များ ထွန်းလျက်ရှိသောကြောင့်၊ သိုင်းချောင်းမြို့ အထက်တွင် လှေသမ္ဗန်ကလေးများမှလွဲ၍ သွားလာခြင်း မပြုနိုင်ချေ။

ပုသိမ်မြစ်၏ အရှေ့ဖက်ကမ်း တလျှောက် ရေလျှံခြင်း မရှိနိုင်ရန် တာရိုးများဖြင့် ကာကွယ်ထား၍၊ အလွန် မြေဩဇာကောင်းသော မြစ်ဝကျွန်းပေါ် မြေများ၌ စပါး စိုက်ပျိုးကြသည်။

**ပူတာအိုမြို့။** ။ပူတာအိုမြို့သည် ကချင်ပြည်နယ်တွင် ပါဝင်၍၊ မြန်မာနိုင်ငံ မြောက်ဖက် အစွန်ဆုံးကျသော မြို့တမြို့ဖြစ်၏။ မြစ်ကြီးနားမြို့မှ မြောက်ဖက်သို့ ၂၁၈ မိုင် ကွာ

ဝေးရာ၊ တောင်ကုန်း ဝိုင်းလျက်ရှိသော ကုန်းပြင်မြင့်ပေါ်တွင် တည်ရှိသည်။ မြို့၏ ရာသီဥတုသည် သစ်တောများရှိ၍ အေးမြသောကြောင့်၊ ပတ်ဝန်းကျင် ဒေသသည် ငှက်ဖျားရောဂါ ထူထပ်၏။ ထိုမြို့သို့ ဆွန်ပရာဘုံမြို့မှ လား၊ မြင်း စသော ဝန်တင် တိရစ္ဆာန်များဖြင့်သာ သွားရောက်နိုင်သည်။ ယခုအခါ ပူတာအိုမြို့မှ ၃ မိုင်ကွာ နေရာတွင် လေယာဉ်ပျံကွင်းငယ်တခု ဆောက်လုပ်ထားသည်။ ရာသီဥတုကောင်းမွန်ပါက ရက်သတ္တ တပတ်လျှင် တကြိမ် ခရီးသည်တင်သော လေယာဉ်ပျံ သက်ဆင်းလေသည်။

ပူတာအိုမြို့သည် မူလက အိမ်ခြေ ၅၀ ခန့်နှင့် လူဦးရေ ၂၅၀ ကျော်မျှသာရှိသော ရှမ်းရွာငယ်ကလေးတရွာဖြစ်၏။ ထိုနောက် မြို့သည် တဖြည်းဖြည်းကြီးပွားလာခဲ့သည်။ ကြာလတ်သော် ပတ်ဝန်းကျင်ရှိရွာတို့ကို အပါအဝင်ပြု၍၊ ပူတာအိုခရိုင်ဟု ဖွဲ့စည်းလေရာ၊ ပူတာအိုသည် ခရိုင်မြို့ ဖြစ်လာလေ၏။ မျက်နှာဖြူ ခရိုင်ဝန် ကက်ပတိန် အိပ်၊ အက်(ဖ)၊ ဟက်ဇ ရုံးစိုက်ခဲ့သည်ကိုစွဲ၍၊ ထိုမြို့ကို ဖို့ဟက်ဇမြို့ဟုလည်း ခေါ်သည်။ ထိုမြို့တွင် နယ်ခြားဝန်ထောက် ရုံးစိုက်၍၊ နယ်ခြား စစ်တပ်စခန်း၊ ပြည်တော်သာ ကစားကွင်း၊ ဆေးရုံ၊ တည်းခိုရန် အဆောက်အအုံများနှင့် အမှုထမ်းများနေထိုင်သောရပ်ကွက် စသည်တို့ ရှိလေသည်။ လေယာဉ်ပျံကွင်းအနီးတဝိုက်တွင် တောင်ပေါ်မှ ရွှေ့ပြောင်းခဲ့ကြသော ဂျင်းဖော (ကချင်)လူမျိုးများ နေထိုင်ကြ၏။ ကျန်နေရာများ၌ အများအားဖြင့် ခန္တီးရှမ်းများသာနေထိုင်ကြသည်။

**ပူဒီနာ။** ။ပူဒီနာပင်သည် ပင်စိမ်းပင်နှင့် အမျိုးချင်း တူသောကြောင့်၊ အရွက်ထွက်ပုံ၊ အပွင့်ပွင့်ပုံတို့သည် ပင်စိမ်းပင်ကဲ့သို့ တထေတည်း ဖြစ်သည်။ 'လေးဗီယေးတီး' မျိုးရင်းတွင် ပါဝင်၍၊ မြန်မာနိုင်ငံရှိ ထင်ရှားသော ပူဒီနာပင်နှစ်မျိုး၏ ရုက္ခဗေဒ အမည်များမှာ 'မင်သာအာရဗင်ဆစ်' နှင့်'မင်သာဆီလဗက်စတြစ်'တို့ အသီးအသီး ဖြစ်လေသည်။ ဤအပင်မျိုးပေါင်း ၂၅ မျိုးခန့်မျှရှိရာ၊ ထိုအပင်တို့၏ ထူးခြားသော အနံ့နှင့်အရသာကို လူတို့ ကြိုက်နှစ်သက်ကြသဖြင့် ဟင်းရွက်စိမ်းအဖြစ်ဖြင့် ကမ္ဘာပေါ်တွင် အနှံ့အပြား စိုက်ပျိုးကြသည်။ အိန္ဒိယနိုင်ငံနှင့် မြန်မာနိုင်ငံတို့တွင် ပင်စိမ်းပင်နှင့် ပူဒီနာပင်များ၏ အရွက်အခက်တို့ကို ဟင်းသီးဟင်းရွက် လက်သုတ်နှင့် ချိုချဉ်သနပ်အစရှိသည်တို့၌ အနံ့အရသာ ပိုမိုကောင်းမွန်လာရအောင် ထည့်လေ့ရှိကြသည်။ ထိုအပင်များမှ အကြောအခြင် ကိုက်ခဲသည့် ရောဂါအတွက် သုတ်လိမ်းရသော ဆီတမျိုးကို ရရှိသည်။ ဤအပင်မျိုးအားလုံးတို့တွင် လေးထောင့်ကျကျ ပင်စည်များရှိ၍၊ အကိုင်း၏ တဖက်တချက်မှ ရိုးတံချင်းဆိုင်၍ အရွက်များထွက်သည်။ အကိုင်းတို့တွင် အပွင့်ငယ်များ အဆုပ်လိုက်ပွင့်တတ်သည်။



တောင်အမေရိကတိုက်၌ တွေ့ရသော ပူးတမျိုး

**ပူး။** ။ပူးသည် ကြွက်နှင့်တူ၍၊ အလွန် အငြိမ်မနေတတ်သောသတ္တဝါဖြစ်သည်။ 'ကဗိုင်းအီဒီး' မျိုးရင်းတွင် ပါဝင်၍၊ ယင်း၏သိပ္ပံအမည်မှာ 'ကေးဗီယအာပေးရေအား' ဖြစ်သည်။ ဂီးယားနား၊ ဗိုလစ်ဗီးယား၊ ဗရာဇီးနှင့် တောင် အမေရိကတိုက်ရှိ အခြားနယ်ပယ်တို့သည် ပူးတို့၏ မူလဒေသဖြစ်၏။ ယုန်နှင့် အမျိုးနီးစပ်၍၊ ကြိတ်ဖြတ်သော သွားများရှိသည်။ ယင်းတို့ကို ၁၆ ရာစုခေတ်တွင် ဥရောပတိုက်သို့ယူလာ၍ မွေးမြူကြ၏။ ရှေးအခါက ပူးတို့ကို စားသောက်ရန် အသားအလို့ငှါ အသုံးချကြသော်လည်း၊ ယခုအခါ အိမ်၌ မွေးမြူရန်သော်ရင်း၊ ဆေးပညာနှင့် ဇီဝဗေဒပညာ ဆိုင်ရာ စမ်းသပ်မှုများအတွက်သော်ရင်း အသုံး ချကြလေသည်။ ပူးတိရစ္ဆာန်သည် အဖိုနှင့်အမ အလွန်တူသည်။ ၁၀ လက်မခန့်ရှည်သည်။ ကိုယ်တွင်း၌ အမြီးရိုးခုနစ်ခုရှိသော်လည်း၊ ပြင်ပ၌အမြီးမရှိချေ။ အရောင်အားဖြင့် အမည်း၊ အညို၊ အနီ၊ အဖြူ အရောင်အမျိုးမျိုးရှိသည်။ အမွေးအားဖြင့်လည်း အတိုအရှည် အမျိုးမျိုးရှိသည်။ မြက်နှင့် အခြားဟင်းသီးဟင်းရွက်တို့ကို မှီဝဲစားသောက်တတ်သည်။ ပူးရိုင်းများသည် တနှစ်တခါသားပေါက်၍၊ တကြိမ်လျှင် တကောင် နှစ်ကောင်သာ မွေးသည်။ သို့သော် ပူးယဉ်များမှာ တနှစ် ၂ ကြိမ်၊ ၃ ကြိမ် သားပေါက်၍၊ တကြိမ်လျှင် ၂ ကောင်မှ ၈ ကောင်အထိ မွေးသည်။ သက်တမ်းမှာ ၆ နှစ်၊ ၇ နှစ်ခန့် ဖြစ်သည်။

**ပေစာ။** ။ပေဆိုသည်မှာ ပေပင်၏ အရွက် ဖြစ်သည်။ စာဆိုသည်မှာ အက္ခရာ အရေးအသားဖြစ်သည်။ စာကူး စာရေးနိုင်အောင် ပြုပြင်ထားသော ပေရွက်များပေါ်၌ ရေးသားထားသည့် စာပေတို့ကို ပေစာဟူ၍ ခေါ်ကြလေသည်။

ပေရွက်ပေါ်၌သာမက၊ ထန်းဖူး ထန်းရွက်တို့၌လည်း စာပေရေးသားခြင်းကို ပြုကြသည်။ ထန်းရွက်၏ သဘာဝမှာ တောင့်တင်း၍၊ လိပ်ခွေ ဖြန့်ဖြေနိုင်မှု သတ္တိရှိသော်လည်း၊ ကြွပ်ဆတ်ခြင်း သဘောရှိသည်။ ပေရွက်ထန်းရွက်တို့၏ အရောင်မှာ ညိုဝါရောင်ဖြစ်လေသည်။

ပေပေါ်၌ စာရေးသားခြင်းကို အိန္ဒိယနိုင်ငံ၊ သီဟိုဠ်နိုင်ငံ၊ မြန်မာနိုင်ငံစသော ပေပင် ထန်းပင်တို့ ပေါက်ရောက်ရာ၊အာရှ အပူပိုင်းဒေသနိုင်ငံများတွင် အသုံးပြုခဲ့ကြသည်။ သာသနာနှစ် ၄၅၀ ပြည့်တွင် သီဟိုဠ်ကျွန်း အာလောကလိုဏ်၌ ဝဋ္ဋဂါမဏိ မင်းကြီးကို အမှီပြု၍၊ မထေရ်မြတ် ငါးရာတို့သည် ပိဋကတ် သုံးပုံနှင့်တကွ အဋ္ဌကထာများကိုပါ ပေထက်အက္ခရာတင်ကာ စတုတ္ထ သံဂါယနာကို ပြုကြသည်။ ထိုကြောင့် ထိုသံဂါယနာကို ပေါတ္ထကာရုဠ္ဌ သံဂါယနာ ဟူ၍လည်း ခေါ်ဆိုသည်ဟု စာပေကျမ်းဂန်များ၌ တွေ့ရှိရသည်။ ယင်းသည်ကို ထောက်၍၊ ပေစာ အရေးအသားသည် ထိုခေတ်ထိုအခါ၌ပင် အသုံးများပြားနေပြီ၊ အသုံးပြုခဲ့သည်မှာလည်း ကြာမြင့်ပြီဟု ယူဆရလေသည်။ မြန်မာနိုင်ငံသို့မူ ပေစာ အရေးအသားသည် အိန္ဒိယနိုင်ငံမှတဆင့် ရောက်ရှိလာခဲ့လေသည်။

ယဉ်ကျေးစ ခေတ်အခါက၊ လူတို့သည် မိမိတို့ မှတ်တမ်းတင်ထားလိုသော အကြောင်းရပ်တို့ကို မှတ်တမ်းတင်ထားနိုင်ရန်၊စာရေးနည်းများ၊ စာရေးရန် ကရိယာများကို တီထွင်ခဲ့ကြသည်။ အီဂျစ် လူမျိုးတို့သည် ကျူပင်နှင့် တူသည့် ပပိုင်းရပ်ပင်မှရသော အမျှင်များကို အပြားအချပ် ပြုလုပ်ပြီးလျှင်၊ ကျူရိုးကိုချွန်၍ ကလောင်တံကဲ့သို့သုံးကာ၊ မီးသွေးကြပ်ခိုးများကို ရေဖြင့် ဖျော်လျက် စာရေးခဲ့ကြသည်။ (ပပိုင်းရပ်ပင် — ရှု။) ဗက်ဗီလုံးနီးယား နိုင်ငံမှ ဆူးမားတို့သည် ရွှံ့များကို ကျောက်သင်ပုန်းကလေးများကဲ့သို့ အချပ်ပြားများ လုပ်၍၊ သုံးမြှောင့်ပုံ ကျူရိုး အရင်းနှင့် ဖိနှိပ်ရေးသားပြီးလျှင်၊ ရွှံ့ချပ်များကို နေလှမ်းမီးဖုတ်ကြသည်။ တရုပ်တို့သည်သစ်သားပြား၊ ဝါးခြမ်း၊ ပိုးစများပေါ်တွင် စုတ်တံဖြင့် မင် တို့ပြီးလျှင် စာရေးကြသည်။ ယင်းသို့ ဌာနဒေသအလိုက် စာရေးနည်းနှင့် စာရေးကရိယာတို့ကို တီထွင်ရေးသားလာကြရာ၊ ပေပင် ထန်းပင်ပေါများသည့် အိန္ဒိယကဲ့သို့သော နိုင်ငံများတွင် စာရေးရန် ပေရွက် ထန်းရွက်တို့ကို အသုံးပြုခဲ့ကြလေသည်။

ပေရွက်ထန်းရွက်တို့ကို စာရေး စာကူးပြုနိုင်သည့် အခြေအနေရောက်အောင် ပြုပြင်ယူရသည်။ ဆာအီမာဆင်တင်း



ဗုဒ္ဓတက္ကသိုလ် ပိဋကတ်တိုက်၌ သိမ်းဆည်းထားသော ပေစာချပ်များ

ရေးသားရာတွင် လက်ညှိုး၊ လက်မ မကျန် လက်ဆယ်ချောင်းလုံး အရေးပါစွာ သုံးစွဲရသည်ဟု ဆိုသည်။ အထူးသဖြင့် လက်မများသည် အရေးအပါဆုံး ဖြစ်သည်။ ပေရွက်ပေါ်တွင် ကညစ်ဖြင့် အက္ခရာစီကုံးရေးသားရခြင်းမှာ သက်သာလွယ်ကူလှသည် မဟုတ်ပေ။ အက္ခရာများကို ကညစ်ဖြင့် ရေးပြီးနောက် အမဲရောင် အမှုန့်တမျိုးဖြင့် သုတ်လိမ်း ပွတ်တိုက်သည်ဟု ဆိုလေသည်။ အိန္ဒိယ ပေချပ်များကို အလယ်တည့်တည့်တွင် မီးရဲရဲနီအောင် ဖုတ်ထားသည့် သံစူးငယ်ဖြင့် ထိုးဖောက်ပြီးလျှင် ကြိုးဖြင့် သီရသည်။ အထက်အောက် ပျဉ်ပြားချပ်ငယ်တခုစီဖြင့် ပိတ်၍၊ ကြိုးဖြင့် ရစ်ခြည်ရလေသည်။ တခါတရံ အပေါ် ဖုံး ပျဉ်ချပ်ပေါ်တွင် အယူဝါဒရေးဆိုင်ရာ ဇာတ်ဝတ္ထုများမှ ပန်းချီခန်းများ ရေးခြယ်ထားတတ်ကြလေသည်။

အိန္ဒိယနိုင်ငံတွင် ရှေးက တွင်ကျယ် အရေးပါလှစွာ သုံးစွဲပြုစုခဲ့သော ပေစာတို့ကို လူတို့က တန်ဖိုးမသိသဖြင့် အပြန့်အနှံ့ဖြစ်နေသည်ကို ၁၈၆၀ ပြည့်နှစ်မှစ၍ အစိုးရက ဌာနတခုဖွင့်လှစ်ပြီးလျှင်၊ ပြန်လည်စုဆောင်း ထိန်းသိမ်းခဲ့သည်။ ပညာရှိ ပဏ္ဍိတ်တို့ကို ဥာဏ်ပူဇော်ခ အထောက်အပံ့ပေးကာ တိမ်မြုပ်နေခဲ့သော ပေစာထုပ်တို့ကို ပြန်လည် စုဆောင်းရေး၊ တွေ့ရှိသည်ကို မပျက်မစီးရအောင် ပြုပြင်ပေးရေး၊ ပေစာပါ အကြောင်းရပ်တို့ကို မိုက္ကရို ဖလင်ဖြင့် စံနစ်တကျ ရိုက်ကူးရေး၊ သုတ်သင်တည်းဖြတ်ရေး၊ ပြန်လည် ပုံနှိပ်ထုတ်ဝေရေးတို့ကို အားထုတ်စေရန် သုတေသနဌာနများ ဖွင့်လှစ်ပေးခဲ့သည်။ ထိုသို့ဖြင့် ရှေးစာပေ အမြုတေတို့ကို ဖော်ထုတ်ပြီးသော်၊ အစွန့်ရှည်ကြာစွာ တည်တံ့အောင် ဆောင်ရွက်ကြလေသည်။

ယင်းသို့သော လုပ်ငန်းများ ဆောင်ရွက်ရာ၌ စံပြဌာနတခုမှာ မိုက်ဆိုးပြည်နယ်မှ အရှေ့တိုင်း သုတေသန လုပ်ငန်းများဌာနဖြစ်သည်။ ယင်းဌာနကို ၁၈၈၇ ခုနှစ်က ထိုပြည်နယ်၏ စော်ဘွားကြီး မဟာရာဇာ ဝူးဒီးယား ဗဟာဒူးက စတင်ဖွင့်လှစ်ပေးခဲ့သည်။ ယင်းဌာန၏ ဆောင်ရွက်မှုတို့သည် အောင်မြင်ထင်ရှားခဲ့သဖြင့် အိန္ဒိယပညာရှင်တို့က သာမက အနောက်တိုင်း ပညာရှင်တို့ကပင် ချီးကျူးလေးစားကြသည်။ လွန်ခဲ့သော အနှစ် ၅၀၀ ကျော်ခန့်က ရေးကူးထားခဲ့သော ပညာရှိကဝိကြီး ကောတ္တိလျ (စာဏကျနီတိ ဆရာကြီး)၏ အဖိုးတန်ပညာစုံ အာသာ သျှတ္တရကျမ်းကြီး၏ ပေမူကို ယင်းဌာနကြီးက လက်ဝယ် ပိုင်ဆိုင်ထားသည်။



ပေစာများမပျက်စီးရန် ဆီများ သုတ်လိမ်းပေးရသည်။

နှင့် ရေးသားသော 'သီဟိုဠ် နိုင်ငံသမိုင်း' အမည်ရှိ စာအုပ်၌ သီဟိုဠ်သားတို့ ပေရွက်၊ ထန်းရွက်တို့ကို စာရေး စာကူးနိုင်သည့် အခြေရောက်အောင် ပြုပြင်နည်းကို ဖော်ပြထားသည်။ 'အတိတ်နှင့် ပစ္စုပ္ပန် မြန်မာပြည်' စာအုပ်ကို ရေးသားသူ လက်ဖတင်နင် ဂျင်နရယ် အေဖိုက်က မြန်မာပြည်သားတို့လည်း သီဟိုဠ်သားတို့ထံမှ နည်းယူပြီးလျှင် ထိုစံနစ်အတိုင်း ပြုပြင်ကြကြောင်း ရေးသား ထားလေသည်။ (မြန်မာပေစာ — ရှု။)

ပေရွက်ပေါ်တွင် သံချွန်ကလေးများဖြင့် ရေးသားကြ၍၊ မြန်မာနိုင်ငံတွင် ထိုသံချွန်ကလေးများကို ကညစ်တံဟုခေါ်သည်။ နောင်အခါ မြန်မာနိုင်ငံတွင် မင်ရေး ပေ၊ ဆေးဒန်းရွှေချ ပေ၊ သို့မဟုတ် ဇီဇဝါပေရေးနည်းတို့ကိုလည်းအသုံးပြုကြသည်။ အိန္ဒိယနှင့် သီဟိုဠ်နိုင်ငံတို့တွင် ကညစ်ရေး ပေကို အသုံးပြုများသည်။ အသုံးပြုသောပေ၏ အလျားမှာ တပေမှ နှစ်ပေအထိ ရှည်လျား၍၊ အချို့မှာ လက်ဝါးပေါ်တွင် တင်နိုင်လောက်အောင် သေးငယ်သည်။ ထိုမျှသေးငယ်သော ပေပေါ်တွင် တမျက်နှာလျှင် စာကြောင်းရေ ၂၀ အထိ ရေးသားထားသည်ကို တွေ့ရသည်။

**ပေတန်း, အန်းရီဖိလစ် (ခရစ် ၁၇၅၆–၁၉၅၁)။** ။ ပဌမနှင့် ဒုတိယ ကမ္ဘာစစ်အတွင်းက ပြင်သစ်နိုင်ငံကို ဦးစီးခေါင်းဆောင် ပြုသော စစ်သူကြီး အဖြစ်ဖြင့် ကျော်ကြားခဲ့သော်လည်း၊ နောက်ဆုံးတွင် ပြင်သစ်နိုင်ငံ၏ အစိုးရက

နိုင်ငံတော် သစ္စာဖောက်မှုဖြင့် အရေးယူခြင်း ခံရသော ပုဂ္ဂိုလ်ကား မာရှယ် ပေတန်းပင် ဖြစ်သည်။ အန်းရီ ဖိလစ် ပေတန်းသည် ၁၈၅၆ ခုနှစ် မေလ ၄ ရက်နေ့တွင် ပြင်သစ်နိုင်ငံ ကူရှီလာတူးမြို့ကလေး၌ ဖွားမြင်၍၊ တောင်သူ လယ်သမား မျိုးရိုးဖြစ်သည်။ အရွယ်ရောက်သောအခါ စန့်ဆီယာမြို့ရှိ စစ်ကျောင်း၌ စစ်ပညာသင်ယူပြီးသော်၊ စစ်ထဲသို့ ဝင်ရောက် အမှုထမ်းသည်။ ၁၉၁၁ ခုနှစ်တွင် ဗိုလ်မှူးကြီး ရာထူးကို ရရှိသည်။

ပဌမကမ္ဘာစစ် ဖြစ်ပွားသောအခါ၊ အမှတ် ၄ ခြေလျင်တပ်မဟာတခုကို ကွပ်ကဲ အုပ်ချုပ်ခဲ့ရ၍၊ ရှာလရွားမှ မန်းအထိ အောင်မြင်စွာ ဆုတ်ခွါ နိုင်ခဲ့သောကြောင့် ကျော်ကြားခဲ့၏။ ထိုကြောင့် စစ်သူကြီး ဂျော့ဖားက သူ့အား မန်းတိုက်ပွဲမဟိုင်မီ၊ ဗိုလ်ချုပ်အဖြစ် တိုးမြှင့်ခန့်ထားကာ၊ အမှတ် ၃၃ တပ်ဖွဲ့ကို ကွပ်ကဲစေခဲ့လေသည်။ ၁၉၁၅ ခုနှစ် ဇွန်လ ၂၁ ရက်နေ့တွင်မူ၊ အမှတ် ၂ တပ်မတော်ကြီးကို ကွပ်ကဲအုပ်ချုပ်ကာ ရှန်ပိန်းတိုက်ပွဲ၌ ပါဝင် တိုက်ခိုက်ခဲ့ရပြန်လေသည်။

၁၉၁၆ ခုနှစ် ဖေဖွာရီလထဲတွင် ဂျာမန်တို့ကဗားဒန်းမြို့ကို ထိပါးလာရာ၊ ဗိုလ်ချုပ်မှူးပေတန်း အုပ်ချုပ်သော ပြင်သစ်တပ်များက အောင်မြင်စွာ တိုက်ခိုက် တွန်းလှန် နိုင်ခဲ့သည်။ ထိုကြောင့်ပင် ပေတန်းအား 'ဗားဒန်းကို ကယ်တင်သူ' ဟူ၍ ခေါ်စမှတ် ပြုကြသည်။ ဗားဒန်း တိုက်ပွဲပြီးသည့်နောက် ၁၉၁၇ ခုနှစ် ဧပြီလ ၂၈ ရက်နေ့တွင် စစ်ဦးစီးချုပ် အဖြစ် ခန့်အပ်ခြင်း ခံရပြီးလျှင်၊ မျှားမကြာမီ အနောက်မျက်နှာရှိ တပ်များ၏ သေနာပတိချုပ်အဖြစ် ဆောင်ရွက်ရပြန်သည်။

၁၉၁၈ ခုနှစ် မတ်လ ၂၆ ရက်နေ့တွင် စစ်သူကြီးဖော့အား မဟာမိတ် တပ်ပေါင်းစု စစ်သေနာပတိချုပ်အဖြစ် ခန့်ထားလိုက်သောအခါ၊ ပေတန်းသည် ပြင်သစ်တပ်များ၏ သေနာပတိအဖြစ် ခန့်ထားခြင်း ခံရလေ၏။ ပဌမ ကမ္ဘာစစ်ကြီး ပြီးဆုံးသွားသောအခါတွင်ကား မာရှယ် (စစ်သူကြီး) ဖြစ်လာလေသည်။

၁၉၂၀ ပြည့်နှစ်တွင် အထက်တန်း စစ်ကောင်စီ ဒုတိယ ဥက္ကဋ္ဌအဖြစ် ခန့်ထားခြင်းခံရသည်။ အထက်တန်းစစ်ကောင်စီဒုတိယဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ခဲ့စဉ်က မိုရော့ကို နယ်တွင် အဗ္ဗဒူကရင် ပုန်ကန်ထကြွခဲ့သည်ကို နှိမ်နင်းခဲ့ရ၏။ ၁၉၃၁ ခုနှစ်တွင် လေကြောင်း ကာကွယ်ရေးဆိုင်ရာ မင်းကြီးအဖြစ် ဆောင်ရွက်ခဲ့ရသည်။ ထိုနှစ်တွင်ပင် အထက်တန်း အမျိုးသား ကာကွယ်ရေးကောင်စီ အဖွဲ့ဝင်ဖြစ်လာခဲ့သည်။

၁၉၃၄ ခုနှစ်တွင် စစ်ဝန်ကြီးအဖြစ် ခန့်အပ်ခြင်းခံရလေသည်။ ၁၉၃၉ ခုနှစ်တွင်ကား စပိန်နိုင်ငံသို့ သံအမတ်အဖြစ် သွားရောက် အမှုထမ်းခဲ့သည်။

၁၉၄၀ ပြည့်နှစ်တွင် ဂျာမန် စစ်တပ်များသည် ပြင်သစ်နိုင်ငံထဲသို့ ကျူးကျော် ဝင်ရောက်လာကြလေသည်။ ပြင်သစ်တပ်များသည် နေရာအနှံ့အပြား၌ အရေး ရှုံးနိမ့်နေသည့်အချိန်တွင် စစ်သူကြီး ပေတန်းသည် ဒုတိယ ဝန်ကြီးချုပ် ဖြစ်လာလေသည်။ ဝန်ကြီးချုပ်မှာ ရေးနိုး ဖြစ်သည်။ ပေတန်းက ဂျာမန်တို့နှင့်စေ့စပ်ကာစစ်ပြေငြိမ်းလိုပေသည်။ ဗားဒန်းတိုက်ပွဲတွင် အောင်ပွဲရခဲ့သည့် စိတ်ဓာတ်မျိုး ပေတန်းတွင် မရှိတော့ပြီ။ ဤတွင် ဝန်ကြီးချုပ်ဖြစ်သူ ရေးနိုးသည် သူနှင့် သဘောကွဲလွဲပြီးလျှင်၊ ရာထူးမှ နုတ်ထွက်လိုက်လေသည်။ ထိုအခါ ပေတန်း ဝန်ကြီးချုပ် ဖြစ်လာခဲ့လေသည်။ မကြာမီ ဂျာမနီနိုင်ငံနှင့် စစ်ပြေငြိမ်းရေး စာချုပ်ကို ၁၉၄၀ ပြည့်နှစ် ဇွန်လ ၂၂ ရက်နေ့တွင် ချုပ်ဆိုခဲ့သည်။ ထိုနောက် အမျိုးသားလွှတ်တော်က ပေတန်းအား တချက်လွှတ်ဥပဒေဖြင့် အုပ်ချုပ်နိုင်ခွင့် အာဏာကို အပ်နှင်းလိုက်သည်။ ပေတန်းသည် ဂျာမန်တို့ မသိမ်းပိုက် မိသေးသော နယ်ပယ်များတွင် အာဏာရှင် စနစ်ဖြင့် အုပ်ချုပ်ပြီးလျှင်၊ အစိုးရဌာနချုပ် ရုံးကိုလည်း ဗီရှီမြို့သို့ ရွှေ့ပြောင်းထားခဲ့သည်။ ဦးစွာ ပဌမတွင် ပေတန်းအား လူကြိုက်များခဲ့သည်။ သို့ရာတွင် နောင်အခါ၌ ပေတန်း၏ အစိုးရသည် ပြင်သစ်နိုင်ငံနယ်ပယ်အများကို သိမ်းပိုက်ထားသော ဂျာမန်တို့နှင့်ဆက်



ပြင်သစ် စစ်သူကြီးအဖြစ် ကျော်ကြားသူ မာရှယ်ပေတန်း

သွယ်နေသောကြောင့် အကြည်ညိုပျက်လာကြ၏။ ၁၉၄၂ ခုနှစ် နိုဝင်ဘာလတွင် ဂျာမန် တပ်များသည် ပြင်သစ် တနိုင်ငံလုံးကို သိမ်းပိုက်မိခဲ့လေသည်။ ထိုအခါတွင် ပေတန်းသည် အာဏာမဲ့ ဖြစ်သွားလေ၏။

မဟာမိတ် တပ်များသည် ပြင်သစ် ကမ်းခြေသို့ တက်ရောက်တိုက်ခိုက်ခဲ့သောအခါ၊ ဟစ်တလာက ပေတန်းကို ဂျာမနီနိုင်ငံသို့ ခေါ်ထားလေသည်။ စစ်အပြီးတွင် ပေတန်းသည် ပြင်သစ်နိုင်ငံသို့ ပြန်လာခဲ့ရာ၊ နိုင်ငံတော် သစ္စာဖောက်မှုကြီးဖြင့် ဖမ်းဆီး တရားစွဲဆိုခြင်း ခံရလေသည်။ တရားရုံးတော်က ပေတန်းအား အပြစ်ထင်ရှားကြောင်းတွေ့ရှိသဖြင့်၊ သေဒဏ် အပြစ်ပေးလိုက်၏။ ထိုအချိန်တွင် ပေတန်းမှာ အသက် ၈၉ နှစ်ပင် ရှိနေလေပြီ။ သို့ဖြစ်၍ ဗိုလ်ချုပ်ဒဂိုးက သေဒဏ်ကို တသက်တကျွန်းဒဏ်အဖြစ် ပြောင်းလဲလိုက်လေသည်။ ပေတန်း ရရှိခဲ့သော ဂုဏ်ထူးဘွဲ့ထူးများနှင့် အခွင့်အရေးများကိုလည်း အစိုးရက ရုပ်သိမ်းလိုက်လေသည်။ ဤသို့လျှင် ပေတန်းသည်ပြင်သစ်ကမ်းခြေအနောက်တောင်ဖက်ရှိ အီလဒျူးကျွန်း၌ အကျဉ်းချထားခြင်းကို ခံရပြီးလျှင်၊ ၁၉၅၁ ခုနှစ် ဇူလိုင်လ ၂၃ ရက်နေ့၌ အသက် ၉၅ နှစ်အရွယ်တွင် ကွယ်လွန်လေသည်။

**ပေပစီ။** ။ပုပ်ရဟန်းမင်းစံနစ် — ရှု။

**ပဲ့ကျင်မြို့။** ။ပီကင်းမြို့ — ရှု။

**ပဲ့တင်သံ။** ။ကျွန်ုပ်တို့သည် အလွန်ကျယ်ဝန်းသော ဂူ၊ လိုဏ်၊ကျောင်း၊ တန်ဆောင်းစသည်ထဲသို့ ရောက်သွားသောအခါ၌၎င်း၊ တောင်ကမ်းပါး၊ တောင်စောင်းနှင့် တောအုပ်အနီးသို့ ရောက်သွားသောအခါ၌၎င်း တစုံတယောက်သောသူ၏နာမည်ကို ဟစ်အော်၍ ခေါ်လိုက်သောအခါ၊ ကျွန်ုပ်တို့ခေါ်လိုက်သော နာမည်အတိုင်းပင် အသံတခု တုံ့ပြန်၍ လာသည်ကို ကြားမိပေလိမ့်မည်။ ထိုသို့ မူလက ဟစ်အော်သည့်အတိုင်း တုံ့ပြန်၍ လာသော အသံသည် ပဲ့တင်သံ ဖြစ်သည်။

အသံတခုကို ပြုလိုက်သောအခါ၊ အသံလှိုင်းတို့သည် အသံပြုရာ ဗဟိုချက်မမှ ပတ်ဝန်းကျင်သို့ စက်ဝန်းသဖွယ် ပျံ့နှံ့သွားလေသည်။ ငြိမ်သက်လျက်ရှိသော ရေမျက်နှာပြင်ထက်သို့ ခဲတလုံး ပစ်ချလိုက်သောအခါ၊ ကျရာ အရပ်မှ လှိုင်းဂယက်များသည် စက်ဝန်းသဏ္ဌာန် ပတ်ဝန်းကျင်သို့ ဖြာ၍ ထွက်ဘိသကဲ့သို့ ဖြစ်သည်။ ထိုသို့ ပျံ့နှံ့သွားသော အသံလှိုင်းသည် တနေရာရာတွင် တစုံတခုသော အဆီးအတားကို တွေ့သည်ရှိသော်၊ မိမိလာခဲ့ရာအရပ်သို့ တုံ့ပြန်လေသည်။ ထိုသို့ နောက်ပြန် တုံ့လာသော အသံလှိုင်းကို မူလက အသံပြုသူသည် တဖန် ပြန်၍ ကြားရသည်။ အလားတူ ဥပမာတရပ်ကို ပေးရလျှင်၊ ကလေးတယောက်သည် နံရံတခုကို ဘောလုံးဖြင့် ပေါက်၍ ကစားသောအခါ၊ ထိုပေါက်လိုက်သော ဘောလုံးသည် ကစားသူကလေး၏ထံသို့ ပြန်လာသည့် နည်းတူ ဖြစ်လေသည်။ ဤကဲ့သို့အသံလှိုင်းသည် မူလနေရာရင်းသို့ပြန်၍ရိုက်တတ်သည့် အခြင်းအရာကို ပဲ့တင်သံ ဖြစ်ပေါ်သော အခြင်းအရာဟု ဆိုကြကုန်သည်။ ပဲ့တင်သံသည် မူလ အသံကဲ့သို့ ပြတ်သားကျယ်လောင်ခြင်း မရှိချေ။ တခါတရံ အသံတခုတည်းမှ ပဲ့တင်သံ လေးငါးဆယ်ခုမျှ ဆက်တိုက် ပေါ်ထွက်လာတတ်သည်။ ဤသို့ ဖြစ်ခြင်းမှာ အသံဖြစ်ရာ အရပ်နှင့် အကွာအဝေးချင်း မတူညီသော နံရံစသော အဆီးအတားပေါင်းများစွာတို့မှ ပြန်လည် ရိုက်ဟပ်လာသောအသံတို့ကြောင့်ပင် ဖြစ်လေသည်။ထိုကြောင့် ပြပွဲရုံ၊ဇာတ်ရုံနှင့် တရားဟောခန်းမကြီးတို့ကို ဆောက်လုပ်ရာ၌ ပဲ့တင်သံများ အထပ်ထပ်ထွက်ပေါ်လာပြီးလျှင်၊ သီချင်းသံ၊ တီးမှုတ်သံနှင့် စကားသံများကို ငုံသွားခြင်း မရှိရလေအောင်၊ ဗိသုကာ ဆရာတို့သည် အသံလုံစေခြင်းငှါ အထူး ပြုပြင် တည်ဆောက်လေ့ရှိသည်။

အသံ၏အသွားနှုန်းကို တိုင်းတာရာတွင် ဆာအိုင်ဇပ်နျူတန်သည် ပဲ့တင်သံကိုပင် အသုံးပြု၍ တိုင်းတာသည်။ သူသည် ထရင်နီတီ ကောလိပ်ကျောင်းရှိ စင်္ကြံ၏အဆုံးတဖက်တွင်ရပ်ကာ၊ ကြမ်းကိုခြေနှင့် ဆောင့်၍ အသံကို ဖြစ်ပေါ်စေသည်။ ထိုနောက် ထိုအသံသည် စင်္ကြံ၏ အခြားအဆုံးဖက်နံရံကို ရိုက်ပြီးနောက် ပဲ့တင်သံအဖြစ် ပြန်လည် ကြားရသည်အထိ ကြာမြင့်သောအချိန်နှင့် အသံသွားရသော အသွားအပြန်ခရီးကို တိုင်းတာမှတ်သားပြီးလျှင် အသံ၏ အသွားနှုန်းကို တွက်ချက်ယူလေသည်။ နျူတန် တွက်ချက်၍ သိရသော အသံ၏ အသွားနှုန်းမှာ တစက္ကန့်လျှင် ၁၀၈၉ ပေဖြစ်လေသည်။ သို့သော် အသံ၏ အသွားနှုန်းသည် အပူချိန်ကို လိုက်၍ အပြောင်းအလဲရှိသည်။ ရေခဲသော ၃၂ ဒီဂရီ ဖာရင်ဟိုက်ရှိသည့် အပူချိန်၌ အသံ၏ အသွားနှုန်းသည် ၁,၀၈၈ ပေ ဖြစ်သည်။ အသံ၏ အသွားနှုန်းသည် ပကတိ အပူချိန်၏ နှစ်ထပ်ကိန်းရင်းနှင့် အချိုးတူ ဖြစ်သည်။ (အသံ — လည်းရှု။)

**ပယ်မိုင်းရားမြို့။** ။ဆီးရီးယား နိုင်ငံ၏ ရှေးမြို့ဟောင်းတခုဖြစ်သော ပယ်မိုင်းရားမြို့သည် ဒမက်စကတ်မြို့ အရှေ့မြောက်မိုင် ၁၅၀ အကွာတွင်တည်ရှိ၏။ဤမြို့ကို သမ္မာကျမ်းစာတို့၌ တပ်ဒမိုမြို့ဟု ဖော်ပြထားသည်။ ဆောလမွန်ဘုရင်မင်းမြတ် တည်ခဲ့သည်ဟုဆို၏။ ကမ္ဘာ၏အရှေ့နှင့် အနောက်ကိုဆက်သွယ်သော လမ်းမကြီးပေါ်၌ တည်ရှိသဖြင့်၊ ရောမ



ပယ်မိုင်းရားမြို့ရှိ ဇီနိုး ဗီးယား ဘုရင်မ တည်ဆောက်ခဲ့သော နန်းမြို့တော်၏ ရှုခင်းတရပ်

နိုင်ငံ ကောင်းစားစဉ်က ကုန်သွယ်ရာ ဗဟိုဌာနကြီး ဖြစ်ခဲ့ဘူးသည်။ အေဒီ ၁၃၀ မှ အေဒီ ၂၇၀ အတွင်း၌ ထိုမြို့သည် အလွန်စည်ပင်သာယာဖွံ့ဖြိုးခဲ့သည်။ ထိုခေတ်အတွင်း၌ ထိုမြို့ကိုအုပ်ချုပ်သူ အော့ဒီနေးသပ်သည် ရောမနိုင်ငံ အရှေ့ပိုင်းဒေသ ဘုရင်ခံချုပ်အဖြစ် ခန့်ထားခြင်းခံခဲ့ရ၏။သို့သော် အော့ဒီနေးသပ်သည် တန်ခိုးရှိန်စော် အကြီးမြင့်ဆုံးအချိန်ဖြစ်သော အေဒီ ၂၆၇ ခုနှစ်တွင် လုပ်ကြံခြင်း ခံရလေသည်။ ထိုအခါ ယင်း၏ကြင်ယာဖြစ်သော ဇီနိုးဗီးယားသည် ဆီးရီးယားအပါအဝင်ဖြစ်သော လွတ်လပ်သည့် နိုင်ငံကို ဖန်တီးရန်ကြိုးပမ်းခဲ့ရာ၊ ရောမ ကေရာဇ် ဘုရင်၏ တိုက်ခိုက် နှိမ်နင်းခြင်းကို ခံရ၍၊ အေဒီ ၂၇၃ ခုနှစ်တွင် ပယ်မိုင်းရားမြို့သည်လည်း ပျက်စီး တိမ်ကောခဲ့ရလေသည်။ ယခုအခါ ပယ်မိုင်းရားမြို့သည် ပျက်စီးယိုယွင်းလျက်ရှိသော ရှေးဟောင်းအဆောက်အအုံတို့အတွက် ကျော်စောသည်။

**ပယ်လက်စတိုင်။** ။ခရစ်ယန် သမ္မာကျမ်းစာများတွင်ပါလာဘိနှင့်ပြည့်ဟူ၍ ထင်ရှားစွာ ပါဝင်ခဲ့သော ပယ်လက်စတိုင်နိုင်ငံသည် ပမာဏအားဖြင့် သေးငယ်သော်လည်း ယဟူဒီ၊ ခရစ်ယန်နှင့် မွတ်စလင်များအတွက် အရေးပါလှသော နိုင်ငံဖြစ်ခဲ့လေသည်။ ယင်း နိုင်ငံသည် အီဂျစ်၊ လက်ဗနွန်နှင့် ဆီးရီးယားနိုင်ငံတို့ အကြားတွင်ရှိ၍ မြေထဲပင်လယ် အရှေ့တောင်ဖက်ကမ်းခြေကို တစိတ် တဒေသအားဖြင့် အခြေပြုကာတည်ရှိခဲ့သည်။ ယခုအခါတွင်မူ ပယ်လက်စတိုင်နိုင်ငံ ပျောက်နေလေပြီ။

၁၉၄၈ ခုနှစ်တွင် ပက်လက်စတိုင် နိုင်ငံ တစိတ်တဒေသတွင် အဇ္စရီယယ်ဟူသောခေတ်သစ်ယဟူဒီနိုင်ငံကို ထူထောင်လိုက်ကြ၍ ကျန်ရှိသော ပယ်လက်စတိုင် နိုင်ငံ အစိတ် အပိုင်းတို့ကို အာရပ်နိုင်ငံများ ဖြစ်ကြသော ဂျော်ဒန်၊ အီဂျစ်နှင့် လက်ဗနွန် နိုင်ငံတို့က သိမ်းသွင်းလိုက်ကြလေသည်။ ၁၉၄၈ ခုနှစ် မတိုင်မီက ပယ်လက်စတိုင် နိုင်ငံ၏ အကျယ်အဝန်းသည် ၁၀, ၄၃၄ စတုရန်းမိုင်ရှိခဲ့ရာ၊ယင်းအနက် အဇ္စရီယယ်နိုင်ငံထဲသို့ စတုရန်းမိုင်ပေါင်း ၇,၀၀၀ ကျော် ပါသွားသည်။ ကျန်သော စတုရန်း မိုင်တို့သည် ဂျော်ဒန် (ထရန့်စ ဂျော်ဒန်) အီဂျစ်နှင့် လက်ဗနွန်နိုင်ငံများအတွင်းသို့ ပါဝင်သွားလေသည်။

ပယ်လက်စတိုင်သည် ကမ္ဘာ့သမိုင်းတွင် လူသားတို့ ပဌမဆုံး အိုးအိမ် ထူထောင်နေထိုင်ခဲ့သော ဒေသတခုဖြစ်သည်။ ရှေးနှစ်ပေါင်း ၂၀,၀၀၀ ခန့်က လူတို့ နေထိုင်ခဲ့ကြသော ဂူများကို တွေ့ကြရသည်။ ကမ္ဘာ့ယဉ်ကျေးမှု သမိုင်းတလျှောက် ထင်ရှားသောအဖြစ်အပျက်များစွာတို့သည် ပယ်လက်စတိုင်၌ ဖြစ်ပွားခဲ့သည်။ ခရစ်ယန် သမ္မာကျမ်းစာများအရ ပယ်လက်စတိုင်နိုင်ငံ၊ ဗက်သလီဟမ်မြို့တွင် ခရစ်

တော်ကို ဖွားမြင်၍ နက်ဇရက်မြို့တွင်လူလားမြောက်ခဲ့သည်ဟုဆိုသည်။ ယဟူဒီ လူမျိုးတို့အဖို့မှာမူ ယဟူဒီလူမျိုး ဖခင်ကြီး အဗရာဟမ်အား ယင်းနိုင်ငံရှိ ရာဇဝင်ထင်ရှားသော ဟီဗရွန်မြို့တွင် မြှုပ်နှံ သင်္ဂြိုဟ်ခဲ့သဖြင့် ယင်းဒေသသည် ယဟူဒီများအဖို့ အထွတ်အမြတ် ဖြစ်သည်။ မွတ်စလင်တို့ကလည်း ပယ်လက်စတိုင်သည် မိမိတို့ ဘိုးဘေးပိုင် နိုင်ငံဖြစ်၍ ခုံမင်မြတ်နိုးကြလေသည်။

ယင်းသို့ဖြင့် ပယ်လက်စတိုင်၏ မြို့တော်ဖြစ်သော ဂျေရုဆလမ်မြို့သည် ဆိုခဲ့သော အယူဝါဒကြီး သုံးခုကို သက်ဝင်ယုံကြည်သူတို့ ဘုရားဖူး ရောက်ကြရာ သေဉ်မြေဖြစ်သည်။ ယင်းဘုရားဖူးတို့ကို အကြောင်းပြု၍ ကရူးဆိတ် စစ်ပွဲကြီးများ ရှစ်ကြိမ်မျှ ပယ်လက်စတိုင်တွင် ဖြစ်ပွားခဲ့၍ သွေးချောင်းစီးခဲ့လေသည်။

ပယ်လက်စတိုင် နိုင်ငံ၏ သမိုင်းကို ဟီဗြူလူမျိုးတို့က မှတ်တမ်းတင်ခဲ့ရာ ဓမ္မဟောင်းကျမ်းများ၌ တွေ့ကြရသည်။ ထိုကြောင့် လွန်ခဲ့သော နှစ်ပေါင်း ၅၀,၀၀၀ ခန့်က သမိုင်းများတွင်ပင် ပယ်လက်စတိုင် နိုင်ငံအကြောင်းကို တွေ့ကြရသည်။ ဘီစီ ၃,၀၀၀ ခန့်က ထိုဒေသတွင် ကန်နန်းနိုက် လူမျိုးများ နေထိုင်ခဲ့သဖြင့် ကန်နန်းဒေသဟူ၍ ခေါ်ဆိုခဲ့




ပယ်လက်စတိုင်ပြည် တည်နေရာပြမြေပုံ



ပယ်လက်စတိုင်ပြည်တွင်းရှိ အာရပ်လူနည်းစုများ

သည်။ နောင်အခါ ဖိလစ်စတင်း လူမျိုးတို့သည် အချို့ဒေသများတွင် ဝင်ရောက် နေထိုင်ကြသဖြင့် ဖိလစ်ရှား ဟူ၍ ခေါ်တွင်ပြန်သည်။ ပယ်လက်စတိုင် ဟူသော အမည်သည် ဖိလစ်ရှားမှ ဆင်းသက်လာသည်ဟု ဆိုကြသည်။

ကန်နန်းနိုက်နှင့် ဖိလစ်စတင်း လူမျိုးတို့ နေထိုင်ရာဒေသများသို့ ဟီဗြူ လူမျိုးတို့ ရောက်လာကြ၍ မကြာမီ ထိုဒေသတွင်လွှမ်းမိုးကြီးစိုးလာကြပြီးလျှင် ဟီဗြူလူမျိုး ဆော (ရှောလု)၏ လက်ထက်၊ ဘီစီ ၁၁ ရာစုခန့်တွင် ပယ်လက်စတိုင်၌ ဘုရင်စံနစ်ကို ထူထောင်ကြလေသည်။

ဆောဘုရင်၏ နောက်၌ ကမ္ဘာ့နိုင်ငံ သမိုင်းတွင် ထင်ရှားလှသော ဒေးဗစ်ဘုရင်၊ ဆော်လမွန်ဘုရင်တို့ စိုးစံပြီးနောက် ဘီစီ ၁၀ ရာစုနှစ်ခန့်မှစ၍ နိုင်ငံနှစ်ခြမ်းကွဲပြီးသော် ဂျူဒါနှင့် အဇ္ဇရီယယ်ဟူ၍နှစ်နိုင်ငံဖြစ်သွားလေသည်။ ဂျူဒါနိုင်ငံသားတို့ကို ဂျူး၊ သို့မဟုတ် ယဟူဒီ ဟူ၍ ခေါ်ဝေါ်ကြရာ၊ နောင်အခါ ဟီဗြူလူမျိုးအားလုံးကို ယဟူဒီဟု ခေါ်ဝေါ်ကြလေသည်။ အဇ္ဇရီယယ်နိုင်ငံကို အဆီးရီးယန်း လူမျိုးတို့က ဘီစီ ၇၂၂ ခုနှစ်တွင် တိုက်ခိုက် သိမ်းပိုက်၍ လူပေါင်းများစွာကို နိုင်ငံ ရပ်ခြားများသို့ ပို့သည်။ ဘီစီ ၅၈၆ ခုနှစ်တွင် ဂျူဒါနိုင်ငံကို ဗက်ဗီလုံးနီးယန်း လူမျိုးတို့က သိမ်းပိုက်၍ ယဟူဒီ များစွာကို ဗက်ဗီလုံးနီးယားနိုင်ငံသို့ သုံ့ပန်းအဖြစ်ခေါ်ဆောင်သွားသည်။ နောက် နှစ်ပေါင်း ၁၅၀ ခန့်ကြာ၍ ပါးရှားဘုရင် ဆိုင်းရပ်သည် ဗက်ဗီလုံး နိုင်ငံအား သိမ်းပိုက်သောအခါ ယဟူဒီ သုံ့ပန်းများကို မိမိတို့နိုင်ငံရင်းသို့ ပြန်စေ

ခဲ့သည်။ ဘီစီ ၁၇၀ ခန့်တွင် ဂရိလူမျိုးတို့က ပယ်လက်စတိုင်ကို သိမ်းပိုက်ပြန်သည်။ သို့သော် ယဟူဒီတို့က တော်လှန်ပုန်ကန်သဖြင့် ဂရိတို့စိုးမိုးမှုမှလွတ်မြောက်ခဲ့ရပြန်လေသည်။

ဘီစီ ၆၃ ခုနှစ်တွင် ရောမတို့က ပယ်လက်စတိုင်ကို တိုက်ခိုက်သိမ်းပိုက်လေသည်။ ရောမတို့၏ ဖိနှိပ်မှုကြောင့် မကြာခဏပင် ယဟူဒီတို့နှင့် ရောမသားတို့ ပဋိပက္ခ ဖြစ်ရ၏။ ယင်းသို့သော ပဋိပက္ခကာလတွင် ခရစ်တော် ပေါ်ပေါက်လာပြီးလျှင် ပယ်လက်စတိုင် ဒေသတခွင်တပြင်သို့ လှည့်လည်၍ တရားဓမ္မ ဟောပြလေသည်။ ရောမတို့သည် ခရစ်တော်တွင် နောက်လိုက်များစွာ ရှိနေသည်ကို မြင်တွေ့သောအခါ ခရစ်တော် ခေါင်းဆောင်၍ ပုန်ကန် ထကြွလိမ့်မည်ဟု အထင်ရောက်ခဲ့သည်။ ထိုကြောင့် ခရစ်တော်ကို ဖိနှိပ်ခဲ့သည်။ သို့သော် ခရစ်တော်၏ တရားများကား ဂရိ၊ ရောမနှင့် အခြား ဒေသများသို့ တဖြည်းဖြည်း ပျံ့နှံ့ခဲ့လေသည်။

နှစ်ပေါင်း တရာခန့်မျှကြာအောင် ပယ်လက်စတိုင်တွင် ယဟူဒီနှင့် ရောမတို့ ပဋိပက္ခဖြစ်နေခဲ့ကြပြီးနောက်၊ နောက်ဆုံးတွင် ပယ်လက်စတိုင်သည် ရောမ အင်ပိုင်ယာကြီးအား တိတိလင်းလင်း ပုန်ကန်လေသည်။ ခြောက်နှစ်ကြာမျှ အပြင်းအထန် တိုက်ခိုက်ကြပြီးနောက် ရောမတို့ အရေးသာ၍ ယဟူဒီများကို ပြင်းပြင်းထန်ထန် နှိပ်ကွပ်လေသည်။ အေဒီ ၇၀ ပြည့်တွင် ဂျရုးဆလမ်း မြို့တော်ကြီးကို ရောမတို့က ဖျက်ဆီးပစ်သည်။ ယဟူဒီ အမြောက်အမြားတို့သည်လည်း ပယ်လက်စတိုင်တွင် မနေနိုင်ကြတော့ဘဲ၊ ကမ္ဘာအရပ်ရပ်သို့ သွားရောက်ကြသည်။ နောက် နှစ်ပေါင်း ၅၀၀ ခန့်မျှ ပယ်လက်စတိုင်သည် ရောမ အင်ပိုင်ယာ လက်အောက်ခံအဖြစ်၎င်း၊ ရောမ အင်ပိုင်ယာ ပျက်သုဉ်းပြီးနောက် ဗိုင်ဇင်းတိုင် အင်ပိုင်ယာ လက်အောက်ခံ အဖြစ်၎င်း ဆက်လက် ရှိနေခဲ့လေသည်။

အေဒီ ၆၀၀ ခန့်တွင် အစ္စလမ် အယူဝါဒီ အာရပ်လူမျိုးတို့သည် ပယ်လက်စတိုင်ကို တိုက်ခိုက် သိမ်းပိုက်လေသည်။ အီရက်၊ အီဂျစ် စသော နိုင်ငံများတွင် မွတ်စလင် ယဉ်ကျေးမှုထွန်းကားနေစဉ် ပယ်လက်စတိုင်သည် မှေးမှိန်နေခဲ့သည်။ ဥရောပ အလယ်ခေတ်တွင် ဥရောပတိုက်မှ ခရစ်ယန် အယူဝါဒီဘုရင်တို့သည် ပယ်လက်စတိုင်အား မွတ်စလင်တို့လက်မှ လွတ်မြောက်အောင် လာရောက် တိုက်ခိုက်ကြသဖြင့် ကရူးဆိတ် စစ်ပွဲများ ဖြစ်ပွားခဲ့သည်။ သို့သော် ကရူးဆိတ်များ အရေးမလှခဲ့ပေ။ ၁၅၁၇ ခုနှစ်တွင် ပယ်လက်စတိုင်သည် တူရကီတို့ လက်အောက်သို့ကျရောက်ပြီးလျှင် တူရကီစိုးမိုးမှုကို အနှစ်လေးရာခန့်မျှ ခံယူခဲ့ရလေသည်။

ယင်းသို့ စစ်ပွဲများမကြာခဏဆိုသကဲ့သို့ ဖြစ်ပွားခဲ့သဖြင့်



ပယ်လက်စတိုင်ပြည်သားတို့သည် နိုးကြားထကြွသောလူမျိုးများဖြစ်ကြသည်။



ပယ်လက်စတိုင်ပြည်ရှိ ခရစ်တော်ဖွားမြင်ရာ ဗက်သလီဟမ်မြို့ ဘုရားရှိခိုးကျောင်း

ပယ်လက်စတိုင်နိုင်ငံသည် များစွာ ဆုံးရှုံး ပျက်စီးခဲ့ရ၏။ မြို့ကြီးပြကြီးများ တိမ်ကောလုမတတ် ဖြစ်ခဲ့သည်။ မြေယာများကို ထွန်ယက်ခြင်း မပြုနိုင်သဖြင့် စိမ့်ကြီးများ ဖြစ်ပေါ်လာသည်။ အာရပ်လူမျိုးများသည် လူဦးရေ အများဆုံးဖြစ်၍ ယဟူဒီလူမျိုး အနည်းငယ်မျှသာရှိသည်။ ခရစ်နှစ် ၁၈၈၂ ခန့်တွင် ဥရောပတိုက်မှ ယဟူဒီလူမျိုး အုပ်စုသည် ပယ်လက်စတိုင်တွင် အခြေစိုက်ရန် ပဌမဆုံးရောက်ရှိလာခဲ့၏။ ယင်းတို့ရောက်ရှိလာခြင်းသည် နောင်အခါ ခေတ်သစ် အဇ္ဇရီယယ်နိုင်ငံ ပေါ် ပေါက်လာရန် လမ်းစပျိုးခြင်း ဖြစ်လေသည်။

ပဌမ ကမ္ဘာစစ်ကြီး ဖြစ်ပွားသောအခါ၊ ပယ်လက်စတိုင်သည် စစ်မြေပြင် ဖြစ်ခဲ့ရပြန်သည်။ ၁၉၁၈ ခုနှစ်တွင် ဗြိတိသျှတပ်များက တူရကီများအား မောင်းနှင် ထုတ်ခဲ့ပြီး၍ ပယ်လက်စတိုင်ဒေသကို သိမ်းပိုက်သည်။ ယင်းသို့ သိမ်းပိုက်ရာတွင် ပယ်လက်စတိုင်ဒေသရှိ ယဟူဒီများက ဗြိတိသျှတို့အား ကူညီခဲ့ကြသည်။ ၁၉၁၇ ခုနှစ်တွင် ပယ်လက်စတိုင်တွင် ယဟူဒီနိုင်ငံ ပြန်လည် ထူထောင်ရေးဂိုဏ်း ဖြစ်သော ဇီယွန်ဂိုဏ်းဝင် ဗြိတိသျှသိပ္ပံပညာရှင် ရှိမ်ဝေဇမန်ကဗြိတိသျှအစိုးရအား ပယ်လက်စတိုင် နိုင်ငံကို ယဟူဒီများ၏ ဇာတိနိုင်ငံအဖြစ် သတ်မှတ်ရန် တိုက်တွန်းနှိုးဆော်သည်။ ဗြိတိသျှအစိုးရကလည်း သဘောတူညီကာ ကျေညာချက် ထုတ်ပြန်ပေးခဲ့သည်။ ယင်းကျေညာချက်ကို ဗဲလဖိုးကျေညာချက်ဟုခေါ် ၏။ ပဌမကမ္ဘာစစ်ပြီးသော် နိုင်ငံပေါင်းချုပ်အသင်းကြီးက ထိုကျေညာချက်ကို အတည်ပြုခဲ့၏။ ၁၉၂၂ ခုနှစ်တွင် နိုင်ငံပေါင်းချုပ်အသင်းကြီးက ဗြိတိသျှအစိုးရအား ယင်း၏ ကိုယ်စားလှယ် အဖြစ် ထားရှိ၍ ပယ်လက်စတိုင် နိုင်ငံအား အုပ်ချုပ်စေ၏။ ယင်းသို့ဖြင့် ပယ်လက်စတိုင်သည် ဗြိတိသျှသြဇာခံ ဖြစ်လာသည်။

ပယ်လက်စတိုင်အား ယဟူဒီ နိုင်ငံအဖြစ် ကျေညာခြင်းကို မနှစ်သက်ဆုံးသူများကား အာရပ်များပင် ဖြစ်၏။ ယင်းသို့ အာရပ်များမကျေမနပ်ဖြစ်နေစဉ်အတွင်းပင် ယခင်အခါများက နိုင်ငံမဲ့လူမျိုးဖြစ်နေခဲ့ရသော ကမ္ဘာအရပ်ရပ်ရှိ ယဟူဒီများသည် မိမိတို့ နိုင်ငံရင်းတွင် အခြေပြန်၍ စိုက်ကြရန် ပြန်လာကြသည်။ အထူးသဖြင့် ဂျာမနီနိုင်ငံတွင်းရှိ ယဟူဒီအမျိုးသားများသည် နာဇီများ၏ ဖိနှိပ်မှုကြောင့် အလုံးအရင်းနှင့် ပယ်လက်စတိုင်ဒေသသို့ ရွှေ့ပြောင်း လာခဲ့ကြ၏။ ယင်းတို့သည် မြို့သစ်ပြသစ်၊ လုပ်ငန်းသစ်များ ထူထောင်ကာ နိုင်ငံ စည်ပင်ဝပြောရေးကို ပြုကြသည်။ အာရပ်တို့ကလည်း ပယ်လက်စတိုင်သည် မိမိတို့၏ ဘိုးဘပိုင်နိုင်ငံဖြစ်၍ ယဟူဒီတို့ တွင်ကျယ်လာမှုကို မခံမရပ်နိုင်ကြချေ။ ထိုကြောင့် အာရပ်နှင့် ယဟူဒီတို့ ပဋိပက္ခမှုများ မကြာခဏဖြစ်

ပွား၍ လက်နက်စွဲကိုင် တိုက်ခိုက်လာကြသည်။ ၁၉၃၆ ခုနှစ်တွင် အာရပ်တို့သည် အတိအလင်း ထကြွပုန်ကန်လေသည်။ ဗြိတိသျှအစိုးရသည် တိုသို့ထကြွမှုကို မနှိမ်နင်းနိုင် ဖြစ်ရသည်။ ၁၉၃၇ ခုနှစ်တွင် ဗြိတိသျှ အစိုးရသည် အာရပ်နှင့် ယဟူဒီတို့အား ပယ်လက်စတိုင် နိုင်ငံကို နှစ်ခြမ်းခွဲပေးသော်လည်း နှစ်ဖက်စလုံးက မကျေနပ်ကြချေ။ ၁၉၃၉ ခုနှစ်တွင် ဗြိတိသျှ အစိုးရသည် အာရပ်တို့ တောင်းဆိုချက်ကို လိုက်လျောသောအားဖြင့် ယဟူဒီများ ပယ်လက်စတိုင်သို့ ဝင်ရောက်မှုကိုပိတ်ပင်သည်။ ယဟူဒီတို့သည် မိမိတို့၏နိုင်ငံရင်းနှင့် မှီခိုရာဒေသ ပျောက်ကွယ်မည်စိုးသဖြင့် ဗြိတိသျှအစိုးရ၏ သဘောထားကို ဆန့်ကျင်ခဲ့ကြသည်။ ယဟူဒီတို့ ဝင်ရောက်မှုကို ဥပဒေဖြင့်တားမြစ်ခဲ့သဖြင့်၊ ယင်းတို့သည် မိမိတို့၏ အမျိုးသားများကို တိတ်တဆိတ် ခိုးသွင်းခဲ့လေသည်။

ဗြိတိသျှနှင့် ယဟူဒီတို့၏ ဆက်သွယ်မှု တင်းမာနေဆဲတွင် ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပွားလာ၏။ ပယ်လက်စတိုင်ဒေသရှိ ယဟူဒီ (ဂျူး) များသည် နာဇီများကို ဆန့်ကျင်၍ မဟာမိတ်တို့အား ကူညီခဲ့ကြသည်။ ဒုတိယ ကမ္ဘာစစ် ပြီးသော် ယဟူဒီလူမျိုးများသည် ပယ်လက်စတိုင်အပေါ် ဗြိတိသျှတို့ထားရှိသည့် သဘောထားကို ဆက်လက်၍ ဆန့်ကျင်မြဲ ဆန့်ကျင် ပြန်သည်။

၁၉၄၇ ခုနှစ်တွင် ဗြိတိသျှ အစိုးရက ပယ်လက်စတိုင် ပြဿနာကို ကမ္ဘာ့ကုလသမဂ္ဂ အဖွဲ့ကြီးသို့ တင်ပြ၏။ ကမ္ဘာ့ကုလသမဂ္ဂ အဖွဲ့ကြီးက ထိုပြဿနာကို စုံစမ်း စစ်ဆေးပြီးနောက် ပယ်လက်စတိုင်အား ယဟူဒီ နိုင်ငံနှင့် အာရပ်နိုင်ငံဟု နှစ်ပိုင်း ခွဲခြမ်း သတ်မှတ်လိုက်သည်။ ဂျေရုဆလင်မြို့ကိုမူ မည်သည့် နိုင်ငံတွင်းသို့မှ မသွတ်သွင်းဘဲ အပြည်ပြည်ဆိုင်ရာမြို့အဖြစ် ထားရန် ဆုံးဖြတ်ခဲ့သည်။

ယဟူဒီများက ယင်းအစီအစဉ်ကို လက်ခံသော်လည်း၊ အာရပ်တို့ကမူ လက်မခံပေ။ သို့ဖြစ်ရကား ယဟူဒီနှင့် အာရပ်တို့ ဆက်လက် တိုက်ခိုက်ကြပြန်သည်။ အခြား အာရပ်နိုင်ငံများကလည်း ပယ်လက်စတိုင်ရှိ အာရပ်တို့အား အကူအညီ ပေးကြလေသည်။

၁၉၄၈ ခုနှစ် မေလတွင် ဗြိတိသျှ ဩဇာခံ အုပ်ချုပ်ရေးကုန်ဆုံးခဲ့ရကား ပယ်လက်စတိုင်ရှိ ဇီယွန်ဝါဒီများက အစ္စရေးယယ်ဟူသော လွတ်လပ်သည့် နိုင်ငံသစ်တခုကို တည်ထောင်လိုက်ကြလေသည်။ (အစ္စရေးယယ်နိုင်ငံ — ရှု။)

**ပဲ။** ။လူတို့စားသုံးသည့် ဟင်းသီး ဟင်းရွက် အမျိုးမျိုးတို့ထဲတွင် ပဲသီး၊ ပဲတောင့်၊ ပဲစေ့၊ ပဲလုံး စသည်တို့သည် အာဟာရ အဖြစ်ဆုံး အစားအစာများထဲတွင် ပါဝင်ကြသည်။ အချို့ပဲသီး၊ ပဲတောင့်၊ ပဲစေ့၊ ပဲလုံးတို့သည် ပရိုတင်းဓာတ်၊ ကာဗိုဟိုက်ဒရိတ်ဓာတ်တို့ အများအပြား ပါဝင်သဖြင့် အမဲသားနှင့် ထပ်တူထပ်မျှ အာဟာရဖြစ်သော အစားအစာဟုဆိုကြသည်။ ထို့ပြင် ငွေကုန်ကြေးကျ နည်းနည်းနှင့် အာဟာရဓာတ်များများရရှိသော အစားအစာဟုလည်း ဆိုကြလေသည်။

ပဲပင် အမျိုးမျိုးရှိရာ၊ အချို့အပင်တို့သည် အပင်စောက်၊ ချုံဖုတ်ငယ်များဖြစ်ကြ၍ အချို့သည် အနွယ်ပင်များ ဖြစ်ကြသည်။ ပဲပင်တို့သည် လီဂူမီနိုးစီး မျိုးရင်းတွင် ပါဝင်သည်။ များသောအားဖြင့် ဆောင်းရာသီ သီးနှံများ ဖြစ်ကြသည်။ အရွက်တို့သည် ရွက်မြွှာသုံးခုပါဝင်သော ရွက်ပေါင်းဖြစ်သည်။ အပွင့်ကလေးများ၏ ပုံသဏ္ဌာန်သည် လိပ်ပြာကလေးများနှင့်တူသည်။ အချို့ပဲပင်တို့ကို အပွင့်လှသဖြင့် အလှစိုက် ပန်းပင်အဖြစ် ခြံဥယျာဉ်များထဲတွင်စိုက်ပျိုးကြသည်။ (ပဲမွှေးပန်းပင် — ရှု။) ပဲပင်တို့သည် နှစ်မြွှာကွဲ အသီးတောင့်များကို သီးကြသည်။ အထဲမှ အစေ့တို့သည် ကျောက်ကပ် ပုံသဏ္ဌာန်နှင့် ဆင်ဆင်တူသော ပဲလွန်းစေ့ကဲ့သို့ရှင်း၊ လုံးဝန်းသော စားတော်ပဲကဲ့သို့ရှင်း ပဲပင် အမျိုးအစားကိုလိုက်၍ ပုံပန်းခြားနားကြသည်။

အချို့ပဲပင်မျိုးတို့သည် အသီးတောင့်ကို စားရ၍ အချို့ပဲပင်မျိုးတို့သည် အစေ့ကို စားရသည်။ ပုံစံအားဖြင့် ပဲတောင့်ရှည်၊ ဗိုလ်စားပဲ၊ ပဲလိပ်ပြာတို့သည် အတောင့်စားပဲပင်များဖြစ်ကြ၍ ကုလားပဲ၊ ပဲကြီး၊ စားတော်ပဲစသည်တို့ကား ပဲသီးတောင့်တွင်းမှ အစေ့များဖြစ်ကြသည်။ အချို့ပဲပင်မျိုးတို့ကား အသီးတောင့်ကိုလည်း စားရ၍ အစေ့ကိုလည်းစားရသည်။ ပဲစောင်းလျားနှင့် ပဲစိမ်းစားတို့ကား ပဲမြစ်နှင့် စိမ်းစားဥအသီးအသီး ရရှိသော အပင်များဖြစ်၍ ဥကိုလည်း စားရသော ပဲပင်မျိုးဖြစ်သည်။

ပဲပင်တို့သည် ကမ္ဘာ့အရပ်ရပ်၌ စိုက်ပျိုး ဖြစ်ထွန်းသော အပင်မျိုးဖြစ်သည်။မူလကဥရောပတိုက်တောင်ပိုင်းနှင့် အာရှတိုက် အနောက်တောင်ပိုင်း ဒေသများတွင် ပေါက်ရောက်သော အပင်ရိုင်းများမှ ဆင်းသက် မျိုးပွားလာသော အပင်မျိုးဟု ဆိုကြသည်။ တရုပ်တို့သည် ပဲသီး၊ ပဲစေ့တို့ကို ဘီစီ ၂၀၀၀ ခန့်ကပင် စားသောက် အသုံးပြုခဲ့ကြောင်းကို သိရှိကြရ၍ သမ္မာကျမ်းများ၌လည်း ပဲသီး၊ ပဲစေ့များနှင့် စပ်လျဉ်းသည့် အချက် အလက်များ ဖော်ပြပါရှိသည်။ ထို့ကြောင့် ပဲသီး ပဲစေ့များကို ကမ္ဘာဦး ခေတ်အခါကပင် လူတို့စားသုံးခဲ့ကြောင်းကို သိရလေသည်။

အနောက်နိုင်ငံများတွင် ပဲသီး၊ ပဲတောင့်များကို လတ်လတ်ဆတ်ဆတ် တင်ပို့ရောင်းချရန်ရှင်း၊ စည်သွပ်ထည့်သွင်း တင်ပို့ ရောင်းချရန်ရှင်း အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်ကြသည်။ ပဲစေ့များကို စည်သွပ်သည့် လုပ်ငန်းများလည်း ကြီးကျယ်လှ၍၊ကမ္ဘာ့ အရပ်ရပ်သို့ တင်ပို့ရောင်းချကြသည်။



ပရိုတင်းခေတ် အထူးကြွယ်ဝသော ပဲပင်များ

အစေ့ထုတ်ယူပြီးသောအတောင့်ခွံများ၊ အပင်များ၊ အနွယ်များကို နွားစာအတွက် အသုံးပြုကြသည်။

အချို့ပဲပင်မျိုးတို့သည် ကုန်ချောပစ္စည်းများ ပြုလုပ်ရန် အသုံးဝင်သောကုန်ရိုင်းများဖြစ်ကြသည်။ ပဲပင်တို့၏ အသုံးဝင်ပုံတရပ်မှာ ယင်းတို့သည် ယင်းတို့စိုက်ပျိုးရာ မြေအားလေထဲမှ နိုက်ထရိုဂျင်ဓာတ်ကို စုတ်ယူကာ ဖြည့်တင်းသွင်းပေးခြင်းဖြစ်သည်။ ဆိုခဲ့သည့်အတိုင်း အာဟာရအလွန်ဖြစ်သော စားစရာ ဖြစ်သည် တကြောင်း၊ အထက်တွင်ဖော်ပြသော အသုံးဝင်သည့် အချက် အလက် များကြောင့် တကြောင်း ပဲပင်များသည် ဟင်းသီး ဟင်းရွက်ပင်များထဲတွင် အရေးအပါဆုံးသော အပင်များတွင် အပါအဝင်ဖြစ်လေသည်။

မြန်မာနိုင်ငံတွင်လည်း ပဲပင်အမျိုးမျိုးကို အများအပြား စိုက်ပျိုးလုပ်ကိုင်ကြသည်။ ပဲသီး၊ ပဲတောင့်များကိုကား နိုင်ငံအတွင်းတင်ပို့ရောင်းချရန် လွယ်ကူသော အရပ်များသို့ တင်ပို့ ရောင်းချနိုင်လောက်အောင် စိုက်ပျိုးကြသည်။ အစေ့သုံးပဲမျိုးတို့ကိုကား နိုင်ငံသုံးအတွက်သာမက နိုင်ငံခြားသို့ တင်ပို့ရောင်းချနိုင်လောက်အောင် စိုက်ပျိုးလုပ်ကိုင်ကြ၍ ပဲအမျိုးမျိုးကို နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းအားဖြင့် နှစ်စဉ်ဝင်ငွေ သိန်းပေါင်းများစွာ ရရှိခဲ့လေသည်။

မြန်မာနိုင်ငံ၌ ပဲအမျိုးမျိုးကို အများအပြား စိုက်ပျိုးလုပ်ကိုင်ကြသော ဒေသများမှာ စစ်ကိုင်း၊ မြင်းခြံ၊ မိတ္ထီလာ၊ မုံရွာ၊ ကျောက်ဆည်၊ မန္တလေး၊ ရွှေဘို၊ ပခုက္ကူ၊ မင်းဘူး၊ ရမည်းသင်းနှင့် ပြည်ခရိုင်တို့ ဖြစ်ကြသည်။ မြန်မာနိုင်ငံ၏ အသွေ့ခြောက်ဆုံး ဒေသများ ဖြစ်ကြသော စစ်ကိုင်းနှင့် မြင်းခြံခရိုင်တို့တွင် ပဲစိုက်ပျိုးခြင်း အထူးသဖြင့် ဖြစ်ထွန်းသည်။ မိုးများသောဒေသများ ဖြစ်လာလေလေ ပဲစိုက်ပျိုးခြင်း နည်းလာလေလေဖြစ်သည်။ ယင်းသို့ဖြင့် အထက်ဖက်တွင် ဝန်းသိုမြို့မြောက်ဖက်ဒေသများ၌ရင်း၊ အောက်ဖက်၌ ပျဉ်းမနားတောင်ဖက်တွင်ရင်း ပဲစိုက်ပျိုးခြင်းသည်တဖြည်းဖြည်း နည်းပါးလာလေသည်။ အောက်မြန်မာနိုင်ငံတွင် ပဲစိုက်ပျိုးဖြစ်ထွန်းသော ရပ်ဝန်းတခုမှာ ပြည်၊ ဟင်္သာတ၊ သာယာဝတီနှင့် မအူပင် ခရိုင်တို့ ပါဝင်သော ပြည်နှင့် တွံတေး စပ်ကြားရှိရပ်ဝန်းဖြစ်သည်။ ယင်းရပ်ဝန်းတွင် ပဲကြီးနှင့် ကုလားပဲကို အဓိကထား၍ စိုက်ပျိုးကြသည်။ မိုးကုန်၍ မြစ်ရေကျဆင်းသည့်အချိန်တွင် ဤရပ်ဝန်း၌ ပဲစိုက်ပျိုးရေး

လုပ်ငန်းကို စတင်လေသည်။ အထက်နှင့်အောက် မြန်မာနိုင်ငံ ပဲစိုက်ပျိုးသော ရပ်ဝန်းနှစ်ခုအနက် အထက်မြန်မာနိုင်ငံမှ ရပ်ဝန်းတွင် ပဲအမျိုးမျိုး စိုက်ပျိုး၍ ပိုမို ဖြစ်ထွန်းလေသည်။

မြန်မာနိုင်ငံတွင် ထင်ရှားသော အစေ့စား ပဲမျိုးတို့မှာ ကုလားပဲ၊ ပဲကြီး၊ ပဲကျား၊ ပဲယဉ်း၊ ပဲဖြူကလေး၊ စားတော်ပဲ၊ ပဲစင်းခုန်၊ ထောပတ်ပဲ၊ ပဲလွန်း၊ မာသ်ပဲ၊ ပဲတီစိမ်း၊ ပဲပေါ်၊ ပဲပိစပ်စသည်တို့ ဖြစ်သည်။ လူသုံးများသော ပဲသီး ပဲတောင့်တို့မှာ ပဲတောင့်ရှည်၊ ဗိုလ်စားပဲ၊ ပဲပိုးတီ၊ ပဲစောင်းလျား၊ ပဲဗုဇွန်၊ ပဲနပျား စသည်တို့ ဖြစ်ကြလေသည်။

**ပဲကျတ်ပျဉ်။** ။ပဲကျတ်ပျဉ်ပင်သည် ပဲပင်မျိုးထဲမှ ဖြစ်သည့်အလျောက်၊ မြေဆီလွှာတွင် နိုက်ထရိုဂျင်ဓာတ် ဖြည့်တင်းပေးရန်အတွက် အသုံးဝင်သောအပင် ဖြစ်သည်။ ကလိုဗာပင်နှင့် အယ်လဖားဖားပင်တို့သည် မြေညံ့များ၌ ဖြစ်ထွန်းနိုင်ကြောင်းသိရှိခဲ့ကြပြီး ဖြစ်သည်။ ပဲကျတ်ပျဉ်ပင်မှာ ထိုအပင်နှစ်မျိုးထက်ပင် မြေညံ့မြေကျဉ် အရပ်များ၌ သန်စွမ်းဖြစ်ထွန်းနိုင်သည်။ ပဲကျတ်ပျဉ်ကို ပဲပေါ်၊ ပဲပုတ်ဟူ၍လည်း ခေါ်ကြသေးသည်။ ပဲကျတ်ပျဉ်၏ ရုက္ခဗေဒ အမည်မှာ 'ဂလစ်စင်နီးဆိုဂျာ' ဖြစ်သည်။

ပဲကျတ်ပျဉ်ပင်ကို တရုပ်နိုင်ငံကဲ့သို့ အာရှတိုက် အရှေ့ဖျားနိုင်ငံများတွင် စတင် စိုက်ပျိုးလာခဲ့ရာ၊ ယခုအချိန်တွင် အင်္ဂလန်ပြည်နှင့် အမေရိကတိုက်တို့၌လည်း စိုက်ပျိုးလာကြပြီ။ ဖူးစားပြောင်း စိုက်ပျိုးရန်သင့်သော မြေမျိုးနှင့် ရာသီဥတုမျိုးတွင် ပဲကျတ်ပျဉ်ပင်ကို စိုက်ပျိုးနိုင်သည်။ ပဲကျတ်ပျဉ်ပင်သည် လယ်မြေများတွင် သစ်စိမ်းမြေဩဇာကျွေးရန် အတွက်သာ မဟုတ်၊ ကျွဲစာ၊ နွားစာ အတွက်သော်၎င်း၊ ဆီအတွက်သော်၎င်း များစွာအသုံးဝင်သည်။ အပင်တပင်လုံးကို ကျွဲ နွား အစာ အဖြစ်ဖြင့် အသုံးချကြသည့်ပြင်၊ ပဲစေ့ကိုလည်း အမှုန့်ပြုလုပ်၍၊ ကျွဲ နွားများကို ကျွေးကြသည်။ပဲကျတ်ပျဉ်စေ့မှထွက်သော ဆီကို ချက်ပြုတ်ရာ၌၎င်း၊ ဆပ်ပြာလုပ်ငန်း၌၎င်း၊ သဘော်ဆေးများ ဖော်စပ်ရာ၌၎င်း အသုံးချကြသည်။ ဆီကြိတ်ပြီး၍ ကျန်နေသော ပဲကျတ်ပျဉ်ဖတ်ကိုလည်း ကျွဲ နွား အစာအတွက် အသုံးပြုကြသည်။

အမဲဟင်းလျာ၌ ပါသော ပရိုတင်းဓာတ်ကို ပဲကျတ်ပျဉ်က ဖြည့်စွက်နိုင်စွမ်းရှိသဖြင့်၊ အာရှတိုက်ရှိနိုင်ငံတို့တွင် အာဟာရဓာတ် မျှတမှုကို ရစိမ့်သောငှါ၊ ပဲကျတ်ပျဉ်ကို အမျိုးအမည် အဖွယ်ဖွယ် ပြုလုပ်၍ စားသောက်လေ့ ရှိကြသည်။ ပဲကျတ်ပျဉ်ကို ပဲငန်ပြာရည် (ကြာညို့)၊ ပဲပေါ်၊ ပဲပုပ်ပြား စသည်ဖြင့် ပြုလုပ်စားသောက်ကြသည်။

ပဲကျတ်ပျဉ်ပင်သည် ချုံယောင်ပင်ငယ် ဖြစ်၍၊ ၂ ပေမှ ၄ ပေ အထိ မြင့်သည်။ အကိုင်းအခက်တို့တွင် အမွေးနုကလေးများရှိ၍၊ ဘေးဖက်သို့ ဖြာထွက်နေသည်။ အမွေးထူသော အရွက်သုံးရွက်ဆိုင်၍ ထွက်၏။

**ပဲခူးခရိုင်။** ။ပဲခူးခရိုင်သည် မြန်မာနိုင်ငံအောက်ပိုင်းပဲခူးတိုင်း၌ အပါအဝင်ဖြစ်၏။ ပဲခူးခရိုင်၏ မြောက်ဖက်တွင် တောင်ငူခရိုင်၊ အရှေ့ဖက်တွင် တောင်ငူနှင့် သထုံခရိုင်၊ တောင်ဖက်တွင် မုတ္တမကွေ့နှင့် ဟံသာဝတီခရိုင်၊ အနောက်ဖက်တွင် အင်းစိန်နှင့် သာယာဝတီခရိုင်တို့ရှိကြသည်။ ပဲခူးခရိုင်၏အကျယ်အဝန်းသည် စတုရန်းမိုင် ၄,၂၇၆ မိုင်မျှရှိ၍၊ အရှေ့ဖက်တွင် စစ်တောင်းမြစ်သည်၎င်း၊ မြောက်ဖက်တွင် ပဲခူးရိုးမ၌ မြစ်ဖျားခံသော ကွမ်းချောင်းသည်၎င်း၊ အနောက်ဖက်တွင် ပဲခူးရိုးမသည်၎င်း ပထဝီဝင် သဘောအရ နယ်နိမိတ်များ အဖြစ်ဖြင့် တည်ရှိကြသည်။

ပဲခူးခရိုင်၏ အနောက်ဖက်ပိုင်းသည်တောင်ကုန်းများ ထူထပ်၍ ရှုခင်းလှပသည်။ ပဲခူးခရိုင်၏ အနောက်မြောက်ဖက်တွင် ပဲခူးရိုးမတည်ရှိသည့်အတွက် မြစ်ချောင်း စိမ့်စမ်းတို့ လွှန်စွာပေါများ၏။ အရေးကြီးသော မြစ်ချောင်းကြီးများမှာ ပဲခူးမြစ်၊ ငမိုးရိပ် သို့မဟုတ် ပဇွန်တောင်ချောင်းနှင့် စစ်တောင်းမြစ်တို့ဖြစ်၏။ ပဲခူးမြစ်သည် ပဲခူးရိုးမ၌ မြစ်ဖျားခံ၍၊ ပဲခူးမြို့လယ်ကိုဖြတ်ကာ အရှေ့တောင်ဖက်သို့ စီးဆင်းသည်။ ထိုနောက် ရန်ကုန်မြို့အနီးတွင် လှိုင်မြစ်နှင့်ပေါင်းဆုံမိသည်။ စစ်တောင်းမြစ်သည်မြန်မာနိုင်ငံတွင်ထင်ရှားသော မြစ်ကြီးတခုဖြစ်၍၊ ရမည်းသင်းခရိုင်၏ အရှေ့ဖက်တွင် မြစ်ဖျားခံပြီးလျှင် တောင်ဖက် မုတ္တမကွေ့ထဲသို့ စီးဝင်၏။

ပဲခူးမြစ်နှင့် စစ်တောင်းမြစ်ကိုဆက်သွယ်ထားသော ပဲခူးစစ်တောင်း တူးမြောင်းရှိသည်။ ထိုတူးမြောင်းသည် စစ်တောင်းမြစ်ကမ်း မြစ်ကျိုးရွာမှ စတင်၍ သနပ်ပင်မြို့ကို ဖြတ်သန်းပြီးလျှင်၊ ပဲခူးမြို့ တောင်ဖက် ၁၀ မိုင်ကွာရှိတာဝရွာတွင် ပဲခူးမြစ်နှင့် လာရောက် ဆက်သွယ်သည်။ ပဲခူးခရိုင်သည် လယ်ယာ အကြီးအကျယ် စိုက်ပျိုးသော ခရိုင်တခုဖြစ်ရာ၊ မိုးရာသီတွင်လယ်ယာများကို ရေလွှမ်းမိုးခြင်းမှကာကွယ်ရန် မိုင်ပေါင်းများစွာ ရှည်သော ရေကာတာနှင့် တာတမံများကို ဖို့ထားရသည်။

ပဲခူးခရိုင်၏ ရာသီဥတုသည် ရန်ကုန်မြို့၌ကဲ့သို့ပင် မုတ်သုန်အားကောင်း၏။ ပဲခူးမြို့တွင် ရွာသော ပျမ်းမျှ မိုးရေချိန်မှာ ၁၂၇ လက်မရှိ၏။ သို့သော် တောင် ထူထပ်သည့် နေရာများ၌ မိုးများ၍၊ခရိုင်မြောက်ဖက်စွန်း တောင်ငူခရိုင် နယ်နိမိတ်အနီးတွင်မူ မိုးပါးသည်။

ပဲခူးခရိုင်၏ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၁၇၁,၃၆၂ ယောက်ရှိ၏။ ပဲခူးခရိုင် တဝှန်းလုံးလိုလိုပင် လယ်ပြင်များသာ ဖြစ်၍၊ မြေဩဇာကောင်းမွန်သည့်အ



ပဲခူးမြို့မှ ရွှေသာလျောင်းဘုရား



နှစ်စဉ် ဘုရားဖူးများဖြင့် စည်ကားလှသော ပဲခူးခရိုင်တွင်းရှိ ဒေးစွန်ပါဘုရား

လျှောက် လယ်ယာ လုပ်ကိုင်သူများ များပြားသည်။ ပဲခူးခရိုင်သည် မြန်မာနိုင်ငံတွင် ဆန်စပါး အထွက်ဆုံး ခရိုင်တခု ဖြစ်သည်။ ထိုအပြင် သစ်တောများလည်း ထူထပ်၍၊ သစ်လည်း များစွာထွက်သည်။

ရန်ကုန်–မန္တလေး ရထားလမ်းသည် ပဲခူးခရိုင်ကို ဖြတ်သန်းသည်ဖြစ်၍၊ ပဲခူးခရိုင်၌ ကူးသန်း သွားလာရေးသည် လွယ်ကူသည်။ ပဲခူးမြို့သည် မီးရထားလမ်းဆုံရာ မြို့ဖြစ်၍၊ ရန်ကုန်မှလာသော မီးရထားလမ်းသည် မန္တလေး၊ မော်လမြိုင်တို့သို့ ခွဲထွက် သွားကြလေသည်။

ပဲခူးခရိုင်ကို အုပ်ချုပ်ရာတွင် ပဲခူးနယ်နှင့် ညောင်လေးပင်နယ် နှစ်နယ် ခွဲခြားထားသည်။ ပဲခူးနယ်တွင် ပဲခူး၊ သနပ်ပင်၊ ကဝ နှင့် ဝေါမြို့နယ်များပါဝင်သည်။ ညောင်လေးပင်နယ်တွင် ညောင်လေးပင် အရှေ့၊ ညောင်လေးပင် အနောက်နှင့် ဒိုက်ဦးမြို့နယ်တို့ပါဝင်လေသည်။

ပဲခူးမြို့။ ။ပဲခူးမြို့သည် မြန်မာနိုင်ငံအောက်ပိုင်းပဲခူးတိုင်း အတွင်း ပဲခူးခရိုင်နှင့် ပဲခူးမြို့နယ်တို့၏ ရုံးစိုက်မြို့ဖြစ်၏။ ရန်ကုန်မြို့၏ အရှေ့မြောက်ဖက်တွင် တည်ရှိ၍ မီးရထားလမ်းအားဖြင့် ၄၇ မိုင် ကွာဝေးသည်။ မန္တလေးမြို့သို့ရင်း၊ မော်လမြိုင်မြို့သို့ရင်း သွားသော မီးရထားလမ်း များသည် ပဲခူးမြို့မှတဆင့် ခွဲဖြာထွက်သွားရရာ ယင်းမြို့သည် မီးရထားလမ်းဆုံမြို့ ဖြစ်သဖြင့် စည်ကားသည်။ ရန်ကုန် မန္တလေး မော်တော်ကား လမ်းမကြီးသည်လည်း မြို့လယ်ကို ဖြတ်သန်း သွားသောကြောင့် ကုန်စည် ရောင်းဝယ်ရေး ဖွံ့ဖြိုးလှသဖြင့် ပို၍ပင် စည်ကားသည်။

ပဲခူးမြို့သည် ပဲခူးမြစ်ကို ခွလျက်တည်ရှိသည်။ ပဲခူးရိုးမမှ ခွဲဖြာထွက်လာသော တောင်တန်းအစွယ်ကလေးတခုသည် ပဲခူးမြို့အရှေ့ဖက်စွန်းရှိ ဟသ်ာကုန်းအထိ မြို့ကို ဖြတ်သန်း သွားသည်။

ပဲခူးမြို့ကို မည်သည့်နှစ်က မည်သူ စတင်၍ တည်ထောင်သည် ဟူသောအချက်ကို အတိအကျ မပြောနိုင်ချေ။ ရွှေမော်ဓော သမိုင်းနှင့် မွန်သမိုင်းတို့၌မူ ပဲခူးမြို့ကို သုဓမ္မဝတီ ခေါ် သထုံနေပြည်တော်ကို အစိုးရသည့် မင်းဆက်မှ မင်းသားက တည်ထောင်ကြောင်းဖြင့် ဆိုသည်။ သို့ရာတွင် ထိုမင်းသား မတည်ထောင်မီကပင် ယင်း မြို့သည် ရှိပြီးဖြစ်ကြောင်းကို ထိုမင်းများမတိုင်မီ ဘုရားသခင် သက်တော်ထင်ရှား ရှိစဉ်ကပင် ဘုရားရှင်၏ ဆံတော်ဓာတ်ကို ယခု ရွှေမော်ဓောစေတီတည်ရာ သုဒဿနကုန်း၌ ဌာပနာ၍ တည်ထားသည့်အချက်ဖြင့် ယူဆဖွယ်ရှိသည်။ ဝိဇ္ဇာဓိုရ်နှင့်နဂါးမတို့ သင့်ရာမှ ရသော ဥမှပေါက်သည့် သူငယ်မနှင့် သထုံပြည်

၏ ပဋ္ဌမမြောက် မင်းဖြစ်သော တိဿခမ္မသီဟရာဇာ ဘုရင်တို့မှ ဖွားမြင်အပ်သော သမလနှင့်ဝိမလ အမြွှာညီနောင်တို့ ပဲခူးမြို့ကိုတည်သည်ဟုဆိုကြသည်။ ထိုညီနောင်သည် ခမည်းတော်မျက်၍ နန်းတော်မှ နှင်လိုက်သဖြင့် အနောက်ဖက်သို့ ရှောင်ခဲ့ရာမှ သိကြားမင်း တိုင်းထွာ၍ တည်ပေးသော မြို့တွင် ယင်း ညီနောင်သည် မင်းဖြစ်အံ့ ဟူသော အတိတ်တဘောင် ပေါ်သဖြင့် မြို့နေရာကိုရှာကြလေသည်။ သိကြားမင်းသည် မြို့တည်မည့်နေရာတွင် ရှေ့မှ နောက်သို့၊ နောက်မှ ရှေ့သို့ ပုလဲကြိုးဖြင့် တိုင်း၍ မြို့လယ်တွင် ကြငှန်းတိုင် စိုက်ထားသည်ကို တွေ့သဖြင့် သာသနာတော်နှစ် ၁၆၀ ကျော်တွင် မြို့တည်၍ သမလကုမ္မာမင်း စတင် အုပ်စိုးကြောင်းဖြင့် ဆိုကြသည်။သမလမင်းမှစ၍ တိဿမင်းတိုင် မင်း ၁၇ ဆက်နန်းစံသည်။ တိဿမင်း၏ ပလ္လင်ခန်းနေရာကို မြို့ရိုးအတွင်းဖက်တွင် ယခုတိုင်တွေ့ရသေးသည်။ သက္ကရာဇ် ၄၁၈ ခုနှစ်တွင် တိဿမင်း နတ်ရွာ စံပြီးနောက် ဟံသာဝတီ ပဲခူးနေပြည်တော်ကြီး ပျက်စီး တိမ်မြုပ်၍ နှစ်ပေါင်းများစွာ ရွာနိဂုံးကြီးဖြစ်၍ နေလေသည်။ ပုဂံပြည် စောလူးမင်းလက်ထက်တွင် အထိန်းတော် သား ငရမာန်ကန်းအား ပဲခူးမြို့ကို စားစေဘူးသည်။ မုတ္တမဘုရင် မဂဒူး၏ သမက်တော် တရဖျားလည်း ပဲခူးကို စားရသည်။ သို့ရာတွင် သာသနာနှစ် ၁၇၉၃ ခု သက္ကရာဇ် ၇၁၁ ခုနှစ်တွင် ဆင်ဖြူရှင်ဗညား ဦးမင်း လက်ထက်တွင်မှ တဆဲ့ ခြောက်ထောင့်ရှိသော မြို့ရိုးကြီး တည်ဆောက်ကာ ဟံသာဝတီ နေပြည်တော်ဟု မှည့်ခေါ်သည်။ ထိုအလျင် သာသနာနှစ် ၂၃၀ ခန့်ကမူ ယင်းမြို့ကို မဓေဝါမြို့ဟုခေါ်၍ ထိုနောက်မှ ပဲကူး၊ ဟံသာဝတီစသည်ဖြင့် မှည့်ခေါ်ခြင်းဖြစ်သည်။ပဲကူးဟုတွင်ခြင်းမှာ ဝမ်းပဲ ဟင်္သာများ ကူးသန်းနေရာ အရပ် ဖြစ်သောကြောင့် ဝမ်းပဲကူးဟု အမည်တွင်ရာမှ ပဲကူး၊ ထိုမှတဖန် ပဲခူးဟု ဖြစ်လာကြောင်းဖြင့် အချို့ဆိုကြသည်။ ဗညားဦးမင်း၏ မြို့ရိုးပျက်များကို ယခုတိုင် တွေ့မြင်နိုင်သေးသည်။ ပဲခူးမြို့၏ အကြီးအကျယ် အခမ်းနားဆုံး ကာလကား ဆင်ဖြူများရှင် ဘုရင့်နောင် မင်းတရားကြီး အုပ်စိုးခဲ့သော ကာလဖြစ်သည်။ ကောဇာသက္ကရာဇ် ၁၁၁၉ ခုနှစ်တွင် အလောင်းဘုရားသည် ပဲခူးမြို့ကိုသိမ်းပိုက်ခဲ့သည့် အခါမှစ၍ ဟံသာဝတီခေါ် ပဲခူးမြို့သည် မှေးမှိန်လာသည်။

မြို့ရိုးဟောင်း၏ အရှေ့ဖက်၌ ကပ်လျက် ဟင်္သာကန်းကို တွေ့မြင်ရ၏။ ဟင်္သာကန်းကို မန္တလေးမှ ရသေ့ကြီး ဦးခန္တိသည် အုဋ်အင်္ဂတေတို့ဖြင့် လေးထောင့်စပ်စပ် ပုံသဏ္ဍာန်ပြုပြင် တည်ဆောက်ခဲ့ပြီးလျှင် ကန်းထိပ် အလယ်ဘည့်တည့် ဟင်္သာဖို မ နားသွားသည်ဆိုသောနေရာ၌ ဘုရားတည်၍ တန်ဆောင်း၊ စောင်းတန်းတို့ကိုလည်း ပြုပြင်မွန်းမံခဲ့လေသည်။ ဟင်္သာကန်းမှ အနောက်စူးစူး ရွှေမော်ဓောစေတီတော်ကြီး



ပဲခူးမြို့အနီး ကြည်ညိုဘွယ်ရာ ကျိုက်ပွန်ဘုရား

အထိ ရှည်လျားသော စောင်းတန်းကြီးတခု ရှိလေသည်။ ဟင်္သာကန်းမြောက်ဖက်ရှိ မြို့ရိုးမှာ ယခုအခါ ကုန်းမြင့်သဖွယ်ဖြစ်၍၊ ထိုမြို့ရိုးတလျှောက်နှင့် အနီးနားတွင် အစိုးရ အရာရှိကြီးများအတွက် တိုက်အိမ်များ ဆောက်ထား၏။

မြို့ရိုး၏ အနောက်ဖက်တွင် ပဲခူးမြို့၏ ကျက်သရေဆောင် ရွှေမော်ဓော စေတီတော်ကြီး တည်ရှိသည်။ စေတီတော်ကို သုဒဿနကုန်းခေါ် မြင်းသီတကုန်း၌ တည်ထားသည်။ ရွှေမော်ဓောစေတီကို သာသနာနှစ် ၂၃၇ ခုနှစ်တွင် စူဠသိမ်ရိမာသောကမင်း စတည်စဉ်က တိုက်စေတီဖြစ်ပြီး ဥဏှိတော် ၂၇ တောင်ရှိသည်။ ယင်းမှ တဖြည်းဖြည်းမြှင့်၍ တည်ခဲ့ရာ ၁၂၈၂ ခုနှစ် ကဆုန်လဆန်း ၉ ရက်နေ့တွင် လှူသော ပဲခူးလျှင်ကြီးကြောင့် မပျက်စီးမီက ဥဏှိတော် ၁၈၈ တောင် ၂ မိုက်အထိရှိလာသည်။ ၁၃၁၆ ခုနှစ် တပေါင်းလတွင် ပြည်ထောင်စု အစိုးရ၏ အားပေးကူညီမှုကြောင့် ခေတ်မှီ ပုံတော်ကိုဆောက်လုပ်ပြီးစီးခဲ့ရာ ဥဏှိတော် ၂၁၄ တောင် တလက်ဝါးရှိသည်။ (ရွှေမော်ဓောဘုရား — ရှု။)

ရွှေမော်ဓောစေတီ၏ အနောက်ဖက်မှာ မြို့တွင်းပိုင်းဖြစ်၍ ရုံးများဈေးများရှိ၏။ပဲခူးမြို့လယ်ကိုဖြတ်စီးလျက်ရှိသော ပဲခူးမြစ်ကို သံတန်တားဖြင့် ကူးသန်း သွားလာကြရသည်။ ထိုသံတန်ဘားကြီးမှာ စစ်မဖြစ်မီက အသွားလမ်း အပြန်လမ်း ခွဲခြားသွားလာနိုင်သော ကျယ်ဝန်းလှသည့်တန်တားကြီးဖြစ်သော်လည်း၊ဒုတိယစစ်အတွင်း ပျက်စီးခဲ့၍ အင်္ဂလိပ်

စစ်တပ်များ ပြန်လည်ဝင်ရောက်စ အခါက ဆောက်လုပ်ခဲ့သည့် တလမ်းသွားတည်းသာဖြစ်သောကြိုးတန်တားကြီးနှင့် အစားထိုးထားရလေသည်။ ယခုမူ ပြည်ထောင်စု အစိုးရက စစ်မဖြစ်မီကအတိုင်း တန်တားကြီး ဆောက်လုပ်ပြီးလေပြီ။ ပဲခူးမြစ် အနောက်ဖက် ၁ မိုင်ကွာခန့်တွင်မူ ရွှေသာလျောင်း ရုပ်ပွားတော်ကြီး ရှိလေသည်။ရွှေသာလျောင်းဘုရား အရှေ့တောင်ဖက်မနီးမဝေးတွင်ကလျာဏီသိမ်ရှိ၍သိမ်ဝင်းအတွင်း၌ မြန်မာနိုင်ငံသမိုင်းတွင် အရေးကြီးသော ကျောက်စာများရှိ၏။ ရွှေသာလျောင်းဘုရား အနောက်ဖက်တွင်လည်း မဟာစေတီ၊ ရွှေဂူလေး၊ ကိုးသိန်း ကိုးသန်း၊ ရွှေဂူကြီးစသည့် ရှေးဟောင်း စေတီပုထိုးများရှိသေး၏။ ပဲခူးမြို့တောင်ဖက် ၃ မိုင်ကွာခန့်တွင်မူ ကျိုက်ပွန် ဘုရားကြီး တည်ရှိလေသည်။

ပဲခူးနယ်တွင် ကဝ၊ သနပ်ပင်၊ ဝေါ၊ ပဲခူးမြို့နယ်များပါဝင်သည်။ ပဲခူးမြို့မှာ ခရိုင်ဝန်ရုံးစိုက်မြို့ ဖြစ်သည့် အားလျော်စွာ အစိုးရရုံးများ၊ဆေးရုံကြီး၊ကျောင်းများ၊ဈေးရုံ၊ ဘူတာရုံစသော အဆောက်အအုံကြီးများဖြင့် ကြီးကျယ်သောမြို့ဖြစ်သည်။ မြို့ စည်ပင်သာယာရေးကိုကား မျူနီစီပယ်အဖွဲ့က စီမံဆောင်ရွက်လျက်ရှိသည်။

**ပဲခူးမြစ်။** ။ပဲခူးမြစ်သည် ပဲခူးရိုးမတောင်တန်းရှိကန့်ဗလူတောင်မှ မြစ်ဖျားခံ၍ အရှေ့ဖက်တောင်စောင်းဖက်မှ အရှေ့တောင်ဖက်သို့ ရှေ့ရှုစီးဆင်းပြီးနောက်၊ ပဲခူးမြို့သို့ ရောက်သောအခါ အနောက် တောင်ဖက်သို့ လှည့်ကာ ရန်ကုန်မြို့အရှေ့ဖက်နားတွင် ရန်ကုန်မြစ်နှင့်ပေါင်း၍ မုတ္တမ ပင်လယ်ကွေ့တွင်းသို့ စီးဝင်သည်။ ပဲခူးမြစ်သည် မိုင် ၁၈၀ ခန့် ရှည်သည်။ မြစ်ဝတွင် တမိုင်ခန့် ကျယ်သော်လည်း မြစ်ရိုး တလျှောက်တွင် သင်္ဘောကြီးများ မသွားလာနိုင်ချေ။ မိုးရာသီအတွင်း၌ ပဲခူးမြို့အထိသာ သင်္ဘောကလေးများ သွားလာနိုင်သည်။ ပဲခူးမြို့ အထက်သို့ မော်တော်ဗုတ်ငယ်များဖြင့် ဇောင်းတူမြို့အထိ မိုးအခါတွင် သွားရောက်နိုင်သည်။

ပဲခူးမြစ်သည် ကူးသန်းသွားလာရေးအတွက် အသုံးမဝင်လှသော်လည်း ပဲခူးရိုးမတောင်မှ အဖိုးတန်သစ်များ ရန်ကုန်မြို့သို့ မျှောချရန် အလွန် အသုံးဝင် အရေးပါသောမြစ် ဖြစ်သည်။စစ်တောင်းမြစ်ကွေ့တခုပေါ်ရှိ မြစ်ကျိုးရွာမှ ပဲခူးမြစ်ပေါ်ရှိ တာဝအထိ ပဲခူး–စစ်တောင်းတူးမြောင်းကို ၁၈၈၇-၁၈၈၈ ခုနှစ်က ဖောက်ထားခဲ့သည်။ ဝေါမြို့၊မင်းရွာ၊ သနပ်ပင်မြို့များကို ထိုတူးမြောင်းတလျှောက် တွေ့ရသည်။ (တူးမြောင်း — ရှု။)စစ်တောင်း မြစ်ကြောင်းအတိုင်း မျှောချလိုက်သော သစ်များကို ယင်းတူးမြောင်းမှတဆင့် ပဲခူးမြစ်ထဲသို့မျှော၍ ရန်ကုန်မြို့သို့ တင်ပို့ကြသည်။

ပဲခူးမြစ်ပေါ်တွင် မွန်တို့၏ ရှေးမြို့ဟောင်းလည်းဖြစ်သော ပဲခူးမြို့မှတပါး အခြားထင်ရှားသော မြို့ကြီးများ မရှိချေ။ ယင်းသည် ပဲခူးမြို့ကို အလယ်မှ ဖြတ်စီးသည်။ မိုးအခါ၌ မြေနိမ့်ပိုင်း မြစ်ဝှမ်း အနောက်ဖက်တို့တွင် ရေလျှံလေ့ ရှိသည်။ ပဲခူးမြစ်ဝအရှေ့ဖက်ကမ်း၌မူ သံလျင်မြို့တည်ရှိသည်။ ပဲခူးမြစ်တွင် ထင်ရှားသော မြစ်လက်တက် မရှိသော်လည်း ဇာမရီချောင်း၊ သဲတောချောင်း၊ ထားဝယ်ချောင်း၊ ရွှေလောင်းချောင်း၊ စလူချောင်း၊ ကဝက်ချောင်း စသည်တို့သည် ယင်းမြစ်တွင်းသို့ စီးဝင်သော ချောင်းမြောင်းများဖြစ်သည်။ ပဲခူးမြစ် တလျှောက် ဆန်စပါး အကြီးအကျယ် စိုက်ပျိုး၍၊ ဤမြစ်ကြောင်းရှိ မြို့တို့၌ စပါးများကို ကြိတ်ပြီးလျှင်၊ မြစ်ကြောင်းတလျှောက် သယ်ယူကြလေသည်။ မီးရထားဖြင့်လည်း ရန်ကုန်မြို့သို့ တင်ပို့ကြသည်။

**ပဲခူးရိုးမတောင်။** ။မြန်မာနိုင်ငံ အလယ်ပိုင်း မြောက်လတ္တီတွဒ် ၁၇° မှ ၂၀° အတွင်း မြောက်မှတောင်သို့ ဧရာဝတီမြစ်နှင့် စစ်တောင်းမြစ် အကြား၌ တန်းဆင်းသွားသော တောင်တန်းကို ပဲခူးရိုးမတောင်ဟုခေါ်သည်။(တောင်များ — ရှု။)ယင်းတောင်တန်းသည် ဧရာဝတီမြစ်နှင့်စစ်တောင်းမြစ်အကြား ရေဝေ ကုန်းတန်းကြီးဖြစ်သည်။ မြင်းခြံခရိုင်ရှိ ပုပ္ပားတောင်သည် ပဲခူး ရိုးမတောင်၏ မြောက်ဖက် အစွန်ရှိ တောင်ထွတ်ဖြစ်သည်။ (ပုပ္ပားတောင် — ရှု။)တောင်ဖက်စွန်းသည်ရန်ကုန်မြို့မြောက်ဖက်နားတွင်ပြတ်သွားပြီးနောက် ရန်ကုန်မြို့တွင်း၌ တောင်ပူစာ ကလေးများအဖြစ် ဖြာဆင်းလာသည်။ရွှေတိဂုံဘုရားတည်ရာ သိင်္ဂုတ္တရ ကုန်းတော်သည် ပဲခူးရိုးမတောင်၏အဆွယ် တောင်ပူစာဖြစ်သည်။ ပဲခူးရိုးမတောင်သည် မြောက်မှ တောင်သို့ မိုင် ၂၀၀ ကျော် ရှည်သည်။ အမြင့်မှာမူ ပေ ၂၀၀၀ ထက် ပိုမမြင့်ချေ။ သို့ရာတွင် စောက်၍ ကျောက်ထူထပ် ပေါများသည်။ အရှေ့ဖက်နှင့် အနောက်ဖက်တို့သို့တောင်စွယ်များဖြာ၍ဆင်းသွားကြသည်။

ပဲခူးရိုးမတောင်၏ အရှေ့ဖက်တွင် ရမည်းသင်း၊ တောင်ငူနှင့် ပဲခူးခရိုင်များရှိ၍၊ အနောက်ဖက်တွင် မကွေး၊ သရက်၊ ပြည်နှင့် သာယာဝတီ ခရိုင်များ ရှိသည်။ အရှေ့ဖက်တောင်စောင်းမှ စစ်တောင်းမြစ်၏ မြစ်လက်တက်များနှင့် ပဲခူးမြစ်တို့ မြစ်ဖျားခံ၍ စီးဆင်းသည်။ အနောက်ဖက်တောင်စောင်းမှမူ ပင်းချောင်း၊ ယင်းချောင်းနှင့် နဝင်းချောင်းတို့သည် ဧရာဝတီ မြစ်တွင်းသို့ စီးဝင်ကြ၍၊ တောင်ဖက်၌မူကား မြစ်မခမြစ်၊ သို့မဟုတ် လှိုင်မြစ်ထဲသို့ စီးဝင်သော ချောင်းပေါင်းများစွာသည် ယင်းတောင်၏ တောင်ဖက်ဖျား တောင်တန်းများတွင် မြစ်ဖျား ခံကြသည်။

ပဲခူးရိုးမတောင်၏ တောင်ဖက်ပိုင်းတွင် မြောက်ဖက်ပိုင်းထက် မိုးများသဖြင့်၊ တောင်ဖက်ပိုင်းတွင် အမြဲ စိမ်းလန်းသောသစ်တောများပေါက်ရောက်ပြီးလျှင်၊ မြောက်ဖက်ပိုင်းတွင် နွေအခါအရွက်ကြွေသော မုတ်သုန် သစ်တောများ ဖုံး

လွှမ်းနေသည်။ ပဲခူးရိုးမတောင်သည် နေရာတိုင်း၌လိုပင် အဖိုးတန် သစ်တောများဖြင့် ဖုံးလွှမ်းလျက် ရှိသည်။ မြန်မာနိုင်ငံထွက် အဖိုးတန် ကျွန်းသစ် အများဆုံး ပေါက်ရောက်ရာဒေသဖြစ်သည်။ အရှေ့ဖက် တောင်စောင်းမှ သစ်များကို စစ်တောင်းမြစ်၏လက်တက်များဖြင့် ထိုမြစ်ထဲသို့ မျှောချ၍ ပဲခူး-စစ်တောင်း တူးမြောင်းမှတဆင့် ရန်ကုန်မြို့သို့ဘင်ပို့ကြသည်။ အနောက်ဖက် တောင်စောင်းမှ သစ်များကို မြစ်မခမြစ်၊ လှိုင်မြစ်များထဲသို့ စီးဝင်သော ချောင်းများမှတဆင့် လှိုင်မြစ်သို့ မျှောချကာ၊ ရန်ကုန်မြို့သို့ တင်ပို့ကြသည်။

ပဲခူးရိုးမတောင်တန်းဒေသဘွင် အများအားဖြင့် ကရင်များ ရွာတည်ဆောင်၍ နေထိုင်ကြသည်။သို့ရာဘွင် အလွန်လူဦးရေ ပါးသည်။ ယင်းဘို့သည် ရွာ၏ ပတ်ဝန်းကျင်၌ ရှင်းလင်းခုဘ်ထွင်၍ တောင်ယာများတွင် အိမ်သုံးအတွက် ကောက်ပဲသီးနှံ စိုက်ပျိုးနေထိုင်ကြသည်။ ပြည်၊ မကွေး၊ တောင်ငူနှင့် သရက်ခရိုင် အစပ်ဖက်ရှိ ပဲခူးရိုးမတောင်တန်းဒေသတွင်မူ ချင်းရွာငယ်များရှိသည်။ ယင်းတို့သည် ရခိုင်ရိုးမတောင်ကိုကျော်၍ ဧရာဝတီမြစ် အရှေ့ဖက်သို့ မည်သည့်အချိန်ကစ၍ ပြောင်းရွှေ့ နေထိုင်ကြသည်ကိုမူ အတိအကျ မသိရချေ။

ပဲခူးရိုးမတောင်တန်းကို ပျဉ်းမနားမှ တောင်တွင်းကြီးသို့ သွားသော မီးရထားလမ်းတခုသာ ဖြတ်သန်း၍ ဖောက်ထားလေသည်။ လမ်းအဖြစ်ကား တောင်ငူမြို့မှ၊ ပြည်မြို့သို့ ပဲခူးရိုးမကိုဖြတ်၍ ကားလမ်းဖောက်လုပ်ရန် စီစဉ်ဆဲဖြစ်၍ ယခုစတင်ဖောက်လုပ်နေချေပြီ။

ပဲငပိ။ ။ပဲကျတ်ပျဉ် — ရှု။

ပဲတောင့်ပင်။ ။ကုလားပဲ၊ ပဲကြီး၊ ပဲကျား၊ ပဲဖြူကလေး အစရှိသည့် ပဲတောင့်ပင်များတွင် ပဲမျိုးပေါင်းများစွာပါရှိသည်။ ထိုပဲအမျိုးမျိုးကို ကမ္ဘာပေါ်ရှိ တိုင်းပြည် အနှံ့အပြား၌ စိုက်ပျိုးလုပ်ကိုင်ကြသည်။ လူတို့ နေ့စဉ်စားသုံးကြသော အစားအစာတွင် ဟင်းလျာ အလို့ငှါ အမဲ၊ သား၊ ငါးများကိုသာလျှင် အသုံးပြုကြသည် မဟုတ်၊ဟင်းသီးဟင်းရွက်များကိုလည်း မြောက်မြားစွာ စားသုံးကြသည်။ ဟင်းသီးဟင်းရွက်သည် လူတို့အတွက်အစာအာဟာရဓာတ် မျှတညီညွတ်မှုကို အထူးသဖြင့် ကူညီထောက်ပံ့သည် ဖြစ်ရာ၊ ကျွန်ုပ်တို့ စားသုံးလျက်ရှိသော နေ့စဉ် အစားအစာတို့တွင် ဟင်းသီးဟင်းရွက်တမျိုးမျိုး ပါရှိရလေသည်။ ထိုကဲ့သို့ လူတို့ စားသုံးကြသော ဟင်းသီးဟင်းရွက်များအနက်၊ ပဲများတွင် ခွန်အားဖြစ်စေသည့် ပရိုတင်းဓာတ် အထူးကြွယ်ဝသဖြင့် လူတို့အတွက် အလွန် အသုံးကျသော အစာတချပ် ဖြစ်သည် ဟုဆိုရပေမည်။ (အစာအာဟာရ — ရှု။)

မြန်မာနိုင်ငံတွင် စိုက်ပျိုးကြသော ထင်ရှားသည့် ပဲတောင့်ပင်မျိုးများမှာ ကုလားပဲ၊ ပဲကြီး၊ ပဲဖြူကလေး၊



လူတို့ စားသုံးရာ၌ ခွန်အားဖြစ်စေသည့် ပဲတောင့်ပင်နှင့် အသီးများ

ပဲကျား၊ ပဲပိစပ်၊ မာသ်ပဲ၊ ပဲကျတ်ပျဉ်၊ (ပဲပေါ)၊ ပဲယဉ်း၊ ပဲတီစိမ်းစသည်တို့ ဖြစ်သည်။ ပဲပင်များမှာ အစေ့ကို စိုက်ပျိုးယူရသောအပင်မျိုးဖြစ်၍၊ အချို့မှာ ချုံယောင်ပင်ငယ်များဖြစ်သည်။ ကျန်သည်တို့မှာ နွယ်ပင်များ ဖြစ်သည်။ လိပ်ပြာပုံရှိသော နံ့သာရောင် ပန်းပွင့်များ ပွင့်လေ့ရှိသည်။ အသီးများမှာ အလျား ၂ လက်မမှ ၈ လက်မအထိ ရှိ၍၊ အတွင်း၌ ပဲစေ့ကလေးများ တည်ရှိနေသည့် အသီးတောင့်များဖြစ်သည်။ ပဲမျိုးအလိုက် ပဲတောင့်အတွင်းရှိ ပဲစေ့တို့၏ အရွယ်အစား၊ အရောင် အဆင်းတို့သည်လည်း ကွဲပြားခြားနားသည်။ အချို့ပဲစေ့များမှာ ပြောက်ကျားကျားအရောင်များဖြင့် အလွန်လှပပေသည်။

အချို့တောင်သူလယ်သမားတို့သည် မိမိတို့ လယ်မြေတွင် ကောက်ပင် တမျိုးမျိုးနှင့် ပဲပင်များကို တလှည့်စီစိုက်ပျိုးခြင်းဖြင့် မြေဩဇာ၌ နိုက်ထရိုဂျင်ဓာတ်တို့ ဖြည့်လောင်းပေးကြသည်။ အချို့ကလည်း ပဲပင်များကို တိရစ္ဆာန်အစာအတွက် စိုက်ပျိုးကြသည်။ ကုလားပဲကဲ့သို့ ပဲမျိုးမှာ ဂျုံနှင့် အလှည့်ကျသော်၎င်း၊ ရောစ၍သော်၎င်း စိုက်ပျိုးရန် အကောင်းဆုံးဖြစ်သည်။ ပဲဖြူကလေးကဲ့သို့ ပဲနွယ်ပင်များအတွက်အပင်များနွယ်တက်ရန် သစ်သား၊ သို့မဟုတ် ဝါးစင်များပြုလုပ်ပေးရသည်။ သို့မဟုတ်လျှင်လည်း ပဲဖြူကလေးကို ဖူးစားပြောင်းနှင့်ရော၍ စိုက်ပျိုးနိုင်သည်။

တရုတ်နိုင်ငံ၊ ဂျပန်နိုင်ငံနှင့်အိန္ဒိယနိုင်ငံတို့တွင် ပဲကျတ်ပျဉ်ပင်များကို အမြောက်အမြား စိုက်ပျိုးကြသည်။ ယခုအခါ မြန်မာနိုင်ငံမှာလည်း ထိုပဲမျိုးကို မိုးခေါင်ရေရှား ရပ်ဝန်းတွင် အသင့်အတင့် စိုက်ပျိုးလျက် ရှိသည်။ ဥရောပတိုက်တွင် ပဲလက်မခေါ် ပဲမျိုးကိုအများအပြားစိုက်ပျိုးကြသည်။ တာလပဲခေါ် ဗိုလ်စားပဲပင်များကို အင်္ဂလန်ပြည်တွင် အတွေ့ရများသည်။ (ပဲကျတ်ပျဉ်။ ဗိုလ်စားပဲပင် — ရှု။)

**ပဲပုတ်။** ။ပဲကျတ်ပျဉ် — ရှု။

**ပဲမွှေးပန်းပင်။** ။နှစ်သက်စဖွယ် အရောင် အသွေးတို့ကြောင့်၎င်း၊ လိပ်ပြာကလေးများနှင့် သဏ္ဌာန် ဆင်ဆင်တူသော အပွင့်ကလေးများကြောင့်၎င်း၊ ထူးခြားသင်းပျံ့သော ယနံ့ကြောင့်၎င်း ပဲမွှေးပန်းပင်ကို အလှစိုက် ပန်းပင်များအနက် နှစ်သက်သူ အများဆုံး ဖြစ်လေသည်။

ရုက္ခဗေဒ အမည်အားဖြင့် လသီရပ်အောဒေါ် ရေးတပ်ဟုခေါ်၍ လီဂူမိနိုးစီး ပဲပင်မျိုးရင်းတွင် ပါဝင်သည်။ တနှစ်တခါစိုက်ပျိုးရသော အပင်မျိုးဖြစ်သည်။ ယင်းအပင်မျိုး၏ မူလ ဇာတိဒေသမှာ ဥရောပတောင်ပိုင်းဖြစ်သည်။ ၁၇ ရာစုတွင် ဂရိတ်ဗြိတိန်သို့ မျိုးယူ စိုက်ပျိုးကြသည်။ ပဲပင်မျိုးဖြစ်သော်လည်း အဆင်းအနံ့နှင့် ပြည့်စုံသဖြင့် ခြံဥယျာဉ်များထဲတွင် အလှအပအတွက် အမြတ်တနိုး စိုက်ပျိုးသော အပင်မျိုးဖြစ်လာလေသည်။

ပဲမွှေးပင်၏ ရိုးတံသည် ခပ်ပြားပြားဖြစ်၍ မတောင့်တင်းမသန်မာလှချေ။ သို့သော် နှာမောင်းအညွန့်တို့ဖြင့် မှီတွယ်စရာကိုအားပြုက ၁ အပေါ် သို့ ထောင်တက်သော အနွယ်ဆန်သည့် အပင်မျိုးဖြစ်သည်။ အနောက်နိုင်ငံများ၌ အမြင်မလှသော ခြံစည်းရိုးများကို ဖုံးကွယ်စေရန်လည်း စိုက်ပျိုးကြသည်။

ယနံ့သင်းပျံ့သော အပွင့်များသည် ရိုးတံရှည်လျားသော အပင်ထိပ်ဖျားတွင် နှစ်ပွင့် သုံးပွင့် စသည်ဖြင့် ပွင့်တတ်သည်။ အပွင့်အရောင်အသွေးတို့မှာ အပြာ၊ ခရမ်းရောင်၊ အဖြူနှင့် ပန်းရောင်တို့ဖြစ်သည်။ အရောင်အသွေး ပို၍များပြားအောင် အရောင်စပ်၍ ပြုပြင်ကြရာ အရောင်အသွေးကွဲများ ရရှိသော်လည်း သင်းပျံ့သည့် ယနံ့ကိုမူ မရရှိပေ။ ပဲမွှေးပန်းပင်အချို့တို့၏ ပွင့်ဖတ်ကလေးတို့သည် ကတ္တီပါသားကဲ့သို့ ချောမွတ်နူးညံ့သည်။ အချို့ အပင်မျိုးတို့၏ ပွင့်ဖတ်တို့ကား လှိုင်းပုံ ထနေသည်။

ပဲမွှေးပန်းပင်တို့သည် နေလည်းရ၊ လေလည်းရ၍၊ ရေမဝပ်သော မြေမျိုး၌ စိုက်ပျိုး ဖြစ်ထွန်းလွယ်သည်။ ပူပြင်းသော ဒေသများ၌လည်း မဖြစ်ထွန်းလှချေ။ ယင်းအပင်မျိုး


ပဲမွှေးပန်းပင်၏အသီး၊ အပွင့်နှင့် အရွက်များ

ကို ဖေဖွာရီလမှ ဧပြီလအတွင်း၌ စတင် စိုက်ပျိုးကြသည်။ မြောင်းတူး၍ စိုက်ရန် မလို။ မြေညီပေါ် တွင်ပင် တလက်မ ခန့်နက်အောင်တူး၍ အစေ့များကို မြှုပ်စိုက်ရသည်။ အနွယ် နှာမောင်းကလေးများ ထွက်လာစကပင် တိုင်ထောင်ပေး ရသည်။ အပွင့် ပွင့်ချိန်တွင် မြေဆွေးတို့ဖြင့် အမြစ်အေး အောင် အုပ်ပေးရသည်။ ပွင့်လာသည့် အပွင့်ကို အစေ့မ တည်ခင် ခူးပေးရလေသည်။

**ပဲရာဇာ။** ။ပဲရာဇာပင်သည် လူတို့စိုက်ပျိုးခဲ့သည့် ရှေး အကျဆုံး အပင်များတွင် အပါအဝင်ဖြစ်သည်ဟု ဆိုသည်။ အမှန်မှာ ဘီစီ ၂၂၀၀ ခန့်ကပင် စိုက်ပျိုးခဲ့ကြလေသည်။ ပဲရာဇာကို အရပ်ခေါ် အားဖြင့် ပဲနီကလေးဟူ၍လည်း ခေါ် သည်။ ရုက္ခဗေဒအလိုအားဖြင့် ‘လင်တီးလားလင်း’ ဟုခေါ် ၍ အခြား ပဲမျိုးများနှင့် အတူ ‘လီဂူမိနိုးစီး’ မျိုးရင်းတွင် ပါဝင်လေသည်။ ယင်းကို ဥရောပဘိုက်ဒေတာင်ပိုင်း၊ အီဂျစ် နှင့် အာရှတိုက်အနောက်ပိုင်းဒေသများ၌ စိုက်ပျိုးကြသည်။ ယင်း၏ သီးတောင့်များသည်ရှည်၏။ သီးတောင့်ထဲမှ ပဲစေ့ များကိုရရှိကြလေသည်။ အရောင်မှာ နီညိုး၊သို့မဟုတ် မွဲပြာ၊ သို့မဟုတ် အမည်းဖြစ်၍၊ ပဲစေ့၏ အချင်းသည် လက်မဝက် တက် မကျော်ချေ။

ပဲရာဇာ၏ အနံ့မှာ ထူးခြား၏။ ပဲမျိုးတွင် အာဟာရ ဓာတ်နှင့် ပြည့်စုံသော ပဲတမျိုးဖြစ်သည်။ ပရိုတင်းနှင့် ကာ ဗိုဟိုက်ဒရိတ်များ ပါရှိ၍၊ ယင်းတို့ကို ဟင်းချိုအဖြစ် အများ အားဖြင့် ချက်စားကြသည်။ ယင်းကို ခြောက်သွေ့သော မြေပွမျိုး၌ စိုက်ပျိုးရသည်။ မြေဩဇာ ထက်သန်သောမြေ ၌စိုက်ပျိုးသော ပဲရာဇာများသည် အသီးများ မသီးလှချေ။ အပင်များကို ကျွဲ၊ နွား၊ မြင်းနှင့် သိုးစာအဖြစ် ကျွေးနိုင် သည်။ ပဲရာဇာပင်များကို မြန်မာနိုင်ငံ အထက်ပိုင်းတွင် စိုက်ပျိုးကြ၏။

**ပဲရီးကလီး** (ဘီစီ ၄၉၀–၄၂၉ ခန့်)။ ။ပဲရီးကလီးသည် အက်သင်းမြို့ အုပ်ချုပ်ရေးသမိုင်း၌ ‘ပဲရီးကလီး၏ခေတ်’ ကို တည်ထောင်သော နိုင်ငံပြုသုခမိန်အဖြစ်ဖြင့် ထင်ရှားကျော် စောသည်။ ပဲရီးကလီးသည် အက်သင်းမြို့၌မွေးဖွား၍၊သူ၏ မိခင်သည် အက်သင်းမြို့ စီရင် အုပ်ချုပ်ရေး၌ ဒီမိုကရေစီ သဘောသက်ဝင်သည့် ပြုပြင်ပြောင်းလဲရေးတို့ကို တီထွင်ခဲ့ သူ ကလိုက်သီးနီး၏ တူမတော်သူဖြစ်သည်။ ပဲရီးကလီးသည် သူ၏အဖိုးဖြစ်သူ ကလိုက်သီးနီး ကွယ်လွန်လေသော်၊ အဖိုး ၏ လက်ငုတ်ဖြစ်သော နိုင်ငံရေး ပြုပြင်ပြောင်းလဲမှုများကို ဆက်လက်ဆောင်ရွက်ရန် နိုင်ငံရေးဝင်၍လုပ်လေသည်။ ထို သို့ လုပ်ရာမှ အဘိုက်အခံ အဖွဲ့တို့ကို ကောင်းစွာ အောင်နိုင် ပြီးလျှင်၊အက်သင်းမြို့ အုပ်ချုပ်ရေး ခေါင်းဆောင် ဖြစ်လာခဲ့ လေသည်။ ဤသည်တွင် ပဲရီးကလီးသည် သူ၏ ပြုပြင် ပြောင်းလဲရေးစနစ်အရ အုပ်ချုပ်ရေး၌ ပါဝင်သော မှူးသမ်း ရာထမ်းတို့အား လခပေးသော စနစ်ကို တီထွင်လေသည်။ ထိုခေတ်၌ ဂရိပြဇာတ်ဟူသည်မှာ ကိုးကွယ်ရာ အယူဝါဒနှင့် ဆိုင်သော အခမ်းအနားတရပ် ဖြစ်ချေရကား၊ ဆင်းရဲသူ ဆင်းရဲသားတို့ ပြဇာတ်ကြည့်လျှင်၊ ရုံဝင်ခမပေးဘဲကြည့်ခွင့် ရလေအောင်၊ ယင်းတို့အတွက် ရုံဝင်ခကို နိုင်ငံတော် အစိုး ရက ကျခံစေသော စနစ်ကိုလည်း တီထွင်ခဲ့၏။

ပဲရီးကလီးသည် အက်သင်းမြို့တော် အုပ်ချုပ်ရေးကို ဒီမို ကရေစီသဘောသက်ဝင်အောင် ပြုပြင်ရုံမျှမက၊ အက်သင်း မြို့အစိုးရ၏ ဩဇာအာဏာ ပျံ့နှံ့အောင်လည်း ဆောင်ကြဉ်း ခဲ့သည်။ ထိုသို့ဆောင်ကြဉ်းရာ၌ ဗီအိုးရှားနယ်၊ အီးဂျီးယန်း ပင်လယ်ရှိကျွန်းများနှင့် အီဂျစ်ပြည်တို့ကို စစ်ပြုခဲ့သည်။ဤ အခြင်းအရာကြောင့် အက်သင်း အစိုးရသည် စပါးတား အစိုးရတို့နှင့် နှစ်ပေါင်း ၃၀ မျှ စစ်ဖြစ်ခဲ့ရ၍၊ နောက်ဆုံး၌ နှစ်ဖက်စလုံးသည် စစ်ပြေငြိမ်းခဲ့ကြသည်။

ပဲရီးကလီး၏ အစိုးရလက်ထက်၌ လက်အောက်ခံ အစိုးရ တို့ထံမှ ရသော ဘဏ္ဍာတော်ဝင်ငွေတို့ကို အက်သင်းရေတပ် အဖွဲ့အတွက်၎င်း၊ အက်သင်းမြို့ လှပ တင့်တယ်ရန် ပြုပြင် သော အဖွဲ့အတွက်၎င်း အသုံးပြုခဲ့သည်။ ထိုကြောင့် အက် သင်းမြို့တော်၌ အလွန် ခမ်းနားကြီးကျယ်၍ တင့်တယ်လှပ သော အဆောက်အအုံများ ပေါ်ပေါက်လာသော အချိန် တွင် စပါးတန်းတို့သည် အက်သင်းမြို့တော်ကို စစ်ပြေငြိမ်း ရေးကို ဖောက်ဖျက်၍ တိုက်ခိုက်ကြရာ၊ ပဲရီးကလီးသည် သူ ပြုစု ပျိုးထောင်ထားသော အက်သင်း ရေတပ်မတော်နှင့် ရန်သူကို ခုခံကာကွယ်ရလေသည်။ သို့ရာတွင် အက်သင်းမြို့ တော်၌ ပလိပ်ရောဂါ ကျရောက်သဖြင့်၊ စပါးတန်းတို့နှင့် စစ် တိုက်ယင်းပင်လျှင်၊ ပဲရီးကလီးသည် ပလိပ်ရောဂါဖြင့် ကွယ် လွန်လေသည်။ (ဂရိနိုင်ငံ။ အက်သင်းမြို့ — လည်းရှု။)

**ပဲရစ္စကုပ်။** ။ပဲရစ္စကုပ်သည် ရေငုပ်သင်္ဘော၌ရေမျက်နှာ ပြင်အောက်ရှိ သင်္ဘောအတွင်းမှနေ၍၊ ရေမျက်နှာပြင်အ ထက် ပတ်ဝန်းကျင်ကိုဖြစ်စေ၊ တင့်ကား၌ သံချပ်ကာ၏ နောက်မှနေ၍၊ တင့်ကားပတ်ဝန်းကျင်ကို ဖြစ်စေ မြင်နိုင် အောင် စီမံထားသော မှန်ပြောင်းတမျိုးဖြစ်သည်။ ပဲရစ္စ ကုပ်ပြုလုပ်ပုံသည် ရိုးရိုးမှန်ပြောင်းတခု ပြုလုပ်နည်းနှင့် အ ခြေခံအားဖြင့်အတူတူဖြစ်သည်။ (အဝေးကြည့် မှန်ပြောင်း — ရှု။)သို့သော် ရိုးရိုးမှန်ပြောင်း၏ ထိပ်နှစ်ဖက်တို့တွင်မှန် ဘီလူးများကို တပ်ဆင်ထားသည်။ ပဲရစ္စကုပ် မှန်ပြောင်း၌မှ ပြောင်း၏ အပေါ် ထိပ်နှင့်အောက်ထိပ်တို့၌ ပရစ်ဇမ်ခေါ် မှန်တုံးကို တပ်ဆင်ထားသည်။ ထိုသို့ တပ်ဆင်ထားသော ပရစ်ဇမ်၏ ရောင်ပြန်ဟပ်သော မျက်နှာပြင်သည် မှန်ပြောင်း

၏ ဝင်ရိုးနှင့် ၄၅ ဒီဂရီစောင်းလျက် တည်ရှိစေရသည်။ သိပ္ပံနည်းအရဆိုလျှင်၊ ပြင်ပမှ လာသော အလင်းတန်းသည် ၄၅ ဒီဂရီစောင်းနေသော ပရစ်ဇမ်၏ ရောင်ပြန်ဟပ် မျက်နှာပြင်ပေါ် သို့ ကျရောက်လေသော်၊ ထိုအလင်းတန်းသည် ပဲရစ္စကုပ်ပြွန်၏ ဝင်ရိုးတလျှောက် ၉၀ ဒီဂရီတိတိ တဆစ်ချိုး၍ဝင်လေသည်။ ဤသို့ ဝင်လာသော အလင်းတန်းသည် ပဲရစ္စကုပ်ပြွန်၏ အောက်ဆုံးထိပ်၌ရှိသော ၄၅ ဒီဂရီ စောင်းနေသည့် အခြားပရစ်ဇမ်၏ ရောင်ပြန်ဟပ် မျက်နှာပြင်သို့ ကျရောက်လေသည်။ ယင်းမှတဖန် အလင်းတန်းသည် ဒီဂရီ ၉၀ တိတိ တဆစ် ချိုးပြီးလျှင်၊ မှန်ပြောင်းဝရှိ ကြည့်သူ၏ အပေါက်သို့ ဖြောင့်တန်းစွာ ရောက်ရှိလေသည်။

ထိုကရိယာကို အသုံးပြုသောအခါ၊ ပြင်ပမှ ရှုခင်းကို အကျယ်ချဲ့၍မြင်နိုင်ရန်၊ ပရစ်ဇမ်မှန် နှစ်ခုအကြား၌၊ မှန်ဘီလူးများကို တပ်ဆင်ထားသည်။ ရေငုပ်သင်္ဘောမှ ပဲရစ္စကုပ်သည် ရေငုပ်သင်္ဘောအထက် ပေ ၃၀ နှင့် ပေ ၃၀ ကျော်မျှ ရှည်လျားစွာ ထိုးထွက်လျက်ရှိ၍၊ ပဲရစ္စကုပ်၏ အချင်းသည် ၄ လက်မမှ ၆ လက်မအထိ ရှိတတ်သည်။ မှန်ပြောင်းအောက်ခြေရှိ ကြည့်ရှုရန်အပေါက် အနီး၌ နံဘေးသို့ လက်ကိုင်တန်းငယ်နှစ်ခု ထုတ်ထား၍၊ မှန်ပြောင်းပြွန်ကို လည်နိုင်ရန် စီမံပြုလုပ်ထားသည်။ ရေငုပ်သင်္ဘော အရာရှိသည် ရေအောက်မှနေ၍ လက်ကိုင်တန်းကိုကိုင်ကာ လှည့်ပေးခြင်းဖြင့် ရေမျက်နှာပြင်အထက် ပတ်ဝန်းကျင်ရှိ လိုရာ အရပ်ကို ကြည့်ရှုနိုင်သည်။ မှန်ပေါ်၌ အလျားလိုက် အမှတ်အသားများ၊ ထောင်လိုက် အမှတ်အသားများ ရေးမှတ်ထား၍၊ သင်္ဘောအရာရှိသည် ထိုအမှတ်အသားများနှင့် မိမိတွေ့မြင်နေရသော အခြားသင်္ဘောကို နှိုင်းယှဉ်ကြည့်ခြင်းဖြင့်၊ ထိုသင်္ဘောသည် သူနှင့် မည်မျှဝေးကွာသည်၊ ထိုသင်္ဘောသည် မည်သည့်အရပ်သို့ မည်သည့် အသွားနှုန်းဖြင့် သွားနေသည်တို့ကို ခန့်မှန်းနိုင်ပေသည်။

ရေငုပ်သင်္ဘော ရေအောက်သို့ မြုပ်နေသောအခါ၌၊ ရေပြင်အထက်၌ရှိ ပဲရစ္စကုပ် မှန်ပြောင်း၏ ထိပ်ဖျားသည် အချင်း ၃ လက်မမျှသာရှိသဖြင့်၊ ရန်သူ သင်္ဘောများက အလွယ်တကူနှင့် မတွေ့နိုင်ချေ။ သို့သော် ရေအောက်တွင် ခုတ်မောင်းသွားနေစဉ်၊ ထိုမှန်ပြောင်းထိပ်ဖျားသည်လည်း အတူတကွလိုက်ပါ၍ ရေနှင့် အမြဲတိုက်မိသောကြောင့်၊ မြားဦးသဏ္ဌာန်ကဲ့သို့ ဂယက်ငယ် ကလေးများကို ဖြစ်ပေါ်စေသည်။ ထိုအခါ ရန်သူ ဖြစ်သော ဖျက်သင်္ဘောများသည် ထို ဂယက်ကလေးများကို တွေ့မြင်၍၊ ရေငုပ်သင်္ဘော ရှိကြောင်း သိရပြီးလျှင် ရန်ပြုနိုင်သည်။ ထိုကြောင့် ရေငုပ်သင်္ဘောရှိကြောင်းကို ရန်သူ မသိရလေအောင်၊ ပဲရစ္စကုပ်၏ ထိပ်ဖျားကို လုံးဝန်းသော ပုံသဏ္ဌာန်ဖြင့် ပြုပြင်ထားရသည်။



ပင်စည် ဖြောင့်စင်း၍ မြင့်မားသော ပေါ့ပလာပင်များ

**ပေါ့ပလာပင်။** ။မိုးမခပင်နှင့် မျိုးရင်းတူဖြစ်၍ ဆာလီကေစီအီးမျိုးရင်းတွင်ပါဝင်သည်။ဥရောပ၊အာရှနှင့် မြောက်အမေရိကတိုက်တို့တွင် ပေါက်ရောက်တတ်သော သစ်ပင်မျိုးဖြစ်သည်။ မိုးမခပင် ကဲ့သို့ပင် စိုစွတ်သော မြေမျိုး၊ သို့မဟုတ် စိမ့်စမ်းများ အနီးတွင် ပေါက်တတ်သည်။ ထိုကြောင့် ပေါ့ပလာပင်ကိုတွေ့လျှင် အနီးအနား၌ စိမ့်စမ်းရှိရမည်ဟု ဆိုကြလေသည်။

ပေါ့ပလာပင်တို့သည် မြင့်မားသော သစ်ပင်ကြီးများဖြစ်ကြသည်။ လေပြင်း တိုက်ခတ်သည့်အခါ၊ မြေနှင့် ထိမိမတတ် ကွေးညွတ် သွားတတ်သော်လည်း ရုတ်တရက် ပင်စည် မကျိုးချေ။ ပေါ့ပလာ ပင်စည်တို့သည် လေယူသိမ်းရာသို့ ယိမ်းနွဲ့လိုက်ပါနိုင်သော သဘောရှိသည်။ အရွက်တို့သည် လေပြေ လေညှင်း တိုက်ခတ်ရုံမျှနှင့်ပင် တဖြုတ်ဖြုတ် လှုပ်ရှားတတ်၍ အရွက်အလွန်လှုပ်သော အပင်မျိုး ဖြစ်သည်။ အရွက်တို့၏ ပုံသဏ္ဌာန်မှာ ညောင်ရွက်နှင့် ဆင်ဆင်တူ၍ ရွက်လွှဲများဖြစ်သည်။ အရွက်များ၏ ထိပ်တွင် ကြောင်မြီးကဲ့သို့ တွဲလွဲပွင့်တံများရှိသည်။ အပွင့်များသည် အဖို အမ နှစ်မျိုးရှိသည်။ အမပွင့်များမှ အသီးသီး၍၊ အသီးများထဲတွင် အစေ့ကလေးများ အများအပြားပါရှိသည်။ အစေ့

ကလေးများတွင် လဲမှို့ကဲ့သို့အမျှင်နုကလေးများရှိသည်။ အသီးမှည့်သည့်အခါ ကွဲပွင့်သွားပြီးလျှင် အထဲမှ အစေ့ကလေးများသည် လေထဲ လွင့်ပါသွားကြသည်။ ယင်းတို့သည် စိုစွတ်သောမြေပေါ်သို့ ကျရောက်လျှင် အပင်ပေါက်ကြသည်။ သို့မဟုတ်ဘဲ ခြောက်သွေ့သောမြေပေါ်သို့ကျလျှင် ခြောက်သွေ့ပြီးသော် အပင် မပေါက်တော့ချေ။ ပေါ့ပလာပင်တို့သည် အပေါက်မြန်၍ ကြီးထွားလွယ်သည်။ သို့သော် နှစ်ကာလကြာမြင့်လှစွာ အသက်မရှည်ချေ။ ရေနှင့် အလင်းရောင်ကြိုက်သော အပင်မျိုးလည်း ဖြစ်သည်။

ပေါ့ပလာပင်၏ အသားသည် ပေါ့ပါး၍ ကိုင်းညွတ်ရလွယ်သည်။ အဖိုးတန် သစ်သား မဟုတ်ပေ။ ထို့ပြင် အသားမကွဲလွယ်ဘဲ ချိုင့်ရှိသော ဝင်တတ်သဖြင့် ပစ္စည်းများထည့်၍ ပစ်ချပစ်တင်ပြုကာ အကြမ်းပဘမ်းနေရာများ၌ သုံးသောထင်းရှူးသေတ္တာကဲ့သို့သော သေတ္တာဘိုကို ပေါ့ပလာပင်၏ သစ်သားများဖြင့်လည်း ပြုလုပ်ကြသည်။

ပေါ့ပလာပင် အမျိုးမျိုး အစားစားရှိရာ၊ လူသိများသော ပေါ့ပလာပင်မျိုးတို့မှာ ပေါ့ပလာဖြူ၊ ပေါ့ပလာနက်၊ လောင်ဗာဒီပေါ့ပလာ၊ အက်စပင် စသည်တို့ဖြစ်သည်။ ပေါ့ပလာဖြူပင် မျိုးသည် အလွန်ရှားပါးသည်။ ပေါ့ပလာဖြူဟု ခေါ်ခြင်းမှာ အရွက် အောက်ဖက်တို့သည် ဖြူနေသောကြောင့်ဖြစ်သည်။ လောင်ဗာဒီ ပေါ့ပလာသည် ပေါ့ပလာနက်မျိုးစုတွင် အပါအဝင်ဖြစ်သည်။ အကိုင်းအလက်တို့သည် ဘေးသို့ ကားမထွက်ဘဲ အပေါ်သို့ ထောင်၍ ထွက်ကြသည်။ မြင့်မား၍ တမျိုးအားဖြင့် ကြည့်၍ ခန့်ညားသည်။ အက်စပင်ပေါ့ပလာမျိုးတို့၏ အရွက်များသည် လေနှင့် တွေ့ထိလျှင် အထူးသဖြင့် ပို၍ လှုပ်သည်။ ယင်း၏အသားကို စက္ကူ ပြုလုပ်ရန် ပျော့ဖတ်များ ပြုလုပ်ကြလေသည်။

အမေရိကန်စသော အနောက်နိုင်ငံကြီးများတွင် ပေါ့ပလာပင်များကို လေကွယ်ရန်၎င်း၊ မြို့ကြီးပြကြီးများတွင် အရိပ်ရရန် အတွက်၎င်း စိုက်ပျိုးကြလေသည်။

# ကမ္ဘာ့သမိုင်းတွင်ထင်ရှားသောနိုင်ငံကလေး

**ပေါ်တူဂယ်နိုင်ငံသည် နိုင်ငံငယ်ကလေးပင် ဖြစ်စေကာမူ၊ ကမ္ဘာ့သမိုင်းတွင် ထင်ရှားပေသည်။ ပေါ်တူဂီတို့သည် ကမ္ဘာလှည့်နယ်သစ်ရှာသူများအဖြစ် ကျော်ကြားခဲ့သည်။ ထို့ကြောင့်ပင်လျှင် ပေါ်တူဂယ်ပိုင် ကိုလိုနီနယ်များ ယနေ့တိုင် ကမ္ဘာအနှံ့ ရှိနေသေးသည်။ ဤအကြောင်းရပ်တွင် ပေါ်တူဂယ်နိုင်ငံအကြောင်းကို စုံစုံလင်လင် ဖတ်ရှုရပေမည်။**

ပေါ်တူဂယ်နိုင်ငံ။ ။ပေါ်တူဂယ်နိုင်ငံသည် ဥရောပတိုက်တောင်ပိုင်း၊ အိုက်ဗီးရီးယန်း ကျွန်းဆွယ်၌ တည်ရှိ၍၊ အနောက်ဖက်ဘွင် အတ္တလန္တိတ် သမုဒ္ဒရာနှင့် စပ်လျက်ရှိသည်။ အရှေ့ဖက်နှင့် မြောက်ဖက်တွင် စပိန်နိုင်ငံရှိ၏။ ပေါ်တူဂယ်နိုင်ငံကို ပေါ်တူဂီ ဘာသာစကားဖြင့် ရီပတ်ဗလစ်ကာ ပေါ်တူဂေးသာဟု ခေါ်သည်။ အဓိပ္ပါယ်မှာ ပေါ်တူဂယ် သမတနိုင်ငံဖြစ်၏။ ပင်လယ်သမုဒ္ဒရာနှင့် နီးကပ်ပြီးလျှင်၊ တောင်တန်းများ ပါဝင်သော ကုန်းပြင်မြင့်ပေါ်၌ ရှိခြင်းကြောင့်၊ ရာသီဥတုသည် မပူလွန်း မအေးလွန်းဘဲ သင့်တင့်ညီမျှ၏။ မြေထဲပင်လယ် ဥတုမျိုးဖြစ်၍၊ ဆောင်းအခါ၌ မိုးရွာ၏။




ပေါ်တူဂယ်နိုင်ငံ တည်နေရာပြ မြေပုံ

ပေါ်တူဂယ်နိုင်ငံသည် ဂဂဂ စတုရန်းမိုင် ရှိသော အဇိုးကျွန်းနှင့် စတုရန်းမိုင် ၃၀၂ မိုင်ရှိသော မဒီးရာကျွန်းများ အပါအဝင် စတုရန်းမိုင် ၃၅,၄၁၅ မိုင် ကျယ်ဝန်း၍၊ လူဦးရေမှာ ၁၉၅၀ ပြည့်နှစ် သန်းကောင်စာရင်းအရ ၈,၄၉၀,၄၅၅ ယောက်ခန့် ဖြစ်၏။ သေးငယ်သော တိုင်းပြည် ဖြစ်သော်လည်း၊ ကမ္ဘာအနှံ့အပြား၌ ကိုလိုနီနယ်အများ ပိုင်ဆိုင်၍ သမိုင်း၌ ထင်ရှားခဲ့သည်။ ယခုအခါ၌ပင် ပေါ်တူဂယ်ပိုင် ကိုလိုနီ နယ်ပယ်တို့၏ အကျယ်အဝန်းသည် ပေါ်တူဂယ်ပြည်မထက် အဆပေါင်း ၂၃ ဆမျှရှိ၏။ ယခုလက်ရှိ ပေါ်တူဂယ် အင်ပိုင်ယာသည်ပင်လျှင်၊ ရှေးက ရှိရင်းစွဲ အင်ပိုင်ယာနိုင်ငံကဲ့သို့ မဟုတ်သေး။ ပေါ်တူဂီ ကေရာင်ဘုရင်တို့ ဘုန်းတန်ခိုး ကြီးမားသောခေတ်ရှိ အင်ပိုင်ယာနိုင်ငံနှင့် နှိုင်းစာပါမူ၊ လက်ရှိသည် အလွန်သေးငယ်သော အစိတ်အပိုင်းမျှသာ ဖြစ်သည်ဟု ဆိုရပေမည်။ ၁၄၁၂ ခုနှစ်၌ ဟင်နရီခေါ် ပေါ်တူဂီ မင်းသားသည် အာဖရိကတိုက် အနောက်ဖက်ကမ်းရိုးတန်းအတိုင်း ဆီယယ်ရာလီယုန်အရပ်အထိ စုန်ဆင်း

၍ နယ်သစ်ရှာဖွေရန် စွန့်စားလိုသူတို့ကို သဘော်ဖြင့် စတင်စေလွှတ်ခဲ့သည်။ ထိုသည်မှစ၍ အင်ပိုင်ယာနယ်ကို ချဲ့ထွင်ခဲ့ကြသည်။ ပေါ်တူဂီလူမျိုးတို့သည် ကနေရီကျွန်းစု၊ မဒီးရကျွန်းများနှင့် ကိပ်ဗတ် ကျွန်းစုများကို စတင်၍ တွေ့ရှိကာ၊ နယ်သစ်ထူထောင်ခဲ့ကြ၏။၁၄၆၀ ပြည့်နှစ်ဟင်နရီမင်းသားနတ်ရွာစံပြီးသည့်နောက်တွင်လည်း၊ အဇိုးကျွန်းစုကို ထပ်မံတွေ့ရှိခဲ့ကြပြန်သည်။ ထို ၁၅ ရာစုနှစ်များ ကုန်ဆုံးခါနီးတွင် ပေါ်တူဂီလူမျိုး ဗက်စကိုဒါဂါးမသည် ဂွတ်ဒဟုပ် အငူကို တွေ့ရ၍၊ စွန့်စားသွားလာခဲ့ရာ၊ အိန္ဒိယပြည်ကြီးသို့ ရောက်ရှိခဲ့လေသည်။ (ဗက်စကိုဒါဂါးမ။ ဂွတ်ဒဟုပ်အငူ — ရှု။) ပေါ်တူဂီလူမျိုးအချို့လည်း အာဖရိကတိုက် ကမ်းခြေတဝိုက်ပင်လယ် ရေစီးကြောင်းများကို ရှောင်ကွင်းသွားလာယင်းပင် ၁၅၀၀ ပြည့်နှစ်၌ တောင်အမေရိကတိုက်ရှိ ယခု ဗရာဇီးနိုင်ငံတည်ရှိရာ အရပ်တို့သို့ ရောက်ရှိခဲ့ကြသည်။

ပေါ်တူဂီတို့သည် သူတို့၏ စွန့်စားမှုများကြောင့်၊ ၁၆ ရာစုနှစ်များအလယ်လောက်တွင် ဂျီဗရောတားမှ တရုပ်နိုင်ငံကန်တုန်မြို့ အစရှိသည့် ဒေသများသို့တိုင်အောင် ထိုခေတ်၏ ကူးသန်းရောင်းဝယ်ရေးကို ချုပ်ကိုင် ချယ်လှယ်နိုင်ကြသည်။ ထိုဒေသများတလျှောက်၌ ပေါ်တူဂီလူမျိုးပိုင် အရောင်းအဝယ် စခန်းများ အနှံ့အပြား တည်ရှိ၍၊ ထိုစခန်းတို့ကို ကာကွယ်စောင့်ရှောက်ရန်အလို့ငှါ ပေါ်တူဂီ စစ်တပ်များကို ပင်လျှင် အစောင့်ချထားကြ၏။ ဗရာဇီးနယ်ကိုမူကား ပေါ်တူဂီအစိုးရသည် လယ်ယာစိုက်ပျိုးရန်ဒေသနှင့် ပြည်နှင်ဒဏ်သင့်သူများကို ပို့ထားရန် ဒေသအဖြစ် အသုံးပြုခဲ့၏။

ပေါ်တူဂယ် နိုင်ငံ၏ မြောက်ပိုင်းဒေသမှာ အိုက်ဗီးရီးယန်းကျွန်းဆွယ်၏ အလယ်ပိုင်း ကုန်းပြင်မြင့်ကြီး၏ အစိတ်အပိုင်းတခုပင်ဖြစ်၏။ ထိုအပိုင်းကို ဖြတ်သန်းစီးဆင်းလျက်ရှိသော ဒိုးရူးမြစ်သည် အချို့နေရာများတွင် ပေပေါင်းတထောင်ကျော်မြင့်သော လျှိုမြောင် ကမ်းပါးကြီးများအတိုင်း စီးဆင်းခဲ့ရသည်။ ထိုမြစ်ကမ်းပါး၏ တဖက်တချက်တွင် အထပ်ထပ် ဆင့်ကာ ဆင့်ကာ ပေါက်ရောက်လျက်ရှိသော စပျစ်ခြံကြီးများရှိ၏။ ထို့ကြောင့်လည်း ပေါ်တူဂယ် နိုင်ငံသည် ဥရောပတိုက်တွင် ဝိုင်အရက် အများဆုံးထွက်ရာ တိုင်းပြည်ဖြစ်သည်။ မြစ်ကမ်းတလျှောက်မိုင် ၃၀ ခန့်မျှရှည်လျားသည့် ဤနယ်မှ ရသမျှဝိုင်အရက်များကို နိုင်ငံခြားသို့ တင်ပို့ရာဒေသကား၊ ဒိုးရူးမြစ်ဝတွင်ရှိသော အိုပေါ်တိုးမြို့ကြီးဖြစ်၏။ ထိုမြို့ကြီး၏ အမည်ကို အစွဲပြု၍ ထိုဝိုင်အရက်သည်လည်း "ပို့တဝိုင်" ဟူ၍ အမည်တွင်လျက်ရှိသည်။ ပေါ်တူဂယ်နိုင်ငံ အလယ်ပိုင်းဒေသ (အထူးသဖြင့် လစ္စဗွန်းမြို့ တည်ရှိရာ) အက်စထရီးမဒူရာ နယ်သည်ကား မြောက်ပိုင်းဒေသများကဲ့သို့ သစ်ပင်တောတောင်တို့ ထူထပ်ပေါများခြင်းမရှိဘဲ၊ သီး၊ ဆိတ်နှင့် ဝက်များ စားကျက်ချရာ မြက်ခင်းဒေသမျှသာ ဖြစ်၏။ အလယ် တားဟိုးနယ်သည် ဖော့ပိတ်များ အများအပြား ထွက်သောကြောင့် ထင်ရှား



ပေါ်တူဂယ်နိုင်ငံ၏ မြို့တော်ဖြစ်သော လစ္စဗွန်းဆိပ်ကမ်းမြို့၏ ရှုခင်းတရပ်

ပေါ်တူဂယ် နိုင်ငံ၏ အတိတ်ရာဇဝင်မှာ အိမ်နီးချင်းဖြစ်သော စပိန်နိုင်ငံ၏ အတိတ်ရာဇဝင်နှင့် များစွာ တူညီသည်။ ပေါ်တူဂယ်သည် စပိန်နိုင်ငံကဲ့သို့ ကာသေ့၊ ရောမနှင့် မူးဝါးတို့၏ တိုက်ခိုက် သိမ်းယူခြင်းကို ခံခဲ့ရ၏။ ၁၁ ရာစုနှစ်များအတွင်း ကက်စတီးဘုရင် ပဋ္ဌမ ဖာဒီနန်သည် မွတ်စလင်တို့လက်မှ ပေါ်တူဂယ်၏တစိတ်တဒေသကို ပြန်လည် သိမ်းပိုက်နိုင်ခဲ့၏။ ထိုနောက် ထိုနယ်သည် ၁၁၄၀ ပြည့်နှစ်တွင် ကက်စတီးပြည်၏လက်အောက်မှ လွတ်မြောက်၍၊ ကိုယ့်မင်းကိုယ့်ချင်းနိုင်ငံဖြစ်သွားခဲ့၏။ ၁၅၈၀ ပြည့်နှစ်တွင်ကား ပေါ်တူဂီမင်းဆက်ပြတ်၍၊ စပိန်ဘုရင် ဒုတိယဖိလစ်က ပေါ်တူဂယ်ကို သိမ်းယူ အုပ်စိုးလေသည်။ ၁၆၄၀ ပြည့်နှစ်တွင် ပေါ်တူဂယ်သည် လွတ်လပ်သော နိုင်ငံတခုအဖြစ်သို့ ပြန်ရောက်ခဲ့သည်။ သို့ရာတွင် ရှေးအခါက ပိုင်ဆိုင်ခဲ့သော ကိုလိုနီနိုင်ငံများအားလုံးလိုလိုပင် လက်လွှတ်ခဲ့ရသည်။ (စပိန်နိုင်ငံ — လည်းရှု။)

၁၇၀၃ ခုနှစ်တွင် ချုပ်ဆိုသော မက်သူယင် စာချုပ်အရ ပေါ်တူဂယ်နိုင်ငံသည် အင်္ဂလန်နိုင်ငံ၏ မဟာမိတ်ဖြစ်လာသည်။ ၁၈၀၇ ခုနှစ်၌ နပိုလီယန်ဘုရင်သည် စပိန်နိုင်ငံကိုဝင်ရောက်တိုက်ခိုက်ရာ၊ ပေါ်တူဂီဘုရင်သည် သူ့ဆွေတော်မျိုးတော်များနှင့်အတူ ဗရာဇီးနယ်သို့ ထွက်ပြေးရသည်။ ထိုနောက် ဝယ်လင်တန်ကြီးမှူးသော ဗြိတိသျှ စစ်တပ်တို့သည် ပြင်သစ်တို့ကို ပေါ်တူဂယ်နိုင်ငံမှ တိုက်ထုတ်လိုက်၏။ ပေါ်

၏။ ပေါ်တူဂယ်နိုင်ငံ၏ တောင်ပိုင်းအစွန်ဆုံး ဖြစ်သော အားလဂါးဗေနယ်မှာမူ လိမ်မော်ပင်၊ တည်ပင်၊ ဗာဒမ်ပင်၊ သံလွင်ပင်၊ စပျစ်ပင် အစရှိသည်တို့ဖြင့် စိမ်းလန်း သာယာလှပေ၏။ ထိုနယ်သားတို့သည် ငါးဖမ်းခြင်းအလုပ်ကိုလည်း အကြီးအကျယ် လုပ်ကိုင်ကြ၏။

လယ်ယာ စိုက်ပျိုးခြင်းဖြင့် အသက်မွေးမှုကြသူ များသော်လည်း၊ ပေါ်တူဂယ်နိုင်ငံသည် အခြားတိုင်းပြည်တို့မှ စားကုန်များကို အမြောက်အမြား တင်သွင်းရ၏။ သို့သော်လည်း တဖြည်းဖြည်း တနှစ်ထက် တနှစ် တိုးတက် ချဲ့ထွင်ကာ စိုက်ပျိုးခြင်းကြောင့်၊ ယခုအခါတွင် ယခင်ကလောက် နိုင်ငံခြားကို မမှီခိုရတော့ချေ။ ပေါ်တူဂယ်နိုင်ငံမှ အကြီးအကျယ် တင်ပို့သောထွက်ကုန်များမှာ အထည်အလိပ်၊ ဖိနပ်၊ စက္ကူ၊ ကြွေနှင့်လုပ်သော အုတ်ကြွပ်တို့ ဖြစ်သည်။

ပေါ်တူဂယ်နိုင်ငံ၏ တက္ကသိုလ်ကျောင်းကြီးများမှာ လစ္စဗွန်း၊ ကိုအင်ဗရာနှင့် အိုပေါ်တိုးမြို့များတွင်ရှိကြ၏။ ယင်းတို့တွင် ကိုအင်ဗရာတက္ကသိုလ်သည် ၁၂၉၀ ပြည့်နှစ်ကပင်တည်ရှိခဲ့၍ ရှေးအကျဆုံးတက္ကသိုလ်ဖြစ်၏။ ပေါ်တူဂီတို့၏စာပေသည် ကမ္ဘာ့စာပေတို့တွင် အပါအဝင် ဖြစ်သည်။ အထင်ရှားဆုံးမော်ကွန်းတခုဖြစ်သော "လူးဆီးယတ်" ကဗျာကို ရေးသားသူ လူဝစ်သေကမုန်း (ခရစ် ၁၅၂၄–၁၅၈၀) နှင့်တကွ အခြားကဗျာဆရာတို့သည် ပေါ်တူဂီစာပေ၏ ဂုဏ်ကျက်သရေကို အထူးပင်မြင့်တင်ပေးခဲ့ကြသူများဖြစ်သည်။



ပေါ်တူဂယ်နိုင်ငံတွင် နွားလှည်းများကို ယခုတိုင် အသုံးပြုလျက်ရှိသည်။



ကမ္ဘာကျော် ''ပို့တဝိုင်''ခေါ် ဝိုင်အရက် ထွက်ရာ ဒေသဖြစ်သော ဒိုးရူးမြစ်ဝှမ်း၌ စပျစ်များကို ဤသို့ ဆွတ်ခူးနေကြသည်။



ပေါ်တူဂယ်နိုင်ငံတွင် သတို့သမီးတို့သည် ဤသို့ ဝတ်ဆင်ကြသည်။

တူဂီဘုရင်သည် ၁၈၂၀ ပြည့်နှစ်၌ပေါ်တူဂယ်နိုင်ငံသို့ပြန်လာနိုင်လေသည်။ ထိုနောက် ဗရာဇီးနယ်သည် ပေါ်တူဂီတို့လက်အောက်မှ လွတ်မြောက်သွားလေသည်။ ၁၉၁၀ ခုနှစ်တွင်ပေါ်တူဂယ်တနိုင်ငံလုံးအုံကြွကာ တော်လှန်မှုကြီးတရပ်ဖြစ်ပေါ်လာ၍၊ ပေါ်တူဂယ်နိုင်ငံသည် သမတနိုင်ငံ ဖြစ်လာလေသည်။ ပေါ်တူဂီဘုရင် ဒုတိယမနွယ်သည်လည်း နန်းချခြင်းခံရ၏။ သို့ရာတွင် တိုင်းပြည် မငြိမ် မသက် ဖြစ်မြဲ ဖြစ်နေသောကြောင့်၊ ၁၉၂၆ ခုနှစ်၌ စစ်အာဏာဖြင့် အုပ်ချုပ်ရလေသည်။ တိုင်းပြည်၏ ဘဏ္ဍာရေး အခြေအနေမှာလည်း တနေ့ထက် တနေ့ ပိုမို ဆိုးရွားလာခဲ့ရာ၊ အစိုးရအဖွဲ့သည် တက္ကသိုလ် ပါမောက္ခတဦးဖြစ်သူ အန်တော်ချူသီ ဆယ်လဇာဆိုသူအား ဘဏ္ဍာရေးဌာနဝန်ကြီးအဖြစ် ခန့်အပ်လိုက်မှ ဘဏ္ဍာရေး အခြေအနေနှင့်တကွ တိုင်းပြည် အခြေအနေလည်း တနေ့တခြား တိုးတက်ကောင်းမွန်လာသည်။ ၁၉၃၂ ခုနှစ်၌ ဆယ်လဇာကိုပင် ဝန်ကြီးချုပ် တင်မြှောက်ကြ၏။ ၁၉၃၃ ခုနှစ်တွင်မူ ဣတလီနိုင်ငံ၏ အုပ်ချုပ်ရေးစံနစ်အချို့ကို ယူလျက်၊ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေသစ်များရေးဆွဲကာ၊ ပေါ်တူဂယ်နိုင်ငံသစ်ကို ထူထောင်ကြသည်။ ၁၉၅၁ ခုနှစ် ဇွန်လတွင် အဆိုပါ ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေကိုထပ်မံပြင်ဆင်၍ အတည်ပြုသည်။ (ဆယ်လဇာ — ရှု။)

**ပေါ်ထွန်း။ ဆာ** (ခရစ် ၁၈၈၃–၁၉၅၃)။ ။ထင်ရှားသောမြန်မာနိုင်ငံရေး ခေါင်းဆောင်ကြီးတဦးဖြစ်သည်။ စစ်တွေမြို့မှ ဦးရဲဖော်၏ သားအငယ်ဖြစ်၍၊ စစ်တွေမြို့၊ ရန်ကုန်မြို့နှင့် အိန္ဒိယပြည် ကာကလတ္တားမြို့တို့တွင် ဝိဇ္ဇာတန်းအထိ ပညာဆည်းပူးခဲ့သည်။ ၁၉၀၄-၀၅ ခုနှစ်တွင် ရန်ကုန်မြို့ မက်သဒစ် ယောကျ်ားကလေးကျောင်းတွင် ကျောင်းဆရာကြီးအဖြစ်၎င်း၊ ၁၉၀၅ ခုနှစ်မှ ၁၉၀၈ ခုနှစ်အထိ ရန်ကုန်မြို့ အစိုးရဟိုက်စကူးကျောင်း၌ အလယ်တန်းနှင့် အထက်တန်းပြဆရာအဖြစ်၎င်း လုပ်ကိုင်ခဲ့လေသည်။

ယင်းသို့ ပညာရေးလောက၌ ဆောင်ရွက်ခဲ့ပြီးနောက်၊ ၁၉၀၈ ခုနှစ်မှ ၁၉၁၂ ခုနှစ်အထိ၊ ချီ(ဖ)ကုတ် ရုံးတော်ကြီးတွင် စကားပြန်အဖြစ် ဆောင်ရွက်သည်။ ၁၉၁၂ ခုနှစ်မှ ၁၉၂၁ ခုနှစ်အထိ နှစ်များတွင် မြို့ပိုင်၊ အခွန်ဝန်၊ နယ်ပိုင်အစရှိသဖြင့် ဗြိတိသျှ အစိုးရ၏ အုပ်ချုပ်ရေး ရာထူးများတွင် ဝင်ရောက် အမှုထမ်းခဲ့သည်။ ယင်းသို့ အုပ်ချုပ်ရေးပိုင်းတွင် ထမ်းရွက်နေစဉ်၊ ပဌမကမ္ဘာစစ်ကြီးအတွင်း ဗြိတိသျှတို့စစ် အောင်မြင်ရေးအတွက် အကူအညီပေးခဲ့၍ ဆုတံဆိပ်များဖြင့် ချီးမြှင့်ခြင်းခံရသည်။ ထို့ပြင် ၁၉၁၉ ခုနှစ်တွင် အမှုထမ်းကောင်းတံဆိပ်ရမင်း ဘွဲ့ကိုလည်း ရရှိခဲ့လေသည်။

ထိုနောက် ဗြိတိသျှ အစိုးရ အမှုထမ်းအဖြစ်မှ နုတ်ထွက်လိုက်ပြီးလျှင်၊ ၁၉၂၃ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ သွားရောက်

## ပေါ်ထွန်း၊ ဆာ



မြန်မာနိုင်ငံ နန်းရင်းဝန်ဟောင်း ဆာပေါ်ထွန်း

၍ ဝတ်လုံပညာ သင်ကြားတတ်မြောက်ခဲ့ပြီးနောက်၊ မြန်မာနိုင်ငံသို့ပြန်လာကာ၊ ဝတ်လုံလိုက်ယင်း နိုင်ငံရေး နယ်ပယ်ထဲသို့ ဝင်ရောက်ခဲ့လေသည်။

၁၉၂၅ ခုနှစ်တွင် ရမည်းသင်းမြောက်ပိုင်း မဲဆန္ဒနယ်မှ ဥပဒေပြုကောင်စီအမတ် အဖြစ် အရွေးခံရသည်။ ၁၉၂၅ ခုနှစ် မှ ၁၉၂၈ ခုနှစ်အထိ ဥပဒေပြု ကောင်စီ၏ ဒုတိယ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ရသည်။ ထို့ပြင် ရန်ကုန် မျူနီစီပယ်ကော်ပိုရေးရှင်း၏ အဖွဲ့ဝင်လူကြီးတဦးအဖြစ်ဖြင့် ၁၉၂၇ ခုနှစ်မှ ၁၉၃၂ ခုနှစ်အထိ ဆောင်ရွက်ခဲ့၍ ၁၉၃၂ ခုနှစ်တွင် ရန်ကုန်မြို့တော်ဝန်လည်း ဖြစ်ခဲ့လေသည်။

ဤသို့ဖြင့်ဦးပေါ်ထွန်းသည် မြန်မာနိုင်ငံရေးလောကတွင် တဖြည်းဖြည်း ထင်ရှားလာသည့် အလျောက် ၁၉၂၅ ခုနှစ်မှ ၁၉၂၇ ခုနှစ်အထိ 'သရာဇပါတီ' ၏ ဒုတိယခေါင်းဆောင် ဖြစ်ခဲ့သည်။ ထို့ပြင် ပြည်သူ့ပါတီ၊ နှစ်ဆယ့်ခုနှစ်ဦးအဖွဲ့ စသည့် ပါတီ အဖွဲ့များ၏ အရေးပါသော အမှုဆောင် တဦးလည်း ဖြစ်ခဲ့လေသည်။ ၁၉၃၂ ခုနှစ်မှ ၁၉၃၅ ခုနှစ်အထိ ထိပ်တန်း မြန်မာ့နိုင်ငံရေး ခေါင်းဆောင်တဦးဖြစ်သော သမတဦးချစ်လှိုင်၊ ဦးမြတ်သာထွန်းတို့နှင့်အတူ 'လှိုင်၊ မြတ်၊ ပေါ်' ပါတီကို ဖွဲ့စည်းတည်ထောင်ခဲ့ပြီးလျှင်၊ အိန္ဒိယပြည်နှင့် မြန်မာပြည်တို့တွဲရေးခွဲရေးပြဿနာပေါ် ပေါက်လာခဲ့သောအခါ တွဲရေးဖက်မှဆောင်ရွက်ခဲ့လေသည်။ (ချစ်လှိုင်၊ ဦး — ရှု။)

၁၉၃၇ ခုနှစ်တွင် ဗြိတိသျှ ပါလီမန်က မြန်မာပြည် ဥပဒေကြမ်းကို စိစစ်ရေးဆွဲရန် တွဲဖက်ကော်မီတီတခု ဖွဲ့စည်းသည်။ ထိုတွဲဖက်ကော်မီတီနှင့် တိုင်ပင်ဆွေးနွေးရန် မြန်မာကိုယ်စားလှယ်များကို ဗိလတ်သို့ ဖိတ်ခေါ်ရာ၊ ကိုယ်စားလှယ်အဖွဲ့တွင် 'လှိုင်၊ မြတ်၊ပေါ်ပါတီ' နှင့် 'ဆင်းရဲသားပါတီ' တို့၏ ကိုယ်စား ဦးပေါ်ထွန်း လိုက်ပါ သွားခဲ့ရလေသည်။

မြန်မာပြည်ကို အိန္ဒိယပြည်မှ ခွဲထုတ်လိုက်၍ ၉၁ ဌာနဟူသော အုပ်ချုပ်ရေးသစ် ရရှိပြီးနောက်၊ ပဌမဆုံးအကြိမ် ဥပဒေပြု လွှတ်တော် ရွေးကောက်ပွဲများကို ၁၉၃၆ ခုနှစ် ဒီဇင်ဘာလတွင် ကျင်းပသောအခါ ဦးပေါ်ထွန်းသည် ဦးချစ်လှိုင်၏ ပါတီဝင်အဖြစ် ပခုက္ကူခရိုင်၊ ရေစကြို မဲဆန္ဒနယ်မှ ရွေးကောက်တင်မြှောက်ခြင်းခံရလေသည်။ ထိုအချိန်တွင် ဦးပေါ်ထွန်းသည် ဦးချစ်လှိုင်ပါတီ၏ ခေါင်းဆောင် ဖြစ်လာသည်။ ထိုအခါက ဒေါက်တာဘမော် ခေါင်းဆောင်၍ ညွန့်ပေါင်းအစိုးရ ဖွဲ့စည်းခဲ့ရာ၊ ဦးပေါ်ထွန်းသည် ပြည်ထဲရေးနှင့် တရားရေးဌာနဝန်ကြီးအဖြစ် ဆောင်ရွက်ရသည်။ ၁၉၃၈ ခုနှစ်တွင် ဗြိတိသျှအစိုးရက 'ဆာ'ဘွဲ့ဖြင့် ချီးမြှင့်လေသည်။

ထိုအချိန်တွင် ဥရောပ၌ စစ်ယမ်းအိုးကြီး ပေါက်ကွဲလု နီးနီးဖြစ်၍၊ မြန်မာပြည်တွင်လည်း မျိုးချစ် စိတ်ဓာတ် ထက်သန်ပြင်းပြလာကာ၊ လှုပ်ရှားမှုများ များပြားလာသည်။ ကျောင်းသား အလုပ်သမား လယ်သမား အရေးများ ပြင်းထန်လာပြီးလျှင် တနိုင်ငံလုံး ဆူဆူပူပူဖြစ်လာသဖြင့်၊ ဒေါက်တာဘမော်၏ ညွန့်ပေါင်း အစိုးရသည် ၁၉၃၉ ခုနှစ် ဖေဖွာရီလတွင် ပြုတ်ကျလေသည်။

ထိုအခါ ဦးပုခေါင်းဆောင်သော ညွန့်ပေါင်း အစိုးရ တက်ပြန်သည်။ ဆာပေါ်ထွန်းသည် ထိုအစိုးရ အဖွဲ့တွင် မြေနှင့် အခွန်တော်ဌာန ဝန်ကြီးအဖြစ် ပါဝင်ရပြန်သည်။ ဦးပုအစိုးရအဖွဲ့သည် ၁၉၄၀ ပြည့်နှစ်တွင် ပြုတ်ကျပြန်၍ ဂဠုန်ဦးစော၏ အစိုးရအဖွဲ့ တက်ပြန်သည်။ ထိုအစိုးရအဖွဲ့တွင်လည်း ဆာပေါ်ထွန်းသည် မြေနှင့် အခွန်တော်ဌာနဝန်ကြီးအဖြစ် ဆောင်ရွက်ရပြန်လေသည်။

၁၉၄၁ ခုနှစ် နောက်ပိုင်းတွင် ဆာပေါ်ထွန်းသည် မြန်မာအစိုးရအဖွဲ့၏ခေါင်းဆောင် ခေတ္တနန်းရင်းဝန်အဖြစ် ဆောင်ရွက်ရပြီးလျှင်၊ ၁၉၄၂ ခုနှစ် ဇန္နဝါရီလမှစ၍ မြန်မာပြည် နန်းရင်းဝန်အဖြစ် ဆောင်ရွက်ရလေသည်။

ထိုအတောအတွင်း ကမ္ဘာ့စစ်မီးသည် ကမ္ဘာ့အရှေ့ပိုင်းသို့ ပြန့်နှံ့လာ၍၊ ဂျပန်တို့၏ စစ်ကြောင်းသည် မြန်မာပြည်ဖက်သို့လည်း ရောက်ရှိလာခဲ့သည်။ ထိုအခါ ဗြိတိသျှ အစိုးရသည် မြန်မာပြည်အစိုးရအဖွဲ့အား ၁၉၄၂ ခုနှစ် နှစ်ဦးပိုင်းတွင် အိန္ဒိယသို့ရွှေ့ပြောင်းစေသည်။ ထို့ကြောင့် ဆာပေါ်ထွန်းအစိုးရအဖွဲ့သည် အိန္ဒိယပြည်သို့ ပါသွားကာ ဆင်းမလားမြို့၌ အဝေးရောက်မြန်မာပြည်အစိုးရအဖွဲ့ရုံးကို ဖွင့်လှစ်

ပြီးလျှင်၊ စစ်ပြီးခေတ် မြန်မာပြည်အတွက် အုပ်ချုပ်ရေး စီမံကိန်းများကို ရေးဆွဲခဲ့လေသည်။

ဆာပေါ်ထွန်းသည် မြန်မာပြည်နန်းရင်းဝန်အဖြစ် ၁၉၄၃ ခုနှစ် ဧပြီလအထိဆောင်ရွက်သည်။ ထိုနောက် မြန်မာပြည်ဘုရင်ခံ၏ အကြံပေးအရာရှိကြီးအဖြစ် ဆက်လက် ဆောင်ရွက်လေသည်။

မြန်မာပြည်ကို မဟာမိတ် တပ်များက ပြန်လည် သိမ်းပိုက်ပြီးနောက်၊ ၁၉၄၅ ခုနှစ် အောက်တိုဘာလတွင် စစ်အုပ်ချုပ်ရေးကို ရပ်စဲလိုက်သဖြင့်၊ အိန္ဒိယသို့ စစ်ပြေးခဲ့သော မြန်မာပြည်ဘုရင်ခံ ဆာရယ်ဂျီနယ်ဒေါ်မန်စမစ်သည် မြို့ပြအုပ်ချုပ်ရေးကိုလက်ခံရန် မြန်မာပြည်သို့ ပြန်လာသည်။ ဆာပေါ်ထွန်းသည် ဆာဒေါ်မန်စမစ်၏ အတိုင်ပင်ခံအမှုဆောင်အဖွဲ့တွင် ပြည်ထဲရေးဝန်ကြီးအဖြစ် ၁၉၄၅-၄၆ ခုနှစ်တွင် ဆောင်ရွက်ခဲ့လေသည်။

ထိုအချိန်တွင် မြန်မာ တိုင်းရင်းသားတို့သည် နိုင်ငံလွတ်လပ်ရေး စိတ်ဓာတ် အလွန် တက်ကြွနေ၍၊ ပုလိပ်သပိတ်၊ အမှုထမ်းပေါင်းစုံသပိတ်များပေါ် ပေါက်ကာ ဗြိတိသျှအစိုးရအား မကြုံစဖူးအုံကြွ၍ ဆန့်ကျင်ဖက်ပြုကြသည်။ လုံးဝလွတ်လပ်ရေးပေးရန် အရေးဆိုကြလေသည်။ ထိုကြောင့် ဗြိတိသျှအာဏာပိုင်တို့သည် ဆာဒေါ်မန်စမစ်အား ပြန်ခေါ်ပြီးလျှင် ဆာဟျူးဗတ်ရန့်အား မြန်မာပြည် ဘုရင်ခံအဖြစ် ခန့်ထားရလေသည်။

ဆာရန့်သည် အတိုင်ပင်ခံ အမှုဆောင်ဝန်ကြီးအဖွဲ့ကိုပြန်လည်ဖွဲ့စည်းရာ၊ ထိုစဉ်က လူထု၏ တခဲနက် ထောက်ခံမှုကို ရရှိနေသော ဖ၊ ဆ၊ ပ၊ လ ခေါင်းဆောင်ကြီးများ ပါဝင်၍၊ ဆာပေါ်ထွန်း မပါဝင်တော့ချေ။ သို့သော် ဆာပေါ်ထွန်းသည် ထိုစဉ်က ဖ၊ ဆ၊ ပ၊ လ အဖွဲ့မှ ခေါင်းဆောင်၍ လုံးဝလွတ်လပ်ရေးပေးရန် တောင်းဆိုခြင်းကိုမူ ထောက်ခံခဲ့သည်။ ထိုနောက် ဆာပေါ်ထွန်းသည် နိုင်ငံရေးမှ အနားယူပြီးလျှင် ငြိမ်သက်အေးချမ်းစွာ နေထိုင်ခဲ့၍၊ ၁၉၅၃ ခုနှစ် ဖေဖွာရီလ ၂၈ ရက်နေ့တွင် ရန်ကုန်မြို့၌ ကွယ်လွန်သွားလေသည်။

ဆာပေါ်ထွန်းသည် ၁၉၀၄ ခုနှစ်တွင် မြန်မာ အမျိုးသမီး ဒေါ်ထွေးနှင့် လက်ဆက်ခဲ့၍ သားဘယောက်ရသည်။ဒေါ်ထွေးသည် ၁၉၃၁ ခုနှစ်တွင် အနိစ္စရောက်သည်။

၁၉၂၁ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု အိုဟိုင်းအိုပြည်နယ်၊ ကလိဗလန်းမြို့မှ ဆာရာအယ်လစ်ဇဗက် ဂျီဝစ်နှင့် လက်ထပ်၍ သမီးတယောက်ရခဲ့လေသည်။

**ပေါ်ဦး၊ဦး၊အမတ်ကြီး**(မြန်မာ ၁၁၂၁–၁၂၀၀)။ ။ အမတ်ကြီး ဦးပေါ်ဦးသည် အမရပူရမြို့တည် နန်းတည် ဘိုးတော်မင်းတရား လက်ထက်မှစ၍၊ မင်းသုံးဆက် တိုင်အောင် အမှုတော် ထမ်းခဲ့ရသော ပညာရှိ အမတ်ကြီး ဖြစ်လေသည်။

သက္ကရာဇ် ၁၁၂၁ ခုနှစ်၊ တပေါင်း လပြည့်ကျော် နှစ်ရက်၊ တနင်္ဂနွေနေ့တွင် ဖွားမြင်သူ ဖြစ်သည်။ ယခု ရွှေဘိုခရိုင်၊ မြေဒူးအောက်တိုက်၊ တံဆည်ရွာ ဇာတိဟု ဆိုကြသည်။ ရဟန်းအဖြစ် သုံးနှစ် နေ၍ စာပေ သင်ကြားပြီးနောက် လူထွက်ကာ မင်းမှုထမ်းသည်။ ဘိုးတော် ဦးဝိုင်း (ဗဒုံမြို့စား) သည် ဆင်ဖြူရှင် မင်းတရားကြီး လက်ထက်တွင် ဆင်းဆင်းရဲရဲ အိမ်နိမ့် စံနေစဉ် အခါကပင်၊ မောင်ပေါ်ဦးသည် မိမိ၏ အရှင်နှင့် ဆင်းရဲအတူ ချမ်းသာအမျှ နေထိုင်ခဲ့သည်။ ဘိုးတော် မင်းတရား နန်းတက်ပြီး နောက်တနှစ်၊ သက္ကရာဇ် ၁၁၄၄ ခုနှစ်တွင်၊ မဟာဇေယျသူရသင်္ခယာဘွဲ့နှင့် နားခံတော်ကြီး အဖြစ် ခြီးမြှင့်တော်မူခြင်းကို ခံရသည်။ ၁၁၄၅ ခုနှစ်တွင် မင်းကြီး သီရိမဟာနန္ဒသင်္ကြံဘွဲ့နှင့် ယောမြို့၊ ဆောမြို့စား အတွင်းဝန်ကြီးအဖြစ်ဖြင့် ခန့်ထားခြင်း ခံရလေသည်။

ဘိုးတော်မင်းတရား၏ နန်းစံ ၃၈ နှစ်ပတ်လုံး အမတ်ကြီး ဦးပေါ်ဦးသည် အမှုတော်ကို ထမ်းခဲ့သည်။ ဘိုးတော်မင်းတရားသည် ဦးပေါ်ဦးကို လေးစား ချစ်ခင်တော်မူသည်။ အားကိုးအားထားလည်း ပြုသည်။ အထူး မြှောက်စား ဆုလပ်တော်များလည်း ပေးသနားသည်။ သို့သော် မိမိလက်ထက်တော်တွင်မူ၊ မြှောက်စား လွန်းရာ ကျမည်စိုး၍ ရာထူးကြီးများဖြင့် မချီးမြှင့်ခဲ့ပေ။ မိမိ ရိုက်ရာတော် ဆက်ခံကြမည့် စစ်ကိုင်းမင်းသား (ဖလ်နန်းရှင်-ဘကြီးတော် မင်းတရား) နှင့် သာယာဝတီမင်းသား (ရွှေဘိုမင်း-ကုန်းဘောင်မင်း)တို့ကိုမူ ဦးပေါ်ဦးအားရာကြီးထူးကြီးများဖြင့် ချီးမြှင့်မြှောက်စား၍ အရာခပ်သိမ်း တိုင်တိုင်ပင်ပင် ပြုရန် တင်းတင်းကြပ်ကြပ် မိန့်မှာထားခဲ့လေသည်။

ထိုကြောင့် ဘကြီးတော် လက်ထက် ကျရောက်သောအခါ၊ ဝန်ကြီး သတိုး မင်းကြီး မဟာမင်းခေါင် ဘွဲ့နှင့် အဂ္ဂမဟာသေနာပတိ ဗိုလ်မှူးဝန်ကြီး အဖြစ် ခန့်ထားခြင်း ခံရသည်။ကုန်းဘောင် မင်းတရား လက်ထက်တွင်မူ ဝန်ကြီး သတိုးမင်းကြီး မဟာသုဓမ္မ ရာဇကျော်ထင် ဟူသော ဘွဲ့နှင့် တရားဝန်ကြီးချုပ်အဖြစ် ချီးမြှင့်ခြင်း ခံရလေသည်။

အမတ်ကြီး ဦးပေါ်ဦးသည် ကျယ်ဝန်း ထက်မြက်သော ဉာဏ်ပညာပါရမီနှင့် ပြည့်စုံ၍ တခဏုပ္ပတ္တိဉာဏ် လျှင်မြန်လှပြီး မင်း၏ စိတ်နှလုံး ရွှင်ပြုံးလာအောင် ရုတ်ခြည်း တင်လျှောက်နိုင်သည့် အရာတွင် နှိုင်းရှည့်နိုင်ဖွယ်ရာ ရှားသော ပုဂ္ဂိုလ်ထူးတဦး ဖြစ်သည်။ ပိဋကတ်ကျမ်းဂန်၊ ဗေဒင်၊ ဓမ္မသတ် စသော ဂန္ထန္တရတို့၌ နှံ့စပ်ကျွမ်းကျင်သည်။ ကဗျာဖွဲ့ဆိုမှု၌လည်း ကဝိတဆူဖြစ်သည်။ စကား ပရိယာယ် ကြွယ်ဝ၍၊ မင်းက မေးတော်မူသမျှကို ပါဠိ၊ အဋ္ဌကထာ၊ သုတ္တန်၊ ဝိနည်း၊အဘိဓမ္မာ၊ ဇာတ်နိပါတ်၊ ရာဇဝင်တို့မှ ဥဒါန်းစကားအစဉ်တို့ဖြင့် ထုတ်နုတ်တင်လျှောက် နိုင်စွမ်းသည်။ မိမိအရှင်

၏ အရေး၊ တိုင်းပြည်အရေးကို အစဉ်သဖြင့် ထောက်တွေးမျှော်ရှုလေ့ ရှိသည်။ တိုင်းပြည်သေဋ္ဌနင်း၊ မင်းကေရာဇ်ပင်ဖြစ်သော်လည်း နည်းလမ်းမမှျ၊ စည်းကမ်းမကျ ပြုမူသည်ကို သိရလျှင် မိမိ၏ အသက်စည်းစိမ်ကို မငဲ့ကွက်ဘဲ၊ မင်း၏ အမျက်တော်ရှခြင်းကိုပင် ခံယူကာ ပြတ်ပြတ်သားသား တင်လျှောက်ဝံ့သူ ဖြစ်သည်။

တိုင်းပြည်၏အကျိုး၊ မိမိအရှင်၏ အကျိုး အတွက်၊ ဘုရင်မျက်မာန်ရှသည်ကိုပင် ခံယူခဲ့ရသော သာဓက တခုမှာ၊ ဘိုးတော် မင်းတရားသည် မြစ်တော်ချစ် ညောင်ရမ်းမင်းသားကလေး အတွက် မြယောဉ် ခမည်းပေးရန်၊ သဿမေဒ အခွန်တော်မှ ငွေတော် ရှစ်သိန်း ထုတ်ယူ သုံးစွဲရန် အမိန့်ထုတ်သည်။ ဦးပေါ်ဦးက ထိုအမိန့်တော်ကို ကြားလျှင်၊ ရှင်ဘုရင်သည် ရှင်ဘုရင်ပါး မဝဟု ဆိုလိုက်သည်။ ထိုစကားကို ရွှေနားတော် ပေါက်ကြားလျှင်၊ ဘုရင် မျက်တော်မူ၍၊ ဦးပေါ်ဦးအား ခြီးမြှင့်ထားသော ရာထူးဌာနန္တရများ ရုပ်သိမ်းပြီးလျှင် သိန္နီမြို့နယ်သို့ အကျဉ်းနှင့် ပို့နှင်လေသည်။

ဦးပေါ်ဦးသည် သိန္နီမြို့နယ်မှနေ၍ ရတုခြောက်ပုဒ် ရေးသား၍ ရွှေနားတော်ဆက်သွင်းသည်။ လိုရင်းအပုဒ် ဖြစ်သော ''ကျင့်မျိုးခက်ဝေ....''ချီ ရတုဘွင်၊ ဘုရင်မင်းမြတ်တို့ကျင့်ရိုးခမ္ဘာ ဆုံးမရာဖြစ်သော ရာဇက္ကမ အနု သာသနီကျမ်းထွက်အရ၊ ဘုရင်မင်းမြတ်တို့သည် မည်သည့် အခွန်အတုတ်မျိုးကို မည်သည့် နေရာ၌ မည်သို့ သုံးစွဲရသည်ကို ညွှန်ပြကာ၊ သဿမေဒခွန်ကို ဘုရင်တို့သည် မိမိတို့ ကိုယ်ရေးကိုယ်တာ အတွက် မသုံးအပ်သည်ကိုဖော်ပြသည်။ ထိုအခါ ဘိုးတော်ဘုရားသည် ကျွန်ယုံချစ်က မိမိကိုယ်တော်၏ အကျိုးသိုလား၍ ဆိုခဲ့ပြောခဲ့သည်ကို ပြန်လည်ဆင်ခြင်မိကာ ဦးပေါ်ဦးအား နေပြည်တော်သို့ ပြန်ခေါ်ပြီးသော် ရှေး ရာထူးဌာနန္တရအတိုင်း သူကောင်း ပြုတော်မူလေသည်။

ဘိုးတော်ဘုရား လက်ထက်အခါက၊ အမတ်ကြီး ဦးပေါ်ဦး၏ ရာထူးသည် အတွင်းဝန်မျှသာ ဖြစ်သည်။ သို့သော် အခြားတပါးသောဝန်ကြီး၊ မှူးကြီး၊ သားတော်၊ သမီးတော်တို့ပင် မတင်မလျှောက်ဝံ့သောအရေးအခင်းများကို ဦးပေါ်ဦးသာလျှင် တင်လျှောက်ဝံ့သည်။ ဦးပေါ်ဦးသည် မင်းရိပ်မင်းခြည်လည်း သိသည်။ မင်း လျှော်ဝင်သဖြင့် မင်းတရားကြီးကလည်း ချစ်ခင် မြတ်နိုးသည်။ အရေးအခင်း ကြုံ၍ ဦးပေါ်ဦးကို ချဉ်းကပ်လျှင်၊ နစ်နာရသည်မရှိ။ သက်သာခွင့် ရသည်။ အခါတပါးတွင် ရတနာသိခ် စီရင်စုမှ မင်းတရားကြီး၏ လယ်တော်များကို ပိုင်းခြား သတ်မှတ်ရာ၊ လယ်တော်အုပ်များ တိုင်းထွာပုံ မညီမျှမှုကြောင့် ထိုစီရင်စုတွင် တောင်သူ ယာခုဘ် နေထိုင်ကြသည့် မင်းတရားကြီး၏ ဆွေတော်မျိုးတော်တို့ မခံမရပ်နိုင်ဖြစ်ကြကာ၊ နေပြည်တော်သို့လာရောက်၍ တရားစွဲဆိုရန် ပြုကြသည်။ ထိုအရေးကိစ္စ၌ ဘိုးတော်မင်းတရားကို တရားခံထား၍ စွဲဆိုရမည့်အမှုဖြစ်သဖြင့် မည်သည့် ရုံးတော် လွှတ်တော်၊ ဝန်ကြီး မှူးကြီးများကမှ လက်မခံဝံ့ကြချေ။ ဦးပေါ်ဦးကမူ ထိုအမှုကို ဖြဲတိုက်ဘော်မှလက်ခံပြီးလျှင် ရေမြေ့သေဋ္ဌနင်း ပြည့်ရှင်မင်းကို တရားခံအဖြစ် စစ်ဆေးရန် ဆင့်ခေါ်ခဲ့သည်။ ဆင့်ခေါ်စာကို သူကိုယ်တိုင် ရေးသား သုံးနှုန်းထားပုံမှာ—

''....နိုင်ငံတော်ကြီး၏ ကျက်သရေဆောင်၊ ဝင်းပြောင်ထိန်လျှပ်၊ ကျမ်းဂန်တတ်သည့် အမတ်ကြီးမင်း၊ ထင်လင်းသေချာ၊ ဆင့်ဆိုရာကို၊ နာခံမှတ်သားအပ်သည်၊ ပတ္တမြားနဝရတ်၊ စီခြယ်တပ်သည့်၊ပြာသာဒ်ကြီး ဥကင်နေ၊လူ့မွေကြီးထိပ်တင်ဝိုင်း....'' ဟူ၍ ဖြစ်လေသည်။

ထိုဆင့်စာကို ဘိုးတော်ဘုရားက ပမာမပြုဘဲ နေသောအခါ၊ ထိုဆင့်စာမျိုး ထပ်မံ ဆက်သွင်းသည်။ ထိုကြောင့် မင်းတရားကြီးက သံတော်ဆင့်ကြီး တဦးကို စေလွှတ် တရားဆိုင်စေရသည်။ ဦးပေါ်ဦးက တရားလိုများနှင့် ကိုယ်စားတော် တရားခံတို့ကို စစ်ဆေးပြီးသော် မင်းတရားကြီးအား တရားရှုံးထား၍ စီရင်ချက် ချလိုက်သည်။ ထိုစီရင်ချက်တွင် ''မဟာမောသ၊ စောရတပိုင်း၊ မောင်လူဝိုင်း၏ အဆိုသည်၊ ယွင်းယိုဖောက်ပြန်၊ မမှန်အချက်....'' များရှိ၍ တရားရှုံးပေးရကြောင်း။ ''ဉာဏ်ဝရဇိန်နှင့်၊ကံရှိန်တင့်ထူးသော....'' မိမိ၏ စီရင်ချက်ကို ''တရားဆက်လက်၊ အသက်သွင်းရန် မရှိ။ ပကတိအတိုင်း၊ ခေါ်းမဦးချ တည်စေ'' ဟု ချမှတ်ခဲ့လေသည်။

အမတ်ကြီး ဦးပေါ်ဦး၏ ဉာဏ်ပညာ ပါရမီ ကျယ်ဝန်းထက်မြက်ပုံမှာ သက္ကရာဇ် ၁၁၅၃ ခုနှစ်၊ သုဓမ္မာ ပဉ္စမပြန်စာမေးပွဲ ကျင်းပရန် သာသနာပိုင်ဆရာတော်နှင့် ဘိုးတော်မင်းတရားကြီးတို့ ဆွေးနွေးရာမှ မာတိကာ၊ ဓာတုကထာတို့၏ များပြားကျယ်ဝန်းပုံကို ဆရာတော်ကြီးက မိန့်ကြားသည်။ ထိုအခါ မင်းတရားကြီးက မာတိကာ၊ ဓာတုကထာတို့ စာစောင်မည်မျှ၊ နယမည်မျှ၊ ပါဒမည်မျှ ထား၍ မည်မျှကျယ်ဝန်းပါသနည်းဟု မေးမြန်း လျှောက်ထားရာ၊ ဆရာတော်ဘုရားကြီးမှာ ပမာဒ လေခ၍ ရုတ်တရက် မဖြေနိုင်ပေ။ အပါးတွင် ခစားလျက်ရှိသော ဦးပေါ်ဦးအား ဆရာတော်ကြီးက ကိုယ်စားလွှဲအပ်ရာ၊ မင်းတရားကြီးမေးတော်မူသမျှကို ဒိုးဒိုး ဒေါက်ဒေါက် ပိဋကတ်တော်များမှ အာဂုံဆောင်၍ ဖြေကြားလေသဖြင့် ဘုရင်မင်းမြတ်သည် ဦးပေါ်ဦး၏ တင့်ထူး ပွင့်မြူးလှသော ဉာဏ်ပညာ ပါရမီကို များစွာ နှစ်သိမ့်အားရ၍ ဆုလပ်များ ချီးမြှင့်ပေးသနားသည်။ ဆရာတော်ဘုရားကြီးကလည်း ဦးပေါ်ဦး၏ ဉာဏ်ပညာပါရမီထူးကဲပွင့်လင်းပုံကို အကြိမ်ကြိမ် သာဓု ခေါ်တော်မူလေသည်။

ဦးပေါ်ဦးသည် မင်းလျှော် ဝင်သဖြင့်၊ မင်း ပျော်ရွှင်တော်မူရန် အပျော်တော်များလည်း ဆက်ရသည်။ အထက်တွင် ဆိုခဲ့သည့်အတိုင်း၊ ဦးပေါ်ဦး၏ ပညာပါရမီကို ဆရာ

တော်ဘုရားကြီးနှင့် မင်းတရားကြီးတို့က ခြီးကျူးကြရပြီး နောက် မင်းတရားကြီးက စကား စပ်လျဉ်းသဖြင့် မိမိငယ် တော်မူစဉ်ကတွေ့ဘူးသော သာမဏေကြီးတပါး အကြောင်း မိန့်ကြားသည်။ ထိုသာမဏေကြီးသည် ယင်းနေထိုင်ရာဇရပ် ပေါ်သို့ လာသမျှလူအပေါင်း ကလေးလူငယ်၊ ယောကျ်ား၊ မိန်းမ မရွေး၊ တွေ့မြင်လိုက်လျှင် ရှိခိုး လှတ်တတ်သည်။ အခြားသူတို့က သာမဏေကြီးကို ရှိခိုးလျှင် မခံမရပ်နိုင် ဖြစ်ပြီးလျှင် အော်ငိုတတ်သည်မှာ အဘယ် ဝဋ်ကြွေး ကြောင့် နည်းဟု မင်းတရားကြီးက ဦးပေါ်ဦးအားမေးတော်မူသည်။

ဦးပေါ်ဦးက ထိုသာမဏေကြီးသည် လွန်ခဲ့သော အ တိတ်ဘဝတွင် ရှင်ဘုရင်သော်ရှင်း၊ သာသနာပိုင် ဆရာတော် ကြီးသော်ရှင်း ဖြစ်ခဲ့၍ ထိုစဉ်က တရာ့တပါးသော လူမျိုး တို့၏ မသဒ္ဓါရေ၊ သဒ္ဓါရေ ရှိခိုးခြင်းကို ခံခဲ့ရသောကြောင့် ယခု ဘဝတွင် ပါခဲ့သော ရှိခိုးကြွေးတို့ကို မပြေမခြင်း ဆပ်နေ ရဟန် တူပါကြောင်း လျှောက်ထားလေရာ၊ မင်းတရားကြီး က ပေါ်ဦး အရှူးကိုမေးရလျှင် သည်နည်းမျိုးသာ များချေ သည်ဟု ရယ်ရွှင်မိန့်ကြားသည်။ သာသနာပိုင် ဆရာတော် ကြီးကမူ မောင်မင်း အရှင်၊ ဘုရင် ဧကရာဇ်ကို မောင်မင်း ဘယ်လို ပြောပြော၊ ငါ့ဆီကိုဖြင့် မစောင်းပါနှင့်၊ မချိပ်ပါနှင့် ဟု ဆိုကာ ပြုံး၍ ပြန်ကြွသွားရလေသည်။

ဦးပေါ်ဦးသည် စိတ္တာကဝိ ပရိယာယ်ဖြင့် မင်းမျက်သင့် ခြင်းမှ တခါလွတ်ဘူးသည်။ အမတ်ကြီးအား မင်းက ချစ်ခင် မြတ်နိုး အလိုလိုက် မြှောက်စားသည် တကြောင်း၊ အရေး အခင်းကိစ္စရှိက ဦးပေါ်ဦး ဆောင်ရွက်ပေးလျှင် အောင်မြင် သည် တကြောင်းတို့ကြောင့် ဦးပေါ်ဦးထံ ဝင်ထွက် ဆည်း ကပ်သူ များပြားသည်။ ထိုအခါ ဦးပေါ်ဦးအား မလိုမုန်း ထားသူ မှူးမတ်တစုက ဘိုးတော် မင်းတရားကြီးအား ပုန် ကန်ရန် လူစု ကြံစည်နေသည်ဟု ချောပစ်စကား အကြိမ် ကြိမ် လျှောက်ထားကြသည်။ မင်းတရားကြီးသည် တကြိမ် နှစ်ကြိမ် လျှောက်ထားစဉ်က မယုံမကြည်၊ အရေး မယူခဲ့ သော်လည်း ကြိမ်ဖန် များလတ်သော် စုံစမ်းကြည့်ရန် အကြံ ဖြစ်သည်။ ထို့ကြောင့် ညဥ့် ညီလာခံအစဲတွင် ဦးပေါ်ဦးအား ခေါ် ထားပြီးလျှင်၊ ကိုယ်တော် ဘုရားသည် ထီးနန်း စည်း စိမ်ကို ငြီးငွေ့၍ တောထွက်ရန် အကြံဖြစ်သည်။ အခါ အခွင့် သင့်ပါမည်လောဟု မေးတော်မူသည်။ ဦးပေါ်ဦးကလည်း ခါတိုင်းကဲ့သို့ သဘောရိုး ထင်မှတ် ကာ၊ တရား သံဝေဂတို့ လျှောက်ထားပြီးသော် နိက္ခမပါရမီ ဖြည့်နိုင်လျှင် သင့်မြတ် ပါကြောင်း လျှောက်ထားသည်။ ထိုအခါ မင်းတရားကြီး သည် မိမိအား ထီးနန်းစွန့်စေလိုတော့၍ တင်လျှောက်ခြင်း ဟု အထင်အမြင် မှားတော်မူကာ ရွှေမျက်နှာတော် ပျက်၍ ရုတ်ခြည်း ထပြီးလျှင် အတွင်းတော် ဝင်သွားလေသည်။

ဦးပေါ်ဦးသည် ကိုယ်စိတ်မချမ်းသာ ဖြစ်၍ ကျန်ခဲ့ရာမှ၊ နေအိမ်သို့ အလျှင်အမြန်ပြန်ခဲ့ပြီးနောက် မအိပ်မနေ အကျိုး အကြောင်းကိုဆင်ခြင်သည်။ မိုးသောက်ယံကျမှအကြောင်း ရင်းမှန်ကို တွေးဆမိသဖြင့်၊ ဆံမုတ်ဆိတ်တို့ကို ပယ်၍ ပိတ် ဖြူဆိုးကာ ပုတီးတောင်ဝေ့တို့ကို စွဲကိုင် ပြီးသော် အခစား ဝင်ခဲ့သည်။ အချိန် မဟုတ် ဖိုးသူတော်ရုပ်ဖြင့် အခစား ဝင် လာသောကြောင့် မင်းတရားကြီးက မေးမြန်းတော်မူလျှင်၊ သိဒ္ဓတ္ထမင်းသား တောထွက်သော အခါ၊ နောက်တော်ပါး က ဆန် လိုက်ပါသကဲ့သို့ အရှင်မင်းတရား တောထွက်လျှင် ဖဝါးထက်ချပ် လိုက်ပါ၍ ပါရမီ ဖြည့်လိုသဖြင့် လာစောင့် ပါကြောင်း လျှောက်ထားသည်။ ထိုအခါ မင်းတရားကြီး သည် ပေါ်ဦးကား ငါ့အား တကယ် ချစ်မြတ်နိုးသည်။ သင်း ပုန်ကန်ရန် ကြံစည်သည် ဆိုသည်မှာ အခြား မှူးမတ်တို့ ကုန်းချောခြင်းသာဟုဆင်ခြင်မိ၍ အမျက်တော် ပြေရပြန် လေသည်။

အမတ်ကြီး ဦးပေါ်ဦး၏ စကား ပရိယာယ် ကြွယ်ဝစွာ နှင့် စကား စစ်ထိုးနိုင်မှုကြောင့် တရုပ်နိုင်ငံနှင့်မြန်မာနိုင်ငံတို့ အချင်းများမည့် အရေးမှလည်း ကင်းလွတ် ပြေငြိမ်း ခဲ့ရ သည်။ အခါတပါးတွင် နေပြည်တော် တရုပ်ကြီးတန်းရှိ တ ရုပ်လူမျိုး ငရွှေကြည်၏ခေါက်ဆွဲဖိုမှ စတင်သောမီးကြောင့် နေပြည်တော် အဝှန်း နန်းတော်၊ ရုံးတော်၊ လွှတ်တော်နှင့် နေအိမ် တိုက်တာများပါ မီးသင့်ကာ ဘုရင်နှင့် တကွ နေ ပြည်တော်သူ နေပြည်တော်သား အားလုံး စိတ်နှလုံး မချမ်း မသာ ဖြစ်နေကြသည်။ ထိုအချိန်တွင် တရုပ်မင်းက စေလွှတ်သော သံအဖွဲ့ဝင်တို့သည် ကုန်ဝယ်ရန် ရောက်လာ ကြပြီးလျှင် ရန်ကင်းတောင်အနီး စခန်းချနေခိုက်၊ စစ်ကိုင်း မင်းသား၏ အိမ်တော်သားများသည် တရုပ်တို့ထံ ပါလာ သော ကုန်ဝယ်ရန် ငွေရှစ်သိန်းကို ဓားပြတိုက် လုယူကြကာ တရုပ်တို့ကိုလည်း ထုထောင်း ရိုက်နှက်၍ ကုန်တင်ရန် ပါလာ သော လားအကောင်ရေ ခုနစ်ထောင်ကျော်ကိုလည်း က စင့်ကရဲ လွှတ်ပစ် ခဲ့ကြသည်။ ထိုအတွက် တရုပ် သံအဖွဲ့ဝင် တို့က တရုပ်မင်းထံ အကြောင်းကြား အမိန့်ခံပြီးလျှင် ဓားပြ တိုက်သူများကို ဖမ်းဆီးပြီးသော် သူတို့လက် အပ်ရန်၊ သို့မ ဟုတ် ဆုံးရှုံးမှုအတွက်ငွေတော် ကိုးသိန်း လျော်ကြေးပေးရန် ဘိုးတော်မင်းတရားထံ လျှောက်တောင်းကြလေသည်။

နေပြည်တော် အလုံး မီးသင့်ထား၍ များစွာ ပျက်စီး ဆုံးရှုံးနေခိုက်၊ မီးလောင်ရာ လေပင့်လာသော ထိုကိစ္စတွင် လျော်ကြေးပေးရန်လည်း မတတ်နိုင်၊ ဓားပြတိုက်သူများ အား ဖမ်းဆီး၍ သူတို့လက် အပ်ရန်လည်း မဖြစ်နိုင်သဖြင့်၊ ထိုအရေးကို မင်းတရားကြီးက ဦးပေါ်ဦးသို့ လွှဲအပ်သည်။ အကျဉ်းရုံး၍ ဆိုရလျှင် ဦးပေါ်ဦးက နေပြည်တော်အလုံး ပြာကျအောင် မီးစပျိုးခဲ့ပြီးနောက်၊ တရုပ်နိုင်ငံသို့ လက် လွတ် ထွက်ပြေးသည့် ငရွှေကြည်ကို တရုပ်မင်းက တရုပ်

နိုင်ငံ၌ ရှာဖွေ၍ မြန်မာမင်းအား ဆက်သနိုင်လျှင်၊ တရုပ်သံမင်းတို့ တောင်းဆိုသောငွေကို အပြေ အကြေ ပေးပါမည်ဟု ဆိုသည်။ တရုပ် သံမင်းတို့က ငရွှေကြည်ကို ဖမ်းပေးရန် ရှာဖွေ၍ မတွေ့ကြောင်း ပြန်ကြားသော အခါ၊ ဦးပေါ်ဦးက နေပြည်တော်အလုံး မီးလောင်ကျွမ်း၍ ကုဋေငါးဆယ်မက ဆုံးရှုံး စေသော မူလ မီးရှင် ငရွှေကြည် တယောက်ကိုသာ ဖမ်းဆီးပေးရန် ကျွန်ုပ်တို့က တောင်းဆိုပါသည်။ ငရွှေကြည်ကြောင့် ပျက်စီး ဆုံးရှုံး ရမှုကို မဟာမိတ်မပျက်စေရန် မတောင်းခဲ့ပါ။ ထိုတယောက်ကိုပင် သံမင်းတို့ဖက်မှ ဖမ်းမပေးနိုင်ဟု ပြန်ကြားသည်။ သံမင်းတို့ တောင်းဆိုသော ဓားပြတို့မှာ လူများစွာဖြစ်၍ ဖမ်းဆီး အပ်နိုင်ရန် ကျွန်ုပ်တို့ အတွက် ခက်ခဲလှပါသည်။ သံမင်းတို့ ပျက်စီး ဆုံးရှုံးမှုမှာ ငရွှေကြည်ကြောင့် ကျွန်ုပ်တို့ ပျက်စီး ဆုံးရှုံးမှုနှင့်စာသော်၊ ရယ်ဖွယ်မျှသာဖြစ်၍ နိုင်ငံအချင်းချင်း မိတ်မပျက်လိုပါလျှင်၊ တောင်းခံရန်ပင်မသင့် ဟူသော အဓိပ္ပါယ်ပါသည့် စကား ပရိယာယ်ဖြင့် ပြောကြားသည်။ ထိုအခါ တရုပ်သံတို့သည် တရုပ်မင်းထံ ပြန်လည် အကြောင်းကြားလေသော်၊ နိုင်ငံချင်း ခင်မင်ရင်း ရှိခဲ့သည်ကို မိတ်မပျက်စေလိုသော တရုပ်မင်းက လျော်ကြေး တောင်းခံခြင်း မပြုကြတော့ဘဲ ပြန်လာရန် တရုပ် သံအဖွဲ့ဝင်တို့အား အမိန့် ပြန်ကြားလိုက်လေသည်။ ယင်းသို့ဖြင့် အမတ်ကြီး ဦးပေါ်ဦး၏ စကားပရိယာယ် ကြွယ်ဝစွာနှင့် စကားစစ် တရားစစ် ထိုးနိုင်မှုကြောင့်၊ တရုပ်တို့နှင့် အကြည်အသာ အရေးပြီးမြောက် အောင်မြင်ခဲ့လေသည်။

စကား ပရိယာယ် ကြွယ်ဝမှုဖြင့် သူတပါးတို့ အပေါ် အနိုင်ယူခဲ့သောအမတ်ကြီးသည်၊အောင်မြေဘုံစံအုတ်ကျောင်း ဆရာတော်ကြီး ဦးပုတ် (ညောင်ကန်) ကိုမူ စကား အရှုံးပေး၍ ပြန်ခဲ့ရသည်။ ထိုဆရာတော်ကြီးသည် ပိဋကတ်သုံးပုံ ဆုံးကုန်တတ်မြောက်ကာ ထွင်းဖောက်စူးရှသော တိက္ခဂမ္ဘီရဉာဏ်လည်း ထက်သန်လှ၍ အလွန်ထင်ရှား ကျော်ကြားသော ဆရာတော်ကြီး ဖြစ်သည်။ အလွန် အမင်းဣန္ဒြေစောင့်စည်း၍ စကားလည်း အလွန်နည်းကာ၊ ဒါယကာ၊ ဒါယိကာမ အပေါင်းတို့ အလွန် ကြည်ညို ခန့်ညားလေးစား ကြောက်ရွံ့ကြရလေသည်။ (ညောင်ကန် ဆရာတော်များ — ရှု။)

တရံရောအခါ ဦးပေါ်ဦးသည် ဆရာတော် ဘုရားကြီးအား ဖူးမျှော်ရန် လာရောက်ရာ ရေကန်အနီး တံမြက်လှည်း၍ နေတော်မူခိုက်နှင့် ကြုံကြိုက်သဖြင့် ဝတ်ဖြည့် ဦးချပြီးသော် အလ္လာပ၊ သလ္လာပစကားဖြင့် လျှောက်ထားသည်။ အမတ်ကြီးက ရေကန်ကြီး အလွန် ကောင်းပေသည်ဟု လျှောက်ထားလျှင်၊ ဆရာတော်ကြီးက အိမ်း၊ ကောင်းသည်ဟုသာ အမိန့်ရှိသည်။ ရေကန်ကြီး အလွန်ကြည်ပေသည်ဟု လျှောက်ပြန်လျှင်လည်း၊ အိမ်း၊ ကြည်ပေသည်ဟုသာ မိန့်ကြားပြီးလျှင် ဆိတ်ဆိတ် နေသည်။ ထိုအခါ ဤရေကန်ကြီး မည်မျှ နက်သနည်းဟု လျှောက်ပြန်လျှင်၊ ငါမသိဟုသာ မိန့်ဆိုသည်။ ဦးပေါ်ဦးက ဆရာတော်သည် ရေကန်နှင့် နီးနီး နားနား၌ သီတင်း သုံးနေသဖြင့် ရေကန် အတိမ်အနက်ကို သိတန်ကောင်းသည်ဟု လျှောက်မိပါသည်ဟု ဆိုသည်။ ထိုအခါ ဆရာတော်က သင်၏ မုတ်ဆိတ်မွေး ဘယ်နှစ်ပင်ရှိသနည်းဟု ပြန်၍မေးသော် ဦးပေါ်ဦးက မလျှောက်တတ်ကြောင်း ဖြေကြားရသည်။ ဆရာတော်က သင်၏ မုတ်ဆိတ်မွေး ဘယ်နှစ်ပင် ပေါက်သည်ကိုပင် သင်မသိနိုင်လျှင် ရေကန်၏ အတိမ်အနက်ကို ငါသိနိုင်မည်လောဟု အမိန့်တော်ရှိလိုက်ရာ စကားတတ် အမတ်ကြီး ဦးပေါ်ဦးမှာ အထူး မလျှောက်ထားနိုင်တော့ဘဲ ပြန်ခဲ့ရလေသည်။

အမတ်ကြီး ဦးပေါ်ဦး ဘဝ လွန်သည့်အခါ၊ သားမယားတို့အား မှာထား ရစ်ခဲ့သည့် အတိုင်း ခေါင်းအပြင်ဖက်သို့ လက်တဖက် ထုတ်ထားသဖြင့် နေပြည်တော် အဝှန်း အုတ်အော်သောင်းနင်း ဖြစ်ခဲ့ရာ၊ ထိုပြဿနာကို ဆရာတော် ဦးပုတ်ကပင် ဖြေရှင်းပြရသည်။ဦးပေါ်ဦးသည် ၁၂၀၀ ပြည့်နှစ် တပို့တွဲ လဆန်း ၈ ရက်နေ့တွင် ကွယ်လွန်ရာ၊ ဖလ်နန်းရှင် ရွှေဘို မင်းတရားကလည်း နိုင်ငံ၏ အကျိုးဆောင်၊ နိုင်ငံ၏ ကျက်သရေဆောင် ဝန်ကြီးဖြစ်၍ ကြီးကျယ် ခမ်းနားစွာ သင်္ဂြိုဟ်ရန် စီမံ စေသည်။ သို့သော် ခေါင်းပြင်ဖက် လက်ဝါးတဖက်ကို ဖောက်ထုတ်ထားသည့် အကြောင်းချင်းရာသည် နေပြည်တော်တွင် အုတ်အော်သောင်းနင်း ဖြစ်နေ၍၊ ဘဝရှင်မင်းတရားသည် နေပြည်တော်ရှိ ကျမ်းဂန်တတ် ဆရာတော်တို့အား မေးလျှောက်သည့် အခါ၊ ဆရာတော် ဦးပုတ်တပါးတည်းသာ ဖြေရှင်း မိန့်ကြားနိုင်ခဲ့သည်။

ဆရာတော် ဦးပုတ်က ဘဝလွန်သော ဒါယကာ ပညာရှိအမတ်ကြီးသည် ဘဝလွန်သည့်တိုင်အောင် အရှင့်အကျိုး၊ ပြည့်အကျိုးကို ဆောင်၍ လွန်စေအံ့ဟု နှလုံးထားသည်။ ထိုကြောင့် ခေါင်းပြင်ဖက် လက်တဖက် ထုတ်ထားခြင်းမှာ မိမိကဲ့သို့ အမတ်ကြီးမဆိုထားဘိ၊ သေခြင်း တရားကို စကြဝတေး၊ မန္ဓာတ်မင်းတို့သော်မှမလွန်ဆန်နိုင်၊ မည်မျှပင် စည်းစိမ်ဥစ္စာဖြင့် ကြွယ်ဝချမ်းသာငြားလည်း သေသောသူအဖို့ မိမိ၏နောက်သို့ မည်သည့် ဥစ္စာမျှ ယူဆောင်မသွားနိုင်၊ ဘာမျှ မပါ၊ လက်ဝါးချည်းသာ သွားရသည်ကို လူအများတို့ လက်ဝါးကို ကြည့်၍ သတိသံဝေဂ ရကြစေရန် လက်ဝါးထုတ်ပြထားခြင်း ဖြစ်ကြောင်းကို မိန့်ကြားလေလျှင်၊ ဘဝရှင်ဧကရာဇ်မင်းနှင့်တကွ ပြည်သူ လူအပေါင်းသည် ရှုတ်ရှုတ်သဲသဲ အံ့သြကြ၍ အကြိမ်ကြိမ် သာဓုခေါ်ကြရလေသည်။

ဦးပေါ်ဦးသည် စာပေပရိယတ် နှစ်ပ ကျွမ်းကျင်သော်လည်း ကျမ်းကြီး ကျမ်းခိုင်များကို ပြုစုဖွဲ့ဆိုခဲ့သည်ကိုမူ မ

တွေ့ရချေ။ စာဆိုတော် လူဦးမင်း၊ ဘိုးသူတော် ဦးမင်းတို့နှင့် စာဆို ပြိုင်ဆိုင်တင်လျှောက်သည့် ကဗျာများကိုမူ တွေ့ရှိရ၍၊ ကဗျာကဝိတဦး ဖြစ်ကြောင်း သိရသည်။ ဘုရင်မင်းမြတ်တို့ မေးတော်မူသမျှကို အမတ်ကြီး ဦးပေါ်ဦးက ပြန်လည် တင်လျှောက်သည့် မှတ်သား နည်းယူလောက်သော လျှောက်ထုံးများကို နားခံများက ရေးကူး မှတ်တမ်းတင်ထားချက်များ ရှိခဲ့သည်။ ယင်းတို့ကို "ဦးပေါ်ဦးလျှောက်ထုံး" သို့မဟုတ် "ကဝိ သေတ္တာ မဥ္ဇူသာကျမ်း"အမည်ဖြင့် တွေ့ရှိ ဖတ်ရှု ကြရ၍ အမတ်ကြီး၏ လျင်သောဉာဏ်၊ ရှင်သော ဉာဏ်ကို ခြိမ်းမွမ်း အံ့သြကြရလေသည်။

**ပို့စမတ်မြို့။** ။ပို့စမတ်မြို့သည် အင်္ဂလန်ပြည် တောင်ပိုင်း၊ အင်္ဂလိပ်ရေလက်ကြားကြီးရှိ၊ ပို့တဆီးကျွန်းပေါ် တွင်တည်ရှိ၍၊ ဟမ့်ရှိုင်ယာခရိုင်မြို့တော်ဖြစ်သည်။ ဗြိတိန်နိုင်ငံတွင် အကြီးဆုံးသော စစ်သင်္ဘော ဆိပ်ကမ်းမြို့ဖြစ်၍၊ ကြီးကျယ်သော လက်နက်တိုက်များရှိသည်။

ပို့စမတ်မြို့သည် ခရစ် ၁၅၄၀ ပြည့်နှစ် မတိုင်မီကပင် လျှင်၊ စစ်သင်္ဘောများ စခန်းချရာနှင့် ကူးသန်းရောင်းဝယ်ရာဌာနဖြစ်ခဲ့သည်။ ထိုမြို့၌ သင်္ဘောကျင်းသည် မူလက ကေအနည်းငယ်မျှသာ ကျယ်ဝန်းသော်လည်း၊ တစတစချဲ့ထွင်လာသဖြင့်၊ ၁၉ ရာစုနှစ်သို့ ရောက်သောအခါ၊ ဧကပေါင်း ၃၀၀ ကျော် ကျယ်ဝန်းလာသည်။ သင်္ဘောကျင်း နယ်မြေအတွင်း၌ မီးရထားလမ်း ၁၀ မိုင်ကျော်မျှကို ဖောက်လုပ်ထားရသည်။ ထိုမျှကျယ်ဝန်းသည့်အလျောက် အကြီးဆုံး အမျိုးအစား ဖြစ်သော စစ်သင်္ဘောကြီးများကိုပင် ထိုသင်္ဘောကျင်း၌ တည်ဆောက် ပြင်ဆင်နိုင်သည်။ သင်္ဘောကျင်းကြီး၏မြောက်ဖက်ရှိ ဝေလငါးကျွန်း၌ ရေတပ်သားများအမြောက်ပစ် လေ့ကျင့်ရာဌာနရှိ၏။ ရေကြောင်း စစ်ဗိုလ်ချုပ်ကြီး နယ်လဆင်၏ 'ဗစ်ထရီ' အမည်ရှိ အလံတင်သင်္ဘောကို ဤသင်္ဘောကျင်း၌ထားသည်။ ထိုပြင်ထိုသင်္ဘောကို နယ်လဆင်ပြတိုက် အမည်မှည့်ကာ ရေကြောင်းအတတ်ပညာပြတိုက်အဖြစ်ဖြင့် အသုံးပြုသည်။

ပို့စမတ်မြို့၌ လူဦးရေ ၂ သိန်းခွဲခန့်ရှိသည်။ ထိုမြို့သည် လန်ဒန်မြို့နှင့် မီးရထားဖြင့် ဆက်သွယ်ထားသည်။ ထိုမြို့မှ ဝိုက်ကျွန်းသို့ သင်္ဘောဖြင့်ရင်း၊ လေယာဉ်ပျံဖြင့်ရင်း သွားလာနိုင်သည်။

အမေရိကန်ပြည်ထောင်စုတွင် ပို့စမတ်အမည်ကို ယူထားသောမြို့ကြီး ၃ မြို့ရှိသည်။ ပဌမမြို့မှာ နယူးဟမ့်ရှိုင်ယာပြည်နယ်၏ ပင်လယ်ဆိပ်ကမ်းမြို့ ဖြစ်သည်။ ဒုတိယမြို့မှာ အိုဟိုင်းအိုပြည်နယ်၏ စက်မှုလက်မှု ဗဟိုဌာနဖြစ်သည်။ တတိယမြို့မှာ ဗာဂျင်းနီးယားပြည်နယ်ရှိ ကုန်ပစ္စည်းထုတ်လုပ်ရာမြို့ဖြစ်သည်။

**ပိုဆိုင်ဒွန်။** ။ဂရိနတ်များ — ရှု။



ဗြိတိန်နိုင်ငံတွင် အကြီးဆုံးသော စစ်သင်္ဘောဆိပ်ကမ်းမြို့ ဖြစ်သည့် ပို့စမတ်မြို့

**ပိုတက်ဆီယမ်။** ။ပိုတက်ဆီယမ်သည်ဒြပ်စင်တခုဖြစ်၏။ သင်္ကေတအားဖြင့် K ဖြစ်သည်။ ပိုတက်ဆီယမ်၏ သိပ်သည်းခြင်းသည် ၀.၈၆၅ ဖြစ်၍ ရေထက်ပေါ့သည်။ ပိုတက်ဆီယမ်ကို ရေတွင်ပစ်သော် မီးတောက်သည်။ ထိုသို့ မီးတောက်ရခြင်းမှာ ပိုတက်ဆီယမ်၌ အောက်ဆီဂျင်ကို ဆွဲယူသော သတ္တိရှိသောကြောင့်ဖြစ်၏။ ပိုတက်ဆီယမ်သည် ရေနှင့်တွေ့သောအခါ၊ ရေ၌ရှိသော အောက်ဆီဂျင်ကို ဓာတ်ဆွဲသတ္တိဖြင့်ဆွဲယူ၍ ပေါင်းလိုက်၏။ ထိုသို့ပေါင်းရာမှ ရသော ဒြပ်ပေါင်းသည် ပိုတက်ဆီယမ် ဟိုက်ဒရောက်ဆိုက် ဖြစ်လာ၏။ ထိုသို့ ပိုတက်ဆီယမ်နှင့် အောက်ဆီဂျင်တို့ ပေါင်းကြသော အခိုက်တွင် ရေ၌ပါသော ဟိုက်ဒရိုဂျင်သည် ရေမှ လွှတ်ထွက်လာ၍၊ အပူဓာတ် ဖြစ်ပေါ်လာလေသည်။ ထိုအပူဓာတ်ကြောင့် ပိုတက်ဆီယမ်သည် မီးတောက်လောင်၍ ရေပေါ်၌ ပြေးလေ၏။ ပိုတက်ဆီယမ် အခိုးအငွေ့တို့ကြောင့် ထိုမီးတောက်သည် ခရမ်းရောင်ရှိ၏။ အညစ် အကြေးမှ ကင်းသော ပိုတက်ဆီယမ်သည် ငွေသားပကတိကဲ့သို့သော အရောင်ရှိ၏။ ပိုတက်ဆီယမ်သည် အောက်ဆီဂျင်နှင့် ပေါင်းလွယ်သောကြောင့် ယင်းကို လေထဲရှိ အောက်ဆီဂျင်နှင့် မထိမတွေ့ရအောင် နက်ဖသား စသော အရည်ထဲတွင်ထည့်ရသည်။ (အောက်ဆီဂျင် —— လည်းရှု။)

စင်ကြယ်သည့် ပိုတက်ဆီယမ်ကို ဓာတုဗေဒ ဓာတ်ခွဲခန်း အတွက်မှတပါး အခြားကိစ္စများအတွက် သုံးခဲသည်။ သို့သော် ပိုတက်ဆီယမ် ဒြပ်ပေါင်းများကို ဆေးဝါးဖော်စပ်ရန်နှင့် အနုပညာပစ္စည်းများ ပြုလုပ်ရန်အတွက် အသုံးပြုကြသည်။ အလွန် အဆိပ်ပြင်းသော ပိုတက်ဆီယမ် ဆိုင်ယနိုက်ကို ဓာတ်ပုံလုပ်ငန်းနှင့် ဆေးဆိုး လုပ်ငန်းအတွက် အသုံးပြုကြသည်။ ပိုတက်ဆီယမ် ဗရိုမိုက်နှင့် ပိုတက်ဆီယမ် အိုင်အိုဒိုက်တို့ကိုလည်း ဆေးဝါးနှင့် ဓာတ်ပုံပညာရပ်များအတွက် အသုံးပြုကြသည်။

အပင်များ၏ အစာတွင် ပိုတက်ဆီယမ် ပါဝင်၏။ ပိုတက်ဆီယမ်ကင်းမဲ့သော မြေဆီလွှာသည် အသီးအနှံများကို ဆွံ့စေတတ်သည်။ ထို့ကြောင့် ပိုတက်ဆီယမ် ဒြပ်ပေါင်းများကို မြေဩဇာအဖြစ် အသုံးပြုကြသည်။ မြေဩဇာအဖြစ် အသုံးများသော ပိုတက်ဆီယမ် ဒြပ်ပေါင်းမှာ ပိုတက်ဆီယမ်နိုက်ထရိတ်ဖြစ်သည်။ ပိုတက်ဆီယမ် ပါဝင်သည့် မြေဩဇာကို အာလူး၊ ကန်စွန်းဥ၊ ဝါ၊ ကြက်သွန်နီ၊ ဆေးရွက်နှင့် အခြားအပင်များ စိုက်ပျိုးရာတွင် အသုံးပြုကြသည်။

အစာများ မပုပ်သိုးစေရန် စိမ်ရာ၌ အသုံးပြုသော ယမ်းစိမ်းသည် ပိုတက်ဆီယမ် နိုက်ထရိတ်ဖြစ်သည်။ ပိုတက်ဆီယမ် ကာဗွန်နိတ်ကို ပိုတက်ဟုခေါ်သည်။ ပိုတက်ဆီယမ် ဟိုက်ဒရောက်ဆိုက်ကိုမူ ကော့စတစ် ပိုတက်ဟုခေါ်သည်။ ကော့စတစ်ပိုတက်သည် လေသလပ်လျှင်သော်၎င်း၊ ရေနှင့် တွေ့လျှင်သော်၎င်း ပိုတက်အဖြစ်သို့ ပြောင်းလဲသွားတတ်လေသည်။

ပိုတက်ဆီယမ် သန့်သန့်ကို သယံဇာတ ပစ္စည်းအဖြစ်ဖြင့် မတွေ့နိုင်ချေ။ အခြားဒြပ်စင်များနှင့် ပေါင်းလျက်သာတွေ့ရသည်။ ပိုတက်ဆီယမ်သန့်သန့်ကို ရရှိရန် ပိုတက်ဆီယမ် ဆားခေါ် ပိုတက်ဆီယမ် ဒြပ်ပေါင်းကို လျှပ်စစ်ဖြင့် ဓာတ်ခွဲယူရသည်။

သယံဇာတဖြစ်ပေါ်နေသည့် ပိုတက်ဆီယမ် ဒြပ်ပေါင်းတို့သည် ပိုတက်ဆီယမ် ဆီလီကိတ်မှလွဲလျှင်၊ ရေတွင် ပျော်ဝင်နိုင်ကြသည်။ မိုးရေသည် မြေဆီလွှာရှိ ပိုတက်ဆီယမ်ဒြပ်ပေါင်းတို့ကို ပျော်ဝင်စေပြီးလျှင်၊ မြစ်မှတဆင့် ပင်လယ်အတွင်းသို့ သယ်ပို့လေသည်။ ပင်လယ်ရေသည် အခြားဆားများနှင့် ရောစပ်လျက် ရှိသဖြင့်၊ ယင်း၌ ပိုတက်ဆီယမ်ဆားအနည်းငယ်သာပါသည်။ ထို့ကြောင့် ပင်လယ်ရေမှ ပိုတက်ဆီယမ်ကို ခွဲထုတ်ယူရန် မဖြစ်နိုင်ချေ။ သို့သော် တခါတရံတွင် ပင်လယ်ရေသည် ချောင်းမှတဆင့် အင်းအိုင်ရေကန်စသည်တို့သို့ ရောက်ရှိသွားတတ်၏။ ထိုအခါ ရေငွေ့ပျံ၍အင်းအိုင်ရေကန်တို့ ခန်းခြောက်သွားသည်ရှိသော်၊ ပိုတက်ဆီယမ်ဆားများကို ပြန်လည် ထုတ်ယူနိုင်သည်။ ရှေးခေတ်ပေါင်းများစွာက ရေခန်းခြောက်သွားကြသော ကန်များတွင် သလင်းပွင့် ဖြစ်နေသော ပိုတက်ဆီယမ်ဆားများကို တွေ့ရသည်။ ထိုဆားများသည် ပေ ၁,၀၀၀ မျှထူသည့် နုံးနုအလွှာများအောက်တွင် တည်ရှိသဖြင့်၊ မိုးရေ၏ဒဏ်မှ ကင်းဝေးကြလေသည်။ ထို့နောက်ကြာလတ်သော် ပိုတက်ဆီယမ်ဆားသည် ဘူမိဗေဒသဘောအရ ကြွတက်လာပြီးလျှင် ကျောက်ဖြစ်သွားလေသည်။ ထိုပိုတက်ဆီယမ်ဆားများကို လှိုဏ်သွားများဖြင့် တူးဖော်ယူကြရသည်။ ထိုကဲ့သို့သော မြေအောက်ရှိ ပိုတက်ဆီယမ်များကို ဂျာမနီနိုင်ငံနှင့် ပယ်လက်စတိုင်းပြည်ရှိ ပင်လယ်သေတို့တွင် တွေ့နိုင်သည်။

ပိုတက်ဆီယမ် နိုက်ထရိတ်သည် မြေဩဇာအတွက်သာ အဖိုးတန်သည်မဟုတ်၊ ယမ်းပြုလုပ်ရန်အတွက်လည်း အဖိုးတန်လေသည်။ ပိုတက်ဆီယမ် ကလိုရိုက်ကို အခြားပိုတက်ဆီယမ်ဆားများပြုလုပ်ရာတွင် အသုံးပြုနိုင်သည့်ပြင်၊ မြေဩဇာပြုလုပ်ရာတွင်လည်း အသုံးပြုနိုင်သေးသည်။ ကော့စတစ်ပိုတက်၊ သို့မဟုတ် ပိုတက်ဆီယမ်ဟိုက်ဒရောက်ဆိုက်ကို အများအားဖြင့် အမြှုပ်များသည့် ဆပ်ပြာလုပ်ရာတွင် အသုံးပြုသည်။ အောက်ဆီဂျင်ရနိုင်သည့် ပိုတက်ဆီယမ် ကလိုရိတ်ကို မီးပန်း၊ မီးခြစ်၊ ဆိုးဆေးနှင့် အခြားပေါက်ကွဲစရာတို့ကို လုပ်ရာတွင် အသုံးပြုရသည်။ ပိုတက်ဆီယမ် ကာဗွန်နိတ်ကို အထူးသဖြင့် မာကျောသော ဖန်သားနှင့် အမြှုပ်နည်းသည့် ဆပ်ပြာလုပ်ရာတွင် အသုံးပြုနိုင်သည်။

ပိုတက်ဆီယမ်ကို ဂျာမနီနိုင်ငံနှင့် အမေရိကန် ပြည်

ထောင်စု၊ နယူး မက္ကဆီကို ပြည်နယ် အရှေ့တောင်ပိုင်းတွင် တွေ့ရသည်။ ပိုတက်ဆီယမ် ဖြစ်ပေါင်းများကို ကျောက်မီးသွေးကဲ့သို့ မြေကြီးထဲ၌ အထပ်လိုက်တွေ့ကြရရာ၊ ယင်းတို့ကို ယခင်က ပြဆိုဘိသကဲ့သို့ တူးယူကြရသည်။ ပြင်သစ်နိုင်ငံ၊ စပိန်နိုင်ငံ၊ ပိုလန်နိုင်ငံနှင့် ရုရှနိုင်ငံတို့၌လည်း ပိုတက်ဆီယမ်ထွက်သည်။ အမေရိကန်ပြည်ထောင်စုနိုင်ငံ၊ ကာလီဖိုးနီးယားနှင့်ယူးတားပြည်နယ်များ၌ ပိုတက်ကို ဆားငန်ရေမှ ထုတ်ယူကြသည်။ နော်ဝေးနိုင်ငံ၌ ဆားငန်ရေမှ ပိုတက်ဆီယမ်ကို ထုတ်ယူနိုင်ရန် သိပ္ပံပညာရှင်များက ကြိုးစားလျက် ရှိကြလေသည်။

**ပိုသိုကစားခြင်း။** ။ဂူလီကစားခြင်း — ရှု။

**ပိုလို့မာကို (ခရစ်၁၂၅၄ ခန့်–၁၃၂၄)။** ။ကမ္ဘာ့သမိုင်းတွင်မှတ်တမ်းတင်ခဲ့သော အကြောင်းအရာများအနက် ရှေးနှစ်ပေါင်း ၇၀၀ ခန့်က ကမ္ဘာ့အရှေ့ပိုင်းကို လှည့်လည်ခဲ့သော မာကိုပိုလို၏ ခရီးစဉ်များအကြောင်းသည် လွန်စွာထူးဆန်းလှပေရာ၊နှစ်ပေါင်း အတော်ကြာသည့်တိုင်အောင် ပင် လူဘို့သည် ယင်းအကြောင်းကို ကောင်းစွာမယုံကြည်ဘဲ ဒဏ္ဍာရီသဖွယ် မှတ်ယူထားကြသည်။ သို့ရာတွင် မာကိုပိုလို၏အကြောင်းများမှာ တကယ် ဖြစ်ပျက်ခဲ့သော ကိုယ်တွေ့များဖြစ်ကြောင်းကို နောင်သောအခါမှ သိရှိလာကြသည်။

ဥရောပတိုက်သားများသည် ပင်လယ်ခရီးဖြင့် တရုတ်နိုင်ငံသို့မသွားရောက်ဘူးကြခင် နှစ်ပေါင်း ၁၀၀ ခန့်ကပင် ဣတလီနိုင်ငံမှ သင်္ဘောများသည် ကုန်ကူးသန်းရောင်းဝယ်ရန် မြေထဲပင်လယ်အရှေ့ဖက် ဆိပ်ကမ်းမြို့များနှင့် ပင်လယ်နက်ဖက်သို့ သွားရောက် ဘူးကြလေပြီ။ အထူးသဖြင့် ဗင်းနစ်မြို့မှ သင်္ဘောများသည် ထိုဒေသတဝိုက်တွင် ခရီးသွားလာလျက် ရှိနှင့်ကြပြီးလျှင်၊အရှေ့ဖက် နိုင်ငံများမှ အမွှေးအကြိုင်များ၊ ပိုးဖဲကတ္တီပါများ၊ ကျောက်မျက်ရတနာများကို အနောက်နိုင်ငံသို့ ဝယ်ယူသွားကြသည်။ ထိုအခါ ဗင်းနစ်မြို့သည် အလွန်စည်ကားသော ဆိပ်ကမ်းမြို့ ဖြစ်လေသည်။

ဗင်းနစ်မြို့ကို အားကျသော စပိန်နှင့် ပေါ်တူဂီ ဘုရင်များသည် ယခုအခါ ဂျပန်နိုင်ငံ၊ တရုတ်နိုင်ငံဟု ခေါ်သော စီပန်ဂိုနှင့် ကသေးသို့သွားသော သင်္ဘောခရီးလမ်းကို ရှာဖွေရန် သင်္ဘောသားများကို တောင်ဖက်နှင့် အနောက်ဖက်သို့ စေလွှတ်ကြသည်။ သို့ရာတွင် ထိုခေတ်အခါက ထိုမျှဝေးလံလှသော နိုင်ငံများ၏ ချမ်းသာ ကြွယ်ဝပုံကို အနောက်နိုင်ငံသားများအနက် ဗင်းနစ်မြို့မှ ကုန်သည်တဦး ဖြစ်သော မာကိုပိုလိုသာလျှင် ပဌမဦးဆုံး အသေအချာ ကိုယ်တွေ့သိရှိရလေသည်။ မာကိုပိုလိုသည် ထိုနိုင်ငံများသို့ စွန့်စားသွားရောက်ခဲ့၍ ဇာတိနိုင်ငံရင်းသို့ ပြန်ရောက်သောအခါ သဌေးတဦးဖြစ်လာလေသည်။ မာကိုပိုလိုသည် မိမိ၏ ခရီးစဉ်များအကြောင်းကို ပြောပြခဲ့ရာ၊ ရုတ်တရက် ယုံကြည်စရာ မရှိအောင် ထူးဆန်း အံ့သြဖွယ်ရာ ဖြစ်နေလေသည်။

ကမ္ဘာ့ခရီးသည်ကြီးဖြစ်သော မာကိုပိုလိုကို ၁၂၅၄ ခုနှစ်ခန့်တွင် ဣတလီနိုင်ငံ ဗင်းနစ်မြို့၌ ဖွားမြင်၏။ ဖခင် နီကိုလိုပိုလိုသည် ကြွယ်ဝချမ်းသာသော ကုန်သည်တဦးဖြစ်သည်။ နီကိုလိုသည် ပင်လယ်နက် ကမ်းခြေတလျှောက်တွင် ကုန်ကူးသန်းနေယင်း ယခုအခါ တရုတ်နိုင်ငံဟုခေါ်သော ကသေးနိုင်ငံ၏ ဧကရာဇ် ကူဗလိုင်ခန်၏ သံတမန် အဖွဲ့နှင့် တွေ့ဆုံမိသဖြင့် အရှေ့ဖက်သို့ ကုန်းလမ်းခရီးထွက်ခဲ့ရာ ကသေးနိုင်ငံသို့ ဆိုက်ရောက်လေသည်။ ဧကရာဇ်ဘုရင် ကူဗလိုင်ခန်သည်လည်း နီကိုလိုပိုလိုအား ကောင်းစွာ လက်ခံထားလေသည်။ (ကူဗလိုင်ခန် — ရှု။)

နီကိုလိုပိုလိုသည် ကူဗလိုင်ခန်၏ နန်းတော်တွင် နှစ်နှစ်မျှနေပြီးနောက် ဗင်းနစ်မြို့သို့ ပြန်သွားသည်။ သို့ရာတွင် မကြာခင် ဥရောပတိုက်မှ သာသနာပြု ပဂ္ဂိုလ်များ၊ အနုပညာနှင့် သိပ္ပံပါရဂူများကို ခေါ်ဆောင်၍ ပြန်လာပါမည်ဟု ကတိပြုသွားသည်။ ဗင်းနစ်မြို့သို့ ပြန်ရောက်သောအခါ၊ မိန်း



တရုပ်နိုင်ငံရောက် ရှေးဦး ဥရောပခရီးသည် မာကိုပိုလို

မသေဆုံး၍ ကျန်ရစ်ခဲ့သော လူပျိုအရွယ် သားငယ်ကိုသာ တွေ့ရလေသည်။ နီကိုလိုပိုလိုလည်း နှစ်နှစ်မျှနေထိုင်ပြီးနောက် ၁၂၇၁ ခုနှစ်တွင် ကသေးသို့ ခရီးထွက်ပြန်သည်။ ယခုတခေါက်တွင်မူ သူ၏ ညီအစ်ကိုတော် မာဖီယိုနှင့် ၁၇ နှစ်သား မာကိုပိုလိုကို အတူခေါ်ဆောင်ခဲ့လေသည်။ ဤကားနောင်အခါ၊ ကမ္ဘာ့ခရီးသည်ကြီးဟု မော်ကွန်းတွင် ရစ်မည့် မာကိုပိုလို၏ ပဌမဦးဆုံးသောခရီးဖြစ်၏။ ဖခင်ကြီး နီကိုလိုပိုလို ကိုယ်တိုင်ကပင် စွန့်စားသော ခရီးသည်ကြီး ဖြစ်သည့်အတိုင်း သားဖြစ်သူအား နည်းပေးလမ်းပြပြုခဲ့ရာ မာကိုပိုလိုသည် ကမ္ဘာကျော် ခရီးသည်ကြီးအဖြစ် ကျော်ကြားလာလေသည်။

မာကိုပိုလိုတို့လူစုနှင့်အတူ ရောမမြို့ ပုပ်ရဟန်းမင်းကြီး ထည့်လိုက်သော သာသနာ့ဝန်ထမ်း ရဟန်းအချို့လည်း ခရီးထွက်ရာသို့ လိုက်ပါလာကြ၏။ သို့ရာတွင် ဘေးအန္တရာယ်ထူလှသော ခရီးကြမ်းကို အဆုံးထိအောင် မလိုက်ရဲ၍ လမ်းတဝက်မှ လှည့်ပြန်သွားကြသည်။ မာကိုပိုလိုတို့ တူဝရီး သားအဖသုံးဦးသာလျှင်၊ ခရီးဆက်လက်သွားကြရာ ပါးရှားနိုင်ငံ၊ တာတရီနှင့် ဂိုဗီသဲကန္တာရကြီးများကို ဖြတ်ကျော်သွားရ၍ အမျိုးမျိုးသော အခက်အခဲ ဒုက္ခဆင်းရဲများကို တွေ့ကြုံရသည်။ နောက်ဆုံး၌ တရုပ်နိုင်ငံသို့ ရောက်ရှိ၍ ကေရာဇ်ဘုရင် ခန်မင်းကြီးက ကောင်းစွာ ပြုစုလေသည်။

ကူဗလိုင်ခန်လည်း ရုပ်ရူပကာ ငယ်ရွယ် တင့်တယ်သော မာကိုပိုလိုအား မြင်မြင်ခြင်း ခင်မင်၏။ မာကိုပိုလိုကလည်း အသစ်ပေါင်းဖော် တွေ့ရှိရသော လူများနှင့် အကျွမ်းတဝင် ဖြစ်ကာ ခက်ခဲလှသော သူတို့၏ ဘာသာစကားကို မကြာခင် ရည်ရည်မွန်မွန် ပြောဆိုရေးဖတ်တတ်လေသည်။ ထိုကြောင့် ကေရာဇ်ဘုရင်မင်းမြတ်သည် မာကိုပိုလိုအား အနယ်နယ်သို့ မင်း၏ စေတမန် အဖြစ်ဖြင့် လွှတ်လေ့ရှိသည်။ မာကိုပိုလိုသည် လူအမျိုးမျိုးနှင့် တွေ့ဆုံ ဆွေးနွေးရသဖြင့် များစွာ အသိဉာဏ် ရင့်သန်လာလေသည်။ တွေ့မြင်သိရှိခဲ့ရသမျှကိုလည်း ကူဗလိုင်ခန်အား ပြန်၍ အစီရင်ခံနိုင်ရန် ကောင်းစွာ မှတ်သားလေ့ရှိ၏။ ထိုကြောင့် ကူဗလိုင်ခန်က များစွာကျေနပ်ကာ မာကိုပိုလိုအား မြို့ကြီးတမြို့၏ ဘုရင်ခံအဖြစ်ခန့်အပ်၍၊ ဘွဲ့ထူးဂုဏ်ထူး၊ ဆုလပ် ကြေးငွေများစွာတို့ဖြင့် မြှောက်စားချီးမြှင့်သည်။

အမှန်အားဖြင့် ကူဗလိုင်ခန်သည် မာကိုပိုလိုတို့လူစုအား သူ၏နိုင်ငံ၌ ရိုးမြေကျ နေထိုင်စေလိုသည်။ သို့ရာတွင် သူတို့ကား နေရင်းဌာန အနောက်ဒေသသို့ ပြန်သွားရန်ကိုသာ မြှော်လင့်လျက် ရှိကြသည်။ မကြာမီပင် ယင်းတို့ မြှော်လင့်ကြသည့်အတိုင်း အခွင့်ကောင်းတခု ပေါ်ပေါက်လာလေသည်။

ကူဗလိုင်ခန်သည် ဆွေတော်မျိုးတော် မင်းသမီး တပါးအား မြေးတော်ပါးရှားဘုရင်နှင့် လက်ထပ်ထိမ်းမြားရန် သဘောတူ၍၊ ထိုမင်းသမီးအား ပါးရှားပြည်သို့ ပို့ရာတွင် မာကိုပိုလိုတို့သုံးဦးအား အစောင့် အရှောက်အဖြစ် ထည့်လိုက်သည်။ သူတို့လည်း ကုန်းလမ်းခရီးသည် ဘေးအန္တရာယ်ထူထပ်သဖြင့် ပင်လယ်လမ်းဖြင့် ခရီးထွက်ခဲ့ကြရာ၌ ဆူမတြားနှင့် အိန္ဒိယတောင်ပိုင်းတို့သို့ ရောက်ခဲ့ပြီးနောက် နှစ်နှစ်တာမျှ အချိန်ကြာ၍ လမ်းခရီးတွင် ပါလာသော အဖွဲ့ဝင်များစွာ သေဆုံးကုန်ကြလေသည်။ မာကိုပိုလိုတို့ တူဝရီးနှင့် မင်းသမီးလောက်သာ အသက်ရှင်၍၊ ပါးရှားပြည်သို့ရောက်လေ၏။ မာကိုပိုလိုတို့သည် မင်းသမီးအား ပါးရှားနိုင်ငံ၌ အမိန့်တော်အတိုင်း အပ်ခဲ့ပြီးလျှင် ဗင်းနစ်မြို့သို့ ဆက်လက်ထွက်ခွာကြ၏။ ယင်းသို့ဖြင့် နှစ်ပေါင်း နှစ်ဆယ်ခန့် ပင်လယ်ရပ်ခြားတိုင်းတပါး၌ လှည့်လည်ပြီးနောက်၊ ဤတာလျံလူမျိုး သုံးဦးတို့သည် နေရင်းဒေသ ဗင်းနစ်မြို့သို့ ပြန်ရောက်သွားကြသည်။ သူတို့သည် အရှေ့တိုင်းမှ ကျောက်သံပတ္တမြား ပစ္စည်းများကို တပါတည်း ယူဆောင်လာခဲ့ရာ ဗင်းနစ်မြို့တွင် သဌေးများ ဖြစ်လာကြလေသည်။

မာကိုပိုလိုသည်လည်း ဗင်းနစ်မြို့တွင် အထက်တန်းစားထင်ရှားသော ပုဂ္ဂိုလ်တဦး ဖြစ်လာပြီးလျှင် ရေကြောင်းဗိုလ်မှူးအဖြစ် ခန့်ထားခြင်းခံရသည်။ ၁၂၉၆ ခုနှစ်တွင် ဗင်းနစ်မြို့သည် ဂျီနိုးအာမြို့နှင့် စစ်ဖြစ်သောအခါ ဗင်းနစ်ရေတပ်ကို မာကိုပိုလိုက အုပ်ချုပ်ရလေသည်။ ထိုစစ်ပွဲတွင် မာကိုပိုလို သုံ့ပန်းအဖြစ် အဖမ်းခံရပြီးလျှင် တနှစ်ခန့်မျှ အကျဉ်းချထားခြင်းခံရသည်။ ထောင်တွင်း၌ အကျဉ်းခံနေရစဉ်၊ ယခင်ကမိမိလှည့်လည်သွားလာခဲ့ဘူးသော အကြောင်းအရာများကို မိမိနှင့်အတူ အကျဉ်း ခံနေရသူ တဦးအား နှုတ်ဖြင့်ပြောပြ ရေးမှတ်စေ၏။

အကျဉ်းခံရာမှ လွတ်မြောက်၍ ၁၂၉၉ ခုနှစ်တွင် ဗင်းနစ်မြို့သို့ပြန်သွားပြီးသည့်နောက်တွင် သူ၏အကြောင်းများကို ကောင်းစွာ မသိရှိရတော့ချေ။ သူသည် ၁၃၂၄ ခုနှစ်၌ သေဆုံး၍ ဇနီးသည်နှင့် သမီးသုံးယောက် ကျန်ရစ်ခဲ့သည်ဟုသာ သိရ၏။ သို့သော် မာကိုပိုလို၏ ကိုယ်တွေ့ပြောပြချက်များကို မှတ်တမ်းတင်ခဲ့သောစာအုပ်ကား၊ ကမ္ဘာပေါ်၌ အကျော်စောဆုံး စာအုပ် တအုပ်ဖြစ်လာသည်။ မာကိုပိုလိုသည် ထိုခေတ်က ဥရောပတိုက်သားများ ရောက်ရန် အိပ်မက်မျှ မမက်ဘူးသော အာရှတိုက်ရှိ ဒေသများကို အနှံ့အပြား ရောက်ခဲ့လေသည်။ သူရောက်ရှိသော အချို့နေရာများသို့ ယခုခေတ်၌ပင် လှည့်လည် ရှာဖွေစူးစမ်းသူများကို စေလွှတ်နေဆဲပင် ဖြစ်လေသည်။ အစပဌမတွင် မာကိုပိုလို၏ စွန့်စားသွားလာခဲ့ပုံများကို မယုံကြည်စရာ ဖြစ်နေသော်လည်း ရာဇဝင်သမိုင်းများမှ အထောက် အထားများအရ၊ မှန်ကန်ကြောင်းကို တွေ့ရှိရလေသည်။

# နယ်မြေအကြိမ်ကြိမ်အခွဲဝေခံရသောနိုင်ငံ

ပိုလန်နိုင်ငံ၏ မြေပုံသည် အမျိုးမျိုး ပြောင်းလဲကာ၊ နယ်မြေများ အကြိမ်ကြိမ် အခွဲဝေခံရသည်။ စစ်ဘေးဒုက္ခ အဖုံဖုံတို့နှင့် တွေ့ကြုံခံစားခဲ့ရသော နိုင်ငံလည်း ဖြစ်သည်။ ဤအကြောင်းရပ်တွင် ယခုအခါ သီးခြား လွတ်လပ်လျက်ရှိသော ပိုလန်နိုင်ငံ၏ တိုးတက်လျက်ရှိပုံနှင့် အတိတ်ကာလမှ ဖြစ်ပျက်ခဲ့ပုံတို့ကို စိတ်ဝင်စားဖွယ် ဖတ်ရှုရလိမ့်မည်။




ပိုလန်နိုင်ငံ တည်နေရာပြ မြေပုံ

ပိုလန်နိုင်ငံ။ ။ပိုလန်နိုင်ငံသည် မြောက်ဖက်၌ဗောလတစ်ပင်လယ်၊ အရှေ့ဖက်၌ ဆိုဗီယက်ရုရှ နိုင်ငံ၊ တောင်ဖက်၌ ချက်ကိုဆလိုဗားကီးယားနိုင်ငံ၊ အနောက်ဖက်၌ အရှေ့ဂျာမနီနိုင်ငံဟူ၍ ပိုင်းခြားထားသော ဥရောပတိုက်ရှိ နိုင်ငံတနိုင်ငံဖြစ်သည်။ ဗစ္စတျူလာ၊ ဝါရတာနှင့် အိုဒါ မြစ်ဝှမ်းရှိ ဆလဗ်ဗွန်နစ်လူမျိုးစုများ အညီအညွတ် ပူးပေါင်း၍ တည်ထောင်ခဲ့သော နိုင်ငံဖြစ်ရာ၊ ယခုအခါတွင် ပိုလန် ပြည်သူ့သမတနိုင်ငံဟု တွင်လေသည်။ နိုင်ငံ၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၁၂၀,၃၅၉ မိုင်ဖြစ်သည်။ မြောက်ဖက်ရှိ ဗောလတစ်ပင်လယ်ကမ်းရိုးတန်းသည် မိုင်ပေါင်း ၃၁၀ ရှည်လျား၏။ ၁၉၅၀ ပြည့်နှစ် သန်ကောင်စာရင်းအရ လူဦးရေမှာ ၂၄,၉၇၆,၉၂၆ ယောက်ခန့် ဖြစ်သည်။ ပိုလန်နိုင်ငံ၌ နေထိုင်သောလူမျိုးကို ပိုးလူမျိုးဟုခေါ်ကြသည်။ 'ပိုး' ဟူသည်မှာ ကွင်းပြင်၌နေထိုင် သူဟု အဓိပ္ပါယ်ရသည်။ ပိုလန်နိုင်ငံသည် မြေမျက်နှာပြင်အားဖြင့် ပြန့်လျက်ရှိရာ၊ ထိုမြေပြန့်ကွင်းပြင်များသည် လယ်ယာလုပ်ကိုင်စားသူတို့အဖို့ လွန်စွာ အဖိုးတန်သည်။ သို့ရာတွင် ပိုလန်နိုင်ငံ၏ တောင်ပိုင်း၌ကားကာပေသီယန် တောင်တန်းကာဆီးလျက်ရှိရာ၊ ပိုလန်နိုင်ငံတောင်ပိုင်း၌ မြေမျက်နှာပြင်သည် မြင့်တက်သွားလေသည်။

ပိုလန်နိုင်ငံတွင် အနောက်ဥရောပနိုင်ငံတို့နှင့် စာသော် ဆောင်းဥတုသည်မအေးလွန်း၊ နွေဥတုသည်မပူလွန်းဖြစ်၏။ မိုးမှာနွေဥတုတွင်ရွာသောမိုးမျိုးဖြစ်သည်။ဇူလိုင်လအတွင်း



ဝါဆောမြို့တော်ရှိ နန်းတော်

၌ မိုးသည်းထန်စွာရွာမြဲဖြစ်သည်။ တောင်ပိုင်း၌ကားတောင်တန်းများရှိခြင်းကြောင့် လွန်စွာအေးသည်။ မိုးလည်းလွန်စွာရွာတတ်သည်။

ပိုလန်နိုင်ငံ၏ သဘာဝပစ္စည်းများမှာ ထင်းရှူးပင်မျိုးမှရသော သစ်နှင့် ကျောက်မီးသွေး၊ ဆား၊ သံ၊ သွပ်၊ ခဲပုပ် စသောသတ္တုများ ဖြစ်လေသည်။

သို့ရာတွင် ပိုးလူမျိုးတို့၏ အဓိက လုပ်ငန်းမှာ လယ်ယာလုပ်ငန်းပင်ဖြစ်၏။ တောင်သူ လယ်သမားတို့သည် မိမိတို့ကိုယ်ပိုင်လယ်ယာများရှိကြသည်။ အချို့ကား ရုရှနိုင်ငံမှာကဲ့သို့ စုပေါင်းစိုက်ပျိုးခြင်းကို လုပ်ဆောင်ကြသည်။ ပိုလန်နိုင်ငံသည် ရိုင်းဂျုံနှင့် အာလူးကို အများဆုံး စိုက်ပျိုးသည်။ အခြား ကောက်ပဲသီးနှံတို့ကား၊ သကြားမုန်လာ၊ အုတ်ဂျုံ၊ မုယော၊ ဂျုံရိုးရိုး၊ လျှော်ပင် စသည်တို့ဖြစ်သည်။ လယ်ယာတို့တွင် ဝက်နှင့် နွားကိုလည်း မြောက်မြားစွာ မွေးမြူကြလေသည်။

ဒုတိယကမ္ဘာစစ် ပြီးသည့်နောက် ပိုးလူမျိုးတို့၏ စက်မှုလက်မှုလုပ်ငန်းတို့သည် ပြည်သူပိုင် လုပ်ငန်းများ ဖြစ်သွားလေသည်။ သံမဏိ အရေကြို စက်ရုံ၊ ပိုးထည်၊ ခြည်ထည်၊ သိုးမွေးထည် ရက်လုပ်သော စက်ရုံ၊ ဗိလတ်မြေစက်ရုံ၊ မီးရထားတွဲနှင့် လယ်ယာသုံး ကရိယာစက်ရုံ၊ ဓာတုဗေဒနှင့် ဘယဆေးချက် စက်ရုံတို့သည် ယခုအခါ ကြီးပွားလျက်ရှိသည်။ ပိုလန်နိုင်ငံတောင်ပိုင်း၌ ကျောက်မီးသွေး တူးဖော်သော လုပ်ငန်းကို လုပ်ကိုင်ကြသည်။ ပိုလန်သည်ကမ္ဘာပေါ်တွင် ကျောက်မီးသွေး အများဆုံးထွက်သော နိုင်ငံတို့တွင် အပါအဝင်ဖြစ်သည်။

ဝါဆောမြို့သည် ပိုလန်နိုင်ငံ၏ မြို့တော်ဖြစ်သည်။ ဒုတိယကမ္ဘာစစ် ဖြစ်ပွားခြင်း အကြောင်းရင်းခံ တရပ်ဖြစ်သော ဒန်းဇစ်မြို့သည် ပိုလန်နိုင်ငံသမိုင်းတွင် ထင်ရှားသောမြို့ဖြစ်သည်။ (ဒန်းဇစ်မြို့ — ရှု။) ထိုမြို့ကို ဂျာမန်တို့က သိမ်းပိုက်သည်မှအစပြု၍ ကမ္ဘာစစ် ဖြစ်ခဲ့ရသည်။ ထင်ရှားသော စက်မှုလက်မှုလုပ်ငန်းရှိသည့် မြို့များမှာ ကရားကု၊ ပေါ့ဇနန်၊ ဗရောဆလားတို့ ဖြစ်ကြသည်။ ပေါ့ဇနန်သည် ၁၉၅၆ ခုနှစ် ဇွန်လတွင် အလုပ်သမား အဓိကရုဏ်း ဖြစ်ပွားသောမြို့ဖြစ်လေသည်။

ပိုလန်တိုင်းပြည်၌ အကွဲကွဲအပြားပြားသီးခြားတည်ရှိနေကြသောလူမျိုးစုတို့သည် ၉ ရာစုနှစ်တွင် စည်းလုံး ညီညွတ်လာကြသည်။ ခရစ် ၉၆၆ ခုနှစ်တွင် ပိုးလူမျိုးတို့သည် ခရစ်ယန် အယူဝါဒကို သက်ဝင် ယုံကြည်လာကြ၏။ ခရစ်



ဒုတိယကမ္ဘာစစ် ဘေးဒဏ်ကို အလူးအလဲ ခံရသော ဝါဆောမြို့တော်၏ ရှုခင်းတရပ်



ပိုလန်နိုင်ငံ ကျေးလက်ဒေသများမှ ပိုးလူမျိုး အမျိုးသမီးတို့သည် ဤသို့ ဝတ်ဆင်လေ့ ရှိကြသည်။

၁၀၂၅ ခုနှစ်တွင် ပိုလန်နိုင်ငံသည် ကိုယ့်ထီး ကိုယ့်နန်းနှင့် လွတ်လပ်သော နိုင်ငံ တနိုင်ငံဖြစ်လာသည်။ သို့ရာတွင် ခရစ် ၁၂၄၁ ခုနှစ်၌ ပိုလန်နိုင်ငံကို တာတာတို့ ဝင်ရောက် ကျူး လွန်ဖျက်ဆီးလေသည်။ မူလက ပိုလန်နိုင်ငံသည် ဗောလ တစ်ပင်လယ်နှင့် ဆက်စပ်၍ တည်နေသော်လည်း၊ ပရပ်ရှား နိုင်ငံကို ခွဲထွင်လိုက်သောအခါ၊ ပိုလန်နိုင်ငံသည် ဗောလ တစ်ပင်လယ်သို့ ထွက်ရန် ထွက်ပေါက်မရှိ ဖြစ်ခဲ့ရလေသည်။ ထိုနောက်၌ကား ခရစ် ၁၂၆၀ ပြည့်နှစ်မှစ၍၊ ပိုလန်နိုင်ငံကို တဖန် ပြန်လည် စည်းရုံးတည်ထောင်ကြ၏။ ခရစ် ၁၅၆၉ ခု နှစ်၌ ပိုလန်နှင့် လစ်သွေးနီးယားနှစ်ပြည်ထောင်တို့သည် ပူး ပေါင်းလိုက်ကြသည်။ ထိုသည်မှစ၍ ပိုလန်နိုင်ငံသည် တစ တစ နယ်ကျယ်၍လာခဲ့ရာ၊ ခရစ် ၁၅၇၂ ခုနှစ်ခန့်တွင် ပိုလန် နိုင်ငံ၏ အကျယ်အဝန်းသည် ဗောလတစ် ပင်လယ်ကမ်း ခြေမှသည် ပင်လယ်နက်၏ ပင်လယ်ကမ်းခြေအနီးသို့ ရောက် လုနီးပါးမျှ ကျယ်ဝန်းခဲ့သည်။

ထိုခရစ် ၁၅၇၂ ခုနှစ်မှစ၍၊ ပိုလန်နိုင်ငံ၏ အုပ်ချုပ်ရေး တွင် ဘုရင်ကို မှူးမတ် မျိုးနွယ်တို့က ရွေးကောက် တင် မြှောက်ရသော စံနစ် ပေါ်ပေါက်လာခဲ့သည်။ သို့သော်၊ ထိုသို့ရွေးကောက်တင်မြှောက်ရာ၌၊ ပိုးလူမျိုးမှူးမတ်မျိုးနွယ် တို့သည် အချင်းချင်းအပေါ်၌ ဝန်တိုသော သဘောရှိကြ သောကြောင့်၊ ဆွီဒင်စသော တိုင်းတပါးတို့မှ ဘုရင်တို့ကို ပိုလန်ဘုရင် အဖြစ်ဖြင့် ရွေးကောက်တင်မြှောက်ခဲ့ကြသည်။ သို့ရာတွင် ထိုခေတ်ကာလ အတွင်း၌ ပိုလန်နိုင်ငံသည် တူ ရကီ၊ ဆွီဒင်နှင့် ရုရှ လူမျိုးတို့နှင့် မကြာခဏ စစ်ခင်းခဲ့ရ လေရာ၊ ပိုလန်နိုင်ငံပိုင်နယ်မြေတို့သည် တစတစ နှင့် လျော့ ပါး သွားခဲ့လေသည်။ ၁၇၇၂ ခုနှစ်တွင် ရုရှ၊ ပရပ်ရှားနှင့် သြစတြီးယားနိုင်ငံ အစိုးရတို့က ပိုလန် နိုင်ငံရှိ နယ်မြေ တို့ကို ခွဲဝေယူကြသည်။ ထိုကြောင့် ပိုလန်နိုင်ငံ၏ သုံးပုံ တပုံနှင့် ပိုးလူမျိုး လူဦးရေတဝက်ခန့်တို့သည် သူတပါးနိုင်ငံ ၏ လက်တွင်းသို့ ကျရောက်ခဲ့လေသည်။ ၁၇၉၁ ခုနှစ် မေလ ၃ ရက်နေ့တွင် ပိုလန်နိုင်ငံသည် ဘုရင့် အာဏာများကို ချုပ် ချယ်၍၊ ဘုရင်၏ အစိုးရအဖွဲ့ဝင် ဝန်ကြီးများကို ခန့်ထား သော အုပ်ချုပ်ရေး စံနစ်တရပ်ကို ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေသစ် တရပ်ဖြင့် ရေးဆွဲ ပြဋ္ဌာန်း အတည် ပြုခဲ့သည်။ ဤသည်တွင် အိမ်နီးချင်း နိုင်ငံတို့က ပိုလန် နိုင်ငံ၏ ပြုပြင်ပြောင်းလဲရေးတို့ကို စိုးရိမ် လာကြသဖြင့်၊ ၁၇၉၃ ခုနှစ်တွင် တဖန် ပိုလန်နိုင်ငံ၏ နယ်မြေများကို ကျူးကျော် ခွဲဝေ ယူကြပြန်သည်။ ဤအကြိမ်တွင် ဒန်း

ဇစ်ကို ပရပ်ရှားတို့က ယူကြသည်။ လစ်သွေးနီးယားနှင့် ယူကရိန်းနယ်ရှိ ဒေသအချို့တို့ကို ရုရှတို့က သိမ်းပိုက်သည်။ ဤသို့ ပိုလန်ကိုသိမ်းပိုက်သဖြင့် ပိုးလူမျိုးတို့သည် ထကြွကြသည်။ ထိုကြောင့် ထိုထကြွပုန်ကန်ခြင်းကို ရုရှ၊ ပရပ်ရှားနှင့် ဩစတြီးယားတို့ကနှိမ်နင်း၍၊ ရုရှသည် လစ်သွေးနီးယားနှင့် ယူကရိန်းတနယ်လုံးကိုရင်း၊ ပရပ်ရှားသည် ပိုလန် အလယ်ပိုင်းဒေသကိုရင်း၊ ဩစတြီးယားသည် ပိုလန် တောင်ပိုင်းဒေသကိုရင်း ၁၇၉၅ ခုနှစ်တွင် အသီးအသီး သိမ်းယူလိုက်ကြပြန်လေရာ၊ လွတ်လပ်သော ပိုလန်နိုင်ငံသည် လုံးဝကွယ်ပျောက်၍၊ ပိုးလူမျိုးတို့သည် သူတပါး လက်အောက်သို့ ကျရောက်ခဲ့လေသည်။

ပဌမကမ္ဘာစစ်ကြီးအတွင်း၌ ပိုလန်နိုင်ငံ၏ လွတ်မြောက်ရေးအတွက် ပိုးလူမျိုးခေါင်းဆောင်တို့သည် ကြိုးပမ်းခဲ့ကြ၏။ စစ်အတွင်း၌ပင် ပိုလန်နိုင်ငံ၏ လွတ်လပ်ရေးကို ကျေညာကြသည်။ သို့သော် စစ်ကြီးပြီး၍ ဗာဆေး စာချုပ်ကို ချုပ်ဆိုပြီးမှ ပိုလန်နိုင်ငံ၏ လွတ်လပ်ရေးကို နိုင်ငံအများက အသိအမှတ်ပြုခဲ့ကြလေသည်။

၁၉၃၉ ခုနှစ် စက်တဘ်ာလ တရက်နေ့တွင် ဟစ်တလာ ကြီးစိုးသော ဂျာမနီ နိုင်ငံသည် ပိုလန်နိုင်ငံကို ကျူးကျော်ဝင်ရောက်လေရာ၊ ဒုတိယကမ္ဘာစစ်ကြီး ဖြစ်ပွားခဲ့သည်။ စစ်အတွင်းတွင် ပိုလန်နိုင်ငံသည် ဂျာမန်တို့၏လက်အောက်၌ကျရောက်ခဲ့ရသည်။ ရုရှစစ်သည်တို့သည် ၁၉၄၅ ခုနှစ်ရောက်မှသာ ပိုလန်နိုင်ငံကို လွတ်မြောက်အောင် ကယ် တင်နိုင်ခဲ့ကြသည်။ ထိုနောက် ပိုလန်နိုင်ငံသည် လွတ်လပ်သော နိုင်ငံတနိုင်ငံအဖြစ်ဖြင့် ပြန်လည်ပေါက်ဖွားလာခဲ့လေသည်။ (ကမ္ဘာစစ်၊ ဒုတိယ။ ဟစ်တလာ, အဲဒေါ့ — လည်းရှု။)

**ပိုး၊ အက်ဂါအယ်လန် (ခရစ် ၁၈၀၉–၁၈၄၉)။** ။အက်ဂါအယ်လန်ပိုးသည် အမေရိကန်လူမျိုး ကဗျာဆရာ၊ ဝတ္ထုရေးဆရာနှင့် စာပေ အကဲဖြတ်ဆရာ ဖြစ်သည်။ ကဗျာနှင့် စပ်လျဉ်းသော ပိုး၏အယူအဆမှာ ကဗျာဟူသည် စိတ်လှုပ်ရှားမှုနှင့် အမှန်တရားတို့ကို ဖော်ပြခြင်းနှင့် မဆိုင်၊ ကဏ္ဍသုခဖြစ်စေခြင်းနှင့်သာဆိုင်သည် ဟူသော အယူအဆဖြစ်သည်။ ထိုကြောင့် ပိုး၏ကဗျာတို့သည် ရွတ်ဆိုရာ၌ သုတိသာယာနာပျော်ဖွယ်ရှိသည်။ ဝတ္ထုရေးရာ၌ကား ပိုးသည် ထူးခြားဆန်းကြယ်သော စိတ်ကူးရှိသည်။ ရင်လိုက်သဲဖိုဖြစ်အောင် လျှို့ဝှက်သော အကြောင်းအရာတို့ကို ဖွဲ့နွဲ့တတ်သည်။ သေခြင်း သဘောတရားကို မှုတည်၍၊ ဇာတ်ကွက်ဇာတ်အိမ်တို့ကို ဆင်ယင်လေရကား၊ သူ၏ ဝတ္ထုတို့သည် ဖတ်ရှုသူတို့အဖို့ ကြောက်ရွံ့ ထိတ်လန့်သော ရသကို ပေါ်စေသည်။ စုံထောက်ဝတ္ထုများကို ရေးသားရာ၌ စံပြုလောက်သော ပုဂ္ဂိုလ်ဖြစ်သည်။ စာပေအကဲဖြတ်ခြင်း၌ကား၊ အမေရိကန်



စုံထောက်ဝတ္ထု ရေးသားမှု၌ စံပြုလောက်သည့် အက်ဂါအယ်လန်ပိုး

နိုင်ငံအဖို့ ပဌမဦးစွာ ခေတ်သစ်စာပေကို အကဲဖြတ်ပေးသူအဖြစ် ထင်ရှား၏။ သို့ရာတွင် အကဲဖြတ်ပုံမှာ အနာဂတ်အတွက် လှမ်းမြော်၍ ကြည့်သော အကဲဖြတ် နည်းမျိုးပင် ဖြစ်စေကာမူ၊ ပိုး၏ အယူအဆတို့သည် အခါခပ်သိမ်း မှန်၏ဟု မဆိုနိုင်ချေ။

ပိုးသည် ဗော့စတန်မြို့၌မွေးဖွားသည်။ သူ၏မိဖနှစ်ပါးမှာ ပြဇာတ် ကခြေသည်များ ဖြစ်ကြသည်။ ပိုး၏ အသက် ၂ နှစ် အရွယ်ခန့်၌ပင်လျှင် မိဖနှစ်ပါး ကွယ်လွန်သဖြင့်၊ ပိုးကို ဆေးရွက်ကုန်သည် ဂျွန်အယ်လန်ဆိုသူက မွေးစားသည်။ ထိုကြောင့် ပိုးသည် မွေးစားသောအဖ အယ်လန်၏ နာမည်ကို အဖအရင်း၏အမည်နှင့်ယှဉ်တွဲ၍ ယူသည်။ ပိုးသည် ငယ်စဉ်က အင်္ဂလန်ပြည်၌ ပညာသင်ရသည်။ အသက် ၁၁ နှစ်သားအရွယ်သို့ရောက်သောအခါ၊ အမေရိကန် ပြည်ထောင်စု ဗာဂျင်းနီးယား တက္ကသိုလ်၌ ပညာ သင်ယူပြန်သည်။ သို့ရာတွင် ငယ်စဉ်ကပင် အလောင်းအစား ဝါသနာပါသောကြောင့် မွေးစားဖခင်က ကျောင်းနုတ်လိုက်ရာ၊ မကြာမီ သားအဖနှစ်ဦး မသင့် မတင့်ဖြစ်၍၊ ပိုးသည် အိမ်မှ ထွက်ပြေးလေသည်။

၁၈၂၇ ခုနှစ်တွင် ပိုးသည် ဗော့စတန်မြို့၌ အလုပ်အကိုင် အတည်အကျ မရှိသေးမီ၊ ကဗျာ စာအုပ် တအုပ်ကို ရေးဦးစွာ ထုတ်ဝေလေသည်။ သို့သော် ထိုစာအုပ်နှင့် အကျိုးအမြတ်မဖြစ်ပေ။ ထိုကြောင့် ၂ နှစ်ခန့်ကြာသော်၊ စစ်ထဲဝင်

လေသည်။ ထိုအခါ မွေးစားဖခင် အယ်လန်သည် ပိုးကိုစစ်တပ်မှနုတ်ထွက်စေ၍ နာမည်ကျော် ဝက်စပွိုင့်စစ်တက္ကသိုလ်တွင် ဆက်လက် ပညာသင်ကြားစေ၏။ သို့ရာတွင် တာဝန်ဝတ်တရား ပျက်ကွက်မှုကြောင့်၊ ခြောက်လမျှ ကြာသောအခါ ကျောင်းမှထုတ်ပစ်ခြင်းကို ခံရလေသည်။

ထိုနောက် ပိုးသည် ဗောလတီမိုးမြို့၌ အဒေါ်ဖြစ်သူနှင့် နေထိုင်ယင်း၊ ကဗျာနှင့် ဝတ္ထုတိုများကို ရေးသားထုတ်ဝေသည်။ ၁၈၃၃ ခုနှစ်တွင် ဝတ္ထုတိုတပုဒ်ဖြင့် ဒေါ်လာတရာဆုငွေများကို ရရှိလေရာ၊ ပိုးသည် ရစ်ချမွန်ဆိုသူပိုင်မဂ္ဂဇင်းစာစောင်တွင် ဝင်ရောက် အလုပ် လုပ်ကိုင်ခွင့် ရလေသည်။ ထိုသို့ ပိုး ဝင်ရောက်လုပ်ကိုင်သည်တွင် ပိုး၏ဝတ္ထုတိုများကြောင့် ထိုမဂ္ဂဇင်းသည် မူလကထက် ခုနစ်ဆမျှ တိုးတက်ကြီးပွားလာလေ၏။

ပိုးသည် အလုပ်ကို အလွန်ကြိုးစား၍ လုပ်သော်လည်း၊ ဆင်းရဲမြဲဆင်းရဲသည်။ မွေးစားဖခင် ကွယ်လွန်သောအခါ၌လည်း၊ အမွေမရလိုက်ချေ။ ထိုနောက်၌ကား အလွန်အရက် သောက်သောကြောင့်၊ အလုပ် ပြုတ်လေသည်။ ၁၈၃၆ ခုနှစ်၌ ပိုးသည် သူနှင့် မောင်နှမ ဝမ်းကွဲတော်သော ဗာဂျင်းနီးယားကလင်နှင့်လက်ထပ်သည်။ ထိုစဉ်က ဗာဂျင်းနီးယားသည် အပျိုဘော်ဝင်စ ၁၄ နှစ် အရွယ်မျှသာရှိသည်။ ထိုမှစ၍ ပိုးသည် မဂ္ဂဇင်းတိုက်အမျိုးမျိုးတို့၌ ဝင်ရောက် လုပ်ကိုင်ခဲ့ပြီးလျှင် အလုပ်လည်း ခဏခဏပြုတ်ရသည်နှင့် တမြို့မှတမြို့သို့ ရွှေ့ပြောင်းနေထိုင်ခဲ့ရ၏။ နယူးယော့မြို့နှင့် ဖိလဒဲလဖီးယားမြို့တို့တွင် အလုပ်လုပ်ခဲ့ရာ၊ ၁၈၄၃ ခုနှစ်၌ ဝတ္ထုတပုဒ်အတွက် ဆုရပြန်သည်။ ၁၈၄၅ ခုနှစ်၌မူကား အင်္ဂလိပ်စာပေတွင် ထင်ရှားသော "ကျီးငှက်" ခေါ် ကဗျာကိုရေးလေသည်။ ၁၈၄၇ ခုနှစ်၌ သူ အလွန်မြတ်နိုးသောဇနီး ကွယ်လွန်သည်တွင် စိတ္တဇကြောင့်မမာမကျန်းဖြစ်၍၊အကြိမ်ကြိမ် မိမိကိုယ်ကိုမိမိ သေကြောင်း ကြံစည်ခဲ့ရာ၊ ဗောလတီမိုးမြို့တွင် ကွယ်လွန်လေသည်။ ၁၉၁၀ ပြည့်နှစ်၌ နယူးယော့ တက္ကသိုလ်ရှိ နိုင်ငံကျော် ပုဂ္ဂိုလ်တို့၏ စာရင်း၌ အက်ဂါအယ်လန်ပိုး၏ နာမည်ကို မော်ကွန်းတင်ထားသည်။

**ပိုးကရင်။** ။ပိုးကရင်သည် ကရင်လူမျိုးတို့တွင် ဒုတိယလူဦးရေ အများဆုံးဖြစ်သည်။ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေမှာ ၄၇၇,၈၂၄ ယောက် ဖြစ်သည်။ စကောကရင်တို့ထက် စောစွာ အောက်မြန်မာပြည် မြေပြန့်သို့ ရောက်ရှိ၍၊ ထိုဒေသရှိမွန်တို့နှင့် ရောနှောနေထိုင်ကြသဖြင့် မွန်ကရင်ဟုလည်းတွင်သည်။ သထုံနှင့် ကျိုက္ခမီခရိုင်တို့၌ နေထိုင်သော ပိုးကရင်တို့သည် ယင်းတို့ကိုယ်ကို ယင်းတို့ "ဟဖလုံ"ဟုခေါ်ကြ၏။မြစ်ဝကျွန်းပေါ်ဒေသရှိ ပိုးကရင်တို့ကမူ"ပဖလုံ"ဟုခေါ်ကြသည်။ထိုဟဖလုံနှင့် ပဖလုံဟူသော ဝေါဟာရတို့သည် "လူ" ဟူ၍ အဓိပ္ပါယ်ရသည်။ ထိုပြင် "မွတ်ထိပ်" ဟူ၍လည်းခေါ်ကြသည်လည်း ရှိ၏။ အဓိပ္ပါယ်မှာ အမိဖက်မှဆင်းသက်သော အမျိုးဖြစ်သည်။

ပိုးကရင်တို့ကို မြောင်းမြ၊ပုသိမ်၊ မအူပင်၊ သထုံနှင့် ကျိုက္ခမီခရိုင်တို့တွင် အများဆုံးတွေ့ရသည်။ ထိုခရိုင်တို့တွင် တခရိုင်လျှင် ပိုးကရင်ဦးရေ တသိန်းမှငါးသောင်းအထိရှိသည်။ ဟံသာဝတီခရိုင်တွင် ပိုးကရင် ၁၆,၀၀၀ ခန့်ရှိသည်။ ဤပျံ့နှံ့ပုံကို ထောက်ခြင်းဖြင့် တနင်္သာရီတိုင်း မြောက်ပိုင်းနှင့် ရေဝတီ မြစ်ဝကျွန်းပေါ်ရှိ ပိုးကရင်တို့သည် တချိန်က တဆက်တည်း မြန်မာနိုင်ငံတောင်ပိုင်းတွင် ပျံ့နှံ့ခဲ့ကြသည်ဟု ယူဆရန်ရှိသည်။ နောက် စကောကရင်တို့ ရောက်လာမှ ယခုရှိရင်း ဒေသနှစ်ခုသို့ ရွှေ့ရှား စုပေါင်း သွားကြဟန်တူသည်။

ပိုးကရင်တို့ ပြောဆိုသော စကားမှာ စကောကရင်စကားထက် နာသိက (နှာသံ) အသံပို၍များသည်။ အသံဘိုမှာ တို၍ စူးသည်။ ဝါကျဖွဲ့ပုံကား မထူးခြားချေ။ စကောနှင့် ပိုးစကား ၁၄ လုံးတွင် ၁၃ လုံးလောက်မှာ အရင်း အမြစ်အတူတူပင် ဖြစ်သည်။ သို့ရာတွင် စကော စကားကိုသာ တတ်သူသည် ပိုးစကားကိုနားလည်နိုင်မည် မဟုတ်ပေ။

ပိုးကရင်တို့၏စာကို ခရစ် ၁၈၄၄–၄၆ တွင် ဗရေတန်ဆိုသူကတီထွင်သည်။ ပိုးကရင်စာနှင့် ပဌမဦးစွာ ထုတ်ဝေသောကျမ်းမှာ ရှင်မဿဲခရစ်ဝင်ကျမ်း (၁၈၄၆) ဖြစ်သည်။ ထိုအချိန်မှစ၍ ပိုး စာပေ ပေါ်ပေါက်လာခြင်းဖြစ်သည်။ ပိုးတို့မှာလည်း စကော ကရင်တို့ကဲ့သို့ပင် တိုးတက်လျက်ရှိသူများဖြစ်သည်။ သို့ရာတွင် စကောကရင်တို့လောက် မြောက်မြားစွာ ခရစ်ယန် သာသနာတွင်းသို့ မဝင်ကြပေ။ ယဉ်ကျေးမှု တိုးတက်လာသည့်အတိုင်း၊ အမျိုးသမီးတို့၏ အမည်ရှေ့တွင် သထုံ၊ မော်လမြိုင်ဖက်၌'နန်း'ဟူ၍ရင်း၊ မြစ်ဝကျွန်းပေါ်၌ 'နန့်' ဟူ၍ရင်း၊ အမျိုးသားတို့၏ အမည်ရှေ့တွင် 'စ' ဟူ၍ရင်း တွဲ၍ခေါ်ကြသည်။ (ကရင်လူမျိုး — လည်းရှု။)

ဦးဘရှင်

**ပိုးချူအိ** (ခရစ် ၇၇၂–၈၄၆)။ ။ပိုးချူအိသည် ၈ ရာစုနှင့် ၉ ရာစုနှစ်များအတွင်းက ထင်ရှားခဲ့သော တရုပ်စာဆိုကြီးဖြစ်သည်။ တရုပ်နန်းတွင်း ကဗျာဆရာကြီး တဦးဖြစ်၍၊ ပျူခေတ်က မြန်မာနိုင်ငံမှ တရုပ်နိုင်ငံသို့သွားရောက်ခဲ့သော ပျူဂီတအဖွဲ့ အကြောင်း ကဗျာ ရေးစပ်ခဲ့သူ ဖြစ်လေသည်။

ပိုးချူအိကို ၇၇၂ ခုနှစ် ဇန်နဝါရီလ ၂၀ ရက်နေ့တွင် တရုပ်နိုင်ငံ မြစ်ဝါမြစ်၏ တောင်ဖက်ရှိ ဟိုနန်နယ်၊ ဆင်ဂျင်မြို့ကလေး၌ ဖွားမြင်ခဲ့သည်။ ဖခင်ဖြစ်သူ ပိုးချီကင်းသည် မင်းမှုထမ်း တဦးဖြစ်၏။ ပိုးချူအိသည် အသက် ၅ နှစ် ၆ နှစ်




တရုပ်နန်းတွင်းစာဆိုတော်ပိုးချုအိ

အရွယ်ခန့်ကပင် ကဗျာလင်္ကာ ရေးသား စပ်ဆိုမှုကို လေ့လာနေခဲ့ပြီ ဖြစ်၍၊ အသက် ၉ နှစ်အရွယ်တွင် သံနေသံထား ကာရန် စသည်တို့ကို နိုင်နင်းနေပြီ ဖြစ်ကြောင်းဖြင့် သူကိုယ်တိုင် ပြောပြချက်အရ သိရသည်။ သူ၏ "လင်္ကာရာများ" ခေါ် ကဗျာပေါင်းချုပ် စာအုပ်တွင် ပါရှိသည့် ကဗျာများသည် ရှစ်ရာပြည့်နှစ် မတိုင်မီက ရေးသားခဲ့သော ကဗျာများ ဖြစ်သည်။ ကွယ်လွန်သွားသော မိတ်ဆွေများ၊ ရာသီဆိုးများနှင့် ကဲ့ကွာနေသော ညီအစ်ကို မောင်နှမများ အကြောင်း ဖွဲ့နွဲ့စပ်ဆိုထားသည်သာ များသည်။

ပိုးချုအိသည် ဖခင်ကဲ့သို့ပင် မင်းမှုထမ်းတဦး ဖြစ်ခဲ့သည်။ သူသည် ဝန်ထမ်းစာမေးပွဲများကို အဆင့်ဆင့် ဖြေဆိုအောင်မြင်ခဲ့ပြီးလျှင် ပြည်နယ် ဘုရင်ခံရာထူး၊ ဘုရင့်အတွင်းဝန်ရာထူးနှင့် အပြစ်ပေးရေး ဘုတ်အဖွဲ့ ဒုတိယ ဥက္ကဋ္ဌ ရာထူး အစရှိသည့် ရာထူးဌာနန္တရ ကြီးများတွင်ပင် ဝင်ရောက် အမှု ထမ်းခဲ့ရသည်။ ထိုသို့ မင်းမှုထမ်း နေရသည့် သက်တမ်းတလျှောက်တွင် ရတတ်သမျှသော အားလပ်ချိန်များ၌ ကဗျာလင်္ကာ အမြောက်အမြား ရေးသားစပ်ဆိုခဲ့လေသည်။ ယင်းတို့အနက် "ထာဝရအမှား" ခေါ် ကဗျာရှည်ကြီးနှင့် "စောင်းတီးလုံမပျိုသီချင်း" တို့ကား အထူးထင်ရှား၏။

ပိုးချုအိသည် ဘုရင့် အတွင်းဝန်အဖြစ် အမှုထမ်း နေခိုက် ၈၀၂ ခုနှစ်တွင် ပျူဘုရင် ဟွန်ချီအန်သည် သားတော်ရှူနန်တို ခေါင်းဆောင်သော ပျူဂီတအဖွဲ့ တဖွဲ့ကို တရုပ်နိုင်ငံ ဆီအန်ဖူးမြို့တော်သို့ စေလွှတ်ခဲ့၍၊ တရုပ်ဧကရာဇ်ဘုရင်၏ ရှေ့တော်မှောက်၌ ကပြ အသုံးတော် ခံခဲ့ ရလေသည်။ တနန်းတော်လုံး ပျူဂီတအဖွဲ့ကို နှစ်သက်ကြကြောင်းကို ပိုးချုအိက ကဗျာ စပ်ဆိုခဲ့လေသည်။

ပိုးချုအိသည် အသက် ၇၄ နှစ်အရွယ် ၈၄၆ ခုနှစ် ဩဂုတ်လတွင် ကွယ်လွန်လေသည်။ မည်သည့် ရောဂါနှင့် မည်သို့ ကွယ်လွန်သည်ကိုမူ အတိအကျ မသိရချေ။

ပိုး၏ ကဗျာ များကို အလွန် လူကြိုက် များလှသည်။ နန်းတော် နံရံများ၊ တာအိုဘုန်းကြီးကျောင်း၊ ဗုဒ္ဓ အယူဝါဒီ ဘုန်းကြီးကျောင်း စသည်တို့၏ နံရံများ၌ ပိုး၏ ကဗျာများကို ရေးထိုးထားလေ့ ရှိသည်။ မင်းညီမင်းသား မှူးမတ်များမှ အစ၊ နွားကျောင်းသားများ၊ မင်းလုလင်များအထိ ပိုး၏ကဗျာများကို နှုတ်၌ရွရွ ရွတ်ဆိုနေတတ်ကြသည်။ပိုး၏ ကဗျာများကို ကူးယူ ရိုက်နှိပ်၍ ဈေး၌ ရောင်းခြင်း၊ လက်ဖက်ခြောက်၊ အရက်စသည်တို့နှင့် လဲလှယ်ခြင်းပင် ပြုလုပ်ကြသည်။ အချို့လက်လုပ် လက်စား အလုပ်သမား များသည် သူတို့၏ ကိုယ်ပေါ်၌ပင် ပိုး၏ ကဗျာများကို စုတ်နှင့် ရေးထိုး၍ ထားကြသည်ဟု ဆိုလေသည်။

ပိုးချုအိ၏ စာပေကို ထိုခေတ်က တရုပ် နိုင်ငံ၌ သာမက ဂျပန်နိုင်ငံ၌ပင် အမြတ်တနိုး ဆည်းပူးကြသည်။ ပိုး၏ ကဗျာများကို ဘုရင့်အမိန့်နှင့်စုဆောင်းပြီးနောက် ကျောက်ထက်အက္ခရာတင်၍ပင် ထားခဲ့လေသည်။

ပိုးခြည်။ ။ပိုးခြည်သည် ဝါခြည်ကဲ့သို့ အပင်မှ ရသော ခြည်မျှင်မျိုးမဟုတ်ဘဲ၊ ပိုးကောင်မှ ထွက်သော ခြည်မျှင်မျိုးဖြစ်သည်။ ရှေးအခါက ပိုးခြည်ဖြင့် ရက်လုပ်သော အဝတ်အထည်သည် တန်ဖိုးအလွန်ကြီးသဖြင့် ဘုရင့်အထည် အလိပ်ဟုပင် ခေါ် ခဲ့ကြသည်။

ပိုးခြည်ကို လွန်ခဲ့သောနှစ်ထောင်ပေါင်းများစွာကပင် တရုပ်လူမျိုးတို့ စတင်တွေ့ရှိကြသည်။ ပိုးခြည် စတင်တွေ့ရှိပုံနှင့်စပ်လျဉ်း၍ ရှေးဟောင်းပုံပြင် အများအပြား ရှိခဲ့သော်လည်း၊ တရုပ် ဧကရာဇ်ဘုရင်တပါး၏ မိဖုရား ဆီလင်ရှီနှင့်ဆက်သွယ်နေသော ပုံပြင်တခုကိုကား လူသိများ၍ အများလက်ခံနေကြသည်။ ဘီစီ ၂၇၀၀ ခန့်က ဆီလင်ရှီ မိဖုရားကြီးသည် ဥယျာဉ်တွင်း၌ လက်ဖက်ရည်သောက်နေစဉ် ပိုးစာပင် တပင်ကိုမော့ကြည့်မိရာ ဖြူဖြူတုတ်တုတ် ပိုးကောင်တကောင်သည် ပါးစပ်မှ တောက်ပသော ခြည်မျှင်ကလေးများကို ထုတ်ကာ မိမိကိုယ်ကိုပင် မိမိ ပတ်နေသည်ကိုမြင်သဖြင့် အံ့ဩစွာ ကြည့်နေမိလေသည်။ ထိုနောက် ပိုးအိမ်

ကို ဖြုတ်ယူပြီးလျှင် သူသောက်နေသော လက်ဖက်ရည်တွင် စိမ်လိုက်သည်။ ပိုးအိမ်ပျော့သွားသောအခါ ပိုးမျှင်တစကို ရှာ၍ ဂရုတစိုက် ဖြေကြည့်ယင်း၊ ထို ပိုးမျှင်ဖြင့် အထည်ရက်လျှင်ကောင်းလိမ့်မည်ဟု စိတ်ကူးရလာ၏။ ထို့ကြောင့် မိဖုရားသည် နန်းတော်ထဲသို့ဝင်ကာ ပိုးစာပင်စိုက်ရန် ဘုရင့်ထံမှ မြေကွက်တောင်း၍၊ ရသောအခါ ပိုးမျှင်ကောင်များကို မွေးလေသည်။ ယင်းပိုးမျှင်ကောင်များမှ ရသော ပိုးခြည်မျှင်ဖြင့် အလွန်လှပသည့်အထည် ရက်လုပ်ကာ၊ အဝတ်အစားများ ချုပ်လုပ်ရာမှအစ ပိုးထည်များစတင်ပေါ်ပေါက်သည်ဟု အဆိုရှိသည်။ ထိုမိဖုရားအမည်ကို ယူ၍ ပိုးထည်ကိုလည်း တရုပ်ဘာသာဖြင့် ဆီဟု ခေါ်လာကြလေသည်။

အထက်ပါ ပုံပြင်သည် အမှန်ဟုတ်သည် မဟုတ်သည်ကို မည်သူမျှ ဒိဋ္ဌမပြောနိုင်သော်လည်း ဆီလင်ရှီ မိဖုရားခေတ်နောက် အနှစ် ၂,၀၀၀ ကျော်အထိ ပိုးခြည်ထုတ်လုပ်နည်းကို တရုပ်လူမျိုးမှတပါး ကမ္ဘာပေါ်ရှိ မည်သည့်လူမျိုးမျှ မတတ်မသိကြသည်မှာ အမှန်ဖြစ်သည်။ ပိုးခြည် ထုတ်လုပ်နည်းကို တရုပ်လူမျိုးတို့သည် အထူးလျှို့ဝှက်ခဲ့ကြသည်။ ပိုးကောင်နှင့်ဥများကို ခိုးယူသူအား သေဒဏ် အပြစ်ပေး ပေးခဲ့သည်။ ပိုးခြည်များကိုမူ အနောက်နိုင်ငံများသို့ ကုန်းလမ်းဖြင့် တင်ပို့ရောင်းချရာ ယင်းလမ်းမကြီးကိုပင် 'ပိုးခြည်လမ်း' ဟု ခေါ်စမှတ် ပြုကြသည်။

အေဒီ ၅၅၀ ခန့်တွင် ဗိုင်ဇင်းတိုင် ဧကရာဇ် ဂျပ်စတင်းနီးယန်းဘုရင်သည် တရုပ်နိုင်ငံသို့ ရောက်ဖူး၍၊ ပိုးခြည်ထွက်သော ပိုးမျှင်ကောင်များအကြောင်း ကောင်းစွာသိသော ပါးရှင်းဘုန်းကြီး ၂ ပါးအား တရုပ်နိုင်ငံသို့ သွားရောက်၍ ပိုးဥများကို ခိုးထုတ်ခဲ့ရန် မှာကြားစေလွှတ်လိုက်၏။ နှစ်အတော်ကြာမှ ထိုဘုန်းကြီး ၂ ပါးသည် ပိုးမျှင်ဥ အနည်းငယ်ကိုခိုးထုတ်လာနိုင်ခဲ့သဖြင့် ကွန်စတန်တီနိုပယ်မြို့ အနီးတွင် ပိုးမွေးမြူရေး လုပ်ငန်း စတင် လုပ်ကိုင်ကြသည်။ ယင်းမှတဆင့် စပိန်၊ ဣတလီ၊ ပြင်သစ်နိုင်ငံများသို့ ပျံ့နှံ့သွားလေသည်။ ယခုခေတ်တွင်မူ ပိုးမွေးမြူရေး လုပ်ငန်းသည် တကမ္ဘာလုံးသို့ ပျံ့နှံ့သွားရာ ဂျပန်နိုင်ငံသည် ကမ္ဘာပေါ်တွင် ပိုးခြည်ရိုင်း အထွက်ဆုံး နိုင်ငံဖြစ်လာသည်။ တရုပ်နိုင်ငံမှာမူ ဒုတိယအများဆုံး ထွက်သော နိုင်ငံဖြစ်သည်။

ပိုးခြည်မျှင်သည် အမျှင်များတို့တွင် အခိုင်ခံ့ဆုံး အမျှင်တမျိုးဖြစ်သည်။ ပိုးမျှင်တမျှင်၏ ခိုင်ခံ့အားသည် အရွယ်တူသံဝိုင်ယာကြိုး ခိုင်ခံ့အား၏ သုံးပုံ ၂ ပုံခန့်ရှိသည်။ ပိုး



ပိုးမျှင်ကောင်များထားသော ဆန်ကာခွက်အောက်၌ ပိုးစာရွက်များကို သီးခြားထားရသည်။ ပိုးမျှင်ကောင်များသည် ဆန်ကာပေါက်များမှတဆင့် ပိုးစာရွက်များကို စားကြသည်။



ပိုးခြည် ရယူရာဖြစ်သော ပိုးအိမ်များကို ပိုးစာရွက်များမှ ဖယ်ရှားယူရသည်။

ခြည်သည် ရုန်းကန် သတ္တိနှင့် ပြည့်စုံသည့်ပြင် ချောလည်း ချောမွတ်သည်။ ထိုကြောင့် အညစ်အကြေး လွယ်ကူစွာ မကပ်နိုင်ချေ။

ပိုးခြည်ကို ပိုးဖလံတမျိုး၏ ပေါက်ဖတ်၊ သို့မဟုတ် အကောင်လောင်း(ပိုးမျှင်ကောင်)မှရရှိသည်။ပါဏဗေဒအလိုအားဖြင့် ယင်းပိုးဖလံကို ဗွန်ဗင့်မိုရီဟု ခေါ်သည်။ ယင်းပိုးဖလံသည် အဖြူရောင်ဖြစ်၍ အတောင်တွင် အနက်စင်း ရှိသည်။ အကောင် အတန်ပင်ကြီး၍ တိုတုတ်တုတ် ဖြစ်သည်။ ခြေထောက် တုပ်ခိုင်သည်၊ အတောင်တဖက်စွန်းမှ တဖက်စွန်းအထိ ၂ လက်မခန့်ရှိသည်။

ယင်းပိုးဖလံမျိုးသည်လည်း အခြား ပိုးဖလံများ နည်းတူ အသွင် ပြောင်းလဲရာတွင် လေးဆင့် ပြောင်းရသည်။ ထိုလေးဆင့်မှာ (၁) ဥ၊ (၂) ပေါက်ဖတ်၊ (၃) ပိုးတုံးလုံးနှင့်(၄)ပိုးကောင်ကြီးတို့ဖြစ်သည်။ ဗွန်ဗင့်မိုရီပိုးဖလံအမတကောင်သည် ဥ ၂၀၀ မှ ၅၀၀ အထိ အုတတ်ကြသည်။ ယင်းပိုးဖလံကောင်ရိုင်းသည် ဥများကို ပိုးစာပင်၌အု၏။ ဥများမှ ပေါက်သော အကောင်လောင်း (ပိုးမျှင်ကောင်)များသည် တဖြည်းဖြည်းကြီးထွားလာကြလေသည်။သို့သော်ယခုအခါ၌ပိုးမျှင်ကောင်များကိုအထူးဂရုစိုက်၍ မွေးမြူကြလေသည်။

ယင်းတို့ကို မွေးမြူရာ၌ အိမ်တွင်း၌ပင် အပူ အအေးကို အထူးမျှတအောင် ပြုပြင်ပေးကြရလေသည်။ ယင်းတို့ကို ခြင်၊ ယင်နှင့် အခြားပိုးကောင်တို့၏ ရန်မှလည်း ကာကွယ်ပေးကြရသေးသည်။ပိုးမျှင်ကောင်များကို မကိုင်တွယ်မီ လူ၏လက်များကို အထူးသန့်ရှင်းစေရန် ဆေးကြောကြရလေသည်။ ပိုးမျှင်ကောင်များ ပိုးခြည်များနှင့်ရစ်ပတ်၍ အိမ်ဖွဲ့နေချိန်၌ ယင်းတို့ကိုထားရာ အနီးတဝိုက်၌ လူသံသူသံ ကျယ်လောင်စွာမဖြစ်စေရန် သတိပြုကြရသည်။ အသံကျယ်စွာ စကားပြောမိလျှင် ပိုးကောင်များသည် ခြည်မျှင်မထုတ်ဘဲနေတတ်သောကြောင့် ဖြစ်သည်။

နွေရာသီစောစောပိုင်းတွင် ဗွန်ဗင့်မိုရီ ပိုးဖလံ အမများသည် ပိုးမွေးသူများ အသင့်စီမံထားသော စက္ကူများပေါ်၌ ဥများကို အုကြ၏။ ထိုဥများကို သိမ်းယူ၍ အအေးခန်းများတွင် နောက်နွေကူးရာသီ၌ဖောက်ရန်အတွက် သိုလှောင်ထားကြသည်။ နောက် သုံးလေးရက်ခန့် ကြာသောအခါ ထိုပိုးဖလံအမများ သေကုန်ကြလေသည်။

နွေကူးရာသီသို့ရောက်လာ၍ ပိုးစာပင် အဖူး၌ အရွက်စိမ်းများထွက်လာသည်နှင့် တပြိုင်နက် ပိုးမွေးသူများသည် သိုလှောင်ထားသော ပိုးဥများကို ထုတ်ယူကြ၏။ တရပ်နှင့်

ဂျပန်နိုင်ငံတို့၌ ပိုးဥများကို စုပေါင်းဖောက်သော ဥဖောက်ကရိယာ ထားရှိလေသည်။ သို့သော် ပိုးခြည်များကို အမြောက်အမြားထုတ်လုပ်သူများတွင် သီးခြား ဥဖောက်ကရိယာများရှိကြသည်။

ဥမှ ပေါက်စ ပိုးကောင်ကလေးသည် ဖြူ၍၊ အရှည်သည် တလက်မ၏ ရှစ်စိတ် တစိတ်မှ လေးစိတ် တစိတ်အထိ ရှိသော်လည်း ကိုယ်လုံးသည် ဆံခြည်မျှင်ထက်ပို၍ မကြီးချေ။ ထိုအချိန်တွင် ပိုးမွေးသူများအလုပ်စ၍ များကြလေသည်။ ပိုးလောင်းကလေးများသည် ပိုးစာရွက် အစိမ်းများကို အထူးကြိုက်နှစ်သက်ကြသဖြင့် ပိုးမျှင်ကောင်မွေးသောတအိမ်ထောင်လုံးသည် ယင်းပိုးလောင်းကလေးများအား ပိုးစာရွက်ကျွေးရသော အလုပ်ဖြင့် မအားကြချေ။ ရက်သတ္တ ငါးပတ်ကြာမျှ ဆက်၍ အကောင်လောင်းများသည် ပိုးစာရွက်များကို စားကြ၏။ ထိုအချိန်အတွင်း ပိုးမျှင်ကောင်များ နေ့စဉ် စားသော ပိုးစာရွက်များသည် ယင်းတို့၏ ကိုယ်အလေးချိန်နှင့် အတူတူဖြစ်၏။ ယင်းတို့၏ ကြီးထွားခြင်းသည်လည်း အလွန်လျင်မြန်လေသည်။ ရက်သတ္တ ငါးပတ်ကြာသောအခါ ပိုးမျှင်ကောင်သည် အလျား သုံးလက်မခန့် ရှည်ပြီးလျှင် လက်မဝက်ခန့် တုတ်လာလေသည်။ ယင်းတို့၏ ကိုယ်ထည်၌ အပိုင်းဆဲ့နှစ်ပိုင်းရှိ၏။ ထိုကိုယ်ကို ထောက်မရန် ခြေအစစ်သုံးစုံအပြင် ကိုယ်နောက်ပိုင်း၌ ခြေထောက်နှင့်တူသော အသားပိုင်းစုံလည်း ရှိသေးသည်။

ထိုအချိန်၌ ပိုးမျှင်ကောင်သည် ပိုးအိမ်ဖွဲ့ရန် အသင့်ဖြစ်နေသည့် အလျောက် အစာမစားတော့ဘဲ ခေါင်းကို ထောင်၍ ရွှေတိုး နောက်ဆုတ်ပြုကာ ပိုးမျှင်စ ချည်ရန် သစ်ကိုင်းကို ရှာတတ်သည်။ ထိုအခါ ပိုးမွေးသူသည် အသင့်ပြုလုပ်ထားသော ပိုးအိမ်ကလေးတခုတကောင်ကျစီ ချပေးရသည်။ ပိုးမျှင်ကောင်၏ ကိုယ်ထဲရှိ ဂလင်းနှစ်ခုမှ ကော်နှင့်တူသော အရည်များ အပေါ် နှုတ်ခမ်းရှိ အပေါက်တပေါက်မှ ထုတ်ပေး၏။ ထိုအစေးများ လေနှင့်ထိသည်နှင့် တပြိုင်နက် မာသွားပြီးလျှင် ပိုးခြည်များ ဖြစ်သွား၏။ပဌမတွင် ပိုးမျှင်ကောင်သည် ပိုးအိမ်၏ အပေါ် ဖုံးအတွက် ပိုးခြည်စိမ်းများကို ထုတ်ပေးသည်။ ထိုနောက် ပိုးခြည်မျှင် အရှည်ကို တောက်လျှောက် ထုတ်ကာ ယင်း၏ကိုယ်ကို ရစ်ပတ် ပေးလေသည်။ ထိုသို့ ပိုးမျှင်ကောင်သည် ပိုးခြည်ကိုထုတ်သည်နှင့်အမျှ ကိုယ်လုံးသည်လည်း နောက်ဆုံးတွင် မမြင်နိုင်တော့သည် အထိ သေးသွားသည်။ ပိုးအိမ်တခုတွင် ပိုးခြည်မျှင် ကိုက် ၅၀၀ မှ ၁,၂၀၀ ထိ ရှိတတ်သည်။ ပိုးမျှင်ကောင်တို့သည် ပိုးခြည်အိမ်ကို ၇၂ နာရီနှင့် အပြီးလုပ်ကြသည်။

ပိုးအိမ်ကို အနှောင့်အယှက် မပြုလုပ်လျှင် ရက်သတ္တ ပတ်နှစ်ပတ်၊ သို့မဟုတ် သုံးပတ်အတွင်းတွင် ပိုးမျှင်ကောင်သည် ပိုးဖလံ အငယ်စား အဖြစ် သို့ရင်း၊ ပိုးတုံးလုံး အဖြစ်သို့ရင်း ပြောင်းလဲသွားမည် ဖြစ်ပြီးလျှင် ပိုးအိမ်ကို ဖောက်၍ အပြင်သို့ ထွက်သွားပေမည်။ သို့သော် ပိုးခြည်ရောင်းချသူများသည် ဤသို့ အဖြစ်မခံကြချေ။ ပိုးဖလံ အချို့ကိုသာ နောင်နှစ် ဥဖောက်ရန် ချန်လှပ်၍ ပိုးအိမ်များကို မဖျက်ဆီးဘဲ ထားကြပြီးလျှင် ကျန်ပိုးခြည်ထုတ်ယူမည့် ပိုးအိမ်များကိုမူ အတွင်းမှ ပိုးကောင်များကို အပူတိုက်၍ သတ်ပစ်ကြသည်။ ထိုသို့ သတ်ပြီးသောအခါ ပိုးအိမ်ကို ရေနွေးတွင် မိနစ် အနည်းငယ်ခန့်စိမ်၍ ဝက်မှင်ဘီးဖြင့် မွှေပေးရသည်။ ထိုအခါ ကော်သည် ပျော့သွားလေသည်။ ယင်းသို့ မွှေပေးစဉ် ဘီးတွင်ပါလာသော ပိုးအိမ်အပြင်ဖက်ရှိ ပိုးခြည်စိမ်းကို ဖယ်ပစ်ရသည်။ ထိုနောက် ပိုးအိမ် လေးငါးခုမှအစများကို စုယူ၍ အပ်ပေါက်နှင့်တူသည့် အပေါက်တွင်းသို့ သွင်းကာ ကြိုးလွန်းဖြစ်အောင် ကျစ်လိုက်သည်။ ယင်းသို့ ကျစ်ပြီးကြိုးလွန်းကို ရစ်လုံးတွင်ရစ်ရသည်။ ရစ်လုံးပြည့်သည့်အခါ ပိုးခြည်ကို ပိုးခြည်ခင်ကြီးအဖြစ် လုပ်ယူကြသည်။ ယင်းကို ပိုးရိုင်းအဖြစ် စက်ရုံကြီးများသို့ တင်ပို့ရသည်။ ရစ်ပြီး ပိုးခြည်တပေါင် ရစေရန် ပိုးအိမ်ပေါင်း ၂,၀၀၀ မှ ၅,၀၀၀ အထိကို ရစ်ယူကြရသည်။ အမြန်ဆုံး ပိုးခြည်ရစ်သမားသည် တနေ့လျှင်တပေါင်၊ သို့မဟုတ် ၂ ပေါင်မျှသာပြီးသည်။ အချို့ ပိုးခြည်မျှင် များသည် အလွန်သေးငယ်ရကား ခြည်မျှင် အရှည်မိုင် တထောင်ခန့် ရစ်မှ တပေါင်ခန့်ရသည်။



ပိုးခြည်ကျစ်ယူရန် ပိုးအိမ်များကို ဤသို့ သီတန်းထားလေ့ရှိသည်။

ပိုးမျှင်ကောင်မွေးမြူသော အတတ်တွင် ကျွမ်းကျင်မှုလို၏။ ပဌမတွင် ပိုးစာပင်များကို စိုက်ပျိုးရ၏။ ထို့နောက် ဥများကို စောင့်ရှောက်ရပြီးလျှင် ပေါက်ဖတ်များကို ကြီးထွားနေချိန်၌ စောင့်ရှောက်ရပြန်သည်။ ပေါက်ဖတ်များသည် ရောဂါများနှင့် အနှောင့်အယှက်များ၏ ဒဏ်များကို ခံကြရတတ်သည်။တခါက ပြင်သစ်နိုင်ငံရှိပိုးချည်လုပ်နန်းကြီးကို ပိုးမျှင်ကောင်များတွင် ကျရောက်သည့် ရောဂါကြောင့် ကြီးစွာအနှောင့်အယှက် ဖြစ်ခဲ့ဘူးသည်။ ထိုအခါ ပြင်သစ်လူမျိုးသိပ္ပံပညာရှင် ပါးစတား၏ အကူအညီကို ရယူခဲ့ရပေသည်။ထိုပညာရှင်က သေသွားသည့် ပိုးဖလံမကို စစ်ဆေးသောစံနစ်တခုကို ထွင်ပေးခဲ့၏။ အစစ်ဆေးခံရသည့် ပိုးဖလံမ၌ ရောဂါရှိသည်ကို တွေ့ရလျှင် ထိုပိုးဖလံမက အုထားသည့် ဥများအားလုံးကို ဖျက်ဆီးပစ်ရလေသည်။ ထိုစံနစ်ကို ယခုတိုင် အသုံးပြုနေကြလေသည်။ ပိုးဖလံမ တကောင်က အုသည့်ဥများကို ထိုပိုးဖလံကောင်အား စမ်းသပ်ပြီးသည်အထိ အတူထားကြရသည်။

ပိုးချည်ကြမ်း ထုတ်ပေးရာတွင် အထူး စေ့စပ်နှုန်းချိုသာ သော လူ့လုပ်အားလို၏။ အဘယ်ကြောင့် ဆိုသော် ပေါက်ဖတ်များကို စောင့်ရှောက်ရခြင်း၊ ပိုးချည်ကြမ်းကို ပြုလုပ်ရခြင်းတို့သည် အများအားဖြင့် လက်နှင့် လုပ်ရခြင်းတို့ကြောင့် ဖြစ်သည်။ ယခုအခါတွင် ပိုးချည်များရစ်လုံးဖြင့် ရစ်ခြင်းကို စက်ဖြင့် ပြုလုပ်နိုင်ကြပေပြီ။ ထို့ကြောင့် လုပ်ငန်းပိုမို တွင်ကျယ်ရုံမက ပို၍ညီညာသော ပိုးချည်မျှင်များလည်း ရနိုင်သည်။ပိုးချည်မျှင်များကို ဂျပန်၊ အိန္ဒိယ၊ တရုပ်၊ ပြင်သစ်နှင့် ဣတလီနိုင်ငံတို့မှ အမြောက်အမြားရရှိသည်။ အိန္ဒိယနိုင်ငံရှိ ဗင်္ဂလားပြည်နယ်သည် ပိုးချည်များ ထုတ်လုပ်ရာတွင် အကောင်းဆုံးဒေသဖြစ်သည်။ ထိုဒေသ၌ တနှစ်အတွင်း ပိုးကောင်များကို သုံးလေးကြိမ်မျှ ဖောက်ပေးနိုင်လေသည်။ အခြားနိုင်ငံများ၌မူ တနှစ်တွင် တကြိမ်၊ သို့မဟုတ် နှစ်ကြိမ်မျှသာ ပိုးအိမ်များကို ရယူနိုင်သည်။ ဒုတိယ ကမ္ဘာစစ်အတွင်း ဂျပန်နိုင်ငံမှ ပိုးချည်များ မရနိုင်သဖြင့် အမေရိကန် ပြည်ထောင်စုနှင့် ဗရာဇီး နိုင်ငံတို့တွင် ပိုးမျှင်ကောင် မွေးမြူခြင်းကို စမ်းသပ်ခဲ့ကြသည်။

ပိုးရိုင်းများသည် ပိုးအိမ်မှ ထွက်လာသော ပိုးချည်များ



ဂျပန်နိုင်ငံတွင် ပိုးချည်လုပ်ငန်းသည် ကြီးကျယ်သော လုပ်ငန်းတရပ် ဖြစ်သည်။

ထက်ပို၍ခိုင်ခံ့လေသည်။ သို့သော် အထည်များ ရက်လုပ်ရန်ကား မကောင်းလှသေးချေ။ စက်ရုံသို့ ရောက်လာသော ပိုးများကို ပဌမရေဆေး၍ ခြောက်အောင် ပြုလုပ်ပေးရသည်။ ထိုနောက် ထုံးနေသော ပိုးမျှင်များကို ချောသွားစေရန် အသေတပ်ထားသော သတ္တုပြားများကြားသို့ သွင်း၍ ဆွဲထုတ်ယူသည်။ ထိုနောက် ယက်ဖောက်ကြီးများနှင့် ပတ်ယူသည်။ ထိုယက်ဖောက်နှစ်ခုသုံးခုမှ ပိုးခြည်များကိုယူ၍ ပိုးခြည်အကြီးဖြစ်အောင် စက်ဖြင့် ကျစ်ကြရသည်။

ထိုသို့ပြုလုပ်ပြီးသည့်တိုင်အောင် ပိုးခြည်ထဲ၌ အစေးများ ကျန်ရှိနေသေးသည်။ ထိုကြောင့် ဆပ်ပြာရည် ပူပူထဲတွင် နှစ်၍ အစေးများကို ချွတ်ပစ်ကြရသည်။ ထိုသို့ပြုလုပ်ပစ်မှ အရောင်ဆိုးရာ၌ ဆေးပို၍ စွဲသည်။ သို့သော် အစေးကုန်သဖြင့် ပိုးခြည်အလေးချိန် ၂၅ မှ ၃၀ ရာခိုင်နှုန်းအထိ လျော့သွားတတ်သည်။ ယင်းသို့ အလေးချိန် လျော့မသွားစေရန် သံဖြူ၊ ခဲ၊ သို့မဟုတ် သံတို့၏ ဓာတ်ဆားများကို ထည့်ပေးကြသည်။ ဓာတ်ဆားအထည့် ကန့်သတ်ချက်ထက် လွန်သွားလျှင်မကောင်းဟု ယူဆကြသည်။ ပိုးခြည် အကောင်းဆုံး အစားများကို အလေးချိန်စီးရန် မပြုလုပ်ကြချေ။ ယင်းကို ပိုးစစ်အဖြစ် ရောင်းချကြသည်။

ယင်းပိုးခြည်မျှင်များကို စက်ရက်ကန်းနှင့် ဖြစ်စေ၊ လက်ရက်ကန်းနှင့် ဖြစ်စေ အထည်အလိပ် ရက်ကြသည်။ ခေတ်မီနိုင်ငံကြီးများရှိ စက်ရက်ကန်းများကို လျှပ်စစ်အားနှင့် အသုံးပြုကြသည်။ တရုပ်နိုင်ငံတွင်မူ လုပ်ခဈေးနှုန်းသက်သာသဖြင့် လက်ဖြင့်ပင် ပိုးထည်များကို ရက်ကြလေသည်။ ထိုသို့လက်ဖြင့် ရက်သည့် ပိုးထည်များ၏ ဈေးနှုန်းများသည် အလွန်ကြီးမြင့်ကြလေသည်။

မြန်မာနိုင်ငံ မေမြို့၌ အစိုးရ ပိုးမွေးမြူရေးခြံကြီး ပြုလုပ်၍ ပိုးခြည်များထုတ်လုပ်ရန် စီစဉ်လျက်ရှိသည်။ မန္တလေး၊ ရွှေတောင်နှင့် ရှမ်းပြည်အင်းလေး ပိုးထည်များသည် အလွန်ကျော်ကြားသည်။

**ပိုးစာပင်။** ။ရုက္ခဗေဒ အလိုအားဖြင့် ပိုးစာပင်သည် 'မိုရေးစီအီး' မျိုးရင်းတွင် ပါဝင်သည်။ ထင်ရှားသည့် မျိုးစိတ်များမှာ 'မိုးရပ် အဲလဗား' (အဖြူ)၊ 'မိုးရပ် နိဂရာ' (အမည်း)နှင့် 'မိုးရပ်ရူဗရာ' (အနီ)ပိုးစာပင်များဖြစ်သည်။ ပိုးစာပင်တို့ကို သမပိုင်း ရာသီဥတုများရှိသည့် ကမ္ဘာ့သစ်နှင့် ကမ္ဘာဟောင်းဒေသများတွင် တွေ့နိုင်သည်။ ထိုအပင်တို့ကို ပိုးခြည်မျှင် ရရှိရေးအတွက်ရင်း၊ အသီးအတွက်ရင်း အလှအပအတွက်ရင်း စိုက်ပျိုးကြသည်။ အဖြူ၊ အမည်းနှင့် အနီ ပိုးစာပင်များဟု ခွဲခြားခြင်းသည် အသီး၏ အရောင်များကို လိုက်က၁ ခွဲခြားခြင်းဖြစ်သည်။

ပိုးစာပင်၏ ရွက်နုများကို စားကာ၊ ပိုးခြည်မျှင်များ ပြု



ပိုးစာပင်၏ အရွက်နှင့် ပိုးအိမ်ပိုးဥများ

လုပ်ပေးသည့် ပိုးမျှင်ကောင်များက ပိုးအိမ်များကို ပြုလုပ်ပေးကြသည်။ ထိုပိုးအိမ်မှ ပိုးခြည်မျှင်များဖြင့် လူတို့၏ လုပသောအဝတ်အထည်များကို ချုပ်လုပ်ယူကြသည်။ ပိုးခြည်များ ပြုလုပ်ပေးသည့် ပိုးမျှင်ကောင်တို့ စားသောက်သော ပိုးစာပင်မှာ ပိုးစာပင် အဖြူမျိုးဖြစ်သည်။ ထိုပိုးစာပင်မျိုးသည် တရုပ်နိုင်ငံ၌ ပင်ရင်းဒေသအဖြစ် ပေါက်ရောက်သည်။ ထိုကမှ အမေရိကန်နိုင်ငံသို့ ပိုးခြည်အတွက် ပိုးမျှင်ကောင်များကိုမွေးမြူရန် ပြောင်းရွှေ့ စိုက်ပျိုးခဲ့ကြလေသည်။ ပိုးခြည်များကို ပြုလုပ်ပေးသည့် ပိုးမျှင်ကောင်များမွေးမြူသည့် လုပ်ငန်းသည် အမေရိကန်နိုင်ငံ၌မအောင်မြင်ခဲ့သော်လည်း၊ ပိုးစာပင်အဖြူမျိုးသည် မြောက်အမေရိကတိုက်တွင် အထူးအောင်မြင်စွာပေါက်ရောက်ခဲ့သည်။ ပိုးခြည်မျှင်အတွက် ပိုးစာပင်များကို စိုက်ပျိုးကြသဖြင့် အောင်မြင်ကြသော နိုင်ငံများမှာ တရုပ်၊ ဂျပန်၊ အိန္ဒိယ၊ပြင်သစ်၊ ပါးရှားနှင့်တူရကီတို့ဖြစ်သည်။ ပိုးစာပင် အမည်းမျိုးကို ဥရောပတိုက်တွင် စိုက်ပျိုးကြရာ၊ ထိုအပင်မျိုးကို ပါးရှားပြည်မှ ယူဆောင် စိုက်ပျိုးသည်ဟုယုံကြည်ရလေသည်။ ထိုပိုးစာပင်မျိုးမှသီးသော အမည်းရောင်နီးပါးရှိသည့် ပိုးစာသီးကြီးများသည် အရည်ရွှမ်း၍ အရသာနှင့်ပြည့်စုံလှသည်။ မြောက်အမေရိကတိုက်

တွင်ပင်ရင်းဒေသအဖြစ် ပေါက်သော ပိုးစာပင် အနီမျိုးတွင် နှစ်သက်ဖွယ်ကောင်းသည့်အချဉ်အရသာရှိသောအသီးများ သီးသည်။ ဥရောပတိုက်၌ အချို့ဒေသများတွင် ပိုးစာပင် အနီမျိုးကို အခြားအပင်များထက်ပို၍ စိုက်ပျိုးကြလေသည်။ ထိုသို့ စိုက်ပျိုးကြခြင်းမှာ ထိုပိုးစာပင်မျိုးသည် ရာသီဥတုဒဏ်ကို ခံနိုင်ရည် ရှိခြင်းကြောင့် ဖြစ်သည်။ အခြား ပိုးစာပင်မျိုးများကို စိုက်ပျိုးကြခြင်းမှာ အလှအပအတွက် ဖြစ်သည်။ ပိုးစာပင်မျိုးနှင့် အလွန် နီးစပ်သော ပိုးစာပင် တမျိုးလည်းရှိသေးသည်။ ထိုပိုးစာပင်မျိုးကို စက္ကူပိုးစာပင်ဟုခေါ်သည်။ ထိုသို့ခေါ်ခြင်းမှာ ထိုပိုးစာပင်မျိုး၏ အခေါက်ကိုဂျပန်နိုင်ငံ၌ စက္ကူပြုလုပ်ခြင်းကြောင့်ဖြစ်သည်။ ပစိဖိတ်သမုဒ္ဒရာအတွင်းရှိ ကျွန်းများတွင်နေသော လူတို့သည် ထိုပိုးစာပင်မျိုးမှ အဝတ်များကို လုပ်ယူကြလေသည်။ ထိုသို့လုပ်ရာတွင် အပင်မှ အခေါက်ကိုခွာ၍ ရေစိမ်ကြသည်။ ထိုနောက် အပေါ်လွှာကို ခွါပစ်ပြီးလျှင် ကျန်ရှိသည့် အခေါက်ကို ချောမွတ်သည့်အောက်ခံတခုပေါ်တွင်တင်ကာ၊ အလိုရှိသည့်အထူသို့ရောက်သည့်တိုင်အောင် ထုပေးကြသည်။

ပိုးစာပင်မျိုးရှိသမျှတွင် အနီမျိုးသည် အပင်အကြီးဆုံးဖြစ်သည်။တခါတရံ ပေ ၆၀ အထိ မြင့်တတ်သည်။ပိုးစာပင်မှအရွက်များသည် အလွန်ပြောင်းလဲတတ်သဖြင့် စိတ်ဝင်စားဖွယ်ကောင်းလေသည်။ တပင်တည်းမှ အရွက်များသည် ပင် တရွက်နှင့်တရွက် ပုံသဏ္ဌာန်ချင်းမတူတတ်ကြချေ။

**ပိုးစေးနဲ့။** ။ပိုးစေးနဲ့သည်အင်းဆက်ပိုးမျိုးဖြစ်သည်။ပါဏဗေဒအလိုအားဖြင့် 'ကော့စီဒီး'မျိုးရင်းနှင့် 'ဟိုမော့ပတဲရား' မျိုးစဉ်ထဲတွင် ပါဝင်ပေသည်။ အမျိုးကွဲပေါင်း ၂,၀၀၀ ကျော်ခန့်ရှိပေသည်။ များသောအားဖြင့် ပိုးစေးနဲ့များသည် သစ်ပင်များကို ဖျက်ဆီးတတ်ကြသည်။ ယင်းတို့၏ အစာမှာ ပင်ရည်များဖြစ်သည်။အပင်များမှပင်ရည်များကို စုတ်ယူကြခြင်းဖြင့် အပင်များကို ဖျက်ဆီးကြသည်။

အချို့သော ပိုးစေးနဲ့များသည် အထူးပင် သေးငယ်လှသဖြင့် ရုတ်တရက်အားဖြင့် ပိုးကောင်ဟု မထင်မှတ်ရဘဲ အမည်းစက်ကလေး တခုဟုသာ ထင်မှတ်ရသည်။ ပိုးစေးနဲ့များသည် မိမိတို့ကိုယ်ခန္ဓာမှ အစေးတမျိုးကို ထုတ်လုပ်ကြသည်။ ထိုအစေးများထဲ၌ မိမိတို့ အရေခွံများနှင့် အခြားအညစ်အကြေးများလည်း ပါရှိကြသည်။ ထိုအစေးများသည်ကိုယ်ခန္ဓာပေါ်၌ ဖုံးလွှမ်းနေသဖြင့် မိမိတို့အဖို့ အကာအကွယ်သဖွယ် ဖြစ်နေသည်။ အချို့ အစေးများသည် ခြောက်သွေ့သွားသည့်အခါ အဖြူရောင် အမှုန့်များနှင့်တူပြီးလျှင်၊ အချို့မှာ ဖန်သားနှင့်တူသည်။

ပိုးစေးနဲ့ အမများ၌ အတောင်များ မပါရှိသည့်ပြင် ခြေထောက်နှင့် ဦးမှင်များမှာ ကောင်းစွာ ကြီးထွားခြင်းမရှိပေ။ အထီးများ၌သာ အတောင်များ ပါရှိပြီးလျှင် ခြေထောက်နှင့် ဦးမှင်များလည်း ကောင်းစွာ ကြီးထွားလျက်ရှိပေသည်။

ပိုးစေးနဲ့များအနက်၊ သစ်ပင်များကို ဖျက်ဆီးရာ၌ အဆိုးဆုံးမှာ 'ဆန်ဟိုဇေ'ခေါ် ပိုးစေးနဲ့တမျိုးပင်ဖြစ်သည်။ယင်းတို့ကို အမေရိကန်နိုင်ငံနှင့် ကနေဒါနိုင်ငံများ၌တွေ့ကြရသည်။ ကိုယ်ခန္ဓာအရွယ်မှာ အပ်ဖျားခန့်ပင်ရှိသည်။ ပိုးမတကောင်သည် တနှစ်လျှင်ကောင်ရေပေါင်း ၃,၂၁၆,၀၀၀,၀၀၀ ပေါက်ဖွားနိုင်ပေသည်။ ယင်းတို့မှ အစေးတမျိုး ထုတ်လုပ်ကြပေရာ၊ အပင်တပင်ပေါ်၌ စွဲကပ်နေချိန်၌ ပြာများ ဖြူးထားသည်နှင့် တူလှပေသည်။ ဆန်ဟိုဇေ ပိုးစေးနဲ့ များကြောင့် သစ်သီးပင်များ အမြောက်အမြား ပျက်စီးကြရပေသည်။

သို့သော် လူ့အကျိုးကို ဆောင်ကြသော ပိုးစေးနဲ့မျိုးများလည်း ရှိပေသေးသည်။ ပုံပမာ – ချိပ်များကို ထုတ်လုပ်ကြသော ချိပ်ပိုးနှင့် ကိုချင်နီးခေါ် ဆိုးဆေးအဖြစ် အသုံးပြုကြသော ချိပ်နီတမျိုးကို ထုတ်လုပ်ပေးသည့် ချိပ်နီပိုးများသည် ပိုးစေးနဲ့များပင် ဖြစ်ပေသည်။

**ပိုးစုန်းကြူးနှင့် တီစုန်းများ။** ။ပိုးစုန်းကြူး နှင့် တီစုန်းများသည် 'အဲလတဲရိဒီး' မျိုးရင်းနှင့် 'ကင်သယ်ရိဒီး' မျိုးရင်းဝင် ပိုးတောင်မာများ ဖြစ်ကြသည်။ ယင်းတို့သည် မှောင်ထဲ၌ တောက်ပသည်။ ထိုပိုးကောင်များသည် အလင်းကို ထူးခြားစွာဖြစ်စေနိုင်ကြ၏။လူတို့ပြုလုပ်ယူသည့် အလင်းတွင် အပူဓာတ်ပါရှိသည်။ ပိုးစုန်းကြူး နှင့် တီစုန်း များကဖန်တီးသော အလင်းရောင်တွင် အပူဓာတ် မပါချေ။ ထိုကြောင့် အလင်းကို ဖြစ်ပေါ်စေရာ၌ ပိုးစုန်းကြူး နှင့် တီ စုန်းတို့သည် လူထက်သာသည်ဟု ဆိုနိုင်သည်။ ယင်းတို့ကို နွေးသည့်တိုင်းပြည်နှင့် အပူပိုင်းဒေသရှိ တိုင်းပြည်တို့တွင် တွေ့နိုင်သည်။

အမေရိကတိုက်၏ အပူပိုင်းဒေသတွင် တွေ့ရသော ပိုးစုန်းကြူး တို့ကို ယောကျ်ားများက နန်းကြိုးများနှင့် ပြုလုပ်ထားသော လှောင်အိမ်တွင် ကြဲကျဲ၍ မွေးမြူလေ့ ရှိကြသည်။ ပွဲတော်နေ့များတွင် ထိုပိုးကောင်များကို မိန်းမများအား ရောင်းချကြလေသည်။ မိန်းမတို့သည် ထိုပိုးကောင်များကိုခြည်မျှင်နှင့်သီကာ ဆံပင်များတွင်၎င်း၊ အဝတ်အစားများတွင်၎င်း တောက်ပသော ကျောက်သံ ပတ္တမြားသဖွယ် ချည်နှောင်၍ ဆင်မြန်းကြလေသည်။

တီစုန်းအမတွင် အတောင် မရှိချေ။ အဖို့၌မူ အတောင်ရှိသည်။ တီစုန်းအမသည် ညဥ့်အချိန်တွင် မြေကြီးပေါ်၌ တွားသွား၍ တီစုန်း အဖိုများထက် အရောင် တောက်ပကြသည်။ ထိုသို့ အလင်းရောင် တောက်ပခြင်းသည် အမက အဖိုကိုမြှူခြင်း ဖြစ်ပုံရသည်။ အမေရိကန် ပြည်ထောင်စု

တွင်တွေ့ရသော ပိုး စုန်းကြူးနှင့် တီ စုန်းများသည် လက်မ ဝက်ထက်ပို၍ မရှည်ကြချေ။ သို့သော် အမေရိကတိုက် သမ ပိုင်းဒေသတွင် တွေ့ရသော ပိုးကောင်များသည် တခါတရံ ၂ လက်မ အထိ ရှည်ကြလေသည်။

ထိုပိုးကောင်မျိုးတို့ အလင်းကို ဖြစ်ပေါ် စေနိုင်ခြင်းသည် အက်ဒီနိုဆင် ထရိုင်ဖော့စဖိတ်၊ လူဆစ်ဖာရင်၊ အောက်ဆီ ဂျင်၊ မက်ဂနီဇီယမ်နှင့် လူဆစ်ဖာရေ့ဆ် ဟူသော ဓာတ် ပစ္စည်း ၅ မျိုးတို့ ပိုးကောင်၏ ဝမ်းပိုက်တွင် ရှိနေကြခြင်း ကြောင့်ဖြစ်သည်။ နာဗ်ကြော၏ လှုံ့ဆော်မှုကြောင့် ပိုင်ရို ဖော့စဖိတ်ခေါ် ဓာတ်ပစ္စည်းတခု ဖြစ်ထွန်းလာသောအခါ တွင် အလင်းဖြစ်ပေါ်လာလေသည်။ ထိုနောက် စက္ကန့် အ နည်းငယ်မျှအကြာတွင် အခြားဓာတ်ပစ္စည်းတမျိုးက ပိုင်ရို ဖော့စဖိတ်ကို ဖျက်ဆီးပစ်လိုက်သဖြင့် အလင်းပျောက်ကွယ် သွားပြန်လေသည်။ ထိုစိမ်းလဲ့လဲ့ အလင်းရှိရာ နေရာသည် အများအားဖြင့် ပိုးကောင်ဝမ်းပိုက်၏ ဘေးဖက်များတွင် ဖြစ်လေသည်။

တခါတရံတွင် ပိုးကောင်ငယ်၊ သို့မဟုတ် ပိုးလောင်း၊သို့ မဟုတ် ဥများကပင် အလင်းကို ဖြစ်ပေါ်စေလေသည်။ အ များအားဖြင့် ပိုးစုန်းကြူးတို့တွင် အတောင်များရှိကြသည်။ ပါးရဂွေး နိုင်ငံမှ မီးရထား ပိုးတောင်မာမျိုးတွင် အတောင် များမရှိကြချေ။ သို့သော် အလင်းကိုမူ ဖြစ်ပေါ်စေနိုင် သည်။ အဆိုပါ ပိုးကောင်မျိုးသည် ၃ လက်မမျှ ရှည်၍ ခေါင်းနှင့် အမြီးပိုင်းတို့မှ အနီရောင်တောက်ပသည်။ ထို့ပြင် ယင်းတို့၏ ခန္ဓာကိုယ် အခြားအစိတ်အပိုင်းများမှ အစိမ်း ရောင်ကိုလည်း ဖြစ်ပေါ်စေနိုင်သေး၏။ ထိုပိုးကောင်မျိုးကို မီးရထားပိုးတောင်မာဟု ခေါ်ကြခြင်းမှာ မီးရထား၏ မီးနီ နှင့် မီးစိမ်းများကဲ့သို့ အနီနှင့် အစိမ်းရောင်များကို ဖြစ်ပေါ် စေနိုင်ခြင်းကြောင့် ဖြစ်သည်။

အပူပိုင်းဒေသရှိ အချို့ တိုင်းရင်းသားများသည် ထိုပိုး ကောင်မျိုး အမြောက်အမြားကို ပုလင်းတလုံးတွင်ထည့် ကာ မှန်အိမ်အဖြစ် အသုံးပြုလေ့ရှိကြသည်။ ပုလင်း အ တွင်း၌ ပိုးကောင် အမြောက်အမြားရှိနေသဖြင့် တောက် လျှောက်အလင်းကို ဖြစ်ပေါ် စေနိုင်ပေသည်။ ညဥ့်အချိန် တောနက်များတွင် သွားလာကြသူ အချို့ကလည်း တခါတ ရံ သူတို့၏ဖိနပ်များတွင် ထိုပိုးကောင်မျိုးများ တပ်ဆင်၍ သွားလေ့ရှိကြလေသည်။ ထိုနည်းဖြင့် သူတို့၏ သွားရာခရီး လမ်းသည် အလင်းကို ရလေသည်။

**ပိုးတောင်မာ။** ။ပါဏဗေဒအလိုအားဖြင့် ပိုးတောင်မာ သည် 'ကိုလီအော့ပတဲရား' မျိုးစဉ်တွင် ပါဝင်သည်။ ပိုး တောင်မာသည် ပိုးကောင် (အင်းဆက်ပိုး) များတွင် အ သန်မာဆုံးဖြစ်သည်။ တကိုယ်လုံးလိုလိုပင် သန်မာ၍ ပျဉ်း တွဲတွဲရှိသည့် အခွံများနှင့် ဖုံးအုပ်လျက်ရှိသည်။ ပိုးတောင် မာတို့သည် ကောင်းစွာ ပျံသန်းနိုင်သည့်ပြင်၊ ကောင်းစွာ လည်း ခုန်လွှားနိုင်ကြသည်။ ထို့ပြင် အပင်တက်ရာ၌ရင်း၊ ပြေးရာ၌ရင်း လျင်မြန်သည်။ အချို့ပိုးတောင်မာများသည် တွင်းတူးရာ၌ ကျင်လျှင်၍ အချို့သည် ရေကူးရာ၌ရင်း၊ ရေငုပ်ရာ၌ရင်း ကျင်လျှင်ကြလေသည်။ ပိုးတောင်မာအချို့ သည်ဝန်ကိုချီရာ၌ များစွာလေးသောဝန်ကိုချီနိုင်သည်။ ပိုး စုန်းကြူး ကဲ့သို့သော ပိုးတောင်မာမှာမူ ညဥ့်အမှောင်တွင် တောက်ပနိုင်သည်။ ပိုးတောင်မာတို့၏ အတောင်များ သည် ပိုးတောင်မာဆိုသည့်အမည်နှင့်ကိုက်ညီစွာ မာကျော လေသည်။ ပိုးတောင်မာ၌ အတောင်နှစ်ထပ်ရှိရာ အပြင်အ တောင်သည်မာ၍ အတွင်းအတောင်သည် ပျော့ပျောင်း သည်။ ထိုပျော့ပျောင်းသည့် အတောင်တို့ကို ပျံသန်းရာ၌ အသုံးပြုကြသည်။ အပြင် အတောင်များသည် မာကျော၍ အများအားဖြင့် အရောင်အမျိုးမျိုးဖြင့် တောက်ပလျက်ရှိ ကြလေသည်။ ပိုးတောင်မာ၏ ပါးစပ်တွင် သန်မာသည့် အစိတ်အပိုင်းများ ပါရှိသည်။ ထိုအစိတ်အပိုင်းများသည် မေးရိုးများဖြစ်၍ အစာကို ဖမ်းယူရန်နှင့် ဝါးရန်အတွက် အသုံးကျသည်။ ရန်သူကို ခုခံရာတွင် ပိုးတောင်မာသည် အ ဆိပ်ဆူးကိုရင်း၊ အဆိပ်စွယ်ကိုရင်း အသုံးမပြုချေ။ မေးရိုး များနှင့် ခြေသည်းများကိုသာ အသုံးပြုသည်။ ထို့ကြောင့် အမြင်တွင် ကြမ်းကြုတ်၍ ကြောက်မက်ဖွယ်ကောင်းသော် လည်း၊ ယင်းအင်္ဂါအစိတ်အပိုင်းတို့ကို ရှောင်ရှား၍ ထိုပိုး ကောင်မျိုးကို ကိုင်တွယ် ကြည့်ရှုနိုင်သည်။ သဘာဝပတ်ဝန်း ကျင်နှင့် သင့်တော်မည့် အစာကိုသာ ကျွေးထားနိုင်လျှင် ပိုးတောင်မာကို လှောင်အိမ်တွင် ထား၍ မွေးမြူနိုင်သည်။

ကမ္ဘာပေါ်၌ ပိုးတောင်မာများကို နေရာ အနှံ့အပြား တွင်တွေ့နိုင်လေသည်။ အဘယ်ကြောင့်ဆိုသော်၊ ယင်းကို ရေထဲ၌ရင်း၊ မြေအောက်မြေပေါ်၌ရင်း၊ အခြားတိရစ္ဆာန် များ၏ ကိုယ်ပေါ်၌ ကပ်ပါး အဖြစ်နှင့်ရင်း တွေ့ရခြင်း ကြောင့်ဖြစ်သည်။ပိုးတောင်မာမျိုးပေါင်း ၁၉၅,၀၀၀ ကျော် ကျော်ခန့်ရှိ၏။ ထို့ပြင် ယခုတိုင် ရှာဖွေ မတွေ့ရသေးသော ပိုးတောင်မာများလည်း ရှိပေဦးမည်။

ကိုက်ဖြတ်တတ်သော အလေ့ရှိခြင်းကြောင့် ပိုးတောင်မာ သည် ပိုးကောင်အုပ်စုများအနက် ဘေးအပြုတတ်ဆုံး အ ကောင်ဖြစ်သည်။ အချို့ပိုးတောင်မာ (အထူးသဖြင့် ဆင် ပိုး)များသည် စပါးနှင့် ဂျုံများကို ဖျက်ဆီးတတ်သည်။ အချို့မှာမူ သစ်ပင်၏ ပင်စည်များကို ဖောက်ထွင်း၍ အပင် များကို သေစေလေသည်။ အချို့ ပိုးတောင်မာမျိုးသည် သစ်သီးပင်နှင့် ဟင်းသီးဟင်းရွက်ပင်များကို ဖျက်ဆီးကြ သည်။ အချို့ကို လူနေအိမ်များ၌ တွေ့ရပြီးလျှင် ယင်းတို့ သည် ကော်ဇော၊ စောင်၊ သက္ကလပ်ထည်များကို ကိုက်စား

ကြလေသည်။ အချို့ပိုးတောင်မာမျိုးသည် လယ်ယာများကိုဖျက်ဆီးသည့် ပိုးကောင်များကို စားပစ်ခြင်းဖြင့် တောင်သူ လယ်သမားကို ကူညီကြလေသည်။ အမှန်မှာ များစွာသော ပိုးတောင်မာမျိုးတို့သည် မဖျက်ဆီးတတ်ကြချေ။

အခြားပိုးကောင်များနှင့် စာလျှင်၊ ပိုးတောင်မာများ၏ ကိုယ်ထည်သည် ကြီးမား၏။ အများအားဖြင့် ဝ၍ကျစ်လျစ်သောကိုယ်ရှိသည်။ အချို့ပိုးတောင်မာများ၏ ကိုယ်ခန္ဓာသည် ဝိုင်း၍၊ အချို့သည် ဘဲဥပုံဖြစ်ပြီးလျှင်၊ အချို့တွင် ဖြောင့်သည့်ကိုယ်များနှင့် သေးသွယ်သည့်ကိုယ်များ ရှိကြသည်။ အကြီးဆုံးပိုးတောင်မာများကို အပူပိုင်းဒေသများတွင် တွေ့ရလေသည်။ ထိုပိုးတောင်မာများသည် အလျားခြောက်လက်မသော်၎င်း၊ ထိုထက်ပို၍သော်၎င်း ရှည်ကြသည်။ အချို့ ပိုးတောင်မာသည် သေးငယ်လှ၍ တလက်မ၏အစိတ်အပိုင်းလောက်သာ ရှိကြသည်။ အချို့၌ ပျော့ပျောင်းသော ကိုယ်ခန္ဓာများရှိကြသည်။ သို့သော် အများအားဖြင့် ကိုယ်အောက်ပိုင်း၌ အခွံမာများရှိကြသည်။

ပိုးတောင်မာတို့၌ ဦးခေါင်းပိုင်း၊ ရင်ပိုင်းနှင့် ဝမ်းပိုက်ဟူ၍ အဓိကအစိတ်အပိုင်း သုံးပိုင်းရှိ၍ ယင်းတို့သည် တပိုင်းနှင့် တပိုင်းကောင်းစွာဆက်နေသည်။ထို့ကြောင့်နကျယ်ကောင်၊ ပရွက်ဆိတ်၊ ယင်ကောင်နှင့် အခြားလည်ပင်းနှင့် ခါးသိမ်နေသော ပိုးကောင်များနှင့် မတူချေ။ မာကျောသော ရှေ့အတောင် (ဝါ) အတောင်ဖုံးများသည် ခုံးနေတတ်၏။ ဒုတိယအတောင်တစုံလည်းရှိသည်။ ယင်းကို ထုတ်ချင်းဖောက်မြင်နိုင်သည်။ ပျံသန်းရာ၌ အတောင်ဖုံးများကို ပဌမ ဦးစွာကြွလိုက်ပြီးလျှင် ဒုတိယအတောင်စုံကို ဖြန့်သွားသည်အထိဖြန့်လိုက်သည်။ ပျံရာတွင် လေကို ဒုတိယအတောင်ပံတစုံဖြင့် ရိုက်ခတ်၍ ပျံသန်းကြသည်။ နားသောအခါ ပျံသန်းရာ၌ အသုံးပြုသော အတောင်ကို ကောင်းစွာ ရပ်သိမ်းလိုက်ပြီးလျှင် အပေါ်မှ အတောင်မာဖုံးများကိုအုပ်ချလိုက်ကြသည်။

ပိုးတောင်မာတို့၏ ဦးခေါင်း၌ ပုံသဏ္ဍာန် အမျိုးမျိုးရှိသော ဦးမှင်များရှိ၏။ အချို့ဦးမှင်များသည်တို့၍ တင်းပုတ်သဏ္ဍာန် ရှိ၏။ အချို့သည်ရှည်၍ ဘီးသဏ္ဍာန်၊ ဆက်ချိုသဏ္ဍာန်၊ သီထားသည့် ပုတီးစေ့သဏ္ဍာန် ရှိကြသည်။ အရွယ်ရောက်ပြီး ပိုးတောင်မာနှင့် အကောင်လောင်းများတွင် ကြီးမား၍ သန်မာသော မေးရိုးများရှိကြလေသည်။ ထို့ကြောင့် အရွယ်ရောက်ပြီး ပိုးတောင်မာနှင့် အရွယ်မရောက်သေးသော ပိုးတောင်မာသည် အစာ စားရာ၌ အတူတူပင်ဖြစ်သည်။ အခြားအရွယ်ရောက်ပြီး ပိုးကောင်(အင်းဆက်ပိုး) မျိုး အမြောက်အမြားသည် အစာကို လုံးဝမစားကြတော့ချေ။ သို့မဟုတ် အကောင်လောင်းဘဝက စားခဲ့သောအစာနှင့်လုံးဝမတူသည့်အစာများကိုသာစားကြလေသည်။

ပိုးတောင်မာတို့၏ ဘဝ၌ ယင်ကောင်၊ နကျယ်ကောင်၊ ပရွက်ဆိတ်နှင့် လိပ်ပြာများကဲ့သို့ အဆင့်လေးဆင့်ရှိ၏။ ပဌမအဆင့်မှာ ဥဖြစ်၏။ ဥမှပေါက်လာသောအခါ၊ အကောင်လောင်း အဆင့်သို့ ရောက်၏။ အချို့ ပိုးတောင်မာမျိုး၏ အကောင်လောင်းများသည် တီမျိုးနှင့် တူပြီးလျှင် ဦးခေါင်းကြီးများ ရှိသည်။ အချို့ အကောင်လောင်းများတွင် မရှိကြချေ။ အချို့တွင် အမွေးအမှင်များ ရှိကြသည်။

အချို့ပိုးတောင်မာများသည် အကောင်လောင်းအဆင့်၌ပင် ၃–၄ နှစ်ကြာမျှအစာစားပြီးလျှင် ကြီးထွားနေကြလေသည်။ နောက်ဆုံးတွင် အရေလဲပြီးနောက် အနားယူသောအဆင့်သို့ ရောက်လေသည်။ ထိုအဆင့်ကို ပိုးတုံးလုံးဟုခေါ်၏။ ပိုးတုံးလုံးဘဝနှင့် နေရသော ကာလပရိစ္ဆေဒမှာ အမျိုးမျိုးဖြစ်သည်။ ထိုမှတဆင့် ပိုးတုံးလုံး၏အရေကို လဲပြီးလျှင်၊ အရွယ်ရောက်သည့် ပိုးတောင်မာများ ဖြစ်သွားလေသည်။

မျိုးစုကြီးတမျိုးတွင် ပါဝင်သော ပိုးတောင်မာတမျိုးကို နှုတ်သီးရှိ ပိုးတောင်မာဟုခေါ်၏။ အဘယ်ကြောင့်ဆိုသော်၊ ဦးခေါင်းသည် ရှေ့သို့ ထိုးထွက်နေသဖြင့် နှုတ်သီး (ဝါ) နှာတံနှင့် တူနေခြင်းကြောင့် ဖြစ်သည်။ နှုတ်သီး၏ အောက်ခြေ၌ မေးရိုးများရှိသည်။ ဘေးအပြုဆုံး ပိုးတောင်မာများသည် ဤအမျိုးတွင် ပါဝင်ကြလေသည်။

အချို့ ပိုးတောင်မာမျိုးစိတ်များသည် မြေအောက် ဂူများအတွင်း၌သာ နေထိုင်ကြသဖြင့်၊ မျက်စိ လုံးဝမမြင်ကြတော့ဘဲ၊ အရောင်လည်း ဖြူသွားကြလေသည်။ ဗီဗာပိုးတောင်မာခေါ် ပိုးတောင်မာ တမျိုးသည်လည်း မျက်စိမမြင်ချေ။ ထိုပိုးတောင်မာမျိုးသည် ဗီဗာဖျံ၏ ခန္ဓာကိုယ်ပေါ်တွင်သာ နေထိုင်လေသည်။ ယင်းတို့သည် ကပ်ပါးများဖြစ်ပြီးလျှင် အတောင်များ မရှိကြချေ။

အချို့ပိုးတောင်မာ မျိုးစိတ်သည် အခြားအင်းဆက်ပိုးများနှင့် မိတ်ဖွဲ့၍ နေလေ့ရှိသည်။ သီးခြားကင်းလွတ်၍ မနေနိုင်ကြချေ။ အချို့သည် မြေအောက်ရှိ ပရွက်ဆိတ်များ၏အသိုက်များတွင် နေထိုင်ကြလေသည်။ ပရွက်ဆိတ်များက ယင်းတို့၏ ချစ်စနိုး တိရစ္ဆာန်များအဖြစ် မှတ်ယူကာ အစာများကို ခွဲဝေပေးကြလေသည်။

အချို့ပိုးတောင်မာ မျိုးစိတ်များသည် ပျားများနှင့် မိတ်ဖွဲ့ကာနေထိုင်ကြသည်။ ထိုမျိုးစိတ် အမများသည် ပျားအုံများ၏ အဝင်ဝအနီးတွင် ဥများကို အုကြသဖြင့် အကောင်လောင်းများ ဖြစ်လာကြသောအခါ အနီးသို့ ကပ်လာသော အမွေးအမှင်ပါသည့် ပျားများကို ကောင်းထောက်မ၍ ယင်းတို့၏ ထက်မြက်သည့် ခြေသည်း ကလေးများဖြင့် တွယ်ကပ်မိလျှင် ပျား၏ အသိုက်တွင်းသို့ ပါသွားပေမည်။ ပျားအုံအတွင်းရှိ ပျားမတကောင်က ဥ အုသောအခါ ပိုးတောင်မာအကောင်လောင်းသည် ပျားဥရှိရာသို့ တွားသွား

ပြီးလျှင် ပျားအုံအတွင်း၌ ခိုအောင်းနေတတ်သည်။ ပဌမ ဦးစွာတွင် ပိုးတောင်မာ အကောင်လောင်းသည် ပျားဥကို စား၍ နောက်တွင် ဝန်းရံလျက်ရှိသော ပျားရည်ကို စား သောက်လေသည်။ လပေါင်း အတော်ကြာပြီးသည့်အခါမှ ပိုးတုံးလုံးအဖြစ်သို့ အသွင်ပြောင်းပြီးလျှင် နောက်ဆုံးတွင် အတောင်ပေါက်သည့်အရွယ်သို့ ရောက်၍ ပိုးတောင်မာ ဖြစ် လာလေသည်။ ထိုအခါတွင် ပျားအုံမှထွက်ကာ အခြားသို့ သွားလေသည်။

**ပိုးတုံးလုံး။** ။ပိုးတုံးလုံးသည် အင်းဆက်ပိုးတကောင် ကြီး ထွားလာရာတွင် နားချိန်ဖြစ်သည်။ အင်းဆက်ပိုးသည် ဥမှ ပေါက်လာရာ၌ အသွင်ပြောင်းခြင်း သဘောအရ ကိုယ် သဏ္ဍာန်သည်အဆင့်ဆင့်ပြောင်းလဲရလေသည်။ထိုသို့အသွင် ပြောင်းလဲရာ၌ အင်းဆက်ပိုးသည် ပဌမ အကောင်လောင်း ခေါ် ဥမှပေါက်စ အကောင်ကလေး ဖြစ်လာရသည်။ တဖန် အကောင်လောင်းဘဝမှ ကြီးကောင်ဘဝသို့ ကူးပြောင်းရာ၌ နောက်အဆင့် ဖြစ်သော ပိုးတုံးလုံးဘဝသို့ ရောက်ရလေ သည်။ ထိုကြောင့် အင်းဆက်ပိုး၏ ဘဝဖြစ်စဉ်၌ ဥမှကြီး ကောင်ဖြစ်လာရာ၌ ပိုးတုံးလုံးဘဝသည် တတိယအဆင့် ဖြစ် သည်။ ပိုးတုံးလုံးဘဝပြီးမှ ကြီးကောင် ဖြစ်လာရသည်။

ထိုသို့အသွင်ပြောင်းလဲကြရာ၌ပိုးတုံးလုံးများ၏ပုံသဏ္ဍာန် များသည် အင်းဆက်ပိုးတမျိုးနှင့် တမျိုးတွင် မတူကြချေ။ ယေဘုယျအားဖြင့် တီမျိုးနှင့် ပေါက်ဖတ်များ၏ ပိုးတုံးလုံး များသည် အသေကောင် အခြောက်များနှင့်တူသည်။နောင် ဖြစ်လာမည့်အာရုံမှင်၊ ခြေထောက်နှင့် အတောင်များသည် ကိုယ်ခန္ဓာ၏အောက်ပိုင်းတွင် သိပ်သည်းစွာခေါက်၍ နေကြ သည်။ အချို့ပိုးတုံးလုံးများသည် မြေကြီးထဲ၌ တွင်းတူး၍ ဖြစ်စေ၊ အက်ကြောင်းများ၌ဖြစ်စေ ပုန်းအောင်း၍ နေ တတ်ကြသည်။ထိုသို့ပိုးတုံးလုံးအဖြစ်နှင့် နေချိန်၌ ပိုးတုံးလုံး သည် ပိုးလောင်းအဖြစ်နှင့် နေစဉ်က လောဘကြီးစွာဖြင့် စား၍ သိုလှောင်ထားခဲ့သော အစာများကိုသာ အားထား နေရပေသည်။အင်းဆက်ပိုးကောင်တကောင်သည်ပိုးတုံးလုံး အဖြစ်နှင့် နာရီ အနည်းငယ်၊ ရက်အနည်းငယ်၊ ရက်သတ္တ ပတ်အနည်းငယ်၊လအနည်းငယ်၊ သို့မဟုတ် နှစ်အနည်းငယ် ပင်ကြာတတ်သည်။

လိပ်ပြာသည် ပိုးတုံးလုံးအဖြစ်၌ မိမိကိုယ်ကို အမျှင်များ နှင့်ရစ်ပတ်ပြီးလျှင် ပိုးအိမ်ဖွဲ့၍ ငြိမ်သက်စွာ နေသည်။ ထိုပိုး အိမ်ကို သစ်ပင်၌ ဝမ်းပိုင်းမှ အမျှင်တချောင်းနှင့် တွဲလဲဆွဲ ထားလေ့ရှိသည်။ ထိုနောက်တဖြည်းဖြည်း အသွင်ပြောင်း လာပြီးသော် အင်္ဂါများစုံလာသည်။ ထိုအချိန်မှ ပိုးအိမ်ကို ခွဲထွက်ကာ လိပ်ပြာ ဖြစ်လာလေသည်။ ပျားပိုးတုံးလုံးသည် ပျားအိမ်အတွင်း၌ပင် ပိုးတုံးလုံးအဖြစ်နှင့် နေသည်။ ယင် ကောင်၏ ပိုးတုံးလုံးသည် သေးငယ်၍ ပြောင်ချောနေသော ဘဲဥပုံသဏ္ဍာန် အလုံးကလေးဖြစ်သည်။ ထိုပိုးတုံးလုံးမှ ယင် ကောင်အဖြစ်သို့ ကူးပြောင်းရန် နွေဥတု၌ ၃ ရက်မှ ၆ ရက် အထိ ကြာတတ်သည်။

**ပိုးဖလံ။** ။လိပ်ပြာနှင့် ပိုးဖလံ — ရှု။

**ပိုးမြစ်။** ။ဣတလီနိုင်ငံမြောက်ပိုင်း၊ အနောက်ဖက် နယ် စပ်ဒေသရှိ တောင်တန်း၌ မြစ်ဖျားခံ၍ စီးဆင်းသော မြစ် တခုကား ပိုးမြစ်ဖြစ်သည်။ ထိုမြစ်သည် အရှေ့ဖက်ရှိ အေဒြီ ယက်တစ်ပင်လယ်အထိစီးဆင်းရာ၊ အလျားမိုင်ပေါင်း ၄၂၀ ခန့်ရှိ၍ ဣတလီနိုင်ငံတွင် အရှည်ဆုံးသောမြစ် ဖြစ်သည်။ ထိုမြစ်စီးဆင်းရာ အချို့ကုန်းမြင့်ဒေသတို့၌ ၂၀ မိုင်မျှသော ခရီးအတွင်း၊ မြင့်ရာမှနိမ့်ရာသို့ ပေပေါင်း ၅,၂၀၀ ကျော်မျှ စီးဆင်းသွားရသဖြင့်၊ မြစ်သည်ရေစီးအလွန်သန်လေသည်။ တောင်တန်းပေါ် ရှိ နှင်းခဲတို့နှင့်တကွ မြစ်လက်တက်များစွာ တို့မှ စီးဝင်လာသော ရေတို့ကြောင့် မြစ်ရေ၏ ထုထယ်သည် ကြီးမားလှရကား၊ အချို့နေရာများတွင် မြစ်သည် များစွာ အနံကျယ်သည်။ တျူးရင်းမြို့အနီးတွင် မြစ်၏ အကျယ်မှာ ပေပေါင်း ၄၂၅ ပေခန့်မျှ ရှိ၏။ မြစ်ကျယ်ဝန်းလာသည်နှင့် အမျှ ရေစီးသည် တဖြည်းဖြည်းနှေးလာ၏။ ပိုးမြစ်ဝှမ်းသည် လည်း အလွန်ကျယ်ဝန်း၍ မြေဩဇာ ကောင်းမွန်သည်။ ထိုမြစ်ဝှမ်းကို လောင်ဗာဒီ လွင်ပြင်ဟူ၍ခေါ် ၏။

မြစ်ဝကျွန်းပေါ်၌ နုံးမြေနှင့် ရွှံ့နွံအနည်တင်၍ ကျန်ရစ် တတ်ခြင်းကြောင့် ထိုဒေသသည် တနှစ်လျှင် ၁၇၅ ကောခန့် ပိုမို ကျယ်ဝန်း လာလေ့ရှိ၏။ သို့ဖြစ်သောကြောင့် ရှေးက ပင်လယ်ကမ်းခြေတွင် တည်ရှိခဲ့ဘူးသော မြို့တို့သည် ကာလ ကြာမြင့်သောအခါ၊ ပင်လယ်ကမ်းခြေမှ မိုင်ပေါင်းများစွာ ကွာဝေးသွားတတ်သည်။ မြစ်သည်လည်း ရံဖန်ရံခါ တိမ် ကောလာတတ်၍ တခါတရံ မြစ်ရေလျှံသောကြောင့် လူတို့ ဒုက္ခရောက်ကြရ၏။ ရေအလုံးအရင်း ကြီးမားခြင်း၊ မြစ်ပြင် ကျယ်ဝန်းခြင်းတို့ကြောင့် ထိုမြစ်ကိုကူးဖြတ်ရန် မလွယ်ကူလှ ချေ။ ပိုးမြစ်ကို ဖြတ်ရန်လွယ်ကူသည့်နေရာများ၌သာ မြို့ကြီး ပြကြီးတို့ကို တွေ့နိုင်သည်။

**ပိုးမွှားပညာ။** ။ပိုးမွှားပညာဟူသည် လူ၏အကျိုးစီးပွား ကိုင်ငြား၊ ကျန်းမာရေးကိုငြား တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ ဖြစ်စေ အနီးကပ်ဆုံး အကျိုးအပြစ် ပြုတတ်သော မှက်၊ ခြင်၊ ယင်၊ ဖြုတ်၊ ခြ၊ သန်း၊ နကျယ်၊ ပျား၊ ပိတုန်း၊ ပုရစ်၊ နံ့ကောင်၊ ကျိုင်းကောင်၊ ချေးထိုးပိုး၊ အုန်းပိုး၊ ကြမ်းပိုး၊ လိပ်ပြာ၊ ဖလံစသော သတ္တဝါတို့အကြောင်းကို သိပ္ပံစနစ် တကျ စူးစမ်းလေ့လာရသော ပါဏဗေဒဝင် ပညာတရပ်ဖြစ်

သည်။ ယင်းပိုးမွှားတို့၏ ကိုယ်ခန္ဓာတွင် ကွင်းကဲ့သို့ အရစ်ပိုင်းများ ဖြစ်ပေါ်လျက်ရှိပြီးသော်၊ ခြေထောက်သုံးစုံ ပါရှိလျှင် အင်းဆက်ပိုးဟူ၍ တထစ်ချ မှတ်ယူရာ၏။

ကြီးကောင်ဝင်ပြီးသော အင်းဆက်ပိုး၏ ကိုယ်ခန္ဓာကို သုံးပိုင်းခွဲ၍ လေ့လာလျှင် ရှေ့ဦးဖက် ပဌမအရစ်ပိုင်းတွင် ဦးခေါင်း၊ ယင်းဦးခေါင်း၌ မျက်စိ၊ ဦးမှင်နှင့် ပါးစပ် တည်ရှိသည်။ ဦးခေါင်းပိုင်း၏ နောက်ဖက်၌ ကပ်လျက်တည်သော ရင်ပိုင်းတွင် အရစ်ပိုင်း သုံးခုရှိ၍ ထို အရစ်ပိုင်းတိုင်းမှ ခြေထောက်တစုံစီ ထွက်စမြဲ ဖြစ်သည်။ အတောင် ပါသော အင်းဆက်ပိုး များစွာတို့တွင်မူ ဒုတိယနှင့် တတိယ အရစ်ပိုင်းတို့၌ အတောင်တစုံစီလည်း အသီးအသီး ဆောင်သေးသည်။ ကျန်ရှိသော နောက်ဖက်ပိုင်းသည် ဝမ်းပိုင်းဖြစ်၍ အရစ်ပိုင်း တဆဲ့တခုအထိ ပါရှိတတ်သည်။ ထို အပိုင်း၌ ခြေထောက်မပေါက်ချေ။

အင်းဆက်ပိုးတို့၏ ကိုယ်ခန္ဓာသည် ကျောရိုးပါသတ္တဝါများနည်းတူ အရိုးများပေါ်တွင် အသားအရေ ဖုံးအုပ်ပြီး တည်ဆောက်ထားခြင်းမဟုတ်ပဲ၊ အပြင်ခွံဖြင့်သာ ဖုံးအုပ်ထားခြင်းဖြစ်သည်။ ယင်းအပြင်ခွံသည် အင်းဆက်ပိုး၏ ရုပ်သွင်ကို ထောက်ကူထိန်းသိမ်းထားရုံမျှမက၊ ကိုယ်တွင်းတည် အရေးကြီးသော အင်္ဂါအစိတ်အပိုင်းတို့ကိုလည်း အကာအကွယ်ပြုထားသည်။ ကိုယ်တွင်းတည် အဓိက အင်္ဂါအစိတ်အပိုင်းတို့တွင် (၁) အစာချေပြွန်မ၊ (၂) သွေးလှည့်ထုတ်သောနှလုံး၊ (၃) အသက်ရှုပြွန်ချောင်းများ၊ (၄) မျိုးပွားအင်္ဂါ၊ (၅) ကြွက်သားမျှင်များနှင့် (၆) နာဗ်ကြောအဖွဲ့တို့ ပါဝင်သည်။

ကြီးကောင် မဝင်သေးသော အင်းဆက်ပိုးတို့တွင် အတောင် လုံးဝ မပါတတ်ရုံသာမက ခြေထောက်နှင့် တိကျပုံမှန်သော ဦးခေါင်းလည်း မရှိတတ်သောကြောင့် ကြီးကောင်ဝင်ပြီးသော အင်းဆက်ပိုး၏ သွင်ပြင်နှင့် တထေဝတည်း မတူချေ။ သာဓကအချို့ကို ထုတ်ပြရသော် ကြီးကောင်မဝင်သေးမီ ယင်၏ ဘဝသည် လောက်၊ ခြင်၏ဘဝသည် လောက်လန်း၊ ချေးထိုးပိုး၊ အုန်းပိုးတို့၏ ဘဝသည် ဖိုးလမင်း (ပိုးဒီကောင်၊ အီကုတ်) လိပ်ပြာ၊ ဖလံတို့၏ ဘဝသည် ခူ၊ ပေါက်ဖတ် စသည်တို့ဖြစ်သည်။

ပိုးမွှားပညာသည်အခြားသိပ္ပံပညာရပ်များနည်းတူ ကျယ်ဝန်းနက်နဲသော အတိုင်းအရှည်ရှိသည်။ ယင်းပညာကိုလည်း အခြေခံအားဖြင့် ကဏ္ဍများ ပိုင်းခြား လေ့လာမှသာလျှင် လွယ်ကူ ပြည့်စုံနိုင်မည်။ ယင်းကဏ္ဍတို့တွင် (၁) ကိုယ်အင်္ဂါ သွင်ပြင်လက္ခဏာ၊ (၂)ကိုယ်အင်္ဂါအစိတ်အပိုင်းတို့ တာဝန်ဆောင်ရွက်ပုံ၊ အလုပ်လုပ်ပုံ၊ (၃) ပေါက်ပွား ကြီးထွားပုံ၊ (၄)မျိုးမည်ခွဲခြားပုံ၊(၅) မျိုးရိုးဆက်နွယ်ပုံနှင့် (၆) ကမ္ဘာထက်ဝယ် ပိုးမွှားတို့အဆင့်ဆင့် ဖြစ်ပေါ် ပြောင်းလဲပုံ စသည်တို့ပါဝင်သည်။ ထိုအခြေခံ စူးစမ်းလေ့လာချက်များကို မှီငြမ်းပြုလျက်၊ လူ၏ ကျန်းမာရေး၊ အကျိုးစီးပွားရေးတို့နှင့် သက်ဆိုင်သော ကျန်းမာရေးဆိုင်ရာ ပိုးမွှားပညာနှင့် စီးပွားရေးဆိုင်ရာ ပိုးမွှားပညာဟူ၍ အသုံးချ ပညာရပ်များအဖြစ်လည်း တိုးတက်လေ့လာလျက် ရှိကြသည်။

ကျန်းမာရေး ဆိုင်ရာ ပိုးမွှားပညာဆိုရာ၌ လူတို့၏ အနာရောဂါတို့ကို ပျောက်ကင်းစေရေးအတွက် အသုံးကျသော ပိုးမွှားနှင့် လူတို့အား ရောဂါအန္တရာယ်ဖြစ်စေသော ပိုးမွှားဟူ၍ ခွဲခြားနိုင်သည်။ ရှေးခေတ်သမယက ပင့်ကူ၊ ပိုးနသန်၊ ကျိုင်းကောင်၊ ချေးထိုးပိုး မျိုးနွယ်ဝင်ပိုးမွှားတို့ကို လူတို့၏ ရောဂါကုရာတွင် အသုံးချခဲ့ဘူးသည်။ ယခုခေတ်တွင် ပျားမှရသော အဆိပ်ရည်ကို ရှူမက်တစ်ဇင်ရောဂါအတွက် ထိုးဆေးအဖြစ် အသုံးပြုသည်။

လူတို့အား ရောဂါဖြစ်စေသော ပိုးမွှားတို့ အကြောင်းနှင့် စပ်လျဉ်း၍ ၁၈၇၉ ခုနှစ်၌ ပက်ထရစ် မန်ဆန်သည် ခြင်တမျိုးကြောင့် လူတို့တွင် ဆင်ခြေထောက်ရောဂါဖြစ်ရကြောင်းကို အိန္ဒိယနိုင်ငံတွင် စတင်တွေ့ရှိသည်။ ၁၈၉၈ ခုနှစ်တွင် ရော်နယ် ရော့သည် အိန္ဒိယနိုင်ငံ၌ပင် ခြင်ကြောင့်ငှက်ဖျားရောဂါဖြစ်ရကြောင်းကို ခိုင်မာစွာ ဖော်ထုတ်ပြသခဲ့သည်။ ထိုတွေ့ရှိချက်များသည် ပိုးမွှား ပါရဂူတို့အား ဆထက်ထမ်းပိုးတိုး၍ စူးစမ်းလေ့လာရန် လှုံ့ဆော်ပေးလိုက်သဖြင့် ပိုးမွှားတို့ကြောင့် ဖြစ်ရသော ရောဂါ ဇာစ်မြစ်များအကြောင်းကို တိုးတက်သိရှိလာသည်။ ပလိပ်ရောဂါ၊ တုပ်ကွေးကြီး၊ဦးနှောက်ရောင် အိပ်မဝရောဂါ၊ တိုက်ဖတ်ဖျား၊ ကာလဝမ်းရောဂါစသည်တို့သည် ပိုးမွှားများကြောင့် ဖြစ်ရကြောင်းကို တွေ့ရှိပြီးဖြစ်သည်။ အချို့ပိုးမွှားတို့သည် လူကို ယားယံအောင်ငှင်း၊ နာကျင်အောင်ငှင်း ကိုက်တတ်သည်။ အနာမသိ ဆေးမရှိ၊ အနာသိက ဆေးရှိရဟူသော စကားအတိုင်း၊ ဆေးပါရဂူများသည် အနာနှင့် ဆီလျော်သော နှိမ်နင်းနည်းတို့ကိုတီထွင်ဖော်ထုတ်ပြီး၊ ဖော်ထုတ်ဆဲ ဖြစ်သည်။

စီးပွားရေးဆိုင်ရာ ပိုးမွှားပညာသည် ကျယ်ပြန့်သောကြောင့် စိုက်ပျိုးရေး ပိုးမွှားပညာဟူ၍ငှင်း၊ သစ်တောရေး ပိုးမွှားပညာဟူ၍ငှင်းခွဲခြားလေ့လာရသည်။ယင်းသည့်ပညာအသီးအသီးကို လေ့လာရာတွင် စိုက်ပျိုးပင်နှင့်သီးနှံများကို ဖျက်ဆီးသော ပိုးမွှားများနှင့် ထိုပိုးမွှားတို့အား နှိမ်နင်းနည်းများကို အဓိကထားသည်။ ပိုးမွှားတို့ ဖျက်ဆီးခြင်းကြောင့် သစ်တော၊ စိုက်ပျိုးပင်၊ အသီးအနှံနှင့် သိုလှောင်ထားသော သစ်တောနှင့် စိုက်ပျိုးထွက် ပစ္စည်းပေါင်း မြောက်မြားစွာသည် တိုင်းပြည်တိုင်းတွင် ဆုံးရှုံးပျက်စီးလျက် ရှိသည်။ ထို့ကြောင့် တိုင်းပြည်ကြီးများတွင် ယင်းပိုးမွှားတို့ကိုနှိမ်နင်းရန် ပိုးမွှားပါရဂူများ ခန့်ထားရသည့်ပြင်၊ အခြား တိုင်းနိုင်ငံမှ ပိုးမွှားများ မိမိတို့နိုင်ငံတွင်းသို့ ဝင်ရောက် မလာနိုင်စေရန်

အပင်၊ အသီး၊ အစေ့စသည်တို့ တင်သွင်းခြင်းကို ဥပဒေစည်းကမ်းများဖြင့် ချုပ်ကိုင်ထားရသည်။

လူတို့သည် မိမိအမျိုး တည်တံ့ တိုးပွားရေးနှင့် အကျိုးစီးပွား ဖြစ်ထွန်းရေးအတွက် သစ်တောများကို ပြုစုပျိုးထောင်ခြင်း၊ သီးနှံပင်များကို တီထွင် စိုက်ပျိုးခြင်း ပြုလာသည်နှင့်အမျှ ပိုးမွှားအမျိုးနှင့် ဦးရေလည်း တိုးတက်များပြားလျက်ရှိသည်။ အဘယ်ကြောင့် ဆိုသော် ပိုးမွှား၊ အထူးသဖြင့် အင်းဆက်ပိုးတို့သည် ပြောင်းလဲလျက်ရှိသော ပတ်ဝန်းကျင်နှင့် သပ္ပါယဖြစ်နိုင်သောကြောင့်တည်း။

ပတ်ဝန်းကျင်နှင့် သပ္ပါယဖြစ်စေသော အင်းဆက်ပိုးတို့၏ အဓိက ကြန်အင်လက္ခဏာတို့မှာ အောက်ပါအတိုင်း ဖြစ်၏။

**၁။ အပြင်ခွံဖြင့်ဖုံးအုပ်ခြင်း။**

အင်းဆက်ပိုး၏ ကိုယ်ခန္ဓာကို အပြင်ခွံဖြင့် ဖုံးအုပ်လျက်ရှိခြင်းကြောင့် (က) ကိုယ်တွင်း၌ ကြွက်သားကြောတွယ်ရန်နေရာ ကျယ်ဝန်းသဖြင့် ကိုယ်ဆန့်ကျုံ့မှု၊ စားမှု၊ သွားမှု လွယ်ကူသည်။ (ခ) ကိုယ်တွင်းရှိရေကိုခန်းခြောက်လွယ်ခြင်း မရှိအောင် အကောင်းဆုံး ထိန်းသိမ်းထားနိုင်သည်။ (ဂ) ကိုယ်တွင်းတည် အရေးကြီးသော အင်္ဂါ အစိတ်အပိုင်းများကို ပြင်ပမှ ထိခိုက်အနာတရမဖြစ်အောင်လည်း ကာကွယ်ထားနိုင်သည်။

**၂။ အတောင်ရှိခြင်း။**

အင်းဆက်ပိုးများစွာတို့တွင် အတောင်ပါသဖြင့် တနေရာမှတနေရာသို့ လွယ်ကူလျင်မြန်စွာ ပျံသန်းသွားလာနိုင်သောကြောင့် တနေရာတည်း၌ ရပ် တည်နေရခြင်းထက် အဆ ပေါင်းများစွာပို၍ အစားအစာရရှိရန်၊ ပေါက်ပွားပြန့်နှံ့ရန်နှင့် အမျိုးတည်တံ့ တိုးပွားရန် အခွင့်သာသည်။

ယခုခေတ်သည် ကြည်း၊ ရေ၊ လေကြောင်းဖြင့် တနိုင်ငံနှင့် တနိုင်ငံ ကူးသန်းဆက်သွယ်မှုလျင်မြန်လွယ်ကူသောကြောင့် လူတို့၏ အကျိုးစီးပွားကို ပျက်စီးစေသော ပိုးမွှားသာမက ကျန်းမာရေးကိုပါ အန္တရာယ်ပြုတတ်သော ပိုးမွှားများပါ တနေရာမှ တနေရာသို့ ပြန့်နှံ့တိုးပွားရန် လွယ်ကူသည်။ ထိုကြောင့် အခြားတိုင်းပြည်များမှ အင်းဆက်ပိုးများ မိမိတို့တိုင်းပြည်တွင်းသို့ ဝင်ရောက်မလာနိုင်စေရန် ကူးသန်း ဆက်သွယ်မှုကို ဥပဒေ စည်းကမ်းများဖြင့် ချုပ်ကိုင်ထားရသည်။

**၃။ ကိုယ်ခန္ဓာသေးငယ်ခြင်း။**

များစွာသော အင်းဆက်ပိုးတို့သည် သေးငယ်သောကိုယ်ခန္ဓာဖြင့် ပြီးသောကြောင့် အစားအစာ အနည်းငယ်မျှဖြင့် လုံလောက်ရုံသာမက၊ ရန်သူဘေးအန္တရာယ်မှလည်း လွယ်ကူစွာ ရှောင်တိမ်း ပုန်းအောင်းနိုင်သည်။

**၄။ ဘဝဖြစ်စဉ်။**

အချို့သော အင်းဆက်ပိုးတို့တွင် ဘဝဖြစ်စဉ် လေးဆင့်ရှိသည်။ (က)ဥဘဝ၊ (ခ) ဥမှ ပေါက်ပွား ပြီးနောက် ကြီးကောင်မဝင်မီ အကောင်လောင်းဘဝ၊ ပိုးပမာ ခူပေါက်ဖတ်၊ လောက်၊ လောက်လန်းစသည်တို့သည် လိပ်ပြာ၊ ဖလံ၊ ယင်၊ ခြင် စသည်တို့၏ ကြီးကောင် မဝင်မီဘဝ ဖြစ်သည်။ (ဂ) ပိုးတုံးလုံးဘဝ၊ ပုံပမာ ကြီးကောင်မဝင်မီ ဘဝဖြစ်သော ခူ၏ သက်တန်းကုန်ခါနီး၌ ယင်းခူသည် ပိုးအိမ် ပြုလုပ်ပြီးနောက် ထိုအိမ်ထဲ၌ဝင်ပြီးလျှင် ငြိမ်သက်စွာ ရပ်နားပြီးသည့် အဆုံးတွင် ရုပ်ပြောင်းလဲခြင်း ဖြစ်သည်။ (ဃ) ကြီးကောင်ဝင်ဘဝ၊ ပုံပမာ ခူဘဝမှ ရုပ်ပြောင်းလဲပြီးနောက် ဖြစ်ပေါ်လာသောလိပ်ပြာသည် ကြီးကောင်ဝင် ဘဝတည်း။ ယင်း ကြီးကောင်ဝင် ဘဝ၌ မျိုးဆက်ပြန့်ပွားခြင်း ဖြစ်သည်။ အင်းဆက်ပိုး အချို့တို့၏ ဘဝဖြစ်စဉ်တွင်မူ ပိုးတုံးလုံးဘဝ မဖြစ်ပေါ်သဖြင့် ဘဝဖြစ်စဉ် သုံးဆင့်သာရှိသည်။ မည်သို့ဖြစ်စေ ဘဝဖြစ်စဉ် အဆင့်ဆင့်ရှိသော အင်းဆက်ပိုးတို့သည် ကြီးကောင်မဝင်မီ ဘဝနှင့် ကြီးကောင်ဝင်ပြီး ဘဝတို့တွင် အခြေအနေမတူပဲ ကွဲပြားသော ပတ်ဝန်းကျင်နှင့် အစားအစာကို မှီလျက်ဖြစ်ထွန်းနိုင်သည်။ ပုံစံအားဖြင့် ခူသည် အရိုးအရွက်များကို စားသောက်ဖျက်ဆီး၍ လိပ်ပြာသည် ပန်းဝတ်ရည်ကိုသာ စုတ်ယူသည်။

**၅။ မျိုး အောင်လွယ်ခြင်း။**

အင်းဆက်ပိုးတို့သည် ကြီးကောင် မဝင်မီ ဘဝတွင် အစားအစာကို အများဆုံး စားသောက် ဖျက်ဆီးသည်။ ကြီးကောင်ဝင်ဘဝတွင် ဥပေါင်း မြောက်မြားစွာ အုပြီးလျှင် မျိုးဆက် ပြန့်ပွားလွယ်သည်။

လူ၏ ကျန်းမာရေးသည်ရှင်း၊ အကျိုးစီးပွားသည်ရှင်း အင်းဆက်ပိုးတို့ကြောင့် ပျက်စီး ဆုံးရှုံးရသကဲ့သို့ပင် လူ၏ ကျန်းမာရေး အတွက်ရှင်း၊ စီးပွားရေး အတွက်ရှင်း အကျိုးပြုသော အင်းဆက်ပိုးများလည်း ရှိသည်။ များစွာသော အပင်တို့တွင် သီးနှံများ ဖြစ်ထွန်းအောင်မြင်ခြင်းသည် အင်းဆက်ပိုးတို့ ကိုယ်တွင် ကပ်ပါလာသော အခြားအပင်မှ ဝတ်မှုန်၊ အခြားအပွင့်မှ ဝတ်မှုန်တို့ကို နောက်အပင်၊ နောက်အပွင့်သို့ သယ်ဆောင် ကူးယှက် ပေးခြင်းကြောင့် ဖြစ်သည်။ ပိုးခြည်ထွက် ပိုးမျှင်ကောင်၊ ချိပ်ထွက် အင်းဆက်ပိုးနှင့် ပျားတို့သည် လူ၏အကျိုးစီးပွားကို ဖြစ်ထွန်းစေသည်။ ပုရစ်၊ အုန်းပိုး၊ သင်ပေါင်းပိုး၊ ပျားတုကောင်စသော ပိုးမွှားများကို လူတို့ အစားအစာအဖြစ် အသုံးပြုလေ့ရှိသည်။ အချို့သော ပိုးမွှားတို့ကိုမူ လူ၏ အကျိုးစီးပွား ဖျက်ဆီးသော အခြား ပိုးမွှားတို့ကို နှိမ်နင်းစေရန်အတွက် အသုံးပြုနိုင်သည်။

### ပိုးမွှားနှိမ်နည်း နိသျည်း

ပိုးမွှားနှိမ်နင်းနည်းကို သာမန်အားဖြင့် လေးမျိုးခွဲခြား၍ ပြုလုပ်နိုင်သည်။ ယင်းတို့မှာ

၁။ ဓာတုဗေဒနည်း။ ၂။ စိုက်ပျိုးစံနစ်နည်း။ ၃။ သဇီဝ အချင်းချင်း နှိမ်နင်းနည်းနှင့် ၄။ ဖမ်းယူ သတ်ဖြတ်နည်းတို့ ဖြစ်သည်။

### ၁။ ဓာတုဗေဒနည်း။

ပိုးမွှားတို့ကို သေစေနိုင်သော အဆိပ်ဓာတ်များကို အရည် အဖြစ်ဖြင့်၎င်း၊ အမှုန့် အဖြစ်ဖြင့်၎င်း ပက်ဖြန်း၍ ဖြစ်စေ၊ မှိုင်းတိုက်၍ ဖြစ်စေ ပိုးမွှားတို့ကို နှိမ်နင်းနိုင်သည်။ ခူ၊ ပေါက်ဖတ်ကဲ့သို့ အရွက် အရိုးကို ကိုက်ဖြတ် ဖျက်ဆီးတတ်သော ပိုးမွှားတို့အား ဝမ်းတွင်း၌ အဆိပ်ဖြစ်စေသော ဓာတ်ဆေးကိုသုံး၍၊ အပင်မှ ဆဲလ်ရည်ကို စုတ်ယူဖျက်ဆီးတတ်သော ပျကဲ့သို့ ပိုးမွှားတို့ကိုမူ ထိရုံနှင့် သေစေသော ဓာတ်ဆေးတို့ကို သုံးရသည်။ သိုလှောင်ထားသော ဝတ္ထုပစ္စည်း၊ အိမ်၊ မီးရထား၊ သင်္ဘော၊ လေယာဉ်ပျံတို့တွင် ခိုအောင်းဖျက်ဆီးတတ်သော ပိုးမွှားနှင့် စိုက်ပျိုး သီးနှံပင် ပိုးမွှားတို့ကို ဓာတ်ဆေးဖြင့် မှိုင်းတိုက် ချေမှုန်းပစ်နိုင်သည်။

### ၂။ စိုက်ပျိုးစံနစ်နည်း။

စိုက်ပျိုးသော ကောက်ပဲ သီးနှံပင်တို့ ကောင်းစွာ ဖွံ့ဖြိုးစေ၍ ပိုးမွှား ဖျက်ဆီးခြင်း နည်းပါးစေသော စိုက်ပျိုးစံနစ်ကို သင့်တင့်သလို ပြောင်းလဲ စိုက်ပျိုးရသည်။ စိုက်ခင်းကို ကောင်းစွာ ထယ်ထိုး ထွန်ယက်ခြင်းဖြင့် ပေါင်းပင်နှင့် အမှိုက်များကို ရှင်းလင်းစေသည့်ပြင် ပေါင်းပင်နှင့် မြေတွင် အောင်းနေသော ပိုးမွှားတို့ကိုလည်း ရာသီဥတုဒဏ်နှင့် ငှက်တို့ရန်ကြောင့် ပျက်စီးစေသည်။ အပင်မြစ်များ ဖွံ့ဖြိုးရန် မြေလည်း ကောင်းစွာ ပွစေသည်။ ကောက်ပဲသီးနှံပင်များကို စိုက်နေကျအချိန်ထက် စော၍ဖြစ်စေ၊ နောက်ကျ၍ ဖြစ်စေ စိုက်ပျိုးခြင်းဖြင့် ပိုးမွှား ဖျက်ဆီးခြင်းမှ လုံးဝ မလွတ်ကင်းစေနိုင်သည့်တိုင်ပိုမိုသက်သာစေနိုင်သည်။စိုက်ခင်းမြေတွင် သီးနှံတမျိုးတစားတည်း အမြဲ ဆက်လက်၍ မစိုက်ပျိုးဘဲ၊ကောက်ပဲသီးနှံများကိုအလှည့်ကျတရာသီတမျိုးပြောင်းလဲစိုက်ပျိုးရသည်။ စိုက်ပျိုးပင်များ သန်စွမ်း ဖွံ့ဖြိုးရန် မြေသြဇာထည့်ပေးရသည်။ သို့မှသာ အပင် ကောင်းစွာအောင်မြင်၍ ပိုးမွှားဒဏ်ကိုခံနိုင်ရည်ရှိသည်။ တတ်နိုင်လျှင်ပိုးမွှားမဖျက်ဆီးနိုင်သော အပင်မျိုးကို ရွေးချယ်စိုက်ပျိုးသင့်သည်။

### ၃။ သဇီဝ အချင်းချင်း နှိမ်နင်းနည်း။

စိုက်ခင်းများကို ထယ်ထိုး ထွန်ယက် ပြုပြင်လျက်ရှိချိန်တွင် ကျီး၊ ဆက်ရက်၊ ဗျိုင်း စသော ငှက်တို့ ရောက်လာပြီးလျှင် ထယ်ကြောင်း၊ ထွန်ကြောင်းထဲ၌ ပေါ်လာသော မြေအောင်း ပိုးမွှားများကို ဖမ်းယူ စားသောက်ခြင်းသည်၎င်း၊ ငမြှောင်တောင်ကျသော စပါးခင်းထဲသို့ ဘဲများကို လွှတ်ပေး၍ ငမြှောင်တောင်များကို စားပစ်စေခြင်းသည်၎င်း၊ ပျကောင်တို့ကို လိပ်ခုံးပိုးဖြင့် ဖျက်ဆီးပစ်စေခြင်းသည်၎င်း၊ အုန်းပင်တို့ကို ဖျက်ဆီးတတ်သော အုန်းပိုးတို့ကို မှိုရောဂါကျရောက် ပျက်စီးစေခြင်းသည်၎င်း သဇီဝ အချင်းချင်း နှိမ်နင်းနည်းမည်၏။ ဤနည်းကို အောင်မြင်စွာ အသုံးချနိုင်ရန် ထိုသဇီဝတို့၏ သဘာဝ အလေ့အထတို့ကို ကောင်းစွာ နားလည်အောင် လေ့လာပြီးမှသာ ဖြစ်မြောက်နိုင်သည်။

### ၄။ ဖမ်းယူ သတ်ဖြတ်နည်း။

ကောက်ပဲသီးနှံတို့ကို ဖျက်ဆီးသော ပိုးတို့ကို နှိမ်နင်းရန် အလွယ်ကူဆုံး နည်းမှာ ယင်းပိုးမွှားတို့ကို လက်ဖြင့် ဖြစ်စေ၊ ပိုက်ဖြင့် ဖြစ်စေ ဖမ်းယူ သတ်ဖြတ်နည်း ဖြစ်သည်။ ထိုပိုးမွှားတို့ကို ရေနှင့် ရေနံဆီ ရောစပ် ထည့်ထားသော အိုးခွက်ထဲသို့ ကျအောင် အပင်ကိုင်းကို လှုပ်ခါပေးခြင်းဖြင့်လည်း ချေမှုန်းပစ်နိုင်သည်။

အင်းဆက်ပိုးတို့၏ သဘာဝ အလေ့အထကို စူးစမ်းကြည့်လျှင် စိတ်ဝင်စားစရာ ကောင်းသော အချက်များကို တွေ့နိုင်သည်။ နကျယ်ကောင်နှင့် ပျား၊ ခြကောင်နှင့် ပဆွတ်ပနီကောင်များကိုဗိသုကာဆရာနှင့်နှိုင်းရှည့်အပ်သည်။ နကျယ်ကောင်သည် မိမိ သားသမီးများ ပေါက်ပွားနေထိုင်ရန် ရွှံ့စေးဖြင့် စံနစ်ကျသော အိုးအိမ် ဆောက်လုပ်တတ်သည့် နည်းတူ ပျား၊ ပဆွတ်ပနီနှင့် ခြတို့သည်လည်း လေလုံမိုးလုံ လေထွက် လေဝင် ကောင်းသော အသိုက်အအုံကို စံနစ်ကျနစွာ တည်ဆောက်တတ်သည်။ နကျယ်ကောင်နှင့် ပျားတို့ကို သိပ္ပံ ပါရဂူကြီးများနှင့် နှိုင်းရှည့်အပ်သည်။ နကျယ်ကောင်သည်အခြားအင်းဆက်ပိုးများ၏အာရုံကြောတွင်းသို့ မိမိ အဆိပ် ထိုးသွင်းပြီးလျှင် ထိုသားကောင်ကို မပုပ်သိုးအောင် ပြုလုပ်၍ မိမိသားငယ်များ စားသုံးရန် အတွက် ပေါက်ပွားရာအိမ်အတွင်း၌သိုလှောင်ထားတတ်သည်။ ပျားတို့သည် မိမိနှင့် မိမိသားငယ်များ စားသုံးရန် ပန်းဝတ်ရည်များကို စုဆောင်းလျက် ပျားရည်အဖြစ် မပုပ်သိုးအောင် ပြုလုပ်ထားတတ်သည်။ ပျားသည် သားသမီးကို အထိန်းအမ အချိုးအစား ဦးရေကို ကန့်သတ် မွေးဖွားတတ်သဖြင့် လူတို့ထက်ပင် ဤနေရာ၌ တော်သေးသည်။

ခြတို့သည် ဗိသုကာနှင့် တူရုံသာ မကဘဲ မှိုစိုက်ပျိုးခြင်း အလွန်တရာ ကျွမ်းကျင်သောကြောင့် စိုက်ပျိုးရေးပါရဂူနှင့် တူသည်ဟုလည်း ဆိုနိုင်သည်။ အချို့သော ပရွက်ဆိတ်တို့သည် လူတို့ နို့စားနွားမ မွေးသည့်နည်းတူ အချိုရည်ထွက်သော ပျကောင်များကို မွေးမြူထားတတ်သည်။

ပရွက်ဆိတ်၊ ခြနှင့် ပျားစသော အင်းဆက်ပိုးတို့သည် အသိုက်အအုံဖွဲ့လျက် နေတတ်ကြသည်။ အသိုက်အအုံ အသီးအသီးကို စီးလုံးညီညာ ဘုံရိပ်သာဟု ခေါ်အပ်သည်။ ပရွက်ဆိတ်နှင့် ခြအုံကို လေ့လာကြည့်လျှင် ဘုရင်မ၊ လုပ်သား၊ စစ်သား ဟူ၍ တာဝန် အလုပ်နှင့် ဦးရေ အချိုးအစား ခွဲခြား ဖြစ်ပေါ်ကြောင်းကို တွေ့ရသည်။ ထိုနည်းတူပင် ပျားအုံ၌လည်း ဘုရင်မ၊ ပျားထီးနှင့် လုပ်သား ဟူ၍ ရှိသည်။ ပျားထီးသည် အလုပ် မလုပ်ချေ။ ဘုရင်မနှင့် မျိုးပွားခြင်းကိစ္စ ပြီးမြောက်က ပျားထီးများကို လုပ်သား ပျားများက နှင်ထုတ် ဝိုင်းပယ်လေ့ရှိသည်။

ဦးကိုကိုကြီး (၁)

**ပိုးလောင်း။** ။ပိုးလောင်းသည် အရွယ်မရောက်မီကာလအတွင်းတွင် သူ့အားပဋိသန္ဓေတည်၍ ပေးလိုက်သော အမိအဖတို့နှင့် ပုံသဏ္ဌာန်၌သော်၎င်း၊ အမူအရာ၌သော်၎င်း မတူသော အကောင်လောင်းဖြစ်သည်။ ဖားဥတဥမှ ပေါက်ဖွားလာသည့် ဖားငယ်ကလေးသည် ရေနေ ဖားလောင်းသာဖြစ်သည်။ ထိုဖားလောင်းအဖြစ်မှ လေကိုရှူသည့် ဖားကြီးအဖြစ်သို့ တဖြည်းဖြည်း ရောက်လာရသည်။ ထို့ကြောင့် ဖားလောင်းသည် ပိုးလောင်း၊ သို့မဟုတ် အကောင်လောင်းဖြစ်၏။ သို့သော် ပိုးလောင်းဟူသော အခေါ်အဝေါ်ကို အထူးသဖြင့် ပိုးကောင် (အင်းဆက်ပိုး) များတွင်သာ အသုံးပြုလေ့ရှိသည်။ လိပ်ပြာနှင့် ပိုးဖလံတို့၏ ပိုးလောင်းများကိုပေါက်ဖတ်ဟုခေါ်သည်။ ပိုးလောင်း အစစ်သည် အရွယ်ရောက်ပြီးပိုးကောင် ဖြစ်မလာသေးမီ ပိုးတုံးလုံးအဆင့်သို့ အသွင်ပြောင်းရသေးသည်။ ပိုးလောင်းသည် အသီးအရွက်ကိုစား၍ ကြီးထွားလာရသဖြင့် အပင်များကို ဖျက်ဆီးလေသည်။ ပိုးလောင်းများ ကြီးထွားပြီးသော အခါတွင် ယင်းတို့၏အရေပြားကို လဲပစ်ကြရသည်။ ပုံပမာ၊ ပေါက်ဖတ်သည် လေးငါးကြိမ် အရေလဲ၍ အခြားပိုးလောင်းများသည် အကြိမ် ၂၀ မျှ အရေလဲကြရသည်။ (ပေါက်ဖတ် — ရှု။)

**ပိုးဟပ်။** ။ပါဏဗေဒအလိုအားဖြင့် ပိုးဟပ်သည် 'ဗလက်တိဒီး' မျိုးရင်းနှင့် 'ဩသော့ပတဲရား' မျိုးစဉ်တွင် ပါဝင်သည်။ အရွယ်တူသော အတောင်ပံ ၄ ခုပါရှိ၏။ သို့သော် အချို့ပိုးဟပ်များတွင် အတောင်များသည် များစွာ သေးငယ်သည်။ အချို့သော ပိုးဟပ်တို့၌ကား အတောင်ဟူ၍ လုံးဝမရှိချေ။ မျိုးစိတ်ပေါင်း ၂,၄၀၀ ခန့်ရှိရာ၊ ယင်းတို့ကို အများအားဖြင့် အပူပိုင်းဒေသများတွင် တွေ့ရသည်။ ကိုယ်ခန္ဓာသည် ပြားနေသဖြင့် ကျောက်တုံးနှင့် သစ်ခေါက်များအောက်သို့ တိုးဝင်ရန် အထူး အဆင်သင့် နေလေသည်။ ဦးမှင်များသည် ရှည်၍သေးသွယ်၏။ဝမ်းဗိုက်ထိပ်၌ အဆက်များရှိသော အမှင်တစုံပါရှိပြီးလျှင်၊ယင်း၌ အနံ့ခံအင်္ဂါများ ပါဝင်လေသည်။ အရွယ်ရောက်ပြီး ပိုးဟပ်များသည် အများအားဖြင့် အုပ်ဖွဲ့၍ နေတတ်ကြသည်။ အချို့ပိုးဟပ်များသည် မြေကြီးထဲ၌ နေတတ်ကြပြီးလျှင် အချို့သည် သီးခြားတကောင်စီ နေတတ်ကြ၏။ အချို့မှာလည်း ပရွက်ဆိတ်နှင့် ခြများ၏အသိုက်များတွင်နေတတ်ကြ၏။ ပိုးဟပ်များ၌ ရှည်၍ သန်မာသော ခြေထောက်များရှိကြသည်။ လျင်မြန်စွာလည်း ပြေးနိုင်ကြသည်။ ခြေချောင်းတိုင်းတွင် နောက်ဖက်သို့ ကောက်လျက်ရှိသော ဆူးများရှိသည်။ ရန်သူအား ခုခံရာတွင် ထိုဆူးများကိုလက်နက်အဖြစ် အသုံးပြုကြသည်။ ပိုးဟပ်သည် ရန်သူနှင့် တွေ့ကြုံလာလျှင် နောက်သို့ ဆုတ်ပြီးသော် ခြေထောက်များဖြင့် အဆက်မပြတ်ကန်ကျောက်ခြင်းဖြင့် ထိတ်လန့် သွားစေတတ်သည်။ ပိုးဟပ်ကို ကမ္ဘာအနှံ့အပြားတွင် တွေ့နိုင်သည်။ ပိုးဟပ်သည် နှံကောင်၊ ပုရစ်တို့နှင့် အလွန်နီးစပ်လေသည်။

ပိုးဟပ်သည် ဥများကို အများအားဖြင့် ဥအိတ်များတွင် အုကြ၏။လုံခြုံသည့်နေရာများတွင် ထိုဥအိတ်များကို ထားတတ်ကြသည်။ သို့မဟုတ် အမများက အကောင် မပေါက်မချင်း ယင်းဥတို့ကို သယ်ဆောင် သွားလာတတ်ကြသည်။ သို့တည်းမဟုတ် အင်္ဂါဇာတ်အနီးရှိ အိတ်ထဲတွင်လည်း ထည့်ထားတတ်ကြသည်။ ထိုအခါ၌ အကောင်ကလေးများကို အကောင်လိုက် မွေးထုတ်တတ်ကြသည်။ အချို့ပိုးဟပ်မျိုးစိတ်များ၌ ဥအိတ်များမရှိချေ။ ဥအိတ်တခုတွင် ဥပေါင်း ၃၀ မှ ၆၀ အထိရှိကြသည်။ မျိုးစိတ်တခုနှင့်တခု ဥအရေအတွက်အားဖြင့် ကွဲပြားခြားနားသည်။ ပိုးဟပ်ငယ်ကလေးများသည် အတောင်မရှိခြင်းနှင့် ခန္ဓာကိုယ် သေးငယ်ခြင်းမှလွဲလျှင် ပိုးဟပ်အကောင်ကြီးနှင့် အတူတူပင် ဖြစ်သည်။ ပိုးဟပ်ငယ်အချို့တွင် အရောင်အမျိုးမျိုးရှိတတ်သည်။ အထူးသဖြင့်ပိုးဟပ်များသည် အသက်ရှည်ကြလေသည်။ မျိုးဆက်တဆက်လျှင် ၅ နှစ်အထိ အသက်ရှည်ကြသည်။

အချို့ပိုးဟပ်များသည် ဘေးပြုတတ်၏။ ယင်းတို့သည် အစားအစာ၊ မီးဖိုအမှိုက်၊ အဝတ်အထည်၊ အိမ်အသုံးအဆောင်၊ စာအုပ်ကိုချုပ်ထားသည့် နေရာများနှင့် ကြမ်းပိုးကဲ့သို့သော ပိုးကောင်များကို စားသောက်ကြသည်။ ထိုပိုးဟပ်မျိုးနှင့် ထိမိသောပစ္စည်းတိုင်းတွင် ယင်း၏ မနှစ်မြို့ဖွယ်သော အနံ့သည် စွဲ၍ ကျန်ရစ်ခဲ့လေသည်။ သဘာဝအားဖြင့် ယင်းတို့သည် သီးနှံစားများ ဖြစ်ကြသော်လည်း ပိုးမွှား၊ တီကောင်နှင့် ပိုးကောင်ဥများကို စားကြသည်။ ဂျာမန်ပိုးဟပ်မျိုးသည် အထူးအနှောင့်အရှက် ပြုတတ်သော ပိုးဟပ်မျိုးဖြစ်ပြီးလျှင် ယခုအခါတွင် ကမ္ဘာအနှံ့အပြားသို့ ရောက်လျက်ရှိကြလေသည်။ ပိုးဟပ်များ များလာလျှင် အိမ်တွင်း၌မသန့်မရှင်းဖြစ်လာစေသည်။

အရှေ့တိုင်းတွင် တွေ့ရသော ပိုးဟပ်မျိုးသည် ထိုအတူ အနေ့ာင့်အရှက်ဖြစ်စေတတ်သည်။ အလျား တလက်မနီးနီး ရှိ၍ကိုယ်ပြားသည်။ ပိုးဟပ်မတို့၌ မူလအတောင်များ ပါရှိပြီးလျှင် အထီးတို့၏ ဝမ်းပိုက် အစွန်းသည် အပြင်သို့ ထွက်နေလေသည်။ ဩစတြေးလီးယား ပိုးဟပ်မျိုး၌လည်း အတောင်ရှိသည်။ အမေရိကတိုက်ရှိ ပိုးဟပ်မျိုးသည် ခန္ဓာကိုယ်သေးသွယ်၍ ကောင်းစွာ ပျံသန်းနိုင်သည်။

ပိုးဟပ်တို့ကို အိမ်တွင်းသို့ အဝင်မခံလိုလျှင်၊ အိမ်ခန်းများကိုသန့်ရှင်းစွာထားပြီးသော် သွေ့ခြောက်နေစေရသည်။ အညစ်အကြေး၊ ဆိုနှင့် ရေငွေ့ရှိသော နေရာများတွင် ပိုးဟပ်သည် ကြီးထွားလွယ်၍ ပွားလွယ်၏။ ပိုးဟပ်ကို ရှင်းလင်းရာတွင် ဆိုဒီယမ် ဖလူအိုရိုက်၊ဗိုရက်(လက်ချား)၊ဆိုဒီယမ် ဖလူအို ဆီလီကိတ်၊ရိုတီနုန်း (၀၊) ပိုင်ရက်သရမ် ခတ်ပစ္စည်းပါသော ပေါင်ဒါများကို အသုံးပြုရသည်။ ထိုပေါင်ဒါများကို အက်ကြောင်းများ၊ ချောင်ကျသည့်နေရာများနှင့် ရေဝပ်သည့်နေရာများတွင် ဖြူးပေးရသည်။

**ပက်ကျိနှင့်ခရုပက်ကျိ။** ။ပက်ကျိနှင့်ခရုပက်ကျိတို့သည် အမြင်အားဖြင့် ခြားနားသော်လည်း 'ဂက်စထရိုပဒ' ခေါ် မျိုးပေါင်း တမျိုးတည်းဖြစ်ကြ၍ ကမာ၊ ရှပ်၊ကင်းမွန်တို့နှင့် အတူ ခရု မျိုးပေါင်းစုတွင် ပါဝင်ကြသည်။ ခရုပက်ကျိတွင် ခွေလိမ်လျက်ရှိသော အခွံတခု ပါရှိ၍ ထိုအခွံထဲသို့ ကိုယ်ခန္ဓာကို သိမ်းသွင်းထားနိုင်သည်။ ခရုပက်ကျိကို ရေချို၊ ရေငန်နှင့် ကုန်းမြေ သုံးဌာန စလုံးတွင် တွေ့ရသည်။

ပက်ကျိတွင်မူ အခွံမပါချေ။ ပါပြန်လျှင်လည်း အလွန်သေးငယ်၍ ခရုပက်ကျိကဲ့သို့ ထိုအခွံထဲ၌ ဝင်၍ မနေပေ။ နောက်တချက် ခြားနားသည်မှာ ပက်ကျိ၏ကိုယ်သည် ခရုပက်ကျိကိုယ်ကဲ့သို့ ခွေလိမ်၍မနေဘဲ ဖြောင့်တန်းနေသည်။ ထိုကိုယ်သည် ကြွက်သားများဖြင့် ဖွဲ့စည်းထားသည့်အတိုင်း မာကျော၍ အလိုရှိသလို ကျုံ့နိုင်ဆန့်နိုင်သည်။ ပက်ကျိသည် အမှန်စင်စစ်အခွံမပါသော ကုန်းခရုပက်ကျိဖြစ်သည်။

ခရုပက်ကျိ၏ အခွံသည် သွားရာသို့ ပါသွားသော အိမ်ပင် ဖြစ်သည်။ အချို့ ခရုပက်ကျိမျိုးတွင် ခေါင်းပိုင်းအောက်၌ ခရုမျက်နှာပိတ်ခေါ် ဝိုင်း၍မာသောအခွံဖုံးတခုပါသည်။ ကိုယ်ကို အခွံထဲသို့ ဆွဲသွင်းထားချိန်တွင် ထိုမျက်နှာပိတ်ဖြင့် အပေါက်ဝကို ပိတ်ဆို့ထားသည်။ အချို့ခရုပက်ကျိများကမူ အခွံထိပ်ဝကို ကျိခဲ့သော အစေးတမျိုးဖြင့် ပိတ်ဆို့ထားတတ်၍၊ ထိုအစေးသည် အတန်ငယ် ကြာသောအခါ ခဲ၍ မာသွားသည်။

ခရုပက်ကျိ အမျိုးမျိုးရှိသည့်အနက် အချို့သည် အသားနှင့်တကွ အမှိုက်သရိုက်များကိုပါစားတတ်သော်လည်း များသောအားဖြင့်ကား သစ်သီး သစ်ရွက်များကိုသာ စားကြသည်။ ရေခရုပက်ကျိ အကြီးစားတို့သည် တခါတရံရေထဲ၌ ရှိသောသက်ရှိသတ္တဝါကလေးများကိုသတ်ဖြတ်စားသောက်ကြသည်။ ခရုပက်ကျိတို့သည် အစာကို ထူးဆန်းသောလျှာကြမ်းတမျိုးဖြင့်ပွတ်ဖြတ်၍ စားသောက်ကြသည်။ ထိုလျှာတွင် အလွန်သေးငယ်သည့် သွားကလေးပေါင်း မြောက်မြားစွာပါရှိ၍ ရေခရုပက်ကျိ အကြီးစားတကောင်၏ လျှာ၌အဆိုပါ သွားပေါင်း ဂ၃၄၃ ချောင်းအထိ ပါရှိကြောင်း မှတ်တမ်းတင်ထားဘူးသည်။ မျက်စိများမှာ ဦးချိုသဏ္ဍာန်ရှိသောဦးမှင်ရှည်တို့၏ထိပ်ဖျားတွင် သေးငယ်သော အမည်းစက်ကလေးများ အဖြစ်ဖြင့် တည်ရှိကြသည်။ ရေမြေနှစ်ဌာနစလုံးတွင် ကျက်စားသော ခရုပက်ကျိအားလုံး လိုလို၌ အိတ်သဖွယ်ရှိသည့် အဆုတ်ဖြင့် အသက်ရှူကြ၏။ ဤခရုပက်ကျိမျိုး ရေထဲ၌ ကျက်စားနေချိန်တွင် လေကို ရှူရှိုက်သိမ်းရန်အတွက် ရေမျက်နှာပြင်ပေါ်သို့ မကြာခဏ တက်လာရသည်။ ရေထဲ၌ အသက်ရှူသော ခရုပက်ကျိမျိုးတွင်မူ သစ်ရွက်နှင့်တူသော ပါးဟက်များ ပါရှိကြသည်။

ခရုပက်ကျိတို့သည် ဥအုသောအခါ များသောအားဖြင့် အုံ့ညှိဖွယ်ကောင်းသော အိတ်ကလေးများဖြင့် အုတတ်ကြသည်။ ကုန်းခရုပက်ကျိတို့တွင် ခရုပက်ကျိလေးများ အဖြစ်ဖြင့် တခါတည်း အကောင်လိုက် ပေါက်ဖွားလာကြသည်။ ရေခရုပက်ကျိများသည် အလွန်သေးငယ်သော သတ္တဝါကလေးများအဖြစ် ပဌမပေါက်ဖွားလာကြသည်။ ထိုနောက်





စွတ်စိုသော အရပ်၌ တွေ့ရလေ့ရှိသော ပက်ကျိ နှင့် ခရုပက်ကျိ

ခရုပက်ကျိလောင်းကလေးတို့သည် ရေထဲ၌ မွေးညှင်းကလေးများဖြင့် လွတ်လပ်စွာ ကူးခတ်သွားလာနေကြသည်။

ခရုပက်ကျိသည် တဖြည်းဖြည်း ကြီးပြင်းလာသည်နှင့်အမျှ မိမိကိုယ်ခန္ဓာဝင်ဆံ့အောင် သူ၏အိမ်ဖြစ်သော အခွံကို တရစ်ပြီးတရစ် တိုးချဲ့၍ ဆောက်လုပ်တတ်သည်။ ခရုပက်ကျိတွင်အမျိုးကိုလိုက်၍ အခွံပုံစံတမျိုးစီသီးသန့်ရှိကြသည်။ အချို့သောအခွံများမှာ ကြိုးခွေသဏ္ဌာန်အပြားလိုက်ရစ်ခွေနေ၍၊ အချို့မှာ ရစ်ခွေရုံမက စေတီပုံကဲ့သို့ ချွန်၍ နေသည်။ အချို့တွင်လည်း ကြယ်သီးကဲ့သို့ ထိပ်သီးကလေးတခု ပါရှိတတ်သည်။ ခရုခွံတို့သည် အများအားဖြင့် အညို၊ အဝါ၊ ခရမ်းရောင်စသည်ဖြင့် တရောင်တည်းဖြစ်ကြသည်။သို့သော် အချို့မှာမူ ရောင်စုံအကွက်များဖြင့်၎င်း၊ ရောင်စုံ လိုင်းရစ်များဖြင့်၎င်း သဘာဝက ဖန်တီးခြယ်လှယ်ပေးထားသည်။ ထိုကြောင့်လည်း ဤအခွံကလေးများသည် ကမ္ဘာပေါ်ရှိ အလှပဆုံး အရာဝတ္ထုများတွင် အပါအဝင် ဖြစ်ကြရသည်။ အထူးသဖြင့်အပူပိုင်းဒေသမှအခွံများမှာ အလှပဆုံးဖြစ်၏။

ပက်ကျိနှင့် ခရုပက်ကျိတို့သည် တရွေ့ရွေ့ တွားသွားစဉ် မိမိတို့ကိုယ်ကို လွယ်ကူစွာ ဒရွတ်တိုက်ဆွဲယူသွားနိုင်အောင် မိမိတို့ကိုယ်မှ ကျိချွဲသော အရည်တမျိုးကိုထုတ်၍ လမ်းခင်းသွားကြသည်။ ထိုကြောင့် ပက်ကျိနှင့်ခရုပက်ကျိတို့သွားသောလမ်းတလျှောက်တွင် လမ်းကြောင်းရာထင်၍ ကျန်ရစ်သည်ကိုတွေ့ရသည်။

ပက်ကျိနှင့် ခရုပက်ကျိ အမျိုးမျိုးကို ကမ္ဘာ့အနှံ့အပြားမှာပင် တွေ့ရသည်။ ယင်းတို့အနက် ဥရောပတိုက်ရှိ ကုန်းခရုပက်ကျိအကြီးစားတမျိုးကို ပြင်သစ်နှင့် ဣတလီနိုင်ငံတွင် ပဋ္ဌမတန်း စားကောင်း သောက်ဖွယ် တခုအနေဖြင့် စားသောက်ကြသည်။

ပက်ကျိနှင့် ခရုပက်ကျိတို့ကို နှေးကွေးလေးလံလွန်းသောကြောင့် လူတိုင်းလိုလိုပင် စိတ်ပါ ဝင်စားခြင်း မရှိဘဲ ထုံထိုင်းအ နသော သတ္တဝါကလေးတမျိုးမျှသာ ဖြစ်သည်ဟု ထင်မြင်မိတတ်ကြ၏။ သို့ရာတွင် ယင်းတို့၌ ကိုယ့်အိမ်ကို မမေ့တတ်သော သဘာဝ အသိဉာဏ် အလွန်ထက်သန်၍ သူတို့၏ မူလခိုအောင်းနေထိုင်ရာ နေရာသို့ အလွန် အံ့သြဖွယ်ကောင်းအောင် ပြန်သွားနိုင်ကြသည်။ အလေးချိန်အောင်စဝက်ပင် မရှိသော ခရုတကောင်သည် မျက်နှာပြင်ညီညာချောမွတ်သော စားပွဲပေါ်၌ တပေါင်ကျော်ကျော်လေးသောအရာဝတ္ထုတခုကိုဆွဲဆောင်နိုင်ကြောင်းမှတ်တမ်းတင်ထားဘူးသည်။ ပက်ကျိနှင့် ခရုပက်ကျိတို့သည် မြနေအောင်ထက်သော သင်ဓုံးဓားသွားကို မိမိတို့ကိုယ်၌ ပြတ်ခြင်းရှခြင်းမရှိဘဲ ကျော်ဖြတ်နိုင်သည်။ဆူးများပေါ်၌လည်း တွားသွားနိုင်သည်။ မျက်စိပါသော ဦးမှင်တဖက် ပြတ်ထွက်သွားလျှင်လည်း မကြာမီပင် ဦးမှင်သစ်တခု လွယ်ကူစွာထပ်မံ၍ပေါက်လာစေနိုင်သည်။ ခရုပက်ကျိသည် ရေမျက်နှာပြင်အောက်၌လည်း တွားသွားနိုင်သည်။

# အချိန်ကိုပိုင်းခြားသတ်မှတ်ထားရာပက္ခဒိန်

**ပက္ခဒိန်ဟူသည်မှာ အချိန်ကို နှစ် အပိုင်းအခြား၊ ရာသီ အပိုင်းအခြား၊ လ အပိုင်းအခြား၊ နေ့ရက် အပိုင်းအခြား သတ်မှတ်ထားခြင်းပင် ဖြစ်သည်။ ပက္ခဒိန်ကို မည်သို့သတ်မှတ်ကြသနည်း။ မည်သည့် လူမျိုးများ စတင် တီထွင်ခဲ့ကြပါသနည်း။ မည်သည့် အကျိုးထူးများ ရရှိခံစားစေခဲ့သနည်း။ ဤအကြောင်းရပ်တွင် စုံလင်စွာ ဖတ်ရှုရပေမည်။**

**ပက္ခဒိန်။** ။(ပက္ခ+ဒိန–ပက္ခ=လဆန်း၊လဆုတ်+ဒိန=နေ့များ– သို့အတွက် ပက္ခဒိန်ဟု စာလုံးပေါင်းရမည်။– ပြည်ထောင်စု နိုင်ငံတော် ပက္ခဒိန်တော်ဆက် အဖွဲ့၏ ဆုံးဖြတ်ချက်– ၁၉၄၉ ခုနှစ်။) ပက္ခဒိန်ဟူသည်မှာ အချိန်ကို ပိုင်းခြားသတ်မှတ်ခြင်း၊ တနည်းဆိုရသော် နှစ်အပိုင်းအခြား၊ ရာသီအပိုင်းအခြား၊ လအပိုင်းအခြား၊ နေ့ရက် အပိုင်းအခြားသတ်မှတ်ခြင်းဖြစ်သည်။ ကမ္ဘာမြေလုံးကြီးသည်နေကိုလှည့်ပတ်သွားခြင်းအားဖြင့် ရာသီများ ဖြစ်ပေါ်လာ၏။ တပတ်ပြည့်သောအခါ၊ တနှစ်ပြည့်ချိန်ဟု သတ်မှတ်ကြ၏။ ရှေးလူများ၏ တိုင်းထွာ မှတ်သားမှုအရ တနှစ်လျှင် ၃၆၅ ရက် ၆ နာရီသာရှိ၏။ ထိုအခါကလူတို့သည် ရာသီသုံးမျိုးသာ သတ်မှတ်ထားရှိသည်ဟု ရာဇဝင်ကျမ်းများတွင် ဖော်ပြထား၏။ လကို သတ်မှတ်ရာ၌ လဆန်းတခုမှ လဆန်းတခုအထိ တလဟု သတ်မှတ်၍၊ ယင်းသည့်လပေါင်း ၁၂ လကို 'တနှစ်' ဟုသတ်မှတ်ကြ၏။ တလလျှင် ရက်ပေါင်း ၂၉ ရက် ၁၂ နာရီကျော်ရှိ၍၊ ၁၂ လတွင် ၃၅၄ ရက်ကျော် ၃၅၅ ရက်ရှိလေသည်။

အလွန်ရှေးကျသော အီဂျစ်လူမျိုးတို့သည် နေသွားကို အမှီပြု၍ တနှစ်လျှင် ၃၆၅ ရက် သတ်မှတ်ပြီးလျှင်၊ ရက်ပေါင်း ၃၀ ရှိသော ၁၂ လနှင့် အပို ၅ ရက်ပါဝင်သော ပက္ခဒိန်သတ်မှတ်သည်။ လေးနှစ်တကြိမ်တွင် တရက်ဘိုး၍၊ ၃၆၆ ရက်ရှိ ရက်ငင်နှစ်ဟု သတ်မှတ်၏။ နှစ်စဉ် ရက်ပို ၅ ရက်နှင့် လေးနှစ်တကြိမ် ရက်ပို ၆ ရက်ကို ပွဲတော်နေ့များ အဖြစ်သတ်မှတ်ကြလေသည်။

ရှေးရောမလူမျိုးတို့ အသုံးပြုခဲ့ကြသော ပက္ခဒိန်တွင် ၁၀ လသာရှိ၍၊ အင်္ဂလိပ် အခေါ် အားဖြင့် မတ်လ (၃၁)၊ ဧပြီလ (၂၉)၊ မေလ (၃၁)၊ ဇွန်လ (၂၉)၊ ကွင်းတီးလစ်လ (၃၁)၊ ဆက္ကစတီးလစ်လ (၂၉)၊ စက်တဘာလ (၂၉)၊ အောက်တိုဘာလ (၃၁)၊ နိုဝင်ဘာလ (၂၉)၊ ဒီဇင်ဘာလ (၂၉) ရက်၊ ပေါင်း ၂၉၈ ရက်ရှိ၍၊ တနှစ်ပြည့်ရန်ရက်ပိုများ၊ လပိုများဖြင့်အသုံးပြုကြ၏။နောင်အခါ ရောမမြို့ကိုအုပ်စိုးခဲ့သူ နူမာပွန်ပီလယ်ယပ်က ဇန္နဝါရီလ(၂၉)နှင့်ဖေဖွာရီလ(၂၈) ထပ်တိုး၍၊ ရက်ပေါင်း ၃၅၅ ရက်ရှိ ပက္ခဒိန်သတ်မှတ်၏။

ယင်းသည့် နူမာနှစ်မှာ လေးနှစ်တကြိမ် တပတ်ကာလ သတ်မှတ်ပြီးလျှင် ပဌမနှစ်တွင် ၃၁ ရက်ရှိလပေါင်း (၄)လ၊ ၂၉ ရက်ရှိလပေါင်း (၇) လနှင့် ၂၈ ရက်ရှိ ဖေဖွာရီလတလရှိ၍၊ လပေါင်း ၁၂ လတွင် ရက်ပေါင်း ၃၅၅ ရက်ရှိ၏။ ဒုတိယနှစ်တွင် ဖေဖွာရီလ၌ ၂၃ ရက်ရှိ၍၊ ရက်ပေါင်း ၂၇ ရက်ဖြင့် လအပိုတလဖြည့်ပြီးလျှင် သတ်မှတ်၏။ တတိယနှစ်တွင် ပဌမနှစ်အတိုင်းသတ်မှတ်၍၊ စတုတ္ထနှစ်တွင် ဒုတိယနှစ်ကဲ့သို့ပင် လပိုဖြည့်၍ ဖေဖွာရီလတွင် ၂၄ ရက်ဖြင့် သတ်မှတ်၏။ ဤနည်းမှာလည်း ၄ နှစ်တကြိမ်တွင် ၄ ရက်ပိုလျက်ရှိ၏။ ဂျူးလယပ်ဆီဇာလက်ထက်ရောက်သောအခါ လများနှင့်ရာသီဥတုမညီမညွတ် ဖြစ်၍ ဇန္နဝါရီလတွင် ဆောင်းကူးရာသီဖြစ်နေသောကြောင့် နက္ခတ်ပညာရှိ ဆိုဆီးဂျင်းနစ်၏ အကြံပေးချက်အရ၊ ဘီစီ ၄၆ ခုနှစ်တွင် ရက်ပေါင်း ၉၀ (နိုဝဘာလနှင့် ဒီဇဘာလ အကြားတွင် ၆၇ ရက်နှင့် ဖေဖွာရီလနောက်ဆုံးတွင် ၂၃ ရက်) ထပ်တိုး၍၊ ဘီစီ ၄၅ ခုနှစ် နွေကူးရာသီကို မတ်လတွင် စစေခဲ့၏။ ဤကဲ့သို့ ရာသီနှင့် လများမှန်ကန်ညီညွတ်စေရန် ဇန္နဝါရီလနှင့် ဆက္ကစတီးလစ်လ (ဩဂုတ်လ) တို့ကို ၂ ရက်စီတိုး၍၊ ဒီဇဘာလကို ၃၁ ရက်လ၊ ပြုပြင်ပြီးလျှင် ကျန် ဧပြီလ၊ ဇွန်လ၊ စက်တင်ဘာလ၊ နိုဝဘာလများကို ၃၀ ရက်ဟု သတ်မှတ်လျက်၊ ဖေဖွာရီလတွင် ၂၈ ရက်ဟု သတ်မှတ်သော ၃၆၅ ရက် ပက္ခဒိန်ကို ပြုပြင်ခဲ့လေသည်။ ထိုပြင် လေးနှစ်တကြိမ်လည်း ဖေဖွာရီလ ၂၃ ရက်နှင့် ၂၄ ရက်အကြားတွင် ရက်ပို တရက်တိုး၍ ၃၆၆ ရက် ရက်ငင်နှစ် သတ်မှတ်၏။ မတ်လ၊ မေလ၊ ကွင်းတီးလစ်လ (နောင်အခါ ဂျူးလယပ်ဆီဇာကိုအကြောင်းပြု၍ ဇူ(ဂျူ)လိုင်လ အမည်ပြောင်းသည်) နှင့် အောက်တိုဘာလများကို ယခင်ပက္ခဒိန်အတိုင်း ၃၁ ရက်လများအဖြစ်သတ်မှတ်၏။ထိုနောက် ပုပ်ရဟန်းမင်းကြီး ဂရက်ဂရီ (၁၃) က အနည်းငယ်ပြုပြင်၍ ဂရက်ဂရီယန်း ပက္ခဒိန် ဖြစ်ပေါ်လာ၏။

သို့သော်လည်း ထိုအခါက နေသွားနှစ် တနှစ်မှာ ၃၆၅ ရက် ၆ နာရီဟု ယူခဲ့ကြ၍ အမှန် နေသွားနှစ်မှာ ၃၆၅ ရက် ၅ နာရီ ၄၈ မိနစ် ၄၆ စက္ကန့် ဖြစ်သဖြင့် ၁၆ ရာစုနှစ်အတွင်း ၁၅၈၂ ခုနှစ်မတ်လ ၁၁ ရက်ကို ၂၁ ရက်ဟုသတ်မှတ်ပြီးလျှင်၊ ရောမပက္ခဒိန်ကို ထပ်မံပြုပြင်၍ ယခုထက်တိုင် အသုံးပြုနေကြသည်။ နှစ်စဉ် ပြုလုပ်ရမည့် ပက္ခဒိန်တွက်နည်းမှာလည်း ခုနှစ်ကို ၄ နှင့်စားသည့်အခါ အကြွင်းမရှိသော နှစ်များကို ရက်ငင်နှစ်ဟု သတ်မှတ်၍၊ နှစ်ပေါင်း ၁၀၀ (ရာစု) ကျရောက်သောနှစ်များတွင် ရက်တိုးခြင်းမပြုရ။ သို့သော် ခုနှစ်ကို ၄၀၀ နှင့် စားသည့်အခါ၊ အကြွင်းပြတ်လျှင်သာ ရက်ငင်နှစ် ဖြစ်ရမည်ဟု သတ်မှတ်၏။ သို့အတွက် ၁၆၀၀ ပြည့်နှစ်သည် ရက်ငင်နှစ်ဖြစ်၍၊ ၁၇၀၀ ပြည့်နှစ်၊ ၁၈၀၀ ပြည့်နှစ်နှင့် ၁၉၀၀ ပြည့်နှစ်များသည် ရက်ငင်နှစ်များ မဟုတ်ချေ။ သို့သော် ၂၀၀၀ ပြည့်နှစ်သည် ရက်ငင်နှစ်ဖြစ်ရမည်။ ဤပက္ခဒိန်ကို ရောမလက်အောက်ခံ နိုင်ငံများက လက်ခံ အသုံးပြုကြသော်လည်း၊ ဗြိတိန် နိုင်ငံကမူ ၁၇၅၁ ခုနှစ်တွင်သာ လက်ခံ အသုံးပြုခဲ့၏။ ပြင်သစ်နိုင်ငံတွင် ၁၇၉၃ ခုနှစ်မှ ၁၈၀၅ ခုနှစ်အထိ တော်လှန်ရေးပက္ခဒိန်ကို အသုံးပြုခဲ့၏။ တူရကီနှင့် ရုရှနိုင်ငံတို့သည် ဂရက်ဂရီယန်း ပက္ခဒိန်ကို ၁၉၁၇ ခုနှစ်တွင် လက်ခံခဲ့သည်။ ဗော်လကန် နိုင်ငံများကမူ ၁၉၂၃ ခုနှစ်မှသာ လက်ခံခဲ့သည်။

အင်္ဂလိပ်ပက္ခဒိန်ကို စီစဉ်ရာ၌ နေသွားကိုသာ အခြေပြုထားသဖြင့် လထပ်ဟူ၍ မရှိ၊ ရက်ငင်သာရှိ၏။ သို့သော် အရှေ့နိုင်ငံများတွင် ပက္ခဒိန်ကို စီစဉ်ရာ၌ နေသွားလသွားတို့ကို အမှီပြုကာ တွက်ချက်ရသောကြောင့် သာမန်လူများ မတွက်နိုင်ချေ။ နက္ခတ်ပညာ တွက်ကိန်းများ လိုက်စားသူများသာလျှင် တွက်နိုင်၏။ သို့အတွက် မြန်မာပက္ခဒိန်ကို စီစဉ်ရာ၌လည်း လထပ်ရက်ငင်အရေးများ မှန်ကန် ညီညွတ်စေရန်၊ ဗေဒင်ပညာရှိ ပက္ခဒိန်တော်ဆက်အဖွဲ့ကို အစိုးရမင်းတို့က ခန့်အပ်ပြီးလျှင်၊ မှန်ကန်သော ပက္ခဒိန်များကို တွက်ချက်ပြီးမှ ကျေညာ သတ်မှတ်ခဲ့၏။

မြန်မာနိုင်ငံသို့ သူရိယသိဒ္ဓန္တကျမ်းများ မရောက်သေးမီက၊ ပက္ခဒိန်တွက်ချက်ရာ၌၊ မကာရန္တကျမ်း သံဒိဋ္ဌတွက်ရိုးကျမ်းများကိုသာ အသုံးပြုခဲ့ကြ၏။ ယင်းသည့်ကျမ်းများသည်သူရိယသိဒ္ဓန္တကျမ်းကဲ့သို့ တွက်ခြေ၊ ကိန်းခန်း၊ ဂဏန်းများ မမှန်ကန်ချေ။ အကျဉ်းချုံး၍ စီရင်ထားသော တွက်ရိုးကျမ်းများဖြစ်သဖြင့် တိမ်းစောင်းမှားယွင်းခဲ့၏။ သူရိယသိဒ္ဓန္တကျမ်းမှ ကိန်းဂဏန်းများသာလျှင် အခြေခံ သဘောတရားမှန်ကန်သည်ဟု ဆိုရငြားလည်း၊ယခုခေတ်တွင် နက္ခတ်ပညာသည် အနောက်နိုင်ငံများတွင် ပိုမိုထွန်းကားလျက်ရှိပြီးလျှင်၊ လက်တွေ့အားဖြင့်လည်း နက္ခတ်မျှော်စင်၊ မှန်ပြောင်းများဖြင့် လေ့လာနေကြခြင်းကြောင့်၊ အနောက်နိုင်ငံများ၏ ကိန်းခန်းဂဏန်းများကသာလျှင် သာလွန်၍ မှန်ကန်ကြောင်းကို ဝန်ခံရပေမည်။

သူရိယ သိဒ္ဓန္တကျမ်းထွက်အရ၊ ပက္ခဒိန်တွက်ချက်ရာတွင် အခြေပြုသော ကိန်းများမှာ တဖက်ပါအတိုင်း ဖြစ်သည်။

| | | ရက် | နာရီ | မိနစ် | စက္ကန့် |
|---|---|---|---|---|---|
| ၁။ သူရိယမာသနှစ် | တနှစ်လျှင် | ၃၆၅ | ၆ | ၁၂ | ၃၇ |
| ၂။ စန္ဒရမာသလ | တလလျှင် | ၂၉ | ၁၂ | ၄၄ | ၃ |
| ၃။ စန္ဒရမာသနှစ် | တနှစ်လျှင် | ၃၅၄ | ၈ | ၄၈ | ၃၄ |
| ၄။ ဝေါဟာရနှစ် | တနှစ်လျှင် | ၃၅၄ | ၀ | ၀ | ၀ |
| ၅။ အဓိမာသပြို | တကြိမ်လျှင် | ၉၉၀ | ၇ | ၄၅ | ၃၇ |
| ၆။ ရက်ငင်ပြို | တကြိမ်လျှင် | ၁၈၈၃ | ၁၂ | ၃၃ | ၂၀ |
| ၇။ စန္ဒရသံဝစ္ဆရနှစ် | တနှစ်လျှင် | ၃၅၄ | ၄ | ၃၉ | ၁၅ |

မြန်မာပက္ခဒိန်တွင် နှစ် သုံးမျိုးရှိ၏။

| | ရက် | နာရီ | မိနစ် | စက္ကန့် |
|---|---|---|---|---|
| ၁။ သူရိယမာသနှစ် | ၃၆၅ | ၆ | ၁၂ | ၃၇ |
| ၂။ စန္ဒရမာသနှစ် | ၃၅၄ | ၈ | ၄၈ | ၃၄ |
| ၃။ ဝေါဟာရမာသနှစ် | ၃၅၄ | ၀ | ၀ | ၀ |

သူရိယမာသနှစ်သည် ရွှေနှစ် သင်္ကြန်တက်ချိန်မှ နောက်နှစ်သင်္ကြန်တက်ချိန်အထိဖြစ်၏။

စန္ဒရမာသနှစ်သည် ကောင်းကင်မျက်မြင် ရွှေလဆန်းစသည့်နေ့မှ နောက်လဆန်းစသည့်နေ့အထိ တကြိမ်-တကြိမ်၊ အကြိမ်ပေါင်း ၁၂ ကြိမ် ပြည့်ချိန်ဖြစ်၏။

ဝေါဟာရမာသနှစ်မှာ နှစ်မျိုးရှိ၏။ (၁) သာမန်နှစ် (လပေါင်း ၁၂ လ) နှင့် (၂) ဝါထပ်နှစ် (လပေါင်း ၁၃ လ) ဖြစ်၏။ ထိုနောက်တဖန် ဝါထပ်နှစ်များ၌လည်း (က) ဝါငယ်ထပ်နှစ် (၃၈၄ ရက်) နှင့် (ခ) ဝါကြီးထပ်နှစ်၊ တနည်းဆိုရသော် ဝါထပ်ရက်ငင်နှစ် (၃၈၅)ရက် ဟူ၍ နှစ်မျိုးခွဲခြားထား၏။ မြန်မာနိုင်ငံ၌ ရှေးမင်း အဆက်ဆက်မှစ၍ ယနေ့အထိအသုံးပြုသော ပက္ခဒိန်သည် ဝေါဟာရ ပက္ခဒိန်ဖြစ်၍ ယင်းသည့် ပက္ခဒိန်ကို တွက်ချက် စီစဉ်ရာ၌လည်း၊ သူရိယမာသနှစ်၊ စန္ဒရမာသနှစ်၊ ဝေါဟာရမာသနှစ် သုံးပါးလုံးကို ညှိနှိုင်း၍ တွက်ရသည်။

သူရိယမာသနှစ်သည် ဝေါဟာရမာသနှစ်ထက် ၁၁ ရက် ၆ နာရီ ၁၂ မိနစ် ၃၇ စက္ကန့် ပိုနေ၏။ နောက် တနှစ်ကျရောက်သည့်အခါ ၂၂ ရက်ကျော်ပို၍ ၃ နှစ်နီးပါးသို့ရောက်လျှင် ဝေါဟာရမာသ တလ (၃၀ ရက်) ပိုလာ၏။ ထိုသို့ရောက်ပြီးနှစ်၌ ဝေါဟာရမာသ တလတိုးရ၏။ ထိုအခါ၌ အဓိမာသ် လလွန်ပြိုတကြိမ်ဖြစ်၏။ ထိုနှစ်ကို ဝါထပ်နှစ်ဟုခေါ်၏။ လပေါင်း (၁၃)လ ရှိသော နှစ်ဖြစ်၏။ မြန်မာပက္ခဒိန်၏ စည်းကမ်းချက်မှာ ထိုသို့ တိုးသည့် လ သည် ဒုတိယဝါဆိုလဟု သတ်မှတ်ရ၏။ ဤကဲ့သို့ တလတိုးသည့် အတွက် ဆောင်းနွေမိုးစသော ဥတုသုံးပါးတို့၏ အစဉ်အလာ သဘာဝတို့နှင့် ကိုက်ညီမည် ဖြစ်၏။

ဝါကြီးထပ်သောနှစ်သည် အမှန်အားဖြင့် ဝါထပ် + ရက်ငင်နှစ်ဖြစ်၏။ ယင်းသည့်နှစ်၌ ဒုတိယဝါဆိုလ ရှိသည့်အပြင် နယုန်လတွင် ရက်မစုံ ၂၉ ရက်ဖြင့် လက္ခယ် သတ်မှတ်ရမည့်အစား၊ ရက်စုံ ၃၀ ရက်ဖြင့် လက္ခယ် (ရက်ပိုတရက်) သတ်မှတ်ရ၏။ ဗေဒင်စကားအားဖြင့် ရက်ငင်ရက်ခေါ်၏။ ယင်းသည့်ရက် ဖြစ်ပေါ်ခြင်းမှာ စန္ဒရ သံဝစ္ဆရနှစ် တနှစ်လျှင် ၃၅၄ ရက် ၄ နာရီ ၃၉ မိနစ် ၁၅ စက္ကန့်ရှိသည်။ သို့ဖြစ်၍ ဝေါဟာရနှစ်ထက် စန္ဒရသံဝစ္ဆရနှစ်သည် တနှစ်တနှစ်လျှင် ၄ နာရီ ၃၉ မိနစ်၁၅ စက္ကန့်ပိုလွန်၏။ ထိုသို့ ပိုလွန်သောနာရီစသည်တို့သည် အကြင်အခါ၌ ၂၄ နာရီပြည့်၍ တရက်ဖြစ်လာ၏။ ထိုအခါ အဈာဟ ရက်လွန် တကြိမ်ပြိုသည်ဖြစ်၍၊ သင့်လျော်သော ဝါထပ်နှစ်၌ နယုန်လတွင် တရက်တိုး၍၊ ဝါကြီးထပ်ခြင်းအမှုကိုပြုကြ၏။

မြန်မာပက္ခဒိန်၌ ဝါကြီးထပ်သောနှစ်သည် အရေးကြီး၏။ တနည်းကား ရက်ငင်ခြင်းသည် အရေးကြီး၏။ ရက်ငင်ခြင်း၏ ဥပဒေသများမှာ

(၁) ဒုတိယဝါဆိုလပြည့်နေ့တွင် တိထိ ၁၅ လုံးပြည့်လျှင် ရက်မငင်ရ။ မပြည့်လျှင် ရက်ငင်ရမည်။

(၂) ဒုတိယ ဝါဆို လပြည့်နေ့တွင်၊ ပုဗ္ဗါသဠ်၊ ဥတ္တရာသဠ် နက္ခတ်တလုံးလုံးနှင့် စန်းယှဉ်ရမည်။

ရှေးပဝေဏီအခါက ဝါထပ်ရက်ငင် ပြဿနာကို ၁၉ ခု စားကိန်းကို အခြေပြု၍ ဆုံးဖြတ်ကြ၏။ ၁၉ ခု စားကိန်းသည် သက္ကရာဇ်ကိုတည်၍ ၁၉ ခုနှင့် စားသည့်အခါ အကြွင်း ၂၊ ၅၊ ၇၊ ၁၀၊ ၁၃၊ ၁၅၊ ၁၈ ရသော နှစ်များသည် ဝါထပ်နှစ်များဖြစ်ကြ၏။

ထိုကိန်းဖြင့် မြန်မာ ၁၂၁၆ ခုနှစ်အထိ လထပ်ကိန်းများ ပြုလုပ်ခဲ့၏။ သို့သော် မြန်မာ ၁၂၁၈ ခုနှစ်သည် မူလကိန်းအရ၊ နှစ်ခုကြွင်းဖြစ်၍၊ လထပ်ရမည် ဖြစ်သော်လည်း၊ ညောင်ကန်ဆရာတော် အဆုံးအဖြတ်ဖြင့် မြန်မာ ၁၂၁၇ ခုနှစ်တွင် အဓိမာသပြိုကိန်းအရ၊ လထပ်ခဲ့၏။ ထိုအချိန်မှစ၍ ၁၉ ခု စားကြွင်းများဖြစ်သည့် ၁၊၄၊၇၊၁၀၊၁၂၊၁၅၊၁၈ တို့ အသီးအသီးရသော နှစ်များတို့ကို ဝါထပ်နှစ်များအဖြစ် မြန်မာ ၁၂၇၃ ခုနှစ်အထိ ဆုံးဖြတ်ခဲ့၏။ တဖန်မြန်မာ ၁၂၇၄ ခုနှစ်မှ ၁၃၁၁ ခုနှစ်အထိ စားကြွင်း ၁၊၄၊၇၊၉၊၁၂၊၁၅၊၁၈ တို့အသီးအသီးရသောနှစ်များကို ဝါထပ်နှစ်များအဖြစ် သတ်မှတ်ခဲ့၏။ မြန်မာ ၁၃၁၂ ခုနှစ်မှစ၍ စားကြွင်း ၁၊၄၊၆၊၉၊ ၁၂၊၁၅၊ ၁၇ တို့ အသီးအသီး ရသော နှစ်များတွင် ဝါထပ်၏။

၁၉ ခု စားကိန်းသည် သူရိယ သိဒ္ဓန္တကျမ်း၏ကိန်းများကို အခြေခံထား၍ ပက္ခဒိန် တွက်ရာ၌ မှတ်သားလွယ်ကူစေရန် ဖော်ပြသော ကိန်းဖြစ်၏။

| | ရက် | နာရီ | မိနစ် | စက္ကန့် |
|---|---|---|---|---|
| သူရိယမာသနှစ် ၁၉ နှစ်တွင် | ၆၉၃၉ | ၂၁ | ၅၉ | ၃၃ |
| စန္ဒရမာသလပေါင်း ၂၃၅ လတွင် | ၆၉၃၉ | ၁၆ | ၃၀ | ၅၇ |
| ဝေါဟာရမာသနှစ်ပေါင်း ၁၉ နှစ်တွင် | | | | |

သာမန်နှစ် ၁၂ × ၃၅၄ = ၄၂၄၈ ရက်ပေါင်း
ဝါထပ်နှစ် ၇ × ၃၈၄ = ၂၆၈၈ ရက်ပေါင်း
၆၉၃၆
ရက်လို ၃
၆၉၃၉ ရက်ပေါင်း

ဝေါဟာရမာသသည် စန္ဒရမာသနှင့် ညီညွတ်ရန် ၁၉ နှစ်တွင် ၃ ရက် ၁၆ နာရီ ၃၀ မိနစ် ၅၇ စက္ကန့် 'ရက်ငင်' အဖြစ် ရက်ဖြည့်ရမည်။

| | | | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|---|
| ၁၉ နှစ်တကြိမ် | = | ၁၉ နှစ်တွင် | ၃ ရက် | | ၁၆ နာရီ | | ၃၀ မိနစ် | | ၅၇ စက္ကန့် | | |
| ။ ။ ၂ ။ | = | ၃၈ | ။ | ၇ | ။ | ၉ | ။ | ၁ | ။ | ၅၄ | ။ |
| ။ ။ ၃ ။ | = | ၅၉ | ။ | ၁၁ | ။ | ၁ | ။ | ၃၂ | ။ | ၅၁ | ။ |
| ။ ။ ၄ ။ | = | ၇၆ | ။ | ၁၄ | ။ | ၁၈ | ။ | ၃ | ။ | ၅၈ | ။ |

စီစဉ်ပြီးခဲ့သော မြန်မာပက္ခဒိန်တွင်

မြန်မာ ၁၁၆၀ ပြည့်နှစ်မှ ၁၂၃၅ ခုနှစ်အထိ နှစ်ပေါင်း ၇၆ နှစ်တွင် ဝါကြီးထပ်နှစ် ၁၆ ကြိမ်ဖြစ်၍၊ တကြိမ်ပို၏။ သို့သော် မြန်မာ ၁၂၃၆ ခုနှစ်မှ ၁၃၁၁ ခုနှစ်အထိ နှစ်ပေါင်း ၇၆ နှစ်တွင် ဝါကြီးထပ်နှစ် ၁၄ ကြိမ်သာ သတ်မှတ်ခဲ့၏။ ထိုသို့ မြန်မာ ၁၁၆၀ ပြည့်နှစ်မှ ၁၃၁၁ ခုနှစ်အထိ နှစ်ပေါင်း ၁၅၂ နှစ်တွင် ဝါကြီးထပ် နှစ်ပေါင်း ၃၀ ကြိမ် သတ်မှတ်ခဲ့ခြင်းဖြင့် ဒုတိယပိုင်းတွင် အမှားကို ပြုပြင်ခဲ့၏။ သို့အတွက် ၁၉ ခုစားကိန်းဖြင့် ရက်ငင်ပြိုကြိမ်များကို ထိန်းသိမ်းနိုင်၏။ ထိုကိန်းသည် အခြေခံရှိသဖြင့် မပယ်အပ်ပေ။

မြန်မာပြက္ခဒိန်၏ နှစ်အပိုင်းအခြားနှင့် အနောက် နိုင်ငံပက္ခဒိန်၏နှစ်အပိုင်းအခြားသည် မူအားဖြင့် အတူတူဖြစ်၏။ နေသွားကို အမှီ ပြုထားကြသည်။ သို့အတွက် နှစ်ဆန်း သင်္ကြန်တက်ရက်များသည် အနောက်နိုင်ငံသုံး ပက္ခဒိန်နှင့် ကိုက်ညီသလို ဖြစ်နေသည်။ သင်္ကြန်ကျသောအချိန်သည် သူရိယသိဒ္ဓန္တကျမ်းအရ၊ ရဝိဖုဒ္ဓခေါ် တနင်္ဂနွေဂြိုဟ်စဉ် အံသာ သုည၊ မိဿ ရာသီသို့ ဝင်ချိန်ဖြစ်၏။ သင်္ကြန် တက်သော အချိန်သည် ရဝိမချခေါ် တနင်္ဂနွေဂြိုဟ်၏ မချအံသာသုည၊ မိဿ ရာသီသို့ ဝင်ချိန်ဖြစ်၏။ (သင်္ကြန် — ရှု။) ယခုအခါ သင်္ကြန်ကျသောအချိန်နှင့် သင်္ကြန်တက်သော အချိန်သည် ၂ ရက် ၄ နာရီ ၄ မိနစ် ၄၀ စက္ကန့် ကွာခြားသော်လည်း၊ နောင်ကာလ ကြာရှည်သည့်အခါ၊ သင်္ကြန် တက်ချိန်နှင့် ကျချိန်သည် လျော့သည်ထက် လျော့သွားမည်။

သူရိယသိဒ္ဓန္တကျမ်းအရ၊ နေသွားနှစ်ကာလအပိုင်းအခြားနှင့် အနောက်နိုင်ငံ ပက္ခဒိန်တွင် အသုံးပြုသော ရာသီနှစ်၏ ကာလအပိုင်းအခြားများမှာ အောက်ပါအတိုင်း ဖြစ်သည်။

သူရိယသိဒ္ဓန္တကျမ်း။ ။၃၆၅ ရက် ၆ နာရီ ၁၂ မိနစ် ၃၇ စက္ကန့်။ အနောက်တိုင်းရာသီနှစ်။ ။၃၆၅ ရက် ၅ နာရီ ၄၈ မိနစ် ၄၆ စက္ကန့်။ နှစ်ပေါင်း ၆၀ နှင့် ၁၄၄ ရက်ခန့်တွင် တရက်ကွာသည်ကို တွေ့ရမည်။ သို့အတွက် လွန်ခဲ့သော နှစ်ပေါင်း ၅၀၀၀ ကျော် ဘီစီ ၃၀၀၀ နှစ်တွင် ဖေဖွာရီလ ၁၈ နေ့ရက်တွင် သင်္ကြန်တက်၍၊ လွန်ခဲ့သော နှစ်ပေါင်း ၁၀၀၀ ကျော် အခါက ပြေီလ ၁၃ ရက်နေ့တွင် သင်္ကြန်တက်၏။ မြန်မာ သက္ကရာဇ် ၁၂၈၁ ခုနှစ်မှစ၍ ဧပြီလ ၁၆ ရက်နေ့တွင်သင်္ကြန် တက်ခဲ့၏။ သို့သော် ၃ နှစ်တကြိမ် ၂ နှစ် တကြိမ်သာ တိုက်ဆိုင်ခဲ့၏။ အများအားဖြင့် ဧပြီလ ၁၅ ရက်နေ့တွင် သင်္ကြန် တက်ခဲ့၏။ မြန်မာသက္ကရာဇ် ၁၃၆၃ ခုနှစ်၊ ခရစ်နှစ် ၂၀၀၀ မှစ၍နှစ်စဉ် ဧပြီလ ၁၆ရက်နေ့သည် နှစ်ပေါင်း ၃၀ ခန့်သင်္ကြန် တက်နေ့ ဖြစ်မည်။ မြန်မာပက္ခဒိန်၏ နှစ်ဆန်းတရက်မှာ သာမန်နှစ်၏ တန်ခူးလဆန်း တရက်နေ့မဟုတ်ဘဲ၊ သင်္ကြန် တက်ပြီး နောက်တနေ့သာလျှင် နှစ်ဆန်းရက်ဖြစ်၍၊ ဗေဒင်လောကတွင် အသုံးပြုသော သုဒ္ဓဒိန် တရက်နေ့ ဖြစ်၏။ သာမန်အားဖြင့် တန်ခူးလသည် နှစ်၏ ပဌမလ ဖြစ်သော်လည်း၊ နှစ်ဆန်းမတိုင်မီ ရက်များမှာ နှောင်းတန်ခူးလ၏ ရက်များဖြစ်၍ နှစ်ဆန်းပြီး နောက်ရက်များမှာ ဦးတန်ခူးလ ၏ ရက်များအဖြစ် အမှတ်အသားပြုကြ၏။ ဦးအုန်းကြိုင်

**ပက်ထရယ်ငှက်။** ။ပက်ထရယ်ငှက်သည်'ပရေဆလယ်ရီ အီဖောမီး' မျိုးစဉ်နှင့် 'ဟိုက်ဒရိုဗက်တီးဒီး' မျိုးရင်းဝင်ငှက် ဖြစ်သည်။ ထိုငှက်ကို ကမ္ဘာ့မြောက်ဖက်လုံးခြမ်းနှင့်တောင်ဖက်လုံးခြမ်းတို့တွင် တွေ့ရသည်။ သို့သော်တောင်ပိုင်းဒေသတို့၌အနေများသည်။ပက်ထရယ်ဟူသောအမည်သည် သမ္မာကျမ်းစာတွင်လာသော ရေပြင်ပေါ်၌ လမ်းလျှောက်သူ ပီတာကိုအစွဲပြု၍ ခေါ်သော အမည်ဖြစ်သည်။ ပက်ထရယ်ငှက်သည် ရေပြင်ပေါ်တွင် လျင်မြန်စွာ ရှပ်၍ပျံသန်းသည့်အခါ၊ ရေပြင်ပေါ်၌ လမ်းလျှောက်သည်နှင့် တူလေသည်။ ပက်ထရယ်ငှက်၌ ပြွန်သဏ္ဍာန်နှာခေါင်းများ ပါသဖြင့် ထူးခြားသည်။

ပက်ထရယ်ငှက်သည် ပင်လယ်ဇင်ယော်နှင့် မျိုးစဉ်အတူတူဖြစ်သည်။ ဝမ်းဘဲမှာကဲ့သို့ အရေပြားဆက်စပ်လျက်ရှိသောခြေချောင်းများရှိသည်။ အတောင်သည် ရှည်၍ချွန်၏။ အမြီးတို၏။ အမြီးတွင် ငှက်တောင် ၁၄ ခု၊ သို့မဟုတ် ၁၆ ခုရှိသည်။ အမွေးအတောင်တို့သည် သိပ်သည်း၍ ဆီများခြင်းကြောင့်၊ ရေဒဏ်ကို ကြံ့ကြံ့ ခံနိုင်သည်။ ပက်ထရယ်ငှက်သည် သားပေါက်ချိန်ကျမှသာ ကုန်းပေါ်သို့ တက်သည်။ လေမုန်တိုင်းကြီးများ ပြင်းထန်စွာ ကျရောက်နေသည့် အခါ၌ပင်၊ ပင်လယ်၌နေသည်။ ပက်ထရယ်ငှက် မျိုးစိတ်ပေါင်း ၇၅ ခုမျှရှိသည်။ ယင်းတို့သည် ရေသတ္တဝါငယ်များနှင့် သင်္ဘောတို့မှ စွန့်ပစ်သမျှသော အစာတို့ကို စားသောက်သည်။ အထူးသဖြင့် အဆီ၊ သို့မဟုတ် အမဲဆီကို အလွန်နှစ်သက်ပုံရပြီးလျှင်၊ ထိုအစာအတွက် သင်္ဘောများ၊

နောက်မှ ရက်ပေါင်းများစွာ ဆက်တိုက်လိုက်၍ နေတတ်သည်။ ပက်ထရယ်ငှက်သည် ဒေါသထွက်လာလျှင် အလွန်နံစော်သောဆီကဲ့သို့ အရည်ကို အန်ထုတ်တတ်သည်။

ပက်ထရယ်ငှက်တို့သည် ပင်လယ်နှင့် စပ်လျက်ရှိသော ဒေသတို့တွင် အများအပြား သားပေါက်ကြသည်။ အသိုက်တို့ကို ကျောက်ဆောင်မျက်နှာစာရှိ တွင်းများတွင် ပြုလုပ်လေ့ရှိ၏။ ယင်းတို့သည် ကိုယ်တိုင်တူးသော မြေတွင်းများတွင်ဖြစ်စေ၊ ယုန်နှင့် အခြားမြေအောင်းတိရစ္ဆာန်တို့ တူးထားခဲ့သည့်မြေတွင်းများတွင်ဖြစ်စေ အသိုက်များ ပြုလုပ်ကြသည်။ မြေမာ၍ တွင်းအတူးရခက်သော နေရာတို့တွင် ပက်ထရယ် ငှက်မများသည် မြေတွင်းတတွင်းတည်းမှာပင် ဥများကို အုကြသည်။ ငှက်မသည် ဥတလုံးကိုသာအု၏။ နေ့အခါတွင် ပက်ထရယ်ငှက်တို့ကို ပင်လယ်ကမ်းရိုးအနီးတွင် တခါတရံမျှသာ မြင်ရသည်။ များသောအားဖြင့် နေ့အခါ၌ အသိုက်တွင် အောင်း၍ ညဉ့်အခါတွင်မှ အစာရှာထွက်ကြသည်။ ပျံသန်းရာ၌ အလွန်လျင်မြန်၏။ အစာနောက်သို့ လိုက်သောအခါ၊ ရေနှင့်ကပ်၍ အတောင်ကိုဖြန့်ကာဝဲတတ်သည်။ထိုအခါ ရေပြင်တွင် လမ်းလျှောက်ပြေးသွားနေသည်ဟုထင်မြင်ရလေသည်။

ပက်ထရယ်ငှက်မျိုးတွင် အကြီးဆုံးငှက်သည် တောင်ပိုင်းပင်လယ်ရှိ ဖူးလမား ငှက်ကြီးဖြစ်သည်။ ထိုငှက်သည် အတောင်ကို ဖြန့်လိုက်လျှင် ၆ ပေမှ ၇ ပေထိ ရှည်သည်။ မြောက်ပိုင်းပင်လယ်ပြင်များတွင်မူ အကြီးဆုံး ပက်ထရယ်ငှက်မျိုးသည် ဖူးလမား ပက်ထရယ်ငှက်ဖြစ်သည်။ အလျားမှာလက်မ ၂၀ ခန့်ရှိသည်။ ထိုငှက်သည် အရပ်ရပ်သို့ လှည့်လည် ကျက်စားတတ်သည်။ ထိုမြောက်ပိုင်း ပင်လယ်တွင် ပက်ထရက်ငှက် စစ်စစ်မျိုးစိတ်ပေါင်း ၁၅ ခုရှိ၏။ ဗြိတိသျှပိုင် ပင်လယ် ဒေသတို့တွင် ကျက်စားသည့် ပက်ထရယ်ငှက်များအနက် မုန်တိုင်း ပက်ထရယ်ငှက်သည် အများဆုံးဖြစ်သည်။ ထိုပက်ထရယ် ငှက်မျိုးသည် ပျံလွှားငှက်နှင့် ခပ်ဆင်ဆင်တူပြီးလျှင် အရှည် ၅ လက်မခွဲခန့်ရှိသည်။ ယင်းသည် အမည်းရောင်ဖြစ်၍၊ အမြီးရှေ့တွင်အဖြူကွက်ရှိသည်။ အများအားဖြင့် စကော့တလန်နှင့် အိုင်ယာလန်တို့တွင်သားပေါက်သည်။ စကော့တလန်၏ ကျောက်ဆောင်ပေါများသော ကမ်းရိုးတန်းတလျှောက်တွင် တွေ့ရသည့် အခြားပက်ထရယ်ငှက်မျိုးမှာ ဖူးလမား ပက်ထရယ် ငှက်မျိုးဖြစ်သည်။ ယင်းသည် အရွယ်အလတ်စားဖြစ်ပြီးလျှင် ဇင်ယော်နှင့်ခပ်ဆင်ဆင်တူသည်။အရောင်မှာ မွဲပြာရောင်နှင့်အဖြူဖြစ်သည်။ အနောက်တိုင်းသားတို့သည် ပက်ထရယ်ငှက်ကိုတွေ့ရလျှင် မုန်တိုင်းကျတတ်သည်ဟု အယူရှိသည်။

မြောက်အတ္တလန္တိတ် ကမ်းရိုးတန်း၌ အထင်ရှားဆုံး ပက်ထရယ် ငှက်မျိုးမှာ လိပက်ထရယ်ငှက်ဖြစ်၍၊ လှပသော ငှက်ငယ်ဖြစ်သည်။ ကိုယ်ထည်အရောင်မှာ မည်းပြီးလျှင် တင်ပိုင်းဖြူသည်။ တင်ပိုင်းဖြင့် ရေပေါ်တွင် ရှပ်၍သွားသည်။ ထိုငှက်သည် ၆ လက်မ မျှပင် မရှိတတ်သဖြင့် ရေငှက်တို့တွင် အငယ်ဆုံးငှက်မျိုးဖြစ်သည်။ ထိုငှက်တို့သားပေါက်



ပက်ထရယ်ငှက်မျိုးတွင် ပျံလွှားငှက်နှင့် ဆင်တူသည့်မုန်တိုင်းပက်ထရယ်ငှက်မောင်နှံ

ရာဒေသမှာ ဂရင်းလန်းနှင့် အိုက်စလန်ကျွန်းတို့မှသည် ကနေဒါနိုင်ငံရှိ ဖန်ဒီ ပင်လယ်အော်မှ ကျွန်းအထိရှိသော ဒေသဖြစ်သည်။

ဝိလဆန် ပက်ထရယ်ငှက်သည် စစ်တလိုင်းငှက်ခြေထောက်များနှင့်တူသော ခြေထောက်များရှိသောကြောင့် ထင်ရှား၏။ ထိုငှက်သည် ရေအလွန်နက်သော ပင်လယ်တွင် အနှံ့အပြား ကျက်စားလေ့ရှိ၏။ ထိုပက်ထရယ် ငှက်မျိုးသည် အန္တာတိတ်ဒေသတွင် အသိုက်ပြုလုပ်သည်။ သို့သော် ဆောင်းဝင်လာလျှင်၊ မြောက်ဖက် ကမ္ဘာလုံးခြမ်းသို့ ပျံသန်းသွားကြသည်။ ယင်း၏ အမွေးတို့သည် မှိုင်းကဲ့သို့ မည်းသောအရောင်၊ မွဲပြာရောင်နှင့် အဖြူရောင် အရောဖြစ်သည်။ ခြေထောက်နှင့် နှုတ်သီးတို့သည် မည်း၏။ ခြေချောင်းများတွင် အရေပြားကြက်လျက်ရှိသည်။ အတောင်မှာ ၁၆ လက်မခန့်ရှည်ပြီးလျှင်၊ ခြေတံလည်းရှည်သဖြင့် အပြင်ပန်းကိုကြည့်လျှင် ကြီးပုံရသည်။ ရေငုပ်ပက်ထရယ်ငှက်သည် ထူးခြားသည့် ငှက်မျိုး ဖြစ်၍၊ 'ပယ်လီကနွိုက်ဒီဒီး' မျိုးရင်းတွင် ပါဝင်သည်။ ထိုငှက်မျိုးသည် ၇ လက်မမှ ၉ လက်မထိရှည်၏။ ဩစတြေးလီးယားနှင့် နယူးဇီလန်အနီးရှိ ရေပြင်တွင် ကျက်စားသည်။ ရေငုပ်ရာတွင် အလွန်လျင်မြန်သဖြင့် ထင်ရှားလေသည်။

ပက်ပဆင်ဝမ်းမီး။ ။အစာအိမ်အတွင်းရှိအစာကိုချေရာ၌ အရေးအကြီးဆုံးပြုပြင်ပေးသော ပစ္စည်းများတွင် ပက်ပဆင်ဝမ်းမီးသည် တခုအပါအဝင်ဖြစ်သည်။ ယင်းသည် အစာအိမ်ရည်တွင်ပါသည့် အင်ဇိုင်းခေါ် ဖောက်ဓာတ်ဖြစ်သည်။

အစာထဲ၌ပါသော ပရိုတင်းတို့ကို ပက်ပဆင်ဝမ်းမီးက ချေလိုက်သည့်အခါ ပက်ပတုန်းအဖြစ်သို့ ပြောင်းလဲသွားသည်။ ပက်ပဆင်ဝမ်းမီး၌ပါဝင်သော ဓာတ်ပစ္စည်းတို့သည် တံထွေးအင်ဇိုင်း၌ ပါဝင်သော ဓာတ်ပစ္စည်းတို့နှင့် အတော်အတန်ဆင်တူလေသည်။ သို့သော် အကျိုးသက်ရောက်ပုံ၌ကား လုံးဝမတူကြချေ။ ယင်းသည် အားပျော့သော အက်ဆစ်နှင့်ပေါင်းမိလျှင် ဓာတ်ပြောင်းလဲမှုကို ဖြစ်စေလေသည်။ ပက်ပဆင်ဝမ်းမီးသည် အဆီဘို့တွင်ရင်း၊ ကာဗိုဟိုက်ဒရိတ်တို့တွင်ရင်း အကျိုးမသက်ရောက်နိုင်ချေ။

ဝက်၊ သိုးနှင့် ကျွဲနွားတိရစ္ဆာန်တို့၏ ကျိချွဲမြေးအတွင်းသားတို့ကို အခြောက်ခံခြင်းဖြင့် ပက်ပဆင်ဝမ်းမီးကို ထုတ်လုပ်ယူကြသည်။ ဈေးတန်း ပက်ပဆင်ဝမ်းမီး အမျိုးမျိုးရှိသည်။ ယင်းတို့သည် ဝါကျင့်ကျင့်အမှုန့်ဖြစ်သည်။

ပက်ပဆင် ဝမ်းမီးသည် အယ်လကာလီနှင့်တွေ့လျှင် သတ္တိပျက်ကာ ထိုနောက် တဖြည်းဖြည်းမှ ပြန်ကောင်းလာသည်။ အပူချိန် ဖာရင်ဟိုက် ဒီဂရီ ၂၀၀ ရှိသော အခါတွင်လည်း သတ္တိပျက်သွားတတ်သည်။ ပက်ပဆင် ဝမ်းမီး၏ ချေဖျက်မှုစွမ်းအားသည် ကြီးမားလှလေသည်။ မှုမှန်အစာချေသည့် လုပ်ငန်းတွင် ပက်ပဆင်ဝမ်းမီး ၁ ဂရိန်သည် စုခဲလျက်ရှိသော အယ်လဗျူမင် ဂရိန် ၃၀၀၀ ကို ချေဖျက်နိုင်လေသည်။ အချို့ပညာရှင်တို့က ပက်ပဆင်ဝမ်းမီးသည် အစာချေသည့် လုပ်ငန်းကို ဆောင်ရွက်ရာ၌ မိမိ၏ သတ္တိကို မပျက်စီးစေဘဲ တည်တံ့အောင် ထိန်းထားနိုင်သည်ဟု ယုံကြည်ကြသည်။ အစာကြေစေသည့် ဆေးများတွင် ပက်ပဆင် ဝမ်းမီးကို အများ အားဖြင့် အသုံးပြုကြ၏။ ပက်ပဆင်ဝမ်းမီးကို ပုံဆောင်ခဲအသွင်ဖြင့် ခွဲထုတ်ယူနိုင်သော်လည်းဓာတ်သဘောအရ အတိအကျ ပါဝင်နေပုံကိုကား မသိနိုင်ချေ။

ပေါက်ကွဲစရာပစ္စည်း။ ။အချို့သောဝတ္ထုပစ္စည်းတို့သည် မီးအပူကြောင့်သော်ရင်း၊ အပြင်းအထန် ထိတွေ့မှုကြောင့်သော်ရင်း ပေါက်ကွဲတတ်သည်။ ပုံစံအားဖြင့် မီးအိုးသည် မီးရှို့လျှင် ပေါက်ကွဲသည်။ ဗျောက်အိုးသည် ပြင်းထန်စွာ ထိခိုက်ခြင်းခံရလျှင် ပေါက်ကွဲသည်။ ထိုသို့ပေါက်ကွဲခြင်းမှာ ယမ်း၏သတ္တိကြောင့် ဖြစ်သည်။ ထိုသို့ ပေါက်ကွဲစေအောင် ဖန်တီးသော ပစ္စည်းတို့သည် ပေါက်ကွဲစရာ ပစ္စည်းများဖြစ်လေသည်။ မီးအိုးကိုဖောက်လိုက်သောအခါ မီးအိုး၌ ပါဝင်သော အရည်နှင့် အစိုင်အခဲတို့သည် အခိုးအငွေ့ ဖြစ်သွားသည်။ ရူပဗေဒ သဘော၌ အခိုးအငွေ့ဟူသည် အရည်နှင့်အစိုင်အခဲထက် ပိုမိုကျယ်ပြန့်သော နေရာကို ယူတတ်ကြောင်း ကျွန်ုပ်တို့ သိကြသည်။ ထိုကြောင့် အရည်နှင့် အစိုင်အခဲမှ ဓာတ်ငွေ့များ ရုတ်တရက် ဖြစ်ပေါ်လာသည့်အခါ၊ ထိုဓာတ်ငွေ့တို့သည် ပတ်ဝန်းကျင်သို့ အပြင်းအထန် ပြန့်နှံ့သွားလေရာ၊ ထိုဓာတ်ငွေ့တို့က ပတ်ဝန်းကျင်ကို ဖိသော အားကြောင့် ပေါက်ကွဲခြင်း တည်းဟူသော သဘာဝ ဖြစ်ပေါ် လာလေသည်။ ပေါက်ကွဲမှုကြောင့် အပူဓာတ်လည်းဖြစ်လာသည်။ အပူဓာတ်ကြောင့် ပတ်ဝန်းကျင်လေသည်တုန်ခါ၍ လှိုင်းထလာသည်။ ဤသည်ပင်လျှင် အသံဖြစ်ပေါ်လာရသော အကြောင်းဖြစ်သည်။ ထိုကြောင့် ပေါက်ကွဲရာ၌ အပူဓာတ်ဖြစ်၍ အသံမြည်၏။ စင်စစ် ပေါက်ကွဲခြင်း ဟူသည်မှာ ပြင်းထန်စွာ မီးလောင်ခြင်းပင် ဖြစ်၏။

ပေါက်ကွဲစရာ ပစ္စည်းတို့ကို တောင်ကိုထွင်း၍ ဥမင်လိုဏ်ခေါင်းများ ဖောက်ရာ၌ရင်း၊ ကျောက်ဆောင်များကို ဖြိုရာ၌ရင်း၊ သတ္တုတွင်းတူးရာ၌ရင်း အသုံးပြုကြသည်။ စစ်မက်ပစ္စည်းအဖြစ်ဖြင့် ရန်သူတို့၏ စခန်းများကို ဖြိုဖျက်သော ဗုံးလက်နက်ပြုလုပ်ရန်လည်း အသုံးပြုကြသည်။

ပေါက်ကွဲစရာ ပစ္စည်းတို့တွင် မပြင်းထန်သောပစ္စည်း၊ ပြင်းထန်သော ပစ္စည်းဟူ၍ရှိသည်။ မပြင်းထန်သောပေါက်ကွဲစရာပစ္စည်း၌ အစိုင်အခဲမှ ဓာတ်ငွေ့ဖြစ်သည်မှာ အလွန်နှေးသည်။ ယမ်းသည် မပြင်းထန်သောပေါက်ကွဲစရာပစ္စည်း

ဖြစ်သည်။ ယမ်းပေါက်ကွဲသည့် အရှိန်မှာ တစက္ကန့်လျှင် ပေ ပေါင်း ၉၇၅ ပေမျှသာ ရွေ့လျားနိုင်သော အရှိန် ရှိသည်။ ပြင်းထန်သော ပေါက်ကွဲစရာပစ္စည်း၏ ပေါက်ကွဲသော အရှိန်မှာ တစက္ကန့်လျှင် ၄ မိုင် နှုန်းမျှ ဖြစ်သည်။

မပြင်းထန်သော ပေါက်ကွဲစရာပစ္စည်း၏ အရှိန်သည် ထို ပစ္စည်း၌ပါဝင်သော အမှုန်၏ ပမာဏကို အမှီပြုသည်။ အမှုန့်တို့ ငယ်လျှင် ပေါက်ကွဲခြင်း ပြင်းထန်၍ ကြီးလျှင်ပေါက်ကွဲခြင်း မပြင်းထန်ချေ။ ယမ်းမှုန့်တို့သည် အရွယ်အမျိုးမျိုး ရှိသည်။ တလက်မ၏ ၅၀ ပုံတပုံ အရွယ်မှသည် ၁၀ ပုံ ၁ ပုံ အရွယ်အထိရှိ၏။ပြင်းထန်သောပေါက်ကွဲစရာပစ္စည်း၌ ယမ်းမှုန့်တို့၏ အရွယ်ပမာဏသည် အရေးမဟုတ်၊ ထိုယမ်းမှုန့်တို့ကို သိပ်သည်းစွာ ထည့်ထားနိုင်ပါက ပေါက်ကွဲမှု ပြင်းထန်သည်။ သိပ်သည်းမှု နည်းပါးလျှင် မပြင်းထန်ချေ။ (ယမ်း — ရှု။)

မပြင်းထန်သော ပေါက်ကွဲစရာပစ္စည်းဖြစ်သည့် ယမ်းလုပ်နည်းကို ၁၃ ရာစုနှစ်အတွင်း၌ ရော်ဂျာဗေကောင်ဆိုသူက စ တင်၍ တွေ့ရှိသည်ဟုဆိုကြသည်။ သို့သော် အချို့ကလည်း တရုပ်လူမျိုးတို့သည် ယမ်းလုပ်နည်းကို ရော်ဂျာဗေကောင်ထက် နှစ်ပေါင်းများစွာစော၍ တွေ့ရှိသည်ဟု ဆိုသည်။ မီးသွေး၊ ကန့်နှင့် ယမ်းစိမ်းတို့ကို ဖော်စပ်၍ ယမ်းလုပ်ရသည်။ ယမ်းစိမ်းတွင် တည်ငြိမ်ခြင်းမရှိသော နိုက်ထရိုဂျင်ပါသည်။ ထိုယမ်းပေါက်ကွဲရာ၌ မီးသွေးနှင့်ကန့်တို့ကြောင့် မီးတောက်သည်။ မီးခိုး ထွက်သည်။ ဓာတ်ငွေ့တို့သည် တစက္ကန့်လျှင် ပေ ၁၀၀၀ နှုန်းဖြင့်ပြန့်ထွက်သည်။ ထို့ကြောင့် ယမ်းသည် မီးခိုးထွက်လွန်း၍ မီးအလောင်နှေးသည်ဟု ယူဆကြရသည်။ သို့ဖြစ်၍ သိပ္ပံပညာရှင်တို့သည် မီးခိုးမထွက်ဘဲ အလွန်ပြင်းထန်စွာ ပေါက်ကွဲနိုင်သော ပစ္စည်းကို ရှာကြံကြလေရာ၊တစတစနှင့် အောင်မြင်ခဲ့သည်။ယင်းပညာရှင်တို့ ရှာကြံ၍ အဆင့်ဆင့်တွေ့ရှိကြပုံမှာ အောက်ပါအတိုင်းဖြစ်သည်။

၁၈၄၅ ခုနှစ်တွင် ဂျာမန် ဓာတုဗေဒ ပါမောက္ခ ရှုအင်ဗိုင်းသည် ဆာလဖျူရစ်နှင့် နိုက်ထရစ်အက်ဆစ် နှစ်မျိုး စပ်ထားသည့် ဓာတ်ရည်တွင် ဂွမ်းကို စိမ်ပေးခြင်းအားဖြင့် ဂန်းကော်တွန်ဟု ခေါ်ဝေါ်သော ဆဲလျူလိုနိုက်ထရိတ်တမျိုးကို ပြုလုပ်နိုင်ခဲ့သည်။ဂန်းကော်တွန်ကို ရိုးရိုးမီးရှို့လျှင် ရိုးရိုးပင် မီးလောင်သည်။ သို့သော် ယင်းကို သိပ်သည်းစွာ ထား၍ မီးရှို့လျှင် ပြင်းထန်စွာပေါက်ကွဲတတ်သည်။

၁၈၄၇ ခုနှစ်တွင် ဣတာလျံ ဓာတုဗေဒပညာရှင် အာစကားညိုဆိုဗရိုးသည် နိုက်ထရို ဂလစ်ဆရင်း ပြုလုပ်နည်းကို တွေ့ရှိသည်။ ထိုနိုက်ထရို ဂလစ်ဆရင်း၌ တည်ငြိမ်မှု မရှိသော နိုက်ထရိုဂျင် ပါဝင်သဖြင့် ထိရုံမျှနှင့် ပေါက်ကွဲနိုင်သော သတ္တိရှိသည်။ ၁၈၆၄ ခုနှစ်တွင် နိုဗဲသည် ဒိုင်းနမိုက်ကို ဖော်စပ် နိုင်ခဲ့သည်။ (နိုဗဲ၊ အဲလဖရက်။ ဒိုင်းနမိုက် — ရှု။) ထိုအချိန်ခန့်တွင် ပရပ်ရှင်းတို့သည် မီးခိုး မထွက်သော ယမ်းကို တီထွင်ခဲ့ကြသည်။ စစ်အတွင်းအသုံးချနိုင်လောက်အောင် ကောင်းမွန်သော မီးခိုးမထွက်သည့် ယမ်းကိုမူ၊ ၁၈၈၆ ခုနှစ်၌ ပြင်သစ်လူမျိုးတဦးက ဖော်စပ်ခဲ့သည်။ နိုဗဲပင်လျှင် ၁၈၈၇ ခုနှစ်တွင် ထိုယမ်းမျိုးကို တီထွင်ခဲ့သေး၏။ နောင် နှစ် အနည်းငယ်ခန့် ကြာသောအခါ ဗြိတိသျှတို့သည် ကော်ဒိုက်ကို မီးခိုးမထွက်သော ယမ်းအဖြစ်ဖြင့်အသုံးပြုခဲ့ကြသည်။ ပဌမကမ္ဘာစစ်ကြီးအတွင်း၌ ပေါက်ကွဲစရာ ပစ္စည်းအမျိုးမျိုးကို တီထွင်ခဲ့ကြသည်။ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌ကား၊ ရှေးကထက် အဆပေါင်းများစွာ ပြင်းထန်သော ပစ္စည်းတို့ကို ရှာကြံလုပ်ကိုင်ခဲ့ကြပြန်သည်။ ထိုစစ်အတွင်း၌ အသုံးအများဆုံး ပေါက်ကွဲစရာ ပစ္စည်းမှာ တီ၊အင်၊တီ၊ ဖြစ်လေသည်။ ရှာဖွေမှုတို့သည် ထိုထက်ပို၍ တိုးတက်လာသောအခါ အက်တမ်ကိုပင်လျှင် ပေါက်ကွဲစရာ ပစ္စည်းအဖြစ်ဖြင့် လူတို့ အသုံးပြုလာကြသည်။ (အက်တမ် — လည်းရှု။) ၁၉၄၅ ခုနှစ် ဩဂုတ်လအတွင်း ဂျပန်ကျွန်းပေါ်သို့ အက်တမ်ဗုံး ၂ လုံးချလိုက်သဖြင့် ဒုတိယကမ္ဘာစစ်ကြီးလည်းပြီးဆုံးခဲ့လေသည်။ အက်တမ်ဗုံးတလုံးလျှင်ပေါက်ကွဲစရာပစ္စည်း တပေါင်ခန့်မျှသာပါသည်။ သို့သော် ထိုတပေါင်မျှသောပစ္စည်းပေါက်ကွဲသောစွမ်းအင်သည်တီ၊အင်၊တီ၊ တန်ချိန် ၂၀,၀၀၀ ပေါက်ရာမှ ဖြစ်ပေါ်လာသော စွမ်းအင်နှင့် ညီမျှလေသည်။ ယခုအခါ အဆိုပါ အက်တမ်ဗုံးထက် ပြင်းထန်သော ဟိုက်ဒရိုဂျင်ဗုံးကိုပင်လျှင် တိုင်းနိုင်ငံကြီးများတွင် လုပ်ကိုင်နိုင်လာကြပြီ ဖြစ်၏။

**ပေါက်ခေါင်းမြို့။** ။ပေါက်ခေါင်း မြို့ သည် ပြည်ခရိုင်၊ ပေါက်ခေါင်းမြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ ပြည်မြို့၏ အရှေ့မြောက်ဖက်တွင်ရှိ၍ ၂၄ မိုင်ကွာဝေးသည်။ ပေါက်ခေါင်းမြို့နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၆၉၄ မိုင်ရှိ၍၊ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၃၂၀၅ ယောက်ခန့် ဖြစ်သည်။ ပဲခူးရိုးမ တောင်တန်း တောင်စွယ်များနှင့် နီးသဖြင့် သစ်တောများ ထူထပ်သော ဒေသနှင့် ကပ်၍ နေလေသည်။ ထိုမြို့၌ သစ်လုပ်ငန်းကို အထူးသဖြင့် လုပ်ကိုင်ကြသောကြောင့် သစ်တောဖက်ဆိုင်ရာ မှုထမ်း ရာထမ်းတို့ များပြားစွာ နေထိုင်ကြသည်။ ပေါက်ခေါင်းမြို့နယ်သည် ပဲခူးရိုးမတောင်ကို ကျောဖြစ်၍ တောင်ငူခရိုင်နှင့် အစပ်ဖြစ်သည်။ ပေါက်ခေါင်းမြို့နှင့်ပြည်မြို့ကို ကားလမ်းဖြင့် ဆက်သွယ်ထားလေသည်။

**ပေါက်တောမြို့။** ။ပေါက်တော မြို့ သည် စစ်တွေခရိုင် ပေါက်တောမြို့နယ်၏ရုံးစိုက်မြို့ဖြစ်သည်။ စစ်တွေမြို့၏အရှေ့မြောက်ဖက် ၁၅ မိုင်ခန့်တွင်ရှိသော ကုလားတန်မြစ်၏ အ

ရွှေဖက်ကမ်း၌တည်ရှိသည်။ မြို့နယ်သည် စတုရန်းမိုင် ၄၉၆ မိုင်ကျယ်ဝန်းသည်။ စစ်တွေမှ မင်းပြားသို့သွားသော ရေလမ်းကုန်းလမ်း နှစ်ခုလုံးပေါ် တွင်ရှိ၍၊ လမ်းပန်းဆက်သွယ်ရေးကောင်းမွန်သည်။ မြို့နယ်တဝှန်းတွင် ဆန်စပါး စိုက်ပျိုးသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၂,၉၅၆ ယောက်ခန့်ရှိသည်။

**ပေါက်ပင်။** ။မြန်မာနိုင်ငံ၊ သီဟိုဠ်နိုင်ငံနှင့် အိန္ဒိယနိုင်ငံရှိ မိုးပါးသောဒေသ သစ်တောများ၌ အထူးသဖြင့် ပေါက်ရောက်လေ့ရှိသော အပင်မျိုးဖြစ်သည်။ အမြင့်ပေ ၄၀ မှ ၅၀ အထိရှိ၍ ပင်စည်လုံးပတ် ငါးပေမှ ခြောက်ပေအထိရှိသော အရွယ်အလတ်စား သစ်ပင်မျိုးဖြစ်သည်။ ပင်စည် ပင်လုံးတို့သည် ကောက်ကွေ့လျက် အကိုင်းအခက်တို့ ရှုပ်ယှက်ခတ်၍ရှိတတ်သည်။

ပေါက်ပင်သည် လီဂူမီနိုးစီး မျိုးရင်းတွင် ပါဝင်၍ ရုက္ခဗေဒ အမည်အားဖြင့် ဗျူတီယဖရွန်ဒိုဆာဟု ခေါ်သည်။ အရွက်တို့သည် မာကြော၍ ဗျက်ကျယ်ပြီးလျှင် သုံးရွက်မြွှာဖြစ်သည်။ နွေရာသီ၌ အပွင့်ပွင့်သည်။ ပေါက်ပွင့်တို့သည် လိမ္မော်ရောင် ရင့်ရင့်ရှိ၍ ပင်လုံးကျွတ် ပွင့်တတ်သည်။ ထိုကြောင့် အဝေးမှ မြင်ရသည့် အခါ မီးတောက် မီးလျှံများ ထနေသကဲ့သို့ ထင်ရသည်။ ယင်းကဲ့သို့ ပေါက်ပင် ပွင့်ချိန်သည် နွေရာသီလည်းဖြစ်၍ လျှမ်းလျှမ်းတောက်နေသော ပေါက်ပွင့်တို့ဖြင့် တောမီးလောင်နေသည့်သဖွယ် ထင်မြင်နိုင်လေသောကြောင့် ပေါက်ပင်ကို 'တောမီးလျှံပင်' ဟူ၍လည်း ခေါ် ဝေါ် ကြလေသည်။

ပေါက်ရွက်မှာ စိမ်းသော အဆင်း၊ ပေါက်ပွင့်မှာ နီမြန်းသော အဆင်း၊ ကျေးနှုတ်သီး သဏ္ဌာန်နှင့် တူသည် ဖြစ်၍၊ ကျေး (ကြက်တူရွေး) နားလျှင် ခွဲခြား သိနိုင်ခဲရကား၊ ကျေးကား အဘယ်နည်း မေးကောင်းသောကြောင့် ပေါက်ပင်ကို ''ကိံသုက''ဟူ၍ ပါဠိလိုခေါ် သည်။ အနက်မှာ သုကော=ကျေးသည်၊ ကိံ = အဘယ်နည်း၊ကိံသုကော=အဘယ်သည်လျှင် ကျေးနည်းဟု ဆိုလိုသည်။ လင်္ကာဆရာတို့သည် ကျေးနှင့် ပေါက်ပင် ခွဲခြား၍ မသိနိုင်ဘိသကဲ့သို့၊ နိုင်ငံရေး ပြည်ထဲရေးလည်း ခွဲခြား သိသာနိုင်ရန် ခဲယဉ်းသည် ဆိုသော ပုံစံကို ပြလို၍၊ လောကသာရ အပိုဒ် (၂၆)တွင် ''ပြည်ထဲအရေး၊ ပေါက်နှင့်ကျေးသို့၊ ကြံတွေးလှည့်ကာ၊ မသိသာလည်း....'' စသည်ဖြင့်၊ ဖွဲ့နွဲ့စပ်ဆိုထား၏။ ပေါက်ပွင့် ရန့်ကင်းဘိသကဲ့သို့ အဝတ်အစား ဆင်ယင်ထားသော ပညာမဲ့ လူကိုထံ အမျိုးသားသည်လည်း မတင့်တယ်သည်ကို ရည်စူး၍၊''အဆင်းတင့်တယ်၊နွယ်ပျိုမျှစ်၊ အရွယ်ခေတ်နှင့်၊ ပြည့်စုံကုန်သော၊ ပြန့်ပြောမြင့်မြတ်သော အမျိုး၌ ဖြစ်ခြင်းရှိထသော သူတို့သည် အတတ်ပညာမှ ယုတ်ကုန်သည် ဖြစ်အံ့၊ မွှေးကြိုင်သင်းပျံ့ ရန့်မရှိကုန်သော 'ကိံသုကာဣဝ' ပေါက်ပွင့်တို့ကဲ့သို့ မတင့်တယ်ကုန်'' ဟု 'စာဏကျ သုခမိန်' ကလည်း၊ စာဏကျနီတိ အပိုဒ်(၇) တွင် သင်္ကရိုဠ် ဘာသာဖြင့် စပ်ဆို သီကုံးထားသည်ကိုလည်း မှတ်သား ထားကုန်ရာ၏။

ပေါက်ပင်မှ သစ်သားသည် မွဲပြာရောင်ရှိ၍ ပျော့သည်။ တာရှည် အသုံးမခံချေ။ သို့သော် ရေနှင့်ထိ၍မူ ကြာရှည် အသုံးခံသဖြင့် ရေတွင်းကျည်းကွေးများ၊ လှေများ၌ အသုံးပြုလေ့ရှိသော ရေပက်ခွက်များ ပြုလုပ်ရန် သင့်လျော်သည်။ သေတ္တာကြမ်းများကိုလည်း ပေါက်သားဖြင့် ပြုလုပ်နိုင်လေသည်။

ပေါက်ပင်တို့၏ အကိုင်းအခက်တို့မှ ချိပ်တမျိုးရရှိနိုင်သည်။ ထိုပြင် အပင်မှ သစ်စေးတမျိုးလည်း ထွက်သည်။ ယင်းသစ်စေးတွင် အဖန်ဓာတ်များပါရှိသဖြင့် ဆေးဖော်စပ်ရာ၌ အလွန်အသုံးဝင်သည်။ အိန္ဒိယနိုင်ငံတွင် ပေါက်ပင်မှ အစေးကို ဆိုးဆေးနှင့် သားရေနယ်ရာတွင် အသုံးပြုကြသည်။ အပွင့်များမှ အဝါရောင်နှင့် လိမ္မော်ရောင် ဆိုးဆေး ရနိုင်သည်။

ပေါက်ပင်၏ အခေါက်ကို လျှော်ပြုလုပ်နိုင်သေးသည်။

မြန်မာနိုင်ငံ အလယ်ပိုင်း မိတ္ထီလာနယ်တွင် ပေါက်တူပင် ဟူ၍ ပေါက်ပင်တမျိုးကို တွေ့ရှိရသည်။ မြန်မာနိုင်ငံအထက်ပိုင်း မိုးကုတ်ခရိုင်အတွင်းရှိ တောင်ပေါ် သစ်တောများတွင် ပေါက်နယ်ပင်ဟူ၍ နွယ်ပင်တမျိုးတွေ့ရှိသည်။ ထို့ပြင်မြန်မာနိုင်ငံ သစ်တောများ အတွင်း၌ ပေါက်နွယ်ပင်၊ သို့မဟုတ် နွယ်နီပင်ဟူ၍ တွေ့ရသေးသည်။ ရုက္ခဗေဒ အမည်မှာ ဗျူတီယစူပါဗားဖြစ်၍ ပေါက်ပင်မှ အစေးမျိုး ရရှိပြီးလျှင် ပေါက်ပင်စေး၏နည်းတူ အသုံးပြုနိုင်သည်။ ပေါက်နွယ်ခေါက်ကို မြွေကိုက်လျှင်ဖြစ်စေ၊ အခြား အဆိပ်ပြင်းသည့်သတ္တဝါများကိုက်လျှင် ဖြစ်စေ အဆိပ်ဖြေဆေး အဖြစ်ဖြင့် အသုံးပြုကြလေသည်။

**ပေါက်ပန်းပင်။** ။ပေါက်ပင်နှင့် ပေါက်ပန်းပင်သည် လီဂူနိုးစီးမျိုးရင်းဝင်ချင်းဖြစ်၍ မြန်မာအမည်အားဖြင့် ဆင်ဆင်တူသော်လည်း မျိုးစုချင်းကွဲပြား၍ အပင်ချင်းလည်းခြားနားသည်။ ပေါက်ပန်းပင်၏ ရုက္ခဗေဒ အမည်မှာ ဆက်ဗာနီးယားဂရန်ဒီဖလော်ရာ ဖြစ်သည်။ ပေါက်ပန်း ဖြူပင်၊ ပေါက်ပန်းနီပင်ဟူ၍ နှစ်မျိုးရှိသည်။ အပူပိုင်းဇုန် ဒေသ အပင်များဖြစ်၍ မြန်မာနိုင်ငံနှင့် သီဟိုဠ်ကျွန်းတို့၌ ပေါက်ရောက်လေ့ရှိသည်။

ပေါက်ပန်းပင်သည် သစ်ပင်ငယ်မျိုးဖြစ်သည်။ ပင်စည် ဖြောင့်မတ်၍ အခက်အလက်ရှင်းသည်။ အမြင့်ပေ ၁၅-၂၀ ခန့်ရှိတတ်သည်။ ပေါက်ပန်းသားသည် ပျော့သည်။

ပေါက်ပန်းဖြူပင်များကို လူအများတွေ့ဘူး မြင်ဘူးကြသည်။ အရွက်သေး၍ နူးညံ့သည်။ ရှည်ဝိုင်းပုံရှိသည်။ အရွက်နှင့် နှိုင်းစာလျှင် အပွင့်တို့သည် ကြီးမား၍ ပွင့်ဖတ်များသည် အသားထူသည်။ အပွင့်များ တွဲလဲ ပွင့်တတ်သည်။ အပွင့်တို့သည် လှပသော အဆင်းနှင့် ပြည့်စုံသော်လည်း ပန်းတို့တွင် ရှိအပ်သောရနံ့ ကင်းမဲ့လေသည်။

ပေါက်ပန်းနီပင်တို့သည် ပေါက်ပန်းဖြူပင်လောက် ပေါပေါများများ မတွေ့ရချေ။ ပေါက်ပန်းဖြူပင်နှင့် အပွင့်အရောင်မှလွဲ၍ အတူတူပင် ဖြစ်သည်။ ပေါက်ပန်းနီပင်၏ အပွင့်အရောင်သည် နီမြန်းသော အဆင်းရှိသည်။

ပေါက်ပန်းပင်၏ အသီးသည် ပဲသီးတောင့်ရှည်ကဲ့သို့ သေးသေးရှည်ရှည်ဖြစ်ကာ တွဲလောင်းသီးသည်။ ပေါက်ပန်းပင်၏အသီး၊ အရွက်၊ အပွင့်တို့ကို ချက်ပြုတ်စားသုံးကြသည်။ အထူးသဖြင့် မြန်မာနိုင်ငံတွင် ပြုတ်၍ ငပိရည်နှင့်တို့စားကြလေသည်။ သီဟိုဠ်ကျွန်းတွင်မူ ပေါက်ပန်းပင်၏ အပွင့်နှင့် အရွက်တို့ကို ဟင်းချက်၍ရင်း၊ ထောပတ်နှင့်ကြော်၍ရင်း စားသောက်ကြသည်။ ပေါက်ပန်းပင်၏ အခေါက်၊ အရွက်၊ အပွင့်တို့သည် ဆေးဖက်ဝင်သည်။ ပေါက်ပန်းပင်တို့သည် အစေ့ပျိုး၍ စိုက်ရသောအပင်မျိုး ဖြစ်သည်။ သီဟိုဠ်ကျွန်းတွင် အများအပြားစိုက်ပျိုးလေ့ရှိသည်။

**ပေါက်ဖတ်။** ။ပိုးဖလံနှင့်လိပ်ပြာတို့သည် အရွယ်မရောက်မီ၊ အကောင်လောင်းဘဝ၌ ကျင်လည်ရသည်။ ထိုအကောင်လောင်းကို ယေဘုယျအားဖြင့် ပေါက်ဖတ်ဟုခေါ်သည်။ ပေါက်ဖတ်၌ အမွှေးရှိသည်။ သို့သော် အမွှေး မရှိသော ပေါက်ဖတ်မျိုးလည်း အမြောက်အမြားပင် ရှိလေသည်။ မုန်လာထုပ်၌ တွေ့ရသော ပိုးမျိုးသည် အမွှေး မရှိသော ပေါက်ဖတ် ဖြစ်သည်။ ပေါက်ဖတ်သည် သေးငယ်သောဥမှ ပေါက်လာရသော်လည်း၊ မိမိ၏ ကိုယ်လုံး ကိုယ်ထည်နှင့် မမျှအောင် အစာများကို စားတတ်သည်။ ပေါက်ဖတ်၏ ကိုယ်သည်ရှည်၍လုံးသည်။ခန္ဓာကိုယ်တွင် ခေါင်းနှင့် အစိတ်အပိုင်းပေါင်းသည် အမျိုးအစားကိုလိုက်၍ ၁၂ ခုမှသည် ၁၃ ခုအထိရှိသည်။ ပိုးကောင်များမှာကဲ့သို့ပင် ပေါက်ဖတ်၌ ခြေထောက် ၃ စုံရှိသည်။ ခေါင်း၏ နောက်ဖက်ရှိ အစိတ်အပိုင်း ၃ ခုတွင် ထိုခြေတစုံစီရှိသည်။ ထိုခြေထောက်တို့သည် များသောအားဖြင့် မာ၍ အဆစ်များရှိပြီးလျှင် အစွန်း၌ ခြေသည်းကလေးများ ရှိကြသည်။ သို့သော် အချို့သော ပေါက်ဖတ်မျိုးတို့တွင် ထိုသို့သောခြေသည်းများ မရှိကြချေ။ ယခုဆိုခဲ့ပြီးသော ခြေထောက်တို့သည် ခြေအစစ်ဖြစ်သည်။ ယင်းတို့အပြင် ခြေအတုများရှိသေး၏။ ခြေအတုတို့၏အလုပ်မှာ ရှည်လျားသော ခန္ဓာကိုယ်ကိုထောက်ပင့်ရန်ဖြစ်သည်။ ထိုခြေတုများသည် ပေါက်ဖတ် ပိုးဖလံ အဖြစ်သို့လည်းကောင်း၊ လိပ်ပြာ အဖြစ်သို့လည်းကောင်း ပြောင်းလဲသွားသောအခါတွင် ပျောက်ကွယ် သွားကြလေသည်။

ပေါက်ဖတ်၏ မေးရိုးသည် ကြီး၍ မည်း၏။ ကိုက်ဖြတ်မည့်နေရာများတွင် သွားများရှိသည်။ ထို့ကြောင့် အရွက်များကို ကိုက်ဖြတ်ရာတွင် လွှဝိုင်းများကဲ့သို့ အရွက်များကို ဖြတ်နိုင်ကြလေသည်။ မျက်စိသည် သေး၍ ပုတီးစေ့ကလေးများနှင့်တူသည်။ ဦးခေါင်း၏ တဖက်တချက်တွင် မျက်စိ ၃ လုံး၊ သို့မဟုတ် ၄ လုံးစီရှိသည်။ ထိုမျက်စိများသည် နေနှင့် ညဥ့်ကိုသာ ခွဲခြားနိုင်ပုံရသည်။ ခန္ဓာကိုယ်၏ တဖက်တချက်တွင် အသက်ရှူရန် လေပြွန် ၉ ခုစီရှိသည်။

ပိုးဖလံ၊သို့မဟုတ် လိပ်ပြာဥမှ ပေါက်ဖတ်တကောင်ပေါက်လာသောအခါ ထိုပေါက်ဖတ်သည် အများအားဖြင့် အလွန်သေးငယ်လေသည်။ သို့သော် ကိုယ်ထည်၏အရွယ်နှင့် အဆမတန်အောင် အစားကြီးသဖြင့် မကြာမီအတွင်း၌ ကြီးထွားလာကာ အရေပြားဟောင်းသည် ကွဲထွက်သွား၍ ပေါက်ဖတ်သည် တွားလျက် ထွက်လာလေသည်။ ထိုနည်းဖြင့် ပေါက်ဖတ်သည် ၄ ကြိမ်၊ သို့မဟုတ် ၅ ကြိမ် အရေလဲသည်။ ပေါက်ဖတ်တို့၏ အစာမှာ အများအားဖြင့် ဟင်းသီးဟင်းရွက်ဖြစ်သည်။ အချို့ပေါက်ဖတ်သည် သစ်သားကိုစားသည်။ ဤသို့ သစ်သားကိုစားယင်း၊ သစ်ခေါင်းအတွင်း၌ ၃ နှစ်သော်ရင်း၊ ၃ နှစ်ထက် ကျော်၍သော်ရင်း နေထိုင်ကြသည်။ အချို့ ပေါက်ဖတ်များကား အထည် အလိပ်တို့ကိုစား၍ ဖျက်ဆီးပစ်ကြသည်။ အချို့ပေါက်ဖတ်များသည် မိမိတို့၏ ကိုယ်မှ စွန့်လိုက်သော အရေပြားကိုပင်လျှင် စားကြသည်။ အကြီးဆုံးပိုးဖလံပေါက်ဖတ်သည် ၄ လက်မအထိရှည်၍၊ အငယ်ဆုံး ပိုးဖလံ ပေါက်ဖတ်သည် ၁ လက်မ၏ ၄ ပုံ ၁ ပုံ မျှသာရှည်သည်။ အချို့ပေါက်ဖတ်တို့သည် လိပ်ပြာ၊ သို့မဟုတ် ပိုးဖလံ အဖြစ်သို့ မပြောင်းလဲမီ ရက်အနည်းငယ်သာ ပေါက်ဖတ် အဖြစ်ဖြင့် တည်ရှိကြသည်။ သို့သော် အများအားဖြင့် နွေရာသီတခုလုံး ပေါက်ဖတ်အဖြစ်ဖြင့် တည်ရှိနေတတ်သည်။ အချို့ပေါက်ဖတ်တို့သည် အသွင်ပြောင်းလဲရန် ၄ နှစ်မျှကြာတတ်သည်။

ပေါက်ဖတ်များ တဆင့်မှ တဆင့်သို့ ပြောင်းလဲခြင်းကို အသွင်ပြောင်းခြင်းဟု ခေါ်သည်။ ပိုးဖလံ ပေါက်ဖတ်တို့ အသွင်ပြောင်းရန် အလို့ငှါ ပိုးအိမ်များကို ဦးစွာ ပြုလုပ်လေ့ရှိသည်။အောက်နှုတ်ခမ်းရှိအပေါက်တပေါက်မှ စီးထွက်လာသည့် စေးကပ်သော အရည်ဖြင့် အမျှင်များကို ပြုလုပ်ကြသည်။ ထိုအမျှင်များသည် လေသလပ်လျှင်မာသည်။ အချို့ ပေါက်ဖတ်တို့သည် ယင်းတို့၏ကိုယ်ကို လွှမ်းခြုံထားနိုင်သော အမျှင်အိတ်များကို ပြုလုပ်ကြသည်။ အချို့ပေါက်ဖတ်များသည် သစ်ရွက်များကို လိပ်ပြီးလျှင်၊ အဖျားများကို ခြည်မျှင်များဖြင့် မြဲအောင် ပြုလုပ်ထားတတ်သည်။ အမွှေး

များရှိသည့် ပေါက်ဖတ်များကား အမွေးများဖြင့်ပင် ပိုးအိမ်ကို ပြုလုပ်ကြသည်။ လိပ်ပြာ အုပ်စုတွင် ပါဝင်သော ပေါက်ဖတ် အချို့သည် ပိုးအိမ်များကို မပြုလုပ်ကြချေ။ ပိုးဖလံပေါက်ဖတ် အမြောက်အမြားသည် မြေကြီးကိုတူး၍တွင်းအောင်းလေ့ ရှိသည်။ သို့မဟုတ် ကျောက်တုံး တတုံး၏အောက်၌သော်၎င်း၊ ကြွေကျနေသည့် သစ်ရွက်၏အောက်၌သော်၎င်း ခိုအောင်းနေတတ်သည်။ လိပ်ပြာပေါက်ဖတ်များသည် သစ်ရွက်များတွင်ဖြစ်စေ၊ သစ်ခက်များတွင် ဖြစ်စေ ခြည်မျှင် အဖုကလေးပြုလုပ်၍ ခြည်မျှင်ဖြင့် တွဲလဲခိုနေလေ့ရှိကြသည်။ပိုးအိမ်များပြုလုပ်ပြီးသောအခါတွင် ပေါက်ဖတ်သည် ထိုပိုးအိမ်အတွင်း၌ နေ၍ အသွင်ပြောင်းလဲလေသည်။ ပိုးမျှင်ကောင်တို့၏ ပိုးအိမ်များမှ လူတို့သည် ပိုးခြည်ကိုယူ၍ အထည်အလိပ် ရက်လုပ်ကြသည်။

အသွင်ပြောင်းလဲပြီးသောအခါ၌ ပေါက်ဖတ်သည် ပိုးတုံးလုံးဖြစ်သွားလေသည်။ ပိုးဖလံ ပိုးတုံးလုံးသည် အများအားဖြင့် အညိုမှိုင်းရောင်ဖြစ်သည်။ လိပ်ပြာ ပိုးတုံးလုံး၌ တောက်ပသော အရောင်များ ရှိသည်။ ပိုးတုံးလုံးအဆင့်တွင် အတောင်နှင့် အခြားအင်္ဂါများ၏ အခြေခံများသည် ကြီးထွားလာလေသည်။ ထိုသို့ ပြောင်းလဲခြင်းသည် ရက်အနည်းငယ်မှ လပေါင်းများစွာအထိ ကြာတတ်သည်။ ထိုနောက် ပိုးတုံးလုံးသည် ပိုးဖလံ အဖြစ်သို့ ဖြစ်စေ၊ လိပ်ပြာအဖြစ်သို့ ဖြစ်စေ ပြောင်းလဲလေသည်။

ငှက်၊ ပိုးကောင်နှင့် ပါရာဆိုက်တို့သည် ပေါက်ဖတ်ကိုစားကြသည်။ ထိုကြောင့် ထိုဘေးမှ ကာကွယ်နိုင်ရန် ပေါက်ဖတ်သည် သဘာဝ အကာအကွယ်များကို ဖန်တီးရလေသည်။ အချို့ ပေါက်ဖတ်တို့၌ ပတ်ဝန်းကျင် အရောင်နှင့် သမသွားစေမည့် အရောင်များ ရှိကြသည်။ အချို့တွင် တောက်ပသည့် အပြောက်များ၊ သို့မဟုတ် အစင်းများ ရှိကြသဖြင့် ကြောက်စရာသော်လည်း ဖြစ်တတ်သည်။ သို့မဟုတ်က အလွန်ကြီးသည်ဟုလည်း ထင်ရလေသည်။ ပေါက်ဖတ်အချို့တွင် အနံ့ဂလင်းများရှိသဖြင့် မနှစ်မြို့ဖွယ်သော အနံ့များကို လွှတ်နိုင်သည်။ ထို့ပြင် အချို့ ပေါက်ဖတ်များတွင် အဆိပ်ပြင်းထန်သည့် အမွေးများ ရှိကြလေသည်။ ယင်းတို့သည် အကာအကွယ်သဘော၌ သက်ဝင်လေသည်။

**ပေါက်မြို့။** ။ပေါက်မြို့သည် အထက်မြန်မာနိုင်ငံ ပခုက္ကူခရိုင်တွင်ပါဝင်၍၊ ပေါက်နယ်၏ နယ်ပိုင်ရုံးစိုက်မြို့ ဖြစ်သည်။ ပေါက်နယ်တွင် ပေါက်မြို့နယ်၊ ဆောမြို့နယ်နှင့် ဆိပ်ဖြူမြို့နယ်တို့ ပါဝင်သည်။

ပေါက်မြို့နယ်သည် ပခုက္ကူခရိုင်၏အလယ်တွင်ရှိ၍၊ စတုရန်းမိုင် ၉၁၀ ကျယ်ဝန်းသည်။ ကျေးရွာပေါင်း ၇၀ ခန့်ပါဝင်ပြီးလျှင်၊ လူဦးရေ (၁၉၃၁ ခုနှစ် သန်းကောင် စာရင်း) ၅၉၂၂၆ ယောက် ရှိသည်။ မြို့နယ်၏ တဖက်တချက်တွင် တောင်ကုန်းတောင်တန်းများရှိ၍ မြို့နယ်၏ မြေမျက်နှာပြင်သည် ညီညာပြန့်ပြူးခြင်းမရှိပေ။ မြို့နယ်အတွင်း၌ ယောချောင်းနှင့် ကျောချောင်းတို့ ဖြတ်သန်း စီးဆင်းကြသည်။

ပေါက်မြို့သည် ယောချောင်းနှင့် ကျောချောင်းတို့ပေါင်းဆုံသည့်နေရာနှင့် မနီးမဝေးတွင် တည်ရှိသည်။ ပခုက္ကူမြို့မှ အနောက်ဖက် ၄၇ မိုင်ခန့်ကွာဝေးသည်။ မြို့၏ မြောက်ဖက်တွင် ပေါက်ချောင်းငယ် ဖြတ်သန်းစီးသွားပြီးလျှင် ယင်း၏ မြောက်ဖက်ရှိ ကျောချောင်းထဲသို့ ပေါင်းဆုံ စီးဝင်သည်။ မြို့၏အနောက်ဖက်တွင် ရန်ကင်းတောင်ရှိသည်။ ထိုတောင်သည် မြို့ကိုဖီလာခံလျက် အနောက်မျက်နှာသို့ တောင်ဦးပြုနေသည်။

မြို့၏အရှေ့တောင်ဖက်တွင် ဆင်ဇာချောင်းရှိ၍၊ ပခုက္ကူသို့သွားသော ကားလမ်းမကြီးသည် ဆင်ဇာချောင်းကိုဖြတ်ကျော်သွားသည်။ အရှေ့ဖက်၌ ကျားသိုက်ချောင်းငယ်ရှိ၍၊ ယင်း၏အရှေ့ဖက်ဘွင် လေယာဉ်ကွင်းရှိသည်။ ပေါက်မှ ပခုက္ကူသွား ကားလမ်းမကြီး၏ တောင်ဖက်တွင် လေသာတောင် ရှိလေသည်။

ပေါက်မြို့သည် မြို့ကွင်း မြို့ကွက်ကောင်း၍ ကျယ်ဝန်းသည်။ လူနေအိမ်ခြေ တထောင်ကျော်ခန့်ရှိ၍ လူဦးရေ ၁၀၀၅၅ ယောက်ခန့်ရှိသည်။မြို့သူမြို့သားများမှာများသောအားဖြင့် ဗုဒ္ဓအယူဝါဒီ မြန်မာ လူမျိုးများသာ ဖြစ်ကြလေသည်။

ပေါက်မြို့သည် နယ်ပိုင်ရုံးစိုက်မြို့ ဖြစ်သည်အားလျော်စွာ နယ်ပိုင်ရုံး၊ မြို့ပိုင်ရုံး၊ ငွေတိုက်၊ တရားမရုံး၊ သစ်တောရုံး၊ ရဲဌာနစသည့် အစိုးရ အဆောက် အအုံများရှိ၍၊ ယင်းတို့သည် မြို့၏အနောက်ဖက်ပိုင်းတွင် တည်ရှိကြသည်။ မြို့၏ တောင်ဖက် မြို့ရိုးသဖွယ် အနောက်မှ အရှေ့သို့ တန်းလျက်ရှိသော တောင်ရိုး၏ အနောက်ဖက်ဆုံးတွင် ပြည်သူ့ဆေးရုံရှိသည်။ ထို့ပြင် အစိုးရ တန်းမြင့်ကျောင်း၊ အလယ်တန်းကျောင်း၊ မူလတန်းကျောင်း၊ စာတိုက်၊ ဈေးစသည့် အဆောက်အအုံများဖြင့်လည်း ပေါက်မြို့သည် သိုက်မြိုက်စွာရှိလေသည်။

ပေါက်မြို့သည် ယောနယ်များသို့ သွားရာ တံခါးဝမြို့ဖြစ်သည်။ ထီးလင်း၊ ဂန့်ဂေါစသော အထက်ယောနယ်များသို့ ပေါက်မြို့မှတဆင့် မော်တော်ကားလမ်းများဖြင့် သွားလာကြရသည်။ ပခုက္ကူမှတဆင့် ရန်ကုန်၊ မန္တလေးစသော မြို့ကြီးများနှင့် ယောနယ်များ၏ ကုန်စည် ဖလှယ်မှုရောင်းဝယ် ဖောက်ကားမှုတို့ကို ဆက်သွယ်ပြုလုပ်ရာ၌ ပေါက်မြို့မှတဆင့် ပြုလုပ်ကြရသည်။ ပခုက္ကူမြို့မှတဆင့် ရန်ကုန်မြို့နှင့် တပတ်သျှင်တကြိမ် လေကြောင်း အဆက်အသွယ်ရှိသည်။

ပေါက်မြို့နယ်သည် မိုးပါး ရေရှားဒေသ ဖြစ်သည့် အတိုင်း

ပဲအမျိုးမျိုး၊ ပြောင်းဖူးဖက်(ယောဖက်)၊ငရုတ်၊ မန်ကျည်း၊ နှမ်းနှင့် ဆီးသီးစသော အပူပိုင်းရပ်ဝန်း ထွက်ကုန် သီးနှံများ ထွက်သည်။

ပေါက်မြို့၏ နောက်ကြောင်း သမိုင်းကို ခိုင်ခိုင်လုံလုံမသိရချေ။ ပုဂံခေတ်ကထင်ရှားခဲ့သော သောင်းထွတ်မြို့ဟောင်း တည်နေရာသည် ယခု ပေါက်မြို့၏ တောင်ဖက် ခြောက်မိုင်ခန့်အကွာ၊ ကျောက်ကာရွာကြီး၏ အရှေ့ဖက်တွင်ဖြစ်သည်။ ပေါက်မြို့ဟူ၍ ခေါ်တွင်ခြင်းမှာ ပေါက်ပင် ပေါက်တောကိုထွင်၍ မြို့တည်ခဲ့ခြင်းကို အစွဲပြု၍ ပေါက်မြို့ဟုခေါ်တွင်ခဲ့ခြင်း ဖြစ်ဟန် တူလေသည်။

သာသနိကအဆောက်အအုံ စေတီ ပုထိုးများမှာ မြို့၏ အနောက်တောင်ဖက် တောင်ပူစာ ထိပ်တွင် မြို့ပန္နက်ဘုရားဖြစ်သော ရွှေပေါက်ပင် ဘုရားရှိသည်။ မြို့၏ အရှေ့တောင်ဖက်ရှိ လေသာ တောင်တွင်လည်း လေသာတောင်ဘုရားရှိသည်။ ပေါက်ချောင်း၏ မြောက်ဖက်ကမ်းတွင် တောင်ရိုးတခုရှိရာ ထိုတောင်ရိုး၏ အရှေ့ဖက်တောင်စွယ်တွင် လောကဒီပဘုရားရှိသည်။ ထိုပြင် ထိုအနီးအနားတဝိုက်တွင် ဘုန်းကြီးကျောင်းများနှင့် အခြားစေတီ ပုထိုးငယ်များ ရှိလေသည်။ လောကဒီပ ဘုရား၏ အရှေ့ဖက်တွင် ပေါက်မှ ဂန့်ဂေါသို့ သွားသော မော်တော်ကားလမ်း ရှိလေသည်။

မြို့နယ်အတွင်း ထင်ရှားသော စေတီပုထိုးများမှာ ပေါက်မြို့နှင့် ရှစ်မိုင်ခန့် ကွာဝေးသော ဘုရားတောင်ရွာနှင့် ကျူတောရွာများအနီးရှိ ရွှေပေါင်လောင်နှင့် ရွှေမုဋ္ဌောစေတီနှစ်ဆူဖြစ်သည်။ ထိုဘုရားစေတီများ၏ ပွဲတော်များကို နှစ်စဉ်တပေါင်းလတွင် ကျင်းပသည်။

မြို့ပေါ်၌ အစည်ကားဆုံးသော ပွဲတော်မှာ သီတင်းကျွတ်ပွဲတော်ဖြစ်သည်။ အထူးသဖြင့် သီတင်းကျွတ် လပြည့်ကျော် တရက်နေ့တွင် နယ်ရှိ ကျေးရွာများမှ ရဟန်းရှင်လူတို့က မြို့ပေါ်ရှိ ထေရ်ကြီး ဝါကြီး ဆရာတော်များအား လာရောက်ကန်တော့ရာတွင် တိုးရုပ်၊ ဘိုးဘိုးရုပ်၊ ဒေါင်းရုပ်၊ ကိန္နရာရုပ်စသော အရုပ်မျိုးစုံ အကများကို တရွာနှင့်တရွာ ယှဉ်ပြိုင်ကပြကြရာ၊ ထူးထူးခြားခြား စည်ကား သိုက်မြိုက်လှသည်။

**ပိုက်(ခ)ငါး။** ။အင်္ဂလိပ်ဘာသာဖြင့် ပိုက်(ခ)ဟု ခေါ်သောငါးသည် ဥရောပတိုက်၊ အာရှတိုက် မြောက်ပိုင်းနှင့် မြောက်အမေရိကတိုက်များ၌ ရှိသော ရေချိုမြစ်နှင့် အင်းအိုင်တို့တွင် ကျက်စားသော ငါးဖြစ်သည်။ ပိုက်(ခ)ငါးသည် 'အီဆော့ဆီဒီး' မျိုးရင်းဝင် ငါးဖြစ်သည်။

ပိုက်(ခ) ငါးသည် ကိုယ်ထည်ရှည်၍ အမြီးသွယ်သည်။ ကျောနှင့် နောက်ပိုင်းရှိ ဆူးတောင်တို့သည် နောက်ဖက်ကျကျအမြီးအနီးတွင်ရှိ၍၊ ပိုက်(ခ)ငါးသည် ရေကူးရာတွင် အလွန်လျင်မြန်၏။ သာမန် အခါမျိုး၌ ငြိမ်ငြိမ် နေတတ်သော်လည်း၊ အစာကို လိုက်ရာ၌သော်ငင်း၊ ဘေးအန္တရာယ်ကြောင့် ပြေးရာ၌သော်ငင်း ပိုက်(ခ) ငါးသည် အလွန်လျင်မြန်၍ အခြားရေချိုငါးများသည် သူ့ကိုလိုက်၍မမှီနိုင်ချေ။ ပါးစပ်သည် အလွန်ကြီး၍၊ အောက်မေးရိုးသည် ငေါသည်။ သွားသည် ညီညာစွာ သွယ်တန်းလျက်ရှိပြီးလျှင် အလွန်ထက်သည်။ သွားတည်နေပုံသည် နောက်ပြန်စောင်းလျက်တည်နေသဖြင့် ပါးစပ်ထဲသို့ ဝင်လာသောအစာသည် ပြန်၍မထွက်နိုင်ချေ။ ပိုက်(ခ) ငါးသည် ကြောက်မက်ဖွယ်ကောင်းသည့်ပြင် အစာလောဘလည်း ကြီးသည်။ အားနည်းသည့် ငါးမျိုးစုံကိုသာမက၊ ဖား၊ ကြွက်စသည်တို့ကိုပါ စားသောက်သည်။ စားသောက်ရန် အရွယ်တော်ဖြစ်သောမည်သည့် တိရစ္ဆာန်မျိုးကိုမဆို စားသောက်လေ့ရှိသည်။ ပိုက်(ခ) ငါးသည် ဥမှပေါက်စ လက်မအနည်းငယ်မျှရှိသော အရွယ်သို့ရောက်သည်နှင့် တပြိုင်နက်၊အခြားငါးငယ်ကလေးများကိုလိုက်၍ဖမ်းကာ စားစပြုလေသည်။ ကြီးလာသည်နှင့်အမျှ ပို၍ သန်မာပြီးလျှင် ပို၍ ကြမ်းတမ်း လာလေသည်။ ပရိယာယ်လည်းများသည်။ ရေထဲတွင် သစ်တုံး



ညို၊ စိမ်း၊ ဝါရောင်တွင် အမည်းပြောက် ရောလျက်ရှိသည့် ပိုက် (ခ) ငါး

သဖွယ် ငြိမ်သက်စွာ နေပြီးလျှင် အစာကို မြင်သည့်အခါမှ အဟုန်နှင့် လိုက်လေ့ရှိသည်။ တံငါများက ပိုက်(ခ)ငါးများကို မနှစ်သက်ကြချေ။ အဘယ်ကြောင့် ဆိုသော် ထိုငါးသည် အစာအဖြစ် ကောင်းမွန်သော အခြား ငါးများကို စားပစ် ကြသောကြောင့် ဖြစ်သည်။ ပိုက် (ခ)ငါး၏ အရောင်မှာ အညို၊ အစိမ်းနှင့် အဝါရောင်များ ရောလျက် ရှိပြီးလျှင် အမည်းစက်များလည်း ရှိ၍၊ ရေအောက်ရှိ အပင်များ၏ အရောင်နှင့်ရောလျက် ရှိနေသဖြင့် ငါးငယ်များကို ဖမ်းယူရန် အခွင့်ကောင်းတခုကို ပို၍ ရရှိနေလေသည်။ ပိုက်(ခ)ငါးများသည် ရာသီဥတုကိုလိုက်၍ ပြေီလ၊သို့မဟုတ် မေလတွင် အုကြသည်။ တခါတရံတွင် ဖေဖွာရီလ၌ပင် အုလေ့ရှိသည်။

**ပိုက်ဆံပေါက်စက်။** ။ပိုက်ဆံပေါက်စက်ဆိုသည်မှာကန့်သတ်ထားသည့် ပိုက်ဆံများကို ထည့်လိုက်လျှင် အလိုအလျောက်အလုပ်လုပ်ပေးသော စက်မျိုးဖြစ်သည်။ ရှေးအကျဆုံးပိုက်ဆံပေါက်စက်ကို လွန်ခဲ့သောနှစ်ပေါင်း ၂၀၀၀ ခန့်က အီဂျစ်ပြည် ဘုရားရှိခိုးကျောင်းများတွင် ရေချမ်းတော်များရောင်းရာ၌ အသုံးပြုခဲ့ကြသည်။ ယခုအခါတွင် ထိုစက်မျိုးကို ခေတ်မီနိုင်ငံကြီးများ၌ တွင်ကျယ်စွာ အသုံးချလျက် ရှိကြသည်။ ထိုစက်မျိုးများကို ၁၉၁၆ ခုနှစ်လောက်ကပင် စတင်၍ ဟော်တယ်များ၌ အစားအသောက် ရောင်းရာတွင် အသုံးချခဲ့ကြသည်။ ရောင်းချသော ကုန်ပစ္စည်း အမျိုးအစားကို လိုက်က ပိုက်ဆံပေါက်စက် အမျိုးမျိုးရှိသည်။

ထိုစက်မျိုးများကို လူသွားလူလာများသော နေရာများတွင်ထားတတ်ကြ၏။ စက်ထဲမှပစ္စည်းကို အလိုရှိလျှင် ပိုက်ဆံထည့်ရမည့် အပေါက်မှ ကျသင့်သည့် တန်ဖိုးအတွက် ပိုက်ဆံစကို ထည့်လိုက်ရပြီးလျှင်၊ ခလုတ်ကို လိုသည့်ပစ္စည်းနှင့် တည့်တည့်သို့ လှည့်ပေးရသည်။ ထိုအခါ အလိုရှိသောပစ္စည်းသည် အလိုအလျောက် ထွက်လာလေသည်။ အချို့စက်များသည် ပိုက်ဆံထည့်လိုက်လျှင် တန်ဖိုးကိုသာ ယူလိုက်ပြီးသော် ပိုငွေကို ပြန်၍ အမ်းနိုင်ပေသည်။ ထို့ပြင် ကြေးငွေ အတုပြားများကို ထည့်လိုက်လျှင် ပစ္စည်းထွက်မလာဘဲ ထည့်လိုက်သော ပိုက်ဆံသာ ပြန်၍ ထွက်လာလေသည်။ တခါတရံ စက်ထဲ၌ ပစ္စည်းများ ကုန်နေလျှင်လည်း ထည့်လိုက်သော ကြေးငွေသည် မဆုံးဘဲ ပြန်၍ထွက်လာလေသည်။

ပိုက်ဆံပေါက် စက်များသည် တီထွင်စ အချိန်က ရိုးရိုးပင်ဖြစ်သည်။ ရောင်းလိုသော ပစ္စည်းများကို တခုနှင့် တခုထပ်၍ အောက်ခြေရှိအံဆွဲပေါ်တွင် ပုံထားသည်။ အံဆွဲကို ဆွဲယူလိုက်လျှင် အထဲတွင် ထည့်ထားသော ပစ္စည်းသည် အံဆွဲထဲတွင်ပါရှိလာ၏။ သို့သော် တန်ဖိုးပိုက်ဆံစကို မထည့်



မီးရထား ဘူတာရုံများ၌ ပိုက်ဆံပေါက်စက်များ တပ်ဆင်ပေးခြင်းအားဖြင့် ခရီးသွားလက်မှတ် ဝယ်ယူရေးကို လွယ်ကူစေသည်။

လျှင် အံဆွဲကိုဆွဲ၍ မရနိုင်ချေ။ ပိုက်ဆံ ထည့်လိုက်မှပင် ပိုက်ဆံစသည် အံဆွဲအား ထိန်းထားသော ခလုတ်ကို ရွှေ့လိုက်သဖြင့် အံဆွဲကို ဆွဲထုတ် ယူနိုင်သည်။ ဤနည်းဖြင့် မီးခြစ်၊ စီးကရက်စသောပစ္စည်းများကို ရောင်းချကြသည်။ အံဆွဲကိုပြန်၍ ထိုးသွင်းလိုက်သောအခါ နောက်ထပ်ရောင်းမည့် ပစ္စည်း တခုသည် နောက်တကြိမ်အတွက် အံဆွဲထဲ၌ အသင့် ကျလာလေသည်။ ထိုစက်များ၌ ပိုက်ဆံများကို အံဆွဲဖွင့်ရန် သော့ကဲ့သို့ အသုံးပြုရလေသည်။

ယခုခေတ်အသုံးပြုနေကြသော ပိုက်ဆံပေါက်စက်များ၌မူ အံများကို ဆွဲယူရန် မလိုချေ။ ပိုက်ဆံစ ထည့်လိုက်ရုံနှင့်ပင် အထဲတွင် လျှပ်စစ်ဓာတ်အားဖြင့် စီမံထားသော စက်ကရိယာ အစိတ် အပိုင်းများကို လည်စေပြီးလျှင် အလုပ်ကိုလုပ်စေသည်။ ယင်းစံနစ်ဖြင့် ပြုလုပ်ထားသော လက်မှတ်ရောင်း စက်များ၌ ရောင်းချသည့် လက်မှတ်ပေါ်တွင် အမှတ်စဉ်နှင့် နေ့စွဲများကိုပင် ရိုက်နှိပ်ပေးနိုင်ကြသည်။ ငွေပြန်အမ်းနိုင်သော စက်များ၌ ပိုက်ဆံ အမ်းသော စက်သည် ပစ္စည်းထုတ်ပေးသော စက်နှင့်တွဲမနေဘဲ အတွင်း၌ သီးသန့်စက်တခုသာ ဖြစ်နေသည်။ အနောက်နိုင်ငံမြို့ကြီးများ၌

စာတိုက်ခေါင်း၊မြေပဲလှော်၊ သကြားလုံး၊ စီးကရက်၊အအေးစိမ်ထားသော အဖျော်ရည်များကို ယင်းစက်မျိုးနှင့်ပင် ရောင်းချကြသည်။ ထိုမျှသာမက ဓာတ်ငွေ့နှင့် လျှပ်စစ်ဓာတ်အားကို ရောင်းချရာ၌ပင် ယင်းစက်မျိုးကို သုံးသည်။

ပိုက်ဆံပေါက်စက်မျိုး၏ သဘောမှာ ထည့်လိုက်သောကြေးငွေစ ပြည့်သောအခါတွင် ခလုတ်ရှိသည့်မောင်းကိုဖယ်လိုက်သဖြင့် မိုတာကို လည်စေသည်။ ထိုသို့ မိုတာလည်သဖြင့် လိုသည့် အလုပ်ကို စက်သဘောဖြင့် လုပ်ကိုင်နိုင်ပေသည်။ ခလုတ်ကို ကြေးငွေ၏ အလေးချိန်နှင့် တိကျစွာတိုင်းတာပြုလုပ်ထားသဖြင့် အလေးချိန် အနည်းငယ်ပိုသော၊ သို့မဟုတ် လျော့သော၊သို့မဟုတ် အနည်းငယ်ပို၍ ထူသော၊ သို့မဟုတ် ပို၍ပါးသော တရားမဝင်သည့် ကြေးငွေက ခလုတ်ရှိသောမောင်းကို ဖယ်ရှားနိုင်မည် မဟုတ်သဖြင့် လိုသောပစ္စည်းသည် ထွက်လာမည်မဟုတ်ပေ။ သို့သော် ထိုမှုမမှန်သော ကြေးငွေစကို ပယ်လိုက်သည့် အပေါက်မှ ထုတ်ပေးနိုင်ရန် စက်ကို ဖန်တီးထားလေသည်။

ကမ္ဘာပေါ်တွင် အမေရိကန် နိုင်ငံသည် ပိုက်ဆံပေါက်စက်များကို အများဆုံး ထုတ်လုပ်အသုံးပြုသော နိုင်ငံဖြစ်သည်။ အင်္ဂလန်ပြည်နှင့် ဂျာမနီ နိုင်ငံတို့သည် အမေရိကန်ထက် ပို၍ ကောင်းသော ပိုက်ဆံပေါက်စက်များကို ထုတ်လုပ်ခဲ့ကြသည်။ မြန်မာနိုင်ငံ၌လည်း ပိုက်ဆံပေါက်စက်နှင့် သဘောချင်းတူသော စက်များကို အတော်အတန် အသုံးပြုကြသည်။ ဘုရားများတွင် ထားလေ့ရှိသော ပိုက်ဆံ ထည့်လိုက်လျှင် အရုပ်ကလေးများ ထွက်လာသောသေတ္တာများသည် ပိုက်ဆံ ပေါက်စက် သဘောမျိုးပင် ဖြစ်သည်။ ကိုယ်အလေးကို ချိန်သော စက်များနှင့် ဓာတ်ပုံရိုက်စက်များသည်လည်း ပိုက်ဆံပေါက်စက် သဘောမျိုးပင် ဖြစ်သည်။ ကိုယ်အလေးကို ချိန်လိုလျှင် စက်ခုံပေါ်၌ တက်ရပ်ပြီးသော်၊ အပေါက်ကလေးမှ သတ်မှတ်ထားသော ပိုက်ဆံထည့်လိုက်လျှင် ချက်ချင်းလိုပင် ကိုယ်အလေးချိန် အတိအကျကို ပုံနှိပ်၍ ဖော်ပြ ထားသောလက်မှတ် ထွက်လာလေသည်။ ဓာတ်ပုံရိုက်စက်များကို အသုံးပြုသည့်အခါ၌မူ ဓာတ်ပုံရိုက်ခံမည့် သူသည် အရိုက်ခံရန် အသင့် ရပ်နေပြီးနောက် ဓာတ်ပုံရိုက်စက် အတွင်းသို့ ပိုက်ဆံထည့်လိုက်သောအခါ ရိုက်ပြီး ဓာတ်ပုံ ချက်ချင်းထွက်လာလေသည်။

ပိုက်ဆံ ပေါက်စက် သုံးသော အခြား လုပ်ငန်း အများအပြား ရှိလေသည်။ ပိုက်ဆံထည့်မှ သုံး၍ ရသော တယ်လီဖုန်းများနှင့် သီချင်းသံ ထွက်လာသော ဓာတ်စက်များသည်လည်း ထိုစက်သဘောမျိုးပင် ဖြစ်သည်။ ပိုက်ဆံထည့်လိုက်လျှင် လျှပ်စစ် ဓာတ်အားဖြင့် စိမ်ထားသော ဝက်မှင်ဘီးများဖြင့် ဖိနပ်တိုက်ပေးသော စက်မျိုးလည်းရှိသေးသည်။ ပျော်ရွှင်မှုနှင့် အလောင်းအစား လုပ်ငန်းများ၌ပင် ပိုက်ဆံပေါက် စက်များကို အသုံးပြုကြသည်။ ဤကဲ့သို့ ပိုက်ဆံပေါက် စက်များကို အသုံးပြုကြခြင်းသည် စီးပွားရေးကဏ္ဍသစ်တရပ်ကို ဖွင့်လှစ်လိုက်ခြင်းဖြစ်ပေသည်။

**ပိုက်သဂိုးရပ်**(ဘီစီ ၅၇၂--၅၀၀ ခန့်)။ ။ပိုက်သဂိုးရပ်သည် ထင်ရှားသော ဂရိလူမျိုး သိပ္ပံပညာနှင့် ယထာဘူတပညာရှင်ကြီး ဖြစ်သည်။ ဆေးမော့ကျွန်းတွင် ဖွားမြင်ခဲ့၍၊ မြေထဲပင်လယ် ကမ်းရိုးတန်းရှိ နိုင်ငံများတွင် နှစ်ပေါင်းသုံးဆယ်ခန့် လှည့်လည် နေထိုင်ခဲ့ပြီးနောက်၊ အသက် ငါးဆယ်ကျော် အရွယ်တွင် ဣတာလီပြည် တောင်ပိုင်းရှိ ကရိုတိုနာမြို့တွင် အတည်တကျ နေထိုင်လေသည်။

ကရိုတိုနာမြို့၌ နေထိုင်စဉ် ပိုက်သဂိုးရပ်သည် ဂိုဏ်းတဂိုဏ်း ထောင်ကာ၊ ယင်း၏ ယထာဘူတ သဘောတရားများကို ဟောပြောလေသည်။ ပိုက်သဂိုးရပ်၏ ယုံကြည်ချက်မှာ လူသေပြီးနောက်၊ လူ့ဝိညာဉ်သည် အခြားသက်ရှိ တခုအတွင်းသို့ ဝင်သည်။ လူနှင့် တိရစ္ဆာန်သည် ဆက်သွယ်လျက် ရှိသဖြင့်၊ လူကွယ်လွန်သော် နောက်ဘဝတွင် တိရစ္ဆာန်လည်း ဖြစ်နိုင်သည်။ လူသည် အပြစ် ကင်းစင်စွာ နေထိုင်ပါမှ၊ နောက်ဘဝတွင် တိရစ္ဆာန် ဖြစ်မည့် ဒုက္ခမှ ကင်းလွတ်နိုင်မည်ဟု ဖြစ်သည်။ ထို့ကြောင့် ပိုက်သဂိုးရပ် ဂိုဏ်းဝင်များသည် တည်ကြည်စွာ နေထိုင်၍ ခြိုးခြံစွာ ကျင့်ကြံကြရသည်။ မကြာမီ ယင်းဂိုဏ်းဝင်များ ပြန့်ပွားလာသော်လည်း၊ နိုင်ငံရေး အငွေ့အသက်များ ဝင်လာသော အခါ၌မူ၊ အစိုးရ၏ နှိပ်ကွပ်ခြင်း ခံရသဖြင့်၊ တဂိုဏ်းလုံး ဖရိုဖရဲ ဖြစ်သွားရလေသည်။

ပိုက်သဂိုးရပ်နှင့် သူ့ဂိုဏ်းဝင်များ၏ ကြံဆချက်များသည် သင်္ချာနှင့် နက္ခတ္တဗေဒ ပညာရပ်များကို ပိုမို ကျယ်ပြန့်လာစေသည်။ သူနှင့် သူ့ဂိုဏ်းဝင်တို့က "ထောင့်မှန်တြိဂံတခုတွင် ထောင့်မှန်ခံ အနားရှိ စတုရန်းသည် ကျန်အနား နှစ်ခုရှိ စတုရန်းများ ပေါင်းကိန်းနှင့် တူသည်" ဟူ၍ သက်သေ ထုတ်ပြချက်ကို ပိုက်သဂိုးရပ် သီအိုရမ်ဟုပင် ခေါ်ကြသည်။ ပိုက်သဂိုးရပ်နှင့် တပည့်များ၏ နက္ခတ္တဗေဒနှင့် စပ်လျဉ်းသော ထုတ်ဖော်ချက် တရပ်ကား 'ကမ္ဘာမြေကြီးသည် အလုံး ဖြစ်၍ အခြား ဂြိုဟ်များနှင့်အတူ နေကို လှည့်ပတ်လျက် သွားနေကြသည်' ဟူသော အချက်ဖြစ်သည်။ ယင်းအချက်မှ ကောပါးနီးကပ်၏ အဆိုမှန်ပေါ်ပေါက်လာရသည်ဟု ဆိုရန် ရှိသည်။ (ကောပါးနီးကပ်,အင် — ရှု။) ယထာဘူတ ပညာရှင်ကြီး ပလေးတို၏ အတွေးအခေါ် အယူအဆများသည် ပိုက်သဂိုးရပ်၏ အယူအဆများ၏ ကျေးဇူး မကင်းလှချေ။ (ပလေးတို — ရှု။)



ဂရိ ယထာဘူတ ပညာရှင် ပိုက်သဂိုးရပ်

ပိုက်သဂိုးရပ် သည် ဘီစီ ၅၀၀ ခန့်တွင် မက်တာပွန်တန် မြို့၌ ကွယ်လွန်သည်။

**ပဂ္ဂဆပ်။** ။ဂရိ ထုံးဟောင်း ပုံပြင်တို့၏ အလိုအရ၊ ပဂ္ဂဆပ်သည် ပါးဆယုက ဂေါ်ဂန်မီဒူးဆား၏ ဦးခေါင်းကို ဖြတ်ရာတွင် ကျဆင်းလာသော လည်ချောင်းသွေးမှ ဖြစ်သော နတ်မြင်းပျံ ဖြစ်သည်။ ထိုနတ်မြင်းပျံသည် ဂရိနတ်တို့၏ စံရာ ဉာနီသို့ ပျံတက်သောအခါ၊ အသီးနာ နတ်သမီးသည် ထို နတ်မြင်းပျံအား ဖမ်းယူ၍၊ ရွှေဇက်ကြိုး တပ်ဆင်ပြီးသော်၊ ဗယ်လာရိုဖွန်း နတ်သားအား ပေးလေသည်။ ဗယ်လာရိုဖွန်းသည် ပဂ္ဂဆပ် နတ်မြင်းပျံဖြင့် စစ်တိုက်ရာအောင်နိုင်သဖြင့်၊ မှားစွာ မာန တက်လာလေသော်၊ နတ်မြင်းပျံသည် ဗယ်လာရိုဖွန်းကို ကျောထက်မှ ခါချ၍၊ ကောင်းကင်သို့ ပျံတက်လေ၏။ ထိုအခါ ဂရိနတ်မင်းကြီးဖြစ်သော ဇုသည် ထိုနတ်မြင်းပျံကို ကောင်းကင်၌ နက္ခတ်ဖြစ်အောင် ဖန်ဆင်းလိုက်လေသည်။

ပဂ္ဂဆပ်နှင့် စပ်လျဉ်းသော အခြား ပုံပြင်တခု၏ အဆိုမှာ ပဂ္ဂဆပ်သည် ပိုဆိုင်ဒွန်နတ်၏ စေချက်အရ၊ ဟဲလီကန်တောင် ကောင်းကင်သို့ မြင့်၍ မြင့်၍ တက်လာသည်ကို ဟန့်တားရန် အလို့ငှါ ခွါနှင့် ပေါက်သည် ရှိသော်၊ ခွါပေါက်ရာ နေရာမှာ ရေပန်းတခု ထွက်လာသည်ဟု ဖြစ်၏။ ထိုရေပန်းသည် လူတို့ကို ကဗျာ ဖွဲ့နွဲ့ စပ်ဆိုလိုသော စိတ်ကို လှုံ့ဆော်ပေးတတ်သည်။ ဤသို့သော သဘောရှိသည်ကို အစွဲပြု၍၊ ပဂ္ဂဆပ်ကို ကဗျာဖွဲ့နွဲ့ခြင်း ဆိုင်ရာတို့၌ ဥပစာဖြင့် တင်စား သုံးနှုန်းလေ့ ရှိသည်။

**ပင့်ကူ။** ။ပိုးခြည်မျှင်ကဲ့သို့သော အမျှင် ကလေးများကို မိမိတို့ ကိုယ်မှ ထုတ်ကာ အိမ်ဖွဲ့ ရက်လုပ်နေသော အကောင်ကလေးများကို ပင့်ကူဟု ခေါ်သည်။ ပင့်ကူများသည် ကောင်းကင် ကြိုးတန်းပေါ်၌ လမ်းလျှောက်ခြင်း၊ တွဲလွဲခိုခြင်း၊ လွှဲခြင်း၊ ဂျွမ်းထိုးခြင်း အတတ်တို့၌ သူမတူအောင် စွမ်းလှသည်။ ဤအစွမ်းဖြင့် သူတို့၏ ဝမ်းရေးနှင့် မျိုးဆက် တည်တံ့ခိုင်မြဲရေးအတွက် ဆောင်ရွက်နိုင်သည်။

အာတိတ်စက်ဝိုင်းဒေသနှင့် အလွန်အလွန် မြင့်သော တောင်ထိပ်များမှအပ ပင့်ကူကို ကမ္ဘာ အရပ်ရပ်၌ တွေ့နိုင်သည်။ ယင်းတို့၏ အစားအစာ အလို့ငှါ ပိုးကောင်ငယ် ကလေးများ ရှိသည့် မည်သည့် နေရာ၌မဆို ပင့်ကူများ နေနိုင်သည်။ ပေ ၂၀၀၀ ကျော် မြင့်သော ဒေသများ၌ရော ပင်လယ် ရေပြင်အောက် နိမ့်သော သဲကန္တာရများ၌ပါ ပင့်ကူများ နေနိုင်ကြသည်။ ပင့်ကူများသည် ကမ္ဘာမြေပေါ်၌ နှစ်ပေါင်းသန်းပေါင်းများစွာကပင် ရှိခဲ့ကြောင်းကို ကျောက်ဖြစ်ရုပ်ကြွင်းများ တူးဖော်ရရှိခြင်းဖြင့် သိရလေသည်။

ပင့်ကူသည် အာရက်နီဒါ မျိုးပေါင်းတွင် အာရာနိုက်ဒါမျိုးစဉ်၌ပါဝင်သော ပိုးကောင်မျိုးဖြစ်သည်။

ပင့်ကူ၏ ခန္ဓာကိုယ်သည် အခြား ပိုးမွှားတို့ကဲ့သို့ ဦးခေါင်းပိုင်း၊ ရင်ပိုင်းနှင့် ဝမ်းပိုင်း ဟူ၍ သုံးပိုင်း မရှိဘဲ ဦးခေါင်းနှင့် ရင် တစပ်တည်းက တပိုင်းနှင့် ဝမ်းပိုင်း ဟူ၍ ၂ ပိုင်းသာ ရှိသည်။ ဦးခေါင်း အနေဖြင့် သပ်သပ် လှုပ်ရှား၍ မရချေ။ ဝမ်းပိုက်ပိုင်း၌ အူ၊ သက်ရှူအင်္ဂါစုံ၊ နှလုံး၊ မျိုးပွား အင်္ဂါစုနှင့် ခြည်မျှင်ရက် အင်္ဂါစုများ ပါသည်။ ပင့်ကူတွင် အတောင် မရှိချေ။ ရင်ပိုင်း၌ ခြေတဖက် လေးချောင်းစီရှိသည်။ ခြေထောက်များသည် သေး၍ ရှည်သည်။ အဆစ် ခုနစ်ဆစ်ရှိ၍ ခြေတွင် ခြေသည်းကလေးများ ရှိသည်။ အချို့ ပင့်ကူများသည် ရှေ့နှင့်နောက် သာမက ဘေးတိုက်လည်းသွားနိုင်ကြသည်။ ရင်ပိုင်း၏ထိပ်ပါးစပ်ရှေ့၌မူ အာရုံမှင်ကဲ့သို့သော အတံတစုံ ပါသည်။ သို့ရာတွင် အခြား ပိုးကောင်များ၌ကဲ့သို့ အာရုံခံ အဖြစ် အသုံးပြုရန်ကား မဟုတ်ချေ။ ပင့်ကူ၏ ဦးခေါင်းပေါ်တွင် အမျိုးအစားအလိုက် မျက်လုံး ၂ လုံးမှ မျက်လုံး ၈ လုံး အထိပါသည်။ သို့ရာတွင် အဝေးကို မမြင်ရချေ။ ပင့်ကူတို့သည် စက္ခုအာရုံထက် ဖောဋ္ဌဗ္ဗာရုံ၌ ပို၍ ရှင်သန်ကြသည်။ ပင့်ကူအိမ်တွင် သူတို့၏ အစာ ယင်ကောင် နားနေ

သည်၊ သို့မဟုတ် သူတို့၏ ရန်သူ နကျယ်ကောင် နားနေသည်ကို ပင့်ကူအိမ်မှ ထိုအကောင်တို့၏ ရုန်းကန်အားကို ခံစားလိုက်ရ၍ဖြင့် ပင့်ကူတို့ သိကြသည်။ ထို့ကြောင့် ပင့်ကူတို့သည် ကမ္ဘာပေါ်တွင် ယခုတိုင် မျိုးဆက် မပျောက်ဘဲ တည်ရှိနေနိုင်ခြင်း ဖြစ်သည်။

ကမ္ဘာ အနှံ့ဘွင် ပင့်ကူများ တွေ့နိုင်သည့်အနက် မျိုးပေါင်း များစွာလည်း ရှိသည်။ တမျိုးနှင့်တမျိုး အနေအထိုင် အပြုအမူလည်း ခြားနားကြသည်။ တောင်အမေရိကတိုက် အပူပိုင်း ဒေသတွင် တွေ့ရသော ပင့်ကူကြီးမျိုးသည် ပိတုန်းကဲ့သို့ ပိုးမွှား တိရစ္ဆာန်များကို စားသည်။ ကျင်းတူးပင့်ကူမျိုးသည် မြေကြီးထဲ၌ကျင်းတူး၍ အောင်းနေတတ်သည်။ ကျင်းဝ၌ သူတို့ ကိုယ်မှ ထုတ်သော အမျှင်များဖြင့် ရက်၍ ပိတ်ထားပြီးနောက်၊ ယင်း အမျှင်များပေါ်သို့ လာသော ပိုးကောင်၏ ခြေသံ ကြားသည်နှင့် ကျင်းထဲမှ ထွက်၍ ဖမ်းယူ စားသောက်ကြသည်။ ဝံပုလွေ ပင့်ကူမျိုးသည်လည်း မြေတွင်းတူး၍ နေတတ်သော ပင့်ကူမျိုး ဖြစ်သည်။ သို့ရာတွင် ကျင်းတူး ပင့်ကူမျိုးကဲ့သို့ ပိုးမျှင်အိမ် ရက်၍ ပိုးကောင်ကို ထောင်မဖမ်းဘဲ ချောင်းမြောင်း ခုပ်ဖမ်းပြီးလျှင် သတ်စားကြသည်။ ဝံပုလွေ ပင့်ကူမကြီးသည် သားငယ်များကို ဥမှပေါက်စ ရက်သတ္တပတ် အနည်းငယ်ခန့် ကျော၌ ပိုးထားတတ်သည်။ (တရန်တို ပင့်ကူ — ရှု။)

ကနန်း ပင့်ကူမျိုးသည် ကနန်းကဲ့သို့ပင် နောက်ပြန်သွားတတ်သည်။ ရှေ့ခြေတံ ၂ စုံသည် ခန္ဓာကိုယ်ထက် သုံးဆရှည်သည်။ အခြား ပင့်ကူမျိုးကဲ့သို့ ကိုယ်မှ ထွက်သော အမျှင်ဖြင့် အိမ်ဖွဲ့၍ အစာ ဖမ်းခြင်း မပြုချေ။ ပန်းပွင့်ထဲ၌ ခိုနေပြီးနောက် ဝတ်ရည် စုတ်လာသော ပိုးကောင်များကို ဖမ်းစားတတ်သည်။ အများအားဖြင့် ကနန်းပင့်ကူများသည် အဖြူရောင်၊ သို့မဟုတ် အဝါရောင်ဖြစ်သည်။

ပင့်ကူပျံမျိုးသည် လှုလက် အနားရောက်လာသည်နှင့် တပြိုင်နက် ခုန်ပြေးတတ်သည်။ ဆွေးမြည့်နေသောဝင်းထရံတို့တွင် နေတတ်သည်။ အထီးသည် အမအား ခုန်ပျံ ကပြခြင်းဖြင့် လူပျိုလှည့်တတ်သည်။

ရေပင့်ကူမျိုးသည် ရေထဲ၌ ပင့်ကူအိမ် ရက်၍ နေတတ်သည်။ အမေရိကန်ပြည်ထောင်စု၌ အများအပြား တွေ့ရသော ဗလက်ဘစ်ဒိုးခေါ် ပင့်ကူမျိုးသည် အဆိပ် အပြင်းဆုံး ပင့်ကူမျိုး ဖြစ်သည်။ ယင်း ပင့်ကူမျိုး အကိုက်ခံရသူသည် အပြင်း ဖျား၍ တခါတရံ သေသည်အထိ ဖြစ်တတ်သည်။ အိန္ဒိယ နိုင်ငံမှ ငှက်ဖမ်းသည့် ပင့်ကူ အကြီးစား တမျိုးလည်း ရှိသေးသည်။ ယင်း ပင့်ကူမျိုးသည် နောက်ခြေ ၂ ချောင်းပေါ်တွင် ရပ်၍ ကျန် ခြေခြောက်ချောင်းကို တွန့်သိန် လှုပ်ရှားပြီးလျှင် သံတိုသံစကလေးများကို ပန်းကန်ပြားပေါ်သို့ ခပ်မြင့်မြင့်မှ လောင်းချသည့်အခါ ထွက်လာသော အသံကဲ့သို့သော အသံမျိုးကို ကျယ်လောင်စွာ ပြုလေ့ ရှိသည်။ ဩစတြေးလီးယား နိုင်ငံ၌ တွေ့ရှိရသော ဒီကရောတီရုပ်မဂ္ဂနီဖီးကပ်ခေါ် ပင့်ကူတမျိုး၏ အစာရှာဖွေစားသောက်ပုံသည်လည်း ဆန်းကျယ်သည်။ ယင်း ပင့်ကူသည် သူတို့၏ ကိုယ်မှ အမျှင် တလက်မခွဲခန့် အရှည်ကို အောက်သို့တွဲလွဲချ၍ အောက်ဖက်စွန်းတွင် တွယ်အပ်ခေါင်းထက် အနည်းငယ် ကြီးသော အစေးလုံးကလေး တခုပါသည်။ တခါတရံ လေးငါးလုံး ဆင့်ထားသည်။ ယင်း အမျှင်ကို ရှေ့ခြေတဖက်ဖြင့် တံငါသည်တဦး ငါးများတံကိုင်သကဲ့သို့ ကိုင်၍ ပိုးကောင်များကို ဖမ်းယူ စားသောက်ကြသည်။ တောင်အာဖရိကတိုက်မှ ပင့်ကူ တမျိုးကား ယင်းတို့၏ ကိုယ်မှထွက်သော အမျှင်ဖြင့် ကန်တော့ပုံ သဏ္ဌာန် ပိုက်ကွန်တခုကို ရေတိမ်တွင် ပြုလုပ်၍ ဖားလောင်းကောင်များကို ဖမ်းယူ စားသောက် တတ်ကြသည်။ သလက်ဆီးယပ်ခေါ် ပင့်ကူတမျိုးကမူ ရေစပ် အစွန်းထွက်နေသော ကျောက်ကမ်းပါးတွင် နောက်ခြေဖြင့် တွယ်ကပ် နေပြီးနောက် အောက်ဖက်မှ ဖြတ်ကူးသွားသော ငါးများကို ဖမ်းကာ ငါးမှ အဆီကို စုတ်ယူစားတတ်သည်။

ပင့်ကူအိမ်သည် ပင့်ကူများ အဖို့ နေအိမ်သဖွယ်သာ မဟုတ်၊ အစာ ဖမ်းရန် ကွန်ရက်သဖွယ်လည်း အသုံးကျသည်။ ပင့်ကူသည် အိမ်၏ အလယ်တွင် နေလေ့ ရှိသဖြင့် အိမ်အမျှင် များသည် အလယ် ဗဟိုမှ ဖြာထွက်သည့် အလျောက် မည်သည့် အမျှင်ပေါ်သို့ မဆို ပိုးကောင်နားလျှင် ချက်ချင်း သိနိုင်ကြသည်။ ငြိတွယ်နေသော ပိုးကောင် မလွတ်စေရန် အိမ်ကို လှဲ၍လှဲ၍ လှုပ်ပေးခြင်းဖြင့် အစေးပိုကပ်စေသည်။ ပင့်ကူမျှင်သည် အလွန်ခိုင်သည်။ ပင့်ကူ မျှင်များကို တလက်မလုံး ကြိုးအဖြစ် ကျစ်ထားပါမူ ၇၄ တန် အလေးချိန်ကို ကောင်းစွာဆွဲနိုင်သည်။ ပင့်ကူမျှင် တလက်မလုံး ကြိုးသည် တလက်မလုံး သံကြိုးထက် သုံးဆ ပိုခိုင်သည်။ ယင်းအမျှင်ကို မိုက်ကရိုစကုပ်နှင့် တယ်လီစကုပ်တို့ ပြုလုပ်ရာတွင် သုံးသည်။ ပင့်ကူအိမ်များသည် ပုံအမျိုးမျိုး ရှိသည်။ ကတော့ပုံ၊ အဝိုင်းပုံ၊ စောင်ဆင်စသည်ဖြင့် ဖြစ်သည်။ ပင့်ကူသည် သွေ့ဖင်ပိုင်း၌ ရှိသော အမျှင် ထွက်ပေါက်များကို ညှစ်ထုတ် လိုက်သည့် အခါ ပိုးရောင် တောက်နေသည့် အရည်စေးများ ထွက်လာသည်။ ထိုအခါမှ ပင့်ကူသည် ရှေ့သို့ တဖြည်းဖြည်း ပြေးလိုက်သောအခါ အရည်သည် အပလေနှင့် ထိတွေ့ကာ ခဲ၍ အမျှင်ရှည်ကြီး ဖြစ်လာသည်။ ယင်းအမျှင်ကို ပင့်ကူသည် နောက်ခြေဖြင့် ထိန်း၍ လိုသည့်နေရာရောက်မှ တွယ်ထားခဲ့ပြီးလျှင် နောက်ထပ် အမျှင်များထုတ်ကာ အပြန်အလှန် ရက်တော့သည်။ ပင့်ကူအိမ်ကို ခိုင်သည်ထက် ခိုင်အောင်

ထပ်ကာ ထပ်ကာ လှည့်၍ရက်သည်။ ကတော့ ပုံသဏ္ဌာန် ပင့်ကူအိမ်ဆောက်သော ပင့်ကူမျိုးသည် ပင့်ကူအိမ် အဝိုင်းမျိုးကို ဆောက်လေ့မရှိချေ။ မျိုးရိုးအလိုက် ပုံမျိုးကိုသာ ဆောက်ကြသဖြင့် ပင့်ကူများသည်လည်း မိရိုးဖလာကို ထိန်းသိမ်းသောသတ္တဝါမျိုး ဖြစ်သည်။

ပင့်ကူမသည် ပင့်ကူထီးထက် အကောင် ကြီးသည်။ အများအားဖြင့် ပင့်ကူမများသည်သာ အိမ်ကို ရက်ကြသည်။ အရွယ်ရောက်သောပင့်ကူမ၏ ဦးခေါင်းထိပ်ရှိ အာရုံမှင်ကဲ့သို့သော အတံစုံသည် ပူဖောင်းသဖွယ် ဖောင်းလာသည့်အခါ ပင့်ကူထီးသည် သူ၏သုက်ရည်ကို ယင်းအဖောင်းတွင်းသို့ထည့် သွင်းလိုက်ပြီးနောက်တွင် ဥများအုလာသည်။ ပိုးဖြင့် ပြုလုပ်ထားသကဲ့သို့ တောက်ပြောင်သော ဥအိတ်တခုတွင် ဥ ရာပေါင်းများစွာပါသည်။ ဆောင်းကူး ရာသီတွင် အုသော ပင့်ကူဥသည် တဆောင်းကုန်မှ ပေါက်၍ နွေဦးတွင် အုသော ဥသည် အရက် ၂၀ မှ ၆၀ အတွင်း၌ ပေါက်လာသည်။ အချို့ ပင့်ကူမများသည် ဥအုပြီးသည်နှင့်သေကြရာ သားငယ်များသည် ဥအိမ်ကို မိမိတို့ဘာသာ မိမိတို့ ဖောက်၍ ထွက်ကြရသည်။ မိမိတို့ အိမ် မိမိရက်နိုင်သော အရွယ်သို့ ရောက်မှသာလျှင် ဥမှ ထွက် လာလေ့ရှိကြသည်။

ပင့်ကူတွင် ရန်သူအများ ရှိသည့် အနက် နကျယ်ကောင်သည် သူတို့၏အဆိုးဆုံး ရန်သူဖြစ်သည်။ သို့ရာတွင် အချို့နကျယ်မျိုးကိုမူ ပင့်ကူတို့က ဖမ်းယူ စားသောက်ပစ်ကြသည်။ ပင့်ကူများသည် လူတို့အား အနှောင့်အရှက်ပြုသော ပိုးကောင်များမှအစ ပိုးကောင်အားလုံးကို စားသည်။ ထို့ကြောင့် ပင့်ကူသည် လယ်သမား ယာသမားနှင့် ဥယျာဉ်သမားတို့၏ မိတ်ဆွေများဖြစ်သည်။ သို့ရာတွင် ပင့်ကူသည် အလွန် ကြောက်ဖွယ်ကောင်းသော အသားစား သတ္တဝါတမျိုးဖြစ်သည်။ အလွန် ဆာလောင် မွတ်သိပ်သည့်အခါ ပင့်ကူမများသည် ပင့်ကူထီးများကိုပင် စားပစ်တတ်ကြသည်။ တကောင်နှင့် တကောင် အတူထားကလည်း ကိုက်သတ်စားတတ်ကြသည်။

**ပင်စိမ်းပင်။** ။ပင်စိမ်းပင်ဟုဆိုလျှင်အချို့သောအိန္ဒိယအမျိုးသားဗြဟ္မဏအယူဝါဒီများ၏အိမ်စုတွင် အလေးအမြတ်ပြုကာစိုက်ပျိုးထားသော ပင်စိမ်းပင်များကို သတိရကြပေလိမ့်မည်။ ပင်စိမ်းပင်သည် အနံ့မွှေးသော ချုံပင်မျိုး ဖြစ်သည်။ အပင်ပျော့မျိုး ဖြစ်၍ အမြင့် တပေမှ နှစ်ပေခန့်ရှိသည်။ လေးဗီယေးတီး မျိုးရင်းတွင် ပါဝင်၍ မျိုးစိတ်များစွာ ရှိသည်။ မြန်မာနိုင်ငံတွင် တွေ့ရသော ပင်စိမ်းပင်မျိုးတို့မှာ ကုလား ပင်စိမ်းနှင့် ရိုးရိုး ပင်စိမ်း ဖြစ်သည်။ ကုလားပင်စိမ်း၏ ရုက္ခဗေဒ အမည်မှာ အော့စီမမ်ဆန့်တမ် ဖြစ်၍ ဗြဟ္မဏ အယူဝါဒီတို့ အထွတ်အမြတ်ထားသော အပင်ဖြစ်သည်။ မြန်မာနိုင်ငံတခွင်လုံး၌ ပေါက်ရောက်သည်။ အိန္ဒိယနိုင်ငံတွင် ဗြဟ္မဏ အယူဝါဒီတို့၏ အိမ်တိုင်းတွင် စိုက်ပျိုးထားသည်။ ရိုးရိုး ပင်စိမ်း၏ ရုက္ခဗေဒ အမည်မှာ အော့စီမမ်ကေနမ် ဖြစ်၍ အထက်မြန်မာနိုင်ငံနှင့် မိုးပါး ရေရှားရပ်ဝန်းတွင် ပေါက်ရောက်လေ့ ရှိသည်။

ပင်စိမ်းပင်သည် အနံ့မွှေးသော အပင်မျိုးဖြစ်၍ ဟင်းမွှေးပင်မျိုးတွင်လည်း အပါအဝင်ဖြစ်သည်။ အနောက်နိုင်ငံများတွင် ပင်စိမ်းရွက်ကို စားသောက်ဖွယ်ရာ ဟင်းလျာတို့အနံ့ မွှေးစေရန် ဟင်းခတ်အဖြစ် သုံးသည်သာမက ဆေးများ၊ ရေမွှေးများတွင် ထည့်သွင်းအသုံးပြုရန် ဆီတမျိုးကိုလည်း ပင်စိမ်းပင် အမျိုးမျိုးတို့မှ ထုတ်ယူကြသည်။ မြန်မာနိုင်ငံတွင် အိမ်ရှင်မများ သားငါးဟင်းလျာချက်ပြုတ်ရာတွင် အနံ့အရသာ ပိုမို ကောင်းမွန်စေရန် ပင်စိမ်းရွက် အနည်းငယ် ခတ်လေ့ ရှိကြသည်။ ပင်စိမ်းရွက်ကို အရည် ညှစ်၍ ချောင်းဆိုးပျောက်ဆေးအဖြစ်လည်း သုံးကြသည်။ အိန္ဒိယနိုင်ငံတွင် ကွမ်းရွက်အစား၊ ပင်စိမ်းရွက်ကို ဝါးကြသူများလည်း ရှိကြလေသည်။

ပင်စိမ်းပင်၏ အရွက်တို့သည် သေးငယ်၍ အနားမှာ ခွေးသွားစိတ်ကဲ့သို့ အတွန့် ချွန်ကလေးများရှိသည်။ အရွက်၏ ပုံပန်းမှာ ဥဝိုင်း–လုံးစွပ်ပုံ ဖြစ်သည်။ သုံးလက်မမှ ရှစ်လက်မအထိရှည်သော အပွင့်တံများတွင် အဖြူ၊ သို့မဟုတ် ခရမ်းဖျော့ဖျော့ အရောင်ရှိသော သေးငယ်သည့် အပွင့်ကလေးများ အပွင့်တံကိုဝိုင်းပတ်၍ပွင့်ကြသည်။ ဇူလိုင်လမှ ဖေဖော်ဝါရီလများအတွင်း အပွင့်များပွင့်သည်။ အနက်ရောင်အခွံမာသီးကလေးများ သီးသည်။ အစေ့စိုက်ရသော အပင်မျိုး ဖြစ်လေသည်။

**ပင်ဆီပင်။** ။ပင်ဆီပင်သည် ပန်းပင်တမျိုးဖြစ်၏။ ယင်းသည် သစ်နုပင်မျိုး ဖြစ်သည်။ အချို့မှာ တနှစ်ခံပင်မျိုးဖြစ်၍၊ အချို့ကား နှစ်ကြာခံပင်မျိုး ဖြစ်သည်။ ရုက္ခဗေဒအလိုအားဖြင့် ဗိုင်အိုလာထရိုင်ကာလာ ဟု ခေါ်၍၊ 'ဗိုင်အိုလေးစီအီး' မျိုးရင်းတွင် ပါဝင်သည်။ ထိုအပင်မျိုး၏ ဇာတိမှာ ဥရောပတိုက် ဖြစ်သည်။ အနည်းဆုံး နှစ်ပေါင်း ၄၀၀ ကပင် ထိုဒေသ၌ စိုက်ပျိုးခဲ့ကြသည်။ ထို့နောက် အအေး သမပိုင်း ရာသီဥတုရှိသော ဒေသများ၌ စိုက်ပျိုးကြသည်။

ပင်ဆီပင်များသည် အမြင့် ၆ လက်မခန့်သာ ရှိ၍၊ ရွက်ညှာရှည်နှင့် နှလုံးပုံ အရွက်များ ရှိသည်။ သဘာဝအလျောက် ပွင့်သော ပန်းပွင့်များသည် ပြုပြင်၍ စိုက်ပျိုးသော အပင်မှ ပွင့်သော ပန်းပွင့်၏ ၃ ပုံ ၁ ပုံခန့်သာ ရှိသည်။ စိုက်ပျိုးယူသော လှပသည့် အပွင့်များ၏ အရောင်



အအေးသမပိုင်း ဒေသများ၌ ပေါက်လေ့ရှိသော ပင်ဆီပန်းပင်

သည် ခရမ်းရောင်နု၊ ခရမ်းရောင်ရင့်၊ အပြာ၊ အဝါ၊ အဖြူ နှင့် အညို ဖြစ်သည်။ သို့တည်းမဟုတ် ထိုအရောင်များ ပါဝင်သည့် ရောင်စုံများ ဖြစ်နိုင်သည်။ ပန်းပွင့်များတွင် အရွယ်ချင်း မတူသော ပွင့်ချပ်ကျယ် ၅ ခု၊ တိုသော ဝတ်ဆံဖို ၅ ခုနှင့် ပွင့်ဖတ် ၅ ခု ရှိသည်။ စိုက်ပျိုးယူသော အပင်မှ ပန်းပွင့်သည် အချင်း ၃ လက်မ ရှိသည်။ ပင်ဆီပင်သည် မြေဩဇာ ထည့်ထားသော နုံးမြေ များတွင် သန်စွမ်းစွာ ပေါက်ကြသည်။ ပူသော ရာသီ ဥတုတွင် ခြောက်သွေ့သော လေ၏ ဒဏ်ကို မခံနိုင်သဖြင့်၊ အရိပ်အောက်၌ စိုက်ထားသည့်တိုင်အောင် မရှင်ချေ။ ဤကဲ့သို့ ပူသော ရာသီဥတုတွင် ယင်းတို့၏ အစေ့များကို စွတ်စို၍ အေးနေစေရန်၊ ကောက်ရိုးများနှင့် ဖုံးထားသော အိမ်များတွင် စိုက်ပျိုးကြသည်။ ပေါက်လာသော အပင်ကလေးများကို ရေခိုး ရေငွေ့ မပါသော လေ၏ ဒဏ်မှ ကာကွယ်ပေးရသည်။ ထိုနောက် တဖန် အပင်ကလေးများကို အိမ်များ၌ပင် ပြောင်းရွှေ့၍ စိုက်ပျိုးပေးကြသည်။ ဤသို့ စိုက်ရာ၌ တပင်နှင့် တပင်ကို ၂ လက်မစီ ခွါ၍ စိုက်ရသည်။ ထိုသို့ စိုက်ထားသော် တလ၊ သို့မဟုတ် တလခွဲခန့် ကြာမျှ ပန်းများ ပွင့်ကြသည်။

**ပင်ဆီလဗေးနီးယား ပြည်နယ်။** ။ပင်ဆီလဗေးနီးယားပြည်နယ်သည် အမေရိကန် ပြည်ထောင်စု အပါအဝင် ပြည်နယ်များ အနက်၊ နယူးယော့ ပြည်နယ် တနယ်မှ လွဲလျှင်၊ လူဦးရေ အများဆုံး ပြည်နယ် ဖြစ်သည်။ ထိုပြည်နယ်သည် ကုန်းပြင်မြင့် ဖြစ်၍၊ ထိုကုန်းပြင်မြင့်ကို တောင်တန်းကြီးများ ဖြတ်သန်းလျက် ရှိသည်။ မြေဩဇာ ကောင်းသော မြစ်ဝှမ်းများ၊ သစ်တောများနှင့် ရှုမျှော်ခင်းများ ရှိလေသည်။ အယ်လီဂေးနီး မြစ်ကြီးသည် ပင်ဆီလဗေးနီးယား အနောက်ဖက်ပိုင်းတွင် ရှိ၍၊ အလယ်ပိုင်းတွင် အခြား မြစ်ငယ်များ ရှိကြ၏။

ထိုပြည်နယ်မှ သတ္တု အများဆုံး ထွက်သည်။ ယင်းတို့အနက် သံမှာ အများဆုံး ဖြစ်သည်။ ကျောက်မီးသွေးလည်း အများပင် ထွက်၏။ ထို့ကြောင့် သံ၊ သံမဏိနှင့် ကျောက်မီးသွေး လုပ်ငန်းတို့သည် ထိုပြည်နယ်၏ အဓိက လုပ်ငန်းများ ဖြစ်သည်။ အခြား လုပ်ငန်းတို့ကား အစားအစာ ပြုလုပ်ခြင်း၊ အထည် ရက်ခြင်း၊ ဓာတုဗေဒ ဝတ္ထုပစ္စည်းများ ပြုလုပ်ခြင်း စသော လုပ်ငန်းတို့ ဖြစ်၏။ စက်မှုလက်မှု လုပ်ငန်းတို့၌ ထိုပြည်နယ်သည် အမေရိကန် ပြည်ထောင်စုတွင် နယူးယော့ ပြည်နယ် ပြီးလျှင် အကြီးဆုံး ဖြစ်၏။ ရာသီဥတုသည် တခါတရံ အပူအအေး လွန်ကဲတတ်သော်လည်း၊ ကျန်းမာရေးနှင့် ညီညွတ်သော ရာသီဥတု ဖြစ်၏။

ထိုပြည်နယ်၌ သတ္တု တူးခြင်း လုပ်ငန်းကို အိုင်းရစ်လူမျိုး၊ ဟန်ဂေးရီးယန်း လူမျိုးနှင့် ဣတာလျံ လူမျိုးတို့ လုပ်ကိုင်ကြ၏။ လယ်ယာ စိုက်ပျိုးခြင်းကိုမူ ဒပ်ချ လူမျိုးတို့၏ အဆက် အနွယ်တို့က လုပ်ကိုင်ကြသည်။

ဟဲရစ်စဗတ်မြို့မှာ မြို့တော် ဖြစ်၍၊ ၁၉၅၀ ပြည့်နှစ် သန်းကောင် စာရင်း အရ လူဦးရေ ၈၉,၅၄၄ ယောက်မျှသာ ရှိလေသည်။

ဖိလဒဲလဖီးယားမြို့သည် အမေရိကန် ပြည်ထောင်စုတွင် လူဦးရေအားဖြင့် ဒုတိယ စွဲသော မြို့ကြီးဖြစ်သည်။ ထိုမြို့၌ လူပေါင်း ၂ သန်းကျော် နေထိုင်သည်။ အမေရိကန် ပြည်ထောင်စုတွင် လူဦးရေအားဖြင့် ဒုတိယ စွဲသော ပင်ဆီလဗေးနီးယား ပြည်နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၄၅,၃၃၃ ကျော် ရှိ၍၊ လူဦးရေမှာ ၁၀,၄၉၈,၀၁၂ ယောက် ဖြစ်၏။ ဤပြည်နယ်သည် အမေရိကန် ပြည်ထောင်စုကို စတင် တည်ထောင်သည့် ပြည်နယ် ၁၃ နယ်အနက် တနယ် အပါအဝင် ဖြစ်သည်။ ပင်ဆီ လဗေးနီးယား ပြည်နယ်တွင် ဥရောပတိုက်သားထဲမှ ပဌမဦးစွာ နယ်တည်သူတို့မှာ ခရစ် ၁၆၄၃ ခုနှစ်တွင် ရောက်လာကြသော ဆွီဒင် နိုင်ငံသားများ ဖြစ်၏။ သို့သော် ၁၆၈၂ ခုနှစ်တွင် အင်္ဂလန်ပြည်မှ ရေတပ်ဗိုလ်ချုပ်မှူးဆာဝီလျံပင်းသည် အင်္ဂလန်ပြည့်ရှင် ဒုတိယချားထံမှ အကြွေးပေါင်ပေါင်း ၈၀,၀၀၀ ကိုရစရာရှိ၍၊ မြောက်အမေရိကတိုက် ဒဲလဝဲယားမြစ် အနောက်ဖက်ရှိ မြေတို့ကို သားဖြစ်သူ ဝီလျံပင်းအငယ်ကခုနှိမ်

၍ယူရလေသည်။ ဝီလျံပင်းသည် ထိုမြေကို ဆိလဗေးနီးယားဟု မှည့်ခေါ်၍၊ နယ်သစ်ထူထောင်၏။ နောင်အခါတွင် ဒုတိယ ချားဘုရင်က မူလ ဝီလျံပင်းကို ဂုဏ်ပြုစေသောအားဖြင့်၊ ထိုနယ်ကို ပင်ဆိလဗေးနီးယားဟု ခေါ်တွင်စေသည်။ (ပင်း, ဝီလျံ — ရှု။)

**ပင်နီဆလင်။** ။ဆေးဖက် ဆိုင်ရာ လုပ်ငန်းတွင် အကြီးကျယ်ဆုံးသော ပြဿနာမှာ ကိုယ်ခန္ဓာ၏ အတွင်းနှင့် အပြင်ဖက်တို့မှ ဖျက်ဆီးနေသော ရန်များကို ဓာတ်သဘော အရ ထိန်းသိမ်း တားဆီးနိုင်မှု ဖြစ်၏။ ဗက်တီးရီးယားကို စတင်တွေ့ရှိလာခဲ့သည့် အချိန်မှ စ၍၊ ကိုယ်ခန္ဓာကို အတွင်းနှင့် အပြင်မှ မည်သို့ ဖျက်ဆီးနိုင်သည်။ မည်သို့ တားဆီးနှိမ်နင်းနိုင်သည် စသည့် အကြောင်းတို့ကို လေ့လာခဲ့ရာ ယခုခေတ်တွင် ဆေးဖက် လုပ်ငန်းသည် ဗက်တီးရီးယားမျိုးအချို့ကို ကောင်းစွာ နှိမ်နင်းနိုင်ခဲ့ပြီ ဖြစ်၏။ ထိုသို့ အောင်မြင်ချက်များတွင် ဒုတိယ ကမ္ဘာစစ် အတွင်းက ဗက်တီးရီးယား အငယ်စားမျိုး ဖြစ်သော ပရိုတိုဇိုဝါ တမျိုးကို တွေ့ရှိခဲ့ခြင်းသည် မှတ်သားလောက်ပေသည်။ (ဗက်တီးရီယားပညာ — ရှု။)

ဒုတိယ ကမ္ဘာစစ် အတွင်းက တွေ့ရှိခဲ့သော ဗက်တီးရီးယား အငယ်မျိုးသည် ကော့ဆိုင်း ခေါ်သော ပရိုတိုဇိုဝါများပင် ဖြစ်သည်။ ထိုကော့ဆိုင်း ဗက်တီးရီးယားမျိုးသည် အပင်လောကတွင် ရှိသော သက်ရှိမျိုး ဖြစ်သည်။ ထိုပိုးမျိုးကို နှိမ်နင်းရန် ရှေးဦးစွာ ပေါ်သောဆေးမှာ အမ်-ဗီ ၆၉၃ ခေါ် ဆာလဖွန် နမိုက်ဆေး အမျိုးဝင် ဆာလဖာပီရီဒင် ဆေးဖြစ်သည်။ ထိုမှ တစတစ ဗက်တီးရီးယား အမျိုးမျိုးကို နှိမ်နင်းနိုင်သော ဆေးများကို စမ်းသပ် လေ့လာခဲ့ရာ ဒုတိယ ကမ္ဘာစစ်အတွင်း၌ ပင်နီဆလင်ကို တီထွင် ဖော်စပ်လာနိုင်ခဲ့ပေသည်။

ပင်နီဆလင် အကြောင်းနှင့် ပတ်သက်၍ သမိုင်းတင်လောက်သော အချိန်ကြီး သုံးချိန် ရှိရာ ပဌမ အချိန်သည် ပင်နီဆလင်ကို ဖလင်းမင်းဆိုသူက ရှေးဦးစွာ တွေ့ရှိသော ၁၉၂၉ ခုနှစ် ဖြစ်သည်။ (ဖလင်းမင်း, ဆာအယ်လက်ဇန္ဒာ — ရှု။) ဒုတိယ အချိန်မှာ ပင်နီဆလင်၏ ဓာတ်ဂုဏ်များကို ရေးစထြစ်ဆိုသူက မှတ်တမ်း ရေးသားသော ၁၉၃၂ ခုနှစ် ဖြစ်၍၊ တတိယ အချိန်မှာ ပင်နီဆလင်၏ ဆေးဖက်ဝင်ပုံကို ဖလောရီ ဆိုသူက ကျေညာသော ၁၉၄၀ ပြည့်နှစ် ဖြစ်သည်။ နောက်ဆုံးအချိန်တွင် အုတ်အော် သောင်းတင်း အဖြစ်ဆုံးပင်တည်း။

ပင်နီဆလင်ကို ဒုတိယကမ္ဘာစစ် မဖြစ်မီ ကာလကပင် စတင်တွေ့ရှိခဲ့သော်လည်း ဆေးအဖြစ် ဖော်စပ်၍ အများသုံးအတွက် မပြုလုပ်နိုင်ချေ။ ဒုတိယကမ္ဘာစစ် အတွင်းကျမှသာ ဆေးအဖြစ် အများအပြား အသုံးပြုလာနိုင်ခဲ့ပေသည်။ ပင်နီဆလင်တွင် ဆာလဖာ ဆေးများထက် သာလွန် ကောင်းမွန်သော အချက်များရှိ၏။ ပဌမအချက်မှာ ပင်နီဆလင်သည် အခြား ဆာလဖာဆေးများထက် လူ၏ကိုယ်ခန္ဓာတွင် အဆိပ်တက်ခြင်း နည်းပါးစေခြင်းဖြစ်၏။ ဒုတိယအချက်မှာ ပင်နီဆလင်သည် ကူးစက်တတ်သော ရောဂါနှင့် စပ်လျဉ်း၍ နှိမ်နင်းရာတွင် ပို၍ထိရောက်စေနိုင်ခြင်းဖြစ်၏။ တတိယအချက်မှာ ပင်နီဆလင်သည် ဗက်တီးရီးယားမျိုးဖြစ်ပွားခြင်းကို တားဆီးနိုင်ခြင်းဖြစ်၏။

ပင်နီဆလင် ပြုလုပ်ပုံ သဘောမှာ အောက်ပါအတိုင်း ဖြစ်၏။'ပင်နီဆီလီယမ်နိုတေတမ်' ခေါ် မှိုကို ဓာတ်ဆား အမျိုးမျိုးနှင့် သကြား ရောစပ်ထားသော ပျော်ဝင်ရည်ပေါ်တွင် ပေါက်စေ၏။ ထိုမှိုသည် ကြီးလာသောအခါ အနည်းငယ်မျှသာ ဖြစ်ပေါ်သော ပင်နီဆလင်ကို ရေထဲသို့ စွန့်ပစ်၏။ မှိုကို ဖယ်ထုတ်ပြီးသော အခါ ပင်နီဆလင်ကို ပျော်ဝင်ရည်မှ စစ်ထုတ်ယူရသည်။ ပင်နီဆလင်ကို နည်းအမျိုးမျိုးဖြင့် ထုတ်ယူရရှိနိုင်သည်။

ရေနှင့် မရောဘဲ ရေပေါ်၌ရင်း၊ ရေအောက်၌ရင်း တည်ရှိတတ်သည့် အရည်များရှိသည်။ ပုံပမာ အီသာကလိုရိုဖောင်း၊ အမ်မီအယ်လကိုဟောနှင့် အက်ဆီတိတ် စသည်တို့သည် ပင်နီဆလင်ကို လွယ်ကူစွာ ပျော်ဝင်စေနိုင်၏။ သို့ရာတွင် ပင်နီဆလင်သည် ဓာတ်ဆားအဖြစ်မဟုတ်ဘဲ အက်ဆစ်အဖြစ်တည်ရှိမှ ပျော်ဝင်နိုင်ကြောင်းကိုကားသတိပြုရသည်။ ထိုကြောင့် ပင်နီဆလင်ကို ရှေးဦးစွာ အက်ဆစ် အဖြစ်ပြောင်းယူပြီးမှ အမ်မီအက်ဆီတိတ်နှင့်ရောပြီးလျှင် လှုပ်ပေးသည်။ ထိုအခါ ပင်နီဆလင်သည် အညစ်အကြေးများနှင့် ဓာတ်ဆားများကို ထားခဲ့ကာ အမ်မီအက်ဆီတိတ်အရည်ထဲသို့ ဝင်သွားသည်။ ထိုနောက် အမ်မီ အက်ဆီတိတ်ကို ခွဲထုတ်ယူ၍ အယ်လကာလိုင်းသတ္တိ အနည်းငယ်ပေါက်နေသော ရေနှင့် လှုပ်၍ ဆေးပေးသည်။ ထိုအခါ ပင်နီဆလင်သည် ရေထဲသို့ ဝင်သွားပြန်၏။ ထိုရေကို ယူ၍ အက်ဆစ်ဖြစ်အောင် လုပ်ပေးပြီးနောက် ကလိုရိုဖောင်းနှင့် လှုပ်ပေးပြန်သည်။ ကလိုရိုဖောင်းသည် ပင်နီဆလင်ကိုထုတ်ယူလိုက်သည်။ ထိုနောက် ကလိုရိုဖောင်းနှင့် ပင်နီဆလင် အရောကို အယ်လကာလိုင်းရေ (ပုံပမာ ထုံးရေ) ထဲသို့ ထည့်လိုက်သည်။ ထိုအခါ ပင်နီဆလင်၏ အယ်လဆီယမ်ဓာတ်ဆားကို အသုံးပြုရန် အဆင်သင့် ရရှိပေသည်။

အထက်ဖော်ပြပါ ပင်နီဆလင် ထုတ်လုပ်နည်းသည် အကြမ်းသဘောသာဖြစ်၍ အသေးစိတ် ထုတ်နုတ်ယူရာ၌ အထူးလက်ဝင်ပြီး ခက်ခဲလှပေသည်။ ပင်နီဆလင်သည် သွေးနှင့် ပတ်သက်သော ရောဂါများကို ကုသနိုင်သည်ဆိုသော်လည်း ရောဂါအားလုံးကို မကုသနိုင်ပေ။ ပင်နီဆလင်ဖြင့်

ပင်နီဆလင်သည် သွားနှင့် စပ်လျဉ်း၍ ဝေဒနာ ခံစားရသောနေရာတွင် လိမ်းဆေးအဖြစ်ဖြင့်ပင် မဟုတ်သေး၊ထိုးဆေး အဖြစ်ဖြင့် ဆေးထိုးလိုက်သော ခဏ အတွင်း၌ပင် ကိုက်ခဲခြင်းဝေဒနာမှာ ချက်ချင်းပျောက်ကင်းသွားသည့်ပြင် သွားဖုံးရောင်ခြင်း စသည့် ဝေဒနာတို့မှာလည်း ပျောက်ကင်းသွားကြောင်းကို သိရလေသည်။ ကာလသား ရောဂါနှင့် စပ်လျဉ်း၍ စမ်းသပ်လေ့လာရာ နောက်ဆုံးစစ်ဆေးချက်အရ ဆစ်ဖလစ်ရောဂါကုသရာ၌ ပင်နီဆလင်သည် အကောင်းဆုံးဆေးဖြစ်ကြောင်းကိုသိရ၏။အထူးသဖြင့်ကွန်ဂျင်နီတယ် ဆစ်ဖလစ်နှင့် ဦးနှောက်နှင့် ကျောရိုး နဗ်ကြောမတို့တွင် စွဲကပ်သော ဆစ်ဖလစ်ရောဂါများကို ကုသရာ၌ များစွာ အသုံးဝင်၍ ထိရောက်ပေသည်။ ပင်နီဆလင်သည် မည်မျှ အစွမ်းရှိဦးမည်ကို ဆက်လက်၍ လေ့လာစမ်းသပ် နေဆဲပင် ဖြစ်သည်။

ပျောက်ကင်းနိုင်သော ရောဂါတို့မှာ စတက်ဖိလိုကော့ကဲနှင့် စတြက်ပတိုကော့ကဲ ဝေဒနာများ၊ ချူမိုးနီးယားခေါ် အဆုတ်ရောင်ရောဂါ၊ ဂိုးနိုးရီးယားနှင့် ဆစ်ဖလစ်ခေါ် ကာလသား ရောဂါများ၊ စကားလက်ဖီးဗား စသည်တို့ဖြစ်သည်။

ပင်နီဆလင်ကို အကြောထိုးဆေး အဖြစ်ဖြင့် ဖြစ်စေ၊ အသားထိုးဆေး အဖြစ်ဖြင့် ဖြစ်စေ အသုံးပြုနိုင်သည်။ ဆေးထိုးရာ၌ အဆိပ်တက်တတ်သည်မှာ မှန်သော်လည်း ဆေးထိုးမှားသည့် အန္တရာယ်မှ စိတ်ချရသောဆေး ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ပင်နီဆလင်ဆေး အထိုးလွန်သွားသည့်တိုင်အောင် အဆိပ်တက် အလွန်နည်းပါးသောကြောင့် ဖြစ်၏။ ပင်နီဆလင်သည် ဆာလဖွန်နမိုက်ဆေးများထက် ပို၍ စိတ်ချရပေသည်။

ပင်နီဆလင်ကို တိုးတက်ပြုလုပ်ခဲ့ရာ ဒုတိယကမ္ဘာစစ်ကြီး အပြီး၌ ပင်နီဆလင်ကို( F. G. K )နှင့်( X ) ဟူ၍နောက်ထပ်လေးမျိုး ခွဲခြားပြီး ထုတ်နိုင်ခဲ့လေသည်။ ထိုပြင် ပင်နီဆလင်ကို ထိုးဆေးအဖြစ်၊ ဆေးလုံး ဆေးပြားနှင့် လိမ်းဆေးများ အဖြစ်ဖြင့် ၁၉၄၆ ခုနှစ် အတွင်းက တိုးတက်ကာ ထုတ်လုပ်လာနိုင်ခဲ့သည်။ ထိုသို့ ပင်နီဆလင်ကို အသွင်ပြောင်းလဲ၍ ထုတ်လုပ်ရာ၌ လိမ်းဆေးများမှာ များသောအားဖြင့် အသား အရေနှင့် သက်ဆိုင်သော ဝေဒနာများ ကုသရန်အတွက် အထူးသင့်လျော်ကြောင်း သိရှိရလေသည်။

**ပင်ပေါင်ကစားခြင်း။** ။ပင်ပေါင်ကစားခြင်းသည် တင်းနစ် ကစားခြင်းနှင့် ဆင်ဆင် တူသည်။ (တင်းနစ်ကစားခြင်း — ရှု။) သို့သော် တင်းနစ်ကို ကွင်းပြင်၌သာ ကစားနိုင်သည်။ ပင်ပေါင်ကိုမူ အိမ်တွင်း၌ ကစားရသည်။ ထိုကြောင့် ပင်ပေါင်မှာ အိမ်တွင်း တင်းနစ် ကစားနည်း ဖြစ်သည်ဟု ဆိုနိုင်၏။ ပင်ပေါင် ကစားသည့် စားပွဲသည် အလျား ၉ ပေ၊ အနံ ၅ ပေရှိသည်။ အမြင့်မှာ ကြမ်းပြင်မှ



အင်္ဂလန်ပြည် ဝင်ဗလီရပ်၌ ပင်ပေါင် မိုလ်လုပွဲများ ကျင်းပစဉ်

လက်မ ၃၀ မြင့်သည်။ စားပွဲအလယ်ဘွင် ၆ လက်မမြင့်၍၊ ၆ ပေရှည်သော ပိုက်တခုကို ကန့်လန့်ဖြတ်ထားရသည်။ ဘောလုံးမှာ အဖြူရောင် ဆဲလူလွိုက် ဖြစ်၍၊ အလေးချိန်အားဖြင့် ၃၇ မှ ၃၉ ဂရိန်အထိ ရှိတတ်သည်။ အမေရိကန်ပြည်ထောင်စု၌ ကစားသော ပင်ပေါင် ဘောလုံးသည် ၄၁ ဂရိန် လေးသည်။ ဘောလုံး၏ အဝန်းသည် ၄ ³⁄₂ မှ ၄ ⁵⁄₂ လက်မအထိရှိ၏။ ဗက်တံမှာ ထင်းရှူး ထပ်သားကို အပေါ်ယံက ကြက်ပေါင်စေးဖြင့် သုတ်ထားသော ဗက်တံ ဖြစ်လေသည်။ ဗက်တံ၏ အလျားမှာ ၁၂ လက်မခန့်ရှိသည်။

ပင်ပေါင်ကစားပွဲ တပွဲလျှင် အမှတ် ၂၁ မှတ်သတ်မှတ်၏။ ကစားသူမှာ ၂ ယောက်၊ သို့မဟုတ် ၄ ယောက် ဖြစ်နိုင်၏။ ကစားသမား တယောက်သည် အမှတ် ၅ မှတ်အထိ ဘောလုံးကို ပဌမဆတင်ပေးရ၍၊ ၅ မှတ်ပြည့်သောအခါ၊ သူနှင့်ယှဉ်ပြိုင်ကစားသူက ပြန်၍ ပေးရသည်။ အမှတ် ၂၁ မှတ်ကို ဦးစွာ ရသူသည် အနိုင်ရ၏။ ပဌမစ၍ ဘောလုံးပေးသူသည် စားပွဲ၏နောက်၌ မတ်တတ်ရပ်၍ ကစားရသည်။ ဘောလုံးကို ဗက်တံနှင့် ရိုက်လိုက်သောအခါ ဘောလုံးသည် မိမိဖက်၌ တချက်ကျပြီးလျှင် ပိုက်ကိုကျော်၍ အခြားဖက်၌ ကျရသည်။ တဖက်ကလူသည် ထိုအခါမှ ဘောလုံးကို ပြန်ရိုက်နိုင်ခွင့်ရှိသည်။ တဖက်လျှင် နှစ်ဦးစီ ယှဉ်ပြိုင်ကစားကြသောအခါ၊ စားပွဲ၏ အလယ်ဗဟိုကို ဖြတ်၍၊ ပိုက်၏ တဖက်တချက်ဘွင် မျဉ်းကြောင်း တကြောင်း ဆွဲထားရသည်။ ထိုသို့ဆွဲလိုက်သောအခါ စားပွဲကို စည်းကွက် ၄ ကွက် ပိုင်းခြားဘိသကဲ့သို့ ဖြစ်သွား၍၊ တယောက်စီ တယောက်စီသည် မိမိတို့ ဆိုင်ရာ စည်းကွက်ကို ဂရုပြု၍ ကစားရ၏။ အမှတ် တမှတ်ရလျှင်၊ ဘောလုံး ပေးသူနှင့် သူ့အဖော်သည် နေရာပြောင်းရသည်။

ပင်ပေါင်ကစားနည်းမှာ ဦးစွာ ပဌမက အိမ်တွင်းတွင် အပျင်းပြေ ကစားသော နည်းဖြစ်၏။ သို့ရာတွင် မကြာသေးမီက ထိုကစားနည်းသည် အလွန် ခေတ်စားလာသောကြောင့်၊ ပင်ပေါင်ချပီယန်များသည် အိမ်ပြင်ဖက် လူအများရှေ့တွင်ပင် ပြိုင်ပွဲများ ကျင်းပ ကစားကြလေသည်။ တရုပ်အမျိုးသားများသည်ဆိုပင်ပေါင်ကစားနည်းကိုကျွမ်းကျင်စွာ ကစားနိုင်သူများဖြစ်၏။ ကမ္ဘာ့ ပင်ပေါင်အဖွဲ့ချုပ်ကို ၁၉၂၆ ခုနှစ်က စတင်ဖွဲ့စည်း တည်ထောင်ခဲ့သည်။ ထိုနှစ်မှစ၍ ပင်ပေါင်ကစားခြင်း အလေ့သည် တိုးတက် ခေတ်စားလာလေသည်။

**ပင်မျိုးစုဥယျာဉ်။** ။သိပ္ပံရေးရာ ပညာရေးရာနှင့် အလှအပ တန်ဆာဆင်ရေးတို့ အတွက် သစ်ပင် ပန်းပင်များကို အဓိကထား၍ စိုက်ပျိုးရာဥယျာဉ်ကို ပင်မျိုးစုဥယျာဉ်ဟု ခေါ်သည်။ လူတို့ အပန်းဖြေရန် သက်သက်အတွက် ထားသော ဥယျာဉ်မျိုး မဟုတ်ချေ။ စင်စစ် ထိုဥယျာဉ်တွင် အပင်များကို ရုက္ခဗေဒ အမျိုးအစားအလိုက် စီစဉ်စိုက်ပျိုးတတ်ကြသည်။ ရှေးအခါကမူ ပင်မျိုးစုဥယျာဉ်များ ထားရှိခြင်း၏ တခုတည်းသော ရည်ရွယ်ချက်မှာ ဆေးဖက်ဝင် အပင်များ စိုက်ပျိုးရန် ဖြစ်သည်။ မျက်မှောက်ခေတ် ပင်မျိုးစုံ ဥယျာဉ်များကိုမူ ကမ္ဘာမြေပေါ်ရှိအပင်လောက၌ ရှိသမျှသော အပင်များကို ပြသရာပြတိုက်သဖွယ် ထားရှိလေသည်။ အများအားဖြင့် တက္ကသိုလ်များကသော်၎င်း၊ အစိုးရကသော်၎င်း၊ သာသနာရေးအဖွဲ့အစည်းကသော်၎င်း ဖွင့်လှစ်၍ ထိန်းသိမ်းထားတတ်ကြသည်။ ပုဂ္ဂိုလ် တဦးချင်းအနေနှင့် ပြုစု ပျိုးထောင်ထားသော ပင်မျိုးစုံ ဥယျာဉ်မျိုးလည်း ရှိသည်။

ယခုခေတ် ပင်မျိုးစုံ ဥယျာဉ်များသည် အများအားဖြင့် ဧက ၃၀၀၊ သို့မဟုတ် ၃၀၀ ကျော်ကျော်မျှ ကျယ်ဝန်းတတ်ကြသည်။ အပင်ကြီး အပင်ငယ် အမျိုးမျိုးကို စိုက်ပျိုးကြသည်။ နုနယ်သော အပင်များကို မှန်ရုံကြီးများဖြင့် စိုက်ပျိုးလေသည်။ အချို့ပင်မျိုးစုံ ဥယျာဉ်များတွင် ရှားပါးသော အပင် အရွက် အပွင့်များကို အခြောက်ပြု၍ နမူနာအဖြစ်ပြသထားရန် မီးခံ အဆောက်အအုံများ၊ ဓာတ်ခွဲခန်း၊ ပြတိုက်၊ သင်တန်းခန်း၊ စာကြည့် ပိဋကတ်တိုက်များပင် ဆောက်လုပ်ထားရှိသည်။

ရှေးအကျဆုံး ပင်မျိုးစုံ ဥယျာဉ်များကို သာသနာရေးဆိုင်ရာ အသင်းအဖွဲ့များက ပြုစုပျိုးထောင်ခဲ့ကြသည်ဟု ယူဆဖွယ်ရှိသည်။ လွန်ခဲ့သည့် နှစ်သန်းပေါင်း ၂၂၀ ခန့်က ပေါ်ထွန်းခဲ့သည့် ကာဗွန်နီယုဂ် အခါက ကမ္ဘာပေါ်တွင် ပေါက်ရောက်ခဲ့သော မေဒန်ဟဲယားပင်ခေါ် အပင်တမျိုးကို တရုပ်နိုင်ငံဘုရားရှိခိုးကျောင်းဝင်းများထဲ၌ ယခုတိုင်တွေ့မြင်နေကြရခြင်းဖြင့် ထင်ရှားသည်။ ၉ ရာစုခေတ်အခါက ဣတလီနိုင်ငံ၌ ဘုန်းတော်ကြီးများသည် ဆေးဖက်ဝင်မည့် အပင်များကို စိုက်၍ ဥယျာဉ်များ ပျိုးထောင်ခဲ့ကြသည်။ ၁၅၄၃ ခုနှစ်ကျမှပင် ဣတလီနိုင်ငံ ပီစာမြို့၌ ယခုခေတ် ပင်မျိုးစုံဥယျာဉ်မျိုး စဘင်စိုက်ပျိုးလေသည်။ ပါရစ်မြို့ရှိ ပင်မျိုးစုံ ဥယျာဉ်နှင့် လန်ဒန်မြို့ရှိ ချဲလဆီး ပင်မျိုးစုံ ဥယျာဉ်များမှာ မူလက ဆေးဖက်ဝင် အပင်များကို စိုက်ပျိုးရန်အတွက် ပျိုးထောင်ခဲ့ကြသော်လည်း ယခုအခါတွင် ကမ္ဘာကျော် ခေတ်မှီ ပင်မျိုးစုံ ဥယျာဉ်များအဖြစ် ထင်ရှားလာသည်။ ပါရစ် ပင်မျိုးစုံ ဥယျာဉ်သည် ကမ္ဘာပေါ်တွင်ရှေးအကျဆုံးနှင့်အကြီးဆုံးဖြစ်ပြီးလျှင် အပင်မျိုးပေါင်း ၁၅၁၀၀ ခန့် စိုက်ပျိုးထားသည်။ လန်ဒန်မြို့အနီး ကျူးရွာတွင် ရှိသည့် ဘုရင့် ဥယျာဉ်ကြီးမှာလည်း ကမ္ဘာကျော် ပင်မျိုးစုံ ဥယျာဉ်များထဲဘွင်အပါ အဝင် ဖြစ်သည်။ ထိုဥယျာဉ်၌ လက်တွေ့သင်ကြားတတ်မြောက်သောဥယျာဉ်မှူးများသည်



ဗဲလဂျီယမ် နိုင်ငံ ဗရပ်ဆဲမြို့တော်ရှိ ပင်မျိုးစုံ ဥယျာဉ်

ကမ္ဘာအရပ်ရပ်ရှိ အခြားပင်မျိုးစုံ ဥယျာဉ်များ၌ ဝင်ရောက်ထမ်းဆောင်ကြရသည်။ ကမ္ဘာ အရပ်ရပ်သို့ သစ်စေ့၊ သစ်ပင်နှင့် ပင်ခြောက်များကို လိုက်လံရှာဖွေရန် အတွက်လည်း ကျူး ပင်မျိုးစုံဥယျာဉ်မှ လူများကို စေလွှတ်၍ စူးစမ်းစေခဲ့သည်။ အခြားပင်မျိုးစုံ ဥယျာဉ်များက တောင်းခံသော အကြံဉာဏ်များကို ဖြေရှင်းပေးခြင်း၊ သစ်ပင် ပန်းပင်များနှင့် စပ်လျဉ်းသော စာအုပ်စာတမ်းများ ပြုစုထုတ်ဝေခြင်းများကိုလည်း ပြုသည်။အက္ခရာဝလိအလိုက် မျိုးစု၊ မျိုးစိတ်များခွဲခြား၍ တွေ့ရှိသူများ၏ အမည်၊ ပေါက်ရောက်ရာတိုင်းပြည်နှင့် အမည်ကွဲများကို ဖော်ပြထားပေသည်။ (ကျူး ဂါးဒင်း ဥယျာဉ် — ရှု။)

ဖြိတိသျှကျွန်းစုရှိ အက်ဒင်ဗာရာမြို့၊ အောက်စဖို့မြို့နှင့် ဒဗ္ဗလင်မြို့များ၌လည်း ပင်မျိုးစုံ ဥယျာဉ်များ ရှိပေသေးသည်။အမေရိကန်ပြည်ထောင်စုရှိ ထင်ရှားသည့် ပင်မျိုးစုံ ဥယျာဉ်များမှာ နယူးယော့ ပင်မျိုးစုံဥယျာဉ်၊ မီဇူးရီ ပင်မျိုးစုံဥယျာဉ်နှင့် ဗရွတ်ကလင်း ပင်မျိုးစုံ ဥယျာဉ်များဖြစ်သည်။ ကနေဒါနိုင်ငံရှိ မင်္ဂေးတက္ကသိုလ် ပင်မျိုးစုံဥယျာဉ်သည်လည်း ထင်ရှားသောဥယျာဉ်ကြီးဖြစ်သည်။ မြန်မာနိုင်ငံ၌လည်း မေမြို့တွင် ဧက ၃၅၀ ကျယ်သော ပင်မျိုးစုံဥယျာဉ်ကြီးတခု ရှိသည်။ ယင်းဥယျာဉ်တွင်း၌ တောင်စွယ်တခုပင်ပါလျက်ရှိရာ သဘာဝကျ၍ အလွန်လှပလေသည်။ မန္တလေးမြို့နှင့် ၄၂ မိုင်သာဝေးသဖြင့် မန္တလေးသို့ အလည်အပတ်သွားသူတိုင်း ယင်း မေမြို့ ပင်မျိုးစုံဥယျာဉ်သို့ အရောက်သွားကြသည်ချည်းဖြစ်သည်။

**ပင်လယ်ကသစ်ပင်။** ။ကသစ်ပင် — ရှု။

**ပင်လယ်ကျောက်ပွင့်မျိုး။** ။ပင်လယ်တွင်း၌ ပေါက်ရောက်သည့်မည်သည့်အပင်မျိုးကိုမဆို ပင်လယ်ကျောက်ပွင့်မျိုးဟူ၍ခေါ်နိုင်သည်။သို့သော် ရုက္ခဗေဒပညာရှင်များကမူ အညိုရောင် အယ်လဂျေပင်ကြီးများနှင့် အနီရောင် အယ်လဂျေပင်ကြီးများကိုသာ ပင်လယ်ကျောက်ပွင့်မျိုးဟူ၍ ခေါ်ကြ၏။ ပင်လယ်ကျောက်ပွင့်မျိုးတို့တွင် ရေညှိပင်မျိုး၊ လစ်ဗာဝတ်ပင်၊ ဖန်းဝတ်ပင်နှင့် အပွင့်ပွင့်သည့် အပင်မျိုးတို့ မပါဝင်ကြပေ။ (အယ်လဂျေပင် — ရှု။) ပင်လယ်ကျောက်ပွင့်မျိုးသည် ရေသေရေများ၌ တွေ့ကြရသည့် ရေမြုပ်စိမ်းမျိုးနှင့် မျိုးချင်းနွယ်၏။ သို့သော် ရေထဲ၌ ပေါက်ရောက်သည့် ပို၍ အဆင့်အတန်းမြင့်သောအခြားအပင်များနှင့်ကား မျိုး

ချင်းမနီးစပ်ပေ။ အများအားဖြင့် ရေအေး၌ ပေါက်သော ပင်လယ်ကျောက်ပွင့် မျိုးတို့သည် အညိုရောင် အယ်လဂျေ ပင်များဖြစ်ကြပြီးလျှင်၊ အပူပိုင်းဒေသရှိ ရေများ၌ ပေါက်ရောက်သောပင်လယ်ကျောက်ပွင့်မျိုးတို့မှာအများအားဖြင့် အနီရောင် အယ်လဂျေပင်များ ဖြစ်သည်။ ပင်လယ်များ အတွင်း၌ ပေါက်ရောက်သည့် ပင်လယ်ကျောက်ပွင့်များနှင့် ခြားနားသိသာစေရန် မြစ်၊ ချောင်း၊ အင်း၊ အိုင်များ၌ ပေါက်ရောက်သည့်ကျောက်ပွင့်မျိုးများကို ရေချို ကျောက်ပွင့်မျိုးဟူ၍ခေါ်ကြသည်။

ပစိဖိတ်နှင့် အန္တာတိတ်သမုဒ္ဒရာများထဲ၌ ပင်လယ်ကျွေ ကျောက်ပွင့်ခေါ် အညိုရောင်အယ်လဂျေပင်တမျိုးကို တွေ့ ကြရသည်။ ပင်လယ်ကျွေ ကျောက်ပွင့် တမျိုး၌ အပင် များအထဲတွင် လေအိတ်ကလေးများပါရှိပြီးလျှင် ယင်းလေ အိတ်ကလေးများမှာ ဇယ်ရီသီးပုံသဏ္ဌာန်ရှိသည်။ ဖလော် ရီဒါ အရှေ့ဖက် အတ္တလန္တိတ်သမုဒ္ဒရာ အတွင်း၌ တွေ့ကြ ရသည့် ပင်လယ်ကျွေ ကျောက်ပွင့်များသည် ထုထယ်မှ၍ ရေထဲ၌ ပေါလောပေါ် လျက်ရှိ၏။ ယင်း သမုဒ္ဒရာဒေသကို ဆာဂတ်ဆို ပင်လယ်ဟု ခေါ်ကြသည်။

ပင်လယ် ကျောက်ပွင့်မျိုးများ အားလုံးတွင် အရိုးဆုံး သော စိမ်းပြာရောင် ကျိုချဲပင်များသည် အတန်းအနိမ့်ဆုံး ဖြစ်သည်။ အများအားဖြင့် ရေချိုများထဲ၌သာ ပေါက် ရောက်ကြသော်လည်း ရေငန်၌လည်း ပေါက်ရောက်ကြ သည်။ အစိမ်းရောင် ပင်လယ်ကျောက်ပွင့်ခေါ် ပင်လယ် ကျောက်ပွင့်တမျိုးလည်း ရှိသေးသည်။ ယင်း ပင်လယ် ကျောက်ပွင့်မျိုးမှာ ပို၍အတန်းမြင့်သော ပင်လယ်ကျောက် ပွင့်မျိုးဖြစ်ပြီးလျှင် အစိမ်းရောင် ပစ္စည်းများပါရှိသည့် ဆဲ ကလေးများ ပါရှိသည်။ ယင်း ပင်လယ်ကျောက်ပွင့်မျိုးနှင့် နီးစပ်သည့် ဆဲတခုတည်းသာ ပါရှိသော အခြား အပင်များ လည်း ရှိသေးသည်။ ထိုအပင်များကို ကမ္ဘာအနှံ့အပြားရှိ ရေချို ရေငန် ဒေသများ၌ တွေ့ကြရသည်။

ပင်လယ်ကျောက်ပွင့်မျိုး တမျိုးဖြစ်သည့် အညိုရောင် ပင်လယ်ကျောက်ပွင့် တမျိုးမှာမူ အစိမ်းရောင် ပင်လယ် ကျောက်ပွင့်နှင့် မျိုးချင်းနီးစပ်ပြီးလျှင်အရောင်အားဖြင့်သာ ကွဲလွဲလေသည်။ ယင်းတို့၌ အညိုရောင် ပိုပါ၍၊ အစိမ်းရောင် ကို ကွယ်ထား၏။ ယင်း ပင်လယ်ကျောက်ပွင့်မျိုး၌ ဆဲ များ အနည်းငယ်သာ ပါရှိကြသည်။ အချို့အပင်များမှာ



ပင်လယ်အောက်၌ ပေါက်လေ့ရှိသော ပင်လယ် ကျောက်ပွင့်အမျိုးမျိုး

အမွေးအမျှင်များ ပါရှိကြပြီးလျှင်၊ အချို့အပင်များမှာမူ အပင်ကြီးများ၏ အမြစ်ပင်စည်နှင့် အကိုင်းအခက်များ ပါရှိပေသည်။

ပစိဖိတ် သမုဒ္ဒရာအတွင်း၌ တွေ့ကြရသည့် ကဲ့လပပင်ကြီးများမှာ အညိုရောင် အယ်လဂျေ ပင်ကြီးများပင်ဖြစ်သည်။ ယင်းပင်လယ်ကျောက်ပွင့်မျိုးအပင်ကြီးများ၏ ပင်စည်များမှာ ပေ ၂၀၀ နီးပါး အထိပင် ရှည်လျားကြပေသည်။ ပဥ္စမ ကမ္ဘာစစ်အတွင်းက ကဲ့လပပင်များကို စုဆောင်း၍ မြေသြဇာနှင့် ပေါက်ကွဲစရာ ပစ္စည်းများ ပြုလုပ်ခဲ့ကြ၏။ ယင်းတို့မှ အိုင်အိုဒင်း ဓာတ်ပစ္စည်းများကိုလည်း ထုတ်ယူကြပေသည်။ အများအားဖြင့် အညိုရောင် ပင်လယ်ကျောက်ပွင့်ပင်များကို ပင်လယ်များထဲ၌ တွေ့ကြရသည်။

အထူးပင်လှပသည့် အနီရောင် ပင်လယ်ကျောက်ပွင့်တမျိုးလည်း ရှိသေးသည်။ ယင်းတို့၌ အမြစ်၊ ပင်စည်နှင့် အရွက်များနှင့်တူသည့် အကိုင်းအခက်များ ပါရှိသည်။ ယိုပင်လယ်ကျောက်ပွင့် ပင်များသည် အစိမ်းရောင် ရှိကြသော်လည်း နီကြန့်ကြန့် အရောင်နှင့် ခရမ်းရောင်များပါရှိသဖြင့် ကြည့်ရသည်မှာ အထူးပင် လှပပေသည်။ အနီရောင် ပင်လယ်ကျောက်ပွင့်အချို့ကို ရေချို ဒေသများ၌ တွေ့ရသော်လည်း အများအားဖြင့် ပင်လယ်များထဲ၌သာ ပေါက်ကြလေသည်။

အချို့ ပင်လယ်ကျောက်ပွင့်များကို လူများအဖို့ အစာအာဟာရအဖြစ် စားသုံးနိုင်ကြသည်။ ဥရောပတိုက်နှင့် အမေရိကတိုက် အတ္တလန္တိတ် ကမ်းခြေများ၌ တွေ့ရသော 'အိုင်ရစ်ရေညှိပင်' ခေါ် ပင်လယ်ကျောက်ပွင့်ပင် တမျိုးကို လူများ စားရ၏။ ယင်း ပင်လယ်ကျောက်ပွင့်မျိုးမှာ အနီရောင် ပင်လယ်ကျောက်ပွင့်မျိုးဖြစ်သည်။ အာရှတိုက် အပူပိုင်း ပင်လယ်ဒေသများနှင့် အမေရိကန်ပြည်ထောင်စု ပစိဖိတ်ကမ်းခြေများ၌ တွေ့ကြရသည့် 'သီဟိုဠ်ရေညှိပင်'ခေါ် အနီရောင် ပင်လယ်ကျောက်ပွင့်တမျိုးမှလည်း ကျောက်ကြောများကို လုပ်ယူကြပေသည်။

**ပင်လယ်ခူ။** ။ငထီး — ရှု။

**ပင်လယ်ခုံး။** ။ပင်လယ်ခုံးသည်'လမယ်လီဗရန်ကီးယား' မျိုးပေါင်း၌ ပါဝင်သော အခွံ နှစ်ခုရှိ ခရုမျိုး ဖြစ်သည်။ ကနုကမာနှင့်နီးစပ်သည်။ပင်လယ်ခုံးကို လူတို့စားကြသည်။ ခုံးမျိုးပေါင်း ၃၀၀ ကျော်ရှိသည်။ ကမ္ဘာ အနှံ့အပြားတွင် ပင်လယ်ရေတိမ်၌၎င်း၊ ရေနက်၌၎င်း တွေ့ရသည်။

ပင်လယ်ခုံးခွံသည် ယပ်တောင်ကဲ့သို့ ပုံသဏ္ဍာန်ရှိ၍၊ မြောင်းများဖြင့် လှိုင်းထနေသည်။ ခုံးခွံ ၂ ခုကို ရှိးဆက်ရွက်ဖြင့် ဆက်ထားလေရာ၊ ထိုအဆက်၌ ဘေးတဖက်တချက်



ပင်လယ်ခုံး၏ အခွံသည် ယပ်သဏ္ဍာန်ရှိ၍၊ ယင်းကို ဖွင့်ချည်ပိတ်ချည်ပြုလုပ်ကာ လျှပ်ရှားသွားလာသည်။

သို့ အစွန်းတခုစီ ထွက်နေသည်။ အခွံအတွင်းရှိ အသားတို့ကို အမြှေးပါးက ဖုံးအုပ်နေသည်။ ထိုအမြှေးပါး၏ အစွန်းတလျှောက်၌ ဦးမှင့်(စမ်းအင်္ဂါ) နှင့် မျက်စိပေါင်း မြောက်မြားစွာ စီတန်းလျက် တည်ရှိကြသည်။

ခုံးသည် အခွံကို ဖွင့်ချည်ပိတ်ချည် ပြုလုပ်၍၊ ရေတွင်လျှပ်ရှားသွားလာသည်။ ခုံးခွံကို ပိတ်လိုက်သောအခါ၊ ခုံးခွံတွင်းရှိရေတို့သည် ခုံးခွံ ၂ ခု အဆက်ပိုင်းမှ ဖြာ၍ထွက်သည်။ ထိုဖြာထွက်သွားသော ရေသည် ခုံးကိုရှေ့သို့ တွန်းပို့ပေးသကဲ့သို့ရှိ၏။

မြောက်အမေရိကတိုက်၏ အတ္တလန္တိတ်ဖက် ကမ်းရိုးတန်းတလျှောက်၌ ခုံးအမျိုးပေါင်းများစွာ ရှိသည်။ လက်ဗရာဒေါ်နှင့်မြောက် ကယ်ရိုလီးနား ဒေသ ၂ ခုအကြား၌ အချင်းအားဖြင့် ၄ ပေကျော် ၅ ပေမျှရှိသော ခုံးကောင်များကိုတွေ့ရသည်။ ခုံးကောင်၌ အခွံကို ဖွင့်ပိတ်နိုင်သော အတွင်းဆွဲကြွက်ကြီးခေါ် ကြွက်သားရှိသည်။ ထိုကြွက်သားကို လူတို့စားသုံးရန်အတွက် ထုတ်ယူကြသည်။

**ပင်လယ်ဇင်ယော်။** ။သမုဒ္ဒရာရေပြင်ထက်တွင် ကျက်စားလေ့ရှိသော ပင်လယ်ငှက်မျိုး အများအပြားရှိသည့် အနက်၊ ဒိုင်အိုမီဒီအိဒီးမျိုးရင်းဝင် ပင်လယ်ဇင်ယော်လည်းအပါအဝင် ဖြစ်သည်။ယင်းသည့် ပင်လယ်ငှက်များကို မြောက်အတ္တလန္တိတ် သမုဒ္ဒရာမှလွဲ၍ အခြားပင်လယ် သမုဒ္ဒရာများ၌ တွေ့ရသည်။ ပင်လယ်ဇင်ယော် ၁၇ မျိုးခန့်ရှိရာ၊ ပါဏ

ဗေဒ အမည်အားဖြင့် ဒိုင်အိုမီးဒီးယားအက်ဇူလန်း ဟု ခေါ်သည့် 'လှည့်လည်နေသော ပင်လယ်ဇင်ယော်' အမျိုးအစားကို ပို၍လူသိများသည်။

ဆိုခဲ့သော ပင်လယ်ဇင်ယော်တို့သည် ငှက်ကြီးများဖြစ်သည်။ ငှက်များထဲတွင် တောင်ပံတောင်လက် အရှည်ဆုံး ငှက်မျိုးဖြစ်သည်။ တောင်ပံနှစ်ဖက်ဖြန့်လိုက်လျှင် ၁၁ ပေမှ ၁၂ ပေအထိ ရှည်သည်။ သို့သော် တောင်ပံ ပြက်မှာ ၉ လက်မခန့်သာရှိသည်။ ငှက်တကောင်လုံး၏ အလေးချိန်သည် ၂၅ ပေါင်ခန့်လေးသည်။

ထိုပင်လယ် ဇင်ယော်မျိုးတို့၏ ကိုယ်ထည်သည် အဖြူရောင်ဖြစ်သည်။ တောင်ပံ အဖျားတို့ကား နက်သည်။ ပင်လယ်ဇင်ယော်အမတွင် လည်ပင်းနှင့် ကျောပြင်၌ အညိုရောင်အကွက်များရှိသည်။ ခြေထောက်များသည် ဘဲခြေကဲ့သို့ ရေခြေသုံးချောင်းတို့သည် အရေပြားအားဖြင့် ဆက်စပ်နေသည်။ ၆ လက်မကျော်ကျော်ရှည်သောနှုတ်သီးသည် အသုံးတုတ်၍ အဖျားချွန်သော်လည်း၊ အမြီးသည်တို၍ အနည်းငယ်ဝိုင်းသည်။ အမွေးများ ထူထပ်သဖြင့် ရာသီဥတုဒဏ်ကို ခံနိုင်ကြလေသည်။

ပင်လယ်ဇင်ယော်တို့သည် ရှည်လျားသော တောင်ပံရှိ၍ ထင့်၊ အပျံသန်လှသည်။ တခါတရံ သမုဒ္ဒရာအတွင်း ရက်ပေါင်းများစွာ မရပ်မနား သင်္ဘော တစင်းစင်းနောက်သို့ ပျံ၍ လိုက်နေတတ်သည်။ယင်းသို့ လိုက်နေသည့်အခါ၊သင်္ဘောမှလွှင့်ပစ်ပေးသော အစာကို ဖမ်းယူစားသောက်ရန်နှင့် ရေထဲမှငါး၊ ကင်းမွန်ဘဲလိပ်တို့ကို ထိုးသုတ် စားသောက်ရန်သာ ရေပေါ်တွင်နားသည်။ ရေပေါ်တွင် နားနေသည့်အခါ မည်မျှ လှိုင်းလေ ပြင်းထန်နေသော်လည်း၊ ယင်းတို့က မမှုချေ။ ရေမှ ပျံတက်လိုသော်၊ ယင်း၏ တောင်ပံများကို မကာ ရေပေါ်တွင် ကိုက် ၇၀ မှ ၈၀ ခန့်အထိ ကူးခတ်အရှိန်ယူပြီးမှ ပျံတက်သည်။ လေထဲသို့ ရောက်သွားသည်နှင့် တပြိုင်နက်၊ လေဟုန်စီးကာ အလွန်မြင့်စွာ ပျံတက်သွားလေသည်။



ပင်လယ်တွင်း ကျက်စားလေ့ရှိသော ပင်လယ် ဇင်ယော်

ပင်လယ်ဇင်ယော်တို့သည် အစားလောဘကြီးကြသဖြင့်၊ ငါးများတတ်တွင် အစာချိတ်၍ ဖမ်းလျှင်ပင် မိနိုင်သည်ဟု ဆိုကြလေသည်။

ပင်လယ်ဇင်ယော်ဘို့သည် ကုန်းသို့ သားပေါက်ရန်သာ လာကြသည်။ လူသူကင်းမဲ့သော ကျွန်းများတွင် မြေပေါ်၌ ရွှံ့စေး၊ မြက်တို့ဖြင့် ပြုလုပ်ထားသော အသိုက်တွင်၊ ပင်လယ်ဇင်ယော် ငှက်မတို့သည် ဥဘလုံးတည်းသာ အုကြသည်။ အရက် ၄၀ ခန့်ကြာမှ သားပေါက်၍ မိဖငှက်တို့သည် ငှက်ပေါက်စကလေး အမွေးအတောင် စုံလင်သည်အထိ စောင့်ရှောက်ကြသည်။ ထိုနောက်တွင်မူ ငှက် ပေါက်စကလေးအား ထားခဲ့၍၊ တပတ်လျှင် ၂ ကြိမ် ၃ ကြိမ်ခန့်သာ ပြန်လာပြီးလျှင် အစာ ခွံ့ပေးကြသည်။ ယင်းသို့ဖြင့် သုံးလခန့်ကြာ၍၊ ငှက်ပေါက်စကလေးသည် မိမိဖာသာ အစာရှာနိုင်သည့် အရွယ်သို့ ရောက်လေသည်။

အနောက်တိုင်းမှ သင်္ဘောသားတို့သည် ပင်လယ်ဇင်ယော်ကို လေးလေးစားစားလည်းရှိ၍၊ ကြောက်လည်း ကြောက်ကြသည်။ ရှေးပဝေဏီက သင်္ဘောသားတဦးသည် ပင်လယ်ခရီးသွားယင်း ပင်လယ် ဇင်ယော်တကောင်ကို သတ်ဖြတ်မိသဖြင့်၊ သင်္ဘောတစင်းလုံး အတိဒုက္ခတွေ့ရပုံကို သက်ကြီးစကား သက်ငယ်ကြားဘူးထားသော အဖြစ်အပျက်တရပ်ရှိခဲ့ဘူးသောကြောင့်တည်း။ ယင်းအဖြစ်အပျက်ကို အင်္ဂလိပ် စာဆိုတော် ကိုးလားရစ်က 'ရှေးသင်္ဘောသား' ဟူ၍ ကဗျာတပုဒ် စပ်ထားခဲ့လေသည်။ (ကိုးလားရစ်,အက် (စ) တီ — လည်းရှု။)

ပစိဖိတ် သမုဒ္ဒရာ၌ ကျက်စားသော ပင်လယ် ဇင်ယော်တမျိုးကို ငှက်မွေးအတွက် သတ်ဖြတ်ကြသဖြင့်၊ မျိုးစိတ်တခုပင် ကွယ်ခဲ့ရသည်။ ထိုကြောင့် ယခုအခါ ပင်လယ်ဇင်ယော်များကို သတ်ဖြတ်ခြင်းမပြုရန် ကာကွယ်စောင့်ရှောက်ထားကြရလေသည်။

**ပင်လယ်ထန်း။** ။အရှေ့တိုင်းအပူပိုင်းဇုန်ဒေသ ပင်လယ်ကမ်းရိုးတန်း သဲသောင်ပြင် တလျှောက်၌ ပေါက်ရောက်တတ်သော အပင်မျိုး ဖြစ်သည်။ အန္ဒမန်ကျွန်း ကမ်းရိုးတန်း၊ သိန္ဓုပြည်နယ်မှ စတင်၍ အိန္ဒိယကမ်းခြေတလျှောက်၊ သီဟိုဠ်ကျွန်းကမ်းရိုးတန်း၊ မြန်မာနိုင်ငံ ကမ်းခြေတလျှောက်နှင့် မလ္လာယု ကမ်းရိုးတန်း တလျှောက်၌ ပင်လယ်ထန်းများ

ကို တွေ့ရှိရသည်။ သဲမပြိုအောင် ထိန်းထား နိုင်သော အပင်မျိုးဖြစ်၍၊ သဲသောင်များ နေရာ မရွေ့ စေရန်နှင့် မြစ်ကမ်းပါးများ မပြိုစေရန် စိုက်ပျိုးထားသင့်သောအပင် မျိုးဖြစ်သည်။

ပင်လယ်ထန်းပင်သည် ဂူးဒီနိုဗီယာစီး မျိုးရင်းတွင် ပါဝင်၍ ဆီဗိုလာကိုနီဂီးဟု ရုက္ခဗေဒအမည်ဖြင့် ခေါ်သည်။ ခြောက်ပေမှ ဆယ်ပေခန့်အထိ အမြင့်ရှိသော လုပသည့်ချုံပင်ကြီးမျိုးဖြစ်သည်။ ပင်စည်အူတိုင်ရှိ၍ အရွက်တို့သည် အသားထူပြီးလျှင် အစိမ်းနုရောင်ရှိသည်။ အပွင့်တို့သည် ဖြူဝါဝါအရောင်ရှိ၍ အချင်းတလက်မခန့် ရှိသည်။

ပင်လယ်ထန်း၏အရွက်များကို နေကာဦးထုပ်များ၊ ယပ်တောင်များပြုလုပ်ကြ၍၊ ပင်စည် အူတိုင်ကို ငါးများရာ၌ သုံးသောဖော့များ ပြုလုပ်ကြလေသည်။

**ပင်လယ်ဓားပြများ။** ။မြို့ရွာနေ လူများထံမှ ရွှေငွေ ပစ္စည်းများကို လက်နက် အားကိုးဖြင့် တိုက်ခိုက်လုယူတတ်သော ဓားပြများရှိသကဲ့သို့၊ ကမ်းမမြင် လမ်းမမြင်အပြောကျယ်လှသော ပင်လယ် သမုဒ္ဒရာကြီးများတွင် လှည့်လည်၍၊ကုန်သည်သင်္ဘော၊အစိုးရသင်္ဘော၊ မျိုးခြားပိုင် သင်္ဘောများကို တိုက်ခိုက် လုယူတတ်သည့် ပင်လယ် ဓားပြများလည်းရှိသည်။

ပင်လယ်ဓားပြများသည် မည်သည့် ခေတ်ကစ၍ ပေါ်ပေါက်လာကြသည်ကို အတိအကျ ဆိုရန် ခက်သော်လည်း၊ ရောမသမတနိုင်ငံ ထင်ရှား ပလွှားသည့် ခေတ်ကပင်၊ မြေထဲပင်လယ်၌ ပင်လယ်ဓားပြများ ကျက်စားခဲ့ကြောင်းကိုကား၊ အထောက်အထား ခိုင်လုံစွာ တွေ့ရသည်။ ဂျူးလယပ်ဆီဇာပင်လျှင် ငယ်စဉ်က ပင်လယ်ဓားပြများက ဖမ်းဆီးကာ၊ ပြန်ပေးလုပ်သည်ကို ခံခဲ့ရဘူးကြောင်း မှတ်တမ်းများ၌ တွေ့ရှိရသည်။ တွေ့ရှိရသော မှတ်တမ်းများအရမူ၊ ရှေးဦးအကျဆုံး ပင်လယ်ဓားပြများတွင် ဖီနီရှန်တို့လည်း ပါဝင်လေသည်။ ဂရိစာဆိုကျော်ကြီး ဟိုးမား၏ နာမည်ကျော် 'အော့ဒီဆီ' ကဗျာထဲတွင် ပင်လယ်ဓားပြများ အကြောင်းကိုလည်း ဖော်ပြထားလေသည်။

များသောအားဖြင့် ပင်လယ်ဓားပြများသည် ကျွန်းစုများနှင့် အတွင်းကျသော ပင်လယ်ကမ်းခြေတန်းများတွင် ခိုအောင်းနေတတ်ကြသည်။ ဂရိကျွန်းစုများ၊ အိန္ဒိယသမုဒ္ဒရာတွင်းရှိ ကျွန်းစုများ၊ ဗြိတိသျှ ကျွန်းစု၊ နော်ဝေးနှင့် အနောက်အိန္ဒိယကျွန်းစုများသည် တခါက ပင်လယ်ဓားပြများ၏ ခိုအောင်းရာ ဌာနများဖြစ်ခဲ့ကြသည်။ ၁၇၁၅ ခုနှစ်လောက်တွင် အနောက်အိန္ဒိယ ကျွန်းစုများ၌ ပင်လယ်ဓားပြများ အလွန်သောင်းကျန်းခဲ့ဘူးသည်။ အင်္ဂလိပ်နှင့် အမေရိကန်ရေတပ်များက လိုက်လံနှိမ်နင်းသောကြောင့်၊ နောက်ဆုံး၌ နည်းပါးသွားသည်။ ဂရိကျွန်းများတွင်ကား ၁၈၅၀ ပြည့်နှစ်အထိ ပင်လယ်ဓားပြများ ထကြွလျက် ရှိသေးသည်။ မီးသင်္ဘောနှင့် ကြေးနန်းပေးပို့ခြင်း အတတ်တို့ ပေါ်လာသောအခါမှသာ ပင်လယ် ဓားပြများကို ထိရောက်စွာ နှိမ်နင်းနိုင်လာလေသည်။

ပင်လယ် ဓားပြများအား ဖမ်းဆီးမိသောအခါ၊ အများအားဖြင့် သေဒဏ်ပေးလေ့ရှိသည်။ ယင်းသို့ ပြင်းပြင်းထန်ထန်အရေးယူ နှိပ်ကွပ်သော်လည်း၊ ပင်လယ်ဓားပြများကား လုံးဝ ပပျောက် မသွားခဲ့ချေ။ အချို့သော လူကုံထံများ၊ သူဌေးများသည် ပင်လယ် ဓားပြများနှင့်ပေါင်း၍ ဝေစုခွဲယူကြသောကြောင့်၊ ယင်းတို့မှာ အားကိုး ရှိနေခဲ့ကြသည်။ တခါတရံ အစိုးရအဖွဲ့များ ကိုယ်တိုင်က ပင်လယ်ဓားပြများအား တိတ်တဆိတ် အားပေးခဲ့ကြသည်။အစိုးရအသိအမှတ်ပြု ပင်လယ်ဓားပြ သင်္ဘောများသည် ရန်သူနိုင်ငံ၏ ကုန်သင်္ဘောများကို သာမက၊ စစ်သင်္ဘောများကိုပါ တိုက်ခိုက်ရသည်။ ထိုအတွက် အစိုးရက သူတို့အား ဆုငွေများပေးသနား ခြီးမြှင့်သည်။ ဗြိတိသျှသမိုင်းတွင် ထင်ရှားသော ဆာဖရန်းစစ် ဒရိတ်သည် ထိုကဲ့သို့သော သင်္ဘောများ၏ ဦးစီးဗိုလ် တဦးဖြစ်သည်။ (ဒရိတ်, ဆာဖရန်းစစ် — ရှု။) သို့ရာတွင် ၁၈၅၆ ခုနှစ် ပါရစ် ကျေညာစာတမ်းအရ အစိုးရ အသိအမှတ်ပြု ပင်လယ်ဓားပြလုပ်ငန်းကို လုံးဝ ဖျက်သိမ်းလိုက်ရလေသည်။

ကက်ပတိန် ဂျွန်အေဗရီ၊ ဗာသောလမျူး ရောဗတ်၊ အက်ဒွပ် တီချ၊ ကက်ပတိန် မစ်ဆန်တို့သည် နာမည်ကျော် ပင်လယ်ဓားပြကြီးများဖြစ်ကြသည်။ ယောကျာ်းများသာ ပင်လယ်ဓားပြ အလုပ်ဖြင့် အသက်မွေးကြသည် မဟုတ်၊ မိန်းမသားများသည်လည်း ပင်လယ် ဓားပြအဖြစ် အသက်မွေးခဲ့ကြ၏။ အန်ဘွန်နီနှင့် မေရီရိဆိုသော မိန်းမ ပင်လယ်ဓားပြနှစ်ဦးသည် နာမည်ကြီးလှသည်။

ပင်လယ်ဓားပြတို့သည် မိမိတို့ တိုက်ခိုက် လုယူရရှိသော ပစ္စည်းများကို ကုန်းပေါ်ရှိ ခိုးရာပါပစ္စည်းလက်ခံသူများထံ အပ်ကာ ထုခွဲရသည်။ ယင်းသို့ လက်ခံ ထုခွဲပေးသော ဌာနများသည် နယူးအင်္ဂလန် ကမ်းရိုးတန်း ဒေသ၊ ဂျမေးကားကျွန်း၊ အိုင်ယာလန်ပြည်နှင့် အင်္ဂလန်ပြည် အနောက်ဖက် ကမ်းရိုးတန်းရှိ အချို့သောဒေသများဖြစ်ကြသည်။ ပင်လယ်ဓားပြများသည် ဥပဒေမဲ့များဖြစ်ကြရာ၊ သူတို့၏ သင်္ဘောများတွင် မည်သည့်နိုင်ငံ၏ အလံကိုမျှ တင်မထားဘဲ သူတို့၏ အမှတ်အသားဖြစ်သော အမဲခံတွင် ခေါင်းခွံအောက်၌ အရိုး ၂ ချောင်း ကြက်ခြေခတ်ပုံပါသည့် အလံကိုသာ လွှင့်ထားကြသည်။

ပင်လယ်ဓားပြများအကြောင်း မူတည်၍ ရေးသားသော ဝတ္ထုပေါင်းများစွာ ပေါ်ထွက်ခဲ့သည့်အနက်၊ ရောဗတ်လူဝီ

စဘီဗင်ဆန်၏ ရတနာဒီပ ဝတ္ထုသည် အကောင်းဆုံး ဝတ္ထု တပုဒ် ဖြစ်လေသည်။ (စတီဗင်ဆန်၊အာ၊အယ် — ရှု။)

**ပင်လယ်နီ။** ။အာရေဗျ ကျွန်းဆွယ်နှင့် အာဖရိကတိုက် အရှေ့မြောက်ပိုင်းကို ခွဲခြားထားသကဲ့သို့ တည်ရှိသော ပင်လယ်ကို ပင်လယ်နီဟုခေါ်သည်။ ယင်းပင်လယ်သည် အိန္ဒိယသမုဒ္ဒရာ၏ တစိတ်တဒေသဖြစ်သော အာရေဗျ ပင်လယ်၏ လက်တံတခုဖြစ်သည်။ မြောက်ဖက်စွန်းတွင် ဆူးအက်ကွေ့နှင့် အက်ကဗာကွေ့ဟူ၍ ကွေ့နှစ်ကွေ့ရှိသည်။ တောင်ဖက်စွန်းတွင် ဗက်ဗယ်မန်းဒက် ရေလက်ကြား၌ အဆုံးသတ်၍၊ အေဒင်ပင်လယ်ကွေ့နှင့်ဆက်စပ်လျက်ရှိသည်။ပင်လယ်နီသည် အလျားအားဖြင့် မိုင် ၁,၂၀၀ ခန့်ရှည်၍၊ အကျယ်မိုင် ၁၀၀ မှ ၂၀၀ အထိရှိသည်။ အနက်ဆုံးနေရာတွင် ပေ ၃၀၀၀ ခန့်ရှိ၏။ ပျမ်းမျှခြင်းအားဖြင့် စတုရန်းမိုင်ပေါင်း ၁၆၀,၀၀၀ ကျယ်ဝန်းရာ မြန်မာနိုင်ငံ ပြည်မနီးနီး ရှိလေသည်။

ပင်လယ်နီသည် ကမ္ဘာမြေကြီး၏ ကျောက်သားထုကြီး ကွဲအက်သွားခြင်းကြောင့် ဖြစ်ပေါ်လာရသည်ဟု သိပ္ပံပညာရှင်များက ယူဆကြသည်။ ယင်းအတွင်းသို့ စီးဝင်သော မြစ်ဟူ၍ မရှိခြင်း၊ နေပူရှိန်ပြင်းသည့် ဒေသတွင် ကျရောက်နေသဖြင့်၊ ပင်လယ်ရေသည် အခိုးအငွေ့များဖြစ်ကာ လွင့်တက်ခြင်းတို့ကြောင့်၊ ရေသည် များစွာ ငန်သည်။ ကမ်းရိုးတန်းသည် သစ်ပင်များ မပေါက်ဘဲ ခြောက်သွေ့သည်။ အရှေ့ဖက်ကမ်းတွင် တောင်တန်းမြင့်များရှိ၍၊ အနောက်ဖက်ကမ်းတွင် သဲတောင်ကုန်းများနှင့် ကျောက်ကုန်းပြင်မြင့်များရှိသည်။ သဲကန္တာရဒေသတွင် ဆိပ်ကမ်းမြို့ အနည်းငယ်ရှိသည်။

ပင်လယ်နီအတွင်းရှိ သတ္တဝါကလေးများနှင့် အပင်များသည် မြေထဲပင်လယ်၌ရှိသည်တို့နှင့် လုံးဝ မတူချေ။ ပင်လယ်တွင်းရှိ ရေပိုးရေမွှား အကောင်ငယ် ကလေးများကြောင့်၊ ပင်လယ်တပြင်လုံးသည် အနီရင့်ရောင် ဖုံးလွှမ်းထားသကဲ့သို့ ရှိနေသည်။ ထိုကြောင့် ပင်လယ်နီဟု ခေါ်သည်ဟု တချို့က ဆိုကြ၍၊ အချို့ကလည်း ပင်လယ်နီဟု ခေါ်သည်မှာ ပတ်ဝန်းကျင်ရှိ ခြောက်သွေ့နီခဲသော တောင်ကုန်းတောင်တန်းများ၊ သန္တာကျောက်တန်းများကြောင့် ခေါ်ခြင်းဖြစ်သည်ဟုဆိုကြသည်။ အချို့ကမူ လေပူတိုက်သဖြင့်၊ ပတ်ဝန်းကျင်မှလွင့်လာသော သဲနီများ ရေမျက်နှာပြင်တွင် တင်နေရာ၊ ရေရောင်နီနေသောကြောင့် ပင်လယ်နီဟု ခေါ်သည်ဟုဆိုကြလေသည်။ ပင်လယ် ကမ်းရိုးတန်းများတလျှောက်တွင် ကမ်းခြေနှင့် မလှမ်းမကမ်း၌ကျွန်းစုငယ်များနှင့်ရေကြောင်း အသွားအလာကို အန္တရာယ်ပေးတတ်သည့် သန္တာကျောက်တန်းများရှိသည်။ ပုလဲထွက်သော ကမာကောင်များကိုလည်း ယင်းပင်လယ်ထဲ၌ တွေ့ရလေသည်။ ပင်လယ်နီသည် လှေငယ်တက်စင်းများ အတွက်သာမက၊ သင်္ဘောငယ်များအတွက်ပင် အန္တရာယ်များလှသည်။ သင်္ဘောငယ်များသည် ပင်လယ်နီ တောင်ဖက်ပိုင်းရှိ မိုင် ၂၀ ခန့်မျှ ကျယ်ဝန်းသော အလယ်ရေပြင်ကြောမှသာလျှင်ကူးသန်းသွားလာနိုင်သည်။

ပင်လယ်နီသည် အီဂျစ်နှင့် အာရေဗျတို့အကြားတွင်တည်ရှိသောကြောင့်၊ယင်းကိုရှေးဟောင်းလူတို့ကလည်း ကောင်းစွာသိရှိခဲ့သည်။ ခရစ်ယန် ဓမ္မဟောင်းကျမ်းမှ ထွက်မြောက်ရာကျမ်းတွင်လည်း ဖော်ပြပါရှိသည်။ သို့သော်လည်း ဆူးအက်တူးမြောင်း ဖောက်လုပ်ပြီးသည့် အချိန်မှစ၍၊ ဥရောပနှင့် အရှေ့ဖက်နိုင်ငံများ ကူးလူးဆက်ဆံရေး လွယ်ကူလာသလောက် ပင်လယ်နီသည်လည်း ပိုမိုအရေးပါ အရာရောက်လာသည်။ (ဆူးအက်တူးမြောင်း — ရှု။) မြန်မာ သက္ကရာဇ် ၁၂၃၅ ခုနှစ်တွင် ကင်းဝန် မင်းကြီးသည် ပြင်သစ် နိုင်ငံသို့ သံတော်ကြီးအဖြစ်နှင့် သွားခဲ့စဉ်က၊ ပင်လယ်နီသို့ ရောက်ခဲ့ရာ၊ ပင်လယ်နီအကြောင်း အောက်ပါအတိုင်း ဖွဲ့ဆို စီကုံးခဲ့လေသည်။

> ''ကျောက်မြေပြင် ဒေဝ်စွန်းက၊ ယွန်းပြန်ခဲ့ ရွှေဆီ။
> ရက်ထစီး၊ ဝင်နီး ပင်လယ်က၊ ကမ်း ၂ သွယ် ကွာမဝေး
> သည်နှင့်၊ စထရေးခေါ် ဆွယ်အဝမှာ မီးပြခဲ့ပြီ။
> ဝဲကမ်းခြေအာရေဘိ၊ တူရကီ တိုင်းပူရီ၊ သာမီပြုတကဲ။
> အာဖရိ၊ သာဘိ ရံလက်ယာ၊ ကမ်းနှစ်မြွာ ရှည်သွယ်
> ညီတဲ့၊ ပင်လယ်နီ ရေသိမ်ပျိုငယ်၊ ဆုံးနိုင်ဘို့ဘဲ။''

ဒုတိယကမ္ဘာစစ်ဖြစ်စဉ်က ပင်လယ်နီ ဒေသသည် အထူးအရေးပါခဲ့သည်။ဗြိတိသျှတပ်များသည်ပင်လယ်နီ၏တောင်ဖက်စွန်းတွင် ရေမြုပ်ဗုံးများ ချထားခဲ့သည်။ ဂျာတာလျံ သင်္ဘောများကိုလည်း ဖျက်ဆီးနှစ်မြုပ်ပစ်ခဲ့ပြီးသော်၊အီရစ်ထရီးယားနယ်ရှိ မက်ဆဝါ သော့ချက်ဆိပ်ကမ်းမြို့ကို သိမ်းယူလိုက်လေသည်။

**ပင်လယ်နက်။** ။ပင်လယ်နက်သည် အာရှမိုင်းနားနှင့် ဥရောပတိုက်တို့ အကြားတွင် တည်ရှိသော ကုန်းတွင်း ပင်လယ်ဖြစ်သည်။ အနောက်ဖက်တွင် ဗော်လကန် ကျွန်းဆွယ်သည်၎င်း၊အရှေ့ဖက်တွင် ကော်ကေးဆပ် တောင်တန်းဒေသသည်၎င်း၊တောင်ဖက်တွင် အာရှမိုင်းနားကျွန်းဆွယ်သည်၎င်း၊ မြောက်ဖက်တွင် ရုရှနိုင်ငံသည်၎င်း ပင်လယ်နက်ကို အသီးအသီး ဝန်းရံထားသည်။အရှေ့မြောက်ဖက်တွင် ပင်လယ်နက်သည်ကပ်ချရေလက်ကြားအားဖြင့် အဇော့ပင်လယ်နှင့် ဆက်လျက်ရှိသည်။ အနောက်တောင်ဖက်တွင်မူ အီးဂျီးယန်းနှင့် မြေထဲပင်လယ်များကို မာမရာပင်လယ်၊ ဗော့စပရပ် ရေလက်ကြားနှင့် ဒါးဒနဲ ရေလက်ကြားတို့ဖြင့် ဆက်စပ်နေလေသည်။



ပင်လယ်နက် ကမ်းခြေရှိ ကရိုင်းမီးယားနယ်၏ ရှုခင်းတရပ်

၇ ရာစုနှစ်ခန့်က ပင်လယ်နက်ကို ရောမ လူမျိုးတို့က ပွန်းတပ်ယူဆိုင်းနပ်ဟု ခေါ်ကြသည်။ အဓိပ္ပါယ်ကား မိတ် ပင်လယ် ဖြစ်သည်။ သို့ရာတွင် ဆောင်းရာသီ၌ မြူများ ပိတ်ဖုံးကာ နက်မှောင် နေတတ်သဖြင့်၊ ပင်လယ်နက်ဟု ခေါ်စမှတ်ပြုကြသည်။

ပင်လယ်နက်သည် အရှေ့မှ အနောက်သို့ မိုင် ၇၅၀ ရှည်၍၊ တောင်မှ မြောက်သို့ မိုင် ၃၈၀ ကျယ်သည်။ အကျယ် အဝန်းအားဖြင့် စတုရန်း မိုင်ပေါင်း ၁၇၀,၀၀၀ ခန့် ရှိ၍၊ အနက်ဆုံး နေရာတွင် ပေ ၇,၃၆၀ ရှိသည်။ ပင်လယ်နက်၏ ထူးခြားချက် တရပ်ကား၊ ပေ ၃၀၀ ခန့် နက်သော နေရာ၌သာ ငါးနှင့် ရေ၌ ပေါက်သော အပင်ငယ်တို့ ရှိကြခြင်း ဖြစ်၏။ ထိုထက် နက်သော နေရာတို့၌ အောက်ဆီဂျင် ဓာတ် ခေါင်းပါးသဖြင့်၊ မည်သည့် သက်ရှိ သတ္တဝါမျှ မနေနိုင်ကြချေ။

ပင်လယ်နက်၏ အခြား ထူးခြားချက် တရပ်ကား၊ ဒီတက် ဒီကျ မရှိခြင်းပင် ဖြစ်သည်။ သို့ရာတွင် ယင်းအတွင်းသို့ စီးဝင်သော မြစ်ရေများ၏ အရှိန်ကြောင့်၊ ရေစီးသန်သည့် ရေစီးကြောင်းများ ဖြစ်ပေါ်နေလေသည်။ ပင်လယ်နက်အတွင်းသို့ များစွာသော မြစ်တို့ စီးဝင်သောကြောင့်၊ ပင်လယ်ရေသည် မြေထဲပင်လယ်ရေလောက် မငန်လှချေ။ စီးဝင်သော မြစ်များမှာ အဇော့ ပင်လယ်မှ တဆင့် ကူဗန်နှင့် ဒွန်မြစ်၊ အနောက် မြောက်ဖက်မှ နီစတာနှင့် ဒန်းညူမြစ်၊ တောင်ဖက်မှ ကီဇီအာမတ်နှင့် ဆာကားယား မြစ်တို့ ဖြစ်ကြသည်။ ပင်လယ်နက်၏ အခြား ဆန်းကျယ်မှုတရပ်မှာ ပင်လယ်ရေစီးပုံ ဖြစ်သည်။ ပင်လယ်နက် ရေထုအပေါ်မှ ရေချိုတို့သည် ဗော့စပရပ် ရေလက်ကြားဖက်သို့ စီးသွား၍၊ အောက်လွှာသို့မူ အီးဂျီးယန်း ပင်လယ်ဖက်မှ ရေများ စီးဝင်လာသည်။ ပင်လယ်နက် အတွင်း၌ ကျွန်းဟူ၍ ကား ကြီးကြီး ကျယ်ကျယ် မရှိချေ။ ဒန်းညူ မြစ်ဝ၌ အဒက်ဆီ ကျွန်းတကျွန်းသာ ရှိသည်။

ရှေး နှစ်ပေါင်း ၂၀၀၀ ကျော်က ပင်လယ်နက်သည် ကုန်သည်များနှင့် ပင်လယ် ဓားပြများ ကျက်စားရာ ဖြစ်ခဲ့သည်။ ယခုခေတ်တွင်မူ ကုန်သင်္ဘောများသာမက၊ စစ်သင်္ဘောများပါ ဖြတ်သန်း သွားလာရာ ဖြစ်နေလေပြီ။ ထိုပြင် ရုရှတို့၏ ရေတပ် စခန်းချရာလည်း ဖြစ်သည်။ ပင်လယ်နက် အတွင်းရှိ ဆိပ်ကမ်းမြို့များမှာ အိုဒက်ဆာ၊ ခါဆွန်၊ ဆီဗတ်စတိုပို၊ ဗာတွမ်း၊ ထရက်ဗီဇွန်၊ ဆီနော့နှင့် ဗာနာတို့ ဖြစ်သည်။ သို့ရာတွင် မြောက်ဖက် ဆိပ်ကမ်းများ

သည် ဇန့ဝါရီလနှင့် ဖေဖွာရီလ များတွင် ရေခဲသဖြင့်၊ သင်္ဘောကြီးများ အသွားအလာ ခဲယဉ်းသည်။

ပင်လယ်နက်သည် ရှေး နှစ်ပေါင်း များစွာကပင် ဥရောပ အရှေ့ပိုင်း၏ စီးပွားရေးနှင့် နိုင်ငံရေးရာများတွင် အထူး အရေးပါခဲ့သည်။ ဂရိတို့သည် ခရစ် မပေါ်မီ ၇ ရာစုနှစ် လောက်က၊ ပင်လယ်နက် ကမ်းခြေ ဒေသများကို စည်းရုံး အုပ်စိုးခဲ့ ကြဘူးသည်။ ခရစ် ၁၄၅၃ ခုနှစ်တွင် အော့တို မန် တူရကီတို့က ကွန်စတန်တီနိုပယ် မြို့ကို သိမ်းလိုက်ပြီး နောက်၊ ပင်လယ်နက်ကို လက်ဝါးကြီး အုပ်ခဲ့သည်။ သို့ရာ တွင် မကြာမီပင် ရုရှတို့သည် ပင်လယ်နက်သို့ သွားလာခွင့် ရလာကြသည်။ရုရှနိုင်ငံကို ပီတာ-သ-ဂရိတ် (ခရစ် ၁၆၇၉–၁၇၂၅) စိုးစံသောအခါ၊ ပင်လယ်နက်သည် ပို၍ အရေးပါ လာသည်။ (ပီတာ-သ-ဂရိတ် — ရှု။)ရုရှရေတပ်မတော်ကို ပင်လယ်နက် ဒေသတိုက်၌ အစပျိုး တည်ထောင်ခဲ့သည်။ ထိုနောက် ပြင်သစ်-ပရပ်ရှား စစ်ပွဲ ဖြစ်ပွားခဲ့သည့်အချိန်မှ စ၍၊ ၁၈၁၄ ခုနှစ် အထိ၊ ရုရှတို့သည် မိမိတို့၏ ရေတပ်မ တော်ကို ပင်လယ်နက် ဒေသ တခိုက်၌ လွတ်လပ်စွာ တိုးချဲ့ ကြီးပွားခွင့် ရခဲ့လေသည်။ ပဌမ ကမ္ဘာစစ် အတွင်းက ပင် လယ်နက်တွင် တူရကီတို့နှင့် ရုရှတို့၏ ရေတပ်ချင်း တိုက်ပွဲ များ အများအပြား ဖြစ်ပွားခဲ့လေသည်။ ဒုတိယ ကမ္ဘာစစ် အတွင်းကလည်း၊ ရုရှနှင့် ဂျာမန်တို့သည် ပင်လယ်နက် မြောက်ဖက်ကမ်းတွင် သဲသဲမဲမဲ တိုက်ခဲ့ကြလေသည်။

ပင်လယ်နက်ကို ၁၉၃၆ ခုနှစ် နိုင်ငံပေါင်းစုံ သဘောတူ ညီချက် အရ၊ မည်သည့်နိုင်ငံ မဆို ဝင်ထွက် ကူးသန်းနိုင် ကြသည်။ သို့ရာတွင် ပင်လယ်နက်အား မည်သည့် နိုင်ငံက ပိုင်ထိုက်သည်ဟူသော အချက်ကိုမူ၊ ကမ္ဘာစစ်ကြီးအပြီး ချုပ်ဆိုသော စာချုပ်များ၌ပင် အတိအလင်း မဆိုခဲ့ချေ။

**ပင်လယ်ဖျံ**။ ။ပင်လယ် ဖျံသည် အသားစား သတ္တဝါ အုပ်စုတွင် ပါဝင်၍ နို့တိုက် သတ္တဝါမျိုး ဖြစ်သည်။ အချို့ က ယင်းကို ဝေလငါးနှင့် မျိုးရိုးတူသည်ဟု ယူဆကြသော် လည်း မဟုတ်ချေ။ ရေထဲ၌ နေတတ်ကြသော်လည်း ပင် လယ်ဖျံတို့သည် ကိုယ်ရေနွေး သတ္တဝါမျိုး ဖြစ်ပေသည်။ ကြောင်၊ ဝက်ဝံ စသော ကုန်းနေ သတ္တဝါများနှင့် တဆက် တနွယ်တည်း ဖြစ်ကြသည်။ ရေသည် လေထက် ခန္ဓာကိုယ်မှ အပူငွေ့ကို စုတ်ယူလွယ်သဖြင့် ကိုယ်ရေနွေး သတ္တဝါ ဖြစ် သော ပင်လယ်ဖျံသည် ကိုယ်တွင်း အပူငွေ့ နည်းသွားပါက မနေနိုင်သဖြင့် အရေပြား အောက်တွင် အဆီပြင်နှင့် ရေ မြုပ်သဖွယ် တစ်ရှူးထပ်တို့ ရှိလာရသည်။

ပင်လယ်ဖျံ၏ကိုယ်သည်လုံး၍ အထက်ပိုင်း ကြီးပြီးလျှင် အောက်ပိုင်း သွယ်သည်။ ထို့ကြောင့် ရေထဲသို့ ဆင်းသည့် အခါ လျှောကနဲ အလွယ်တကူ ဆင်းနိုင်သည်။ ရေထဲ၌ ၁၀ မိနစ်မှ မိနစ် ၃၀ အထိ ငုပ်နေနိုင်၍ ပက်လက်လည်း ရေကူးနိုင်သည်။ ကိုယ်ပေါ်တွင် အမွေးတိုကလေးများ ရှိ၍ ဆီသုတ်ထားသကဲ့သို့ ပြောင်လက်နေသည်။ လက်နှင့် ခြေ တို့၌ အရေပြားဆက် ခြေဖဝါး လက်ဖဝါးများ ရှိသဖြင့် ရေကူးရန် အလွန်ကောင်းသည်။

ပင်လယ်ဖျံမျိုးများစွာရှိသည့်အနက် ထင်ထင်ရှားရှား ခွဲ ခြားနိုင်သော ပင်လယ်ဖျံမျိုး ၂ မျိုး ရှိသည်။ ဖိုဆီအိဒီး မျိုး ရင်းဝင် ပင်လယ်ဖျံစစ်၊ သို့မဟုတ် မွေးရှိ ပင်လယ်ဖျံမျိုးနှင့် အိုတရီအိဒီး မျိုးရင်းဝင် ဆီးလိုင်းယင်းခေါ် ပင်လယ်ဖျံ နှင့် သားမွေးရ ပင်လယ်ဖျံမျိုးတို့ ဖြစ်သည်။

ပင်လယ်ဖျံစစ်မျိုး၌ နားရွက်ဟူ၍ မရှိဘဲ ဦးခေါင်း၂ ဖက် တွင်နားပေါက်သာရှိသည်။ ခြေဖဝါးပြားသည် တိုသည်။ ယင်း ခြေပြားတို့သည် ရှေ့ပြန် နောက်ပြန် ရေကူးရာ၌ များစွာ အကူအညီရသည်။ ကုန်းပေါ်သို့ ရောက်သော အခါ ဝမ်းပိုက် ကြွက်သားကို ရုပ်၍ လမ်းလျှောက်လေ့ ရှိ သည်။ ယင်းသို့ သွားလာနေသည့် အခါ တီကောင် ဝဝ တုတ်တုတ်ကြီးများနှင့် တူသည်။ ပင်လယ်ဖျံစစ်သည် နား ရွက်ပါသည့် ပင်လယ်ဖျံမျိုးထက် ရေထဲ၌ အချိန် အကန့် အသတ်မရှိ နေနိုင်သည်။ သူတို့၏ သားငယ်များကိုပင် ရေထဲ၌ တခါတရံ မွေးဖွားတတ်ကြသည်။ ပင်လယ်ဖျံစစ် များသည် တခါတရံ ရှူးထုတ် မှုတ်ထုတ်သံ လုပ်သည်မှ တပါး ငြိမ်သက်စွာ နေတတ်သည်။

ဆီးလိုင်းယင်းပင်လယ်ဖျံနှင့် သားမွေးရပင်လယ်ဖျံမျိုး၌ ငယ်သော်လည်း ထင်ထင်ရှားရှား မြင်ရသော နားရွက် ပါရှိသည်။ ခြေဖဝါးပြားများသည် ပင်လယ်ဖျံစစ်တို့ထက် ရှည်သည်။ ကုန်းပေါ်၌ ပင်လယ်ဖျံစစ်တို့ထက် လျင်မြန် စွာ သွားလာနိုင်သည်။ နောက်ခြေပြားများကို အားပြု၍ ယုန်များကဲ့သို့ ခုန်တတ်သည်။ သို့ရာတွင် အကြည့်ရ ဆိုး သည်။ သူတို့၏ သားငယ်များသည် မွေးစတွင် ရေမကူး တတ်သဖြင့် ကုန်းပေါ်၌သာ သားမွေးသည်။ သားဖွားချိန် တွင် ကျောက် ထူထပ်သော ကမ်းခြေသို့ တက်၍ ဖွားကြ သည်။ ယင်းတို့သည် ပင်လယ်ဖျံစစ်များကဲ့သို့ ငြိမ်သက်စွာ မနေကြဘဲ ဟိန်းလိုက် ဟောက်လိုက် ဟောင်လိုက်နှင့် အသံ ဆူညံစွာ ပြုတတ်သည်။ အထူးသဖြင့် သားမွေးရန် ကုန်းပေါ်သို့ စုရုံး ရောက်လာသည့်အခါ ပို၍ ဆူသည်။

ပင်လယ်ဖျံ အားလုံးပင် တပုံစံထဲ ဖြစ်သော်လည်း အရွယ်မှုကားခြားသည်။ အချို့ ပင်လယ်ဖျံမျိုးသည် ၆ ပေ ခန့်ရှည်ပြီးလျှင် ပေါင်တရာခန့်လေး၍ အချို့ ပင်လယ်ဖျံမျိုး မှာမူ ၁၆ ပေခန့် ရှည်၍ ၂½ တန်ခန့် လေးသည်။ယေဘုယျ အားဖြင့် မီးခိုးရောင်နှင့် အညိုရောင်များ ဖြစ်သော်လည်း အချို့ ပင်လယ်ဖျံများ၌ အပြောက် အစက်များ ပါ၍ အချို့ တွင် အရောင်ရင့် အရစ်များ ပါသည်။

ပင်လယ်ဖျံ တမျိုး ၂ မျိုးကိုသာလျှင် အနွေးပိုင်း ဒေသ ပင်လယ်ပြင်တွင် တွေ့နိုင်သည်။ အများအားဖြင့် သမပိုင်း နှင့် ဝင်ရိုးစွန်း ဒေသရှိ ပင်လယ်ပြင်များတွင် နေတတ်ကြသည်။ ပင်လယ်ဖျံစစ်မျိုးကို အတ္တလန္တိတ် သမုဒ္ဒရာမြောက်ပိုင်းနှင့် အာတိတ် သမုဒ္ဒရာတို့တွင် တွေ့ရှိရ၍၊ သားမွေးရ ပင်လယ်ဖျံမျိုးကို ပစိဖိတ် သမုဒ္ဒရာ မြောက်ပိုင်းနှင့် ဗဲရင်း ပင်လယ်ဒေသတွင် အများအားဖြင့် တွေ့နိုင်သည်။

ပင်လယ်ဖျံတို့သည် တနှစ်လျှင် တကောင်၊ သို့မဟုတ် နှစ်ကောင်အထိပေါက်သည်။ ပေါက်စ ပင်လယ်ဖျံ၏ အရေ ပြားသည် ထူ၍ နူးညံ့သည်။ အဖြူရောင် ဖြစ်သည်။ အချို့ ပင်လယ်ဖျံမျိုး သားငယ်၏ အရေသည် ပြင်ပလေနှင့် ထိပြီး မကြာမီ အရောင် ပြောင်းသော်လည်း အချို့ ပင်လယ်ဖျံမျိုးကား မွေးပြီး ရက်သတ္တတပတ် ၂ ပတ်ခန့် ကြာမှ အရောင် ပြောင်းတတ်သည်။ ကုန်းပေါ်၌ ဖွားသော ပင်လယ်ဖျံငယ်သည် ယင်း အရေလဲပြီးမှ မိခင်၊ သို့မဟုတ် ဖခင်တို့ နှင့်အတူ ရေကူးသင်ရန် ရေထဲသို့ ဆင်းလေသည်။

အက်စကီးမိုး လူမျိုးတို့သည် ပင်လယ်ဖျံကို အစာအလို့ငှါ အထူး အားထားကြသည်။ ပင်လယ်ဖျံ၏ အသားကို စား၍ အဆီကို ချက်ပြုတ်ရာ၌၎င်း၊ အပူရရန် မီးမွေးရာ၌ ၎င်း၊ မီးထွန်းရာ၌၎င်း သုံးသည်။ အရေပြားကို အဝတ် အထည်အဖြစ်၎င်း၊ တဲအိမ်မိုး အဖြစ်၎င်း သုံးကြသည်။ အကြောများကို အဝတ်အထည်များ ချုပ်ရန် ကြိုးအဖြစ် အသုံးပြုသည်။ လှံနှင့် မြားသွားများကိုလည်း ပင်လယ်ဖျံ အရိုးဖြင့် ပြုလုပ်သည်။ အက်စကီးမိုးတို့ အဖို့ ပင်လယ်ဖျံ များသည် အဖက်ဖက်မှ အသုံးဝင်သော်လည်း စီးပွားရေး အတွက် ပင်လယ်ဖျံ ဖမ်းသူများလောက် ဖမ်းဆီး သတ်ဖြတ်ခြင်းကား မပြုချေ။

အတ္တလန္တိတ် သမုဒ္ဒရာ မြောက်ပိုင်းတွင် ပင်လယ်ဖျံများ အုပ်စုလိုက် မြောက်မြားစွာ ရှိသဖြင့် ပင်လယ်ဖျံဖမ်း လုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်ကြသည်။ လွန်ခဲ့သည့် နှစ်ပေါင်း ၁၅၀ ခန့်မှစ၍ ပင်လယ်ဖျံ သားရေ အလို့ငှါ ပင်လယ်ဖျံဖမ်း သင်္ဘော များစွာ ယင်းဒေသသို့ စွန့်စားသွားရောက် လုပ်ကိုင်ကြသည်။ ပင်လယ်ဖျံများ နွေရာသီ သားဖွားရန် ကုန်းပေါ်တက်ချိန်၌ အများဆုံး ဖမ်းကြသည်။ တရာသီလျှင် အနည်းဆုံး ပင်လယ် ဖျံပေါင်း ၃၅၀,၀၀၀ ဖမ်းကြသည်။ အမျိုးသမီးများ အလှဆင်ရန်နှင့် အနွေးထည် အဖြစ် အသုံးပြုရန် အလွန် တန်ဖိုးထားကြသော ပင်လယ်ဖျံ သားမွေးရေကို သားမွေးရ ပင်လယ်ဖျံမှ ရရှိသည်။ ယင်း ပင်လယ်ဖျံမျိုးကို ဗဲရင်း ပင်လယ်တွင်ရှိ ပရီဗီလော့ကျွန်းတဝိုက်၌အများဆုံးတွေ့ရသည်။ သားမွေးရ ပင်လယ်ဖျံသည် ဆီးလိုင်းယင်းပင်လယ်ဖျံထက် ငယ်သည်။ ကိုယ်ပေါ်၌ ရှိုးရှိုးအမွေးများအောက်တွင် ကတ္တီပါမွေးရှည်



ကျောက်ဆောင်ထက်ဝ၌ နေပူစာလှုံလျက်ရှိသော ပင်လယ်ဖျံ

သဖွယ် သားမွေးတို့ ပါသည်။ အပေါ်မှ အမွေးကြမ်းကို ဖယ်၍ အောက်ခံ သားမွေးနုဖြင့် စောင်၊ အင်္ကျီ စသည်တို့ ချုပ်၍ အသုံးပြုကြသည်။

သားမွေးရ ပင်လယ်ဖျံများကို စီးပွားရေး အလို့ငှါ ယင်းသို့ မပြတ် ဖမ်းယူကြသဖြင့် ၁၉၁၁ ခုနှစ်လောက်တွင် အကောင် ၁၅၀,၀၀၀ ခန့်သာ ရှိတော့သည်။ ထို့ကြောင့် အမေရိကန်၊ ရုရှ၊ အင်္ဂလန်နှင့် ဂျပန်တို့သည် ပင်လယ်ဖျံ ထိန်းသိမ်းရေး စာချုပ်ကို ထိုနှစ်တွင်ပင် ချုပ်ဆိုကြသည်။ ယင်း စာချုပ်အရ စာချုပ်ဝင်နိုင်ငံများသည် မြောက် လတ္တီတွဒ် ၃၀ံ မြောက်ဖက် ပစိဖိတ်သမုဒ္ဒရာ မြောက်ပိုင်းဒေသ ဖြစ်သော ဗဲရင်း ပင်လယ်၊ ကမ်ချတ်ကား ပင်လယ်၊ အောခေါ့စကပင်လယ်နှင့် ဂျပန်ပင်လယ်တို့၌ ပင်လယ်ဖျံဖမ်းလုပ်ငန်း မလုပ်ရန် တားမြစ်ထားသည်။ မိမိပိုင် ကုန်းပေါ်သို့ တက်လာသော ပင်လယ်ဖျံများကိုသာ ဖမ်းဆီး သတ်ဖြတ်ခွင့် ရှိသည်။ စာချုပ်ကို ၁၅ နှစ် တခါ ချုပ်ဆိုကြ၍ စာချုပ် ရပ်စဲလိုသော နိုင်ငံသည် တနှစ် နိုတစ်ပေးရသည်။ ထို့ကြောင့် ၁၉၄၀ ပြည့်နှစ် အောက်တိုဘာလ ၂၃ ရက်နေ့တွင် ဂျပန် နိုင်ငံက စာချုပ် ရပ်စဲရန် နိုတစ်ပေးသဖြင့် ၁၉၄၁ ခုနှစ်အောက်တိုဘာလ ၂၃ ရက်နေ့တွင်စာချုပ်ပျက်ပြယ်သွားလေသည်။ ၁၉၄၂ ခုနှစ် ဒီဇင်ဘာလ ၁၉ ရက်နေ့တွင် ကနေဒါနှင့် အမေရိကန် နိုင်ငံတို့ ယာယီ စာချုပ် ချုပ်ကြ၍ ၁၉၄၄ ခုနှစ် ဖေဖွာရီလ ၂၆ ရက်နေ့တွင် အလာစကာ သားမွေးရ ပင်လယ်ဖျံ ဥပဒေ အတည် ဖြစ်ကာ ပင်လယ်ဖျံများကို ရေထဲ၌ မသတ်ဖြတ်ရန် တားမြစ်ထားသည်။ ထို့ကြောင့် ပင်လယ်ဖျံမျိုးသည် ယခုတိုင် ပျက်ပြုန်းမသွားခြင်း ဖြစ်သည်။

**ပင်လယ်ဖူးမြို့။** ။ပင်လယ်ဖူးမြို့သည် ကသာခရိုင် ကောလင်းနယ် အတွင်းရှိ ပင်လယ်ဖူးမြို့နယ်၏ ရုံးစိုက်ရာမြို့ ဖြစ်သည်။ ယင်းမြို့ကို တည်ထောင်ရန် မြေရှင်းသောအခါ ကြက်ဖတကောင်ကို တွေ့ရှိရမှုအစ ရှမ်းဘာသာဖြင့် ပင်ကယ်ဖူးမြို့ဟု မှည့်ခေါ်သည်။ အဓိပ္ပါယ်မှာ 'ကြက်ရှင်းမြို့' ဖြစ်သည်။ ကာလရွေ့လျောသောအခါ၊ ပင်ကယ်ဖူးမှ ပင်လယ်ဖူးမြို့ဟု အမည်တွင်သည် ဆိုကြသည်။

ပင်လယ်ဖူးမြို့သည် ကောလင်းမြို့ အနောက် မြောက်ဖက် ၂၅ မိုင်ခန့် အကွာ၌ မူးမြစ်ပေါ်တွင် တည်ရှိ၍၊ ဝန်းသိုမြို့နှင့်လည်း ၄၁ မိုင်ရှည်သော မော်တော်ကားလမ်းဖြင့် ဆက်သွယ်ထားသည်။ ယင်းမှတပါး အခြား လမ်းပန်းအဆက်အသွယ် မရှိသဖြင့်၊ စည်ကားခြင်း မရှိချေ။ လူဦးရေ နှစ်ထောင်ကျော်မျှ နေထိုင်လျက် ရှိသည်။

၁၈၉၁ ခုနှစ်တွင် ဝန်းသိုနယ်ကို ဗြိတိသျှတို့ သိမ်းပိုက်သောအခါ၊ ပင်လယ်ဖူးမြို့နယ်ကို ဝန်းသိုနယ်တွင်းသို့ သွင်းလိုက်သည်။ သို့ရာတွင် ဒုတိယ ကမ္ဘာစစ် ပြီးဆုံးသောအခါ ဝန်းသိုနယ်မှ ခွဲထုတ်၍ ကောလင်းနယ်တွင်းသို့ သွတ်သွင်းသည်။ ပင်လယ်ဖူးမြို့နယ်သည် မူးမြစ် တဖက်တချက်တွင် တည်ရှိသည်။ မြောက်ဖက်တွင် ဗန်းမောက်မြို့နယ်၊ အရှေ့ဖက်တွင် ဝန်းသိုနှင့် ကောလင်းမြို့နယ်၊ တောင်ဖက်တွင် ရွှေဘိုခရိုင်နှင့် အနောက်ဖက်တွင် အထက် ချင်းတွင်းခရိုင် ရှိသည်။ ပင်လယ်ဖူးမြို့နယ်သည် ၁၃၆၇ စတုရန်းမိုင် ကျယ်သော်လည်း မြို့သက်သက်ကမူ .၀၂ စတုရန်းမိုင်သာ ကျယ်သည်။ မြို့နယ် အတွင်း၌ ဆန်စပါး၊ ခဲသတ္တုနှင့် ဆား ထွက်သည်။ သစ် လုပ်ငန်းကိုလည်း လုပ်ကိုင်ကြသည်။

**ပင်လယ်မြို့။** ။ပင်လယ်မြို့သည် ကျောက်ဆည် ခရိုင် မြစ်သားမြို့နယ် အတွင်းရှိ ရှေးဟောင်း မြို့တော် ဖြစ်သည်။ ယခုအခါ မြို့၏ အရှေ့ဖက်တွင် ရွာရှိ၍ မြို့တွင်းရွာဟု တွင်လေသည်။

ရန်ကုန်–မန္တလေး မီးရထားလမ်းပေါ်ရှိ မြစ်သားမြို့ တောင်ဖက် ၁၂ မိုင်ခန့် ဝေးသော သပြေတောင်း ဘူတာ၏ အရှေ့ဖက် ၄ မိုင်ခန့် အကွာတွင် ပင်လယ်မြို့ တည်ရှိသည်။ ရှေး ပင်လယ်မြို့ တည်နေရာကို အုတ်မြို့ရိုးပျက်အား ကြည့်၍ မှန်းဆနိုင်သည်။ မြို့၏ တောင်ဖက်နှင့် အရှေ့ဖက်မှ ကပ်၍၊ ပန်းလောင်မြစ်ကို ဖြတ်လျက် ဆည်ထားသော နတ်လှဲမြောင်း ဖြတ်သွားသည်။ မြို့၏ တောင်ဖက်တွင် ပြက်ခရွေ တောင်တန်း ရှိသည်။ ယင်း တောင်ပေါ်တွင် အနော်ရထာမင်းစော တရုပ်ပြည်မှ အပြန် တည်ထားခဲ့သော စေတီများ ရှိသည်။ ပြက်ခရွေတောင် စေတီအနီးရှိစေတီယင်တဆူ၏အနီး၌ ကုန်းဘောင်ခေတ်က ရေးထိုးခဲ့သော ကျောက်စာ ရှိသည်။ ပြက်ခရွေတောင်၏ မြောက်ဖက် တောင်စွယ် တခုပေါ်တွင် ရွှေဇာလီဘုရား ရှိသည်။

ဘိန္နကမြို့ကိုအစိုးရသော စော်ဘွားကြီး၏ သားတော်အယ်သိခ်ဗိုလ်နှင့် မြင်စိုင်းအရပ် အသည်သူကြွယ်သမီးတို့သင့်ရာမှ မြင်သော သားတော်အငယ် သီဟသူသည် သက္ကရာဇ် ၆၆၂ ခုနှစ်တွင် ပင်လယ်မြို့ကို တည်၍ မင်းပြုသည်ဟု ဆို၏။ သို့သော် ပုဂံခေတ် ကျောက်စာများတွင်ပင် မြစ်သား ၁၁ ခရိုန် (ခရိုင်) ၏ အမည်များတွင် ပင်လယ်ပါခြင်းကို ထောက်၍ ပင်လယ်မြို့ တည်ခြင်းမှာ ထိုထက် စောသည်ဟု ယူဆရန် ရှိပေသည်။ ပင်လယ်မြို့၏ မြို့ရိုးပုံ စသည်ကို ကြည့်ရှုခြင်းဖြင့်၊ မြန်မာများ ကျောက်ဆည် ဒေသသို့ မရောက်မီကပင် ရှိခဲ့သော ခံမြို့ ဖြစ်ဟန်တူသည်။ ပန်းလောင်မြစ်မှ တဆင့် ရှမ်းပြည်မှ ဆင်းသော နတ်ထိပ် တောင်ကြားလမ်းကို စောင့်ရှောက်သော ခံမြို့ ဖြစ်ခဲ့လေသည်။ မြန်မာများ ရောက်လာပြီးနောက် ခရိုန် (ခရိုင်) တခု အဖြစ် ဖွဲ့စည်းခဲ့ရာမြို့ ဖြစ်၏။ ထိုနောက် ရှမ်းများ ကြီးစိုးလာသောအခါ

တွင်လည်း ဤနေရာကိုပင် ခြေကုပ်တခု အနေဖြင့် ယူကြပြန်သည်။ ရာဇဝင် သမိုင်းအဆက်ဆက် အရေးပါရခြင်းတွင် ပထဝီဝင် အခြေအနေအရ၊ ကျောက်ဆည် လွင်ပြင်၏ တောင်ဖက်စွန်းမှ နေ၍၊ ရှမ်းကုန်းပြင်မြင့် နတ်ထိပ်လမ်း၊ ပန်းလောင်လမ်းတို့မှ ဆင်းလာခြင်းများကို ကာကွယ်ရန် ခံမြို့တမြို့ ဖြစ်ခြင်းကား အရေးပါဆုံး အကြောင်း တရပ်ဖြစ်လေသည်။ ရာဇဝင် အဆိုအရ မြို့တည်ပြီး ၅ နှစ်ခန့်ကြာသောအခါ မကွှရာမြို့တွင် ရွှေနန်းတည်၍ စံနေသော နောင်တော်အငယ် ရာဇသင်္ကြန် နတ်ရွာစံသည်။ ယင်းနောက် ၆၇၂ ခုနှစ်တွင် နောင်တော် အကြီး မြင်စိုင်း ရွှေနန်းရှင်အား လုပ်ကြံပြီးနောက် သီဟသူ မင်းသည် ၆၇၄ ခုနှစ်တွင် အင်းဝမြို့ တောင်ဖက် ပင်းယဟူသောအရပ်၌ ရွှေနန်းတည်၍ ပင်လယ်မြို့မှ ပြောင်းရွှေ့ စံတော်မူသည်။ (ပင်းယ — ရှု။) ယင်းသို့ဖြင့် ပင်လယ်မြို့သည် သီဟသူမင်းလက်ထက် ၁၂ နှစ်လုံးလုံး မင်းနေပြည်တော် အဖြစ် တည်ရှိခဲ့သည်။ ယခုအခါ၌မူ လူနေတထောင်ခန့်ရှိသောကျေးရွာကြီးမျှသာ ဖြစ်သည်။

ပင်လယ်မြို့သည် သပြေတောင်းမြို့နှင့် ကားလမ်းဖြင့် အဆက်အသွယ် ရှိသည်။ မြောက်ဖက် ၅ မိုင်ခန့် ဝေးသော ကူမဲမြို့နှင့်မူ လှည်းလမ်းအားဖြင့်သာ အဆက်အသွယ် ရှိသည်။ မြို့၏ ပတ်ဝန်းကျင်၌ ရေသွင်းလယ်များဖြင့် သာယာလှပသည်။

ပင်လယ်မြို့၏အရှေ့ဖက်တွင် ရွှေစေတီကျောင်း ရှိသည်။ ထိုကျောင်း အနီးတွင် ဆည်တော်နန်း (ဆုတောင်းပြည့်ဘုရား)ရှိ၏။ထိုဘုရားတွင် သက္ကရာဇ် ၆၃၇(ပုဂံခေတ်)ခုနှစ်ထိုး ကျောက်စာ ရှိသည်။ အခြား ကျောက်စာ ၂ ခုမှာ ပင်လယ်မြို့ အနီးမှ ရွှေ့လာသော ကျောက်စာများ ဖြစ်သည်။ ပင်လယ်မြို့မှ မန္တလေးသို့ ရွှေ့ထားသော ကျောက်စာ၌ သက္ကရာဇ် ၇၂၀ ပါသည်။ ကျောက်စာတို့မှာ ပုဂံခေတ်နှင့် ပင်းယခေတ် ထိုးများ ဖြစ်ကြသည်။ မည်သူက စေတီ တည်သည်ကိုကား ယခု မသိရှိတော့ပေ။

**ပင်လယ်မှိုကောင်။** ။ပင်လယ် ကမ်းခြေ တလျှောက် ရေအောက် ကျောက်ဆောင်များ အကြားတွင်၊ ပန်းပွင့်၊ အထူးသဖြင့် မှိုပွင့်နှင့်တူသော အရာများကို တွေ့ရတတ်သည်။ ပဌမတွင် ယင်းတို့ကို အပင်များဟု ထင်ရသော်



ပင်လယ်အောက်၌ တွေ့ရသော ပင်လယ်မှိုကောင်များ

လည်း၊ စင်စစ် အပင် မဟုတ်ဘဲ၊ ပင်လယ် မှိုကောင် (ဝါ) အနံမနီးကောင်ဟု ခေါ်သော ပင်လယ် သတ္တဝါ တမျိုးသာ ဖြစ်ပေသည်။ ယင်း သတ္တဝါတို့သည် ရေအောက် ကျောက် ဆောင်များ၊ ခရုခွံများတွင် မြဲမြံစွာ တွယ်ကပ်နေတတ်၍၊ ဆွဲနုတ်လျှင် အပိုင်းပိုင်းပြတ်၍ ပါလာတတ်လေသည်။

ပင်လယ် မှိုကောင်တို့သည် ပင်လယ်ခူ (ငထီး)၊ သန္တာ ကောင်များနှင့် အမျိုးနွယ်၍၊ 'အက်တီနိုဇိုဝါ' မျိုးပေါင်း တွင် ပါဝင်သော ပင်လယ် သတ္တဝါမျိုး ဖြစ်သည်။ ပုံပန်း သဏ္ဌာန်မှာ တိုရှ် တုတ်သော ပင်စည်နှင့်တူသည်။ ပင်စည် ၏ ထိပ်တွင် ပါးစပ် ရှိသည်။ ပါးစပ်၏ ပတ်လည် တဝိုက် တွင် ဂန္ဓမာပန်း၏ ပွင့်ဖတ်များနှင့်တူသော အာရုံမှင် (စမ်း လက် ဖမ်းလက်) အမြောက်အမြား ရှိသည်။

ပင်လယ်မှိုကောင်တို့သည် အရွယ် အစားစား ရှိကြ သည်။ ထိပ်ဝ၏ အချင်းသည် ၁ လက်မ၏ ၄ ပုံ ၁ ပုံမှ တပေ ကျော် (အချို့ဒေသတွင် ၃ ပေကျော်) အထိရှိသည်။ အစိမ်း၊ အဝါ၊ အဖြူ၊ အညို၊ မရမ်း၊ လိမ္မော် စသည်ဖြင့် အရောင် မျိုးစုံလည်း ရှိသည်။ တခါတရံ တကောင်တည်းမှာပင် အရောင် နှစ်မျိုး သုံးမျိုး ရှိတတ်သည်။ အထူးသဖြင့် အပူ ပိုင်း ဒေသမှ ပင်လယ် မှိုကောင်တို့သည် တောက်ပသော အရောင်များ ရှိကြသည်။ ထို့ကြောင့် ပင်လယ် မှိုကောင် များ ရှိရာ ပင်လယ်ရေအောက်ကို မြင်လိုက်ရလျှင်၊ ရောင်စုံ ပန်းများ ပွင့်နေသော ဥယျာဉ်တခုကို မြင်တွေ့ရ ဘိသ ကဲ့သို့ မှတ်ထင်ရလေသည်။

ပင်လယ် မှိုကောင်တို့သည် အသားစား သတ္တဝါများ ဖြစ်ကြသည်။ ယင်းတို့၏ အာရုံမှင်များ၏ အဖျားတွင် အဆိပ် ရှိသော အမျှင်များ ရှိသည်။ ယင်းတို့ အနီးသို့ ဗုဇွန်ဆိတ်၊ ငါး စသည်တို့ ရောက်လာလျှင်၊ အဆိပ်မျှင် များကို ထုတ်၍ အဆိပ် ထိစေပြီးသော်၊ ယင်းတို့၏ ပါးစပ် တွင်းသို့ ရစ်ပတ် သိမ်းသွင်း၍ စားသောက်ကြလေသည်။

ပင်လယ် မှိုကောင်တို့ကို ရေတိမ် ရေနက် နှစ်မျိုးလုံး တွင် တွေ့နိုင်သည်။ အုပ်ဖွဲ့၍သော်၎င်း၊ အထီးတည်းသော် ၎င်း နေတတ်သည်။ မျိုးပြန့်ပွားရေးအတွက် နည်းအမျိုး မျိုးဖြင့် ပေါက်ပွားကြရာ၊ များသောအားဖြင့် ဥမှ ပေါက် ပွားကြသည်။ အခြားပေါက်ပွားနည်းမှာ ကွဲပွားခြင်း ဖြစ် သည်။ ကွဲပွားရာ၌ အရွယ်ရောက်ပြီး ပင်လယ် မှိုကောင်၏ အလယ်တည့်တည့် အထက်မှ အောက်သို့ နှစ်ခြမ်း ကွဲသွား ၍၊ နှစ်ကောင် ဖြစ်လာသည်။ ထိုနှစ်ခြမ်း ကွဲထွက်သော အခြမ်းမှ နောက်ထပ် နှစ်ခြမ်း ကွဲပြီးလျှင်၊ နှစ်ကောင် ဖြစ် လာပြန်လေသည်။ ယင်းသို့ဖြင့် တခြမ်းတခြမ်းမှ နှစ် ကောင် နှစ်ကောင် ပွားသွားလေသည်။ အခြား တနည်း မှာ အဖူး ကူးခြင်းဖြစ်၍၊ ပင်လယ် မှိုကောင်၏ အောက် ခြေမှ အဖူး ထွက်သကဲ့သို့ ထွက်လာပြီးသော်၊ သီးခြားဖြစ် သွားကာ၊ အကောင် ပွားခြင်း ဖြစ်လေသည်။ ယင်းတို့ သည် တနေရာတည်းတွင် တသမတ်တည်း မြဲမြံစွာ တွယ်၍ သာ နေသည် မဟုတ်ချေ။ တဖြည်းဖြည်း ရွေ့သွားနိုင်ကြ ပေသည်။

ပင်လယ် မှိုကောင်တို့တွင် အရိုးအသား ဟူ၍ မရှိဘဲ၊ ပျော့အိပျော့နှဲ့ ခန္ဓာကိုယ် ရှိကြသည်။ ယင်းတို့ သေသည့် အခါ အစအန မကျန် ကြေမွ ပျက်စီးသွားသည်။ ပင်လယ် မှိုကောင်တို့သည် နှစ်ပေါင်း ၅၀ မှ ၆၀ အထိ အသက်ရှည် ကြလေသည်။

**ပင်လယ်မြွေ**။ ။ပင်လယ် မြွေသည် ပင်လယ်ဖြူ ကောင်၊ ရေလက်ဝါးကောင်တို့နှင့် အမျိုးနွယ်သော ပင်လယ် သတ္တဝါ တမျိုး ဖြစ်သည်။ ယင်း၏ ပုံသဏ္ဌာန်သည် သခွား သီးနှင့် တူသောကြောင့်၊ အနောက် တိုင်းသားတို့က ပင် လယ်သခွားကောင်ဟု ခေါ်ကြသည်။ ပါဏဗေဒ အလို အားဖြင့် 'ဟော့လိုသူရိုက်ဒီးယား' မျိုးပေါင်းတွင် ပါဝင် သည်။ ပင်လယ်မြွေ မျိုးစိတ်ပေါင်း မြောက်မြားစွာ ရှိ၍၊ ကမ္ဘာ အရပ်ရပ်၏ ပင်လယ် ကမ်းခြေ တလျှောက်တွင် တွေ့ကြရသည်။ အပူပိုင်းတွင် တွေ့ရသော ပင်လယ်မြွေ မျိုးသည် အလျား ၂ ပေမှ ၃ ပေ အထိ ရှည်သည်။ သမ ပိုင်း ဒေသများတွင်မူ၊ လက်မ အနည်းငယ်မှ ၁ ပေခန့်အထိ သာ ရှည်ကြလေသည်။

ပင်လယ်မြွေသည် ရေလက်ဝါးကောင်၊ ပင်လယ်ဖြူ ကောင်တို့ကဲ့သို့ ဆူးမရှိဘဲ၊ သားရေကဲ့သို့ မာသောကိုယ် ရှိသည်။ ကိုယ်၏ အစွန်း တဖက်တွင် ပါးစပ်ပေါက် ရှိ၍၊ ယင်းသည့် ပါးစပ်ပေါက် ပတ်လည်တွင် အာရုံမှင် (စမ်း လက် ဖမ်းလက်) များသည် အခက် အညွန့်ကလေးများ



ပင်လယ်အောက်၌ ကျက်စားလေ့ရှိသော ပင်လယ်မြွေ

ထွက်နေသကဲ့သို့ ရှိသည်။ အာရုံမှင်များ၏ အရေအတွက်မှာ အများအားဖြင့် ၁၀ ချောင်း ဖြစ်သည်။ ယင်းတို့ကို အလိုရှိသည့် အခါတွင်သာ ထုတ်၍၊ အလိုမရှိသည့် အခါများတွင် သွင်းထားလေ့ ရှိကြသည်။ အာရုံမှင် တချောင်းချောင်းဖြင့် အစာကို ဖမ်းမိသောအခါ၊ ထိုအာရုံမှင်ကို အစာနှင့်တကွ ပါးစပ်ထဲသို့သွတ်သွင်းလိုက်လေသည်။ တခါတရံ ပင်လယ်မြွေသည် ကိုယ်တွင်းမှ ပင့်ကူမျှင်ကဲ့သို့သော အမျှင်သေးသေး ကလေးများ ထုတ်ကာ၊ ကနန်း၊ ဗုဇွန်ထုပ် စသည်တို့ကိုပင် ထောင်၍ ဖမ်းစားသည်။

ကိုယ်လုံး၏ ပတ်လည်တွင် အဖုအထစ် ကလေးများ နှစ်ပါးသွား အတန်း ငါးတန်း ရှိရာ၊ ယင်းတို့သည် ပင်လယ်မြွေ၏ ခြေထောက်များ ဖြစ်ကြသည်။ ယင်းသည့် ခြေထောက်များသည် ပြွန်ကလေးများနှင့် သဏ္ဌာန် တူ၍၊ အရေပြားရှိ အပေါက်များမှ ထုတ်ချည် သွင်းချည် ပြုနိုင်သည်။ ထိုခြေထောက်များဖြင့် တွားသွားနိုင်သည့်ပြင်၊ ခူများ၊ ပေါက်ဖတ်များ ကဲ့သို့လည်း တရွေ့ရွေ့ ရွေ့ရှားသွားနိုင်သည်။

ပင်လယ်မြွေများ၏ ထူးခြားချက် တရပ်မှာ၊ ယင်းတို့အား အခြား သတ္တဝါ တကောင်ကောင်က ရန်မူ တိုက်ခိုက်လာသည့်အခါ၊ အူများကို အပြင်သို့ ထုတ်ပစ်နိုင်ခြင်း ဖြစ်သည်။ ထိုသို့ ထုတ်ပစ်လိုက်သည့် အူများကြောင့်၊ ယင်း၏ ရန်သူတို့ အနှောင့်အယှက် အတားအဆီး တွေ့နေရစဉ်၊ ပင်လယ်မြွေတို့သည် လွတ်ရာသို့ ရှောင်ရှားသွားနိုင်ကြသည်။ ထုတ်ပစ်လိုက်ရသော အူများအစား၊ ယင်းတို့၏ ခန္ဓာကိုယ် အတွင်း၌ အူအသစ်များ ပြန်၍ ဖြစ်ပေါ်လာလေသည်။

ပင်လယ်မြွေများကို အရှေ့ အိန္ဒိယကျွန်းစု၊ ပစိဖိတ်သမုဒ္ဒရာ အတွင်းရှိ ကျွန်းများနှင့် ဩစတြေးလီးယားကျွန်း အနီးရှိ သန္တာ ကျောက်တန်းကြီးများတွင် အကြီးအကျယ် ဖမ်းဆီး၍၊ အခြောက်လှန်း ကျပ်တင်ပြီးလျှင်၊ တရုပ် လူမျိုး၊ မလေး လူမျိုး စသော အရှေ့တိုင်းသားတို့အတွက် တင်ပို့ ရောင်းချကြသည်။ ယင်းတို့ နှစ်သက်သော အဖိုးတန် အစာတမျိုး ဖြစ်လေသည်။

**ပင်လယ်ရေငုပ်ခြင်း။** ။ကျွန်ုပ်တို့သည် ရေအောက်တွင် ငုပ်၍ မည်မျှ ကြာအောင် နေနိုင်မည်နည်း။ ရေသတ္တဝါများသည် ကုန်းပေါ်တွင် ကြာမြင့်စွာ မနေနိုင်သကဲ့သို့ပင် ကုန်းသတ္တဝါများသည်လည်း ရေအောက်တွင် ကြာမြင့်စွာ ငုပ်၍ နေနိုင်ကြလိမ့်မည် မဟုတ်ပေ။ ရေ၌ ကျွမ်းကျင်သူ၊ ကုန်းတပိုင်း ရေတပိုင်း ဒေသများမှ အချို့ တိုင်းသည်များသည် သာမန် လူများထက် ရေအောက်တွင် တာရှည်စွာ နေနိုင်လေသည်။ မြိတ် ပင်လယ် ကမ်းခြေမှ ဆလုံ လူမျိုး



ပင်လယ်တွင်း ရှာဖွေရန် ရေငုပ်ကရိယာ ဝတ်စုံဝတ်ဆင်ပြီး ဆင်းနေစဉ်

များသည် ရေငုပ် ကျင်လျင်သော လူမျိုးများ ဖြစ်၍ ၅ မိနစ်မှ ၁၅ မိနစ် အထိ ငုပ်နိုင်သည် ဆို၏။ ပသျှူးကျွန်း ဆွယ်ဖက်သို့ သဘောဖြင့် ခရီး ထွက်ဘူးသူတို့သည် ရေငုပ်ကျင်လျင်လှသော ပင်လယ် ကမ်းခြေသားများကို တွေ့ဘူးမြင်ဘူးကြပေမည်။ အံ့ဩကြရမည်လည်း ဖြစ်ပေမည်။ သာမန် လူတို့ အဖို့မှာ ရေတွင် ၂ မိနစ် အထိ ငုပ်၍ နေနိုင်ရန်ပင် ခဲယဉ်းလှချေသည်။

သို့ရာတွင် လူတို့သည် တန်တားကြီးများကို ဆောက်လုပ်ရန် တိုင်းတာခြင်း၊ ရေ၌ နစ်မြုပ်လေပြီးသော သင်္ဘောများမှ ပစ္စည်း ဘဏ္ဍာ ရတနာ ရွှေငွေများ ရှာဖွေခြင်း၊ ပင်လယ် ရေအောက်၌ နေထိုင် ကျက်စားသော သတ္တဝါများကို လေ့လာခြင်း၊ ရေအောက်၌ ရှိသော လူ့အသုံးအဆောင် ပစ္စည်းများ ဖြစ်သည့် စပန်း ရေမြှုပ်ကောင်များမှ အစ အဖိုးတန် ပုလဲ ရတနာများ အထိ ငုပ်၍ ယူနိုင်ရန် ရေအောက်တွင် အချိန် ကြာမြင့်စွာ နေနိုင်သော ကရိယာ တန်ဆာပလာများကို တဖြည်းဖြည်း တီထွင် ရှာဖွေခဲ့ကြသည်။ ပင်လယ်ရေအောက်သို့ အချိန် ကြာမြင့်စွာ

ငုပ်နေနိုင်ရန် သာမန် ရေငုပ်သမားများကဲ့သို့ ပလာကိုယ်တည်းနှင့် ငုပ်၍ မရချေ။ ရေသည် အောက်သို့ ရောက်လေလေ သိပ်သည်းခြင်းအား များလေလေ ဖြစ်သဖြင့်၊ လူ၏ အလေးချိန်သည် အောက်ခြေသို့ မရောက်နိုင်ဘဲ ရှိ၏။ သို့ဖြစ်၍ ထိုအခက်အခဲများကို ကျော်လွှားရန် နည်းများ ရှာဖွေကြသော အခါတွင် ရေငုပ် အဝတ်အစား ကရိယာများ ပေါ်ပေါက်လာလေသည်။ (ထိုရေငုပ်ကရိယာကို ဖြစ်ပေါ်လာစေရန် ရှေးဦးစွာ အကြံပေးခဲ့သူမှာ ဂရိပညာရှိ အယ်ရစ္စတိုတယ်ဖြစ်၍၊ရေငုပ်သူများအား အပေါ်မှ လေ ရှူရန် ပိုက်များ တပ်ဆင်ပေးခြင်းဖြင့် ရေအောက်တွင် ကြာမြင့်စွာ နေနိုင်သည်ဟု အဆို ရှိခဲ့၏။) ထိုနောက်တွင် အမျိုးမျိုးသော ကိစ္စများ အတွက် ရေငုပ် ကရိယာများကို တီထွင် ပြုလုပ်ခဲ့ကြလေသည်။ ရေငုပ် ကရိယာများကို တီထွင် ပြုလုပ်နိုင်ခဲ့ကြသဖြင့် ရေငုပ် လုပ်ငန်းသည် များစွာ တွင်ကျယ် ခရီးရောက်ခဲ့လေသည်။ ရေငုပ် ကရိယာတွင် ရေလုံ အဝတ်အစားများကို ကြက်ပေါင်စေးဖြင့်ရင်း၊ သတ္တုဖြင့်ရင်း၊ သံချပ်ဖြင့်ရင်း ပြုလုပ်၍ အပေါ်မှ လေကောင်း လေသန့်များကို ရှူရှိုက်နိုင်ရန် ပိုက်များ တပ်ဆင်ထားပြီးလျှင်၊ လျှပ်စစ် ဓာတ်မီးအိမ်၊ စကားပြောကြေးနန်း စသည်တို့ကိုလည်း တပ်ဆင်ထားသေးသည်။ ရေနက်လေလေ ဖိနှိပ်အား များလေလေ ဖြစ်ရကား၊ ထိုဖိနှိပ်အား၏ ဒဏ်ကို မခံနိုင်သဖြင့်၊ ကြက်ပေါင်စေးဖြင့် ပြုလုပ်သော ရေငုပ်ကရိယာကို ဝတ်ဆင်သူသည် အများအားဖြင့် ရေအောက်သို့ ပေ ၂၀၀ မှ ၃၀၀ ခန့် အထိသာ ကောင်းမွန်စွာ ငုပ်နိုင်လေသည်။ ထို့ကြောင့် သတ္တုဖြင့် ပြုလုပ်သော ရေငုပ် ကရိယာများမှာ ပိုမို ကောင်းမွန်လေသည်။ ဦးခေါင်းစွပ်သည့် အပိုင်းတွင် မျက်စိ နေရာ၌ မှန်ပေါက်များ၊ လေပိုက်များ၊ စကားပြော ကြေးနန်းများ တပ်ဆင်ထားသည်။ အချို့ နောက်ဆုံးပေါ် ရေငုပ် ကရိယာများမှာ အပေါ်မှ ပိုက်ဖြင့် လေပေးရန် မလိုဘဲ အတွင်း၌ပင် အလိုအလျောက် လေဟောင်း လေသစ် လဲလှယ်ရှူရှိုက်နိုင်ရန် စီမံထားလေသည်။ ရေငုပ် အဝတ်အစား၏ ရှေ့နှင့် နောက်တွင်ရင်း၊ ဖိနပ်ခွာတွင်ရင်း တပ်ဆင်ထားသော အချိန်စီးသည့် ခဲများကြောင့် ရေငုပ်သမားသည် ရေအောက်သို့ မြုပ်ဆင်းသွားပြီးလျှင်၊ ရေအောက် မြေပြင် အထိ ရောက်သွားကာ၊ မိမိကိုယ်ကို မယိုင်မလဲအောင် ထိန်းနိုင်လေသည်။ ထိုရေငုပ် အဝတ်အစားများအပြင် ရေအောက်၌ လျှပ်စစ်ဓာတ်ဖြင့် မောင်းနှင်နိုင်အောင် စီမံ



ပင်လယ်အောက်ခြေ၌ သွားလာ ရှာဖွေနေစဉ်

ထားသော သံချပ်ကားများလည်း ရှိသည်။ ယခုခေတ် ရေငုပ် ကရိယာများသည် ရေအောက် မိုင်ဝက်အထိ သက်သာ လွယ်ကူစွာ ငုပ်၍ အလုပ် လုပ်နိုင်သည်။

ရေငုပ် ခေါင်းလောင်းခေါ် ကရိယာ တမျိုး ရှိသေးသည်။ ခေါင်းလောင်း၊ သို့မဟုတ် အောက်ဖက် ဖွင့်ထားသော သေတ္တာပုံသဏ္ဍာန် ရှိ၍၊ ရေအောက်တွင် အလုပ်လုပ်နိုင်သော အလုပ်ခန်းသဖွယ် အသုံးပြုရသည်။ လေ၏ ဖိနှိပ်အားဖြင့် ခေါင်းလောင်း လိုဏ်ခေါင်းထဲသို့ ရေမဝင်ပေ။ ရေထဲတွင် ဖန်ခွက် တခုကို မှောက်ချလိုက်လျှင် ရေမဝင်သော သဘောမျိုးပင်ဖြစ်၏။ ယင်း ခေါင်းလောင်းထဲတွင် တန်တားအုတ်မြစ်ချသူများ၊ ရေအောက် ကြေးနန်း ဆက်သွယ်သူများသည် ရေလုံစွာဖြင့် အလုပ် လုပ်နိုင်အောင်စီမံထားလေသည်။

ရေငုပ် ခေါင်းလောင်းကြီးများကို လေးလံ ကြီးမားသော သံမဏိ ကြိုးကြီးများဖြင့် လျှော့ချ၊ ဆွဲတင် ပြုရသည်။ ယင်းသည့်အခါ အလုပ်သမားများသည် ခေါင်းလောင်း အတွင်းဖက်၌ ပြုလုပ်ထားသော ခုံရှည်များပေါ်တွင် ထိုင်လျက် လိုက်ပါကြရသည်။ ခေါင်းလောင်းကြီး၏ ပင်ကိုယ် အလေးချိန်ကြောင့်ပင် ခေါင်းလောင်းကြီးသည် ရေအောက်သို့ မြုပ်သွားပေသည်။

ရေအောက် ခေါင်းလောင်းများသည် ရေအောက်၌ အလုပ် လုပ်နိုင်ရန် ရှေးရှေးကပင် တီထွင်ခဲ့သော ရေငုပ် ကရိယာတမျိုးဖြစ်သည်။ ဘီ စီ ၃ ရာစု နှစ်ခန့်က အယ်လက်ဇန္ဒာ-သ-ဂရိတ်သည် ယင်းသို့သော ခေါင်းလောင်းမျိုးကို ကြံစည် ပြုလုပ်၍ ရေအောက် ဆင်းကြည့်ခဲ့ဘူးသည်ဟု ဆိုကြလေသည်။

ရေငုပ် အဝတ်အစားကို ဝတ်ဆင်၍ ရေအောက်သို့ ငုပ်သွားသူများအား အပေါ်မှ ကြေးနန်း အဆက်အသွယ်ဖြင့် အမြဲမပြတ် ဂရုစိုက်၍ စောင့်ရှောက်ရလေသည်။ လေသွင်းပေးခြင်းကိုလည်း ရေငုပ်သူ ရှူသော ရှိုက်သာအောင် ဖြည်းညင်းစွာ ပြုလုပ်ချပြီးလျှင်၊ ဤသို့ ဂရုတစိုက် ပြုလုပ်ရသော တာဝန် တစုံတရာ လစ်ဟင်းခဲ့လျှင်သော်၎င်း၊ ရေငုပ် ကရိယာတွင် တိမ်းပါး ချွတ်ယွင်းချက်များ ရှိခဲ့လျှင်သော်၎င်း ရေငုပ်သူမှာ နစ်မွန်း သေဆုံးတတ်လေသည်။

ရေငုပ် ကရိယာများဖြင့် ရေအောက်သို့ ဆင်းငုပ်သော လုပ်ငန်း အမျိုးမျိုးအနက် စိတ်ဝင်စားဖွယ်အကောင်းဆုံးမှာနစ်မြုပ်လေပြီးသောသင်္ဘောများကို လိုက်လံရှာဖွေခြင်းပင် ဖြစ်လေသည်။

ကမ္ဘာစစ်ကြီးများ အတွင်း၌ အမျိုးမျိုးသော နည်းဖြင့် နစ်မြုပ်ခဲ့သော သင်္ဘောများ အတွင်းမှ အဖိုးတန် ရွှေငွေများကိုင်း၊ ရှေးအထက်ကျော်ကာရီက ပင်လယ်ဓားမြများဆိုင် နစ်မြုပ်သွားခဲ့သော သင်္ဘောများ အတွင်းမှ ပျောက်ဆုံးနေခဲ့သည့် ပစ္စည်းဘဏ္ဍာများကိုင်း တနည်းတဖုံ သိုက်တူးသကဲ့သို့ ရေငုပ်သမားများဖြင့် စွန့်စားကာ ခဲခဲယဉ်းယဉ်း ရှာဖွေရကြောင်းများကို မကြာ မကြာ ကြားသိရလေသည်။

ပင်လယ် ရေငုပ်ခြင်းသည် စစ်ကာလများတွင်လည်း အသုံးဝင်သော အတတ်တခု ဖြစ်သည်။ စစ်သင်္ဘောများ အန္တရာယ် ကင်းရှင်းစွာ သွားလာနိုင်ရန် ရေအောက်တွင် ရှိနေသော သင်္ဘောပျက် စသည်တို့ကို ဖယ်ရှားပစ်ရေး၌ ယင်းအတတ်ကို အသုံးပြုသည်။ ပင်လယ် ရေငုပ်ခြင်းသည် အသက် အန္တရာယ် များလှသော အလုပ်တခုဖြစ်သည်။ ပင်လယ် ရေငုပ်သမားသည် ကျန်းမာ သန်စွမ်းသူ ဖြစ်ရလေသည်။

**ပင်လယ်ရေပူကြောင်း။** ။မြစ်အတွင်း၌ရေစီးကြောင်းများ ရှိသကဲ့သို့ သမုဒ္ဒရာ အတွင်း၌လည်း ရေစီးကြောင်းများ ရှိသည်။ သမုဒ္ဒရာ အတွင်းရှိ ရေစီးကြောင်းများအနက် အတ္တလန္တိတ် သမုဒ္ဒရာ အတွင်းရှိ ပင်လယ် ရေပူကြောင်းခေါ် ရေစီးကြောင်းသည် အကြီးဆုံးနှင့် အရေးအပါဆုံး ဖြစ်သည်။

ပင်လယ် ရေပူကြောင်းသည် မက္ကဆီကို ပင်လယ်ကွေ့မှ စတင်ကာ၊ ဖလော်ရီဒါ ရေလက်ကြားမှ ထွက်၍ မြောက်အမေရိကတိုက် ကမ်းရိုးကို လိုက်ပြီးလျှင်၊ အရှေ့ မြောက်ဖက်သို့ စီးသွားသည်။ အတ္တလန္တိတ် သမုဒ္ဒရာ အလယ်လောက်သို့ မရောက်မီ၊ ယင်း ရေစီးကြောင်းသည် သုံးကြောင်း ဖြာထွက် သွားပြန်သည်။ တကြောင်းသည် မြောက်အမေရိကတိုက် ကမ်းရိုး အတိုင်း လိုက်၍ အလွန်အေးသော အာတိတ်သမုဒ္ဒရာ ရှိရာသို့ စီးဝင်သည်။ ထိုသို့ စီးဝင်ရာတွင် ရေပူနှင့် ရေအေး ဖြန်းကနဲ တွေ့မှုကြောင့် ဆီးနှင်းများ ဖြစ်ပေါ်လာရာ၊ ရေကြောင်းခရီး အသွားအလာ ခက်ခဲခြင်း ဖြစ်ရလေသည်။ အလယ်ကြောင်းသည် ဗြိတိသျှ ကျွန်းစုကို လှည့်ပတ်ပြီးနောက်၊ စကန်ဒီနေးဗီးယား ကျွန်းဆွယ် ကမ်းရိုးတန်း တလျှောက် စီးသွားသည်။ တတိယကြောင်းမှာမူ စပိန် နိုင်ငံ တောင်ဖက် ကမ်းရိုးတန်းနှင့် အာဖရိကတိုက် အနောက်ဖက် ကမ်းရိုးတန်းတို့ တလျှောက် ကွေ့စီးသွားပြီးသော် မက္ကဆီကို ပင်လယ်ကွေ့ဖက်သို့ ပြန်လှည့် စီးသွားလေသည်။

ပင်လယ် ရေပူကြောင်းသည် အကျဉ်းဆုံးသော နေရာ၌ပင် မိုင် ၅၀ ခန့် ကျယ်ဝန်း၍ ပေ ၂,၀၀၀ နီးနီးနက်သည်။ အမေရိကန် ပြည်ထောင်စု၏ အကြီးဆုံးမြစ် ဖြစ်သော မစ္စစ္စပီ မြစ်ထက်ပင် အဆ တထောင်နီးနီး ကြီးသည်။ ရေပူကြောင်း စီးရာ တလျှောက်သည် အပြာရင့်ရောင် သန်းနေရာ မည်သည့် သင်္ဘောသား မဆို ရေပူကြောင်း နေရာ

ကို သိကြသည်။ ရေပူကြောင်းနှင့် ကမ်းရိုးကြားရှိ ကျဉ်းမြောင်းသော ရေပြင်ကား သာမန် ရေကဲ့သို့ပင် အေးသည်။ ယင်းကို သင်္ဘောသားများက 'တန်တိုင်းအေး' ဟု ခေါ်ကြသည်။ ရေပူကြောင်းသည် ဖလော်ရီဒါ ရေလက်ကြားမှ ထွက်စက တနေ့လျှင် မိုင် ၇၀ နှုန်းနှင့် စီးခဲ့သော်လည်း၊ တောင်ကယ်ရိုလီးနားပြည်နယ် ချားလက်စတန်မြို့နားသို့ ရောက်သော အခါ မိုင် ၄၀ နှုန်းသာ စီး၍၊ မက်ဆာချူးဆက်ပြည်နယ် နန့်တပ်ကက်မြို့လွန်သော် မိုင် ၂၀ နှုန်းသာစီးတော့သည်။မြစ်ကြီးများသည် မြစ်ဝသို့ရောက်သောအခါ ကျယ်ပြန့်သွားသကဲ့သို့ ပင်လယ် ရေပူကြောင်းသည်လည်း တဖြည်းဖြည်း ကျယ်ပြန့်သွားလေသည်။ ပင်လယ်ရေပူကြောင်းသည် နွေရာသီ၌ မက္ကဆီကို ပင်လယ်ဝမှထွက်စတွင် အပူချိန် ၈၄ ဒီဂရီ ရှိသော်လည်း၊ အတ္တလန္တိတ်သမုဒ္ဒရာ အလယ်သို့ ရောက်သော် ဒီဂရီ ၇၀ သာ ရှိတော့သည်။

ပင်လယ် ရေပူကြောင်းကြီး ဖြစ်ပေါ်လာရခြင်း၏ အကြောင်းရင်းမှာ လေများ တိုက်ခတ်ခြင်းကြောင့် ဖြစ်သည်။ အီကွေတာမျဉ်း ဖြတ်သွားရာ တလျှောက်ရှိ အတ္တလန္တိတ် သမုဒ္ဒရာ ရေပြင်သည် ကုန်သည်လေ တိုက်ခတ်မှုကြောင့် အနောက်ဖက်သို့ စီးသွားရာ၊ ယင်းသည့် ရေစီးကြောင်းများကို အီကွေတာ၏ ထိုမှာဖက်နှင့် ဤမှာဖက်တို့တွင် တည်ရှိသည်ကို အကြောင်းပြုလျက်၊ တောင်နှင့်မြောက် အီကွေတာ ရေစီးကြောင်းများဟု ခေါ်သည်။ တောင်ရေစီးကြောင်းသည် ဗရာဇီး နိုင်ငံ ကမ်းရိုးတန်းမြောက်ပိုင်းသို့ ရောက်၍၊ ယင်းမှ တဖန် ကမ်းရိုးတန်းအတိုင်း လိုက်၍ အနောက်မြောက်ဖက်သို့ စီးသွားပြန်သောအခါ၊ မြောက်ရေစီးကြောင်းနှင့် ကယ်ရစ်ဗျန် ပင်လယ်ထဲတွင် ပူးပေါင်းမိသဖြင့် ရေသည် ပို၍ ပူသွားပြန်သည်။ ထိုသို့ ပူးပေါင်းမိသွားသော တောင်နှင့်မြောက် အီကွေတာရေစီးကြောင်းများသည် မက္ကဆီကိုပင်လယ်ကွေ့ထဲသို့ စီးဝင်သွား၍၊ တဖန် ပင်လယ်ရေပူကြောင်းအဖြစ် ဖလော်ရီဒါရေလက်ကြားမှ စီးထွက်လာသည်။

ပင်လယ်ရေပူကြောင်း ကပ်၍ စီးရာ ဖြစ်သော ဥရောပ အနောက်မြောက် ဒေသများသည် ယင်းတို့နှင့် လတ္တီတွဒ် တတန်းတည်း ကျသော မြောက် အမေရိကတိုက်ရှိ အချို့ ဒေသများထက် ပိုနွေးသည်။ ရေပူကြောင်းကို ဖြတ်၍ လာသော အနောက်တောင်လေသည် ပူနွေးသော အငွေ့များကို သယ်ဆောင်လာသဖြင့် ထိုဥရောပ အနောက်မြောက် ဒေသများ၏ ရာသီဥတုသည် အအေးလျော့သည်။ ထို့ကြောင့် မြောက်အမေရိကတိုက် လာဗရာဒေါ် ကမ်းခြေရှိ ဆိပ်ကမ်းများသည် ဆောင်းအခါ၌ ရေခဲသော်လည်း ယင်းတို့နှင့် လတ္တီတွဒ် တတန်းတည်းတွင် တည်ရှိသော လန်ဒန်နှင့် ပဲရစ်မြို့များတွင် မည်သည့်အခါမျှ ရေမခဲခြင်း ဖြစ်သည်။ ရေပူကြောင်းကပ်စီးရာ နော်ဝေး နိုင်ငံမြောက်ပိုင်း ရာသီဥတုသည် ယင်းနှင့် တတန်းတည်း ဖြစ်သော ဒေသများထက် ၄၅ ဒီဂရီပိုပူသည်။ထို့ကြောင့် နော်ဝေး နိုင်ငံရှိ အာတိတ် စက်ဝိုင်းအတွင်းကျနေသော ဟမ္မားဖက်မြို့သည် ဆောင်းရာသီ၌ တင်ါလုပ်ငန်း၏ အချက်အခြာမြို့ကြီး ဖြစ်သော်လည်း ဗော့လတစ် ပင်လယ်ကမ်းခြေရှိ ယင်းမြို့၏ တောင်ဖက် မိုင် ၈၈၀ ဝေးသော လတ်ဗီးယားပြည် ရီးဂမြို့ကား ရေခဲတို့ဖြင့် ပိတ်ဖုံးနေသည်။ယင်းသို့လျှင် ရာသီဥတုကို ပိုမိုပူနွေးစေသောကြောင့် ရေမခဲသဖြင့်၊ ရေကြောင်းသွားလာရေး အတွက်လည်း များစွာ အထောက်အကူရသည်။ ဒုတိယ ကမ္ဘာစစ် အတွင်းက ရုရှနိုင်ငံ အခြား ဆိပ်ကမ်းများ ရေခဲနေစဉ်တွင်၊ ရေပူကြောင်းကပ်စီးရာ အာတိတ် ဆိပ်ကမ်းမြို့ ဖြစ်သော မားမန့်မြို့တမြို့သာ ရေမခဲသဖြင့် မဟာမိတ်တို့သည် ထိုမြို့မှတဆင့် ရုရှနိုင်ငံသို့ စစ်ပစ္စည်း အကူအညီများ ပေးပို့နိုင်ခဲ့လေသည်။

**ပင်လယ်လောက။** ။တကမ္ဘာလုံး၏ လေးပုံ သုံးပုံခန့်သောအပိုင်းသည် ရေဖြင့် ဖုံးနေသည်။ သမုဒ္ဒရာရေပြင်ကြီးများသည် အလွန်ကြီးရကား အချို့ တိုက်များသည်ပင် ရေပြင်အလယ်မှ ကျွန်းငယ်သဖွယ် ဖြစ်နေလေသည်။ ပစိဖိတ်သမုဒ္ဒရာ တခုတည်းကပင် စတုရန်းမိုင် ၆၄ သန်း ကျယ်လေသည်။ ရေပြင်၏ အနက်သည် ပျမ်းမျှခြင်းအားဖြင့် ပေ ၁၂,၀၀၀ နက်၍ အချို့ နေရာတို့တွင် ၅ မိုင် အထိပင် နက်လေသည်။

ဤမျှ အပြောကျယ်လှသော ပင်လယ် ရေပြင်တွင် နေထိုင် တွေ့ရှိရသော တိရစ္ဆာန်များနှင့် အပင်များ၏ လောကသည် ကုန်းနေ တိရစ္ဆာန်နှင့် အပင် လောကကဲ့သို့ပင် ဆန်းကြယ်လှသည်။ အိမ်များတွင် လူတို့သည် သူ့အထပ်နှင့်သူ သီးသန့်စီ နေထိုင်ကြသကဲ့သို့၊ ပင်လယ်လောက၌လည်း အတိမ်ဆုံး ရေပြင်၌မှအပ ရေနက် ဒေသတွင် သူ့ရေကြောနှင့်သူ တကြောစီ နေထိုင် ပေါက်ရောက်လျက် ရှိသည်ကို တွေ့ရပေမည်။ ကမ္ဘာမြေပေါ်ရှိ သစ်တောများ၌ သစ်ပင်မျိုးစုံ တွေ့ရသကဲ့သို့ပင် ပင်လယ် ရေပြင်၌ အပင် မျိုးစုံ တွေ့နိုင်သည်။ သစ်ပင် သစ်တောများ အောက်တွင် သတ္တဝါ သန်းပေါင်း များစွာ မှီတင်း နေထိုင်လျက် ရှိသကဲ့သို့ပင် ရေပင် ရေမှော်တို့ အောက်၌ မှီတင်း နေထိုင်လျက် ရှိကြသော သတ္တဝါ ကြီးငယ် အသွယ်သွယ်တို့သည် မရေမတွက်နိုင်အောင် များပြားလှသည်။ ကုန်းနေ သတ္တဝါနှင့် အပင်တို့သည် အရွယ်၊ ပုံသဏ္ဌာန်၊ အရောင်အဆင်း၊ ပွားများပုံနှင့် ပေါက်ရောက်ပုံ စသည်တို့ တဦးနှင့်တဦး မတူကြသကဲ့သို့ ပင်လယ်လောကမှ သတ္တဝါနှင့် အပင်များသည်လည်း



**ပင်လယ်လောကတွင်းရှိ ငါးအမျိုးမျိုးတို့သည် ကြီးနိုင်ငယ်ညှဉ်းဆဲတတ်ကြ၍၊ သတ္တဝါကြီးတို့က သတ္တဝါငယ်များကိုဖမ်းယူစားလေ့ရှိကြသည်။**

အရွယ် အမျိုးမျိုး၊ ပုံအမျိုးမျိုးနှင့် အရောင်အဆင်း၊ နေပုံထိုင်ပုံ အမျိုးမျိုး ဖြစ်ကြသည်။ အချို့ သတ္တဝါ ကလေးများမှာ သာမန် မျက်စိဖြင့်ပင် မမြင်နိုင်လောက်အောင် သေးငယ်လှသဖြင့် ဆားငန်ရေ တစက်တွင် ယင်းသတ္တဝါမျိုး ထောင်ပေါင်း များစွာ ပါဝင်လျက် ရှိသည်ကို မှန်ဘီလူးဖြင့် ကြည့်မှ မြင်ရလေသည်။ ယင်းသတ္တဝါမျိုး ကလေးများကို ပင်လယ် လောကတွင် အနှံ့အပြား တွေ့ရှိရလေသည်။

အင်္ဂလန်ပြည် တောင်ဖက် ပင်လယ်နှင့် အခြား ပင်လယ်ပြင်တို့တွင် မိုင်ပေါင်း များစွာ ဖြစ်ပေါ်နေသော ထုံးကျောက်တန်းကြီးများသည် ယင်းသို့သော မှန်ဘီလူးဖြင့် ကြည့်မှ မြင်ရသည့် သတ္တဝါကလေးများ၏ အသေကောင်များ နှစ်ပေါင်း များစွာ စုနေရာမှ ပေါ်ပေါက်လာခြင်း ဖြစ်သည်။ အလွန် နက်သော ပင်လယ်ရေ၌ သတ္တဝါကလေးများသည် သူ့အမျိုးနှင့်သူ အထပ်လိုက် ဖြစ်နေကြသည်ကို တွေ့ရမည်။ ပင်လယ်လောကတွင် ဆဲလ်တခုတည်းသာရှိသော ပရိုတိုဇိုဝါမှစ၍ ရေမြှုပ်၊ သန္တာ၊ အနဲမနီးခေါ် ပင်လယ် မှိုကောင်၊ ရေလက်ဝါးကောင်၊ ကရပ်စတေးဆီးကောင်၊ ငါး၊ လိပ်၊ လင်းပိုင်၊ ဝေလငါး၊ ပင်လယ်ဖျံ စသည်ဖြင့် အရွယ် အမျိုးမျိုး ရှိသည်။ ပင်လယ် လောကသည် ယင်း၌ ကျက်စားလျက် ရှိသော သတ္တဝါများအတွက် အာဟာရကိုသာ ပေးစွမ်းနိုင်သည် မဟုတ်၊ ကမ်းစပ်နေ သတ္တဝါများနှင့် လူတို့ လိုအပ်သော အာဟာရကိုပါ ပေးစွမ်းနိုင်လေသည်။ တနှစ်လျှင် လူတို့ စားသုံးရန် ငါး သန်းပေါင်းများစွာ ဖမ်းယူခဲ့သော်လည်း ပင်လယ်ပြင် အကျယ် အဝန်းနှင့် ယင်းအတွင်း နေထိုင်သော ငါးဦးရေနှင့် စာသော် အလွန်ပင် နည်းလှသည်။ နှစ် ရာပေါင်း များစွာကစ၍ လူတို့သည် ငါးများကို ဖမ်းယူ စားသောက်ခဲ့ခြင်း၊ အင်အားကြီးသော ရေသတ္တဝါများက အင်အား ငယ်သော ရေသတ္တဝါများကို စားသောက်ပစ်ခြင်း စသည်တို့ ကြားမှပင် ငါးမျိုးတို့သည် ကုန်သွားဖို့ဝေးစွ၊ လျော့သည်ဟုပင် မရှိခဲ့ချေ။

ပင်လယ် လောကတွင်းရှိ ထူးဆန်း အံ့ဩဘွယ် ကောင်းသော သတ္တဝါများအနက် သန္တာကျောက်တန်းကို ဖြစ်စေသည့်၊ သတ္တဝါကလေးများလောက် မှတ်သားဖွယ်ကောင်းလောက်အောင် မထူးဆန်းကြချေ။ ယင်းသန္တာကောင်များသည် ပင်လယ်တွင်းရှိ အပင်သက်သက်လည်း မဟုတ်၊ တိရစ္ဆာန် သက်သက်လည်း မဟုတ်ချေ။ သန္တာကောင်



အပြောကျယ်လှသော ပင်လယ်အောက်တွင် သတ္တဝါကြီးငယ်အသွယ်သွယ်နှင့် အပင်အမျိုးမျိုးတို့သည် မရေမတွက်နိုင်အောင် များပြားလှသည်။ ယင်းတို့သည် အရွယ်၊ ပုံသဏ္ဌာန်၊ အရောင်အဆင်း၊ ပွားများပုံနှင့် ပေါက်ရောက်ပုံစသည်တို့ တဦးနှင့်တဦး မတူကြချေ။ ငယ်ရွယ်သော ငါးကလေးမျိုးတို့သည် (အပေါ်ပုံ) ငါးကြီးများ၏ ဘေးရန်မှ ကာကွယ်သောအားဖြင့် ငါးမှန်း မသိရှိနိုင်အောင် ရုပ်ဖျက်ထားလေ့ရှိကြသည်။ အောက်ပုံမှာမူ အနဲမနီးခေါ် ပင်လယ်မှိုကောင်များဖြစ်၍ သန္တာကျောက်ဘက်ဘိုတွင် တွယ်ကပ်နေလေ့ရှိကြသည်။



သည် ဥမှ ပေါက်၍ ပင်လယ် တီကောင်များကဲ့သို့ ကာလ အတန်ကြာ ရေကူးနေတတ်သည်။ ထိုနောက် အရာဝတ္ထု တခုကို တွယ်လိုက်ကာ မြေထဲ၌ သစ်ပင်များ ပေါက်၍ ကြီးထွားလာသကဲ့သို့ အပင်သဖွယ် ကြီးထွားလာကြသည်။ ယင်း အကောင်ကြီးများမှ အဖူး အစို့များ ထွက်၍ ထိုအဖူးအစို့များမှ သန္တာ အကောင်သစ်များ ဖြစ်လာကာ နောက်ဆုံး၌ သန္တာကောင် အသိုက်အအုံကြီး ဖြစ်လာသည်။ ယင်းတို့ တည်ဆောက်သော အိမ်များသည် သန္တာ ကျောက်တန်း၊ တခါတရံ ကျွန်းမြေသဖွယ် ဖြစ်လာသည်။ (သန္တာ — ရှု။)

ကုန်းပေါ်ရှိ သတ္တဝါများသည် သူတို့၏ အသက် တည်တံ့ နေနိုင်ရေး အတွက် ကြိုးပမ်းရမှုသည် ပင်လယ် လောကမှ သတ္တဝါများ၏ ကြိုးပမ်းရမှုလောက် မပင်ပန်းချေ။ ဝေလငါး တမျိုးသည် ဟဲယားရင်း ငါးအုပ်များကို မလွတ်တမ်း ရှာဖွေ စားသောက်ပစ်တတ်သည်။ ပင်လယ် လောကမှ အချို့ သတ္တဝါများသည် သူတို့၏ အစာ အလို့ငှါ ငါးများကိုသာ ဖမ်းယူ စားသောက်သည် မဟုတ်၊ ယင်းငါးများကို ဖမ်းရန် ချထားသော ပိုက်ကွန်များကိုပင် ဖျက်ဆီးပစ်ကြသည်။

အချို့ ငါးများတွင် အရွယ်နှင့် မလိုက်အောင် အလွန် ကြောက်မက်ဖွယ် ကောင်းသော လက်နက်သဖွယ် အင်္ဂါ အစိတ်အပိုင်းများ ပါလေသည်။ မေန်း ခားလွယ် ငါးမျိုး၏ အထက် နှုတ်ခမ်းတွင် ပါသော လှံသွား သဖွယ် အစွယ်သည် ပင်လယ် လောက၌ အလွန် အန္တရာယ် ပေးတတ်သည်။ လှေ သင်္ဘောကြီးများ၏ ကိုယ်ထည် သစ်သားကိုပင် ယင်းအစွယ်ဖြင့် ထိုးဖောက် ဖျက်ဆီးတတ်လေသည်။ လွှသွားကဲ့သို့ ၂ ဖက်သွား အစွယ် ရှိသည့် ခုတ်မေန်းငါးမျိုးသည်လည်း ပင်လယ် လောကတွင် အလွန် ရန်ပြုနိုင်သောသတ္တဝါမျိုးဖြစ်၏။ (မေန်းစွယ်သည် — ရှု။) ပင်လယ် ရေနက်ထဲတွင် တွေ့ရှိရတတ်သော ဘဲ ကောင်များသည်လည်း အလွန်ကြောက်မက်ဖွယ် ကောင်းသော သတ္တဝါမျိုး ဖြစ်သည်။ ယင်းတို့တွင် အလွန် ရှည်လျားသော လက်တံ ရှစ်ချောင်းပါ၍ လက်တံများတွင် စုတ်အင်္ဂါများဖြင့် ဖုံးအုပ်လျက်ရှိသည်။ ထိုလက်တံများဖြင့် အစာများကို အလွယ်တကူဖမ်းယူနိုင်ကြသည်။ တကိုယ်လုံးတွင် ဆူးများဖြင့် ပြည့်နှက်နေသောပင်လယ်ဖြူကောင်မျိုးလည်းရှိသေးသည်။ ပင်လယ်ဖြူကောင်တို့သည် သူတို့၏ ဆူးများဖြင့် ကျောက်ကိုပင် ဖောက်နိုင်ကြသည်။

ပင်လယ် လောကမှ သတ္တဝါများ၌ ရန်မူရန် လက်နက် ရှိသကဲ့သို့ ရန်ကို ကာကွယ်ရန် လက်နက်နှင့် နည်းများလည်း ရှိကြ၏။ ပင်လယ် လောကတွင် ကြီးနိုင် ငယ်ညှဉ်းဆဲ ဟူသည့် သဘောမျိုး အလွန် ရှိသည်။ ယင်းတို့သည် ပင်လယ်တွင်း၌ ပေါက်သော အပင်ကလေးများနှင့် အကောင်ငယ် ကလေးများကို ဖမ်းယူ စားကြရသည်။ အစားခံရသော သတ္တဝါများသည် အသက်ဘေးမှ ကာကွယ်ရန် ကျောက်ဆောင်များနှင့် ပင်လယ် မှော်များ၊ သဲ၊ ရွှံ့ စသည်တို့ အကြား၌ ပုန်းအောင်း နေထိုင်တတ်ကြသည်။ ခရု၊ ခုံးပျော့နှင့် ကမာကောင်မျိုးတို့၌ကား ကာကွယ်ရန် လက်နက် အဖြစ် ယင်းတို့ ကိုယ်ပေါ်၌ အခွံမာများ ရှိကြသည်။ (ကမာ — ရှု။) ပင်လယ်ခူနှင့် ပင်လယ်မှိုကောင်များ၌ရှိသော အဆိပ်မျှင် ကလေးများသည် ရန်သူဘေးမှကာကွယ်ရန်လက်နက်များပင်ဖြစ်သည်။ (ပင်လယ်မှိုကောင်၊ပင်လယ်ခူ — ရှု။) ဥမှပေါက်စ ပင်လယ်သတ္တဝါများတွင် အကောင်ကြီးများကဲ့သို့ အကာအကွယ်များ မရှိကြချေ။ ထို့ကြောင့် ပေါက်စ အကောင်များအရွယ်တွင် အများအားဖြင့် သေကြေပျက်စီးကြရသည်။ တကြိမ်လျှင် ဥပေါင်းများစွာအုနိုင်၍သာလျှင် အမျိုးပါပျောက်ကွယ်မသွားခြင်းဖြစ်၏။

ပင်လယ် လောကတွင် မျိုးစဉ် အကြီးပိုင်း သတ္တဝါများ အနက် ပင်လယ်ဖျံမျိုးတွင် အမျိုး များစွာ ရှိသည်။ ပင်လယ်ဖျံသည် ငါးမျိုး မဟုတ်ချေ။ နို့တိုက် သတ္တဝါမျိုး ဖြစ်သည်။ အချို့ ပင်လယ်ဖျံမျိုးသည် ကုန်းပေါ်၌ သူတို့၏ ခြေပြား၊ အမြီးတို့ဖြင့် ကောင်းစွာ သွားလာနိုင်သော်လည်း ရေနေ သတ္တဝါမျိုးသာ ဖြစ်သည်။ အများအားဖြင့် အာတိတ်နှင့် အန္တာတိတ် သမုဒ္ဒရာ ဒေသများတွင် တွေ့ရှိရသည်။ (ပင်လယ်ဖျံ — ရှု။) ဝေလငါး၊ လင်းပိုင်ခေါင်းတို စသည်တို့သည်လည်း ပင်လယ်လောကတွင်အကြီးဆုံးသော သတ္တဝါမျိုးကြီးများ ဖြစ်သည်။ ဝေလ ငါးများ အနက် ပေ ၁၀၀ ခန့်အထိ ရှည်တတ်သော အပြာရောင် ဝေလငါးကြီးမျိုးသည် အဆီအလွန်ရသဖြင့် စီးပွားရေး အရ အဖိုး အလွန်တန်သည်။ (ဝေလငါး။ လင်းပိုင် — ရှု။)

**ပင်လယ်ဝမ်းဘဲ။** ။ဝမ်းဘဲ — ရှု။

**ပင်လယ်သေ။** ။ကမ္ဘာပေါ်တွင် အငန်ဆုံးသော အိုင်ကြီး ဖြစ်သည့် ပင်လယ်သေသည် ပယ်လက်စတိုင်းနှင့် ထရန်စဂျော်ဒန် နိုင်ငံတို့၏ နယ်နိမိတ်ပေါ်တွင် တည်ရှိသည်။ ယင်းသည် ၄၇ မိုင် ရှည်၍၊ ၁၀ မိုင် ကျယ်သည်။ အနက်ဆုံး နေရာတွင် ပေ ၁,၃၁၀ ရှိသော်လည်း၊အချို့ နေရာတွင် ၃ ပေမှ ပေ ၃၀ အထိခန့်သာ နက်သည်။ မိုင် ၅၀ မျှသာ ကွာဝေးသော မြေထဲပင်လယ် ရေမျက်နှာပြင် အောက် ပေပေါင်း ၁,၂၉၀ နိမ့်သည်။

မြောက်မှ တောင်သို့ စီးဆင်းသော ဂျော်ဒန်မြစ်သည် ဂါလိလဲအိုင်၏ အရှေ့စူးစူး ၂၅ မိုင်ခန့် အကွာတွင် ပင်လယ်သေထဲသို့ စီးဝင်သည်။ အရှေ့နှင့် အနောက်ဖက်တို့မှ

လည်း ချောင်းငယ် မြစ်ငယ်ပေါင်း များစွာ စီးဝင်ကြသည်။ တနေ့လျှင် ထိုမြစ်များမှ ရေချိ တန်ချိန် ခြောက်သန်းကျော်ခန့် စီးဝင်သည့် ကြားမှပင် ပင်လယ်သေ၏ ရေသည် သမုဒ္ဒရာရေထက် ခြောက်ဆခန့် ပို၍ ငန်သေးသည်။ ထိုပြင် မြစ်များ ချောင်းများမှ ရေမည်မျှပင် စီးဝင်စေကာမူ ရေမျက်နှာပြင် မြင့်တက်မလာချေ။ အဘယ်ကြောင့် ဆိုသော်၊ ထိုဒေသ၏ ပြင်းထန်သော အပူရှိန်ကြောင့် ရေများ အခိုးအငွေ့ ဖြစ်ကာ၊ ခန်းခြောက်ကုန်သောကြောင့် ဖြစ်သည်။ ပင်လယ်သေ၏ ရေတွင် အစိုင်အခဲ၊ အများအားဖြင့် ဆား ၂၄ ရာခိုင်နှုန်းခန့် ပါနေသဖြင့် ရေသည် စေးရကား၊ လူ့ခန္ဓာကိုယ်သည်ပင်လျှင် မနစ်ဘဲ ပေါ်နေနိုင်သည်။ ရေမျက်နှာပြင်ပေါ်တွင် ပက်လက် အိပ်၍၊ စာဖတ်နိုင်သည်ဟုပင် ဆိုကြသည်။ ထိုကြောင့် ယင်းပင်လယ်ကို သမ္မာ ကျမ်းစာထဲ၌ ဆားပင်လယ်ဟု ခေါ်ဆိုထားခြင်း ဖြစ်သည်။

အလယ်ခေတ် ခရီးသည်များ၏ အဆိုအရ၊ ပင်လယ်သေပေါ်၌ တိုက်ခတ်သော လေသည် အဆိပ်အခိုးအငွေ့များ ပါသဖြင့်၊ ငှက်များပင် ယင်းပင်လယ်ပေါ်မှ ဖြတ်၍ ပျံသန်းခြင်း မပြုဟု သိရသည်။ ယခုခေတ်တွင်မူ ငှက်တို့သည် ပင်လယ်သေသို့ မလာကြသည်မှာ အမှန် ဖြစ်သော်လည်း၊ ထိုသို့ မလာကြသည်မှာ ယင်းပင်လယ်သည် ဆားငန်လွန်းသဖြင့်၊ မည်သည့် ငါးနှင့် ရေပေါက် အပင်မျိုးမှ မရှိသောကြောင့် ဖြစ်သည်ကို သိရလေသည်။

ပင်လယ်သေထဲတွင် အဖိုးတန် ဓာတ်သတ္တုများ ရှိသည်။ သာမန်ဆားအပြင်၊ မက်ဂနီဇီယမ်ကလိုရိုက်၊ ပိုတက်ဆီယမ်ကလိုရိုက်နှင့် မက်ဂနီဇီယမ်ဗရိုမိုက်တို့လည်း ရနိုင်သည်။ ကမ်းခြေ တပိုက်တွင်လည်း ချော်၊ ကန့်နှင့် သိန္ဓောဆားများ ရနိုင်သည်။ ရေထဲ၌ ယင်းသို့ ဓာတ်သတ္တုများ ရှိနေရာ၊ ရေမျက်နှာပြင်မှ ထွက်သော ရေငွေ့သည် အနံ့မကောင်းချေ။ သို့ရာတွင် ပင်လယ်သေ၏ ရေသည် ရောဂါ အချို့ကို ပျောက်ကင်းစေနိုင်သည်ဟု အယူရှိကြသဖြင့်၊ ပင်လယ်၏ အရှေ့ဖက်ရှိ ကယ်လီယာမြို့တွင် ကျန်းမာရေး စခန်းတခု ဖွင့်ထားသည်။

ပင်လယ်ရေသည် စေးထန်း၍ အနံ့ ပြင်းသော်လည်း၊ ပင်လယ်သေ၏ ရှုခင်းသည် သာယာသည်။ ရေပြင်သည် တောက်ပလျက် ရှိသည်။ ပင်လယ်၏ အရှေ့ကမ်းဖက်တွင် မိုးအက်ကုန်းပြင်သည် ဖြူဖွေးသော ကျောက်တန်တိုင်းကြီး ကဲ့သို့ ရေမျက်နှာပြင် အထက် ပေပေါင်း ၄၄၆၀ အထိ မြင့်တက် တည်ရှိနေသည်။ အနောက်ဖက်တွင် ပေ ၂၀၀၀ ခန့်ရှိ ဂျူဒီယာ ကုန်းမြင့်ကြီး တည်ရှိသည်။

ပင်လောင်းပညာ။ ။အင်ဗရီဩလိုဂျီ — ရှု။

ပင်လုံညီလာခံ။ ။ပြည်ထောင်စု မြန်မာနိုင်ငံ၏ လွတ်လပ်ရေး လမ်းစကို ဖော်ထုတ် ဖန်တီးသည့် ပင်လုံ ညီညွတ်ရေး စာချုပ်ကြီး ပေါ်ထွက်ခဲ့ရာ အရင်း အမြစ်ကား ပင်လုံညီလာခံ ဖြစ်သည်။ ပင်လုံသည် ရှမ်းပြည် တောင်ပိုင်းနှင့် မြောက်ပိုင်း အကြားရှိ လဲချား စော်ဘွားပိုင်နယ် အတွင်းမှ မြို့ကလေး တမြို့ ဖြစ်သည်။ မြန်မာနိုင်ငံ၏ မြေပြန့်နှင့် တောင်ပေါ်သားများ ညီလာခံ ပြုလုပ်၍၊ သွေးစည်း ညီညွတ်မှု ရရှိကာ၊ လွတ်လပ်သော ပြည်ထောင်စုကြီး တည်ဆောက်ရေး အတွက် အခြေခံ ချခဲ့သဖြင့်၊ ပင်လုံ ညီလာခံသည် မြန်မာ သမိုင်းတွင် မော်ကွန်းတင်အပ်သော ဖြစ်ရပ်တခုပေတည်း။

မြန်မာနိုင်ငံသည် မြန်မာ့သမိုင်း တလျှောက်လုံး၌ အနော်ရထာ၊ ဘုရင့်နောင်၊ အလောင်းမင်းတရား၊ ဤမင်းသုံးပါး၏ လက်အောက်တွင်သာ တနိုင်ငံလုံး တပေါင်းတစည်းတည်း ရှိခဲ့ဘူးသည်။ ဗြိတိသျှတို့ စိုးမိုးမှု အောက်တွင် ရှိနေခဲ့စဉ်၊ ရှမ်း၊ ကရင်၊ ဂျင်းဖော၊ ချင်း၊ ကယားစသော တောင်ပေါ်သားနှင့် မြေပြန့်သား မြန်မာတို့အား ပရိယာယ် အမျိုးမျိုးနှင့် သွေးခွဲ အုပ်စိုးခဲ့သဖြင့်၊ တိုင်းရင်းသား အချင်းချင်း မညီမညွတ် မစည်းမလုံးဘဲ၊ ကွဲကွဲပြားပြား ရှိနေခဲ့ကြလေသည်။

ယင်းသို့ မညီမညွတ် မစည်းမလုံး၊ ကွဲကွဲပြားပြား ရှိနေကြသော တိုင်းရင်းသားတို့သည် ဖက်ဆစ် ဂျပန်ကို တော်လှန်ကြရာတွင်မူကား၊ သွေးစည်းညီညွတ်ခဲ့ကြသည်။ ထိုကြောင့် ဗိုလ်ချုပ် အောင်ဆန်း အမှူးရှိသော အမျိုးသားခေါင်းဆောင်ကြီးများသည် ဂျပန် လက်အောက်မှ မြန်မာနိုင်ငံ လွတ်မြောက်ပြီးနောက်၊ လွတ်လပ်ရေးကို ဆက်လက်ကြိုးပမ်းရာတွင်လည်း၊တိုင်းရင်းသား ပေါင်းစုံ၏ သွေးစည်းညီညွတ်မှုကို ဆက်လက် ရရှိစေရန် ကြိုးပမ်းကြလေသည်။

ဖက်ဆစ် ဂျပန်တို့ မြန်မာနိုင်ငံမှ ထွက်ခွာသွားပြီးနောက် ဗြိတိသျှ အစိုးရ ပြန်ဝင်လာချိန်တွင်၊ မြန်မာ တိုင်းရင်းသားတို့သည် လွတ်လပ်ရေး စိတ်ဓာတ် အလွန် ပြင်းပြတက်ကြွနေကြသည်။ ထိုအချိန်တွင် ဖက်ဆစ် တိုက်ဖျက်ရေး ပြည်သူ့ လွတ်လပ်ရေး အဖွဲ့ (ဖ-တ-ပ-လ) ကို ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့ လွတ်လပ်ရေး အဖွဲ့ (ဖ-ဆ-ပ-လ) အဖြစ် ပြောင်းလိုက်သည်။ (ဖ-ဆ-ပ-လ — ရှု။) ဖ-ဆ-ပ-လ အဖွဲ့ကြီးကို ပြည်သူလူထုက အင်တိုက်အားတိုက်ထောက်ခံအားပေးကြသည်။

မြန်မာနိုင်ငံ၌ မကြုံစဖူး ထူးကဲစွာ စည်းလုံး နေကြသည်ကို တွေ့လိုက်ရသော ဗြိတိသျှတို့သည် တောင်တန်း ဒေသများဖက်သို့ လှည့်၍ သွေးခွဲ ကြည့်ကြပြန်သည်။ ဗြိတိသျှတို့၏ ကြံရွယ်ချက်ကား၊ အကယ်၍ မြန်မာပြည်မကို လွတ်လပ်ရေး ပေးလိုက်ရစေကာမူ၊ တောင်တန်း ဒေသများကို



တိုင်းရင်းသားများ စည်းလုံး ညီညွတ်ရေး သရုပ်ဖော် ပင်လုံညီလာခံ ပန်းချီကား

တတ်နိုင်သလောက် ဆုပ်ကိုင်ထားရန်ပင် ဖြစ်လေသည်။ ထိုအကြံကိုသိနှင့်သော ဗိုလ်ချုပ်အောင်ဆန်းသည် တောင်တန်းသားတို့နှင့် စည်းလုံးမှုရရန်အတွက် အမျိုးမျိုး ဆောင်ရွက်ရလေသည်။

၁၉၄၆ ခုနှစ် ဇန္နဝါရီလ အတွင်း ရွှေတိဂုံ ကုန်းတော်အလယ်ပစ္စယံ၌ ကျင်းပသော ဖ-ဆ-ပ-လ ညီလာခံကြီးတွင်

၁။ အင်္ဂလိပ်တို့ ဗမာပြည်ကို သိမ်းပိုက်သောအခါက ရှမ်းပြည်ကိုပါ တပါတည်း သိမ်းပိုက်ခဲ့ကြောင်း၊ ယခု ဗမာပြည်ကို လက်လွှတ်ရမည့် အခါသို့ ရောက်သောအခါ၊ ရှမ်းပြည်ကိုမချန်ထားဘဲ၊ တပါတည်း လက်လွှတ်သင့်ကြောင်း။

၂။ ဗမာပြည်နှင့် ရှမ်းပြည် လွတ်လပ်ရေး ကိစ္စကြီးတွင် ရှမ်းပြည် ခေါင်းဆောင်များနှင့် ဗမာပြည် ခေါင်းဆောင်များသာ ဆွေးနွေးသင့်ကြောင်း၊ တတိယ ပါတီ မပါဝင်သင့်ကြောင်း။

၃။ ရှမ်းပြည် ခေါင်းဆောင်များနှင့် ဗမာပြည် ခေါင်းဆောင်များ မတွေ့နိုင်အောင် လုပ်ထားသော နယ်နှင်ဥပဒေကို ဖျက်သိမ်းသင့်ကြောင်း။

စသည့် သဘောအချုပ်ပါဝင်သော အဆိုတချပ်ကို တင်သွင်းကာ ဆုံးဖြတ်လေသည်။ ယင်း ဆုံးဖြတ်ချက်ကို တိုင်းရင်းသား အဖွဲ့အစည်းများအားလုံးသို့ ပေးပို့ကာ အချင်းချင်း ညှိနှိုင်း တိုင်ပင်ကြစေသည်။

ထို ၁၉၄၆ ခုနှစ် နှစ်ဦးပိုင်းတွင်ပင် ရှမ်းပြည် ပင်လုံမြို့၌ ပဌမ အကြိမ် စည်းဝေးသော စော်ဘွားများ ညီလာခံသို့ မြန်မာပြည်မှ ကိုယ်စားလှယ်အဖြစ် သခင်နု (ယခု ဝန်ကြီးချုပ် ဦးနု)၊ ဦးဘချမ်းနှင့် မန်းဘခိုင် (ဗိုလ်ချုပ်တို့နှင့် အတူ ကွယ်လွန်သူ) တို့ တက်ရောက်ခဲ့၏။ မြန်မာ ခေါင်းဆောင်များသည် စီးပွားရေး ချို့တဲ့မှု၊ ပညာရေး ချို့တဲ့မှု တို့ကြောင့် အတိဒုက္ခ ရောက်ကြရပုံ၊ အောက်ကျ နောက်ကျ နိုင်ပုံတို့ကို ပြတ်ပြတ်သားသား ရှင်းလင်း ပြောဆိုကာ၊ ဗြိတိသျှ နယ်ချဲ့တို့၏ ဝါဒဖြန့်မှုကြောင့် တွေဝေ နားယောင်နေသော ရှမ်းအမျိုးသားများကို ညီညွတ်ရေး အတွက် ဆွဲဆောင်ခဲ့လေသည်။

ထိုမျှမကသေး၊ ဗိုလ်ချုပ်နှင့် တကွ အမျိုးသား ခေါင်းဆောင်ကြီးများသည် မြန်မာနိုင်ငံ တောင်ဖက်ဖျား မြိတ်

မြို့မှမြောက်ဖက်ဖျား မြစ်ကြီးနားအထိ၊ ရခိုင်ပြည်၊ကယား ပြည်နယ်ပါ မကျန်၊ ပြည်မနှင့် တောင်တန်း သွေးစည်း ညီ ညွတ်ရေး အတွက် ဆောင်ရွက်ခဲ့သည်။ ၁၉၄၇ ခုနှစ် ဇန္န ဝါရီလတွင် ဗိုလ်ချုပ် အောင်ဆန်း ခေါင်းဆောင်သော မြန်မာ ကိုယ်စားလှယ်များ ဗြိတိန်သို့ သွားရောက်ပြီးလျှင်၊ မြန်မာနိုင်ငံသို့ အာဏာ လွှဲပြောင်းပေးရေး ကိစ္စများ ကို ဗြိတိသျှ အစိုးရနှင့် စေ့စပ် နှီးနှော၍ အသေးစိတ် ဆွေး နွေးစဉ်၊ မြန်မာနိုင်ငံ၌ ကျန်ရစ်သော အမျိုးသား ခေါင်း ဆောင်များသည် လူစုခွဲကာ၊ တောင်တန်း ဒေသများသို့ အသီး အသီး သွားရောက်၍၊ တိုင်းရင်းသား စည်းလုံးမှု အတွက် နားလည်မှုရအောင် ဆောင်ရွက်ခဲ့ကြသည်။ ထိုမှ တပါး လွတ်လပ်ရေး အကောင်အထည် ပေါ်ပေါက်လာ စေရန် ရည်သန်၍၊ ဖ-ဆ-ပ-လ အလံတော်အောက်ရှိ လူထု အစည်းအရုံးတို့သည် ပြင်ဆင်မှု အမျိုးမျိုးတို့ကို ပြင်ဆင်ခဲ့ လေသည်။ ၁၉၄၇ ခုနှစ် ဇန္နဝါရီလ ၂၇ ရက်နေ့တွင် အောင်ဆန်း — အက်တလီ စာချုပ်ကို လက်မှတ်ရေးထိုးပြီး စီးခဲ့လေသည်။ (အောင်ဆန်း—အက်တလီစာချုပ် — ရှု။)

အောင်ဆန်း — အက်တလီ စာချုပ်တွင် နယ်ခြားဒေသ များနှင့် မြန်မာပြည်မတို့ ပေါင်းစည်း ဆက်ဆံရေးအတွက် ဖေဖွာ်ရီ လဆန်းတွင် ကျင်းပမည်ဖြစ်သော ပင်လုံ အစည်း အဝေးတွင် ဖြစ်စေ၊ သို့မဟုတ် အထူး ကွန်ဖရင့် တရပ်တွင် ဖြစ်စေ နယ်ခြား ဒေသရှိ လူများ၏ ခေါင်းဆောင်များ၊ ကိုယ်စားလှယ်များကို မေးမြန်းရမည် စသည်ဖြင့် ပါရှိလေ သည်။ ထိုကြောင့် ၁၉၄၇ ခုနှစ် ဖေဖွာ်ရီလတွင် ပင်လုံ၌ ဒုတိယ အကြိမ် ညီလာခံကို ကျင်းပရလေသည်။

ဤဒုတိယ အကြိမ် ပင်လုံ ညီလာခံကို ၁၉၄၇ ခုနှစ် ဖေ ဖွာ်ရီလ ၆ ရက်နေ့တွင် စတင် ကျင်းပ၏။ ထိုနေ့တွင် ရှမ်း နှင့် ကချင် ကိုယ်စားလှယ်များ စည်းဝေး ဆွေးနွေး၍၊ ဖေဖွာ်ရီလ ၇ ရက်နေ့တွင် တဖန် ချင်းအမျိုးသား ကိုယ် စားလှယ်တို့ ရောက်ရှိလာသဖြင့် ဆက်လက် ဆွေးနွေးကြ ပြီးနောက်—

(၁) မြန်မာများနှင့် ပူးပေါင်း ဆောင်ရွက်ခြင်း အား ဖြင့် ရှမ်း၊ ကချင်နှင့် ချင်း အမျိုးသားတို့၏ လွတ်လပ်ရေး သည် ပိုမို လျင်မြန်စွာ ရရှိလိမ့်မည်ဟု ယုံကြည်ကြောင်း။

(၂) ဒီမိုကရေစီ နည်းစနစ်အရ မြန်မာ လူမျိုးတို့ ရရှိ ခံစားနေသည့် အဆင့်အတန်း၊ အခွင့်အရေးများနှင့် အကျိုး စီးပွားများကဲ့သို့ ရှမ်း၊ ကချင်၊ ချင်းတို့လည်း ရရှိ ခံစားရန် လိုလားကြောင်း။

(၃) ရှမ်း၊ကချင်နှင့် ချင်းအမှုဆောင် ဝန်ကြီးများသည် မိမိတို့နှင့်သက်ဆိုင်ရာ ပြည်တွင်းရေးကိစ္စ အဝဝတို့တွင် မိမိ တို့သာလျှင်တာဝန်ခံ၍ အများနှင့် သက်ဆိုင်ရာ ကိစ္စများ (ကာကွယ်ရေး၊ နိုင်ငံခြားဆက်သွယ်ရေး၊ မီးရထား၊ ဆိပ် ကမ်းခွန် စသည်)တို့ကို မြန်မာများနှင့် ပူးပေါင်းတာဝန်ခံ လိုကြောင်း ဟူ၍ ဆုံးဖြတ်ချက်များ ချမှတ်ခဲ့လေသည်။ ထိုဆုံးဖြတ်ချက်များကို အစည်းအဝေး ဥက္ကဋ္ဌ တောင်ပိုင် စော်ဘွားကြီး စောခွန်ပန်းစိန်က အသံလွှင့်ရုံသို့ သံကြိုး ရိုက်ကြားကာ ကြေညာစေသည်။

ဗိုလ်ချုပ် အောင်ဆန်းသည် ဦးတင်ထွဋ်၊ ဆာမောင် ကြီး၊ ဦးအောင်ဇံဝေ၊ ဗိုလ်ခင်မောင်ကလေး၊ ဗိုလ်သိမ်း ဆွေ၊ ဦးဖေခင်၊ သခင်ဝတင်တို့နှင့် အတူ အစည်းအဝေး တက်ရောက်ရန်အတွက် ဖေဖွာ်ရီလ ၈ ရက်နေ့ ညပိုင်းတွင် ပင်လုံသို့ဆိုက်ရောက်သွားသည်။ ဗြိတိသျှအစိုးရကအကဲခတ် ရန် စေလွှတ်သော ဒိုမိနီယန် အတွင်းဝန်ကလေး ဗော့တမ် မလေ အမှူးရှိသော ဗြိတိသျှ အရာရှိကြီးများ၊ အမေရိကန် ကောင်စစ်ဝန်နှင့် ဝန်ကတော်၊ စစ်ဖက် ဆိုင်ရာ အရာရှိ များနှင့် ဂုဏ်သရေရှိ အမျိုးသား အမျိုးသမီးများလည်း လိုက်ပါသွားကြသည်။

ဗိုလ်ချုပ် အောင်ဆန်းသည် ပင်လုံတွင် တောင်ထန်း ဒေသ ကိုယ်စားလှယ်များနှင့် သုံးရက်ခန့် ပွင့်ပွင့် လင်း လင်း ဆွေးနွေးလေသည်။

ညီလာခံကြီးတွင် ဗိုလ်ချုပ် အောင်ဆန်းက—

"ပင်လုံ အစည်းအဝေးသို့ အကြောင်း နှစ်မျိုးကြောင့် လာရကြောင်း၊ပဌမမှာ မြန်မာပြည်ရှိ လူမျိုးများ ညီညွတ် ရေး အတွက် ဖြစ်၍၊ အခြား အကြောင်းမှာ လန်ဒန် ဆွေး နွေးပွဲ၌ တောင်တန်း ဒေသနှင့် ပတ်သက်၍ မည်သို့ ဆောင် ရွက်လုပ်ကိုင်ခဲ့သည်ကိုပြောဆိုရှင်းလင်းပြရန် ဖြစ်ကြောင်း။

ကမ္ဘာ့ နိုင်ငံရေးအရ မြန်မာပြည်ရှိ လူမျိုး အားလုံးမှာ ညီညွတ်ရန် လိုကြောင်း။ တနည်းအားဖြင့် ဆိုလျှင်၊ မြန် မာပြည် လွတ်လပ်ရေးမှာ ရပြီဟု ဆိုနိုင်ကြောင်း။ ယခု ကျန်ရှိနေသော ပြဿနာမှာ တောင်တန်းနယ် ကိစ္စပင် ဖြစ်ကြောင်း။

ဗိလတ် ဆွေးနွေးပွဲ၌ မြန်မာ ကိုယ်စားလှယ်များက၊ တောင်တန်းနယ် လွတ်လပ်ရေးကို တချိန်တည်း မပေးခဲ့ လျှင်၊ မြန်မာပြည် လွတ်လပ်ရေးမှာလည်း တကယ့် လွတ် လပ်ရေး မဖြစ်နိုင်ဟု ပြောဆိုခဲ့ကြောင်း။ တောင်တန်းနယ် ကို ဗြိတိသျှတို့က တိုက်ရိုက် အုပ်ချုပ်ခြင်းကို မြန်မာ လူ မျိုးများက မကြိုက်ကြောင်း။ တောင်တန်းနယ်ကို တောင် တန်း လူမျိုးများသာ အုပ်ချုပ် စိုးမိုးခြင်းကို မြန်မာများ ကကြိုက်ကြောင်း။

ဗြိတိသျှတို့က တောင်တန်း နယ်ရှိ လူမျိုး များသည် အောက်ကျ နောက်ကျ ဖြစ်နေသေးသဖြင့်၊ လွတ်လပ်ရေး နှင့် မတန်ဟု ထင်ကြောင်း။ ထိုသို့ ထင်မြင်ချက်ကို မြန်မာ များက သဘော မတူကြောင်း။ မြန်မာပြည် လွတ်လပ် ရေး ရသည်နှင့် တောင်တန်းနယ် လွတ်လပ်ရေး ရရမည်ဟု

မြန်မာများက ယင်ကြောင်း။ မြန်မာများသည် တောင်ထန်း မဒသ အတွက် ပြောဆိုခြင်းမှာ အုပ်ချုပ် စိုးမိုးလို၍ မဟုတ်၊ သို့ရာတွင် တောင်တန်း နယ်များသည် မြန်မာပြည်နှင့် ဘန်းတူ အဆင့်အတန်း အခွင့်အရေး ရစေလိုသောကြောင့်ပင် ဖြစ်ကြောင်း။

မြန်မာများသည် ဗြိတိသျှ၏ ကျွန် မဖြစ်လိုကြောင်း။ ထိုနည်းတူစွာ တောင်တန်း လူမျိုးများလည်း ဗြိတိသျှကျွန်များအဖြစ် မရောက်စေလိုကြောင်း။ ထို့ပြင် တောင်တန်း လူမျိုးများသည် မြန်မာ့ကျွန် မဖြစ်စေလိုကြောင်း။

တောင်တန်းနယ် စီမံ အုပ်ချုပ်ရေးမှာ၊ ကောင်စီ၏ လက်ထဲ ရှိနေလိမ့်မည် ဖြစ်ကြောင်း။ ထိုကောင်စီ အဖွဲ့ထဲ၌ တောင်တန်းနယ်မှ ကိုယ်စားလှယ် တယောက် ရှိလိမ့်မည် ဖြစ်ရာ၊ ယင်း၏ လက်ထဲမှာကား ထိုအုပ်ချုပ်ရေး ရှိမည် ဖြစ်ကြောင်း။

ဗြိတိန်မှာ မြန်မာပြည်၌ ကြာရှည်စွာ အုပ်စိုးရန် အခွင့်အခါ မရှိတော့ကြောင်း။ စောစော သို့မဟုတ် အနည်းငယ်ကြာလျှင်၊ ယင်းတို့သည် မြန်မာပြည်ကို စွန့်လွှတ်ရတော့မည် ဖြစ်ကြောင်း။ ထို့ကြောင့် ကျွန်ုပ်တို့သည် အဆင်သင့် ရှိရမည့် အပြင်၊ ကျွန်ုပ်တို့ ကိုယ်ကို အားကိုး အားထား လုပ်ရမည် ဖြစ်ကြောင်း၊ ထိုနေရာ၌ ညီညွတ်ရေးမှာ လွန်စွာပင်လိုကြောင်း။

လွတ်လပ်ရေး ရပြီးသော အခါမှပင်၊ အဆင့်အတန်း မြင့်နိုင်ကြောင်း၊ လွတ်လပ်ရေး မရလျှင်၊ လက်ရှိ အောက်ကျ နောက်ကျ ဖြစ်နေသော အဆင့်အတန်းကို မြှင့်တင်နိုင်ရန် မဖြစ်နိုင်ကြောင်း။

လူဖြူဖြစ်စေ၊ လူမဲ ဖြစ်စေ၊ မည်သူ့ကိုမဆို မကြောက်ရွံ့နှင့်၊ ယင်းတို့က တောင်တန်း လူမျိုးများကို မေးခဲ့လျှင်၊ တောင်တန်း လူမျိုးများက လွတ်လပ်ရေး လိုချင်တယ်ဟု ပြောရမည် ဖြစ်ကြောင်း၊ ခြောက်လျှင်လည်း မကြောက်ကြနှင့်၊ ချော့လျှင်လည်း မပျော့ကြနှင့်၊ တောင်တန်း လူမျိုးများသည် မြန်မာပြည်ကဲ့သို့ တူညီသောအဆင့်အတန်းကို လိုချင်သည်ဟု ပြောရမည် ဖြစ်ကြောင်း၊ ဒါကို ယနေ့ပြောလိုက်လျှင် နက်ဖြန် အဆွေတို့ လွတ်လပ်ရေး ရမည် ဖြစ်ကြောင်း။" စသည်ဖြင့် မိန့်ကြားကာ တောင်တန်း ဗမာ စည်းလုံးရေးအတွက် ကြိုးပမ်းခဲ့လေသည်။

ဖေဖော်ဝါရီလ ၁၀ ရက်နေ့တွင် တိုင်းပြည် ဘဏ္ဍာရေး အခြေအနေကို တင်ပြ ဆွေးနွေး၏။ ၁၁ ရက်နေ့ညတွင်မူ မြန်မာပြည်နှင့် တောင်တန်းနယ်များ ပူးပေါင်းရေး အခြေခံသဘောတူညီမှုအတွက် အထိမ်းအမှတ်အဖြစ် ပင်လုံညစာ စားပွဲကြီး တည်ခင်းကျွေးမွေးလေသည်။ ထိုညစာစားပွဲ၌ ဗိုလ်ချုပ် အောင်ဆန်းအား မိန့်ခွန်း ပြောရန် တောင်းပန်သဖြင့်



ပင်လုံ ညီလာခံကျင်းပရာ ပင်လုံမြို့ရှိ တိုင်းရင်းသား စည်းလုံးရေး အထိမ်းအမှတ် ကျောက်တိုင်

"တတိုင်းပြည်လုံးကြီးပွားစေချင်ရင်၊ လူအား၊ ငွေအား၊ ပစ္စည်းအားနဲ့ စုပေါင်းပြီး၊ အင်တိုက် အားတိုက် လုပ်နိုင်မှ အကျိုး ခံစားခွင့် ရှိမှာဘဲ၊ ဗမာက တမျိုး၊ ကရင်က တဖုံ၊ ရှမ်း၊ ကချင်၊ ချင်းတို့က တခြား အကွဲကွဲ အပြားပြား လုပ်နေကြရင် အကျိုးရှိမှာ မဟုတ်ဖူး၊ စုပေါင်း လုပ်ကြမှသာ အကျိုးရှိနိုင်မယ်၊ လုပ်ကြည့်မှလဲ အကျိုး ရှိကြောင်း သိနိုင်တယ်" စသည်ဖြင့် စည်းလုံးရေးနှင့် တိုင်းပြည် ရှေ့ရေး အတွက် မိန့်ကြားခဲ့၏။

ထိုညစာ စားပွဲတွင် ပြန်ကြားသည့် တောင်ပိုင် စော်ဘွားကြီး၏ မိန့်ခွန်းမှာ ဤသို့ ဖြစ်သည်။

"ယနေ့ညဟာ နေ့ကောင်း ရက်ကောင်း ဖြစ်တဲ့ ညပါဘဲ၊ ယခု ဒုတိယ အကြိမ်မြောက် ပင်လုံ အစည်းအဝေးကြီးမှာ ရာဇဝင်တွင် မကြုံဘူးသော အစည်းအဝေးကြီး ဖြစ်ပါတယ်။ ရှေးအခါက ရှမ်း၊ ဗမာ၊ ကချင်၊ ကရင်၊ ချင်း အမျိုးသားတို့ အချင်းချင်း အထင်မှား သဘော ကွဲလွဲချက်များ ရှိခဲ့သော်လဲ ယခုတော့ ဒီသဘော ကွဲလွဲချက်များ မရှိတော့ပါဘူး၊ ဗမာနှင့် ရှမ်း စသော တောင်တန်း နယ်သားများ အားလုံးတို့ ကောင်းရာ ကောင်းကြောင်း အချိန်သို့ ဆိုက်ရောက်လာပါပြီ၊ ဒီ အစည်းအဝေးကြီးမှာ ကျွန်တော်တို့ အချင်းချင်းတွေ သွေးကွဲအောင် ခြေထိုးသူတွေ ရှိကြောင်းကို သိပါတယ်။ သူတို့ရှိပေမဲ့ ကျွန်တော်တို့ မအပါဘူး၊ ကျွန်တော်တို့ လိုလားတဲ့ လွတ်လပ်ရေး ပန်းတိုင်ကို အသက်နဲ့လဲပြီး ဆွတ်ခူးမယ် ဆိုတာ ယုံကြည်ပါ။ ချုပ်ချယ်

တဲ့ စံနစ်ကြောင့်သာ ကျွန်တော်တို့ အောက်ကျ နောက်ကျ ဖြစ်ခဲ့ရတာပါ။ ရှေ့အဖို့ လွတ်လပ်တဲ့ အခါမှာ အခြား လွတ်လပ်တဲ့ နိုင်ငံကြီးများနဲ့ တန်းတူ အောက်မကျအောင် ဆောင်ရွက်နိုင်ပါတယ်။ ယခု နယ်ရှင် စော်ဘွားများဟာ အရင်ကလို မဟုတ်တော့ပါဘူး၊ တိုင်းပြည် ကိုယ်စားလှယ် တော်များနှင့် တန်းတူ ပူးပေါင်းကာ ဆောင်ရွက်ကြပါ တော့မယ်။

"အထူးသဖြင့်ဗိုလ်ချုပ်ဦးအောင်ဆန်းကြွရောက်လာပြီး၊ ညီညီ ညွတ်ညွတ် ဖြစ်အောင် ဆောင်ရွက်ပေးတာကိုလဲ အလွန်ဘဲ ကျေးဇူးတင် ဝမ်းမြောက်ကြပါတယ်၊ ရှေ့အဖို့ မှာ ဗိုလ်ချုပ် ဦးအောင်ဆန်း၏ အလိုဆန္ဒအတိုင်း တသွေး တသားတည်း ညီညွတ်ကြမည်ကို ယုံကြည်စေလိုပါတယ်။ ဤသို့ သိုက်မြိုက် စုံလင်စွာ ကြွရောက် ချီးမြှင့်ကြသည်ကို ရှမ်းစော်ဘွားများ ကိုယ်စား ကျွန်တော်က အထူး ကျေး ဇူးတင်ပါတယ်"

နောက်တနေ့၊ ၁၉၄၇ ခုနှစ် ဖေဖွာရီလ ၁၂ ရက်နေ့ နံနက် ၁၀ နာရီ အချိန်တွင် ဗိုလ်ချုပ် အောင်ဆန်းနှင့် တောင်တန်း ကိုယ်စားလှယ် ၂၁ ဦးတို့သည် တိုင်းရင်းသား ညီညွတ်ရေး အဆောက်အအုံကို တည်ဆောက်မည့် ပင်လုံ စာချုပ်ကြီးကို တညီ တညွတ်တည်း လက်မှတ် ရေးထိုး ခဲ့ကြသည်။

လက်မှတ် ရေးထိုးကြသော ကိုယ်စားလှယ်တော်ကြီး များမှာ—

၁။ ဗိုလ်ချုပ် အောင်ဆန်း၊ မြန်မာပြည် ခေါင်းဆောင်
၂။ ခွန်ပန်းစိန်၊ တောင်ပိုင်စော်ဘွား
၃။ စဝ်ရွှေသိုက်၊ ညောင်ရွှေစော်ဘွား
၄။ စဝ်ဟုံဖ၊ မြောက်ပိုင်း သိန္နီစော်ဘွား
၅။ စဝ် နွံ၊ လဲချား စော်ဘွား
၆။ စဝ်ထွန်းအေး၊ သာမိုင်းခန်း စော်ဘွား
၇။ ခွန်ပန်း၊ လူထု ကိုယ်စားလှယ်၊ မြောက်ပိုင်း သိန္နီ
၈။ ဦးတင်အေး၊ လူထုကိုယ်စားလှယ်၊ တောင်ကြီး
၉။ ဦးကြာပု၊ လူထုကိုယ်စားလှယ်၊ သီပေါ
၁၀။ စဝ်ယဉ်ဖ ၎င်း
၁၁။ ဆမားဒူဝါ ဆင်ဝါးနောင်၊ ကချင် ကိုယ်စားလှယ်၊ မြစ်ကြီးနား
၁၂။ ဒူဝါဇော်ရစ် ၎င်း
၁၃။ ခွန်ထီး၊ လူထုကိုယ်စားလှယ်၊ ပင်လုံ
၁၄။ ဦးထွန်းမြင့်၊ လူထုကိုယ်စားလှယ်၊ မောက်မယ်
၁၅။ ခွန်စော၊ လူထုကိုယ်စားလှယ်၊ ပင်းတယ
၁၆။ ဦးဖြူ၊ ကျိုင်းတုံစော်ဘွား ကိုယ်စား
၁၇။ တန်ရဒေါင်၊ ကချင်ကိုယ်စားလှယ်၊ မြစ်ကြီးနား
၁၈။ ဒူဝါဇော်လွန်း၊ ကချင်ကိုယ်စားလှယ်၊ ဗန်းမော်
၁၉။ လဘန်းဂရောင်း၊ ကချင်ကိုယ်စားလှယ်၊ ဗန်းမော်
၂၀။ ဦးလှမောင်၊ ချင်းကိုယ်စားလှယ်၊ ဖလမ်း
၂၁။ ဦးသောင်ဇာခုတ်၊ ချင်းကိုယ်စားလှယ်၊ တီးတိန်
၂၂။ ဦးဝမ်းကိုဟော၊ ချင်းကိုယ်စားလှယ်၊ ဟားခါး

ယင်းသို့ဖြင့် ပင်လုံ ညီလာခံကြီးသည် အောင်မြင် ကြွ ခိုင်သော ပင်လုံ စာချုပ်ကြီးကို မွေးထုတ်ခဲ့လေသည်။ ပြည်ထောင်စု မြန်မာနိုင်ငံတော် ဖြစ်မြောက်ရေးကို အုတ် မြစ်ချခဲ့သော ထိုနေ့ ထိုရက်ကို 'ပြည်ထောင်စုနေ့' ဟု သတ်မှတ် ပြီးလျှင် ရုံးပိတ်ရက်တရက် အဖြစ် နိုင်ငံတော် အစိုးရက အသိအမှတ် ပြုထားလေသည်။ (ပြည်ထောင်စု နေ့ — ရှု။) ပြည်မနှင့် တောင်ပေါ် သားတို့ အထူးစည်းလုံး မှု ရရှိခဲ့သော ပင်လုံ ညီလာခံကြီး ကျင်းပ၍ ပင်လုံစာချုပ် လက်မှတ် ရေးထိုးသည့် နေရာတွင် ၁၉၄၇ ခုနှစ် ဇန္နဝါရီ လက မော်ကွန်း ကျောက်တိုင် စိုက်ထူထားလေသည်။

**ပင်း၊ ဝီလျံ** (ခရစ် ၁၆၄၄ – ၁၇၁၈)။ ။အမေရိကန် ပြည်ထောင်စုဝင် ပင်ဆီလဗေးနီးယားပြည်နယ်ကို စတင် တည်ထောင်သူ ဝီလျံပင်းသည် အင်္ဂလိပ်လူမျိုး ကွိတ်ကာ ဂိုဏ်းဝင်ထင်ရှားသူတဦး ဖြစ်သည်။ (ပင်ဆီလဗေးနီးယား ပြည်နယ် — ရှု။) ဖခင်မှာ ရေတပ်ဗိုလ်ချုပ်မှူး ဆာဝီလျံ ပင်းဖြစ်၍ မိခင်မှာ ဒပ်ချ အမျိုးသမီး တဦး ဖြစ်သည်။ ပင်းအား ၁၆၄၄ ခုနှစ် အောက်တိုဘာလ ၁၄ ရက်နေ့တွင် လန်ဒန်မြို့၌ဖွားမြင်သည်။

၁၆၆၀ ပြည့်နှစ်တွင် ပင်းသည် အောက်စဖို့တက္ကသိုလ် ခရိုက်စချပ်ကောလိပ်ကျောင်းသို့ တက်ရောက် ပညာသင် ကြားခဲ့သည်။ ထိုသို့ ပညာသင်ကြားနေစဉ်၊ ပင်းသည် အောက်စဖို့တက္ကသိုလ်၌ ကျင်းပသော သာသနာရေး ဝတ်ပြု ပွဲများကို တဖြည်းဖြည်း စိတ်နှင့်မတွေ့ဖြစ်လာကာ၊ မတက် ဘဲနေလိုက်ရာ၊ ကျောင်းအာဏာပိုင်များ၏ ဒဏ်တပ်ခြင်းကို မကြာခဏခံရသည်။ သို့ရာတွင် ပင်းသည် ၁၆၆၁ ခုနှစ်တွင် ကွိတ်ကာခရစ်ယန်ဂိုဏ်းသို့ အတိအလင်း ကူးပြောင်းသွားသ ဖြင့်၊ ကျောင်းထုတ်ခံရလေသည်။ ပင်းသည် ထိုသို့ကွိတ်ကာ တဦးဖြစ်သွားသောကြောင့်၊ မှူးမတ်အဆင့်အတန်းသို့ တိုး မြှင့်ပေးခြင်း ခံရအံ့ဆဲဆဲဖြစ်သော ဖခင်ဖြစ်သူမှာလည်း၊ အ ဆင့်အတန်း တိုးမြှင့်ပေးခြင်းမခံရတော့ပေ။ ဖခင်ဖြစ်သူ သည် ပင်းအား အတော်ပင် ဒေါသထွက်၍ အိမ်မှနှင်လိုက် သည်။ နောက်မကြာမီပင် အမျက်ပြေသွား၍ ဥရောပတိုက် နိုင်ငံများ၏ ပေါင်းသင်းဆက်ဆံရေးလောကတွင်၊ သားဖြစ် သူသည် နစ်မွန်းသွားပါက၊ အယူဝါဒရေးရာ အစွဲအလန်း များ ပျောက်ပျက်သွားလိမ့်မည်ဟူသော မြော်လင့်ချက်ဖြင့် ပင်းအား ပြင်သစ်၊ ဣတလီစသော နိုင်ငံများသို့ လွှတ်လိုက် လေသည်။



ပင်ဆီလဗေးနီးယားပြည်နယ်ကို စတင်တည်ထောင်သူ ဝီလျံပင်း

၂ နှစ်ခန့်ကြာ၍ ယင်းနိုင်ငံများမှ ပြန်လာသော အခါ၊ ပင်းသည် သိသိသာသာပြောင်းလဲလာသဖြင့်၊ ဖခင်ဖြစ်သူက ဥပဒေပညာ လေ့လာရန် လန်ဒန်မြို့သို့ ပို့ပေးသည်။ သို့ရာတွင် ပင်းသည် ၁၆၆၇ ခုနှစ်တွင် ဖခင်ပိုင်ပစ္စည်းဥစ္စာများကို စီမံအုပ်ချုပ်ရန် အိုင်ယာလန်ပြည်သို့သွားယင်း၊ ကွိတ်ကာ တရားဟောဆရာ တောမတ်လိုးနှင့် တွေ့သဖြင့်၊ ကွိတ်ကာ အယူအဆများသို့ တဖန်စိတ်လည်သွားပြန်သည်။ ထိုအချိန်က ပင်းသည် အသက် ၂၃ နှစ်သာရှိသေး၍၊ အလားအလာများစွာရှိသူဘဲဖြစ်သည်။ သို့ရာတွင် မိမိ၏ ကိုယ်ကျိုးကို ပင် စွန့်လွှတ်ကာ၊ ထိုအချိန်က အလွန်အဖိအနှိပ်ခံနေရသော ကွိတ်ကာဂိုဏ်းသို့ ခြေစုံပစ်ဝင်လိုက်သည်။

ပင်းသည် ကွိတ်ကာတရားဟောဆရာနှင့် စာရေးဆရာ အဖြစ်ဖြင့်၊ သုံးကြိမ်တိုင်တိုင် ထောင်ကျဘူးသည်။ ပဌမ အကြိမ်က လန်ဒန်ရဲတိုက်ကြီးတွင် အကျဉ်းချခံရသည်။ ထိုသို့ အကျဉ်းခံနေရစဉ်တွင် ပင်းသည် 'သရဖူမလို၊ လက်ဝါးကပ်တိုင်မလို' ဟူသော စာအုပ်ကို ရေးသားခဲ့သည်။ ယင်းသည့် စာအုပ်သည် အင်္ဂလိပ်ဘာသာဖြင့် ရေးသားထားသော ခရစ်ယန်အယူဝါဒဆိုင်ရာ အကောင်းဆုံး စာအုပ်တအုပ်ဖြစ်သည်။ နောက်တနှစ်တွင် အဓိကရုဏ်းဖြစ်ပွားအောင် ပူးပေါင်းကြံစည်သည်ဟူသော စွပ်စွဲချက်ဖြင့်၊ ပင်းသည် 'မိတ်ဆွေများ အသင်း' (ကွိတ်ကာ) အစည်းအဝေးတခုတွင်တက်နေစဉ်၊ အဖမ်းခံရပြန်သည်။ ဘုရား၏ဖခင် သေဆုံးပြီးနောက်၊ ၁၆၇၀ ပြည့်နှစ်တွင် တတိယအကြိမ် အဖမ်းခံရသည်။

၁၆၇၇ ခုနှစ်တွင် ပင်းသည် ဂျော့ဖော့ အစရှိသော ကွိတ်ကာ ခေါင်းဆောင်များနှင့် အတူ၊ ဟော်လန်နှင့် ဂျာမနီနိုင်ငံများသို့ သွားခဲ့စဉ်က၊ ကွိတ်ကာတို့အတွက် လွတ်လွတ်လပ်လပ်နေထိုင်နိုင်ရန် နယ်သစ် လိုလားနေကြသော စိတ်အား ထက်သန်သူ ကွိတ်ကာများနှင့် တွေ့ခဲ့သည်။အမေရိကတိုက်တွင် ကွိတ်ကာတို့အတွက် နယ်သစ်ရမှသာလျှင် ကွိတ်ကာတို့ အန္တရာယ်ကင်းစွာ နေထိုင်ကိုးကွယ်နိုင်မည်ကို သိသော ပင်းသည် ၁၆၈၀ ပြည့်နှစ်တွင် ဒုတိယချားဘုရင်ထံ၌ နယ်သစ်တခုပေးသနားရန် လျှောက်ထားသည်။ ချားဘုရင်ကလည်း ပင်းဖခင်အား ပေးဆပ်ရန်ကျန်သည့်အကြွေး ဒေါ်လာ ၈၀,၀၀၀ အစား၊နယူးယော့နှင့်မေရီလန်ပြည်နယ်တို့အကြား ဒဲလဝဲယားမြစ်အနောက်ဖက်ရှိ နယ်မြေသစ်တခုကိုပေးလိုက်သည်။ ထိုပြင် ယင်းနယ်မြေကို ပင်းဖခင် ဝီလျံပင်းကြီးအမည်ကိုအစွဲပြု၍၊ပင်ဆီလဗေးနီးယား(ပင်း၏သစ်တော) ဟု အမည်မှည့်ရန်လည်း ဘုရင်က မှာကြားလိုက်လေသည်။ ပင်းသည် ယင်းသည့်နယ်ကို ကွိတ်ကာတို့ခိုလှုံရာနယ်မြေအဖြစ် သတ်မှတ်ကာ၊ အုပ်ချုပ်ရေး စည်းမျဉ်းများ ရေးဆွဲခဲ့သည်။

၁၆၈၂ ခုနှစ်တွင် ပင်းသည် ဒဲလဝဲယားမြစ်ကို ဆန်တက်၍ ရက်အင်ဒီးယန်း တိုင်းရင်းသားများနှင့် အသင့်အတင့်နေထိုင်ဆက်ဆံကြရန် စာချုပ်ချုပ်သည်။ သူ၏ ဆက်ဆံရေးပြေပြစ်မှုကြောင့်၊ ပင်ဆီလဗေးနီးယားပြည်နယ်သို့ ရက်အင်ဒီးယန်းများ တကြိမ်တခါမျှ လာရောက်တိုက်ခိုက်ခြင်း မရှိခဲ့ဘူးချေ။ ၁၆၈၄ ခုနှစ်တွင် ပင်းသည် ညှဉ်းပန်းနှိပ်စက်ခံနေကြရသော ကွိတ်ကာဂိုဏ်းဝင်များအရေး ဆောင်ရွက်ရန်၊ အင်္ဂလန်ပြည်သို့ ပြန်သွားသောအခါ ပင်ဆီလဗေးနီးယားပြည်နယ်သည် ဖွံ့ဖြိုးသာယာလျက် ရှိနေလေပြီ။

ပင်း၏ သတ္တိကို သူ့ဖခင်၏ မိတ်ဆွေကြီးများ ဖြစ်သော ဒုတိယချားနှင့် ဒုတိယဂျိမ်း ဘုရင်တို့က များစွာချီးကျူးကြသည်။ သူ၏ ကွိတ်ကာ စကားပြောဟန်ကို များစွာ နှစ်သက်ကြသည်။ သို့ရာတွင် ၁၆၈၈ ခုနှစ်တွင် ဂျိမ်းဘုရင်နန်းကျ၍ ဝီလျံနှင့်မေရီတို့ နန်းတက်သောအခါ၊ ပင်းအား ဂျိမ်း၏မိတ်ဆွေဖြစ်သည်ဟုဆိုကာ၊ ဖမ်းဆီးထားခဲ့သည်။မကြာမီ လွှတ်လိုက်သော်လည်း၊ လန်ဒန်မြို့၌သာနေ၍ မည်သည့်နေရာကိုမျှ မသွားရန်၊တားမြစ်ခြင်းခံရလေသည်။ ထိုသို့အကျယ်ချုပ်ခံနေရစဉ်၊ ပင်းသည် စာအုပ်ကြီး ၂ စောင်ကို ရေးသားသည်။ ပင်း၏ စာမူများသည် နိုင်ငံချင်းချင်းတရားမျှတရေးပေါ်တွင် မူတည်၍ နိုင်ငံပေါင်းချုပ် အသင်းဖွဲ့စည်း

ရန် ရည်ညွှန်းလေသည်။ ၁၆၈၂ ခုနှစ်တွင် ပင်ဆီလဗေးနီးယားပြည်နယ် ပိုင်ဆိုင်ခွင့်ကို ပင်းထံမှ ခေတ္တရုပ်သိမ်းထားခဲ့လေသည်။

၁၆၉၃ ခုနှစ်တွင် ပင်းအပေါ်၌ အပြစ်မရှိဟုဆိုကာ အကျယ်ချုပ်မှ လွတ်ရုံမက၊ ပင်ဆီလဗေးနီးယားပြည် ပိုင်ဆိုင်ခွင့်ကိုပါ ပြန်လည်ပေးအပ်သည်။ ၁၆၉၉ ခုနှစ်တွင် ပင်းသည် ပင်ဆီလဗေးနီးယားပြည်နယ်သို့ ပြန်သွားသောအခါ ယင်းပြည်နယ်၏ အခြေအနေများမှာ တမျိုးပြောင်းလျက်ရှိရုံမက၊ ဒုက္ခအမျိုးမျိုးနှင့်လည်း ရင်ဆိုင်တိုးလျက်ရှိသည်။ ပင်းသည် သောင်းကျန်းနေကြသော ပင်လယ်ဓားပြများကို ဖိုလ်မှူးကြီး ရောဗတ်ကွာရီနှင့်အတူ ဝင်ရောက်နှိမ်နင်းပေးသည်။ ရက်အင်ဒီးယန်းတိုင်းရင်းသား လူမျိုးများနှင့်လည်း ပြန်လည် သင့်တင့်အောင် ဆောင်ရွက်ပေးသည်။ ထိုအချိန်က ပြည်နယ်သူပြည်နယ်သားတို့နှင့် လိုက်လျောညီညွတ်စေမည့် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအသစ် တခုကိုလည်း ရေးဆွဲပေးခဲ့သည်။

၁၇၀၁ ခုနှစ်တွင် ဝီလျံဘုရင်က ပင်ဆီလဗေးနီးယားပြည်နယ်ကို ဘုရင့်ပြည်နယ်အဖြစ် သိမ်းပိုက်ရန် စီစဉ်နေကြောင်း ကြားသိရသဖြင့်၊ ပင်းသည် အင်္ဂလန်ပြည်သို့ ပြန်ရပြန်သည်။ သို့ရာတွင် ယင်းအစီအစဉ်မပြီးမီ၊ ဝီလျံဘုရင် လွန်သဖြင့်၊ ပြည်နယ်သိမ်းရေးကိစ္စ အေးငြိမ်းသွားသော်လည်း၊ ပင်း၏ ဘဏ္ဍာစိုး ဖိုက ပင်းထံတွင် အကြွေးရစရာရှိသည်ဟူသော လိမ်သည့်စွပ်စွဲချက်ကြောင့် ပင်းသည်တနှစ်အချုပ်အနှောင်ခံရပြန်သည်။ တောင်းဆိုသော အကြွေးများကို မိတ်ဆွေများကဆပ်၍ ပင်းအား ထောင်မှထုတ်ယူကြ၏။ ယင်းသို့ စိတ်ထိခိုက်ဖွယ်ရာနှင့် ကြုံတွေ့ရသဖြင့် ပင်းသည် ကျန်းမာရေးချွတ်ယွင်းလာကာ၊ ၁၇၁၀ ပြည့်နှစ်တွင် လေဖြတ်၍ ၁၇၁၈ ခုနှစ် ဇူလိုင်လ ၃၀ ရက်နေ့တွင် ကွယ်လွန်သည်။ သူ၏ အလောင်းကို ဗတ်ကင်ဟမ်ရှိုင်ယာနယ် ချဲလဖွန့် စိန်ဂျိုင်းမြို့ရှိ ကျော်ဒန် စည်းဝေးဆောင်၌ သူ၏ ပဌမဇနီးနှင့် ဒုတိယဇနီးတို့၏ ဂူများနှင့် ယှဉ်တွဲမြှုပ်နှံသည်။ ပင်း ကွယ်လွန်သောအခါ၊ ဒုတိယဇနီးနှင့်ရသော သား ၃ ယောက်ကျန်ခဲ့သည်။

**ပင်းဂွင်းငှက်။** ။ပါဏဗေဒ အလိုအားဖြင့် ပင်းဂွင်းငှက်သည်'စဖီနစ်စီဖောမီး' မျိုးစဉ်တွင် ပါဝင်သည်။ ပင်းဂွင်းငှက်သည် အန္တာတိတ်ဒေသ၌ နေထိုင်သည့် ထူးဆန်းသော ငှက်တမျိုးဖြစ်သည်။ အများအားဖြင့် ယင်းတို့ကို တောင်ဝင်ရိုးစွန်းဒေသများ၌သာ တွေ့ရသော်လည်း၊ နယူးဇီလန်ကျွန်း၊ ဂွဘ်ဒဟုတ်အငူ၊ အက်ကွာဒေါ နိုင်ငံ၏ အနောက်ဖက်ရှိ ဂါလားပါးဂိုးကျွန်း၊ ဩစတြေးလီးယားတိုက်နှင့် ဗရာဇီးနိုင်ငံတို့၌လည်း တွေ့နိုင်သေး၏။ မြေပေါ်၌ ခြေ ၂ ချောင်းကို မတ်မတ်ရပ်၍ သွားတတ်သည်။ ခြေထောက်များသည်တို့၍ ခန္ဓာကိုယ်၏ အောက်ပိုင်းတွင် တည်ရှိသည်။ ထိုကြောင့် လမ်းလျှောက်ရာတွင် ဘဲများလျှောက်သကဲ့သို့ တအိအိနှင့် လျှောက်သည်။ ပင်းဂွင်းငှက်၏ နောက်ကျောသည်မည်း၍ ရင်ပတ်သည်ဖြူ၏။ အတောင်သည် တိုလှသဖြင့် အဝေးမှ ကြည့်လျှင် လူ၏ လက်နှင့်တူသည်။ အချို့ပင်းဂွင်းငှက်များသည် မြေပေါ်၌ အတောင် ၂ ဖက်ကို ယက်၍ လျှောက်တတ်သည်။ ရှေးပဝေဏီက ပင်းဂွင်းငှက်တို့သည် ကောင်းကင်၌ ပျံသန်းလေ့ရှိသည်ဟု ယူဆကြရသော်လည်း ယခုအခါ၌ တွေ့ရသော ပင်းဂွင်းငှက်တို့ကား ကောင်းကင်၌ လုံးဝ မပျံသန်းနိုင်ကြချေ။ ပင်းဂွင်းငှက်သည် ရန်သူကို ခုခံတိုက်ခိုက်ရန် နှုတ်သီးကို အသုံးပြုသည်။

ပင်းဂွင်းငှက်သည် ရေထဲ၌သာ ကျင်လည် ကျက်စားနေထိုင်မြဲဖြစ်၏။ ရေကူး အလွန် ကျင်လျင်သည်။ အစာဖြစ်သောငါးကို လွယ်ကူစွာနှင့် ငုပ်၍ ဖမ်းနိုင်သည်။ ရေထဲ၌ ၄၅ စက္ကန့်ကျော်ကျော်အထိ ငုပ်နိုင်ပြီးလျှင်၊ တနာရီမိုင် ၂၀ နှုန်းပေါက်အောင် လျင်မြန်စွာ ရေကူးနိုင်သည်။ ရေကူးရာ၌ အတောင်များကို လှော်တက်သဖွယ် အသုံးပြုကြသည်။ ရေထဲ၌ အနေများသော်လည်း သားငယ်များ ပေါက်ဖွားချိန်တွင် ကုန်းပေါ်သို့ တက်လာကြလေသည်။ သို့သော် ဧကရာဇ်ပင်းဂွင်းဟု ခေါ်သော ငှက်မျိုးသည် ကုန်းပေါ်သို့ မည်သည့်အခါမျှမတက်ချေ။သားငယ်များကိုရေခဲပြင်များပေါ်၌သာ ပေါက်ဖွားကြသည်။ ပင်းဂွင်းငှက်များ၏ မျက်စိများသည် အလင်းကို အလွန်သိလွယ်ပေသည်။ အလင်းရောင် အများအနည်းကိုလိုက်၍ မျက်စိသူငယ်အိမ်ကို ချဲ့နိုင်ချုံ့နိုင်သည်။

ပင်းဂွင်းငှက်တို့သည် ကုန်းပေါ်တွင် အုပ်ဖွဲ့ကာ နေထိုင်တတ်သည်။ ကုန်းပေါ်တွင် အလွန်ကျပ်တည်းစွာ နေထိုင်ကြသဖြင့် အသိုက်များလုပ်ရန် နေရာလွတ်ပင် မရှိတတ်ချေ။ အဖိုနှင့် အမသည် ပုံပန်းသဏ္ဍာန်ချင်းတူကြသည်။ ဖို မ မိတ်လိုက်ပုံမှာ ဆန်းပြားသည်။ အဖိုသည် မိမိကြိုက်နှစ်သက်သော အမကိုရွေးချယ်၍ ကျောက်စရစ်ခဲတလုံးကို ချီလာကာ လက်ဆောင်အဖြစ် အမ၏ ခြေနှစ်ချောင်းကြားတွင် ထားလိုက်သည်။ ထိုအခါ ငှက်မသည် သဘောတူလျှင် လက်ခံသည်။ သဘောမတူရှိလျှင်၊ အဖို၏ ဦးခေါင်းကို နှုတ်သီးဖြင့် ပေါက်တတ်သည်။ ဖိုနှင့်မတို့ ကြင်ဖော်ကြင်ဖက်ဖြစ်လာလျှင်၊ အချင်းချင်းကို အဝေးမှနေ၍ မြင်ရရုံဖြင့် ကောင်းစွာ မှတ်မိကြသည်။

အသိုက်များကို လဟာပြင်၌ရင်း၊ ကျောက်ဆောင်များအကြား၌ရင်း တုတ်၊ ကျောက်စရစ်ခဲ၊ မြက်ပင်များဖြင့် ပြုလုပ်ကြသည်။ မြေညီ၌ပင် ကောင်းစွာ လမ်းမလျှောက်နိုင်သော်လည်း၊ မြင့်မားသော ရေခဲတောင်များပေါ်သို့

မှ အသိုက်များလုပ်ရန် တက်ရောက်ကြသည်ဟု သိရသည်။ ကေရာင်ပင်းဂွင်းအမများသည် ရေခဲတုံးပေါ်၌ မတ်မတ်ရပ်၍ပင် ဥများအုကြ၊ ဝပ်ကြလေသည်။ ကေရာင်ပင်းဂွင်းများသည် ဥများကို မိမိတို့၏ ဝမ်းပိုက်ရှိ အိတ်များတွင်ထည့်ထားကြသည်။ တကြိမ်လျှင် ဥတလုံးသာအုကြသော်လည်း အချို့ပင်းဂွင်းငှက်မျိုးသည် တကြိမ်လျှင် ၂ လုံးမှ ၃ လုံးအထိ အုကြသည်။ ဥ၏ အရောင်မှာ အဖြူရောင်သော်ငြင်း၊ စိမ်းလဲ့လဲ့သော်ငြင်း ဖြစ်သည်။

ငှက်ဖိုသည် သားငယ်တို့ကို စောင့်ရှောက်တတ်၏။ ငှက်ငယ်တို့သည် မျက်စိမမြင်ကြချေ။ ထိုပြင် ရက်သတ္တပတ်ပေါင်းများစွာကြာသည့်အတွင်း ဘာမျှမလုပ်တတ်ကြချေ။ မိဖတို့က မိမိတို့စားထားသော အစာများကို အန်ထုတ်၍ ငှက်ငယ်တို့ကို ကျွေးကြသည်။ ပင်းဂွင်းငှက်တို့၏ အစာသည် ငါးဖြစ်သည်။

အေးသော ဒေသ၌ နေထိုင်သော်လည်း၊ ပင်းဂွင်းငှက်တို့သည် အအေးမမိနိုင်ကြချေ။ အဘယ်ကြောင့်ဆိုသော် ယင်းတို့၏ အတောင်များမှ အဆီတမျိုးကို ထုတ်ပေးသောကြောင့် ဖြစ်သည်။ ထိုပြင် အရေပြားအောက်၌ အဆီတထပ်ရှိကြလေရာ၊ အဆီသည် ခန္ဓာကိုယ်ကို နွေးစေသည်။ အတောင်များ၌ အကြေးခွံကဲ့သို့သော အရေခွံများ ပါရှိ၏။ ထိုပြင် အတောင်ပံအရိုးများသည် ပြားလျက်ရှိသဖြင့်၊ ကောင်းစွာ ယက်နိုင်ခတ်နိုင်သည်။ ရင်အုပ်အမွေးများသည် ပျော့ပျောင်း၍ ငွေရောင်ထနေသည်။



မြေပေါ်၌ လူကဲ့သို့ မတ်မတ်ရပ်၍သွားနိုင်သော ပင်းဂွင်းငှက်မောင်နှံ

ထိုငှက်များသည် အပျော်အပါးကို နှစ်သက်ကြ၏။ တခါတရံ ရွေ့ရှားလျက်ရှိသော ရေခဲတုံးများကို အပျော်သက်သက်စီးတတ်ကြသည်။ အုပ်ဖွဲ့၍လည်း ရေကူးတတ်ကြသေးသည်။ အချို့ပင်းဂွင်းငှက်များသည် ခိုးတတ်သည်။ အသိုက်လုပ်ထားသောကျောက်ခဲများကို ခိုးယူလေ့ရှိကြသည်။

ပင်းဂွင်းငှက်များကိုဖမ်း၍ မွေးမြူရန် မလွယ်ကူချေ။ အဘယ်ကြောင့်ဆိုသော် ဆောင်းရာသီများ၌ အဆုတ်ပြွန်ရောင်နာ ဖြစ်တတ်ခြင်းကြောင့်တည်း။ အရွယ်ရောက်ပြီး ပင်းဂွင်းငှက်များသည် ယင်းတို့ကို အနှောင့်အယှက်ပြုလျှင်၊ နှုတ်သီးဖြင့် ဆိတ်လေ့ရှိကြသည်။ ပင်းဂွင်းငှက်တို့သည် ရှေးအခါမှစ၍၊ လူနှင့်တွေ့ရခဲသည့် ဒေသများတွင်သာ နေထိုင်လာခဲ့ကြသဖြင့်၊ လူကို ကြောက်ရွံ့ခြင်းလည်း မရှိကြချေ။

**ပင်းတယ။** ။ရှမ်းပြည်တောင်ပိုင်းရှိ ပင်းတယနယ်သည် ၇၅ စတုရန်းမိုင်ခန့်ကျယ်သော နယ်ဖြစ်သည်။ အနောက်ဖက်တွင် ရေငံနယ်၊ မြောက်ဖက်တွင် ရပ်စောက်နယ်၊ အရှေ့ဖက်တွင် ညောင်ရွှေနယ်၊ တောင်ဖက်တွင် ပွေးလှနယ်တို့ ဝိုင်းရံလျက်ရှိသော ကုန်းမြင့်လွင်ပြင်ပေါ်တွင် တည်ရှိနေသည့် နယ်ဖြစ်သည်။

ပင်းတယနယ်၏ အရှေ့ဖက်ပိုင်းသည် ကုန်းမြင့်လွင်ပြင်ကြီးကဲ့သို့ဖြစ်လျက်ရှိ၍ ပေ ၃,၀၀၀ ကျော်မြင့်သည်။ အနောက်ပိုင်းတွင်ပေ ၅,၀၀၀ ကျော်မြင့်သောတောင်တန်းကြီးတည်ရှိနေသည်။ ဧရာဝတီ၏ မြစ်လက်တက်ဖြစ်သော ဇော်ဂျီမြစ်သည် ပင်းတယနယ်အရှေ့ပိုင်းကို တောင်မှမြောက်သို့ ဖြတ်၍ စီးဆင်းသည်။ပင်းတယနယ်၏ အလယ်ပိုင်း၌တောင်မှ မြောက်သို့ ဖြတ်သန်းစီးဆင်းသောမြစ်ဝှမ်း၌ ပင်းတယမြို့တည်ရှိသည်။

၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ ပင်းတယနယ်၏ လူဦးရေသည် ၁၃,၁၃၉ ယောက်ရှိ၍ ဓနုတောင်သူ၊ တောင်ရိုး၊ရှမ်း၊ မြန်မာ၊ အင်းသား၊ ပလောင်နှင့်လူမျိုးခြားအနည်းငယ်ရှိသည်။

ပင်းတယဟူသော အမည်ရရှိပုံကို ပင်းတယမြို့ သမိုင်း၌ဤသို့အဆိုရှိသည်။ ယခုညောင်ရွှေနယ် တည်ရာဖြစ်သော ဗာရာပြည်မင်းကြီး၏သား ကုမ္ဘာဘယမင်းသားသည် တောကစားရန် အနောက်နဂါးပတ်တောင်သို့ ထွက်အလာ နဂါးကို ဂဠုန်ချီသည်ကို တွေ့သဖြင့် ဂဠုန်အား လေးဖြင့်ခွင်းလေသည်။ ဂဠုန်သည်သေ၍ ဘဝကူးသော် အလွန်ကြီးသော ပင့်ကူကြီးဖြစ်လာသည်။ ယင်းပင့်ကူကြီးသည် တောင်ခြေရှိ ရေကန်သို့ ရေကစားလာသော ငွေတောင်နတ်မင်းကြီး၏ သမီး ခုနစ်ဖော်ကို ကျောက်ဂူတွင်းပိတ်၍ ဖမ်းထားသည်ကို မင်းသားမြင်ပြန်၍ ပင့်ကူကို မြားဖြင့် ပစ်သတ်ပြန်သည်။ ပင့်ကူသေ၍ မင်းသားသည် 'ရပြီ' ဟု သုံးကြိမ်အော်သည်ကို

စွဲ၍ ပင့်ကူရတွင်က ပင့်ကူရမှ ပင်းတရ၊ ထိုမှ ပင်းတယဟု ဖြစ်လာသည်ဟု ဆိုကြသည်။ သို့သော် ပင်းတယအမည်မှာ ယင်းဒေသကို ဝင်ရောက်သော ရှမ်းများပေးသည့် အမည်ဖြစ်၍ အထက်ပါပုံပြင်နှင့် သက်ဆိုင်မည် မထင်ပေ။



ပင်းတယမြို့ အနောက်တောင် တမိုင်ကွာ တောင်စောင်းပေါ်တွင် စောင်းတန်းအသွယ်သွယ်ဖြင့် တင့်တယ်စွာရှိသော ရွှေဥမင်ဘုရား

ပင်းတယနယ်၏ ရုံးစိုက်မြို့သည် ပင်းတယမြို့ ဖြစ်သည်။ ပင်းတယမြို့သည် တောင်တန်းကြီး၏ ခြေရင်းတွင် တည်ရှိ၍ အလွန်ရှုခင်းလှသည်။ မြို့အဝင်တွင် ရှေးအခါက နာဂပတ္တန် ပုတ္တလုတ်ကန်ခေါ်သော ပင်းတယကန်ကြီးသည် ညောင်ကြတ်ပင်တန်းများ၏ အရိပ်အောက်၌ တင့်တယ်စွာရှိနေသည်။ ပင်းတယမြို့ အနောက်တောင်ဖက် ယွန်းယွန်း တမိုင်ခန့်အကွာ တောင်စောင်းပေါ်တွင်မူ စောင်းတန်း အသွယ်သွယ် ရွှေရောင်တဝင်းဝင်းဖြင့် ရွှေဥမင်ဘုရားရှိသည်။ ရွှေဥမင်ဘုရား၏ ကျောက်သားဥမင်ကြီးအတွင်း၌ ဘုရားဆင်းတုတော်များ လက်ညှိုးညွှန် မလွဲအောင် များပြား လှသည်။ ဂူဝတွင် ဥဘဏ်တော် အတောင် ၅၀ ခန့်ရှိသော စေတီကြီးတဆူရှိသည်။ ဂူနံရံနှင့် မျက်နှာကြက်များတွင် ကျောက်သားဟူ၍ တလက်မမျှမကျန်အောင် ရုပ်ပွားတော်များ ထုထားသည်။ ဥမင်အတွင်း၌ ဘုရားစေတီများအပြင် ဆင်ချေတိုင်၊ မြင်းချေတိုင်၊ နတ်သမီး ရက်ကန်းစင် စသည်ဖြင့် ခေါ်နေကြသည့် ကျောက်စက်မိုးမျှော်နှင့် ကျောက်စက်ပန်းဆွဲများရှိသည်။ ကျောက်ဂူ နံရံများမှ ရေများ တစိမ့်စိမ့် ထွက်၍ တင်နေသော နေရာကို နတ်ရေကန်ဟု ခေါ်ကြသည်။ ယင်းဂူ၏ သတ္တမခန်းတွင် ပုဂံပေါက်ခေါ် ပုဂံပြည်သို့ တိုက်ရိုက်ပေါက်သည်ဟု ဆိုကြသော ဂူပေါက်ကျဉ်းကလေး တခုရှိသည်။ ဥမင်ကြီးတခုလုံးကို ယခုအခါ လျှပ်စစ်ဓာတ်မီးများဖြင့် ထွန်းညှိပူဇော်ထားသဖြင့် ရှေးအခါက ရေနံမီးအိမ်ဖြင့်သွားရသကဲ့သို့ မလင်းတလင်းစမ်း၍ မသွားရတော့ချေ။ ပင်းတယ ရွှေဥမင်ဘုရား၏ မူလ ဒါယကာသည် ဓမ္မာသောက မင်းကြီး ဖြစ်သည်။ ပေါင်း ၈၄,၀၀၀ ကို ရည်စူး၍ စေတီပေါင်း ၈၄,၀၀၀ တည်ထား ပူဇော်သော သီရိဓမ္မာသောကမင်းကြီးဟု သမိုင်းအဆိုရှိကြသည်။ ထိုနောက် ပုဂံပြည်မှ အလောင်းစည်သူမင်းကြီးက ရွှေဥမင်ဘုရားကို ထပ်မံပြုပြင် ပူဇော်ခဲ့ပြန်သည်ဟု ဆို၏။ သို့သော် ဂူတွင်းရှိ ဆင်းတုတော် စသည်တို့၏ လက်ရာတို့မှာ ရှေးကျလှခြင်း မရှိပေ။ ပုဂံခေတ်ဟု ခေါ်နိုင်သည့် အထောက်အထား ပစ္စည်းများကို အင်းလေးနှင့် ရပ်စောက်တို့တွင် တွေ့ရှိရသည်ဖြစ်၍ ရွှေဥမင်ဂူကိုလည်း ပုဂံခေတ်ကဟု ခန့်မှန်းနိုင်ပေမည်။

ပင်းယမြို့။ ။မြန်မာနိုင်ငံ ရှမ်းခေတ်အတွင်း ပင်းယမင်း ခြောက်ဆက်တို့ စိုးစံခဲ့သော နေပြည်တော် ဖြစ်သည်။ ပင်းယမြို့ကို စ၍ တည်ခဲ့သူမှာ ရှမ်းမင်း အဆက်အနွယ်တဦး ဖြစ်သော တစီးရှင်ဘွဲ့ခံ သီဟသူ ဖြစ်သည်။

ဘိန္နက(ပြောရှမ်း) မျိုးဖြစ်သော သိခ်ဗိုလ်သည် နောင်တော်ဘိန္နက စော်ဘွားနှင့်မသင့်၍ မြန်မာနိုင်ငံသို့ ပြေးလာပြီးလျှင် မြင်စိုင်းအရပ်တွင် နေသည်။ ယင်းတွင် သားသုံးယောက်ရှိရာ ပုဂံပြည့်ရှင်တရုပ်ပြေးမင်း နရသီဟပတေ့ထံတွင် အမှုထမ်းစေသည်။ ထိုမင်းလွန်သောအခါ သားတော်ကျော်စွာ (ဒလစား) မင်းထံ ဆက်၍ အမှုထမ်းကြသည်။ ထိုမင်းလက်ထက်တွင် အကြီး အသင်္ခယာအား မြင်စိုင်းမြို့၊ အလတ် ရာဇသင်္ကြန်အား မက္ခရာမြို့၊ အငယ် သီဟသူအား ပင်လယ်မြို့ကို အသီးအသီးပေးသနားထားသည်။ (မြင်စိုင်းမြို့၊ မက္ခရာမြို့ — ရှု။)

ကာလရှည်ကြာလတ်သော် ရှမ်းညီနောင် သုံးဦးတို့သည် အလုံးအရင်း အခိုင်အမာနှင့် ဖြစ်လာသည်။ ထိုအချိန်တွင် ပုဂံမင်းကျော်စွာသည် မိထွေးတော် မိဖုရား ဖွားစောအား အတိုင်ပင်မရှိ၊ မေ့ကျန်နေခဲ့သည် များသောကြောင့် ဖွားစော စိတ်နာကြည်းသည်။ ထိုကြောင့် သက္ကရာဇ် ၆၆၀ ပြည့်နှစ်တွင် ဖွားစောသည် ရှမ်းညီနောင် သုံးဦးနှင့် တိုင်ပင်ကြံစည်ပြီးလျှင် ကျော်စွာမင်းကို နန်းမှချသည်။ ထိုညီနောင်သုံးဦးသည် မြင်စိုင်း၌ နေမှတ်မူ၍ မိမိတို့ဆိုင်ရာ မြို့အသီးအသီးတွင် မင်းပြိုင်ပြုကြသည်။ ပုဂံတွင်ကား ကျော်စွာ၏ သား စောနစ်ကို ဆက်၍ အုပ်စိုးစေသော်လည်း ရှမ်းညီနောင်တို့၏ သြဇာခံမျှသာဖြစ်သည်။

ရှမ်းညီနောင်တို့ မင်းပြိုင်ပြုကြ၍ ငါးနှစ် အကြာတွင် မက္ခရာမင်း ရာဇသင်္ကြန် အနိစ္စရောက်သည်။ ၆၇၂ ခုနှစ်တွင် နောင်တော်ကြီး အသင်္ခယာကို ညီတော် သီဟသူ အဆိပ်ဆေးဖြင့် လုပ်ကြံ၍ ကံကုန်သည်။ ထိုအခါ သီဟသူသည် နောင်တော်များ၏ ပိုင်နက်များကို သိမ်းယူ၍ အထီးတည်း မင်းပြုလေသည်။

သီဟသူသည် ပင်လယ်မြို့တွင် မင်းပြုစဉ်ကပင် မြို့သစ်

တည်အံ့ဟု နေရာရှာခဲ့သည်။ ပဌမအကြိမ် အင်းဝမြို့ တည်ရာကို ရွေးသည်။ ကိန်းခမ်းမသင့်၍ မြို့တည်မရပေ။ နောင်တော်တို့ လွန်ပြီးနောက်တွင် အင်းဝနေရာတွင်ပင် အရပ်အနေတမျိုးပြောင်း၍ မြို့တည်ရန် နှစ်ကြိမ်တိုင်တိုင် စီရင်ပြန်သည်။ နှစ်ကြိမ်တိုင်တိုင် ပျက်လေသည်။

ထိုကြောင့် သီဟသူက ထိုအကြောင်းကို တပေါင်နာစေသော် (ထောင်းလည်း လျှင်လျှင်ထောင်း၊ ယောင်းလည်း လျှင်လျှင်ယောင်း၊ အရေးမသာ ဒက္ခိဏာသို့ပြောင်း) ဟု တပေါင်မောင်း မြည်သည်၊ တပေါင်အလိုမှာ သာသနာစောင့်နတ်တို့က ထိုအရပ်တွင် မြို့ မတည်စေလို။ တောင်အရပ်သို့ပြောင်း၍ တည်စေလိုသောကြောင့် အနှောင့်အရှက် ပြုခြင်းဖြစ်သည်။ ယင်းသို့ကြောင့် အင်းဝတည်ရာသန်လျက်ကျွန်း၏ တောင်ဖက်၊ သင်ပန်းအရပ်သို့ ပြောင်းစေသည်။

မြို့ရာကြည့် အရပ်ကနေပြီးလျှင်၊ ရွှေစည်းခုံဘုရားရှင် မြေကို တူးစေသော်၊ အရိုးအခက် အရွက်အသီးနှင့်တကွ ရွှေအဆင်းရှိသော ပန်းပင်ကို ရသည်။ ယင်းသို့ကြောင့် ဤအရပ်ကား မင်းဝံတောင်ညွန့်လည်း ဖြစ်သည်။ မြတ်သောကျေးဇူးနှင့်လည်း ပြည့်စုံရာသည်။ ထိုအရပ်၌ပင် မြို့တည်အံ့ဟု သက္ကရာဇ် ၆၇၄ ခု၊ တပေါင်းလဆန်း ၁၅ ရက်၊ ဗုဒ္ဓဟူးနေ့တွင် နန်းမြို့၊ ကျုံး၊ ရွှေဂူဘုရား၊အတွင်းရွှေကျောင်း၊ထောက်ရှည်ကန်၊ ကန်လှ ယင်းခုနစ်ဌာနကို တချိန်တခါတည်း တည်တော်မူသည်။

မြို့ရာကြည့်သောအခါ ရွှေပန်းရသောကြောင့် ပန်းရဟုတွင်သည်။ ရှည်ကြာသော် ပင်းယဟု ခေါ် ဝေါ် ရေးမှတ်ကြသည်။ မဏိ ကုဏ္ဍလဋ္ဌလည်း (စကိုင်း ပံယာဝ ပုရေသု) ဟူ၍ရင်း၊ ပင်းယမိဖုရား ဥမ္မာဒန္တီကျောင်း၊ ကျောက်စာ ဂါထာဋ္ဌလည်း (ပမျှာဘိဓာန နဂရေ) ဟူ၍ရင်း ရှေးဆရာတို့ ဖွဲ့ဆိုသည့် ကျောက်စာများနှင့်လည်း ပင်းယဟု ခေါ် ဝေါ် ရေးမှတ်သော စကားသည် ညီသည်။ ဝိဇယပူရဟု မြို့ကိုလည်း သမုတ်တော်မူသည်။

မြို့နန်းတည်ပြီးလျှင် နန်းဖွင့်နန်းသိမ်း အစီအရင်ကို မသိကြကုန်သောကြောင့် ပုဂံ မိဖုရား ဖွားစောကို ချီပင့်လေသော်၊ ပြော့သားတို့ ကောင်းစားသည် ကြာပြီ။ ယခုမှ ငါ့ကို ခေါ် သည်ဆို၍ မလိုက်ဘဲ နေသည်။ သီဟသူမင်းက ကျေနပ်လောက်အောင် တောင်းပန်လေမှ ရွှေဘောင်စီး၍ လိုက်လာလျှင် မင်းကြီး ကိုယ်တော်တိုင် ခြေလျှင်ဆီးကြို၍ တံကျစ်ကြိုးနှင့် ဘောင်တော်ကို ငင်ရသည်။

ရှင်မိဖုရား၏ အစီအရင်ဖြင့် နန်းဖွင့်မင်္ဂလာ၊ ထီးဆောင်းမင်္ဂလာ၊ ဘိသိက်မင်္ဂလာတို့ကို တချိန်တည်း ကြီးကျယ်ကျနစွာ ဆင်ယင်လေသည်။ မိဖုရားဖွားစောလည်း နန်းဖွင့်သဘင်သည် ပုဂံပြည်မှာကဲ့သို့ပင် မှူးမတ်ဗိုလ်ပါ ထူထပ်များပြားသည်။ ဘုန်းတန်ခိုး ကြီးပေစွဟု ချီးမွမ်းပြီးလျှင် ငါ့တွင်ဆုပေးစရာမရှိခဲ့ဟုဆို၍ နော်ရထာမင်းစော လက်ထက်ကပင်ရှိသော ရွှေသောက်ရေတင်နှင့် ရွှေခါးကြိုးကို ပေးခဲ့သည်။ သီဟသူမင်းကြီးက မိဖုရားဖွားစောကိုလည်း များပြားစွာ ပူဇော်ပေးကမ်း၍ ပုဂံသို့ ပြန်ပို့လေသည်။

နောင်သုံးနှစ်အကြာ ၆၇၇ ခုနှစ်တွင် သီဟသူသည် သားတော် လေးပါးအနက် အငယ်ဆုံး အသင်္ခယာစောယွမ်းအား စစ်ကိုင်းမြို့ တည်စေ၍ သီးခြား မင်းပြုစေသည်။

ပင်းယတွင် သီဟသူမင်းမှစ၍ (၂) ဥဇနာ၊ (၃) ငါးစီးရှင်ကျော်စွာ၊ (၄) ထိုမင်း၏သားတော် ကျော်စွာ၊ (၅) နရသူနှင့် (၆) ဥဇနာပြောင်ဟူ၍ မင်း ခြောက်ဆက် စိုးစံခဲ့သည်။ နရသူ၏ လက်ထက်၊ စစ်ကိုင်းတွင် မင်းရိုးမဟုတ်သူမင်းပြောက် စိုးစံနေသည်ကို နရသူက မရှုစိမ့်ပေ။ ထိုကြောင့် မိုးကောင်း မောရှမ်းမင်းအား စစ်ကိုင်းကို တိုက်ရန် ချီပင့်သည်။ မိုးကောင်းစော်ဘွား သိုဟန်ဘွား၏ညီ သိုချည်ဘွားသည် ၇၂၆ ခုနှစ်တွင် စစ်ကိုင်းကို တိုက်၍ စစ်ကိုင်းပျက်လေသည်။ သို့သော် မင်းပြောက်နှင့်တကွ တမြို့လုံးကြခတ်ဝရာသို့ ပြေးလေ၍ လူသူဆင်မြင်း ပစ္စည်းဘဏ္ဍာကို ရှမ်းတို့မရလေ။ ထိုကြောင့် သိုချည်ဘွားမကျေနပ်၍ ပင်းယကို ပြန်တိုက်လေသည်။ ပင်းယပျက်လျှင် နရသူကိုဖမ်း၍ မောပြည်သို့ပြန်သည်။ ထို့ကြောင့် မောပါနရသူဟု နောင်အခါ ခေါ်တွင်သည်။

နရသူမရှိလျှင် နောင်တော် ဥဇနာပြောင် မင်းပြုသည်။ သို့သော် အသင်္ခယာစောယွမ်း၏ မြေးဖြစ်သော သတိုးမင်းဖျားသည် ကြခတ်ဝရာတွင် ရှိနေရာ၊ စစ်ကိုင်းမှ ပြေးလာသော မင်းပြောက်ကိုရင်း၊ ပင်းယဥဇနာပြောင်ကိုရင်း လုပ်ကြံ သတ်ဖြတ်၍ စစ်ကိုင်းနှင့်ပင်းယကို သိမ်းယူပြီးလျှင် အင်းဝမြို့ကို တည်၍ မင်းပြုလေသည်။ ယင်းသို့ဖြင့် ပင်းယ၊ စစ်ကိုင်းမင်းဆက် ပြတ်လေသည်။

၇၂၆ ခုနှစ် ကဆုန်လတွင် သိုချည်ဘွားတိုက်၍ စစ်ကိုင်းပျက်သည်။ နယုန်လတွင် ပင်းယပျက်သည်။ ယင်းသည်မှစ၍ ပင်းယသည် ပြန်၍မထွန်းကားတော့ချေ။ ယခုအခါတွင် လူဦးရေ ၃၇၉ ယောက် (၁၉၅၄) ခန့်သာရှိသော ရွာသိမ်ရွာငယ်ကလေးမျှသာ ဖြစ်နေသည်။ နေပြည်တော် မြို့ရိုးဟောင်းနေရာတို့ကိုကား တွေ့ရသေးသည်။ ယင်း ပင်းယသည်ကား ယခု စစ်ကိုင်းတိုင်း၊ စစ်ကိုင်းခရိုင် တံတားဦးမြို့နယ်၊ ရှေးအင်းဝမြို့၏ တောင်ဖက် ငါးမိုင်ခန့်အကွာတွင် ရှိလေသည်။

**ပင်းအသူ**။ ။ပင်းအသူဆိုသည်မှာ နားလည်း မကြား၊ စကားလည်း ဆွံ့သူတို့ကိုဆိုလိုသည်။ မွေးသည်ကစ၍ နားပင်းလာသူတို့သည် သူတပါး၏ စကားပြောသံကို မကြား

ဘူးသဖြင့်၊ ဆွံ့အ၍ နေတတ်သည်။ အချို့သော ဆွံ့အသူတို့ကား ဦးနှောက်၌ ထိခိုက်သော ဒဏ်ကြောင့်၊ စကားကို လုံးဝ ပြောရန် မတတ်နိုင်ကြချေ။ စကားပြောတတ်ပြီးမှ သော တာရုံပျက်သဖြင့် နားလေးသူများသည် စကားကိုပြောပင် ပြောတတ်စေကာမူ၊သူတို့၏ စကားသံသည် မှုမမှန်တော့ဘဲ၊ တိုးချည်တခါ၊ ကျယ်ချည်တလှည့်နှင့် ရှိတတ်သည်။ ကြာ လတ်သော် နားလေးသူသည် ဆွံ့အဘိသကဲ့သို့ ဖြစ်သွား တတ်သည်။

၁၆ ရာစုနှစ်အတွင်းတွင် စပိန်လူမျိုး ခရစ်ယန်ဘုန်းတော် ကြီးတပါးသည် နားပင်း ဆွံ့အသူများကို စာရေးတတ် ဖတ် တတ်အောင် သင်ကြားပေးသော ကျောင်းတကျောင်းတည် ထောင်ခဲ့ရာ၊ အထမြောက်လေသည်။ ခရစ် ၁၆၂၀ ပြည့်နှစ် တွင် စပိန်အမျိုးသားတယောက်သည် ပင်းအသူတို့ကိုပညာ သင်ကြားပေးနည်းစာအုပ်တအုပ်ကို ရေးသားထုတ်ဝေခဲ့၏။ အင်္ဂလန်ပြည်၌ကား ဆေးဆရာတဦးက ခရစ် ၁၆၄၇ ခုနှစ် တွင် အလားတူ စာအုပ်မျိုးကို ရေးသားစီရင်ခဲ့သည်။ ပြင်သစ်နိုင်ငံတွင် ခရစ် ၁၇၅၅ ခုနှစ်၌ အက်ဗေ ဒါ လက်ပေ အမည်ရှိသော ဘုန်းတော်ကြီး တပါးက ပင်းအသူများ အတွက် ကျောင်းတကျောင်း တည်ထောင်ခဲ့ရာ၊ ၁၇၉၁ ခုနှစ် တွင် ထိုကျောင်းသည် တမျိုးသားလုံးဆိုင်ရာ ကျောင်းကြီး တကျောင်း ဖြစ်လာလေသည်။ အင်္ဂလိပ်စာပေသမိုင်းတွင် ထင်ရှားသော ဒေါက်တာ ဂျွန်ဆင်၏ လက်ထက်က အင်္ဂလန် ပြည်တွင် ပင်းအသူတို့ အတွက် ကျောင်းကို အက်ဒင်ဗာရာ မြို့၌ ပဌမဦးစွာ တည်ထောင်သည်။ (ဂျွန်ဆင်,ဆယ်မျူ ယယ် — ရှု။) ၁၇၈၅ ခုနှစ်၌ ထိုကျောင်းသည် လန်ဒန် မြို့သို့ ရောက်လာသည်။ ယခုအခါ ဗြိတိန် တနိုင်ငံလုံးတွင် နားပင်းသူတို့အတွက် အထူးကျောင်းပေါင်း ၆၀ ကျော်မျှ ရှိလေသည်။

နားမကြားသူများကို စာသင်ရသည်မှာ မျက်မမြင်များ ကို စာသင်ရသည်လောက်မခက်ပေ။ သူတို့ကို စာရေးပြ၍ သင်လျှင် ဖြစ်နိုင်၏။ အချို့က အက္ခရာ စာလုံးများကိုလက် ချောင်းများဖြင့် သရုပ်ဖော်၍ သင်ပြကြ၏။ ဤသင်ကြား နည်းတွင် အက္ခရာဗျည်းတို့ကို လက်တဖက်တည်းဖြင့်အချက် ပြ၍ နားလည်စေသောနည်း၊ လက်နှစ်ဖက်ဖြင့် အချက်ပြ၍ နားလည်စေသောနည်းဟူ၍နှစ်နည်းရှိ၏။ တခါတရံ အမှတ် အသားလက္ခဏာပြ၍၎င်း၊ အမူအရာလုပ်ပြ၍၎င်း သင်ပေး ကြလေသည်။ ပင်းအနေသော သူများကို နှုတ်ခမ်းလှုပ်ပြ ၍၊ လျှာ အနေအထား ပါးစပ်အဖွင့်အပိတ်တို့ကိုကြည့်ရှုစေ ခြင်းဖြင့်၊ စာဖတ်နိုင်အောင် သင်ကြားပေး၏။ ပင်းအသူအ ချင်းချင်း ဤနည်းဖြင့် စကားပြောနိုင်ကြလေသည်။ ဤသို့ နှုတ်ခမ်းလှုပ်ရှားမှုကို ကြည့်စေ၍ သင်နည်းသည် နောက် ဆုံးပေါ် နည်းဖြစ်သည့်ပြင်၊ ထိုနည်းဖြင့် သင်ကြားလျှင်၊ မွေးကတည်းက ဆွံ့အလာသူများကိုပင်၊ အသံအနည်းငယ် ထွက်၍ စကားပြောတတ်လာအောင် ပြုလုပ်နိုင်သည်ဟုဆို လေသည်။ အ သောသူများသည် စကားမပြောနိုင်သဖြင့်၊ အစဉ်အမြဲ စကားမပြောဘဲ နေယင်းမှ အသံမထွက်ဘဲ၊ လုံးဝ အ၍ သွားတတ်၏။ ဆွံ့အသူများကို ကျောင်းသို့ ပို့ လိုက်သော အခါ၊ ဆရာက ပါးစပ်လှုပ်ရှား၍ စကားပြော နည်းကို တဖြည်းဖြည်း သင်ကြားပြသပေးသည်တွင် အစ ပဌမ၌ အဓိပ္ပါယ်မရှိသော ဝူးဝါးစသည့်အသံများကို ပြုတတ် လာ၏။ ထိုနောက် ပြောလိုသောစကားကို စကားလုံးမကွဲ ဘဲ၊ခြေဟန်လက်ဟန်ပြ၍ အသံထွက်ကာ ပြောတတ်လာ၏။ ထိုနောက် တဖြည်းဖြည်း မပီသသောစကားများကို ပြော တတ်လာ၏။ ထိုနောက် နားထောင်ရသူများ ခန့်မှန်း၍ ရလောက်အောင်ပင် စကား ပြောဆို နိုင်လာလေသည်။ လူကောင်းပကတိကဲ့သို့ ပြောနိုင်သူကား ရှားပေ၏။ ဤသို့ ဆရာ၏ နှုတ်ခမ်းလှုပ်ရှားမှုကို ကြည့်၍ သင်ကြားရသော အခါ၊ မျက်စိကလည်းမမြင်၊ နားကလည်းမကြားသော ဆွံ့ အသူကလေးများမှာမူ၊ ဆရာ၏ လည်ချောင်းနှင့် မျက်နှာ ကိုစမ်းသပ်၍ သင်ယူရ၏။ ဤမျှ ခက်ခက်ခဲခဲနှင့် စိတ်ရှည် လက်ရှည်သည်းခံ၍ သင်ကြားခဲ့ရာ၊ နောက်ဆုံး၌ ထမြောက် အောင်မြင်ခဲ့ကြောင်းကို ဟယ်လင် ကဲလား၏ အဖြစ်သနစ် များက သက်သေခံနေပေသည်။ (ကဲလား, ဒ်ပ် — ရှု။)

ပင်းအသူများကို နှုတ်ခမ်းလှုပ်ပြ၍ လျှာအနေအထား ပါးစပ် အဖွင့်အပိတ်တို့ကိုကြည့်ရှုအတုယူကာ ပြုလုပ်စေခြင်း ဖြင့် သင်ကြားသည့်နည်းသည် ပိုမိုခရီးရောက်ကြောင်း တွေ့ ရှိရ၍၊ ယခုအခါ ထိုနည်းကိုပင် ကျောင်းများ၌ အသုံးပြု လျက် ရှိနေကြ၏။ သို့သော်လည်း ရှေးဦးစွာ တီထွင်ထား သော စာရေးပြ၍ သင်ကြားနည်း၊ လက်ချောင်းကလေး များဖြင့် အက္ခရာပုံဖော်၍ စာလုံးပေါင်း သင်နည်းတို့ကို ကား လုံးဝမပစ်ပယ်ကြသေးပေ။ နှုတ်ခမ်းလှုပ်ပြ၍ လျှာ အနေအထား ပါးစပ်အဖွင့်အပိတ်တို့ကို ကြည့်ရှုအတုယူကာ ပြုလုပ်ခြင်းဖြင့် သင်ကြားမဖြစ်နိုင်သော သူများကို စာရေး ပြ၍ သင်ကြားပေးရသည်။ တခါတရံ နှစ်မျိုးစလုံးတွဲ၍ သင်ပြသင့်သော ကျောင်းသားများကို ထိုအတိုင်းသင်ပြရ ၏။ ကျောင်းသား၏ အခြေအနေကိုကြည့်၍ သင့်တော် သောနည်းများဖြင့် သင်ကြားရလေသည်။ ယခုအခါ ပင်း အနေသူများကို စကားပြောတတ်လာအောင်နှင့် သူတပါး ပြောသည့် စကားကိုလည်း နားလည်အောင်သင်ကြားပေးရုံ သာမက၊ မူလတန်း ကျောင်းများတွင် သင်ရိုးဘာသာရပ် များကိုပင် သင်ကြားပေးလျက်ရှိ၏။ ထို့ပြင် ဖိနပ်ချုပ်ခြင်း၊ အိမ်ထောင်ပရိဘောဂများ ပြုလုပ်ခြင်း၊အင်္ကျီများချုပ်လုပ် ခြင်း စသော အသက်မွေးဝမ်းကျောင်း ပညာရပ်များကို လည်း သင်ကြားပေးလေသည်။ သို့ဖြစ်၍ ပင်းအသူများ

သည် သူတို့တတ်နိုင်သော အလုပ်များတွင် ဝင်ရောက် လုပ်ကိုင်လျက်ရှိနေသည်ကို တွေ့ရပေသည်။ ထိုမှတပါး လောကဓာတ်ပညာမှာ အထူးပင် တိုးတက်ထွန်းကားလာသောကြောင့်၊ အနောက်နိုင်ငံများတွင် နားမကြားသူများ အတွက် နားထဲ၌ထည့်ထားရသော ဓာတ်ခွက် နားကျပ်များ တီထွင်နိုင်ခဲ့လေသည်။ ထိုနားကျပ်များကို ကလေးများ၏ နားထဲ၌ ထည့်ထားစေ၍၊ ဆရာက အသံချဲ့စက်ဖြင့် ပြောဟော သင်ကြား၏။ ထိုကရိယာများ ထားရှိဖို့အတွက် ငွေအမြောက်အမြား အကုန်အကျခံရမည်ဖြစ်ရာ၊ ပင်းအသူများကျောင်း၌ ယင်းတို့ကိုထားရှိ အသုံးမပြုနိုင်ချေ။

**ပေါင်မုန့်။** ။မြန်မာနိုင်ငံကဲ့သို့ ဆန်စားသော တိုင်းပြည်များ၌ ထမင်းသည် တိုင်းရင်းသား လူမျိုးများ၏ အသက်သွေးခဲဖြစ်သကဲ့သို့ ဂျုံစားသော အနောက်နိုင်ငံများတွင် ပေါင်မုန့်သည် တိုင်းရင်းသား လူမျိုးများ၏ အသက်သွေးခဲ ဖြစ်လေသည်။ ဂျုံမှပြုလုပ်ရရှိသော ပေါင်မုန့်သည် ရှေး နှစ်ပေါင်း များစွာကစ၍ ယနေ့တိုင် အနောက်နိုင်ငံသား များ၏ ပဓာနအစာပင်ဖြစ်၏။

မြေအောက်တွင် ရာစုနှစ်ပေါင်းများစွာ မြုပ်နေခဲ့သော ရှေးဟောင်း မြို့ကြီးများကို ပြန်လည် တူးဖော်ကြရာ၌ ရှေးခေတ်လူများ စားသုံးရန် ပြုလုပ်ခဲ့ကြသော ပေါင်မုန့်များကို တွေ့ရှိရလေသည်။ ကျောက်ခေတ်အခါက လူများ မီးဖိုခဲ့သော ပေါင်မုန့်များကိုလည်း အနောက်နိုင်ငံ အချို့ဒေသများ တွင် တူးဖော်ရရှိလေသည်။ ယင်းအထောက်အထားများ အရ ယဉ်ကျေးမှု ရောင်ခြည်သန်းစ ကျောက်ခေတ်အခါ ကပင် လူတို့သည် ပေါင်မုန့်ပြုလုပ်၍ စားရမှန်းသိကြသည်ကို အခိုင်အလုံ သိရှိရ၏။ ကျောက်ခေတ်အခါက လူတို့သည် အလွန်ကြမ်းတမ်းလှသော မုယောဖြင့် ပြုလုပ်ထားသည့် ပေါင်မုန့်များကို စားသည့် အထောက် အထားကို ဆွစ်ဇာလန်နိုင်ငံ အချို့ ဒေသများတွင် တူးဖော်ရာ၌ တွေ့ရှိရလေသည်။ အီဂျစ် နိုင်ငံတွင်လည်း လွန်ခဲ့သော နှစ်ပေါင်း (၅,၀၀၀) ခန့်ကပင် ပေါင်မုန့် အဖုံမျိုးများကို ပြုလုပ်စားသုံးခဲ့ကြလေသည်။ ဂရိနှင့် ရောမနိုင်ငံများတွင်ကား အများပြည်သူတို့ အတွက် ပေါင်မုန့်များ ပြုလုပ်ပေးသော ပေါင်မုန့်ဖိုကြီးများပင် ရှိခဲ့လေသည်။

ဂျုံစေ့ကြိတ်ထားသော ဂျုံမှုန့်ဖြင့် ပေါင်မုန့်ကို အများ အားဖြင့် ပြုလုပ်ကြသည်။ သို့ရာတွင် ဂျုံမရနိုင်သော အခါ ရိုင်းစပါး၊ မုယော၊ မြင်းစားဂျုံ၊ အာလူးနှင့် ပြောင်းဆန် တို့ဖြင့်လည်း ပြုလုပ်ကြသည်။ ရှေးကျသော လူမျိုးများ ကား အလေ့ကျပေါက်သော အသီးအနှံ အသီးဆန်နှင့်



ခေတ်မီသော တိုင်းပြည်များတွင် ပေါင်မုန့်ကို ဤသို့ စက်ဖြင့်ဖုတ်ကြသည်။

သစ်ဥများကို အမှုန့်ကြိတ်၍ ပေါင်မုန့်လုပ်ကြသည်။ အာဖရိကတိုက်မှ လူရိုင်းအချို့သည် မျောက်ဥများဖြင့် ပေါင်မုန့် ပြုလုပ်ကြ၏။ အမေရိကန်ပြည်မှ တိုင်းရင်းသား အချို့တို့ကမူ ဝက်သစ်ချစေ့ဖြင့် ပေါင်မုန့်ပြုလုပ်ကြသည်။ ပေါင်မုန့်များတွင် ဂျုံနှင့် ရိုင်းစပါးဖြင့် ပြုလုပ်သော ပေါင်မုန့်မှာ ပေါ့၍ ပွသဖြင့် စားသုံးရန် အကောင်းဆုံး ဖြစ်လေသည်။

ပေါင်မုန့်များတွင် အချဉ်ဖောက်၍ ပြုလုပ်သော ပေါင်မုန့်မျိုးနှင့် အချဉ်မဖောက်ဘဲ ပြုလုပ်သော ပေါင်မုန့်မျိုးဟူ၍ နှစ်မျိုးရှိသည်။ ရှေးအခါက အချဉ်ဖောက်၍ ပြုလုပ်သော ပေါင်မုန့်မျိုး ပြုလုပ်လိုလျှင် မဖုတ်ရသေးသော မုန့်သားအနည်းငယ်ကို အချဉ်ခံ၍ ပေါင်မုန့်ပြုလုပ်ရန် နယ်ထားသော မုန့်နှစ်ထဲ ရောထည့်၍ ပြုလုပ်ကြသည်။ ယခုအခါ၌မူ တဆေး၊ သို့မဟုတ် မုန့်ဖုတ်ပေါင်ဒါ အနည်းငယ် ထည့်၍ ပြုလုပ်ကြသည်။ အချဉ်ခံ၍ပြုလုပ်သော မုန့်သည် ပွ၍အပေါက်ကလေးများ ဖြစ်လာပြီးလျှင် နူးညံ့သဖြင့် အသုံးများသည်။ သို့ရာတွင် ကြာရှည်ထား၍ မရပေ။ အချဉ်မဖောက်ဘဲ ပြုလုပ်သော ပေါင်မုန့်သည် စား၍ မကောင်းလှသော်လည်း ကြာရှည်ခံ၏။ စစ်သား၊ သင်္ဘောသား၊ ရေကြောင်းခရီးသွားသူများနှင့် လူသူမနီး တောကြီးမြက်မဲသို့ ခရီးသွားရသူများအတွက် ယင်းပေါင်မုန့်မျိုးသည် အလွန် အသုံးကျလှလေသည်။

ရှေးခေတ် အီဂျစ် လူမျိုးများသည် ပေါင်မုန့်အဖြူ အနုစား ပြုလုပ်ရာ၌ ကျွမ်းကျင်သော သူများ ဖြစ်ကြသည်။ အီဂျစ် လူမျိုးတို့သည် ပေါင်မုန့် ပြုလုပ်ရန် မုန့်နှစ်များကို ခြေဖြင့် နှံ့၍ အိုးခွက်လုပ်ရန် ရွှံ့စေးကို လက်ဖြင့် နှံ့သည်ဟုပင် ရေးသည်။ သူတို့သည် ဂျုံ၊ မုယောတို့ဖြင့် ပေါင်မုန့် လုပ်ကြသည်။ ဂျုံဖြင့် ပြုလုပ်သော ပေါင်မုန့်ဖြူ အနုစားကို ယင်းခေတ်က ချမ်းသာသူများသာ စားကြလေသည်။

ပေါင်မုန့်များကို ကျောက်ခေတ်မှစ၍ ပြုလုပ် စားသုံးခဲ့ကြကြောင်း သိရသော်လည်း မည်ကဲ့သို့ ပြုလုပ်သည်ကို အသေအချာ မသိရချေ။ တူးဖော် တွေ့ရှိရသော ကျောက်တုံးများကို ကြည့်၍သာ မှန်းဆ ကြည့်ရ၏။ ကျောက်ခေတ်က ပေါင်မုန့် ပြုလုပ်ပုံမှာ အနှံတမျိုးကို ကျောက်တုံးများပေါ်၌ ထုရိုက် ထောင်းခြေ၍ အမှုန့် ပြုလုပ်ဟန် တူသည်။ ထိုနောက် ယင်းအမှုန့်ကို စေးပိုင်လာသည်အထိ နယ်ပြီးလျှင် ပူအောင် ပြုလုပ်ထားသော ကျောက်တုံးပေါ်၌ တင်၍ ပြာပူများဖြင့် ဖုံးအုပ်ကာ ကျက်အောင် ဖုတ်သည်ဟု ယူဆရသည်။

ထိုမှတဆင့် တိုးတက်လာသော မုန့်ဖုတ်နည်းမှာ အမေရိကန်ပြည် တိုင်းရင်းသား လူမျိုးတို့ ယခုထက်တိုင် သုံးလျက် ရှိသောနည်း ဖြစ်သည်။ ဝက်သစ်ချစေ့မှ အဆန်ကို ထုတ်၍ နေလှမ်းပြီးနောက် ခြောက်သောအခါ ကျောက်တုံးဖြင့် ကြိတ်၍ရင်း၊ ဆုံတွင် ထောင်း၍ရင်း အမှုန့် ပြုလုပ်လေသည်။ ထိုနောက်မှ အမှုန့်များကို စေးပိုင်လာသည်အထိ နယ်၏။ နယ်ပြီးသား မုန့်ကို မြေထဲရှိ တွင်းတခု၌ ဖြစ်စေ၊ မြေပြင်ပေါ်ရှိ ဖိုတခု၌ ဖြစ်စေ ထည့်၍ အလယ်တွင် ကျောက်တုံးပူပူတခု ထားကာ ဖုတ်သည်။ အခြားတနည်းမှာမူ နယ်ပြီးသား မုန့်ကို ဖက်ဖြင့် ထုပ်၍ရင်း၊ လိပ်၍ရင်း မီးကျီးခဲများ အလယ်သို့ ထိုးသွင်းပြီး ဖုတ်နည်း ဖြစ်သည်။

ရှေးစပိန် လူမျိုးများကား နေလှန်းထားသော ရွှံ့ခဲများဖြင့် ပျားအုံသဏ္ဍာန် မီးဖိုများ ပြုလုပ်ပြီးလျှင် ပေါင်မုန့်ဖုတ်ကြသည်။ ခရစ် မပေါ်မီ နှစ်ပေါင်း များစွာကမူ လက်လှည့် မုန့်ကြိတ်ဆုံနှင့် ပေါင်မုန့်ဖိုကို ရောမ လူမျိုး ဂရိ လူမျိုးတို့ အိမ်တိုင်းတွင် တွေ့မြင်ရလေသည်။ ဘီ-စီ ၂၀၀ ခန့်တွင်ကား ရောမ မြို့တော်တွင် အများ ပြည်သူတို့အတွက် ပေါင်မုန့်များ ပြုလုပ် ရောင်းချသော ပေါင်မုန့်ဖိုများ ရှိခဲ့ကြောင်း အထောက်အထားများ တွေ့ရသည်။ ပေါင်မုန့်များ ပြုလုပ် ရောင်းချရာ၌ လိုက်နာရန် ဥပဒေစည်းမျဉ်းများကိုလည်း ပြဋ္ဌာန်းထားလေသည်။ အလယ်ခေတ်တွင်ကား မြေရှင်ကြီးများ၏ အိမ်များ၌သာ မုန့်ကြိတ်စက်နှင့် ပေါင်မုန့်ဖိုများ ရှိသည်။ အနီးအနား တဝိုက်မှ ဆင်းရဲသား လယ်သမားများသည် မိမိတို့ ဝမ်းစာအတွက် မြေရှင်များပိုင်သော ပေါင်မုန့်ဖိုများ၌ သွားရောက်၍ ပေါင်မုန့် ဖုတ်ရလေရာ အခအဖြစ်ဖြင့် ကောက်ပဲ သီးနှံနှင့် ပေါင်မုန့်အချို့ကို ဝေစုခွဲပေးရလေသည်။

ကာလကြာလတ်သော် မုန့်ကြိတ်နည်း ဖုတ်နည်းများသည်လည်း တိုးတက် ကောင်းမွန်လာသည်။ မြို့များတွင် အရပ်သားများ စုပေါင်း ပိုင်ဆိုင်သော ရပ်ကွက်ပိုင် ပေါင်မုန့်ဖိုနှင့် မုန့်ကြိတ်စက်များကို တည်ထောင်လာကြ၏။ အရပ်သားများသည် မိမိတို့ ရပ်ကွက်ရှိ ဖိုသို့ သွား၍ ပေါင်မုန့်များ ဖုတ်ကြသည်။ အချို့သည် အိမ်၌ ကြိတ်ပြီးသား မုန့်နှစ်များကို ပေါင်မုန့်ဖို ရှိရာသို့ ယူသွား၍ မုန့်ဖုတ်ကြသည်။ ယခုခေတ်တိုင်အောင် အနောက် နိုင်ငံ အချို့ နယ်ပယ်ဒေသများတွင် တောင်သူလယ်သမားများသည် ထိုစံနစ်ကို လိုက်နာလျက် ရှိကြလေသည်။ သံမီးဖိုများ ပေါ်ပေါက်လာသောအခါမှ မိမိတို့၏ အိမ်တွင် ပေါင်မုန့်များ ပြုလုပ်စားသောက်သည့် အလေ့အထ ဖြစ်ပေါ်လာလေသည်။

ယခုခေတ်တွင် ထို့ထက် တိုးတက်လာပုံကား ဂျုံစေ့ကြိတ်သည်မှ ပေါင်မုန့် ဖြစ်သည်အထိ လက်ဖြင့် အလျှင်းမထိရဘဲ စက်ဖြင့်သာ လုပ်ကိုင်နိုင်လေပြီ။ စက်မှု လက်မှု ထွန်းကားသော အနောက် နိုင်ငံများတွင် ပေါင်မုန့် ပြုလုပ်သည့် စက်ရုံများ အမြောက်အမြား ရှိသည်။ အမေရိကန်

ပြည်ထောင်စုတွင်ကား ပေါင်မုံ့ လုပ်ငန်းမှာ အလွန် ကြီး ကျယ်၍ အစားအသောက်ဆိုင်ရာလုပ်ငန်းများတွင် ဒုတိယ အကြီးဆုံး ဖြစ်လေသည်။

ရှေးအခါက ဂျုံမှုန့် ကြိတ်ခြင်းနှင့် ပေါင်မုံ့ ဖုတ်ခြင်းကို အမြဲတန်း ပူးတွဲထားသော်လည်း ယခုအခါ ဂျုံမှုန့်ကြိတ် သည့် လုပ်ငန်းနှင့် ပေါင်မုံ့ဖုတ်သည့် လုပ်ငန်းမှာ တခြားစီ ဖြစ်သည်။ စက်ရုံကြီးများ၌ ပေါင်မုံ့ ပြုလုပ်ပုံမှာ အလွန် ပင် စံနစ်ကျလေသည်။ ရှေးဦးစွာ ဂျုံမှုန့် အမျိုးမျိုးကို ဝယ်ယူ၍ စက်ရုံ အပေါ်ထပ်တွင် အသုံးမပြုမီ လအနည်း ငယ် တင်ကြို သိုလှောင်ထားသည်။ အသားကျသွားသော အခါမှ အမျိုးအစား အလိုက် တူရာတူရာ စက်ဖြင့် ရောစပ် ပေး၍ သီးခြားရုံများ၌ သိုလှောင်ထားလေသည်။ အသုံး ပြုရန် အချိန် ကျသောအခါ ရောစပ်ထားသော ဂျုံမှုန့် များကို စက်ဆန်ကာများဖြင့် အတုံးအခဲ အမှိုက်သရိုက် များ ဖယ်ထုတ်လေသည်။

စက်ဆန်ကာမှ ကျသော ဂျုံမှုန့်ကို လိုအပ်သလောက် ချိန်တွယ်၍ နယ်သည့် စက်ထဲသို့ ချပေး၏။ ထိုစက်ထဲသို့ ရောက်လျှင် လိုအပ်သည့် အပူချိန်ရှိသော ရေကို စက်ဖြင့် ထည့်ပေးလေသည်။ ဤအဆင့်တွင် တဆေး၊ သို့မဟုတ် အချဉ်ပေါက်စေသော ဆေးမှုန့် တမျိုးမျိုးနှင့် သကြား၊ ဆားတို့ပါ ထည့်ရသည်။ ပို၍ အရသာ ကောင်းစေလိုလျှင် နို့ဆီ၊ နို့မှုန့် တို့ကိုပါ ထည့်ပေးရလေသည်။ ထိုသို့ ထည့် ပြီးသောအခါ သံမဏိ စက်မောင်းကြီးများက ရောစပ် ထားသော အမှုန့်များ အကုန်လုံးသမ၍ စေးပိုင်လာသည် အထိ နယ်ပေးသည်။

နယ်ပြီးသော မုံ့နှစ်များကို တဖန် 'မုံ့နှစ်အခန်း' သို့ ပို့လိုက်၍ မုံ့နှစ်များ အချဉ်ပေါက်ကာ ပေါ့ပြီး ပွလာ သည်အထိ ထားလေသည်။ မုံ့နှစ်များမှ အငွေ့အသက် များ ထွက်၍ မုံ့များ တော်တော် ပွလာသောအခါ ပေါင် မုံ့တလုံးစာ တလုံးစာ မုံ့နှစ်များကို စက်ဖြင့် ညီညီညာ ညာ ခွဲပေးလေသည်။ ခွဲထားသော မုံ့နှစ်များကို စက်ဖြင့် ပေါင်မုံ့ပုံ လောင်းပေး၍ ဒုတိယ အကြိမ် မုံ့ပွအောင် ပြု လုပ်သည့် အခန်းသို့ ပို့ရပြန်သည်။

ထိုအခန်းမှတဖန် ပုံသွင်းသည့် စက်သို့ ပို့၍ ပေါင်မုံ့ သဏ္ဌာန် ပုံသွင်းပေးပြီးသောအခါ ဖိုတွင် ထည့်၍ ဖုတ်ရန် အသင့်ဖြစ်လာသည်။ မုံ့ဖိုကြီးများကို အုတ်ဖြင့် ပြုလုပ်၍ နံရံများသည် အပူရှိန်ကို ကြာရှည် စုတ်ယူထားနိုင်စေရန် ထူထဲစွာ ပြုလုပ်ထားသည်။ မုံ့များကို ၃၅ မိနစ်ခန့် ဖုတ် ရသည်။ ဖိုထဲမှ မုံ့များ ကျက်၍ ထုတ်မယူမီကလေးတွင် ပေါင်မုံ့ အကာသားများကို ပြောင်လက်လာစေရန် ရေ နွေးငွေ့ သွင်းပေးရသည်။ အိမ်တွင် ဖုတ်သည့် ပေါင်မုံ့ များကိုကား ဖိုမှ ထုတ်စတွင် နွားနို့၊ ထောပတ်၊ ရေအေး၊ တမျိုးမျိုး သုတ်၍ ပြောင်လက်လာအောင် ပြုတတ်ကြ သည်။ ဖိုမှ ထွက်လာသော ပေါင်မုံ့ များကို စက်ဖြင့်ပင် ဖယောင်း စက္ကူများနှင့် ထုပ်ပေး၍ ရောင်းချရန် အသင့် ပြုလုပ်ထားလေသည်။ ယင်းသို့အားဖြင့် ဂျုံမှုန့်ကို နယ် သည်မှအစ ပေါင်မုံ့ ဖြစ်၍ စက္ကူဖြင့် ထုပ်သည်အထိ စက် ဖြင့်သာ ပြုလုပ်ထားလေရာ ပေါင်မုံ့ဆိုင်မှ ဝယ်ယူ၍ စား ရန် ပေါင်မုံ့ကို ပတ်ထားသော စက္ကူပတ်ကို ခွာလိုက်မှပင် ပေါင်မုံ့လုံးမှာ လူ့လက်နှင့် ထိရလေတော့သည်။ အချို့ စက်ရုံငယ်များတွင်ကား လက်ဖြင့် ကူညီ ပြုလုပ်ပေးရပေ သေးသည်။ လုံးဝ လက်မပါဘဲ စက်ဖြင့် ပြုလုပ်သော ပေါင် မုံ့များမှာ သန့်ရှင်း ကောင်းမွန်၍ ကျန်းမာရေးနှင့် အညီ ညွတ်ဆုံး ဖြစ်သည်။ ယခုခေတ်တွင် စက်ဖြင့် ပြုလုပ်သော ပေါင်မုံ့ လတ်လတ်ဆတ်ဆတ် ပူပူနွေးနွေးကို အချိန်မရွေး လွယ်ကူစွာ ရရှိနိုင်သဖြင့် အိမ်တွင် ပေါင်မုံ့ ဖုတ်၍ စား သောက်သည့်အလေ့ တဖြည်းဖြည်းနည်းပါးလာလေသည်။

အင်္ဂလန်ပြည်တွင် တနှစ်အတွင်း လူတယောက် စားသုံး သော ပေါင်မုံ့များအတွက် အသုံးပြုရသော ဂျုံမှုန့်မှာ တအိတ်ကျော်ခန့် ဖြစ်၏။ သို့ဖြစ်၍ သန်းပေါင်း များ စွာသော အင်္ဂလိပ် လူထုအတွက် တနှစ်တနှစ်လျှင် အသုံး ပြုရသော ဂျုံအိတ်ပေါင်းကို စီလိုက်လျှင် ကမ္ဘာကြီး၏ အကွေ့တာ မျဉ်း တမျှ ရှည်လျားပေမည်။ အင်္ဂလန်ပြည်ကဲ့သို့ပင် ပြင်သစ်၊ ဂျာမနီ၊ ဣတလီစသော ဥရောပတိုက် နိုင်ငံများ၊ အမေရိကတိုက် နိုင်ငံများ၊ ဩစတြေလီးယား၊ နယူးဇီလန် စသော နိုင်ငံများ သည်လည်း ပေါင်မုံ့ကို ပဓာနအစာ အဖြစ်ဖြင့် စားသုံး သော နိုင်ငံများ ဖြစ်ကြသည်။ မြန်မာနိုင်ငံ စသော ဆန် ကို ပဓာနအစာအဖြစ် စားသောက်သည့် နိုင်ငံများကပင် ပေါင်မုံ့ကို မုံ့ခဲဖွယ်အဖြစ် စားသောက်ကြသည်။ နေ့စဉ် စားသုံးသော ပေါင်မုံ့ရိုးရိုးအပြင် အလှစား ပေါင်မုံ့များ လည်း ရှိသေးသည်။ ထိုပေါင်မုံ့မျိုးကို အဆန်းတကြယ် အထူးတလည် ပြုပြင် စီမံ လုပ်ရသည်။ ဂျုံအနုစားဖြင့် ပြု လုပ်သော ပေါင်မုံ့ဖြူ အနုစားများကား ဈေးကြီးသည်။

ပေါင်မုံ့သည် လူတို့၏ အင်အား ဖြစ်စေသော အစာ ဖြစ်သည်။ ပေါင်မုံ့ဖြူတလုံးတွင် ကာဗိုဟိုက်ဒရိတ် ၄၇.၅၄ ရာခိုင်နှုန်း၊ရေ ၃၆.၉ ရာခိုင်နှုန်း၊ပရိုတင်းဓာတ် ၉.၄၄ ရာခိုင် နှုန်း၊ ပြာဓာတ် ၁.၇၇ ရာခိုင်နှုန်း၊ အဆီဓာတ် ၂.၉၉ ရာခိုင် နှုန်းနှင့် အမျှင်ကြမ်း ၀.၃၆ ရာခိုင်နှုန်း ပါရှိသည်။ ပေါင်မုံ့ ညိုသည် အဖြူထက် ဗီတာမင်ဓာတ်နှင့် သတ္တုဓာတ် ပို၍ ပါသည်။ အချို့ ပေါင်မုံ့ဖုတ်သူတို့သည် ပေါင်မုံ့ဖြူတွင် ဗီတာမင်နှင့် သတ္တုဓာတ်များ ဖြည့်ထည့်၍ ဖုတ်တတ်ကြ သည်။ ပဲကျတ်ပျဉ်မှုန့်ဖြင့် ပြုလုပ်သော ပေါင်မုံ့သည် ကျန်း မာရေးနှင့် အလွန်ပြည့်စုံသောအစာဖြစ်သည်။

ပေါင်မှုန့်ကို ပဓာန အစာအဖြစ် စားသုံးကြသော နိုင်ငံများတွင် ပေါင်မုန့် ပြုလုပ်ရာ၌ ကျန်းမာရေးနှင့် ညီညွတ်၍ လိုအပ်သော ဂျုံမှုန့် စသည့် အမှုန့်များ အချိုးကျ အမှန်အကန် ပါဝင်စေရန် အစိုးရက ဥပဒေဖြင့် သတ်မှတ်ထားလေသည်။

**ပေါင်မြို့**။ ။ပေါင်မြို့သည် သထုံခရိုင်၊ ပေါင်မြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ ပေါင်မြို့နယ်သည် သထုံမြို့နယ်၏ တောင်ဖက်ကျ၍၊ သံလွင်မြစ်နှင့် မုတ္တမ ပင်လယ်အကွေ့ကြားတွင် တည်ရှိသည်။

ပေါင်မြို့နယ်၏ အလယ်မှ တောင်နှင့် မြောက် သွယ်တန်းနေသော မုတ္တမ တောင်တန်း၏ အနောက်ဖက် ဆင်ခြေလျှောတွင် ပေါင်မြို့ တည်ရှိသည်။ ရန်ကုန်-မော်လမြိုင်သွား မီးရထားလမ်းသည် ပေါင်မြို့ကို ဖြတ်၍ ဖောက်လုပ်ထားသည်။ ပေါင်မြို့နယ်သည် ၃၉၉ စတုရန်းမိုင်မျှ ကျယ်ဝန်း၍၊ မြေဩဇာ ကောင်းမွန်သဖြင့် လယ်ယာ စိုက်ပျိုးရေးသည် မြို့နယ်၏ အဓိက လုပ်ငန်း ဖြစ်သည်။ လယ်ယာ လုပ်ငန်း ကောင်းမွန်သည့် အလျောက်လည်း၊ လူဦးရေ ပေါများသည်။ ပေါင်မြို့နယ်၏ လူဦးရေမှာ ၁၉၅၆ ခုနှစ် ခန့်မှန်းချက်အရ ၁၁၀,၂၀၁ ယောက် ဖြစ်၍၊ ပေါင်မြို့၏ လူဦးရေသည် ၁၉၅၃ ခုနှစ် ခန့်မှန်းခြေ သန်ကောင်စာရင်းအရ ၆,၈၈၈ ယောက် ဖြစ်လေသည်။ ဆန်စပါးသည် ပေါင်မြို့၏ အဓိက ထွက်ကုန် ဖြစ်သည်။

ရှေးဟောင်း မြို့ကြီးတမြို့ ဖြစ်သော မုတ္တမမြို့သည် ပေါင်မြို့နယ်၏ အရှေ့ တောင်စွန်း သံလွင်မြစ် ကမ်းပေါ်တွင် တဖက်ကမ်းရှိ မော်လမြိုင်မြို့ကို မျက်နှာပြုလျက် တည်ရှိသည်။ မုတ္တမမြို့သည် ရှေးက ပင်လယ် ဆိပ်ကမ်းမြို့ ဖြစ်ခဲ့၍၊ နိုင်ငံခြားသားများ ထွက်ဝင် ကူးသန်း ရောင်းဝယ်ရာ ဌာနတခု ဖြစ်လေသည်။ (မုတ္တမမြို့ — ရှု။)

**ပေါင်လောင်ရှင်ကဿပ**။ ။ဆရာတော်များ — ရှု။

**ပေါင်သီး**။ ။ပေါင်သီးသည် အာဟာရဓာတ်နှင့် ပြည့်စုံသော အသီးတမျိုး ဖြစ်သည်။ ယင်း၏ အရသာသည် ပေါင်မုန့်နှင့် တူသဖြင့် ပေါင်သီး၊ သို့မဟုတ် ပေါင်မုန့်သီးဟု ခေါ်သည်။ ပစိဖိတ် သမုဒ္ဒရာ တောင်ပိုင်းရှိ အပူပိုင်းဇုန်ဝင် ကျွန်းများမှ တိုင်းရင်းသားတို့၏ အဓိက အစာ ဖြစ်သည်။ ရုက္ခဗေဒ အလိုအားဖြင့် ပေါင်သီးပင်ကို 'အားတိုကားပပ်ကွန်မျူနစ်' ဟု ခေါ်သည်။ ယင်းသည် 'မိုရေးစီအီး'မျိုးရင်းတွင် ပါဝင်သည်။ ပေါင်သီးပင်မျိုးစိတ်ပေါင်း ၄၀ ရှိရာ၊ မျိုးစိတ်တိုင်းမှ လူဘို့စားသုံးနိုင်သော အသီးမျိုး သီးသဖြင့် တနှစ်ပတ်လုံး ယင်းအသီးမျိုး ပြတ်သည် ဟူ၍ မရှိချေ။

ပေါင်သီးပင်ကို အနောက် အိန္ဒိယကျွန်းစုနှင့် ပစိဖိတ် သမုဒ္ဒရာ တောင်ပိုင်းရှိ ကျွန်းများတွင် စိုက်ပျိုး၍၊ ရဲဖန်ရံခါ အမေရိကန် အပူပိုင်း ဒေသများ၌ စိုက်ပျိုးကြသည်။ မြန်မာနိုင်ငံ အောက်ပိုင်း တနင်္သာရီ ကမ်းရိုးတန်း၌လည်း ပေါက်ရောက်သည်။

ပေါင်သီးပင်သည် ပူ၍ စိုစွတ်သော ဥတု၌ ပေါက်၏။ ထို့ပြင် မိုးများ၍ ရေဆင်း ကောင်းရန်လည်း လိုသည်။ ပေါင်သီးပင်သည် ပေ ၄၀ မှ ၆၀ အထိ မြင့်၍၊ အမြင့်တဝက်လောက်အထိ အကိုင်းအခက် ရှင်းနေကာ၊ အဖျားပိုင်းရောက်မှ အကိုင်းအခက်များ ဘေးသို့ ဖြာထွက်နေသည်။ အရွက်သည် အလျား တပေကျော် ရှိ၍ အစိမ်းရင့်သွေးအရောင် တောက်တောက် ဖြစ်သည်။ သဘော်ရွက်ကဲ့သို့ ရွက်ခြားလက် ကြီးသည်။ အသီးသည် ပင်စည်မှ တိုတိုတုတ်တုတ် အညှာတံဖြင့် တလုံးတည်းသော်၎င်း၊ ၂ လုံး သို့မဟုတ် ၃ လုံးရှိ အခိုင်လိုက်သော်၎င်း သီးသည်။ အသီးအချို့သည် လုံးဝိုင်းဝိုင်းပုံ ဖြစ်၍၊ အချို့ကား ဘဲဥပုံ ဖြစ်ပြီးလျှင်၊ ကလေး ဦးခေါင်းအရွယ်ခန့် ရှိသည်။ ပိန္နဲသီးနှင့် ခပ်ဆင်ဆင် တူသည်။ အခွံကြမ်း၍ အတွင်းသား နူးညံ့သည်။ တနှစ်အတွင်း နှစ်ကြိမ်၊ သို့မဟုတ် သုံးကြိမ် သီးသည်။ အသီးသည် နုစဉ်အခါ အစိမ်းရောင် ဖြစ်၍၊ နောက်တဖြည်းဖြည်း ညိုလာသည်။ မှည့်သောအခါ၌မူ ဝါလာသည်။

ပေါင်သီးကို မမှည့်မီကာပင် စား၍ ကောင်းသော်လည်း မှည့်မှသာ စားလေ့ ရှိကြသည်။ ပေါင်သီး၌ စားရသော အပိုင်းသည် အခွံနှင့် အူတိုင်ကြားရှိ အသား ဖြစ်သည်။ ထိုအသားကို အုန်းနို့နှင့် ရော၍၊ ပူတင်း ဖုတ်စားလျှင်လည်း အလွန်ကောင်းသည်။ ပေါင်သီး အမှည့်ကို ပေါင်း၍ အထဲမှ အသားကို စားကြသည်။ အာလူးပြုတ်နှင့် နှိုချိုချိုရောစားရသကဲ့သို့ ရှိသည်။ ပါးပါး လှီး၍ အခြောက်လှန်းကာ၊ အမှုန့်ပြုပြီးလျှင်၊ မုန့်အမျိုးမျိုး လုပ်၍လည်း စားကြသည်။ ရက်အတော်ကြာ ခံအောင်မူ မြေအောက်တွင်းထဲ၌ အလုံးလိုက် ဖုတ်၍ ထားကြရသည်။ တခါတရံ ယင်းအသီး၏ အမှုန့်ကို ရေဖြင့်နှဲ၍၊ အနည်းငယ် အချဉ်ပေါက်လာစေရန် မြေအောက်၌ သိုလှောင်ထားပြီးမှ ဖုတ်၍ စားပါက၊ နှစ်သက်ဖွယ် ကောင်းလှသည့် အနံ့အရသာနှင့် ပြည့်စုံလေသည်။

ပေါင်သီးပင်မှ လေထိလျှင် မာသွားတတ်သော အဖြူရောင် အစေးတမျိုး ထွက်သည်။ တိုင်းရင်းသားများသည် ထိုအစေးကို လှေများဖာရန် အသုံးပြုကြသည်။ ပေါင်သီးပင်၏ အသားသည် နှစ်ချိုခံထား၍ အသားကျသွားပါက မဟော်ဂနီသားနှင့် ခပ်ဆင်ဆင် တူသည်။ သို့ရာတွင် ပျော့၍ ပေါ့သဖြင့်၊ တိုင်းရင်းသားတို့၏ လှေပေါ့ကလေးများနှင့် အိမ်သုံး ပစ္စည်း အနည်းငယ် လုပ်ရန်မှတပါး အသုံးမဝင်လှ

ချေ။ ပင်စည်မှ အတွင်းသားကို ခွာ၍ ခြည်မျှင်ထုတ်ယူပြီးသော်၊ အထည်ဘမျိုး ရက်လုပ်နိုင်သည်။

**ပေါင်းကူး။** ။မှတ်ကုန်း — ရှု။

**ပေါင်းခံခြင်း။** ။အရည် သို့မဟုတ် အစိုင်အခဲ တခုခုမှ ဓာတ်ငွေ့၊ သို့မဟုတ် အငွေ့များဖြစ်စေပြီးလျှင် ငွေ့ရည်ဖွဲ့စေကာ ထိုဓာတ်ငွေ့ သို့မဟုတ် အငွေ့များကို အရည်ဖြစ်စေခြင်းကို ပေါင်းခံခြင်းဟု ခေါ်သည်။ ထိုသို့ပြုလုပ်ရာ၌ အပူကို အသုံးပြုရပေသည်။ ရေကို လေနှင့် တွေ့ထိ ထားလျှင် ရေငွေ့ ဖြစ်သွားသည်ကို လူတိုင်းလိုက သိသည်။ထိုသို့ ဖြစ်သည်ကို အငွေ့ပျံသည်ဟု ခေါ်သည်။ ရေနွေးများသည် ပို၍ အငွေ့ပျံလွယ်ကြသည်။ ထိုသို့ အငွေ့ပျံနေသည်ကို ရေနွေးငွေ့ ဖြစ်နေသည်ဟု ခေါ်သည်။ ရေနွေးအိုး တလုံး၌ ရေပေါ်ရှိ ကွက်လပ်တွင် ရေနွေးငွေ့များနှင့် ပြည့်နေသည်။ ရေနွေးငွေ့ဟု အများက ခေါ်နေကြသော ထိုရေနွေးငွေ့များသည် အမှန်မှာ ရေငွေ့များ မဟုတ်ချေ။ ထိုရေငွေ့များကိုသာ အေးအောင် ပြုလုပ်လျှင် ရေစက်ကလေးများ ပြန်၍ ဖြစ်လာလေသည်။ ထိုအခါ ရေငွေ့များ ငွေ့ရည် ဖွဲ့သည်ဟု ဆိုသည်။ အကယ်၍ ရေငွေ့ အမြောက်အမြားကို ငွေ့ရည် ဖွဲ့စေလိုလျှင် ရေငွေ့ ထွက်လာသော နေရာ၏ အပေါ်မှ ပုလင်းအေး တလုံးကို မှောက်၍ ထားပေးရသည်။ ထိုအခါ ပုလင်းထဲ၌ ရေစက်ကလေး အမြောက်အမြား ဖြစ်လာလေသည်။ အထူးသဖြင့် ပုလင်းကို ရေစိုနေသည့်အဝတ်တခုဖြင့် ပတ်ကာ အေးနေစေလျှင် ရေစက် ကလေးများ အဖြစ်မြန်သည်။

ပေါင်းခံခြင်း အတတ်ကို အလွန် ရှေးကျသည့်အခါကပင် သိခဲ့သည်ဟု ဆိုကြ၏။ ထိုပြင် မှတ်တမ်းများအရ အေဒီ ၂၀၀ ပြည့်နှစ်မတိုင်မီ ကပင် သိခဲ့ ကြကြောင်း တွေ့ရလေသည်။သမိုင်း ဆရာများက အယ်ရစ္စတိုတယ်နှင့် သူ့တပည့်များသည် ပေါင်းခံခြင်းကို ပြုလုပ်ခဲ့ကြသည်ဟု ယုံကြည်ကြသည်။ ထိုသို့ ယုံကြည်ကြသည်မှာလည်း ဆားငန်ရေသည် အငွေ့ အဖြစ်သို့ ပြောင်းသွားသောအခါ အငန်ဓာတ် မရှိတော့ဘဲ အငွေ့သည်လည်း ငွေ့ရည်ဖွဲ့သောအခါတွင် ဆားငန်ရည် ပြန်၍မဖြစ် ဆိုသည့် သူ၏ မိုးလေဝသခေါ် စာအုပ်တွင် ပါဝင်သည့် စာပိုဒ်အရ ဖြစ်သည်။

ရိုးရိုး ပေါင်းခံခြင်းသည် ရေကဲ့သို့သော အရည်များကို အငွေ့ ဖြစ်စေပြီး ငွေ့ရည်ဖွဲ့စေခြင်း ဖြစ်သည်။ ထို့ကြောင့် ပေါင်းခံခြင်း၌ အငွေ့ပျံစေခြင်းနှင့် ငွေ့ရည် ဖွဲ့စေခြင်း ဟူ၍ အပိုင်း နှစ်ပိုင်း ပါရှိလေသည်။ ပေါင်းခံထားသော ရေသည် ပဌမရေထက် ပို၍ အညစ်အကြေးမှ ကင်းစင်လေသည်။ တိုသို့ ဖြစ်ခြင်းသည် ရေချား အငွေ့ပျံသည့် အပူချိန်၌ လိုက်၍ အငွေ့ မပျံနိုင်သော ဆားကဲ့သို့သော အညစ်အကြေးများ ကျန်ရစ်ခဲ့ခြင်းကြောင့် ဖြစ်သည်။ ပင်လယ်၊ မြေဆီလွှာနှင့် အပင်တို့ရှိ ရေသည် အစဉ်သဖြင့် အငွေ့ပျံနေကြပြီးလျှင် သဘာဝအလျောက် ပေါင်းခံသည့် ရေသည် မိုးရေနှင့် နှင်းပေါက်များ ဖြစ်သည်။

ပေါင်းခံသော ကရိယာကို ပေါင်းခံအိုးဟု ခေါ်သည်။ ထိုကရိယာရှိ အဓိက အစိတ်အပိုင်းမှာ ပေါင်းခံမည့် အရည်များကို အပူပေးသည့် ဖိုင်လာအိုး ဖြစ်သည်။ ဖြဗ်ရေရှိ အနိမ့်ဆုံး အပူချိန်၌ ဆူသော ဓာတ်ပစ္စည်းသည် ပဌမ အငွေ့ပျံသည်။ ဒုတိယ အစိတ် အပိုင်းမှာ ကွန်ဒင်ဆာဖြစ်ပြီးလျှင် အငွေ့များ ထိုကွန်ဒင်ဆာအတွင်းသို့ ရောက်သွားသောအခါ ငွေ့ရည်ဖွဲ့၍ အရည် တဖန် ဖြစ်သွားလေသည်။ ထိုအရည်ကို ပေါင်းခံရည်ဟု ခေါ်သည်။ တတိယ အစိတ်အပိုင်းမှာ ရီတော့ ပေါင်းအိုး ဖြစ်သည်။ ထိုအိုးထဲတွင် ပေါင်းခံရည်များကို စုဆောင်းသည်။ ပေါင်းခံအိုးကြီးများတွင် ကွန်ဒင်ဆာကို ရေအေးထည်းတွင် နှစ်ထားရသည်။

အသက်ကယ် လှေများ၌ ဖြစ်စေ၊ သင်္ဘောပေါ်၌ဖြစ်စေ သောက်ရေ ပြတ်သွားလျှင် ပင်လယ်ရေမှ သောက်ရေ(ရေချို) အဖြစ်သို့ ပြောင်းလဲယူနိုင်သော ပေါင်းခံအိုးတမျိုးကို ဗြိတိသျှ ရေတပ်ဗိုလ်ကြီး ဂျေ၊ ဂျီ၊ အိပ်၊ ဂွတ်ဖဲလိုး ဆိုသူက တီထွင်နိုင်ခဲ့သည်။ ထိုပေါင်းခံအိုးတွင် ပါရာဖင်ဆီနှင့် ထင်းမီး အစိုင်အခဲ၊ သို့မဟုတ် သစ်သားကို အသုံးပြုရ၏။

အရည်အမျိုးမျိုး ရောနေသော ပစ္စည်းကို ပေါင်းခံလိုလျှင် ထိုပစ္စည်းရောကို ရိုးရိုး ပေါင်းခံနည်းဖြင့် ပေါင်းခံယူ၍ မဖြစ်နိုင်ပေ။ ပုံပမာ အယ်လကိုဟော (အရက်) သည် ဖာရင်ဟိုက် ၁၇၂ ၌ဆူ၍ ရေသည်ဖာရင်ဟိုက် ၂၁၂ ၌ ဆူ၏။ သို့သော် ရေသည် အတော်လျှင်မြန်စွာပင် ဖာရင်ဟိုက် ၁၇၂ ၌ အငွေ့ပျံနိုင်လေသည်။ ထို့ကြောင့် အယ်လကိုဟောနှင့် ရေကဲ့သို့သော ပစ္စည်းရောကို ပေါင်းခံလျှင် ထွက်လာသော ပေါင်းခံရည်တွင် ရေအချို့ ပါဝင်နေပေလိမ့်မည်။ သို့သော် ပဌမပေါင်းခံရည်တွင် အယ်လကိုဟော ပို၍များများ ပါမည်ဖြစ်ပြီးလျှင်၊ နောက်မှဖြစ်ပေါ်လာသည့် ပေါင်းခံရည်တွင် အယ်လကိုဟော ပို၍ နည်းပေမည်။ ထို့ကြောင့် ပဌမဖြစ်ပေါ်သည့် ပေါင်းခံရည်ကို သီးခြားခွဲကာခံယူရသည်။ထိုနည်းဖြင့် ကြွင်းကျန်သည့် ပေါင်းခံရည်များကို အဆင့်ဆင့် ခံယူရသည်။ ထိုသို့ အဆင့်ဆင့် ပေါင်းခံယူသည့် စံနစ်တခုလုံးကို အဆင့်ဆင့် ပေါင်းခံခြင်းဟု ခေါ်သည်။ ထိုနောက် ပို၍ သန့်စင်သည့် ပစ္စည်းများရရှိရန် တဆင့်စီ သိမ်းဆည်းထားသည့် ပေါင်းခံရည်များကို တဖန် ထပ်၍ ပေါင်းခံ ယူရပြန်သည်။ ထိုနည်းဖြင့် ဗရန်ဒီ၊ ဝီစကီကဲ့သို့သော အရက်များကို ချက်ယူကြသည်။ ယင်းတို့၌ ပေါင်းခံ မယူသော ဝိုင်နှင့် ဗီယာများမှာထက် အယ်လကိုဟော ပို၍ များများ

ပါဝင်သည်။ သို့သော် အယ်လကိုဟောနှင့် ရေ ရောနေသော ပစ္စည်းရောကို အဆင့်ဆင့် ပေါင်းခံယူရာ၌ မည်မျှပင် အဆင့်ဆင့် ပေါင်းခံယူသော်လည်း အယ်လကိုဟောသည် ၉၅ ရာခိုင်နှုန်းထက် ပို၍ မပါဝင်နိုင်ချေ။ ကျန်ရှိသည့် ရေ ၅ ရာခိုင်နှုန်းကို မဖောက်ထုံး၊ သို့မဟုတ် ဆိုဒီယမ်ကဲ့သို့သော ဓာတ်ပစ္စည်းဖြင့် ချွတ်ယူရသည်။

ထိုအဆင့်ဆင့် ပေါင်းခံနည်းကို ရေနံစိမ်းကို ချွတ်ယူရာတွင်လည်း အသုံးပြုနိုင်ပေသည်။ ရေနံစိမ်းသည် ပစ္စည်းအမျိုးအပြား ပါဝင်လျက် ရှိသဖြင့် ထိုပစ္စည်းများကို အသုံးဝင်မည့် ပစ္စည်းများ ဖြစ်လာစေရန် ခွဲထုတ်ယူရသည်။

စောစောပိုင်း အဆင့်များတွင် နက်ဖသား ကတ္တရာစေးနှင့် ဗင်ဇင်းများ ထွက်လာ၏။ ထိုနောက် ဓာတ်ဆီ၊ ထိုနောက် ရေနံဆီနှင့် ချောဆီများ ထွက်လာလေသည်။ အဆင့်ဆင့် ပေါင်းခံသော ပေါင်းအိုးကြီး တခုထည်း၌ပင် ယင်းတို့ကို သီးခြား ခွဲထုတ်ယူနိုင်ပေသည်။ ဆူသည့် အပူချိန် အနည်းဆုံး ပစ္စည်းသည် ပဌမဆုံး ထွက်လာ၏။ ထိုအငွေ့များသည် အမြင့်ဆုံးသို့ တက်သဖြင့် ထိပ်ဆုံး၌ ထားသော ပိုက်များမှ ထွက်လာလေသည်။ အခြား ပိုက်များသည် အမြင့် အသီးအသီးတွင် ရှိကြလေသည်။ ကျောက်မီးသွေး ကတ္တရာမှ ဓာတ်ပစ္စည်းများကို ခွဲထုတ်ရာ၌လည်း အဆင့်ဆင့် ပေါင်းခံနည်းကိုပင် အသုံးပြုကြသည်။

ရိုးရိုး ပေါင်းခံနည်းသော်ငင်း၊ အဆင့်ဆင့် ပေါင်းခံနည်းသော်ငင်း ဓာတ်ပစ္စည်း အသစ်များကို မဖြစ်စေနိုင်ချေ။ ထိုနည်းများသည် ရောနေသော ဓာတ်ပစ္စည်းများကိုသာ ခွဲထုတ်ပေးနိုင်လေသည်။ သို့သော် သစ်သားကဲ့သို့သော ပစ္စည်း တခုကို လုံသော အိုးတလုံးတွင် ထည့်ကာ အပူတိုက်ပေးလျှင် သစ်သားသည် ဓာတ်ပြိုကွဲသွားကာ ယခင်က မရှိခဲ့ဘူးသော ပစ္စည်းများကို ဖြစ်ပေါ်စေသည်။ ထိုသို့ ပြုလုပ်သည့်နည်းကို အခြောက် ပေါင်းခံနည်းဟု ခေါ်သည်။ သစ်သားကို အခြောက် ပေါင်းခံရာမှ မီးသွေး၊ အက်ဆီတစ်အက်ဆစ်၊ သစ်သားအယ်လကိုဟော၊ အက်ဆက်တုန်း၊ ရေနှင့် အခြား ဓာတ်ငွေ့များကို ရနိုင်သည်။ ကျောက်မီးသွေးကို အခြောက် ပေါင်းခံလျှင် ကျောက်မီးသွေး ဓာတ်ငွေ့၊ အမ်မိုနီယာ၊ ကျောက်မီးသွေး ကတ္တရာနှင့် ကုတ်မီးသွေးများကို ရနိုင်လေသည်။

**ပေါင်းတည်မြို့။** ။ပေါင်းတည်မြို့သည် ပြည်ခရိုင်အတွင်း အရှေ့တောင်ဖက်တွင် ရှိသော ပေါင်းတည် နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ ရန်ကုန်–ပြည် မီးရထားလမ်းပေါ်တွင် တည်ရှိ၍၊ ရန်ကုန်မြို့မှ မိုင် ၁၃၀ ကွာဝေးပြီးလျှင်၊ ပြည်မြို့မှ ၃၂ မိုင် ကွာလှမ်းသည်။ ရန်ကုန်–ပြည်သွား ကားလမ်းလည်း မြို့ကို ဖြတ်၍ ဖောက်ထားသည်။



ပေါင်းတည် မြို့၏ ကျက်သရေဆောင် မင်းလကျ္ခာသီရိဘုရား

ပေါင်းတည် နယ်တွင် ပေါင်းတည် မြို့နယ်နှင့် သဲကုန်း မြို့နယ် ဟူ၍ မြို့နယ် ၂ နယ် ပါဝင်သည်။ ပေါင်းတည် မြို့နယ်တွင် ပေါင်းတည်မြို့နှင့် ကျေးရွာပေါင်း ၂၅၀ ခန့် ပါဝင်သည်။ ပေါင်းတည်မြို့နယ်သည် ၃၇၉ စတုရန်းမိုင် ကျယ်ဝန်းသည်။ ပြည်ခရိုင်တွင် ပေါင်းတည်မြို့သည် ပြည်မြို့ နောက် အစည်ကားဆုံးမြို့ ဖြစ်သည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ၊ ပေါင်းတည်မြို့၏ လူဦးရေသည် ၁၇,၂၈၆ ယောက် ဖြစ်သည်။

စစ်မဖြစ်မီက လူကြီးထောင် အဖြစ် အသုံးပြုခဲ့သော ပေါင်းတည် ထောင်ကို စစ်ပြီးကာလ၌ ကလေးထောင် အဖြစ် အသုံးပြုလျက် ရှိသည်။ အပြစ်ဒဏ် ကျခံရသော ကလေးများကို ထောင်တွင်း၌ အသက်မွေး ဝမ်းကျောင်း ပညာနှင့် စိတ်ဓာတ် ပြုပြင်ရေး လုပ်ငန်းများ သင်ကြားပေးသည်။

ပေါင်းတည်မြို့သည် ကားလမ်း၊ ရထားလမ်းတို့ ဖြတ်သန်းသွားရာမြို့ ဖြစ်သဖြင့်၊ အရောင်း အဝယ် ကောင်းသည်။ မြို့နယ်၏ အဓိက လုပ်ငန်းများမှာ ဆန်စပါး လုပ်ငန်းနှင့် ခြည်ထည် လုပ်ငန်းတို့ ဖြစ်သည်။

ပေါင်းတည်မြို့အထွက် ရန်ကုန်–ပြည် လမ်းမကြီးပေါ်ရှိ၊ မင်းလကျ္ခာသီရိနှင့် မင်းလက်ဝဲသီရိ ဘုရားကြီး နှစ်ဆူသည် မြို့၏ ကျက်သရေဆောင် တန်ခိုးကြီးဘုရားများ ဖြစ်သည်။

မင်းလကျ္ခာသီရိ ဘုရားအတွင်း သီးသန့် ဂန္ဓကုဋိတိုက်၌ မြတ်စွာဘုရား၏ စွယ်တော်ပွားတဆူ သိတင်းသုံးတော်မူသည်။ စွယ်တော် ရောက်သည့် ၁၂၅၉ ခုနှစ် တော်သလင်း လဆန်း ၁၃ ရက်နေ့မှအစ နှစ်စဉ် တော်သလင်းလတွင် မြတ်စွယ်တော် အကန်တော့ခံလှည့်ပွဲ ကျင်းပရာ၊ အလွန် စည်ကား သိုက်မြိုက်သဖြင့်၊ အထူး မီးရထားများပင် စီစဉ်

ပေးရာလသည်။ ပေါင်းတည်မြို့၏ အခြား ထင်ရှားသော ပွဲတော်တခုမှာ ဝါခေါင်လတွင် ကျင်းပလေ့ ရှိသော ပန်းရှစ်သောင်း လေးထောင် လှည့်ပွဲ ဖြစ်သည်။

**ပေါင်းပင်။** ။ပေါင်းပင် ဆိုသည်မှာ ပေါက်ရောက်သည့် နေရာ၌ အနှောင့်အရှက် ဖြစ်ရုံမက၊ အချည်းနှီး ဖြစ်နေသည့် အပင်မျိုး ဖြစ်သည်။ ယင်းတို့သည် စိုက်ပျိုးထားသော ကောက်ပဲသီးနှံပင်များကို အားတိတ်စေတတ်သဖြင့်၊ ပေါင်းသင် ပေါင်းနုတ်ခြင်းကို တောင်သူ လယ်သမား ဥယျာဉ်သမားများ ဂရုစိုက် လုပ်ကိုင်ရသည်။

မည်သည့် အပင်သည် ပေါင်းပင်မျိုး ဖြစ်၍၊ မည်သည့် အပင်မျိုးသည် အသုံးဝင် အပင် ဖြစ်သည်ဟု သတ်မှတ်ရန်မှာ မလွယ်ကူချေ။ သတ်မှတ်မှုသည် လူများ သုံးမှုပေါ်၌ မူတည်လေသည်။ ပုံပမာ ဆေးခင်းထဲ၌ ပြောင်းပင်များ ပေါက်ရောက်နေလျှင်၊ ယင်း ပြောင်းပင်များကို ပေါင်းပင်ဟု ခေါ်ကြသည်။ သို့သော် ပြောင်းခင်းထဲ၌ ပေါက်သော ပြောင်းပင်ကိုမူ အသုံးဝင် အပင်ဟု ခေါ်ကြပြန်သည်။ ထွန်ယက်ထားသော လယ်ယာတိုင်းလိုလို၌ မြက်ပင်များ ပေါက်ရောက်ကြ၏။ ယင်းတို့သည် စိုက်ပျိုးထားသော အသီးအနှံပင်များ၏ အနှောင့် အရှက်များ ဖြစ်သဖြင့် ပေါင်းပင်ဟု ခေါ်သည်။ သို့သော် ကျွဲ နွား စားကျက်၊ ပန်းဥယျာဉ်ရှိ မြက်ခင်းနှင့် ဂေါက်သီးကွင်းများ၌ စိုက်ထားသော မြက်များကိုမူ ပေါင်းပင်ဟု မခေါ်ကြတော့ချေ။

ပေါင်းပင် ၃ မျိုး ရှိ၏။ တနှစ်ခံ ပေါင်းပင်မျိုးသည် တနှစ်သာခံ၏။ နှစ်နှစ်ခံ ပေါင်းပင်မျိုးသည် နှစ်နှစ်၊ သို့မဟုတ် ပေါက်သော ရာသီချိန် နှစ်ပတ်သာ ခံသည်။ နှစ်ကြာခံ ပေါင်းပင်မျိုးမှာ နှစ်နှစ်ထက် ပို၍ခံကြလေသည်။

တနှစ်ခံ ပေါင်းပင်များသည် မျိုးစေ့များမှသာ ပေါက်ကြ၏။ ထို့ကြောင့် မျိုးစေ့များ မအောင်မီ၊ ယင်းတို့ကို သုတ်သင်ပစ်ရပေသည်။ တနှစ်ခံ ပေါင်းပင်မျိုးသည် အများအားဖြင့် မျိုးစေ့အမြောက်အမြား သီးကြ၏။ အပင် တပင်တည်းကပင် မျိုးစေ့ ထောင်ပေါင်း များစွာ သီးလေသည်။ မြေကို ထွန်ယက်ရာ၌ ပေါင်းပင်မျိုးစေ့များသည် မြေဖုံးပြီးသား ဖြစ်နေရာ၊ ပေါင်းပင်များကို စိုက်သည်နှင့် တူနေလေသည်။ အချို့ မျိုးစေ့များသည် မြေအောက်၌ နှစ်ပေါင်း များစွာ ကြာသည့်တိုင်အောင် အောင်း၍ နေနိုင်ကြလေသည်။ အခါသင့်၍ အခွင့်သာသည်နှင့် တပြိုင်နက် ထ၍ ပေါက်လာကြသည်။ မြေကို နက်နက် ထွန်ခြင်းသည် ယင်းတို့ကို ပေါက်စေရန် ကူညီပေးသည်နှင့် တူ၏။

နှစ်နှစ်ခံ ပေါင်းပင်များ၏ အမြစ်နှင့် မျိုးစေ့များသည် ခံနိုင်ရည် ရှိကြသည်။ ထို့ကြောင့် အစေ့မကျမီနှင့် အမြစ်မကြီးမီ၊ အပင်ငယ်ကလေး ဘဝ၌ပင် သုတ်သင်ပစ်နိုင်မှ မျိုးဖြုတ်နိုင်ပေမည်။ သို့မဟုတ်က တနှစ်အတွင်း အပင်သည် ၃ ပေ၊ ၄ ပေအထိ မြင့်၍၊ အကိုင်းအခက်များ၌ မျိုးစေ့ပေါင်း များစွာ သီးတတ်လေသည်။

နှစ်ကြာခံပင်များသည် အဆိုးရွားဆုံးသော ပေါင်းပင်မျိုး ဖြစ်သည်။ ယင်းအပင်မျိုး၌ အမြစ်ပွားများ၊ သို့မဟုတ် မြေအောင်း ပင်စည်များ ရှိသဖြင့်၊ ယင်းတို့မှ အပင်သစ်ကလေးများ ပေါက်လာနိုင်လေသည်။ ထို့ကြောင့် အမြစ်များ နှစ်နှစ်သုံးနှစ်ခန့် အာဟာရဓာတ်ပြတ်၍ မျိုးပြုတ်သွားစေရန်၊ အညွှောက်ထွက် မခံဘဲ၊ တသတ်တည်း သတ်ထားနိုင်ဖို့ လိုသည်။ ယင်း ပေါင်းပင် မျိုးပြုတ်အောင် ပြုရန် အခြား တနည်းမှာ၊ ထိုပေါင်းပင် ပေါက်သော မြေကွက်ကို ကျွဲ နွား စားကျက် လုပ်ပစ်ခြင်း ဖြစ်သည်။ ပေါင်းပင်အမြစ်များ ရှိသည့် မြေကွက်များ၌ စိုက်ပျိုးလျှင်၊ ပေါင်းပင်များကို တိုးပွားလာအောင် ပြုသည်နှင့် တူပေမည်။ အမြစ်ပိုင်းတခုလျှင်၊ အပင်သစ် တပင် ပေါက်လာနိုင်သည်။

ပေါင်းပင်များကို သတ်ပစ်ရန် အကောင်းဆုံး နည်းတနည်းမှာ၊ သီးနှံများကို နှစ်စဉ်မှန်မှန်နှင့် အချိန်စောစော စိုက်ပျိုးခြင်း ဖြစ်သည်။ အခြား တနည်းမှာ ပေါင်းပင်ပေါများသည့် မြေကွက်ကို မထွန်မီ၊ မီးရှို့ပစ်ခြင်း ဖြစ်သည်။ ထိုပြင် ပေါင်းပင်၏ မျိုးစေ့များ မရင့်မီ၊ လမ်းဘေးရှိ အပင်များ၊ ကွက်လပ်ရှိ အပင်များနှင့် အခြား ထွန်ယက်စိုက်ပျိုးမထားသည့် နေရာများရှိ အပင်များကို ရိတ်ပစ်ခြင်းသည်လည်း ပေါင်းပင်များကို ရှင်းလင်းသည့် နည်းကောင်းတခု ဖြစ်ပေသည်။ အဘယ်ကြောင့် ဆိုသော်၊ အနီးပတ်ဝန်းကျင်မှ ပေါင်းပင် မျိုးစေ့များ လေနှင့်အတူ လွင့်ပါလာ၍၊ မျိုးပွားတတ်သောကြောင့် ဖြစ်သည်။

ပေါင်းပင်နှင့် အခြား မလိုလားအပ်သော အပင်များကို သုတ်သင်ရန်၊ ဟာဗီဆိုက်ခေါ် အပင်သတ် ဓာတ်ဆေးများကို အသုံးပြုကြ၏။ ဓာတ်ဆေးသည် အရည် ဖြစ်လျှင် ဖျန်းပေးခြင်း၊ အမှုန့်ဖြစ်လျှင် ဖြူးပေးခြင်းများ ပြုလုပ်ပေးကြသည်။ အချို့ ပေါင်းပင်သတ်ဆေးများကို သီးနှံပေါ်၌ ဖြူးနိုင်၍၊ အချို့ကိုမူ အပင် မစိုက်မီ ဖြူးရသည်။ အကြောင်းမူကား အချို့ဆေးသည် သီးနှံပင်ကိုထိသော်လည်း ဒုက္ခမပေးတတ်ဘဲ၊ အချို့ ဆေးများမှာမူ ထိသည့် အပင်တိုင်းကို ပျက်စီးစေသောကြောင့် ဖြစ်သည်။ အသုံးဝင်သော ပေါင်းသတ် ဓာတ်ဆေးများမှာ ဆာလဖျူရစ်အက်ဆစ်၊ ဒုတ္တာအပြာ (ကော့ပါးဆာလဖိတ်)၊ အိုင်းယန်း ဆာလဖိတ်၊ ဆီနေ့ခနှင့် ၂,၄-ဒီများ ဖြစ်သည်။ ရိုးရိုး အိမ်သုံးဆား၊ ရေနံချေး၊ ရေနံဆီနှင့် အာစနစ်ဒြဗ်ပေါင်းများကိုလည်း ပေါင်းသင်ဆေးအဖြစ် အသုံးပြုနိုင်ပေသည်။ ယခုအခါ အနောက်နိုင်ငံများ၌ ဆစ်ဇဝိဒါခေါ် အပူငွေ့ဖြင့် ပေါင်းပင်သတ်စက်မျိုးကို သုံးနေကြလေပြီ။

ပေါင်းပင်သည် လူတို့အတွက် အသုံးမဝင်သည့် အပြင်၊ လူတို့ စိုက်ပျိုးထားသည့် အပင်များကို နှောင့်ရှက် ဖျက်ဆီးကြသည်ဟု ဆိုရပေကာမူ၊ တောင်သူ လယ်သမားတို့သည် မိမိတို့၏ စိုက်ခင်းများအတွင်း ပေါက်ရောက်လျက်ရှိသည့် ပေါင်းပင်များကို ကြည့်၍၊ မြေဆီလွှာတွင် မည်သည့် ဩဇာဓာတ်များ ချို့တဲ့နေသည်ကို သိနိုင်သည်။ သို့ဖြစ်၍ ကောက်ပင် သီးနှံများ ကြီးထွား သန်စွမ်းလာစေရန်၊ ထိုချို့တဲ့နေသည့် ဩဇာဓာတ်ကို ထပ်လောင်း ဖြည့်စွက်ပေးနိုင်သည်။ ထို့ပြင် ခြံဥယျာဉ်များ၌ လူတို့ စိုက်ပျိုးပြုစုထားသော ဟင်းသီး ဟင်းရွက်ပင်နှင့် ပန်းပင်မျိုး များစွာတို့သည် ပေါင်းပင်ရိုင်း အချို့မှ ပေါက်ပွားလာကြသည့် အပင်များ ဖြစ်လေသည်။

**ပေါင်းလောင်း (စစ်တောင်း) မြစ်။** ။မြန်မာနိုင်ငံ၏ မြစ်ကြီးတမြစ် ဖြစ်သည်။ မြစ်ဖျားခံသည်မှစ၍ မြစ်ဝအထိ မိုင် ၃၅၀ ခန့် ရှည်လျားသည်။ မြစ်ကြောင်း၏ သုံးပုံတပုံခန့် ဖြစ်သော မြစ်ညာ ဖက်တွင် ပေါင်းလောင်းဟု ခေါ်တွင်ပြီးလျှင်၊ အောက်ပိုင်းသို့ ရောက်လာသည့်အခါ ပေါင်းလောင်း၊ သို့မဟုတ် စစ်တောင်း၊ အထူးသဖြင့် တောင်ငူမြို့ အောက်ဖက်မှ စ၍ စစ်တောင်းမြစ်ဟု ခေါ်တွင် လာသည်။ စစ်တောင်း အမည်ဖြင့် ပို၍ ထင်ရှား လူသိများလေသည်။

ယင်းမြစ်သည် ဧရာဝတီ မြစ်ကြောင်း အနောက်ဖက်သို့ မပြောင်းမီက၊ ဧရာဝတီမြစ်၏အောက်ပိုင်းဖြစ်သည်ဟု ဘူမိဗေဒ ပညာရှင်တို့က အထောက်အထားပြ၍ ဆိုကြသည်။

ပေါင်းလောင်း (စစ်တောင်း) မြစ်သည် မြစ်ကြောင်း အလွန် ကွေ့ကောက်၍၊ အထူးသဖြင့် အောက်ဖက်ပိုင်းတွင် မြစ်ကြောင်း ပြောင်းခြင်းများ ရှိခဲ့သည်။ ထို့ပြင် မြစ်ရိုးတလျှောက် သဲသောင်များလည်း ပေါများလှသဖြင့်၊ သင်္ဘော သွားလာရေးအတွက် အသုံးမဝင်ချေ။ သို့သော် သစ်တောများ ရှိသော ပဲခူးရိုးမနှင့် အရှေ့ ရိုးမ (ရှမ်းကုန်းပြင်မြင့် အနောက်ပိုင်း) တို့မှ မြစ်ချောင်းများသည် ယင်း မြစ်အတွင်းသို့ စီးဝင်ကြသဖြင့်၊ ယင်း ဒေသများမှ သစ်များနှင့် သစ်တောထွက် ပစ္စည်းများ မျှောချရန်နှင့် မြစ်ကမ်းဘေး တလျှောက်ရှိ လယ်ယာများကို ဆည်မြောင်း၊ တူးမြောင်းတို့ဖြင့် ရေပေးသွင်းရန် အတွက်သာ အသုံးဝင်လေသည်။

ပေါင်းလောင်းမြစ်သည် ပဌမတွင် ပေါင်းလောင်းချောင်း အဖြစ် ရမည်းသင်းခရိုင်၏ အရှေ့ဖက် ရှမ်းပြည် တောင်ပိုင်း တောင်ကုန်းဒေသ၊ ကလောမြို့၏ အနောက်ဖက် တောင်များ၌ မြစ်ဖျားခံ၍၊ တောင်ဖက်သို့ စီးဆင်းလာပြီးနောက် တောင်ဖက်မှ စီးဆင်းလာသော ပေါင်းလောင်းငယ်ချောင်း နှင့် ပူးပေါင်းကာ လမ်းကြောင်း ပြောင်း၍၊ အနောက် မြောက်ဖက်သို့ ထောင်တက်ပြီးလျှင်၊ ရမည်းသင်း ခရိုင်ကို အနောက်တောင် ယွန်းယွန်းဖြတ်၍ စီးသည်။ ယင်းသည့် နောက်တွင် မြေပြန့်သို့ ရောက်၍၊ ချောင်းတဖြည်းဖြည်း ကျယ်လာကာ၊ ပေါင်းလောင်းမြစ် ဖြစ်လာပြီးလျှင်၊ ပျဉ်းမနားမြို့နယ်ကို ဖြတ်၍ စီးဆင်းလာစဉ်၊ ရမည်းသင်းမြို့ တောင်ဖက်မှ စီးလာသော နဝင်းချောင်းနှင့် ပဲခူးရိုးမဖက်မှ လာသော ဆင်သေမြစ်တို့နှင့် ယင်း၏ လက်တက် ဖြစ်သော ငလိုက်ချောင်းတို့က ယင်း မြစ်အတွင်းသို့ စီးဝင်သည်။ ငလိုက်ချောင်းပေါ်တွင် ပျဉ်းမနားမြို့ တည်ရှိသည်။

ယင်းသည့်နောက် တောင်ဖက်သို့ စီးဆင်းလာပြန်ရာ၊ အနောက်ဖက် တောင်ကုန်းဒေသမှ စီးဆင်းလာသော ရုံးပင်ချောင်းသည် လောမြို့ကို ဖြတ်၍၊ အရှေ့ဖက်နားတွင် ပေါင်းလောင်းမြစ်တွင်းသို့ စီးဝင်သည်။ ပျဉ်းမနားနယ်မှ အောက်ဖက် ရောက်လာသောအခါ ယင်းမြစ်ကို ပေါင်းလောင်း၊ သို့မဟုတ် စစ်တောင်းဟု ခေါ်ဝေါ်လာကြသည်။ ရမည်းသင်း ခရိုင်အတွင်း ပေါင်းလောင်း (စစ်တောင်း) မြစ် စီးဆင်းလာသော မြေပြန့်ဒေသ တလျှောက်တွင် ဆန်စပါး၊ ကြံ၊ ပဲများ စိုက်ပျိုး လုပ်ကိုင်ကြသည်။

ပျဉ်းမနားမြို့တောင်ဖက်တွင် ရုံးပင်ချောင်းအပြင်၊ ရေနီချောင်း၊ ဆွာချောင်းတို့လည်း အနောက်ဖက် ပဲခူး ရိုးမမှ ပေါင်းလောင်းမြစ် အတွင်းသို့ စီးဆင်းကြသည်။ တောင်ငူ ခရိုင် အတွင်းသို့ ရောက်ရှိလာသောအခါ၊ ယင်းမြစ်သည် ခရိုင်ကို နှစ်ပိုင်း ခြမ်းကာ၊ အလယ်မှ ဖြတ်၍ စီးလာပြီး လျှင် အောက်ဖက်သို့ ရောက်လာသောအခါ၊ ပဲခူးခရိုင်နှင့် ဆက်စပ်၍ တောင်ငူ ခရိုင်၏ အနောက်ဖက် နယ်နိမိတ် ဖြစ်လာလေသည်။



ပျဉ်းမနားမြို့အရှေ့ ရှစ်မိုင်ကွာ ဆင်ပြူတောင်ပေါ်မှ တွေ့မြင်ရသော ပေါင်းလောင်းမြစ်၏ သာယာသောရှုခင်းတရပ်

တောင်ငူခရိုင် အတွင်းသို့ ရောက်လာပြီးသည့်နောက်တွင် မြစ်ကြောင်းသည် အကွေ့အကောက် အလွန် များလာသည်။ မြစ်၏ အမည်သည်လည်း ပေါင်းလောင်း အမည် ပျောက်ကာ၊ စစ်တောင်းမြစ် ဟူ၍ ခေါ်ဝေါ်လာကြသည်။ တောင်ငူမြို့ အောက်နားတွင် ပဲခူးရိုးမမှ လာသော ခပေါင်းချောင်း စီးဝင်သည်။ ခပေါင်းချောင်းနှင့် ဆုံပြီးသည့်နောက်၊ အောက်ဖက် ထန်းတပင်မြို့ အထက်နားတွင် တောင်ငူခရိုင်၏ အရှေ့ မြောက်ဖက်၊ အရှေ့ရိုးမမှ အစပြုလာသော သောက်ရေခပ်ချောင်း စီးဝင်ပြန်လေသည်။

မြစ်ကြောင်းသည် အရှေ့ တောင်ဖက်သို့ ကွေ့ကောက်သွားပြန်၍၊ အုတ်ဖြတ်ရွာကြီး၏ အထက်နားတွင် အနောက်တောင်ဖက်မှ လာသော ဖြူးချောင်း စီးဝင်ပေါင်းဆုံသည်။ အရှေ့တောင် ယွန်းယွန်း ကွေ့ကောက် စီးဆင်းလာပြန်ရာ၊ အရှေ့ ရိုးမဖက်မှ ကွေ့ကောက် စီးလာသော မုန်းချောင်းသည် မုန်းရွာကြီးကို ဖြတ်သန်း၍ ရွာ၏ အနောက် တောင်ဖက်ဘွင် စစ်တောင်းမြစ် အတွင်းသို့ စီးဝင်သည်။ ယင်းသည့်နောက်တွင် ရွာငယ်ကလေးပေါင်း များစွာကို ဖြတ်သန်း စီးဆင်းလာ၍၊ ပဲခူးခရိုင် အတွင်းသို့ ဝင်ရောက်လာသည်။ တောင်ငူ ခရိုင်နှင့် ပဲခူးခရိုင်ကို ပဲခူး ရိုးမမှ စစ်တောင်းမြစ်သို့ စီးဆင်းသော ကွမ်းချောင်းက ခြားထားလေသည်။ တောင်ငူခရိုင် အတွင်း စစ်တောင်းမြစ်ဖြတ်သန်း စီးဆင်းခဲ့သော ဒေသတဝိုက်ကား ဆန်စပါး၊ ကြံ၊ ကွမ်းသီးများထွက်ရှိရာ မြေပြန့်ဒေသများ ဖြစ်လေသည်။

တောင်ငူခရိုင် အောက်ပိုင်းမှစ၍ ပဲခူးခရိုင် အတွင်းသို့ ဝင်ရောက် လာပြီးသည်အထိ၊ စစ်တောင်း မြစ်ကြောင်း တလျှောက် မိုင်ပေါင်း များစွာတွင် ရွာပေါင်းများစွာ ရှိသော်လည်း ပြောပလောက်သော မြို့ကြီး၊ မြို့ငယ် ဟူ၍ မတွေ့ရသည်မှာ မဒေါက်မြို့ တိုင်အောင်ပင် ဖြစ်သည်။ မဒေါက်မြို့၏ အောက်ဖက်နား နှစ်မိုင်ကျော်ခန့်တွင် အရှေ့ရိုးမမှ စီးဆင်းလာသော ရွှေကျင်ချောင်း စီးဝင်သည်။ ရွှေကျင်ချောင်းပေါ်တွင် ရွှေကျင်မြို့ တည်ရှိသည်။ ပေါင်းလောင်း (စစ်တောင်း) မြစ် ဖြတ်သန်း စီးဆင်းခဲ့ရာ ဒေသတလျှောက်တွင် တောင်ငူ၊ ပျဉ်းမနားတို့မှ လွဲလျှင် ရွှေကျင်မြို့သည် ထင်ရှားသော မြို့တမြို့ ဖြစ်သည်။ တခေတ်က ကြက်ပေါင်စေး ခြံများ ရှိခြင်းကြောင့် ရွှေကျင် နယ်သည် အလွန် ဖွံ့ဖြိုးခဲ့လေသည်။ ယခုအခါတွင် ဆေးရွက်ကြီးများကို မြစ်ရေကျစဉ် နုံးမြေနုများ အပေါ်၌ အကြီးအကျယ် စိုက်ပျိုး ဖြစ်ထွန်းရာဒေသ ဖြစ်လေသည်။

ရွှေကျင်နယ်မှ တောင်ဖက်သို့ စစ်တောင်းမြစ် ဆက်လက် စီးဆင်းလာရာ မြစ်ကမ်း တလျှောက် ရွာကလေးများကို ဖြတ်သန်းလာခဲ့၍၊ တောင်ဖက်တွင် ပဲခူးရိုးမမှ လာသော ရေနွှဲ ချောင်းနှင့် ထရံချောင်းတို့ စီးဝင်ကြသည်။ စစ်တောင်းမြစ်သည် အောက်ပိုင်းတွင် မြစ်ကြောင်း ပြောင်းလဲခြင်းများ ရှိခဲ့ကြောင်း အစတွင် ဖော်ပြခဲ့သည့်အတိုင်း၊ မြစ်ကျိုးမြို့သည် စစ်တောင်း မြစ်ကြောင်းဟောင်းပေါ်တွင် တည်ရှိသည်။ မြစ်ကျိုးမြို့၏ အနောက်ဖက်ရှိ မြစ်ကွေ့ဟောင်းကြီးကို ချန်ထား၍ ယခု စစ်တောင်းမြစ်သည် မြောက်မှ တောင်သို့ တန်းလျက် စီးဆင်းနေသည်။ မြစ်ကျိုးမြို့တွင် စစ်တောင်းမြစ်ကို အနောက်ဖက်မှ ပဲခူးမြစ်နှင့် ဆက်သွယ်ထားသော ပဲခူး-စစ်တောင်း တူးမြောင်း ရှိသည်။ ယင်းတူးမြောင်းကိုလှေသင်္ဘောကူးသန်းသွားလာရေးအတွက်နှင့်သစ်များသယ်ယူဖို့အတွက်အသုံးပြုရန်တမင်တူးဖော်ခဲ့ခြင်းဖြစ်လေသည်။ (တူးမြောင်းများ — ရှု။)

စစ်တောင်းမြစ်သည် ယာဖက်တွင် ပဲခူး ခရိုင်၊ ဝဲဖက်တွင် သထုံခရိုင်တို့ကို ဖြတ်သန်း စီးဆင်းလာခဲ့ရာ၊ ညောင်ခါးရှည်နှင့် စစ်တောင်းရွာအကြားတွင် ပဲခူး–မော်လမြိုင် မီးရထားလမ်းသည် စစ်တောင်းမြစ်ကို ဖြတ်ကျော်သွားလေသည်။ မြစ်ကိုဖြတ်ကျော်သော မီးရထားတန်တားကြီးကို စစ်တောင်းတန်တားကြီးဟု ခေါ်သည်။ ယင်းတန်တားကြီးကို ၁၉၁၀ ခုနှစ်ခန့်တွင် ဆောက်လုပ်ခဲ့သည်။ ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပွားလာ၍ ၁၉၄၂ ခုနှစ် နှစ်ဦးတွင် ရန်ကုန်မှ ဗြိတိသျှတပ်များ ဆုတ်ခွာရာ၌ စစ်တောင်းတန်တားကြီးကို ဒိုင်းနမိုက်ဖြင့် ဖောက်ခွဲဖျက်ဆီးခဲ့သောကြောင့် လုံးဝပျက်စီးခဲ့သည်။ ထိုကြောင့် ရန်ကုန်–မော်လမြိုင်သွား မီးရထား ခရီးသည်တို့သည် ထိုနေရာသို့ ရောက်လျှင် ကူးတို့ဖြင့် တဖက်ကမ်းကူး၍ ခရီးဆက်ကြရသောကြောင့်၊ အလွန်တရာ ကသိကအောက် ဖြစ်ကြရသည်။ တန်တားကြီးကို ပြန်လည်တည်ဆောက်လျက် ရှိပြီ ဖြစ်ရာ၊ များမကြာမီ နှစ်များအတွင်း ပြီးစီးမည်ဟု ခန့်မှန်းရသည်။

စစ်တောင်းမြစ်သည် တဖက် တချက်တွင် ဆန်စပါးထွက်ရာ ဒေသများ ဖြစ်သော ပဲခူး ခရိုင်နှင့် သထုံခရိုင်တို့ကို ဖြတ်၍ စီးဆင်းလာရာ၊ တဖြည်းဖြည်း ကျယ်ပြန့်လာပြီးနောက်၊ မုတ္တမ ပင်လယ်ကွေ့ထဲသို့ စီးဝင်သည်။ စစ်တောင်း မြစ်ဝကျွန်းပေါ်သည် ကျဉ်းမြောင်း သေးငယ်သော်လည်း နုံးတင် မြေနုများ မြစ်၏ ဘေးနှစ်ဖက် နှစ်ချက်၌ရှိ၍ လယ်ယာ စိုက်ပျိုး ဖြစ်ထွန်းသည်။ မြန်မာနိုင်ငံ၏ စပါးထွက် ငါးပုံတပုံသည် ပေါင်းလောင်း (စစ်တောင်း) မြစ်ဝှမ်းမှ ထွက်သည်။ စစ်တောင်း (ပေါင်းလောင်း) မြစ်ဝသည် ခေါင်းလောင်း ပုံသဏ္ဌာန် ရှိ၍၊ ဒီရေတက်လေ့ ရှိပြီးလျှင်၊ လှိုင်းတံပိုး ခက်ထန်သဖြင့်၊ သင်္ဘောဆိပ်ကောင်း မရှိချေ။ စစ်တောင်း (ပေါင်းလောင်း) မြစ်ဝှမ်းမှ ထွက်ကုန်များကို မီးရထားဖြင့်၎င်း၊ ပဲခူး-စစ်တောင်း တူးမြောင်းအားဖြင့်၎င်း သယ်ယူ ပို့ဆောင်ကြသည်။ ရန်ကုန်-မန္တလေး မီးရထားလမ်းသည် ပေါင်းလောင်း (စစ်တောင်း) မြစ်

ကြောင်းနှင့် နေရာများစွာတွင် ယှဉ်ပြိုင်လျက် ရှိသည်။ မီးရထားလမ်း ဖွင့်စက ရန်ကုန်မှ တောင်ငူအထိ မီးရထားလမ်းကို စစ်တောင်းမြစ်ဝှမ်း မီးရထားလမ်း ဟူ၍ပင် ခေါ်ဆိုလေသည်။

မြန်မာနိုင်ငံသမိုင်း တလျှောက်၌ စစ်တောင်းမြစ်ဝှမ်း တလျှောက်ရှိ ဒေသများသည် အရေးပါခဲ့သော ဒေသများ ဖြစ်၏။ မြန်မာနိုင်ငံ အထက်ပိုင်း အင်းဝ၊ မန္တလေး စသည့် ဒေသတို့မှ တောင်ဖက် ပဲခူး ဟံသာဝတီတို့သို့ ထိုမြစ်ဝှမ်း တလျှောက်ရှိ မြေပြန့်များမှ ချီတက်သွားလာနိုင်ကြသဖြင့်၊ မိုးရာသီအကုန် စစ်ချီလမ်းများ ဖြစ်ခဲ့သည်။ ဆန်စပါး စိုက်ပျိုး ဖြစ်ထွန်းသဖြင့် ပဲခူး ဟံသာဝတီသည် မွန်တို့၏ ဌာနီ ဖြစ်၍၊ နှစ်ပေါင်း ရာပေါင်းများစွာ မွန်မင်းများ တိုင်းပြည် သီးခြား တည်ထောင် အုပ်စိုးနိုင်ခဲ့၏။ မွန်နှင့် မြောက်ဖက် မြန်မာတို့ အားနည်းချိန်၌ တောင်ငူမှ မြန်မာများ တစခမ်း ထနိုင်ခဲ့သည်မှာ စစ်တောင်း မြစ်ဝှမ်းဒေသ မြေပြန့်၌ မြေဩဇာ ကောင်းလှ၍ ဆန်စပါး အသီးအနှံ ပေါများခြင်းကြောင့် ဖြစ်လေသည်။

**ပိုင်ရိုမီတာ။** ။လုပ်ငန်းကြီးများနှင့် သိပ္ပံပညာကို လိုက်စားသူများသည် အလွန် မြင့်မားသည့် အပူချိန်များကို တိုင်းတာနိုင်မည့် ကရိယာများကို အလိုရှိကြလေသည်။ လေပြင်းဖိုများမှ ဖြစ်စေ၊ လျှပ်စစ် မီးစွယ်မှ ဖြစ်စေ ဖြစ်ပေါ်လာသော အပူချိန်များကို သာမန် သာမိုမီတာများ ဖြင့် တိုင်းတာ၍ ဖြစ်နိုင်မည် မဟုတ်ချေ။ ထိုကဲ့သို့ အလွန်မြင့်မားသည့် အပူချိန်များကို တိုင်းတာသော ကရိယာများကို ပိုင်ရိုမီတာဟု ခေါ်သည်။ ထိုစကား၏ အဓိပ္ပါယ်မှာ မီးကို တိုင်းတာခြင်း ဖြစ်သည်။ ထိုကရိယာကို ပြဒါး ဆူသည့် အပူချိန် စင်တီဂရိတ် ဒီဂရီ ၃၅၀ ထက် မြင့်သော အပူချိန်ကို တိုင်းတာရာတွင် အသုံးပြုကြသည်။

အရှင်းဆုံး ပိုင်ရိုမီတာမျိုးမှာ အထူး စီမံထားသည့် ပြဒါး သာမိုမီတာ ဖြစ်သည်။ ဖန်အစား ကျောက်သလင်း ပြွန်ကို အသုံးပြုထားပြီးလျှင်၊ ပြဒါး၏ အပေါ် နေရာလွတ်တွင် ဖိနှိပ်ထားသော နိုက်ထရိုဂျင် သို့မဟုတ် ကာဗွန်ဒိုင်အောက်ဆိုက် ဓာတ်ငွေ့ကို ထည့်ထားသည်။ ထိုကဲ့သို့သော အပူချိန်တိုင်း ကရိယာမျိုးဖြင့် အပူချိန် စင်တီဂရိတ် ဒီဂရီ ၄၅၀ အထိ တိုင်းတာနိုင်သည်။

လေနှင့် အငွေ့များ၏ ပြန့်ခြင်းကို မူတည်၍ ပြုလုပ်ထားသော ပိုင်ရိုမီတာမျိုးလည်း ရှိသေးသည်။ သို့သော် ထိုပိုင်ရိုမီတာမျိုးကို ဓာတ်စမ်းခန်းထဲ၌သာ အသုံးပြုနိုင်ကြလေသည်။ အပူကြောင့် ပလက်တီနမ်ကဲ့သို့သော သတ္တုများပြန့်ခြင်းကို မောင်းတံဖုံးနှင့် အကျယ်ချဲ့ကာ အပူချိန်ကို တိုင်းတာနိုင်သည့် ပိုင်ရိုမီတာမျိုးလည်း ရှိသေးသည်။ ထိုပြင် လျှပ်စစ်နှင့်ဆိုင်သော ပိုင်ရိုမီတာများကိုပါ ထွင်နိုင်ခဲ့ကြလေသည်။

ထိုလျှပ်စစ်နှင့် ဆိုင်သော ပိုင်ရိုမီတာမျိုးများကို လုပ်ငန်းရပ် အမြောက်အမြားတွင် အသုံးပြုကြလေသည်။ ထိုကဲ့သို့သော အပူချိန်တိုင်းကရိယာ နှစ်မျိုး ရှိသည်။ တမျိုးသည် သာမိုကာပဲ သို့မဟုတ် သာမိုအီလက်ထရစ်မျိုး ဖြစ်၍၊ ကျန်တမျိုးသည် အီလက်ထရီကယ်-ရီဇစ္စတန့်ခေါ် လျှပ်စစ်နှင့် ဆိုင်သော ခုခံမှုမျိုးကို မူတည်၍ ပြုလုပ်ထားသော ပိုင်ရိုမီတာမျိုး ဖြစ်သည်။ ပဌမ ပိုင်ရိုမီတာမျိုးတွင် မျိုးမတူသော ဝိုင်ယာကြိုး နှစ်ချောင်း သို့မဟုတ် သတ္တုချောင်း နှစ်ချောင်းကို ဆက်၍ ဆာကစ်တခု ဖြစ်ပေါ်စေသည်။ ထိုဆာကစ်ထဲတွင် ဂါလဗာနို မီတာခေါ် လျှပ်စစ်ဓာတ်စီးတိုင်း ကရိယာ တခုကိုပါ ဆက်ထားသည်။ သတ္တုချောင်း နှစ်ချောင်း ဆက်ထားသော နေရာတွင် အပူဘိုက်ပေးလိုက်သောအခါ လျှပ်စစ်ဓာတ်စီး ဖြစ်ပေါ်လာလေသည်။ ထိုသို့ ဖြစ်ပေါ်လာသော လျှပ်စစ်ဓာတ်စီးကို ဂါလဗာနို မီတာက တိုင်းတာလိုက်သည်။ ထိုအတိုင်းအတာများမှ သတ္တုချောင်းများ၏ အပူချိန် အမျိုးမျိုးကို မှတ်သားထားနိုင်သည်။ ထိုနည်းဖြင့် အပူချိန် အမျိုးမျိုးကို တိုင်းတာနိုင်လေသည်။ သာမိုကာပဲ လုပ်ရန် သတ္တုများကို တွဲရာတွင် သတ္တု အမျိုးမျိုးကို အသုံးပြုနိုင်လေသည်။ သို့သော် အပူချိန်နိမ့်နိမ့်တွင် အသုံးပြုမည့် ပိုင်ရိုမီတာမျိုးအတွက် ကြေးနီ၊ သံ၊ နစ်ကယ်နှင့် သတ္တုစပ်များကို အသုံးပြုကြပြီးလျှင်၊ အပူချိန် အလွန် မြင့်ရာတွင် အသုံးပြုမည့် ပိုင်ရိုမီတာမျိုးအတွက် ပလက်တီနမ် သို့မဟုတ် ပလက်တီနမ် ရိုဒီယမ် သတ္တုစပ်ကို အသုံးပြုကြသည်။

လျှပ်စစ်နှင့် ဆိုင်သော ခုခံမှု (အီလက်ထရီကယ်-ရီဇစ္စတန့်) မျိုးကို မူတည်၍ ပြုလုပ်သော ပိုင်ရို မီတာ၏သဘောမှာ သန့်စင်သည့် သတ္တု တခု၏ လျှပ်စစ် ခုခံမှုသည် အပူချိန် တိုးမြင့်လာသလောက် မှန်မှန် တိုးလာခြင်း ဖြစ်သည်။ အပူချိန် နည်းသွားလျှင် ခုခံမှုသည်လည်း နည်းသွားလေသည်။ ထိုပိုင်ရိုမီတာမျိုးအတွက် ပလက်တီနမ် သတ္တုကို အသုံးများသည်။ ထိုပြင် အပူချိန်ဖာရင်ဟိုက် ဒီဂရီ ၃,၀၀၀ ကျော် ရှိသော လုပ်ငန်းများ အတွက်သာ ပလက်တီနမ် သတ္တုကို ပိုင်ရိုမီတာတွင် သုံးသည်မဟုတ်၊ အလွန်နိမ့်သည့် အပူချိန်ကို တိုင်းတာရာတွင်လည်း ထိုသတ္တုကိုပင် အသုံးပြုနိုင်လေသည်။

အထက် ဖော်ပြပါ ပိုင်ရို မီတာမျိုးများ အပြင် အော့ပတစ်ကယ် ပိုင်ရိုမီတာ ဟူ၍လည်း တမျိုး ရှိသေးသည်။ ထိုပိုင်ရိုမီတာ၏ သဘောမှာ ပစ္စည်းတခု (ပုံပမာ—သံ) ကို မီးပြင်းတိုက်လိုက်သောအခါ ထိုပစ္စည်းသည် ပဌမ နီလာရာမှ ဖြူလာပြီးလျှင်၊ ထိုပစ္စည်းမှ ထွက်လာသော အရောင်ကို

လိုက်က ပစ္စည်း၏ အပူချိန်ကို သိနိုင်ခြင်း ဖြစ်သည်။ ကျွမ်းကျင်သည့် ပန်းဘဲ ဆရာသည် ပူနေသည့် သံ၏ တောက်ပြောင်ခြင်းကို ကြည့်က လုပ်ကိုင်ရန် အချိန်ဆိုက်ပြီ မဆိုက်သေးကို သိသကဲ့သို့ ဖြစ်သည်။ အော့ပတစ်ကယ် ပိုင်ရိုမီတာတွင် ထိုပန်းဘဲ ဆရာ၏ အကြမ်းနည်းကို သိပ္ပံနည်းဖြင့် တိကျ မှန်ကန်စေရန် ပြုလုပ်ထားသည်။ မီးဖိုအတွင်းသို့ ဝိုင်ယာကြိုး တချောင်းကို ဖြစ်စေ၊ အခြားပစ္စည်း တခုခုကိုဖြစ်စေ ထည့်ပေးရန် မလိုချေ။ မီးဖိုအတွင်းမှ ဖြစ်ပေါ်လာသည့် အရောင်ကို ထိုကရိယာဖြင့် ကြည့်ရန်သာ လိုသည်။ အော့ပတစ်ကယ် ပိုင်ရိုမီတာ တမျိုးသည် တယ်လီစကုပ် (အဝေးကြည့် မှန်ပြောင်း) အငယ်စားကလေးနှင့် တူပြီးလျှင်၊ လျှပ်စစ် မီးလုံးတလုံး ပါရှိသည်။ ထိုမီးလုံး၏ တောက်ပခြင်းကို ပြုပြင်ပေးနိုင်သည်။ မီးဖိုမှ ဖြစ်ပေါ်လာသည့် အရောင်နှင့် မီးလုံးမှ ဖြစ်ပေါ်လာသည့် အရောင်ကို တူအောင် ပြုပြင်ပေးပြီးသော အခါတွင် သတ်မှတ်ထားသည့် အမှတ်အသားများမှ အပူချိန်ကို ရယူနိုင်လေသည်။

**ပိုင်အီဇိုလျှပ်စစ်။** ။ပိုင်အီဇိုလျှပ်စစ်သည်လျှပ်စစ်ဓာတ်အားတမျိုးပင် ဖြစ်၏။ ၁၇၈၂ ခုနှစ်ဘွင် စတင်၍ တွေ့ရှိခဲ့သည်။ ထိုနောက် တဖန် ၁၈၈၀ ပြည့်နှစ်တွင် ကျူးရီးဇနီးမောင်နှံတို့က တွေ့ရှိကြပြန်သည်။ ခရစ္စတယ်များကို ဖိနှိပ်ပေးသော အခါ၌၎င်း၊ ဆွဲဆန့်သောအခါ၌၎င်း ပိုင်အီဇိုလျှပ်စစ်ဖြစ်ပေါ်လာ၏။ တဖန် ဖြစ်စဉ်ကို အပြန်အလှန် သဘောနှင့် တွေးကြည့်လျှင်၊ လျှပ်စစ်ဓာတ်အား ဖြစ်လာချိန်၌၊ ခရစ္စတယ်သည် ကြုံခြင်း၊ ပွခြင်းများ ဖြစ်လာ၏။

တနည်းအားဖြင့် ဆိုသော် ခရစ္စတယ်ကို လျှင်မြန်စွာ ဖိချီတခါ ဆန့်ချီတလှည့် လုပ်ပေးလျှင်၊ ခရစ္စတယ်သည် အေစီ ကားရင့် ဖြစ်စေ၏။ အေစီကားရင့်ကို ဖြစ်ပြန်စေလျှင်၊ ခရစ္စတယ်သည် လျှင်မြန်စွာ တုန်ခါပြန်၏။ ပိုင်အီဇို လျှပ်စစ် ဆိုသည်မှာ ဖိနှိပ်မှုကြောင့် ဖြစ်ပေါ်လာသော လျှပ်စစ်ဓာတ်အားဟု အဓိပ္ပါယ်ရသည်။

ထိုခရစ္စတယ်များကို မိုက္ကရိုဖုန်းနှင့် လျှပ်စစ်ဓာတ်စက်များ၌ အသံကို လျှပ်စစ်ဓာတ်အားအဖြစ် လျှပ်စစ်ပတ်လမ်း၌ လှည့်ပေးရန်အတွက် အသုံးပြုကြ၏။ အသံလွှင့်စက်များမှ လွှင့်ပေးသော အသံများ၏ လှိုင်းတာများသည် အသုံးပြုသောခရစ္စတယ်မှထုတ်ပေးသော လှိုင်းတာအလိုက်ဖြစ်ရ၏။

ခရစ္စတယ်များ၌ တုန်ကြိမ်တမျိုးစီ အသီးအသီးရှိကြရာ ယင်းတုန်ကြိမ်များအတိုင်း တည်နေစေရန် အေစီ ကားရင့်ဖြင့် ဖန်တီးပေးကြ၏။ အပူချိန်ကိုလည်း တသမတ်တည်း ရှိစေရ၏။ ထိုကြောင့်စံတင်ရာဘွင်သုံးသော နာရီများ၌ တုန်ခါမှုကို ထိန်းပေးရာတွင်သုံးကြ၏။ ခရစ္စတယ်များ၏ သဘာဝအလျောက် ဖြစ်နေသော တုန်ကြိမ်သည် ခရစ္စတယ် အရွယ်ပမာဏအလိုက် ဖြစ်ရပေသည်။ လိုချင်သည့် အရွယ်အစားရအောင် ရွှေဖြင့် ကွပ်၍ ဖန်တီးယူကြလေသည်။

**ပစ်၊ ဝီလျံ၊ အကြီး (ခရစ် ၁၇၀၈–၁၇၇၈)။** ။ဗြိတိသျှ အင်ပိုင်ယာကို ကမ္ဘာတွင် အင်အားအကြီးမားအခိုင်ခန့်ဆုံး ဖြစ်စေရန် ပျိုးထောင် တည်ဆောက်ခဲ့သူများအနက်၊ အားဘွဲ့ရချက်သမ်မြို့စားဝီလျံပစ်သည် ဗြိတိန်နိုင်ငံ၏အဦးဆုံးနှင့် အထင်ရှားဆုံးသော တိုင်းပြည်ပြု သူခမ်းတဦး ဖြစ်သည်။ ဗြိတိသျှသမိုင်းတွင် သူကဲ့သို့ပင် ထင်ရှားသော သားဖြစ်သူ ဝီလျံပစ်အငယ်နှင့် ခွဲခြား၍၊ သူ့အား ဝီလျံပစ် အကြီးဟု ခေါ်ကြသည်။ ချက်သမ်မြို့စားဘွဲ့ကိုမရမီက၊ သူသည် ဆင်းရဲသားခေါင်းဆောင်ကြီးဟု တွင်သည်။

ပစ်ကို ၁၇၀၈ ခုနှစ် နိုဝင်ဘာလ ၁၅ ရက်နေ့တွင် လန်ဒန်မြို့ ဝက်စမင်စတာ အရပ်တွင် ဖွားမြင်သည်။ သူသည် ပါလီမန်အမတ် ရောဗတ်ပစ်နှင့် လေဒီ ဟဲရီးယက်တို့၏ဒုတိယသားဖြစ်၍၊ အိန္ဒိယနိုင်ငံ မဒရပ်မြို့ဘုရင်ခံ 'စိန်ပစ်'ဟုကျော်ကြားသော ဆာ တောမတ်ပစ်၏ မြေးဖြစ်သည်။ ငယ်စဉ်က ပင် ကျန်းမာရေးချို့တဲ့ခဲ့သော ပစ်သည် အသက် ၁၀ နှစ်အရွယ်မှစ၍ အီဘန်ကောလိပ်၌ ပညာ ဆည်းပူးပြီးနောက်၊ အောက်စဖို့ တက္ကသိုလ် ထရင်နီတီ ကောလိပ်တွင် ဆက်လက် သင်ကြားနေစဉ် ရောဂါဖိစီးမှုကြောင့် ဒီဂရီဘွဲ့ မရမီကျောင်းမှ ထွက်ရလေသည်။

ပစ်သည် ၁၇၃၁ ခုနှစ်တွင် ဗြိတိသျှစစ်တပ်၌ ဝင်ရောက်အမှုထမ်းသည်။ ၁၇၃၅ ခုနှစ်တွင် စစ်မှုထမ်းမှ ထွက်၍ ဖိုးဖွားတို့၏ နယ်ဖြစ်သော နာမည်ကြီး ဆယ်ရန် နယ်မှ ဝင်၍အရွေးခံရာ၊ ပါလီမန်အမတ် ဖြစ်လာသည်။ ထိုအချိန်တွင် ဗြိတိသျှ အစိုးရအဖွဲ့ကို ရောဗတ် ဝါလပိုက ခေါင်းဆောင်လျက်ရှိသည်။ ပစ်သည် အတိုက်အခံ အမတ်အဖြစ်နှင့် ဝါလပိုအစိုးရကို ပြင်းပြင်းထန်ထန် ဝေဖန်သူအဖြစ် ထင်ရှားလာသည်။ ၁၇၄၂ ခုနှစ်တွင် ဝါလပိုအစိုးရရာထူးမှကျ၍ ကားတရက် အစိုးရအဖွဲ့ တက်လာသော အခါတွင်လည်း အစိုးရအဖွဲ့ကိုဆက်လက်ဝေဖန်မြဲ ဝေဖန်ခဲ့လေသည်။ ၁၇၄၄ ခုနှစ်တွင် ကားတရက် အစိုးရပြုတ်ကျ၍၊ ပယ်လဟမ်အစိုးရတက်လာသောအခါ၊ အစိုးရအဖွဲ့ထဲတွင် အတိုက်အခံအမတ်များ ပါလာသော်လည်း၊ ဒုတိယ ဂျော့ဘုရင်၏ ပယ်ခ်ျမှုကြောင့် ပစ်သည် မပါခဲ့ချေ။

၁၇၄၆ ခုနှစ်တွင် ပစ်အား ရာထူးပေးရန် ငြင်းပယ်မှုကို ကန့်ကွက်သည့်အနေဖြင့်၊ ပယ်လဟမ်၏ ဝန်ကြီးအဖွဲ့တဖွဲ့လုံး နုတ်ထွက်လိုက်ရာ၊ ဘုရင်ကလျှော့ပေးပြီးလျှင် ၁၇၄၆ ခုနှစ် ဖေဖွာရီလ ၂၂ ရက်နေ့တွင် ပစ်အား အိုင်ယာလန်ပြည်၏ ဒုတိယငွေတိုက်တော်ဝန်အဖြစ် ခန့်အပ်၍၊ ပယ်လဟမ် အစိုး



ထင်ရှားသော ဗြိတိသျှနန်းရင်းဝန် ချက်သမ်မြို့စား ဝီလျံပစ်

ရအဖွဲ့အားလည်း ရာထူးပြန်လည်ပေးအပ်သည်။ ရက်သတ္တပတ် အနည်းငယ် ကြာသောအခါ လစာရိက္ခာဆိုင်ရာ ဝန်ကြီးအဖြစ် ခန့်ထားခြင်း ခံရပြန်သည်။ သူသည် ယင်းသည့် ရာထူးတွင် ယခင်က ထမ်းရွက်သူများကဲ့သို့ အစိုးရဘဏ္ဍာတော်များကို အလွဲသုံးစားမပြုဘဲ၊ သစ္စာရှိစွာ တရားသဖြင့် အမှုထမ်းခဲ့သောကြောင့် လူထုက များစွာ ကြည်ညိုလေးစားခြင်းကို ခံရသည်။ ၁၇၅၁ ခုနှစ် မေလမှ ၁၇၅၃ ခုနှစ် နိုဝင်ဘာလအထိ၊ ပစ်သည် လပေါင်း ၃၀ ခန့် မကျန်းမမာဖြစ်သဖြင့် အနားယူရပြန်သည်။ ကျန်းမာ လာသောအခါ၊ ၁၇၅၄ ခုနှစ်တွင် လေဒီ ဟက်စတာဂရင်းဗီးနှင့် လက်ထပ်ရာ သားသမီးငါးယောက် ထွန်းကားသည်။

၁၇၅၄ ခုနှစ်တွင် ပယ်လဟမ် ကွယ်လွန်၍ နျူးကပ်ဆဲ အစိုးရ တက်လာသည့်အခါ ပစ်သည် အစိုးရ အဖွဲ့ဝင် တဦး အနေနှင့်ပင် အစိုးရအဖွဲ့၏ လုပ်ငန်းများကို ပြင်းပြင်းထန်ထန် ဝေဖန်နေခဲ့လေသည်။ ၁၇၅၅ ခုနှစ် နိုဝင်ဘာလတွင် အစိုးရ၏ စစ်မက်ရေး ဝါဒကို အပြင်းအထန် ဝေဖန်သဖြင့် ရာထူးမှ ထုတ်ပယ်ခြင်း ခံရသည်။ ၁၇၅၆ ခုနှစ်တွင် ခုနစ်နှစ် စစ်ပွဲဖြစ်ပွား၍ မီနော့ကာကျွန်း ကျဆုံးသွားသောအခါ၊ ပစ်အဖို့ နျူးကပ်ဆဲအစိုးရအဖွဲ့အား ဝေဖန်ရန် အချက်ပေါ်လာလေသည်။ ထိုနှစ် နိုဝင်ဘာလတွင် နျူးကပ်ဆဲအစိုးရ နုတ်ထွက်သဖြင့်၊ ဒျူ့ဘွဲ့ရ ဒက်ဗွန်ရှိုင်ယာ စားက ဦးစီး၍ အစိုးရဖွဲ့သည်။ ယင်း အစိုးရ အဖွဲ့တွင် ပစ်ကို ပြည်ထဲရေးဝန်ကြီးခန့်သည်။ 'နိုင်ငံတော်ကို ကျွန်ုပ်မှတပါး မည်သူမျှ ကယ်တင်နိုင်မည်မဟုတ်ကြောင်း ကျွန်ုပ်သိသည်' ဟုပစ်က ဒက်ဗွန်ရှိုင်ယာစားအား ထိုအချိန်က ပြောခဲ့ဘူးသည်။ သို့ရာတွင် ဒျူ့ဘွဲ့ရ ကမ်ဗာလန်စားအား ဂျာမနီနိုင်ငံရောက် မဟာမိတ်တပ်၏ သေနာပတိအဖြစ် အသိအမှတ်ပြုရန်ငြင်းဆန်မှုသဖြင့်၊ ဒုတိယ ဂျော့ဘုရင်နှင့် မသင့်မတင့် ဖြစ်ကာ ရာထူးမှ နုတ်ပယ်ခြင်းခံရလေသည်။ လူထုကမူ ပစ်အားများစွာ ကြည်ညိုလေးစားလျက် ရှိသည်။

ဗြိတိန်နိုင်ငံသည် ထိုအချိန်တွင် ခုနစ်နှစ် စစ်ပွဲ၌ တရှုံးတည်းရှုံးနေ၍၊ လူထုက ပစ်အား ရာထူးပြန်ခန့်ရန် တောင်းဆိုကြသဖြင့် ၁၇၅၇ ခုနှစ်တွင် နျူးကပ်ဆဲနှင့် ပစ်တို့ ညွန့်ပေါင်း အစိုးရ ဖွဲ့ရသည်။ နျူးကပ်ဆဲသည် အစိုးရ အဖွဲ့၏ ခေါင်းဆောင် ဖြစ်သော်လည်း၊ ပစ်သည် ပြည်ထဲရေးဝန်ကြီးအဖြစ် စစ်ရေးကိစ္စများကို သူ့သဘောအတိုင်း ဆောင်ရွက်ခဲ့ရာ အစိုးရအဖွဲ့ကို တကယ်ကြိုးကိုင်သူကား ပစ်ပင် ဖြစ်လေသည်။

ပစ်သည် ခုနစ်နှစ် စစ်ပွဲတွင် စစ်နိုင်ရေးကို ဗြိတိသျှရေတပ်ပေါ်တွင် အားကိုးအားထားပြု၍ စီမံခန့်ခွဲသည်။ ထို့ကြောင့် အင်္ဂလိပ်တို့အဖို့ ဥရောပကုန်းမြေပေါ်၌တိုက်ပွဲများကို တတ်နိုင်သမျှရှောင်ရှား၍၊ ပင်လယ်ပြင်နှင့် ကမ်းရိုးတန်းများတွင်သာ အဓိကထား၍ တိုက်ပွဲ ဆင်စေသည်။ စစ်အောင်နိုင်ရေးအတွက် စစ်မျက်နှာကိုသာမက၊ လူထုစိတ်ဓာတ် နိုးကြားရေးကိုလည်း ပစ်သည် အရေးထား ဆောင်ရွက်သည်။ (ခုနစ်နှစ်စစ် — ရှု။)

၁၇၆၀ ပြည့်နှစ် အောက်တိုဘာလတွင် ဒုတိယ ဂျော့ဘုရင်နတ်ရွာစံ၍၊ မြေးတော် တတိယ ဂျော့ဘုရင် နန်းတက်သည်။ ထိုဘုရင်သည် အာဏာကို ဆုပ်ကိုင်ထားလိုသူဖြစ်ရကား အုပ်ချုပ်ရေးတွင် ဝင်ရောက် ဩဇာပေးသဖြင့် ပစ်နှင့်မသင့်မတင့် ဖြစ်သောကြောင့်၊ ပစ်သည် ၁၇၆၁ ခုနှစ်တွင် ရာထူးမှနုတ်ထွက်သည်။ငါးနှစ်မျှ ရာထူးမှနုတ်ထွက်နေသော်လည်း၊ ပြည်သူ့အရေးများတွင် ဝင်ရောက် ဆောင်ရွက်နေခဲ့သည်။ အမေရိကန် ကိုလိုနီများအား အခွန်တော် စည်းကြပ်ခြင်းကို ပစ်သည် အပြင်းအထန်ဝေဖန်သည်။ ယင်းသို့ ဆောင်ရွက်မှုကြောင့် ပစ်သည် အမေရိကန်နယ်များ၌ အလွန်နာမည်ကျော်ကြားခဲ့လေသည်။

၁၇၆၃ ခုနှစ်တွင် ဝှစ်ပါတီက ပစ်အား သူတို့အစိုးရအဖွဲ့တွင် ဝင်ရောက် ဆောင်ရွက်ရန် စကားကမ်းလှမ်းခြင်းကို ၎င်း၊ တတိယ ဂျော့ဘုရင်က ဝှစ်ပါတီဝင်များ မပါဘဲ၊ ပစ်တဦးတည်း ရာထူးလက်ခံရန် စကားကမ်းလှမ်းခြင်းကို၎င်း ပစ်သည် ငြင်းပယ်လိုက်သည်။ ၁၇၆၅ ခုနှစ် မေလတွင် တကြိမ်၊ ဇွန်လတွင်တကြိမ်၊ ဘုရင်က ရာထူးလက်ခံရန် ပြောဆိုသည်ကိုလည်း ပစ်သည် လက်မခံခဲ့ချေ။

၁၇၆၆ ခုနှစ် ဇန္နဝါရီလ ၁၄ ရက်နေ့တွင် ပစ်သည် အစိုးရအဖွဲ့ခေါင်းဆောင်ဖြစ်သော သူ၏ယောက်ဖ ဂရင်းဗီး တင်သွင်းသည့် အမေရိကန် တံဆိပ်တော်ခေါင်း အက်ဥပဒေကို လွှတ်တော်တွင် ပြင်းပြင်းထန်ထန် ဝေဖန်ခဲ့သည်။ နောက်ဆုံး၌ အစိုးရ အဖွဲ့အတွင်း တည်ငြိမ်မှု မရှိခြင်းကြောင့်၊ ဂျော့ဘုရင်သည် ပစ်အား အစိုးရအဖွဲ့ ဖွဲ့ရန် ဖိတ်ခေါ်ရသည်။ ပစ်သည် ညွှန့်ပေါင်း အစိုးရဖွဲ့၍၊ သူကိုယ်တိုင် နန်းရင်းဝန်အဖြစ် ဆောင်ရွက်သည်။ ယင်းသို့ ဆောင်ရွက်စဉ် အားဘွဲ့ ခံယူ၍ ချက်သမ်မြို့စား ဖြစ်လာလေသည်။

ဆင်းရဲသား ခေါင်းဆောင်ကြီးဘဝမှ မှူးမတ်ဘွဲ့ကို ခံယူလိုက်သည်မှစ၍ အောက်လွှတ်တော်တွင် တက်ရောက်ခြင်း မပြုရတော့ဘဲ၊ အထက်လွှတ်တော်အမတ်အဖြစ် အထက်လွှတ်တော်သို့ တက်ရောက်ရလေရာ၊ လူထုနှင့် ကင်းကွာသွားသဖြင့် လူထုကြည်ညိုမှု လျော့သွားသည်။ ယင်းသို့သောအခြေတွင် သူ၏ ကျန်းမာရေးသည် ပို၍ ချတ်ယွင်းလာပြန်သဖြင့် အလုပ်ကောင်းစွာ မလုပ်နိုင်တော့ချေ။ ၁၇၆၇ ခုနှစ် လက်ဖက်ခြောက် အခွန်တော်ကို သဘောမတူသော်လည်း၊ အတိုက်အခံ မလုပ်နိုင်တော့ချေ။ ၁၇၆၉ ခုနှစ်တွင် အနည်းငယ် ကျန်းမာလာ၍၊ သူ့အစိုးရ၏ ဆောင်ရွက်ချက်များကို လေ့လာသောအခါ၊ အမေရိကန်တို့နှင့် ဆက်ဆံရေး ပျက်ကွက်မှုများကို ပြုပြင်၍ မရနိုင်တော့သည့်အခြေတွင် တွေ့ရသဖြင့်၊ ရာထူးမှ နုတ်ထွက်လိုက်သည်။ သို့ရာတွင် နိုင်ငံရေး၌ စိတ်မကုန်သေးသဖြင့် အထက်လွှတ်တော်တွင် အစိုးရ၏ အမေရိကန် ဝါဒကို ဝေဖန်မြဲ ဝေဖန်နေခဲ့သည်။ ၁၇၇၈ ခုနှစ် ဧပြီလ ၇ ရက်နေ့တွင် အမေရိကန်အရေးနှင့်စပ်လျဉ်းသည့် မကျေနပ်ချက်များကို အထက်လွှတ်တော်၌ ပြောဆိုနေစဉ် သတိမေ့ လဲကျသွားရာမှအစ နာလှန်မထူတော့ဘဲ မေလ ၁၁ ရက်နေ့တွင် ကွယ်လွန်သည်။ သူ၏အလောင်းကို ဝက်စမင်စတာ အက်ဗေး၌ မြှုပ်နှံသည်။

အမေရိကန် အကျိုးကို ပစ်သည် သေသည်အထိ ဆောင်ရွက်သွားသူဖြစ်ရကား၊ အမေရိကန် ကိုလိုနီများက ပစ်အား သူတို့၏မိတ်ဆွေကောင်းကြီးအဖြစ် အသိအမှတ်ပြုကြသည်။ ဖို့ဒူးကိန်းကို ပြန်လည် တည်ဆောက်သောအခါ ပစ်အား ဂုဏ်ပြုသောအားဖြင့် အမေရိကန်တို့က ဖို့ပစ်ဟု အမည်ပေးကြ၏။ နောင်အခါ ထိုမြို့သည် ပစ္စဗတ် မြို့ကြီးဖြစ်လာ၍ ယခုတိုင် ထင်ရှားသည်။ (ပစ္စဗတ်မြို့ — ရှု။)

ပစ်ကား စစ်မက်အချိန်၌ ဗြိတိန်နိုင်ငံ၏ အတော်ဆုံး စစ်ဝန်ကြီးတဦးဖြစ်သည်။ သူသည် ရှင်ဘုရင်အပေါ်၌ရင်း၊ ပါလီမန် အပေါ်၌ရင်း အားထားမှီခိုခြင်း မရှိဘဲ၊ လူထု၏ အားပေးမှုဖြင့် ထင်ရှားကာ အထွတ်အထိပ် ရောက်လာသူဖြစ်သည်။ ပစ်၏ လုပ်ရည်ကိုင်ရည်နှင့် စိတ်ဓာတ်ဘို့ကား သူ့အား ဆက်ဆံသူတို့အဖို့ နမူနာ ဖြစ်လေသည်။

**ပစ်,ဝီလျံ၊ အငယ်**( ခရစ် ၁၇၅၉ – ၁၈၀၆ )။ ။ဗြိတိန်နိုင်ငံ၏တဦးတည်းသော အငယ်ဆုံးနန်းရင်းဝန်ဖြစ်သူ ဝီလျံပစ်သည် အားဘွဲ့ရချက်သမ်မြို့စား ဝီလျံပစ်နှင့် လေဒီ ဟက်စတာ ဂရင်းဗီးတို့၏ သားအငယ်ဖြစ်သည်။ သူ့အား ဖခင်နှင့် ခွဲခြားနိုင်စေရန် ပစ်အငယ်ဟု ခေါ်ကြသည်။ အချို့နိုင်ငံ သမိုင်းပြုဆရာတို့က ဝင်စတန်ချာချီမှလွဲလျှင် ပစ်သည် ဗြိတိန်၏ အတော်ဆုံးသောနန်းရင်းဝန်ဟုပင် ရေးသားကြသည်။ (ချာချီ, ဆာ ဝင်စတန်, လင်းနတ်,စပင်ဆာ — လည်းရှု။)

ပစ်အား ၁၇၅၉ ခုနှစ် မေလ ၂၈ ရက်နေ့တွင် ကင့်နယ် ဟေးမြို့၌ ဖွားမြင်သည်။ သူသည် ဖခင်၏ ထူးခြားသော နိုင်ငံပြု အရည်အချင်းများကို သာမက၊ ရောဂါသည်အဖြစ်ကိုပါ အမွေခံခဲ့သည်ဟု ဆိုရပေမည်။ ပစ်သည် ဖခင်ကဲ့သို့ပင် ချူချာလှသဖြင့် ငယ်စဉ်က စာသင်ကျောင်းများသို့ မသွားရဘဲ၊ အိမ်၌သာ ဆရာများနှင့် ပညာ သင်ခဲ့ရသည်။ သို့ရာတွင် ငယ်စဉ်ကပင် ဖခင်ဖြစ်သူက ဂရုတစိုက် ပြုစုပျိုးထောင်ပေးမှုကြောင့် ထူးခြားသော ပညာ အရည်အချင်းနှင့်ပြည့်စုံခဲ့လေသည်။ 'ကျွန်ုပ်ဘဝတွင် မြော်လင့်စရာနှင့် စိတ်ချမ်းသာစရာ အကွက်ကလေး' ဟု ဖခင်ဖြစ်သူ၏ ထုတ်ဖော်ချီးကျူးခြင်းခံရသော ပစ်အား၊ ဖခင်ဖြစ်သူက အဖြစ်နိုင်ဆုံး အရွယ်မှစ၍ နိုင်ငံဝန်ကို ထမ်းနိုင်ရန် သွန်သင်ပြသထားလေသည်။ ပစ်သည် ပညာ အရာတွင် ဖခင်ဖက် နွယ်သလောက် ရုပ်ဆင်းအင်္ဂါနှင့် စိတ်ဓာတ်တွင် မိခင်ဖက်နွယ်သည်။ ထို့ကြောင့် ပစ်သည် မာနကြီး၍၊ လူသူလေးပါးနှင့် အပေါင်းအသင်း နည်းသဖြင့်၊ ပြည်သူ့စိတ်ဓာတ်ကို အကဲမခတ်တတ်ချေ။ (ပစ်,ဝီလျံ၊ အကြီး — ရှု။)

အသက် ၁၄ နှစ်အရွယ်တွင် ပစ်သည် ကိမ်းဗရစ် တက္ကသိုလ်၌ တက်ရောက်သင်ကြားရာ ဘွဲ့ရခဲ့သည်။ ထို့နောက် ဥပဒေပညာကို ဆက်လက် သင်ကြား၍၊ မကြာမီ ဝတ်လုံတော်ရဖြစ်လာသည်။ သို့ရာတွင် နောက်တနှစ်၌ ပါလီမန်အမတ်အဖြစ် အရွေးခံရသဖြင့် ဝတ်လုံမလိုက်ဖြစ်တော့ချေ။

ပစ်သည် ပါလီမန်အမတ် ဖြစ်လာသော အခါတွင်၊ လော့နော့ အစိုးရ တက်နေသည်။ ပစ်ကမူ သူ့ဖခင်အား ဆက်ခံသူ ရှယ်လဗန်အား ထောက်ခံ၍၊ အတိုက်အခံအမတ်အဖြစ် ဆောင်ရွက်သည်။ ပစ်သည် ပါလီမန်တွင် ပဌမဦးဆုံး အကြိမ် စကားထပြောစဉ်ကပင် နာမည်ရခဲ့လေသည်။

၁၇၈၂ ခု နှစ်တွင် လော့နော့အစိုးရ ရာထူးကျ၍ ဝါဒမတူသူများဖြစ်ကြသော ရော့ကင်ဟမ်၊ ရှယ်လဗန်နှင့်ဖော့တို့ပူးပေါင်းဖွဲ့စည်းသည့်အစိုးရ တက်လာသောအခါ၊ အစိုးရအဖွဲ့ထဲ၌ မကြာခဏ သဘောကွဲလွဲချက်များ ဖြစ်ပေါ်လာသည်။ ပစ်အား ယင်းအစိုးရအဖွဲ့က ရာထူးများပေးလာသော်လည်း ကက်ဗိနက်အဖွဲ့ဝင် ဝန်ကြီးရာထူးမှတပါး မည်သည့်ရာထူးကိုမျှ လက်မခံနိုင်ဟု ငြင်းပယ်လိုက်သည်။ ထိုနှစ်

တွင်ပင် ရော့ကင်ဟမ် ကွယ်လွန်၍ ရှယ်လဗန် အစိုးရအဖွဲ့ တက်လာသောအခါ ပစ်အား ဌေးတိုက်စိုးဝန်ကြီး (ဘဏ္ဍာရေးဝန်ကြီး)အဖြစ်ခေါ်ယူ ခန့်အပ်လေသည်။ ပစ်သည် ပါလီမန်ဆိုင်ရာ ပြုပြင်ရေးအဆိုကို တင်သွင်းရာ၊ မဲအနည်းငယ်နှင့် ရှုံးခဲ့ရသည်။ သို့သော်လည်း ယင်းကိစ္စကိုသာ ဆန္ဒပြင်းစွာ ဆောင်ရွက်ခဲ့လေရာ၊ နောက်ဆုံး၌ ပြင်သစ်တော်လှန်ရေးကြီးဖြစ်ပွားလာသဖြင့်၊ မအားလပ်နိုင်အောင် ရှိသည့်အခါမှ ယင်းကိစ္စကို လက်လျှော့လိုက်သည်။



ဗြိတိန်နိုင်ငံ၏ အငယ်ဆုံး နန်းရင်းဝန်ဖြစ်သော ဝီလျံပစ်

ရှယ်လဗန်အစိုးရသည် ၉ လခန့်အကြာတွင် ပြုတ်ကျသွား၍၊ ထိုနောက်တွင် တက်လာသော ညွန့်ပေါင်း အစိုးရအဖွဲ့လည်း ကြာရှည်မခံဘဲ၊ ၁၇၈၃ ခုနှစ် ဒီဇင်ဘာလတွင်ပြုတ်ကျပြန်ရာ၊ အသက် ၂၅ နှစ်ပင် မပြည့်သေးသော ပစ်သည် အစိုးရဖွဲ့၍၊ နန်းရင်းဝန်နှင့် ဌေးတိုက်စိုးဝန်ကြီး ရာထူးနှစ်ခုစလုံးကို ပူးတွဲဆောင်ရွက်ရလေသည်။ ပစ်နန်းရင်းဝန်ဖြစ်သည်နှင့်တပြိုင်နက် အောက်လွှတ်တော်အမတ် အများစုကသဘောမကျဖြစ်ကာ 'ကလေး နန်းရင်းဝန်သည် အုပ်ချုပ်မှုတာဝန်ကို မထမ်းဆောင်နိုင်ဘဲ၊ မကြာမီနုတ်ထွက်ရလိမ့်မည်ဟု ဆိုကြသည်။ သို့ရာတွင် ပစ်၏ စကားပြော ကောင်းမှု၊ စိတ်ထား ဖြူစင် ဖြောင့်မှန်မှုတို့ကြောင့်၊ မကြာမီ ထင်ပေါ်ကျော်ကြား လူကြိုက်များလာသည်။

နန်းရင်းဝန်အဖြစ်နှင့် ပဌမဦးဆုံး ရင်ဆိုင်ရသောပြဿနာကား၊ ဘဏ္ဍာရေးပင် ဖြစ်သည်။ အိန္ဒိယ အက်ဥပဒေကို အတည်ပြုပြီးနောက်၊ အရှေ့အိန္ဒိယကုမ္ပဏီ အုပ်ချုပ်ရေးကို ပြန်လည်ပြုပြင်၍၊ လခကြီး စားနေသော်လည်း၊ အလုပ်တွင် အသုံးမဝင်သော အရာရှိကြီးများကို ဖြုတ်ပစ်သည်။ ၁၇၈၆ ခုနှစ်တွင် နိုင်ငံတော် ကြွေးမြီများ လျော့နည်းသွားစေရန် လိုသုံး မျှပ်ငွေ စတင်ထားသည်။ ပစ်သည် ပြင်သစ်တို့နှင့် လွတ်လပ်စွာ ကူးသန်းရောင်းဝယ်ရေးအတွက် ၁၇၈၆ ခုနှစ် စက်တင်ဘာလတွင် သဘောတူ စာချုပ်သည်။ အိုင်ယာလန်ပြည်နှင့် လွတ်လပ်စွာ ကုန်ကူးသန်းရေးအတွက်လည်း ကြိုးစားသေးသည်။ သို့ရာတွင် မအောင်မြင်ချေ။

စီးပွားရေးပြဿနာများ၌ ကျွမ်းကျင်သော ပစ်သည် စစ်အေးခေတ်နန်းရင်းဝန်အဖြစ် အထူးအောင်မြင်သည်။ သို့ရာတွင် ပစ်သည် စစ်ခေတ် နန်းရင်းဝန်ဘဝသို့ မမြော်လင့်ဘဲ ရောက်ရှိခဲ့ရသည်။ ၁၇၉၃ ခုနှစ် ဖေဖွာရီလတွင် ပြင်သစ်ဘုရင် ပဌမနပိုလီယန်သည် အင်္ဂလန်အား စစ်ကျေညာလိုက်သည်။ ထိုစစ်ကြီးကြောင့် အင်္ဂလန်ပြည်သည် များစွာ ငွေကုန် လူပန်းဖြစ်ရလေသည်။ နာမည်ကျော် ရေတပ်ဗိုလ်ချုပ်မှူး လေ့ဒ်နယ်လဆင်၏ ဦးစီးတိုက်ခိုက်မှုကြောင့်၊ ပြင်သစ်ရေတပ်ကြီး ပြိုကွဲရသော်လည်း၊ ဗြိတိသျှကြည်းတပ်သည် ပြင်သစ် တပ်များနှင့် မယှဉ်သာအောင် ညံ့ဖျင်းရကား၊ ပစ်သည် အခြား မဟာမိတ်နိုင်ငံမှ တပ်များကို ငွေကြေး ထောက်ပံ့၍ တိုက်ခိုက်စေရသည်။ ယင်းသို့ ငွေကုန်ကြေးကျများသော စစ်ပွဲအတွက် ပစ်သည် ငွေလုံလောက်အောင် အတော် ကြိုးပမ်းရသည်။ ယင်းသို့လျှင် စစ်အောင်ရေးအတွက်ကြိုးပမ်းနေရသဖြင့် ပစ်သည် နိုင်ငံတွင်း ပြုပြင်ရေးတို့ကိုမဆောင်ရွက်နိုင်အောင် ဖြစ်ရလေသည်။ ၁၈၀၀ ပြည့်နှစ်တွင် အင်္ဂလိပ်ပါလီမန်နှင့် အိုင်ရစ် ပါလီမန် နှစ်ရပ်တို့ကို ပူးပေါင်းလိုက်၏။ ထိုပြင် အိုင်ယာလန်ပြည်ရှိ ဗရင်ဂျီဂိုဏ်းဝင်တို့ မဲဆန္ဒပေးနိုင်ခွင့် ရရှိရန် ကြိုးပမ်းခဲ့ရာ၊ ဂျော့ဘုရင်နှင့် ပစ်တို့ သဘောကွဲလွဲကြပြီးလျှင်၊ ပစ်သည် ၁၈၀၁ ခုနှစ်တွင် ရာထူးမှ နုတ်ထွက်လိုက်သည်။

အင်္ဂလိပ်နှင့် ပြင်သစ်တို့သည် ၁၈၀၂ ခုနှစ်တွင် ခေတ္တစစ်ပြေငြိမ်း၍၊ စစ်အင်အား ဖြည့်ကြပြီးနောက် ၁၈၀၃ ခုနှစ်တွင်ပြန်လည်စစ်ကျေညာပြန်သည်။ ထိုအခါတွင် ပစ်အစိုးရအား ဆက်ခံသည့် အက်ဒင်တန် အစိုးရ၏ ပျော့ညံ့မှုကြောင့် အင်္ဂလိပ်တို့ အရေးရှုံးနိမ့်သဖြင့် ၁၈၀၄ ခုနှစ်တွင် ပစ်အား အစိုးရဖွဲ့ရန် ပြန်လည်ခေါ်ယူသည်။ သို့ရာတွင် ပစ်၏အစိုးရအဖွဲ့သည်လည်း အင်အားမကောင်းလှချေ။ တတိယ ဂျော့ကဲ့သို့ ဘုရင်မျိုးနှင့် ဆက်ဆံ ဆောင်ရွက်ရသည်မှာ ပစ်အဖို့ ပို၍ပင် ခက်ခဲလှသည်။ ယင်းသို့သော အခက်အခဲများကြားမှပင် ၁၈၀၅ ခုနှစ် အောက်တိုဘာလတွင် အင်္ဂလိပ်တို့သည် ပြင်သစ်တို့အား ထရာဖဲလဂါးတိုက်ပွဲတွင် အနိုင်ရလိုက်သေးသည်။ သို့ရာတွင် ထိုနှစ် ဒီဇင်ဘာလတွင် ဩစတာလစ်

တိုက်ပွဲ၌ မဟာမိတ်တို့ အရှုံးကြီး ရှုံးခဲ့လေရာ၊ စစ်ကြောင့် ပေါ်ပေါက်ခဲ့ရသော အခက်အခဲ အမျိုးမျိုးကို အစွမ်းကုန် ဖြေရှင်းနေရသဖြင့် စိတ်နွမ်းကိုယ်ပန်း ဖြစ်နေသော ပစ်သည် စိတ်အကြီးအကျယ် ထိခိုက်ကာ နောက်တလအကြာ ၁၈၀၆ ခု ဇန္နဝါရီလ ၂၃ ရက်နေ့တွင် ကွယ်လွန်လေသည်။ ပစ်သည် အသက် ၄၆ နှစ် အရွယ်တွင် ကွယ်လွန်သည့်တိုင် အိမ်ထောင် မပြုခဲ့ချေ။ သူ၏ အလောင်းကို ဝက်စမင်စတာ အက်ဗေး၌ သူ့ဖခင်ဂူနားတွင် မြှုပ်နှံသည်။

ပစ်ကား လုပ်ရည် ကိုင်ရည်နှင့် များစွာ ပြည့်စုံသူဖြစ်သည်။ သူသည် နိုင်ငံရေးအတွက် အသက်ရှင်ခဲ့သူပမာ ငယ်စဉ်ကစ၍ ကွယ်လွန်သည်အထိ၊ နိုင်ငံရေး၌သာ ဝါသနာ စူးစိုက်ခဲ့သည်။ ကလေးအရွယ်ကပင် လူကြီးစိတ် ရှိခဲ့သူဖြစ်သည်။ မာနနှင့် ခပ်အေးအေး တည်တည် နေတတ်ခြင်း ကြောင့် အချို့က သဘော မကျကြချေ။ သို့ရာတွင် နိုင်ငံ အကျိုးကို ဖြောင့်မတ်စွာ အားသွန်ကြိုးပမ်း ဆောင်ရွက်မှု ကြောင့် ဘုရင်၊ ပါလီမန်နှင့် လူထု၏ ယုံကြည် အားပေးမှုကို ရရှိခဲ့လေသည်။

**ပစ်ဂမီလူမျိုး။** ။အာဖရိကတိုက် ကွန်ဂိုမြစ်ဝှမ်းဒေသရှိ အီကွေတာသစ်တောများတွင် အများအားဖြင့် နေထိုင်ကြသော လူပုကလေးများကို ပစ်ဂမီ လူမျိုးဟု ခေါ်ကြသည်။ ယင်းတို့သည် အစ်တူရီသစ်တောအတွင်း အရှေ့ဖက်သို့ယူဂန်ဒါးအထိရင်း၊ အရှေ့မြောက်ဖက်သို့ ဗာရယ်ဂါဇာ အနီးအနား အထိရင်း၊ အနောက်ဖက်သို့ ပြင်သစ်ပိုင် ကွန်ဂိုနယ်အထိရင်း အသီးအသီး ကျယ်ပြန့်သော ဒေသတွင်လည်း နေထိုင်ကြသည်။ ပစ်ဂမီ လူမျိုးအချို့ကို ကမ္မရွန်းနယ်နှင့် ဂါဗုန် ဒေသတွင်လည်း တွေ့ရသည်။

ပစ်ဂမီ လူမျိုးတို့သည် လေးပေ ငါးလက်မမှ လေးပေ ရှစ်လက်မ အထိသာ မြင့်သည်။ အချို့သည် သုံးပေမျှသာ မြင့်သည်။ ဆံပင်သည် နီညိုရောင် ဖြစ်ပြီးလျှင်၊ တွန့်ကောက်၍ တိုသည်။ ဦးခေါင်း လုံးဝန်း၏။ နှာခေါင်း ပြား၍၊ မျက်လုံးပြူးသည်။ အသားရောင်သည် ညိုဝါဝါ ဖြစ်သည်။ ခြေတံတိုသလောက် လက်တံရှည်သည်။ ဗိုက်ပူ၍၊ နံပိန်သည်။ သိပ္ပံပညာရှင်များက ပစ်ဂမီတို့သည် ခန္ဓာကိုယ်တွင်းရှိဂလင်းများ ချွတ်ယွင်းမှုကြောင့်၊ အရပ်ပုနေဟန် တူကြောင်းဖြင့် ဆိုကြသည်။

ပစ်ဂမီ လူပုကလေးများသည် ပူအိုက်သော ဒေသတွင် နေထိုင်ကြသူများ ဖြစ်သည့် အလျောက်၊ အဝတ်အစား အနည်းငယ်မျှသာ ဝတ်ဆင်ကြသည်။ သစ်ရွက် သစ်ခေါက်တို့ဖြင့် ဆောက်အပ်သော တဲပုကလေးများတွင် နေထိုင်



အာဖရိကတိုက်၊ ကာလဟာရီ သဲကန္တာရတွင် နေထိုင်ကြသော ပစ်ဂမီ လူမျိုး မိသားစု



ပစ်ဂမီလူမျိုးတို့၏ အိမ်သည် မြက်ခြောက်များဖြင့် ဆောက်လုပ်ထား၍ နိမ့်သည်။

ကြသည်။ အမဲလိုက်ခြင်း၊ ငါးများခြင်းတို့ဖြင့် အသက်မွေးဝမ်းကျောင်းပြုကြသည်။ ပစ်ဂမီ လူမျိုးများကို အာဖရိကတိုက်တွင်သာမက အာရှတိုက်တွင်လည်း တွေ့ရသည်။ အာဖရိကတိုက်ရှိ ပစ်ဂမီ လူမျိုးများကို နီဂရီလို လူမျိုးဟုလည်း ခေါ်၍၊ အာရှတိုက်ရှိ ပစ်ဂမီလူမျိုးများကို နီဂရီတိုလူမျိုးဟု ခေါ်၏။ (နီဂရီတိုလူမျိုး — ရှု။) ယခုအခါ နီဂရီတိုလူမျိုးများကို အန္ဒမန်ကျွန်း၊ မလ္လာယုကျွန်းဆွယ် အလယ်ပိုင်း၊ ဖိလစ်ပိုင်ကျွန်းစု အပါအဝင် လူဇုန်ကျွန်းနှင့် အခြား ကျွန်းများ၊ နယူးဂင်းနီကျွန်း အပါအဝင် နယ်သာလန်ပိုင်ဒေသများတွင် တွေ့ရလေသည်။ ယင်းတို့သည် နေထိုင်ရာ အရပ်ဒေသ အလိုက် ဆေမန်၊ တပီရို၊ အအီတ စသည်ဖြင့် အသီးအသီးတွင်ကြသည်။ ထိုနည်းတူစွာ အာဖရိကတိုက်ရှိပစ်ဂမီလူမျိုး များသည်လည်း ဗတွာ၊ အက္ကာ၊ ဗမဗျူ၊ နမ္ဗတ်တီ၊ ဝတွာ၊ တစ်ကီဘစ်ကီ၊ ဗလီယာ၊ ဗဗင်ဂါ၊ အီဖေ စသည်ဖြင့် အသီးအသီး တွင်လေသည်။

**ပစ္စဗတ်မြို့။** ။ပစ္စဗတ်မြို့သည် အမေရိကန်ပြည်ထောင်စု၊ ပင်ဆီလဗေးနီးယား ပြည်နယ်၏ ဒုတိယ အကြီးဆုံးမြို့ ဖြစ်သည်။ အယ်လီဂေးနီးမြစ်နှင့် မိုနန်ဂဟီးလာမြစ်တို့ ပေါင်းဆုံ၍၊ အိုဟိုင်းအိုမြစ်အဖြစ် စီးဆင်းရာတွင် တည်ရှိသဖြင့် ယင်းမြို့သည် ကမ္ဘာပေါ်တွင် တင့်တယ်လှပသော မြို့များတွင် အပါအဝင် ဖြစ်သည်။ ဤ မြစ်သုံးသွယ် ဆုံရာအရပ်သို့ ၁၇၅၃ ခုနှစ်တွင် ဂျော့ဝါရှင်တန် အလည်အပတ်ရောက်လာခဲ့၍၊ ထိုနေရာတွင် ခံတပ် တည်ရန် အကြံပေးခဲ့သည့်အလျောက်၊ ခံတပ် တခု တည်ထားခဲ့သည်။ သို့သော် ယင်းခံတပ်ကို ပြင်သစ်တို့က သိမ်းယူ၍ ဖို့ဒူးကိန်း ခံတပ်ကြီး တည်ဆောက်ခဲ့သည်။ ၁၇၅၈ ခုနှစ်တွင် ဂျင်နရယ်ဖော့က ပြန်လည်သိမ်းပိုက်ပြီးနောက်၊ ထိုစဉ်က ဗြိတိသျှနန်းရင်းဝန် ဝီလျံပစ်အား ဂုဏ်ပြုသောအားဖြင့်၊ ဖို့ပစ်(ဝ်)ပစ်ခံတပ်ဟု အမည် ပြောင်းလိုက်ပြန်သည်။ ယင်းသည့် ခံတပ် အနီး၌၊ ၁၇၆၄ ခုနှစ်တွင် မြို့ကြီးတမြို့ ထပ်မံ တည်ကာ၊ အမည်ဟောင်း မပျောက်ပျက်စေရန် ပစ္စဗတ်မြို့ဟုမှည့်ခေါ်သည်။

ပစ္စဗတ်မြို့သည် ဖိလဒဲလဖီးယားမြို့၏ အနောက်ဖက် မိုင် ၃၄၀ ခန့် အကွာတွင် ရှိ၍၊ နယူးယော့မြို့၏ အနောက်ဖက် မိုင် ၄၃၀ အကွာတွင် တည်ရှိလေသည်။ ၅၅ စတုရန်းမိုင် ကျယ်ဝန်းပြီးလျှင်၊ လူဦးရေ ၆၇၆,၈၀၆ ယောက် ရှိသည်။ ပဌမသော် ပစ္စဗတ်မြို့သည် မြစ်သုံးသွယ် ဆုံရာ၊ ယခု 'ရွှေတြိဂံ' ဟု တွင်သော မြေစွန်း နေရာ၌သာ တည်ရှိသော်လည်း၊ စက်ရုံကြီးများကို မြစ်ရိုး တလျှောက်တွင် တည်ဆောက်ကြ၍၊ တဖြည်းဖြည်း မြို့ကျယ်ပြန့်လာသောအခါ၊ ယင်းမြေစွန်းသည် အရောင်း အဝယ်လုပ်ကိုင်ရာ စီးပွားရေး ရပ်ကွက်တခု ဖြစ်လာသည်။ လူနေ ရပ်ကွက်များကား၊ စက်ရုံများနှင့် စီးပွားရေး ရပ်ကွက်များ နောက်ဖက်ရှိ တောင်ကုန်းများပေါ်တွင် တည်ရှိရာ၊ ကြည့်၍ အလွန်လှသည်။ ပေ ၁၂၀၀ မြင့်သော ဟာရွှန် တောင်ကုန်းသည် မြို့တွင်းရှိ အမြင့်ဆုံး တောင်ကုန်း ဖြစ်သည်။ ပစ္စဗတ်မြို့သည် တောင်ကုန်းများ၊ မြစ်ဝှမ်းများနှင့် ပြည့်နေရကား၊ တန်တားကြီးများ အလွန်ပေါများသည်။ လယ်ရီမာ ရိပ်သာ တန်တားသည် ဆောက်သမျှခုံးတခုတည်းရှိ တန်တားများတွင် အကြီးဆုံးသော တန်တားတခု ဖြစ်သည်။ ယင်းမြို့ရှိ ဂျော့ခက်စတင်းဟောက် တန်တားမှာမူ အမေရိကန် တနိုင်ငံလုံးတွင် အရှည်ဆုံးသော ကွန်ကရိခုံး တန်တားတခု ဖြစ်လေသည်။

ပစ္စဗတ်မြို့သည် သံနှင့် သံမဏိ လုပ်ငန်း၊ ဖန်ထည် လုပ်ငန်း စသော စက်မှု လုပ်ငန်းကြီးများ အကြီး အကျယ်လုပ်ကိုင်ရာမြို့ ဖြစ်သဖြင့်၊ ယင်းမြို့အား 'သံမြို့တော်'၊ 'သံမဏိမြို့'၊ 'ကမ္ဘာ့လက်နက်တိုက်မြို့'၊ 'အမျိုးသား မီးလင်းဖို'၊ 'မီးခိုးမြို့' စသည်ဖြင့် ခေါ်စမှတ် ပြုကြသည်။ ပစ္စဗတ်မြို့ရှိ စက်ရုံများမှ တနှစ်လျှင် သံမဏိတန်ချိန် ၁၇,၀၀၀ ခန့် ထွက်ရာ၊ အမေရိကန် တနိုင်ငံလုံးမှ သံမဏိ အထွက်၏ လေးပုံ တပုံခန့် ရှိသည်။ ဒုတိယ ကမ္ဘာစစ် အတွင်းက ပစ္စဗတ်မြို့မှ

ထွက်သော သံမဏိတန်ချိန်သည် ဂျာမနီနှင့် ဂျပန် ၂ နိုင်ငံတို့မှ ထွက်သော တန်ချိန်ထက်ပင် ပိုသေးသည်။ သံထည်အထွက်လည်း အမေရိကန်တနိုင်ငံလုံး၏ လေးပုံတပုံပင် ဖြစ်သည်။ ယင်းသို့ သံနှင့် သံမဏိလုပ်ငန်း ထွန်းကားခြင်းမှာ အနီးအနားရှိ အမေရိကန် တပြည်လုံးထွက် ကျောက်မီးသွေး လေးပုံတပုံထွက်သော အယ်လီဂေးနီးခရိုင်မှ ကျောက်မီးသွေးများ လွယ်ကူစွာ ရရှိနိုင်ခြင်းနှင့် ဆူပီးရီးယားအိုင်အနီး တောင်တန်းများမှ သံရနိုင်ခြင်းတို့ကြောင့် သာမက မြစ်ကြီး သုံးသွယ် ဆုံရာ ဖြစ်သဖြင့် သယ်ယူ ပို့ဆောင်ရေးလွယ်ကူသောကြောင့် ဖြစ်သည်။ ပစ္စဗတ်မြို့တမြို့လုံးသည် ကမ္ဘာပေါ်တွင် အကြီးဆုံး လေပြင်းဖိုကြီးများမှထွက်သော မီးရောင်ဖြင့် ညဥ့်အချိန်တွင် ထိန်ထိန် လင်းနေရာ၊ မိုင်ပေါင်း များစွာမှပင် မြင်နိုင်သည်။ ၁၉၅၀ ပြည့်နှစ်မှစ၍ မြို့ကို ခေတ်မီသည်ထက် မီအောင် ပြုပြင်လာရာ၊ ယခင် စက်ရုံ မီးခိုးများဖြင့် မှုန်နေသောမြို့သည် မီးခိုးထိန်း အစီအစဉ်များကြောင့် သန့်ရှင်းလာသည်။ ရွှေတြိဂံမြေစွန်းရှိ ရှေးမြို့ဟောင်း နေရာမှ အဆောက်အအုံ ဟောင်းများကို ဖျက်၍၊ မိုးထိ အဆောက်အအုံများ၊ ဥယျာဉ်များ၊ ကစားကွင်းများ ဆောက်လုပ်လျက် ရှိသည်။

ပစ္စဗတ်မြို့၌ စက်ရုံများသာမက လှပ ခန့်ညားသော ပြည်သူ့ အဆောက်အအုံကြီးများ၊ အလုပ်တိုက်ကြီးများ၊ ဘုရားရှိခိုးကျောင်းကြီးများနှင့် ပန်းခြံများလည်း ရှိ၏။ အယ်လီဂေးနီးကောင်တီ ရုံးတော်၊ နစ်ကဆန် ဇာတ်ရုံ၊ စိန်ပေါ ဘုရားရှိခိုးကျောင်း အစရှိသော အဆောက်အအုံကြီးများသည် တိုးတက်သော ဗိသုကာ သရုပ်ပြ အဆောက်အအုံကြီးများ ဖြစ်သည်။ ပစ္စဗတ် တက္ကသိုလ်ကျောင်းကြီးမှာလည်း လွန်စွာ ခမ်းနား ကြီးကျယ်သော မိုးထိအဆောက်အအုံကြီး ဖြစ်သည်။ ဤမြို့တွင် စက်မှုအတတ်သင်ကျောင်း၊ အနုပညာခန်းဆောင်နှင့် သိပ္ပံ ပြတိုက်တို့ ပါဝင်သည့် ကမ္ဘာကျော် ကာနက်ဂီကျောင်းကြီး ရှိလေသည်။



ပစ္စဗတ်မြို့သည် မြစ်သုံးသွယ်ဆုံရာ 'ရွှေတြိဂံ' မြေစွန်းနေရာ၌ တည်ရှိသည်။ သို့ရာတွင် ယင်းမြို့၏ အဓိကလုပ်ငန်းဖြစ်သော သံနှင့်သံမဏိစက်ရုံကြီးများကို မြစ်ရိုးတလျှောက် တည်ဆောက်ကြသဖြင့်၊ မြို့၏ဧရိယာမှာ လွန်စွာကျယ်ပြန့်လျက်ရှိသည်။ အမေရိကန် ပြည်ထောင်စုတနိုင်ငံလုံးမှ သံမဏိအထွက်၏ လေးပုံတပုံခန့်မှာ ပစ္စဗတ် တမြို့တည်းမှ ထွက်သည်ဖြစ်ရာ၊ ပစ္စဗတ်မြို့ကို 'သံမဏိမြို့' ဟူ၍၎င်း၊ 'ကမ္ဘာ့လက်နက်တိုက်မြို့' ဟူ၍၎င်း ခေါ်စမှတ်ပြုကြသည်။

# ဝေါဟာရ နှင့် အသံလှယ်အမည်များ

ဤကျမ်းတွင် ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသော ပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံး ပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလိုပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားသော အမည်များ မြောက်မြားစွာပါရှိသည်။ ဤကျမ်းတွင်ပါဝင်သော ဝေါဟာရနှင့် အသံလှယ်ယူထားသောအမည်တို့ကို မူရင်းစကားနှင့်တကွ အောက်တွင် အက္ခရာစဉ်အတိုင်း ဖော်ပြထားသည်။ ထုတ်ဝေပြီးအတွဲများတွင် ဖော်ပြပါရှိပြီးဖြစ်သော ဝေါဟာရများနှင့် အသံလှယ်အမည်များကိုမူ အောက်ပါစာရင်း၌ ထပ်မံဖော်ပြခြင်းမပြုပါ။

## ဝေါဟာရများ

| | |
|---|---|
| ကမိုထရာကျွန်း | Camotra Island |
| ကရေးတန်တက္ကသိုလ် | Creighton University |
| ကာမဒက်ကျွန်း | Kermadec Island |
| ကား နီကိုဗာကျွန်း | Car Nicobar Island |
| ကီး စာချုပ် | Treaty of Kiel |
| ကယ်လဒီယန်လူမျိုး | Chaldean |
| ကယ်ရိုလိုင်း ပညာမြှင့်တင်ရေးအဖွဲ့ | Caroline Institute |
| ကဲဗော့ရေလက်ကြား | Cabot Strait |
| ကော့ဗကွစ်တောင်တန်း | Cobequid Mountains |
| ကော်နီကျွန်း | Corney Island |
| ကက်စကီးတောင်များ | Catskill Mountains |
| 'ကောင်းကင်ဘုံ၌အနက်ကရီအွန်' | "To Anacreon in Heaven" |
| ကပ်ချရေလက်ကြား | Kerch Strait |
| ကိပ်ပြည်နယ် | Cap: Province |
| ကမ်ဗာလန်နည်း | Cumberland Style |
| ကမ္ဘာ့လက်နက်တိုက်မြို့ | "The Arsenal of the World" |
| ကမ်းစတော့သတ္တုကြော | Comstock Lode |
| ကျိချွဲမြှေး | Mucus Membrane |
| 'ကျီးငှက်' | "The Raven" |
| ကျောရိုးဆစ် | Vertebrae |
| ကျောရိုးနာဗ်ကြော | Spinal Nerve |
| ကျောရိုးနာဗ်ကြိုး | Spinal Cord |
| ကျောက်မီးသွေးတောင် | Coal Hill |
| ကြားပစ္စည်း | Intermediate |
| ကြယ်နီလယ်ယာစုပေါင်းလုပ်ဆောင်ရေးအဖွဲ့ | Red Star Collective Farm |
| 'ကြယ်ပေါင်းခြံရံဒွိအောင်လံ' | "The Star Spangled Banner" |
| ကြတ်ခြင်း၊ သဗ္ဗ | Eclipse, Total |
| ကြတ်ခြင်း၊ အကွင်း | Eclipse, Annular |
| ကြတ်ခြင်း၊ အပိုင်း | Eclipse, Partial |
| ကြိတ်စက် | Grinder |
| ကွင်းပုရစ် | Field Cricket |
| ကွန်းဝေါနည်း | Cornwall Style |
| ချားကိုဒေသ | Chaco (Region) |
| ချီနပ်မြစ် | Chenab River |
| ချန်ဒိုလမ်း | Chandos Street |
| 'ခြင်္သေ့စိတ်ရှိသောရစ်ချတ်' | "Richard the Lion-Hearted" |
| 'ဂရင်းလန်းကျွန်းကိုပဌမအကြိမ်ဖြတ်သန်းခြင်း' | "The First Crossing of Greenland" |
| ဂရင်းအိုင် | Grand Lake |
| ဂရိတ်နီကိုဗာကျွန်း | Great Nicobar Island |
| ဂါးတွန်း ရေတံခါး | Gatun Locks |
| ဂျေလမ်မြစ် | Jhalem River |
| ဂျော့ဝက်စတင်းဟောက်တန်တား | George Westinghouse Bridge |

| | |
|---|---|
| ဂျက္ကဆန်ဟာမ်းဇဝ်ခရီးသွားအဖွဲ့ | Jackson Harmsworth Expedition |
| ငွေကြေးဖောင်းပွမှု (ပစ္စည်းနည်းငွေများမှု) | Inflation |
| ငွေကြေးလဲလှယ်မှု ကြီးကြပ်ရေး | Exchange Control |
| ငွေခက်နှင့် ငွေလွယ်များ | Hard and Soft Currencies |
| ငွေလဲနှုန်း | Rate of Exchange |
| ငွေလဲလှယ်မှု ကန့်သတ်ချက်များ | Exchange Restrictions |
| ငွေလုံး ငွေရင်း စာရင်း | Capital Account |
| စကစ်အိုင် | Skiff Lake |
| စတာလင်ပေါင် | Pound Sterling |
| စတာလင်နယ် | Sterling Area |
| စတော်တင် ပါလီမန်လွှတ်တော် (နော်ဝေနိုင်ငံ) | Storting (Parliament), Norway |
| စနိုးဝီးမြစ် စီမံကိန်း | Snowy River Scheme |
| စီးပွားရေး ပထဝီဝင် | Economic Geography |
| စေ့ဆော်မှု | Impulse |
| စက္ကူပိုးစာပင် | Paper Mulberry |
| စက်ဝိုင်းလုံး | Sphere |
| စိန့်ဂျွန်းနိုက်သူရဲကောင်းအဖွဲ့ | Knights of St.John |
| စိန့်ဇေးဗီးယားတက္ကသိုလ် | St. Xavier University |
| စိန့်ဗင်းဆင့်တိုက်ပွဲ | Battle of St. Vincent |
| ဆားတောင်တန်း | Salt Range |
| ဆိပိုင်လပ် ကျောက်တောင် | Sipylus |
| ဆီးနှင်း | Granular Snow |
| 'ဆီးနှင်းမယ်' | "Snow Baby" |
| ဆူလေမန် တောင်တန်း | Sulaiman Range |
| ၁၅ မိုင် ရေတံခွန် | Fifteen Miles Fall |
| ဆယ်မန်ငါး | Salmon |
| ဆဲရီဗရိုစပိုင်နယ်နာဗ်ကြောများ | Cerebro Spinal Nerves |
| ဆဲလ်ဗေဒ | Cytology |
| ဆဲလျူလို့မျှင် | Cellulose Fibres |
| ဆော်လမွန်၏ ဘုရားကျောင်း | Solomon's Temple |
| ဆိုဆိုင်ယတီကျွန်းစု | Society Islands |
| ဆိုဖီ နယူးကမ်း အမျိုးသမီးကောလိပ်ကျောင်း | Sophie Newcomb College for Women |
| ဆောက်ထိုးစက် | Chipping Tool |
| ဆင်ခြေထောက် (ရောဂါ) | Elephantiasis |
| ဆင် ဟူအား တက္ကသိုလ် | Tsing Hua University |
| 'ဆင်းရဲသားခေါင်းဆောင်ကြီး' | "The Great Commoner" |
| ဆောင်းဦးပေါက်နေ့ညညီချိန် | Winter Solstice |
| ဆိတ်ငြိမ်ဂီယာ | Silent Gear |
| ဆန် ကာလို အော်ပရာဇာတ်ရုံ | San Carlo Opera House |
| ဆန်မားကပ်တက္ကသိုလ် | University of San Marcos |
| ဆပ်တလက်မြစ် | Sutlej River |
| ဇီဝ ပထဝီဝင် | Biogeography |
| ဇေးဗီးယား တက္ကသိုလ် | Xavier University |
| ညှစ်ထုတ်နည်း | Extrusion |
| တရုပ်ပင်လယ် | China Sea |
| တာရပတ်ရိုက်စက် | Caulking Tool |
| တားဟိုးအိုင် | Lake Tahoe |
| တိရစ္ဆာန ပထဝီဝင် | Animal Geography |
| တီပီတာပါမြစ် | Tipitapa River |
| တူစက် | Hammer |
| တူလိန်းတက္ကသိုလ် | Tulane University |
| တူအားမိုးတူးကျွန်းစု | Tuamotu Archipelago |

